

မင်းတုန်းမင်း တည်ထောင်ခဲ့သော ရတနာပုံ မန္တလေးမြို့ရှိ နန်းတော်မြို့ရိုး

# မြန်မာ့စွယ်စုံကျမ်း

စာပေဗိမာန်

၏

# ရုပ်ပြဗဟုသုတဘဏ်





## အတွဲ - ၉

## မဟော - မြည်း

ရန်ကုန်မြို့

မြန်မာနိုင်ငံဘာသာပြန်စာပေအသင်း

# ဤကျမ်းကိုမရှုစားမီ

**အောက်ပါလမ်းညွှန်ကိုလေ့လာထားပါက ဤစွယ်စုံကျမ်းစီစဉ်ပုံကို ကောင်းမွာသဘောပေါက်၍ ကိုးကားရာကျမ်းတဆူအဖြစ် လွယ်ကူစွာ အသုံးပြုတတ်ပေလိမ့်မည်။**

**အက္ခရာစဉ်ဇယား။** ။စွယ်စုံကျမ်းတွင် ပါဝင်သော အကြောင်းရပ်များကို လွယ်လင့်တကူ ရှာဖွေဖတ်ရှု နိုင်ရန် အက္ခရာစဉ်ဇယားကို အတွဲတိုင်း၌ဖော်ပြထားသည်။

**ဝေါဟာရနှင့်အမည်များ။** ။ဤကျမ်းမှာ ကမ္ဘာပေါ်ရှိ ကျယ်ဝန်းလှသော ပညာရပ်အမျိုးမျိုး၊ အကြောင်းရပ် အမျိုးမျိုးတို့ ပါဝင်သည့်ပြင်၊ မြန်မာနိုင်ငံတွင် ပဌမဆုံး ပေါ်ထွက်လာရခြင်းဖြစ်သည့်အလျောက်၊ ဘာသာခြားမှ မြန်မာလို ပြန်ဆိုထားသော ဝေါဟာရသစ်များနှင့် အသံလှယ်ယူထားရသောအမည်များ မြောက်မြားစွာပါဝင်သည်။ ယင်းတို့ကို မူရင်းစကားနှင့်တကွ ဤကျမ်း၏နောက်ပိုင်းတွင် ကဏ္ဍသီးခြား၍ အက္ခရာစဉ်အတိုင်းဖော်ပြထားသည်။

**မြန်မာအမည်များ။** ။ရဟန်းရှင်လူဆိုင်ရာ အကြောင်းရပ်များကို ခေါင်းစည်းပေးရာ၌၊ အမည်ရှေ့ရှိ သျှင်၊ ဦး၊ ဒေါ်၊ ကို၊ မောင်၊ မ စသည်တို့နှင့်တကွ အခြားဂုဏ်ပုဒ်များကို အမည်ရင်းနောက်တွင်ထား၍၊ အမည်ရင်းကိုသာ အက္ခရာစဉ် အလိုက် စီစဉ်ဖော်ပြထားသည်။ ပုံစံအားဖြင့် သျှင်ကရဝိက၊ ခုံတော်မောင်ကျာဘမ်း၊ ဦးချိန်၊ မြဝတီဝန်ကြီးဦးစ တို့ကို ကရဝိက၊ သျှင်။ ကျာဘမ်း၊ မောင်၊ ခုံတော်။ ချိန်၊ ဦး။ စ၊ ဦး၊ မြဝတီဝန်ကြီး ဟူ၍ အသီးအသီးဖော်ပြထားသည်။ ဤသို့ပြုလုပ်ခြင်းမှာ ပုဂ္ဂိုလ်ကို မလေးစား၍ မဟုတ်၊ စွယ်စုံကျမ်းများထုံးတမ်းစဉ်လာအရ အကြောင်းရပ်ရှာဖွေရ လွယ်ကူစေရန်သာဖြစ်ရာ၊ လူမျိုးခြားအမည်များကိုလည်း အလားတူပင်စီစဉ်ဖော်ပြထားသည်။

**ဖတ်ချင်ဖွယ်ရာအဖြာဖြာ။** ။တခါတရံ ပျင်းပျင်းရှိ၍ စာအုပ်လှန်လိုသောအခါ၊ သို့မဟုတ် ဝါသနာအလျောက် သမိုင်းဖြစ်စဉ်များ၊ တိုင်းနိုင်ငံများ၊ ပုဂ္ဂိုလ်ကျော်များ၊ စာပေဝတ္ထုများ၊ အနုပညာရပ်များ၊ သိပ္ပံပညာရပ်များ၊ လုပ်ငန်းကြီးများ၊ သစ်ပင်များ၊ တိရစ္ဆာန်များ၊ ကစားခုန်စားများအကြောင်းကို သိလိုသောအခါ အကူအညီရစေရန် ဖတ်ချင်ဖွယ်ရာအဖြာဖြာကို အတွဲတိုင်း၌ထည့်သွင်းထားသည်။

**ဗဟုသုတစစ်တမ်း။** ။စွယ်စုံကျမ်းအတွဲတိုင်းတွင် ဗဟုသုတစစ်တမ်းကိုထည့်သွင်းထားသည်မှာ၊ စာရှုသူသည် ဤစစ်တမ်းဖြင့် မိမိကိုယ်ကိုမိမိ ပြန်လည်မေးခွန်းထုတ်၍ မသိသေးသောအကြောင်းအရာကို သိလိုပါက၊ ညွှန်းထားသောနေရာတွင် ပြန်လည်ဖတ်ရှု လေ့လာနိုင်စေခြင်းငှာ ရည်ရွယ်သည်။ ထိုစစ်တမ်းတွင် အတွဲတွင်းပါ အကြောင်းရပ်အားလုံးငုံမိအောင် မေးခွန်းထုတ်ထားခြင်း မဟုတ်ချေ။ စိတ်ဝင်စားဖွယ်အချက်အလက်များ အတွက်သာလျှင် မေးခွန်းများကို ရွေးချယ်စီစဉ်ထားခြင်းဖြစ်သည်။

**အပြန်အလှန်အညွှန်း။** ။စွယ်စုံကျမ်းအကြောင်းရပ်တို့မှာ အက္ခရာအလိုက်စီစဉ်ထားသည့်အလျောက်၊ ဘာသာရပ် အလိုက် တစုတဝေးတည်းမရှိဘဲ နေရာအနှံ့အပြား ကွဲပြားလျက်ရှိကြသည်။ သို့ဖြစ်၍ အကြောင်းရပ်ချင်းဆက်စပ်နေသည့် အချက်အလက်တို့ကို အပြန်အလှန်ညွှန်းပြရသည်။ စာကိုယ်မဲ့အကြောင်းရပ်ခေါင်းစည်းမှ စာကိုယ်ရှိအကြောင်းရပ်ခေါင်းစည်းသို့၎င်း၊ အကြောင်းရပ်တခုနှင့်တခု ပညာသဘောအားဖြင့် ဆက်သွယ်နေသော်လည်း တသီးတခြားစီရှိသဖြင့် ပိုမိုပြည့်စုံစွာ လေ့လာစေလိုသောအခါတွင်၎င်း၊ (....................... — ရှု။) ဟု ညွှန်းသည်။ ပညာသဘောအားဖြင့် ဆက်သွယ်ခြင်း မရှိစေကာမူ၊ တနည်းတလမ်းအားဖြင့် နီးစပ်သည့် အကြောင်းရပ်တခုကို စိတ်ဝင်စားဖွယ်ဖြစ်၍ လေ့လာစေလိုသောအခါတွင် (....................... — လည်းရှု။) ဟု ညွှန်းသည်။

**ကြောင်းခြင်းရာအညွှန်းအတွဲ။** ။နောက်ဆုံးအတွဲသည် စာရှုသူအဖို့ အခါမရွေး ကိုးကားရန်လမ်းညွှန်ပင်ဖြစ်သည်။ ထိုအတွဲသည် အသီးသီးသောအတွဲများအတွက် အက္ခရာစဉ်အညွှန်းဖြစ်ရုံမျှမက၊ လုံးချင်းစွယ်စုံခေါ် လောက်ပေသည်။ ထိုအတွဲတွင် ကမ္ဘာ့သမိုင်းမှတ်တမ်းတင်သည်မှ မျက်မှောက်ခေတ်အထိ ပေါ်ပေါက်ဖြစ်ပျက်ခဲ့သော မှတ်သားဖွယ်ရာအကြောင်းအရာများကို နှစ်၊ လ၊ ရက် အပိုင်းအခြားနှင့်သိနိုင်စေရန် နှစ်လုံးပတ်လည်ဖော်ပြထားသော ကမ္ဘာ့ပြက္ခဒိန်ကို၎င်း၊ ပညာရပ်များကို စံနစ်တကျ တဆင့်ပြီးတဆင့် ပြည့်စုံစွာလိုက်စားနိုင်ရန် ပညာရပ်မာတိကာကို၎င်း၊ ထည့်သွင်းထားသည်။ ထိုနောက် အသီးသီးသောအတွဲများတွင်ပါဝင်သည့် အကြောင်းရပ်များကို လွယ်ကူစွာလှန်လှောရှာဖွေနိုင်ရန် ညွှန်ပြသော ကြောင်းခြင်းရာအညွှန်းကိုလည်း စီစဉ်ဖော်ပြထားသည်။ ထိုအညွှန်းတွင် စွယ်စုံကျမ်းပါအကြောင်းရပ်များကိုသာမက၊ စွယ်စုံကျမ်းစာကိုယ်တွင် မပါဝင်လင့်ကစား သိသင့်သိထိုက်သောအကြောင်းရပ်မြောက်မြားစွာကိုလည်း မှတ်သားဖွယ် အချက်အလက်များနှင့်တကွ ဖြည့်စွက်ဖော်ပြထားသည်။

# အက္ခရာစဉ်ဇယား

ဤကျမ်းပါအကြောင်းရပ်များကို အောက်ပါအက္ခရာစဉ်အတိုင်း စီစဉ်ထားသည်

| | |
|---|---|
| ၁။ အ | |
| ၂။ အာ | |
| ၃။ အား | |
| ၄။ အိ | |
| ၅။ အီ | |
| ၆။ အီး | |
| ၇။ အု | |
| ၈။ အူ | |
| ၉။ အူး | |
| ၁၀။ အေ့ | |
| ၁၁။ အေ | |
| ၁၂။ အေး | |
| ၁၃။ အဲ့ | နောက်ပစ် နှင့် ယသတ် |
| ၁၄။ အယ် | |
| ၁၅။ အဲ | |
| ၁၆။ အော့ | |
| ၁၇။ အော် | |
| ၁၈။ အော | |
| ၁၉။ အို့ | |
| ၂၀။ အို | |
| ၂၁။ အိုး | |
| ၂၂။ အက် | ကသတ် |
| ၂၃။ အောက် | |
| ၂၄။ အိုက် | |
| ၂၅။ အင့် | ငသတ် |
| ၂၆။ အင် | |
| ၂၇။ အင်း | |

| | |
|---|---|
| ၂၈။ အောင့် | ငသတ် |
| ၂၉။ အောင် | |
| ၃၀။ အောင်း | |
| ၃၁။ အိုင့် | |
| ၃၂။ အိုင် | |
| ၃၃။ အိုင်း | |
| ၃၄။ အစ် | စသတ် |
| ၃၅။ အည့် | ညကြီးသတ် |
| ၃၆။ အည် | |
| ၃၇။ အည်း | |
| ၃၈။ အဉ့် | ဉကလေးသတ် |
| ၃၉။ အဉ် | |
| ၄၀။ အဉ်း | |
| ၄၁။ အတ် | တသတ် |
| ၄၂။ အိတ် | |
| ၄၃။ အုတ် | |
| ၄၄။ အန့် | နသတ် |
| ၄၅။ အန် | |
| ၄၆။ အန်း | |
| ၄၇။ အိန့် | |
| ၄၈။ အိန် | |
| ၄၉။ အိန်း | |
| ၅၀။ အုန့် | |
| ၅၁။ အုန် | |
| ၅၂။ အုန်း | |
| ၅၃။ အပ် | ပသတ် |
| ၅၄။ အိပ် | |
| ၅၅။ အုပ် | |

| | |
|---|---|
| ၅၆။ အမ့် | သေးသေးတင် နှင့် မသတ် |
| ၅၇။ အမ် | |
| ၅၈။ အမ်း | |
| ၅၉။ အိမ့် | |
| ၆၀။ အိမ် | |
| ၆၁။ အိမ်း | |
| ၆၂။ အုမ့် | |
| ၆၃။ အုမ် | |
| ၆၄။ အုမ်း | |
| ၆၅။ ျ | ယပင့် |
| ၆၆။ ြ | ရရစ် |
| ၆၇။ ွ | ဝဆွဲ |
| ၆၈။ ှ | ဟထိုး |
| ၆၉။ ျွ | ယပင့် ဝဆွဲ |
| ၇၀။ ြွ | ရရစ် ဝဆွဲ |
| ၇၁။ ျှ | ယပင့် ဟထိုး |
| ၇၂။ ြှ | ရရစ် ဟထိုး |
| ၇၃။ ွှ | ဝဆွဲ ဟထိုး |
| ၇၄။ ျွှ | ယပင့်ဝဆွဲဟထိုး |
| ၇၅။ ြွှ | ရရစ်ဝဆွဲဟထိုး |

# ဖတ်ချင်ဖွယ်ရာအဖြာဖြာ

တခါတရံ ပျင်းပျင်းရှိ၍ စာအုပ်လှန်လိုသောအခါ အောက်ပါ လိုရာအကြောင်းရပ်တို့မှ ဆူရာရွေးနုတ်၍ လှေလာပါက စာရှုသူသည် အပျင်းလည်းပြေ ဗဟုသုတလည်းပွားပေလိမ့်မည်။ ထိုင်ရာမထဘဲ ကမ္ဘာ့မြို့ကြီး၊ နယ်ကြီး၊ နိုင်ငံကြီးများသို့ရောက်၍ ပုဂ္ဂိုလ်ကျော်များနှင့် ရင်းနှီးကာ ကမ္ဘာ့သမိုင်းကိုလည်း သုံးသပ်ခွင့် ရနိုင်မည့်ပြင် သိပ္ပံပညာ၏ အံ့ဖွယ်ရာအကြောင်းများကိုလည်း သိနားလည်လာပေလိမ့်မည်။ ထို့မျှမက အနုစာပေဂန္ထဝင်များ၏အရသာကိုပါ ထင်ရှားစွာခံစားရမည့်ပြင် အားလပ်ခိုက် အပျင်းပြေရန်နည်းများလည်း ရရှိပေအံ့။

# ဗဟုသုတစစ်တမ်း

ဤကျမ်းတွင် များစွာသောပြဿနာတို့ကို ဖြေရှင်းထားပေသည်။ စာရှုသူသည် မိမိမည်မျှမှတ်မိ၍ အသိဉာဏ်တခြေ၊ ဗဟုသုတအခြေ မည်မျှကြွယ်ဝနေပြီကို မှတ်ကျောက်တင်ကြည့်ရန် အောက်ပါမေးခွန်းများဖြင့် စစ်တမ်းထုတ်သင့်ပေသည်။ အကယ်၍ အဖြေမပေးနိုင်ရှိအံ့၊ ညွှန်းထားရာစာမျက်နှာတွင် ပြန်လည်ဖတ်ရှုလေ့လာရန် တိုက်တွန်းရပေသည်။

# ကျေးဇူးပြုသူများ

မြန်မာ့စွယ်စုံကျမ်းတွင် စာမျက်နှာတိုင်း၌ ရုပ်ပုံဓာတ်ပုံစသည်ဖြင့် ဝေဆာစွာမွမ်းမံရန် ကြိုးပမ်းခဲ့ရာ၌ နိုင်ငံတွင်းနိုင်ငံပမှ အကူအညီများရခဲ့သည်။ နိုင်ငံပမှဆိုလျှင် လန်ဒန်မြို့ ပစ်ချာပို့လိုက်ဗရေရီနှင့် ပေါပေါ့ပါးမှုရင်း၊ နယူးယော့မြို့ အိဝင်ဂယ်လိုဝေမှရင်း၊ ဓာတ်ပုံများ ဝယ်ယူပုံနှိပ်ခွင့်ရခဲ့သည်။ နိုင်ငံတွင်းမှ ကူညီသူ ရာပေါင်းများစွာရှိသည့်အနက် စွယ်စုံကျမ်းနှင့်ထိုက်တန်သည့် ရုပ်ပုံ၊ ဓာတ်ပုံ၊ မြေပုံ စသည်တို့ကို အောက်ပါဌာနကြီးများနှင့် ပညာရှင်များထံမှ ရရှိပါ၍ ကျေးဇူးအထူးတင်ပါကြောင်း။

| အမည် | နေရပ် | ဓာတ်ပုံပါစာမျက်နှာ |
|---|---|---|
| မြန်မာနိုင်ငံ တော်လှန်ရေးအစိုးရ ကောင်းကင်မြေတိုင်းဌာန | ရန်ကုန်မြို့ | ၁၂၄၊ ၂၄၂၊ ၂၉၇၊ ၃၂၁ |
| မြန်မာနိုင်ငံ တော်လှန်ရေးအစိုးရ မိုးလေဝသဌာန | ရန်ကုန်မြို့ | ၁၆၅၊ ၁၆၈၊ ၁၆၉၊ ၁၇၀၊ ၁၇၁ |
| မြန်မာနိုင်ငံ တော်လှန်ရေးအစိုးရ ရေနံဓာတ်နှင့် ဓာတ်သတ္တုပစ္စည်းရှာဖွေ ထုတ်လုပ်ရေး ကော်ပိုရေးရှင်း | ရန်ကုန်မြို့ | ၁၀၇ |
| ကြေးမုံသတင်းစာတိုက် | ရန်ကုန်မြို့ | ၃၂၅ |
| ဦးကိုလေး | တောင်ကြီးမြို့ | ၂၇၄ |
| ဦးကျော်လှ | ရန်ကုန်မြို့ | ၅၊ ၃၃၃ |
| ဦးခင်လေးမောင် | ရန်ကုန်မြို့ | မိးကျည်မီးပန်းမိုးကုတ်မြို့၊ မင်းလှမြို့ (မင်းလှခံတပ်)၊ မြို့ရိုး ရောင်စုံပုံများ |
| ဦးစိုးဝင်း | ရန်ကုန်မြို့ | ၁၄၇၊ ၁၅၀ |
| ဒု-ဗိုလ်မှူးကြီး တင့်ဆွေ | တောင်ကြီးမြို့ | ၂၉၁၊ ၂၉၃၊ ၂၉၅၊ ၂၉၇၊ ၂၉၈၊ ၃၇၉၊ ၄၅၀၊ ၄၅၁၊ ၄၅၂၊ ၄၅၃၊ ၄၅၄ |
| ဦးထိန်ဝင်း | ရန်ကုန်မြို့ | ၄၁၄ |
| ဦးထွန်းရည် | သာကေတမြို့ | ၁၈၊ ၂၁၅၊ ၂၃၃၊ ၃၀၅၊ ၃၅၇၊ ၄၅၅၊ |
| ဒေါက်တာလှမြင့် | ရန်ကုန်မြို့ | ၁၄၈၊ ၁၄၉၊ ၃၃၉၊ ၄၇၀၊ ၄၇၁၊ |
| ဒေါက်တာသိမ်းမောင် | ရန်ကုန်မြို့ | ၂၅၁ |
| နိုင်ပန်းလှ | ရန်ကုန်မြို့ | ၂၆ |
| ဦးပရမ၊ ပါဠိတက္ကသိုလ် ကထိက စာချ၊ မေဃဝတီတိုက်ကျောင်း၊ သရက်တောတိုက် | ရန်ကုန်မြို့ | မယ်တော်မာယာ၊ မာရ်နတ် ရောင်စုံပုံများ |
| ဦးပြည်စိုး | ရန်ကုန်မြို့ | ၂၂၅ |
| ဖျာပုံ ဒေါ်မြသန်းသွင် | ရန်ကုန်မြို့ | ၇၈၊ ၈၉၊ ၁၂၅ |
| ဖျာပုံ ဦးမောင်မောင် | ရန်ကုန်မြို့ | ၂၄၀ |
| ဗိုလ်ကြီးချစ်ရီ | လွှယ်လင်မြို့ | ၂၇၀၊ ၂၇၁ |
| ဗိုလ်မှူး-ဒေါ်ခင်မအေးမူ | မေမြို့ | ၈၈ |
| ဦးမောင်ကလေး(၂) | ရန်ကုန်မြို့ | ၃၊ ၉၄၊ ၃၈၁ |
| ဦးမျိုးမြင့် | ရန်ကုန်မြို့ | ၈၀၊ ၃၀၃ |
| ဦးလှဝင်း | မြောင်းမြမြို့ | ၄၆၃၊ ၄၆၅ |
| ဦးဝါသဝ၊ တောပဋ္ဌာနတောရကျောင်းဆရာတော် | မုံရွာခရိုင် | မယ်တော်မာယာ၊ မာရ်နတ် ရောင်စုံပုံများ |
| ဦးအေးသန်း | ပြည်မြို့ | ၅၈ |
| ဦးအောင်သော် | ရန်ကုန်မြို့ | ၄၂၃ |

# မဟာဥမင်္ဂဇာတ်

**ဇာတ်ကြီးဆယ်ဘွဲ့ဝင် မဟောသဓဇာတ်တော်ကို မဟာဥမင်္ဂဇာတ်ဟု ပါဠိကျမ်းဂန်များ၌ ပြဆိုလေသည်။ မြတ်စွာဘုရားသခင်သည် သာဝတ္ထိပြည် ဇေတဝန်ကျောင်းတော်တွင် သိတင်းသုံးတော်မူစဉ် ပညာပါရမီတော်ကို အထူးပြု၍ ဤမဟောသဓ ဇာတ်တော်ကို ဟောတော်မူသည်။**

**မဟောသဓ ဇာတ်တော်။** ။မဟောသဓ ဇာတ်တော်သည် ဇာတ်ကြီးဆယ်ဘွဲ့တွင် ပဌမ ဇာတ်တော်ဖြစ်သည်။ ဂေါတမ မြတ်စွာဘုရားသည် သာဝတ္ထိပြည်၊ ဇေတဝန်ကျောင်းတော်၌ သိတင်းသုံးတော်မူစဉ် ပညာပါရမီတော်ကို အကြောင်းပြု၍ ဟောကြားတော်မူသည်။ ပါဠိကျမ်းဂန်များ၌ မဟောသဓ ဇာတ်တော်ကြီးကို မဟာဥမင်္ဂဇာတ်ဟု ပြသည်။ ထိုဇာတ်တော်ကြီးကို မင်းဘူးမြို့ အရှင်ဩဘာသသည် ကျောင်းတကာ မောင်ဝ၏သား မောင်ထောက်က တောင်းပန်အပ်သည်ဖြစ်၍၊ ၁၁၄၆ ခုနှစ်တွင် ပါဠိတော်မှ မြန်မာသို့ အပြီးတိုင် ပြုစုတော်မူသည်။

မဟောသဓ ဇာတ်တော်၏ အကြောင်းကား ဤသို့တည်း။ ရှေးလွန်လေပြီးသောအခါ ဝိဒေဟရာဇ်တိုင်း၊ မိမိလာပြည်၌ ဝိဒေဟရာဇ်မင်းကြီးစိုးစံသည်။ ထိုမင်း၌ သေနက၊ ပက္ကုသ၊ ကာမိန္ဒ၊ ဒေဝိန္ဒအမည်ရှိကြသော အမတ်ကြီး ၄ ဦးရှိ၏။ ထိုပြည်၏အရှေ့ဖက်၊ ပါစီနယဝမဇ္ဈဂုံးရွာ၌ သိရိဝဍ္ဎန သဌေး၏မယား၊ သုမနဒေဝီတွင် မဟောသဓ သုခမိန်ဖြစ်မည့် သားငယ်ကိုဖွားမြင်သည်။ ထိုသားငယ်သည် ဖွားစကပင် နတ်ဆေးလုံးကို ကိုင်လျက် စကားပြောသည်။ ထိုဆေးလုံးဖြင့် လူအများ ရောဂါချမ်းငြိမ်းကြရသည်။ ဆေးလုံးကိုစွဲ၍ မဟောသဓဟု အမည်မှည့်၏။

၇ နှစ်အရွယ်သို့ရောက်သော် မဟောသဓသတို့သားသည် ဆန်းကြယ်သော ဇရပ်တဆောင်နှင့် ရေကန် တခုကို စီမံပြုလုပ်၏။ မဟောသဓ ဖွားဦးကပင် မင်းကြီးသည် အိပ်မက်မြင်မက်ထားသည့်ပြင် မဟောသဓ၏ ပညာသတင်းကြားသောကြောင့် မင်းကြီးသည် ပညာရှိခန့်ထားရန် သေနကအမတ်ကြီးကိုတိုင်ပင်သည်။အမတ်ကြီးကဝန်တိုသဖြင့် ပညာရှိမဟုတ်သေးကြောင်း တင်လျှောက် သောကြောင့် နန်းတော်သို့ မခေါ်ဆောင်သေးဘဲ ငံ့နေရသည်။

မဟောသဓ သတို့သားသည် ပါစီနယဝမဇ္ဈဂုံးရွာ၌ပင် စွန်ချီသော သားတစ်ကို ရအောင်ပြုလုပ်ခြင်း၊ နွားခိုးမှု၊ လည်ရွဲခိုးမှု၊ ခြည်ထွေးခိုးမှု၊ သားခိုးမှု၊ မယားခိုးမှု၊ ရထားခိုးမှု စသည့် ၇ ခုသော အရေးတို့တွင် တရားမျှတအောင်စီရင်၏။ထိုသတင်းတို့ကိုမင်းကြီးကြားလတ်သော် မဟောသဓကိုခေါ်ယူရန် သေနကအမတ်ကြီးအား တိုင်ပင်ပြန်သည်။ အမတ်ကြီးက ရှေးနည်းတူ လျှောက်ထားသဖြင့် ဆိုင်းငံ့ခဲ့၏။ အမတ်ကြီး၏ တင်လျှောက်ချက်အရ မင်းကြီးက ဖြေဆိုစေသော ရှားလုံ့တံ၏ အရင်းအဖျားကို ရှာစေသည့် ပြဿနာ၊ ဦးခေါင်းခွံ နှစ်ခုကိုကြည့်၍ ယောကျ်ား မိန်းမခွဲခြားစေသည့် ပြဿနာ၊မြွေအဖိုအမကို ခွဲခြားစေသည့် ပြဿနာ၊ ဦးခေါင်း၌ ပိုပါသော သတ္တဝါကို ဆက်စေသည့် ပြဿနာ၊ ပတ္တမြားကို ကြိုးသစ်တပ်စေသော ပြဿနာ၊ နွားလားကို သားဖွားစေသည့်ပြဿနာ၊ ထမင်းချဉ်ပြဿနာ၊ သဲလွန် ပြဿနာ၊ ရေကန်ပြဿနာ၊ ဥယျာဉ်ပြဿနာတို့ကို အံ့ဩဖွယ် ကောင်းအောင် ဉာဏ်စွမ်း ထက်မြက်စွာ ဖြေရှင်း ပေးလေသည်။ မင်းကြီးလည်း မဟောသဓ၏ ပညာကို ချီးကျူးလျက် နန်းတော်သို့ ခေါ်ယူကာ အကြိမ်ကြိမ် ချီးမြှောက်ပူဇော်၏။ တခါသော် မင်းကြီး၏ မိဖုရား ဥဒုမ္ဗရဒေဝီသည် မင်းကြီးနှင့်အတူ ထွက်လာတော်မူစဉ် ငယ်လင် သူယုတ်အား မြင်၍ ပြုံးမိသည်ကို မင်းကြီးက အထင်တော် လွဲသဖြင့် သတ်မည်ပြုရာ မဟောသဓ သုခမိန်၏ တင်လျှောက်ချက်ကြောင့် အသက် ချမ်းသာရာ ရလေသည်။ ထိုအခါမှစ၍ မဟောသဓအား မိဖုရားက မောင်ငယ် အရာထား၍ ချစ်ခင်စွာ ချီးမြှောက်၏။ မင်းကြီးကလည်း အသပြာ တသိန်း ပူဇော်လေသည်။

ထိုနောက် မဟောသဓသုခမိန်သည် ခွေးနှင့်ဆိတ် ပြဿနာ၊ ပညာနှင့်ဥစ္စာ အမြတ်ပြဿနာ စသည်တို့ကိုလည်း ဖြေကြား၏။ ယင်းသို့အားဖြင့် မဟောသဓသည် အသက် ၁၆ နှစ်သို့ ရောက်သော် ဥဒုမ္ဗရဒေဝီလည်း သင့်မြတ်သော သတို့သမီးနှင့် ထိမ်းမြားရန် ပြောရာ မဟောသဓက မိမိအလို အလျောက် ရှာဖွေလိုကြောင်းဖြင့် ခွင့်တောင်း၍ အပ်နှင့်ခြည်ခင်တို့ကို ဆောင်လျက် ဆင်းရဲသား အပ်ချုပ်သမားအသွင်ဖြင့် ဥတ္တရယဝမဇ္ဈဂုံးရွာသို့ သွား၏။

ဥတ္တရယဝ မဇ္ဈဂုံးရွာတွင် စည်းစိမ်ပျက်သော သဌေးဟောင်းလင်မယားတွင် အမရာမည်သော သမီး တယောက်ရှိသည်။ ဇနီးလောင်း အရှာသွားသော မဟောသဓသည် အမရာနှင့် လမ်းဝယ်တွေ့ရာ အပြန်အလှန်မေးဖြေပညာစမ်းကြပြီးနောက် အမရာ၏ အိမ်သို့ မဟောသဓသွား၏။ ထိုနောက် အပ်ချုပ်သည်ဟန်ဖြင့် အဝတ်အထည်စုတ်များကို ချုပ်သည်။ ထိုနောက် အမရာ၏ စိတ်နေသဘောထားနှင့် ပညာ အဆင့်အတန်းကို အမျိုးမျိုးစုံစမ်းပြီးနောက် နှစ်သက်သဖြင့် မိဖုရားကြီးအား လျှောက်ထား၍ ဆောင်ယူလက်ထပ်သည်။

ထိုနောက် အမတ်ကြီး ၄ ပါးသည် မဟောသဓကို မလိုလားသဖြင့် ခိုးသူဖြစ်ဟန် ပရိယာယ်ဆင်၍ မင်းကြီးကို လျှောက်တင်ကြသည်။ မင်းကြီးလည်း လျှောက်တင်ချက်ကို ယုံကြည်၍ အပြစ်ဒဏ်ခတ်ရန် အမိန့်မှတ်သဖြင့် မဟောသဓသည် တောင်မဏ္ဍုဂုံးရွာသို့ အလွတ် တိမ်းရှောင်ရလေသည်။ ထိုအခါ အမရာသည် မိမိပညာဉာဏ်ဖြင့် အမတ်ကြီး ၄ ယောက်တို့ ကြံစည်သောအပြစ်တို့ကို ထင်ရှားစေပြီးလျှင် အမတ်ကြီးတို့အားလည်း အရှက်ရအောင်ပြု၍ မင်းကြီးအား အမှန်ကို လျှောက်ထားသည်။ ယင်းသို့အခါတွင် ထီးချက်စောင့်နတ်သမီးက ပုစ္ဆာ ၄ ရပ်ကို မေးရာ ဖြေနိုင်သူမရှိသောကြောင့် မင်းကြီးသည် မဟောသဓအား ရှာဖွေစေလျက် အိုးထိန်းသည်အိမ်မှ ပြန်၍ခေါ်ယူကာ ဖြေကြားစေသည်။ မဟောသဓ ဖြေဆိုနိုင်သဖြင့် စစ်ဘုရင်သေနာပတိအဖြစ် ချီးမြှောက်ခြင်း ခံရပြန်သည်။

ထိုနောက် လျှို့ဝှက်အပ်သော ကိစ္စကို မည်သူ့အားမျှ မပြောရာ ဟူသော ပြဿနာတွင် သေနက အစရှိသော အမတ်ကြီးတို့ အရေးရှုံးနိမ့်သည်မှ မဟောသဓသုခမိန်သည် ဝိဒေဟရာဇ်တိုင်းကြီးကို ဘုရင့်ကိုယ်စား စီမံခန့်ခွဲလေသည်။

တခါသော် ဥတ္တရပဉ္စာလရာဇ်ပြည်မှ စူဠနီဗြဟ္မဒတ်မင်းသည် အတိုင်းတိုင်းအပြည်ပြည်ကို သိမ်းယူပြီးနောက် မိထိလာပြည်ကိုစစ်ပြု၏။ ဝိဒေဟရာဇ်မင်းသည် မဟောသဓ အစီအမံ အဆောင်အရွက်ဖြင့် ရန်သူကို တွန်းလှန်နိုင်သည့်ပြင် နောက်ဆုံး၌ ထို ဗြဟ္မဒတ်မင်း၏ သမီးတော် ပဉ္စာလစန္ဒီမင်းသမီးကို ဥမင်လိုဏ်ခေါင်းတွင်းမှ ဆောင်ယူကာ ဝိဒေဟရာဇ်မင်းကြီးနှင့် လက်ဆက်စေသည်။ စူဠနီဗြဟ္မဒတ်မင်း၏ အတိုင်ပင်ခံ ကေဝဋ္ဋပုဏ္ဏားသည် မဟောသဓအား ပရိယာယ်အရာတွင်မမှီနိုင်ဘဲရှိ၍အရှက်ကြီးစွာရလေသည်။

မဟောသဓသည် နောင်အခါ စူဠနီ ဗြဟ္မဒတ်မင်းထံ၌ ခစား၍ အသက်ထက်ဆုံး ကြီးမြတ်သောစည်းစိမ်ကိုခံစားရသည်။ ဇာတ်ပေါင်းသော် မဟောသဓ သုခမိန်သည် ဂေါတမမြတ်စွာဘုရား၊ သိရိဝဍ္ဎနသဌေးသည် သုဒ္ဓေါဒနမင်းကြီး၊ သုမနဒေဝီသည် မဟာ မာယာဒေဝီ၊ အမရာ ဒေဝီသည် ယသောဓရာ၊ သေနကအမတ်သည် မဟာကဿပ၊ ပက္ကုသအမတ်သည် အမ္ဗဋ္ဌလုလင်၊ ကာမိန္ဒအမတ်သည် ကူဋဒန္တပုဏ္ဏား၊ ဒေဝိန္ဒအမတ်သည် ပိလောတိက လုလင်၊ ကေဝဋ္ဋပုဏ္ဏားသည် ဒေဝဒတ်၊ ဥဒုမ္ဗရဒေဝီသည် ဒိဋ္ဌမင်္ဂလိက သတို့သမီး၊ ဝိဒေဟရာဇ်မင်းကြီးသည် ကာဠုဒါယီမထေရ် အသီးအသီး ဖြစ်လာကြသည်။

**မဟိန္ဒထေရ်။** ။မဟိန္ဒထေရ်သည် သီရိဓမ္မာသောကမင်းကြီး၏ သားတော်ဖြစ်၍ သံဃမိတ္တာကား သမီးတော်ဖြစ်သည်။ မင်းကြီးသည် မြတ်စွာဘုရား၏ သာသနာတော်၌ အလွန်ကြည်ညိုသည်ဖြစ်ရကား ကျောင်းပေါင်း ရှစ်သောင်းလေးထောင် ဆောက်လုပ်လှူဒါန်း၏။ ဤသို့ လှူဒါန်းပြီးနောက် အလွန်နှစ်သက်ဝမ်းမြောက်ခြင်းဖြစ်၏။

အခါတပါး၌ မင်းကြီးသည် အသောကာရာမ ကျောင်းသို့ ထွက်တော်မူ၍ သံဃာတို့၏အလယ်၌ နေပြီးလျှင် သံဃာတော်တို့အား ဤသို့ မေးလျှောက်၏။ "အရှင်ဘုရားတို့၊ ဘုရားသခင်၏ သာသနာတော်၌ အဘယ်သူသည် အကျွန်ုပ်တို့ကဲ့သို့ ကြီးကျယ်စွာသော စွန့်ကြဲခြင်းကို ပြုဘူးသနည်း၊ အဘယ်သူ၏စွန့်ကြဲခြင်းသည် ကြီးမြတ်ပါသနည်း" ဟုလျှောက်၏။ အရှင်မောဂ္ဂလိပုတ္တတိဿထေရ်က "မြတ်သောမင်းကြီး၊ မြတ်စွာဘုရား၏ သာသနာတော်၌ သင်မင်းကြီးနှင့်တူသော စွန့်ကြဲပေးကမ်း လှူဒါန်းသောသူသည် မြတ်စွာဘုရားလက်ထက်တော်၌ပင် မရှိပေ။ သင်မင်းကြီး၏ စွန့်ကြဲခြင်းသည် သာလျှင် သာလွန်မြင့်မြတ်လှ၏" ဟု မိန့်တော်မူ၏။

မင်းကြီးလည်း ထိုစကားကို ကြားရသော် အလွန်ဝမ်းမြောက်ခြင်း ဖြစ်သဖြင့် "အရှင်ဘုရား၊ အကျွန်ုပ်သည် ဤမျှလောက်သောဒါနကို ပြုရသဖြင့် သာသနာတော်၏အမွေကို ခံရပါအံ့လော" ဟု လျှောက်ထားပြန်၏။ ထိုအခါ အရှင်မောဂ္ဂလိပုတ္တတိဿက "မင်းကြီး၊ ဤသို့ပစ္စည်းကို စွန့်ကြဲကာမျှဖြင့် သာသနာ့အမွေခံ မဖြစ်သေးချေ။ ဤ မြေမှသည် ဗြဟ္မာ့ပြည်တိုင်အောင် ပစ္စည်းလေးပါးကို စုပုံ၍ လှူငြားသော်လည်း ဘုရားရှင့်သာသနာတော်၌ အမွေခံ မဖြစ်သေးချေ။ မိမိ ရင်၌ဖြစ်သော သားသမီးတို့ကို ရဟန်းပြုစေခြင်းသည်သာလျှင် သာသနာတော်၏ အမွေခံဖြစ်သတည်း" ဟု မိန့်တော်မူလေသည်။

မင်းကြီးလည်း ငါသည် ဤမျှလောက်သော အလှူကြီးကိုပေးပါလျက် သာသနာတော်၏အမွေကို မခံရချေသေး၊ သာသနာတော်၏ အမွေခံဖြစ်အောင် အဘယ်သို့ ပြုရအံ့နည်းဟု အောက်မေ့လျက် ထိုမှဤမှ ကြည့်လတ်သော်၊သားတော်မဟိန္ဒသည် မင်းကြီး၏ အပါးတွင်နေသည်ကို မြင်သဖြင့် "ချစ်သားမဟိန္ဒ၊ သင်သည် ရဟန်းပြုခြင်းငှါ စွမ်းနိုင်ပါအံ့လော" ဟု မေး၏။ မင်းသားလည်း ခမည်းတော်၏စကားကိုကြားလျှင် ရွှင်လန်းဝမ်းမြောက်လှသဖြင့် "အရှင်မင်းမြတ်၊ အကျွန်ုပ် ရဟန်းပြုနိုင်ပါ၏။ ကျွန်ုပ်ကိုရဟန်းပြု၍ သာသနာ့အမွေကို ခံတော်မူပါ" ဟုလျှောက်၏။ မင်းကြီးလည်း သားတော် မဟိန္ဒမင်းသားအား အရှင်မောဂ္ဂလိပုတ္တတိဿထေရ် ဥပဇ္ဈာယ်ပြု၍ မင်းသား အသက်နှစ်ဆယ်ပြည့်ပြီ ဖြစ်သောကြောင့် ပဉ္စင်းပြုတော်မူလေသည်။ မဟိန္ဒမင်းသားကား ကမ္မဝါစာ၏အဆုံး၌ ပဋိသမ္ဘိဒါလေးပါးနှင့်တကွ ရဟန္တာအဖြစ်သို့ ရောက်တော်မူသည်။ အရှင်မဟိန္ဒလည်း ရဟန်းဖြစ်သောနေ့မှစ၍ မိမိဥပဇ္ဈာယ်ဆရာထံ၌ ပိဋကတ်သုံးပုံ ဖြစ်

သောဘုရားစကားတော်ကို သင်ကြားသဖြင့် ၃ နှစ်ရှိသော အခါ ထေရဝါဒနှင့်တကွ တတ်မြောက်၍ တထောင်သော သဿတို့၏ ပါမောက္ခဖြစ်တော်မူလေသည်။

သမီးတော် သဃမိတ္တာကား အသက် တဆဲ့ရှစ်နှစ်သာ ဖြစ်၍ ပဥ္စင်းမခံဘဲ သာမဏေပြု၏။

တတိယသင်္ဂါယနာ တင်ပြီးအဆုံး၌ နောင်အခါ အဘယ် အရပ်၌ သာသနာတော်မြတ်ကောင်းစွာတည်လတ္တံ့နည်းဟု အရှင်မောဂ္ဂလိပုတ္တတိဿမထေရ် ဆင်ခြင်တော်မူလျှင် ပစ္စန္တ ရာဇ်တိုင်းတို့၌ ကောင်းစွာ တည်လတ္တံ့သည်ကို မြင်တော် မူ၍ ပစ္စန္တရာဇ် ကိုးဌာနသို့ သာသနာ ပြုစေတော်မူသည်။ ထိုအခါ အရှင်မဟိန္ဒထေရ်ကို သီဟဠ-တမ္ဗပဏ္ဏိမည်သော သီ ဟိုဠ်ကျွန်းသို့ ဥပသမ္ပဒကံ မြောက်လောက်အောင် ပဥ္စဝဂ် သံဃာငါးပါးနှင့် စေတော်မူ၏။

မဟိန္ဒထေရ်သည် သာသနာ ၂၃၆ ခုနှစ်တွင် ဣဋ္ဋိယ၊ ဥတ္တိယ၊ သမ္ဗလ၊ ဘဒ္ဒသာလ ဤမထေရ်လေးပါးအပြင်၊ တူ တော် သုမန သာမဏေ၊ ဘဏ္ဍုက ဥပါသကာတို့နှင့်တကွ သီဟိုဠ်ကျွန်းသို့ သာသနာပြု ကြွတော်မူသည်။

**မအူပင်။** ။မအူပင်သည် ရူဗီအေစီအီး မျိုးရင်းတွင် ပါ ဝင်၍ ယင်းကို ရုက္ခဗေဒအလိုအားဖြင့် ဆာကိုဆီဖားလပ် ကော်ဒေးတပ်ဟု ခေါ်သည်။ မအူပင်မျိုး အမျိုးအပြား ရှိရာ မအူလက်တံရှည်ပင်၊ မအူကတုံးပင်၊ မအူလေလံပင်နှင့် မအူကြီးပင်တို့မှာ မအူပင်နှင့် မျိုးတူပင်မျိုးများ ဖြစ်ကြ သည်။ မအူလက်တံပင်နှင့် ရေမအူပင်တို့သည် မအူဟု ခေါ် ရသော်လည်း မအူပင်နှင့် မျိုးချင်းမတူ၊ မျိုးကွဲပင် ၂ မျိုး ဖြစ်ကြသည်။ မအူပင်များသည် များသောအားဖြင့် မြေနိမ့် ပိုင်းရှိ သစ်တောများတွင် ချောင်းဘေး မြောင်းဘေးတို့၌ ပေါက်လေ့ရှိသော သစ်ပင်မျိုးဖြစ်သည်။



မအူပင်ပျို၏ အရွက်နှင့် အပွင့်များ

မအူကတုံးပင်သည် အကြီးအလွန်မြန်သော အရွယ်အ လတ်စား သစ်ပင်မျိုးဖြစ်၍ မြန်မာနိုင်ငံတွင် အများအား ဖြင့် စိုစွတ်သော မြေနိမ့်ပိုင်းဒေသများ၌ပေါက်ရောက်သည်။ သစ်သားမှာ ပျော့၍ ဝါထိန်နေသည်။ အညံ့စား သေတ္တာ များနှင့် အိမ်အသုံးအဆောင်များ၊ ဖိနပ် အစရှိသည်တို့ကို ပြုလုပ်ရန် သင့်တော်သော အသားဖြစ်သည်။ ထိုကြောင့် သီဟိုဠ်နိုင်ငံတွင် အထက်ဖော်ပြပါ ဝတ္ထုပစ္စည်းများကို မအူ ကတုံးသားဖြင့် ပြုလုပ်ကြသည်။

မအူလက်တံရှည်ပင်သည် မအူကတုံးပင်နှင့် ခပ်ဆင်ဆင် တူ၍ အထက်နှင့် အောက်မြန်မာနိုင်ငံရှိ မြေညီသစ်တော များတွင် ချောင်းဘေး မြောင်းဘေးတို့၌ ပေါက်ရောက်သော သစ်ပင်ကြီးမျိုး ဖြစ်သည်။ သစ်သားမှာ ဝါကြန့်ကြန့် အ ရောင်ရှိ၍ အကြောအမျှင်ညီညာသည်။ ပျော့သောအသား ဖြစ်ခြင်းကြောင့် မီးခြစ်အိမ် ပြုလုပ်ရန်အတွက် အသုံးကျ သည်။ ထင်းရှူးသားကဲ့သို့ ပေါ့ပါးသဖြင့် ပစ္စည်းများထည့် ရန် သေတ္တာရိုးရိုးတို့ကိုလည်း ပြုလုပ်နိုင်သည်။ မြန်မာနိုင်ငံ တွင်းရှိ စက္ကူပြုလုပ်သော သစ်သားတို့တွင် မအူလက်တံရှည် သားလည်း အပါအဝင်ဖြစ်သည်။ အိမ်ဆောက်ခြင်း၊ လှေစပ် ခြင်း၊ ထမ်းပိုးတံစသည်တို့ ပြုလုပ်ရာ၌လည်း အသုံးဝင်သည်။ ယင်းသစ်သားကို အမြန်ခြောက်သွေ့အောင် မပြုလုပ်လျှင် အပြာရောင် အစွန်းအကွက်များ ပေါ်လာတတ်သည်။ သို့ သော် အသားသေအောင် ပြုလုပ်ရာ၌ ခဲယဉ်းခြင်းမရှိချေ။ မအူလက်တံရှည်ခေါက်ကို အဖျားဖြတ်ဆေးအဖြစ်ဖြင့်၎င်း၊ အရွက်ကို အာခလေးကျက်ရန် ဆေးရည်စပ်ရာ၌၎င်း အသုံးပြု ကြသည်။

မအူလက်တံပင်များကို အထက်မြန်မာနိုင်ငံ ကျောက် တွင်းဒေသဖြစ်သော မိုးကုတ်နယ်၌ တွေ့ရ၍ ရှမ်းဘာသာ ဖြင့် "မဲ့-ခ-ရောင်း"ဟူ၍၎င်း၊ ကချင်ဘာသာဖြင့် "ခါလမ်" ဟူ၍၎င်း ခေါ်ကြသည်။

ရေမအူပင်ဟူ၍ ခေါ်သော သစ်ပင်ကြီးများကို မြန်မာ နိုင်ငံအတွင်း၌ အနှံ့အပြား တွေ့နိုင်သည်။ ကချင်ဘာသာ ဖြင့် "ခ-လ-လျှောင်း"၊ သို့မဟုတ် "လ-လျှောင်း" ဟု ခေါ် တွင်လေသည်။

ဧရာဝတီမြစ်ဝကျွန်းပေါ် ဒေသရှိ မအူပင်မြို့သည်၎င်း၊ ရန်ကုန်မြို့ ဆင်ခြေဖုံးရပ်ကွက်တခုဖြစ်သော မအူကုန်းသည်၎င်း ထိုမအူပင်တို့ ပေါက်ရောက်သည်ကို အစွဲပြု၍ မှည့်ခေါ်ကြသည့် အရပ်ဒေသများဟု ဆိုကြသည်။

**မအူပင်ခရိုင်**။ ။မအူပင်ခရိုင်သည် မြန်မာနိုင်ငံအောက်ပိုင်း ဧရာဝတီတိုင်းတွင် ပါဝင်သော ခရိုင် ၅ ခုအနက် တခုဖြစ်၍ ဧရာဝတီမြစ်ဝကျွန်းပေါ်ဒေသတခုဖြစ်သည်။ မအူပင်ခရိုင်သည် မြောက်ဖက်တွင် ဟင်္သာတခရိုင်၊ အရှေ့ဖက်တွင် အင်းစိန်နှင့် ဟံသာဝတီခရိုင်များ၊ တောင်ဖက်တွင် ဖျာပုံခရိုင်၊ အနောက်ဖက်တွင် မြောင်းမြခရိုင်နှင့် ပုသိမ်ခရိုင်တို့ဖြင့် နယ်နိမိတ်သတ်မှတ်လျက် တည်ရှိသည်။ မအူပင်ခရိုင်တွင် မအူပင်နယ်နှင့် ညောင်တုန်းနယ်များ ပါဝင်၍၊ တဖန် မအူပင်နယ်မှာ မအူပင်မြို့နယ်နှင့် ပန်းတနော်မြို့နယ်တို့ဖြင့်၎င်း၊ ညောင်တုန်းနယ်မှာ ညောင်တုန်းမြို့နယ်နှင့် ဓနုဖြူမြို့နယ်တို့ဖြင့်၎င်း ဖွဲ့စည်းထားသည်။ ထို့ကြောင့် မအူပင်ခရိုင်တွင် နယ် ၂ နယ်နှင့် မြို့နယ် ၄ ခု ရှိ၏။ သူကြီးပိုင်နယ် ၂၆၈ ခု ရှိသည်။ အကျယ်အဝန်းမှာ ၁၉၃၁ ခုနှစ် မြေတိုင်းစာရင်းအရ ၁,၆၄၂ စတုရန်းမိုင် ရှိသည်။ ယခုအခါတွင်မူ ၁,၆၅၁ စတုရန်းမိုင် ရှိပေသည်။ ခရိုင်ရုံးစိုက်မြို့မှာ မအူပင်မြို့ဖြစ်၏။

မအူပင် ခရိုင်သည် မြစ်ဝကျွန်းပေါ်ဒေသ၏ အလယ်ဗဟိုလောက်တွင် တည်ရှိ၍ ခရိုင်တွင်း စီးဆင်းသော ဧရာဝတီနှင့် တိုးမြစ်တို့မှ ဖြစ်ပေါ်လာသော နုံးမြေပြင်ကြီးပင်ဖြစ်တော့၏။ ခရိုင်မှာ အလျား ၅၄ မိုင်ခန့်နှင့် အနံ ၄၄ မိုင်မျှရှိသည်။ ထိုနုံးတင် မြေနုတွင် စပါး စိုက်ပျိုး ဖြစ်ထွန်းသည်။ စပါးစိုက်ပျိုးချိန်၌ စပါးစိုက်ထားသော လယ်ပြင်ကို မျက်စိတဆုံး မြင်တွေ့ရတတ်ပေသည်။ မြစ်ဝကျွန်းပေါ်ဒေသ ဖြစ်သည်နှင့်အညီ ဧရာဝတီမြစ်နှင့် တိုးမြစ်များအပြင်၊ အခြား မြစ်ငယ် ချောင်းငယ်များ ဖြတ်သန်းစီးဆင်းလျက်ရှိသော မြေနိမ့်ပိုင်း ဖြစ်သဖြင့် မိုးတွင်းအခါတွင် မြစ်ရေ ချောင်းရေများ လျှံတက်လေ့ရှိသည်။ ဧရာဝတီမြစ်မှ ငဝန်မြစ် ခွဲထွက်ရာ နေရာမှ အစပြုလျက် ဧရာဝတီမြစ်၏ အနောက်ဖက်ကမ်း၊ သို့မဟုတ် လက်ျာဖက်ကမ်းတလျှောက် ပန်းတနော်အထိ တည်ရှိသော ၇၅ ၁/၂ မိုင် ရှည်လျားသည့် ဟင်္သာတ ရေကာတာ၊ ဧရာဝတီမြစ် အရှေ့ဖက်ကမ်း၌ အဖြောက်မှ စံကင်းအထိ ၁၅ မိုင်ရှည်သော စံကင်း—ဆကာကြီး ရေကာတာ၊ ထိုရေကာတာ၏ တောင်ဖက် အောက်ကျကျ၌ ၅၄ မိုင်မျှ ရှည်လျားသော ညောင်တုန်းရေကာတာနှင့် မအူပင်၌ အစပြုလျက် အရှေ့ဖက်သို့၎င်း၊ အနောက်ဖက်သို့၎င်း သွယ်တန်းဖို့လုပ်ထား၍ ၇၇ မိုင်ခန့် ရှည်လျားသည့် မအူပင်ကျွန်း ရေကာတာနှင့် ၄၁ ၁/၂ မိုင်ခန့် ရှည်လျားသော သုံးခွကျွန်းရေကာတာများက စိုက်ပျိုးခင်းများကို ရေကြီးချိန်တွင် ရေလွှမ်းမိုးခြင်း ဘေးအန္တရာယ်မှ ကာကွယ်တားဆီးပေးသည်။ ဤရေကာတာများ ရှိသည့်အတွက်ကြောင့် ဆန်စပါးများကို ဤမျှဖြစ်ထွန်းအောင် စိုက်ပျိုးနိုင်ပေသည်။ ဖို့မြေများတွင် ကိုင်းလုပ်ကိုင်ကြသည်။ ထို့ပြင် မအူပင်ခရိုင်အတွင်း အင်းများအထူးပေါ်များသည်။ မြန်မာတနိုင်ငံလုံးတွင် မအူပင်ခရိုင်မှ အင်းခွန်တော် အများဆုံးရသည်ဟု ဆိုလေသည်။

ခြင်အတန်ပေါသည်ကလွဲ၍ မအူပင်ခရိုင်၏ ရာသီဥတုမှာ ကျန်းမာခြင်းနှင့် ညီညွတ်၍ ကောင်းသော ရာသီဥတု ဖြစ်သည်။ ပျမ်းမျှ အများဆုံး အပူချိန် ဖာရင်ဟိုက် ၁၀၁° နှင့် အနည်းဆုံး အပူချိန် ၇၅° အသီးအသီးရှိ၍ ၁၁၀° ကျော်ခဲ့သည်။ မိုးရေချိန်မှာ မြစ်ဝကျွန်းပေါ် ခရိုင်တခုအဖို့ မနည်းလွန်း မများလွန်း ဖြစ်၏။ တနှစ်လျှင် ပျမ်းမျှ လက်မ ၉၀ ကျော် ၁၀၀ နီးပါးမျှရွာသည်။ အားလုံးခြုံကြည့်လိုက်လျှင် မအူပင်ခရိုင်၏ ရာသီဥတုနှင့် မိုးရေချိန်တို့မှာ လယ်ယာစိုက်ပျိုးရေးအတွက် များစွာသင့်လျော်လေသည်။

မအူပင်ခရိုင်၏ လူဦးရေမှာ ၁၉၅၆ ခုနှစ် ခန့်မှန်း သန်ကောင်စာရင်းအရ ၄၉၉,၄၆၀ ဖြစ်သည်။ ခရိုင်အတွင်းနေထိုင်ကြသူများတွင် ဗုဒ္ဓအယူဝါဒီ မြန်မာလူမျိုးသည် အများဆုံးဖြစ်၍၊ ကရင်လူမျိုးသည် ဒုတိယ အများဆုံးဖြစ်၏။ လူဦးရေအားလုံး၏ ၆၆ ရာခိုင်နှုန်းသည် လယ်ယာစိုက်ပျိုးခြင်းဖြင့် အသက်မွေးကြသည်။

မအူပင်ခရိုင်တွင် စိုက်ပျိုး ဧကပေါင်းမှာ ၄၁၇,၂၂၆ ဧကဖြစ်၍၊ ဆန်စပါးကို အဓိက စိုက်ပျိုးကြ၏။ အထူးသဖြင့် မအူပင်မြို့နယ်များနှင့် ပန်းတနော်မြို့နယ်များတွင် အများဆုံး စိုက်ပျိုးကြ၏။ ညောင်တုန်းမြို့နယ်နှင့် ဓနုဖြူမြို့နယ်များ၌မူ ဆေးကို အထူးစိုက်ပျိုးကြ၏။ စိုက်ပျိုး ထွက်ကုန်များမှာ စပါး၊ ပဲအမျိုးမျိုး၊ ဆီထွက်စေ့များ၊ ဆေး၊ ငှက်ပျော၊ အုန်း၊ ကွမ်းသီး၊ သရက် စသည်တို့ဖြစ်၏။ ထို့အပြင် ပန်းတနော်မြို့နယ်နှင့် မအူပင်မြို့နယ်များတွင် အင်းလုပ်ငန်းကို အကြီးအကျယ်လုပ်ကိုင်ကြ၍၊ ငါးများကို ရေခဲစိမ်ကာ ရန်ကုန်မြို့သို့ တင်ပို့ရောင်းချကြ၏။ ငပိငါးခြောက်များလည်း လုပ်ကိုင်ကြသည်။ ညောင်တုန်းမြို့တွင်ကား ငပိလုပ်ငန်းမှာ များစွာ တွင်ကျယ်ခဲ့လေသည်။ သင်ဖြူးရက်လုပ်ငန်းမှာလည်း ပန်းတနော်နယ်တွင် အတော်ခရီးရောက်လေသည်။

မအူပင် ခရိုင်တွင် လမ်းပန်းဆက်သွယ်ရာ၌ ရေလမ်းကို အထူး အားထားရပေသည်။ ဧရာဝတီမြစ်နှင့် မြစ်ခွဲဖြစ်သော တိုးမြစ်တလျှောက်တွင် ပြည်တွင်း ရေကြောင်းသယ်ယူပို့ဆောင်ရေး အဖွဲ့မှ သင်္ဘောများ ခုတ်မောင်း သွားလာလျက်ရှိသဖြင့် ခရိုင်တွင်းရှိ မြို့ရွာများသို့၎င်း၊ ရန်ကုန်နှင့်

မြစ်ဝကျွန်းပေါ်ရှိ နေရာအနှံ့အပြားသို့ရင်း ရေလမ်းဖြင့် ပေါက်ရောက်နိုင်သည်။ ခရိုင်အတွင်း ကုန်းလမ်း အဆက် အသွယ်အတွက် ကျောက်ခင်းလမ်းဟူ၍ အရေးပါသော လမ်း ၂ ခုသာရှိသည်။ တခုမှာ မအူပင်မှသည် ရေလဲကလေး ရွာသို့ ပေါက်သည်။ ရေလဲကလေးသည် မအူပင်မြို့၏ အ နောက်ဖက် ၉ မိုင်ကွာဝေး၍၊ မအူပင်ကျွန်း၏ အနောက် ဖက်စွန်းတွင်တည်ရှိသည်။ အခြား တခုမှာ ဓနုဖြူမြို့မှသည် ကျုံတနိုသို့ပေါက်၍ ၁၄ မိုင် ရှိသည်။ ယင်းလမ်းသည် ပုသိမ် ခရိုင် ကျုံပျော်နှင့် ငသိုင်းချောင်းမြို့များအထိ ဆက်လက် ၍ ခရီးပေါက်သည်။

ယခု မအူပင်ခရိုင် တည်ရှိရာဒေသကို ကုန်းဘောင်ခေတ် မတိုင်မီက လူသိများခဲ့ဟန် မတူပေ။ ထိုစဉ်က ထိုဒေသ တဝိုက်မှာ ရွံ့ညွန် ထူပြောကာ တောကြီးများဖြင့် ဖုံးလွှမ်း နေခဲ့၏။ လူနေနည်းပါး၍ စိုက်ပျိုးဖြစ်ထွန်းမည် မဟုတ်ဟု ယူဆထားခဲ့ပုံ ရလေသည်။ ထိုပြင် မြန်မာနိုင်ငံ သမိုင်း များတွင် မည်သို့မျှ ထူးထူးခြားခြား ရည်ညွှန်းဖော်ပြထား သည်ကိုလည်း မတွေ့ရပေ။ ပဌမ အင်္ဂလိပ် - မြန်မာ စစ်ပွဲ အတွင်း မြန်မာစစ်သူကြီး မဟာဗန္ဓုလသည် ယခု ခရိုင် အတွင်း၌ ပါဝင်သည့် ဓနုဖြူမြို့တွင် ခံတပ်ကြီးပြုကာ အင်္ဂ လိပ်တို့ကို ခုခံတိုက်ခိုက်ခဲ့ရာတွင် ခရစ် ၁၈၂၅ ခုနှစ် ဧပြီလ ၁ ရက်နေ့၌ ရန်သူလက်နက် ဗုံးဆံချက်ကြောင့် ကွယ်လွန် ခဲ့ရလေသည်။ ဒုတိယ အင်္ဂလိပ်-မြန်မာ စစ်ပွဲအတွင်း ဓနုဖြူ မြို့မှ တိုက်သူကြီး ဦးမြတ်ထွန်း ခေါင်းဆောင်၍ အင်္ဂလိပ်တို့ ကို ခုခံတော်လှန် တိုက်ခိုက်ခဲ့လေသည်။ ထိုစစ်ပွဲ အပြီးတွင် ခရိုင်နယ်ပယ်များကို ပြန်လည် ဖွဲ့စည်းရာ၌ ၁၈၇၅ ခုနှစ်၌ ဟင်္သာတ ခရိုင်မှ ဓနုဖြူမြို့နယ်၊ ပုသိမ်ခရိုင်မှ ရွှေလောင်းမြို့ နယ်နှင့်ပန်းတနော်မြို့နယ်၊ ဟံသာဝတီမှ သုံးခွ၊ ညောင်တုန်း၊ ဖျာပုံနှင့် ဒေးဒရဲမြို့နယ်တို့ကို ပူးပေါင်းကာ သုံးခွခရိုင်ဟူ၍ ဖွဲ့စည်းခဲ့၏။ ၁၈၇၆ ခုနှစ်တွင် မအူပင်မြို့ကို ခရိုင်အတွင်း ဗဟိုကျသည့်အတွက် သုံးခွခရိုင်၏ ရုံးစိုက်မြို့အဖြစ် သတ် မှတ်ခဲ့၏။ ၁၈၈၁ ခုနှစ်တွင် ပဲခူးတိုင်းမှ ပုသိမ်ခရိုင်၊ သုံးခွ ခရိုင်၊ ဟင်္သာတခရိုင်၊ သရက်ခရိုင်တို့ကို ခွဲထုတ်၍ ဧရာဝတီ တိုင်းဟု ဖွဲ့စည်းသည်။ ၁၈၉၃ ခုနှစ်တွင် သုံးခွခရိုင်မှ နယ် မြေအချို့နှင့် ပုသိမ်ခရိုင်မှ နယ်မြေအချို့ကို ခွဲယူပူးပေါင်း၍ မြောင်းမြခရိုင်ကို ဖွဲ့စည်းသည်။နောင်အခါ ၁၉၀၃ ခုနှစ်တွင် သုံးခွခရိုင်နှင့် မြောင်းမြခရိုင်တို့မှ နယ်မြေအချို့ကို ခွဲထုတ် ယူကာ ပူးပေါင်းပြီးနောက် ဖျာပုံခရိုင်ကို ဖွဲ့စည်းခဲ့ရာတွင် သုံးခွခရိုင်ကိုလည်း မအူပင်ခရိုင်ဟု အမည်သစ်ပေးခဲ့၏။ မအူပင်ခရိုင်သည် ၁၉၃၃ ခုနှစ်တွင် မြောင်းမြခရိုင် အတွင်း ပါသွားခဲ့သော ပန်းတနော်မြို့နယ်ကို ပြန်လည် ရရှိခဲ့၏။ ထိုနောက်တွင် ခရိုင်သည် နယ်နိမိတ်များစွာ ပြောင်းလဲခြင်း မရှိခဲ့ဘဲ၊ တဖြည်းဖြည်း တိုးတက်စည်ကားလာလေသည်။

ခရိုင်အတွင်းရှိ ထင်ရှားသော ဘုရားများမှာ ပန်းတနော် မြို့တွင်ရှိသော ရွှေမြင်တင်ဘုရား၊ ညောင်တုန်းမြို့နယ် ခတ္တီယ ရွာတွင်ရှိသော ဖားကရစ်ဘုရား၊ ဓနုဖြူမြို့တွင်ရှိသော ကျိုက်ကလွှန်ပွန်စေတီ စသည်တို့ဖြစ်၏။

မအူပင် ခရိုင်တွင်းရှိ ဓနုဖြူမြို့၌ စစ်သူကြီး မဟာဗန္ဓုလ၏ သင်းချိုင်းနှင့် ကြေးရုပ်တို့ ရှိပေသည်။

**မအူပင်မြို့။** ။မအူပင်မြို့သည် ဧရာဝတီတိုင်းတွင် ပါဝင် သော မအူပင်ခရိုင်၊ မအူပင်နယ်၊ မအူပင်မြို့နယ်တို့၏ ရုံး စိုက်မြို့ဖြစ်သည်။ ဧရာဝတီ မြစ်ဝကျွန်းပေါ်တွင် တိုးမြစ်၏ လကျ်ာဖက်ကမ်းပေါ်၌ တည်ရှိ၍၊ ရန်ကုန်မြို့မှ ၄၆ မိုင်မျှ သာ ဝေးသောကြောင့် ရန်ကုန်နှင့် နေ့ချင်းပြန်ခရီးပေါက် ရကား အသင်းအဖွဲ့များသည် ရန်ကုန်မှ မအူပင်မြို့သို့ အ ပန်းဖြေ နေ့ချင်းပြန် ပျော်ပွဲစားယင်း ခရီးအဖြစ် တပျော် တပါး သွားလာတတ်ကြပေသည်။ မအူပင်မြို့သည် ခရိုင်ဝန် ရုံးစိုက်သောမြို့ဖြစ်သည့်အလျောက် ခရိုင်အုပ်ချုပ်ရေး အရာ ရှိကြီးများ၏ ရုံးများ၊ ဆေးရုံ၊အထက်တန်းကျောင်းများနှင့် အကျဉ်းထောင် စသည်တို့ရှိသည်။ မအူပင်မြို့၏ မြူနီစီပယ် အုပ်ချုပ်ရေးကို ခရစ် ၁၈၈၈ ခုနှစ်တွင် စတင်ခဲ့၍ မြို့ရွာ



မအူပင်မြို့၏ ကျက်သရေဆောင် ရွှေဘုန်းမြင့်စေတီ

သန့်ရှင်း စည်ပင်ရေးကို ဆောင်ရွက်ခဲ့သည်။ မအူပင် ဆိပ်ကမ်းတွင် များသောအားဖြင့် မြစ်ဝကျွန်းပေါ်ရှိမြို့ကြီးများသို့ သွားသော သင်္ဘောများသည်၎င်း၊ မန္တလေးသို့ သွားသော သင်္ဘောများသည်၎င်း ဆိုက်ကပ်သောကြောင့် စည်ကားသော ဆိပ်ကမ်းမြို့ဖြစ်သည်။ မအူပင်မြို့မှ ငှက်ပျောသီး၊ သင်္ဘောသီး စသည့် ဟင်းသီးဟင်းရွက် များနှင့် ပုဇွန်၊ ငါးလောက် စသည့် သားငါးများ ရန်ကုန်မြို့သို့ တင်ပို့ ရောင်းချ၏။ ဆန်စပါး လုပ်ငန်းနှင့် ငပိ၊ ငါးခြောက် လုပ်ငန်းလည်း ထွန်းကား၏။ သို့သော် ရှေးကတည်းကပင် မအူပင်မြို့သည် ခြင်ပေါသည်ဟု နာမည်ရသောမြို့ဖြစ်၏။

မအူပင်မြို့မှ ခရိုင်အတွင်းရှိ မြို့များသို့ သွားလာရာတွင် ရေလမ်းကို အားကိုးရ၏။ မအူပင်မှ အနောက်ဖက် ၉ မိုင်ကွာဝေးသည့် ရေလဲကလေးရွာသို့ ကျောက်ခင်းလမ်းရှိ၏။

မအူပင်မြို့၏ လူဦးရေမှာ ၁၉၆၂ ခုနှစ် ခန့်မှန်း သန်ကောင်စာရင်း အရ ၂၄,၂၄၁ ဖြစ်၏။ ဗုဒ္ဓအယူဝါဒီ မြန်မာလူမျိုးမှာ အများစု ဖြစ်သည်။ မအူပင်မြို့တွင် ထင်ရှားသော ဘုရားမှာ ရွှေဘုန်းမြင့်စေတီဖြစ်၏။

မအူပင်မြို့သည် ရှေးအခါက တံငါရွာကလေးမျှသာ ဖြစ်၏။ ခရစ် ၁၈၅၆ ခုနှစ်တွင် မအူပင်ကို သုံးခွခရိုင်၏ ရုံးစိုက်မြို့အဖြစ် ရွေးချယ်လိုက်သည်။ ၁၉၀၃ ခုနှစ်တွင် ခရိုင်နယ်ပယ်များ ပြန်လည်ဖွဲ့စည်း၍ သုံးခွခရိုင်ကို မအူပင်ခရိုင်ဟု အမည်ပြောင်းလိုက်သောအခါ မအူပင်ခရိုင်၏ ရုံးစိုက်မြို့ ဖြစ်လာသည်။ ထိုနောက်တွင် မြို့သည်လည်း တဖြည်းဖြည်း စည်ကားတိုးတက်လာခဲ့၏။

မအူပင်မြို့ဟု အမည်တွင်ရခြင်း အကြောင်းမှာ မြို့ဘွင်းရှိ မအူပင်ကို အစွဲပြု၍ ခေါ်ခြင်းဖြစ်သည်ဟု ဆို၏။ ထိုအပင်သည် ရှေးဂျင်မခါနာကလပ် အနီးတွင်ရှိ၏။ မူရင်းအပင်မှာ ညောင်ပင်တပင်က မျိုလိုက်သောကြောင့် သေသွားခဲ့၏။ သို့သော် ၁၉၁၀ ပြည့်နှစ်တွင် ထိုစဉ်က အရေးပိုင် ဖြစ်သော မေဂျာ အေ၊ အက် (စ)၊ ရောဗတ်က ထိုအပင်ဟောင်းအနီးတွင် မအူပင်သစ်တပင်ကို ထပ်၍စိုက်စေသည်။ ထိုမအူပင်၏ အရိပ်အောက်တွင် မြို့စောင့်နတ်ကွန်း ရှိလေသည်။

**မာကိုနီ၊ ဂူလျဲ မိုး** (ခရစ် ၁၈၇၄ – ၁၉၃၇)။ ။ဂူလျဲ မိုး မာကိုနီသည် ကြိုးမဲ့ကြေးနန်း (ဝိုင်ယာလက်)စက်ကို ၁၈၉၅ ခုနှစ်တွင် စတင်တီထွင်နိုင်ခဲ့သော ဣတလီနိုင်ငံသား ကမ္ဘာကျော် ပုဂ္ဂိုလ်ကြီးပင်ဖြစ်သည်။ ပဌမတွင် သူသည် မိမိ၏ ဝိုင်ယာလက်သတင်းပို့ သတင်းဖမ်းစက်တို့ဖြင့် ခရီးတိုများသို့သာ အချက်ပြသတင်း ပို့နိုင်ခဲ့သည်။ ထိုမှ တစထက်တစ ဆက်လက်ကြိုးစားခြင်းဖြင့် ခရီးဝေးသို့လည်း သတင်းပို့နိုင်ရမည်ဟု ယုံကြည်ထားသူ ဖြစ်၏။ အများကမူ မိုင်ပေါင်းရာထောင်ဝေးသော ခရီးသို့ သတင်းပို့၍ ရနိုင်မည်မဟုတ်ဟု ယူဆထားကြသည်။ သို့ရာတွင် မာကိုနီသည် ၁၉၀၁ ခုနှစ်၌ မိုင်ပေါင်း ၂,၀၀၀ မျှကျယ်ပြန့်သော အတ္တလန္တိတ် သမုဒ္ဒရာကြီးကို ကျော်ဖြတ်ကာ အင်္ဂလန်နိုင်ငံမှနေ၍ မြောက်အမေရိကတိုက် နျူးဖောင်းလန်းကျွန်းသို့ ဦးစွာပဌမ အောင်မြင်စွာ အချက်ပြသတင်း ပို့နိုင်ခြင်းဖြင့် တကမ္ဘာလုံးအား အံ့ဩသွားစေခဲ့လေသည်။

ဤကဲ့သို့ ဝိုင်ယာလက်ကို လက်တွေ့အားဖြင့်အထမြောက်အောင် ကြံစည်တီထွင်နိုင်ခြင်းဌ ဘက် မာကိုနီအား ချီးကျူး ဂုဏ်ပြုထိုက်သော်လည်း၊ မာကိုနီ၌ အဓိကအားဖြင့် လက်ဦးဆရာကြီး ၃ ဦးရှိပေသည်။ ၁၈၇၃ ခုနှစ်တွင် ဂျိမ်းကလပ် မက္ကဆွဲက လျှပ်စစ်လှိုင်းများ အကြောင်းကို၎င်း၊ ဂျော့ ဖရန်စစ် ဖစ်ဇဂျရယ်က ၁၈၈၃ ခုနှစ်တွင် လျှပ်စစ်သံလိုက်လှိုင်းများလွှင့်နိုင်ပုံကို၎င်း၊ဟိုင်းနရစ် ရုဒေါ့ ဟက်ဇက ၁၈၈၇ ခုနှစ်တွင် ထိုလှိုင်းများ၏ ပမာဏနှင့် အနေအထားတို့ကို၎င်း အသီးအသီးပြဆိုခဲ့ကြသည်။ မာကိုနီသည် ထိုသိပ္ပံပညာရှင်ကြီးများ၏တွေ့ရှိချက်နှင့် ယူဆချက်များကို ရှေးဦးစွာ ဝါသနာအလျောက် လေ့လာဆည်းပူးခဲ့သည်။ထိုနောက် ပါမောက္ခ ရိဂီ၏ လျှပ်စစ်သံလိုက်လှိုင်းနှင့် သက်ဆိုင်သော စမ်းသပ်ချက်များကို ထပ်၍ လေ့လာပြီးလျှင် မဆုတ် မနစ်သောလုံ့လဖြင့် မိမိဖာသာ လေ့လာစမ်းသပ်ရာမှာ ၁၈၉၅ ခုနှစ်၌ ဝိုင်ယာလက်ဖြင့် အချက်ပြသတင်းပို့နိုင်သည့် စက်ကို အောင်မြင်စွာ စတင်တီထွင် နိုင်ခဲ့လေသည်။ ၁၈၉၆ ခုနှစ်တွင် သူသည် အင်္ဂလန်နိုင်ငံသို့သွား၍ သူ၏နည်းကို မှတ်ပုံတင်ရန် ကြိုးစားရာ မကြာမီပင် မှတ်ပုံတင်ခွင့်ရသည်။ ထိုနောက် ၁၈၉၇ ခုနှစ်၌ ပဌမဆုံး ဝိုင်ယာလက်ကုမ္ပဏီတခုကို တည်ထောင်လေသည်။

မာကိုနီသည် ဣတလီနိုင်ငံ ဗလုံးညားမြို့သားဖြစ်၍ ၁၈၇၄ ခုနှစ် ဧပြီလ ၂၅ ရက်နေ့တွင် မွေးဖွားသည်။ ဖခင်မှာ ဣတာလျံလူမျိုးဖြစ်၍ မိခင်မှာ အိုင်ယာလန်သူဖြစ်သည်။ မာကိုနီသည် အသားလတ်၍ မျက်လုံးပြာပြီးလျှင်၊ အရပ်ထောင်ထောင်မောင်းမောင်းနှင့် လူချောလူခန့်တယောက်ဖြစ်သည်။ လူပုံပန်းမှာ အင်္ဂလိပ်နှင့်တူ၍ ဟန်အမူအရာမှာ ဣတာလျံဆန်သည်။ ဣတာလျံနှင့် အင်္ဂလိပ်ကျောင်း နှစ်မျိုးစလုံးတွင် ပညာသင်ကြားခဲ့၍ ငယ်ရွယ်စဉ်ကပင် သိပ္ပံပညာရပ်များကို ဝါသနာကြီးစွာနှင့် ဆည်းပူးလေ့လာခဲ့လေသည်။

ပဌမတွင် မာကိုနီသည် သူအောင်မြင်စွာ စတင်တီထွင်ခဲ့သည့် ဝိုင်ယာလက်စက်ဖြင့် ခရီးတမိုင်ကျော်ကျော် အထိကိုသာ သတင်းပေးပို့နိုင်ခဲ့သည်။ သို့သော်လည်း တဆင့်ပြီးတဆင့် မနေမနား ဆက်လက်ကြိုးစားလာရာ ခရီးဝေးသည်ထက် ဝေးသည့်နေရာသို့ သတင်းပေးပို့နိုင်လေသည်။ ၁၈၉၉



ဂူလျဲမိုး မာကိုနီသည် ကြိုးမဲ့ကြေးနန်းစက်ကို တီထွင်ခဲ့သူဖြစ်သည်။

ခုနှစ် ဧပြီလ ၂၈ ရက်နေ့တွင် ဝိုင်ယာလက်စက်၏ အဖိုးတန်ပုံကို ပဌမဆုံးအကြိမ် အသုံးချပြခဲ့လေသည်။ ထိုနေ့တွင် အင်္ဂလန်ကမ်းခြေမှ လေမုန်တိုင်းဒဏ်ကြောင့် "အိဂွတ်ဒဝင်းဆင်း" အမည်ရှိ မီးပြသင်္ဘောသည် ပင်လယ်ထဲသို့ လွင့်စဉ်၍ပျက်စီးသွားလေသည်။ သို့ရာတွင် သင်္ဘောပေါ်၌ တပ်ဆင်ထားသော မာကိုနီ၏ ဝိုင်ယာလက်စက်ဖြင့် အနီးအနားရှိ သင်္ဘောများသို့ အချိန်မှီ အချက်ပြ ဆက်သွယ်နိုင်ခဲ့သောကြောင့် အသက်ပေါင်းများစွာ ချမ်းသာရာရရှိခဲ့လေသည်။ ထိုမှတဆင့်တက်လှမ်းကြိုးစားရာမှအထက်တွင်ဖော်ပြခဲ့သည့်အတိုင်း ၁၉၀၁ ခုနှစ် ဒီဇင်ဘာလ ၁၂ ရက်နေ့၌ အတ္တလန္တိတ်သမုဒ္ဒရာကိုပင် ကျော်ဖြတ်၍ သတင်းပို့နိုင်သည့်အထိ စွမ်းဆောင် နိုင်ခဲ့လေသည်။ ဝိုင်ယာလက်ဖြင့် အချက်ပြသတင်းပေးပို့နိုင်ခြင်းသည် နေ့အချိန်ထက်ညဥ့်အချိန်၌ပိုမိုဝေးလံစွာရောက်ရှိနိုင်ကြောင်းကို မာကိုနီသည် နောက်တနှစ်တွင် တွေ့ရှိပြန်လေသည်။ အမေရိကန် ပြည်ထောင်စုသို့ သွားသော "ဖိလဒဲလဖီးယား" အမည်ရှိ သင်္ဘောပေါ်တွင် မိုင်ပေါင်း ၂,၁၉၉ မိုင် ဝေးကွာသောနေရာမှ ပေးပို့လိုက်သော အချက်ပြကြေးနန်းကို မာကိုနီ ရရှိနိုင်ခဲ့လေသည်။ ၁၉၁၀ ပြည့်နှစ်သို့ ရောက်သောအခါ အိုင်ယာလန်ကျွန်း၊ ကလစ်ဒင်းမြို့မှ တောင်အမေရိကတိုက်၊ အာဂျင်တီးနားနိုင်ငံ၊ ဗွေနိုဆိုင်းရက်မြို့သို့၎င်း၊ ၁၉၁၈ ခုနှစ်တွင် အင်္ဂလန်နိုင်ငံမှ ဩစတြေးလီးယားတိုက်သို့၎င်း ဝိုင်ယာလက်သတင်းများကို ပို့နိုင်လာသည်။

၁၉၀၄ ခုနှစ် စောစောပိုင်းလောက်တွင် မာကိုနီသည် ပင်လယ်ကူးသင်္ဘောကြီး တစင်းပေါ်တွင် သတင်းဖြန့်ချိရေးဌာနတခု တည်ထောင်ဖွင့်လှစ်ခဲ့ရာမှအစ ယခုအခါ ကမ်းခြေမှ မိုင်ထောင်ပေါင်းများစွာ ဝေးသော ပင်လယ်ကူးသင်္ဘောကြီးများ၌ ဝိုင်ယာလက်ဖြင့် ရရှိသော ကမ္ဘာ့သတင်းအရပ်ရပ်ကို ပုံနှိပ်ထုတ်ဝေသည့် နေ့စဉ်သတင်းစာများ ပေါ်ပေါက်လာလေသည်။ ၁၉၀၇ ခုနှစ်သို့ ရောက်သောအခါ ပင်လယ်ခရီးသွားရိုက်ကြားနိုင်သော ဝိုင်ယာလက် ကြေးနန်းများပေါ်ပေါက်လာခဲ့သည်။ ထိုအချိန်မှစ၍ စစ်သင်္ဘောများပေါ်တွင်သာမက ခရီးသည်တင် သင်္ဘောကြီးပေါ်တွင်လည်း ဝိုင်ယာလက်စက်များ တပ်ဆင်ထားရန် အစိုးရတိုင်းက ဥပဒေ ပြုခဲ့လေသည်။

မာကိုနီသည် ထိုမျှနှင့် အားမရသေးဘဲ တိုးတက်ကြံစည်ပြန်ရာ ၁၉၂၂ ခုနှစ်တွင် ဝိုင်ယာလက်လှိုင်းများကို အရပ်လေးမျက်နှာသို့ ပျံ့လွင့်စေမည့်အစား အလိုရှိသည့် အရပ်မျက်နှာတဖက်တည်းသို့ လွှင့်ပေးနိုင်သည့် နည်းကို တွေ့ရှိပြန်သည်။ ဤနည်းကို အတန်းလိုက် လှိုင်းလွှင့်နည်းဟုခေါ်၍ ကမ္ဘာအရပ်ရပ်ရှိ ဝိုင်ယာလက် အချက်ပြသတင်းပို့ရေးလုပ်ငန်းတွင် ယခုအခါ ဤနည်းကိုပင် အဓိကအသုံးချလျက်ရှိကြသည်။ ဤနည်းကို အခြေခံပြု၍ နှင်းတောထဲ၌ မိနေသော သင်္ဘောများအား လမ်းပြပေးနိုင်သည့် နည်းကိုလည်း မာကိုနီသည် တီထွင်ခဲ့လေသည်။

ဝိုင်ယာလက်ဖြင့် အချက်ပြ သဘင်းပို့သည့် နည်းမှာ အချက်ပြ ကြေးနန်းရိုက်နည်းတမျိုးပင်ဖြစ်ရာ ဆာအမ်ဗရို့ ဖလင်းမင်း တီထွင်သော ပလာပြွန်တမျိုးကြောင့် နောင်သော် စကားပြော ကြေးနန်းကဲ့သို့ ဝိုင်ယာလက်ဖြင့် စကားပြောနိုင်သည့်အဆင့်သို့ တိုးတက်လာပြန်သည်။ ထိုမှတဆင့် ယခုအခါ ကမ္ဘာ့အရပ်ရပ်၌ နားသောတ ဆင်နေကြရသော ရေဒီယိုများ ပေါက်ဖွားလာခြင်းပင် ဖြစ်သည်။

မာကိုနီသည် အချက်ပြဝိုင်ယာလက် အတွက်သာမက စကားပြော ဝိုင်ယာလက်အတွက်လည်း တိုးတက် အသုံးချနိုင်သည့် နည်းအမျိုးမျိုး၊ ကရိယာအမျိုးမျိုးကို ကြံစည် တီထွင် ပေးခဲ့သေး၍၊ ၁၉၀၉ ခုနှစ်တွင် ရူပဗေဒဆိုင်ရာ နိုဗဲဆုကြီးဖြင့်ချီးမြှင့်ခြင်းခံခဲ့ရလေသည်။ ထိုနှစ်မှာပင် ဣတလီ ဘုရင်ကြီးက သူ့အား အထက်လွှတ်တော်အမတ်အဖြစ် ခန့်အပ်ခဲ့ပြန်သည်။

၁၉၁၂ ခုနှစ်တွင် မာကိုနီသည် မော်တော်ကား တိုက်မိ၍ မျက်စိတဖက် ချွတ်ယွင်းသွားသည်။ သို့သော် သူသည်ရွက်လှေစီးခြင်း၊ အမဲလိုက်ခြင်း၊ မော်တော်ကား မောင်းခြင်း၊ စက်ဘီးစီးခြင်း စသော မိမိဝါသနာပါသည့် အလုပ်များကိုမူ လက်မလွှတ်ခဲ့ပေ။ ပဌမ ကမ္ဘာစစ်ကြီးအတွင်းက သူသည် ဣတာလျံ ကုန်းတပ် ရေတပ်တို့တွင် ပါဝင် အမှုထမ်းရွက်ခဲ့၍ ၁၉၁၉ ခုနှစ်တွင် ပါရစ်မြို့၌ ကျင်းပသော ငြိမ်းချမ်းရေး ကွန်ဖရင့်သို့ ဣတလီနိုင်ငံ၏ ကိုယ်စားလှယ်တော် အဖြစ်ဖြင့် တက်ရောက်ခဲ့၏။ ၁၉၂၉ ခုနှစ်၌ မားကွစ်ဘွဲ့ဖြင့် ချီးမြှင့်ခြင်း ခံရပြန်လေသည်။

ကမ္ဘာ့ အံ့ဖွယ်တရပ် အနေနှင့်သာမက တကမ္ဘာလုံး အကျိုးရှိရေးအတွက် အမျိုးမျိုးအသုံးချနိုင်သော ဝိုင်ယာလက်စက်ကို တီထွင်ပေးခဲ့သည့် ဤကမ္ဘာကျော် သိပ္ပံကဝိကြီးသည် ၁၉၃၇ ခုနှစ်၌ ကွယ်လွန်လေသည်။

**မာကိုပိုလို**။ ။ပိုလို့၊ မာကို — ရှု။

**မာကျူရီ**။ ။ဗုဒ္ဓဟူးဂြိုဟ် — ရှု။

**မာဂျရင်း**။ ။မာဂျရင်းခေါ် ထောပတ်တုသည် ထောပတ်စစ်နီးပါးမျှ ကောင်းသောအစာ ဖြစ်သည်။ ပြင်သစ် နိုင်ငံ၊ ဂျာမနီနိုင်ငံနှင့် ဣတလီနိုင်ငံများတွင် ထောပတ်စစ်ကို စားသုံးနိုင်သူ အတော်ပင်ရှားပါးခဲ့၏။ ပစ္စည်းကုံလုံကြွယ်ဝသူများပင်လျှင် ထောပတ်စစ်ကို အနည်းငယ်မျှသာ စားနိုင်ကြသည်။ ဆင်းရဲသားများအဖို့ ထောပတ်ကို မစားသုံးနိုင်ကြချေ။ ထိုတိုင်းနိုင်ငံများ၌ ထောပတ်ကို စည်းစိမ်ခံပစ္စည်းဟု သတ်မှတ်ထားလေသည်။ ပြင်သစ်နိုင်ငံတွင် ပေါင်မုံ့သည် အမြဲစားသုံးသော အစာဖြစ်၍ ပေါင်မုံ့တွင် ထောပတ်မပါလျှင် အရသာမရှိဖြစ်လေသည်။ ထိုကြောင့် ပြင်သစ်အစိုးရသည် ထောပတ်အစား ဈေးလည်းပေါ၍ ထောပတ်ကဲ့သို့ အာဟာရဓာတ်နှင့် ပြည့်စုံသည့် ထောပတ်တုကို ကြံစည်ပြုလုပ်နိုင်သူအား ဆုချီးမြှင့်မည်ဟု တိုင်းပြည်သို့ ကြေညာခဲ့သည်။ ၁၈၇၀ ပြည့်နှစ်တွင် မေးဇ မူးရီး အမည်ရှိ ပြင်သစ်ဓာတုဗေဒ ပညာရှင်တဦးသည် ထောပတ်တုကို ကြံစည်ပြုလုပ်နိုင်သောကြောင့် ထိုဆုကို ဆွတ်ခူးနိုင်ခဲ့လေသည်။ ထိုအခါမှစ၍ အခြားသော သိပ္ပံပညာရှင်များကလည်း ထိုထောပတ်တုကို လက်တွေ့စမ်းသပ်ကြည့်ကြပြီးလျှင် ဆင့်ကဲဆင့်ကဲ ပိုမိုကောင်းလာစေရန် ပြုပြင် ယူလာကြလေသည်။

ထိုကဲ့သို့ တဆင့်စီ အမွမ်းတင်၍ လာခဲ့ကြရာ ဒုတိယကမ္ဘာစစ်ကြီး ပြီးသောအခါ၌ ထောပတ်နှင့် များစွာတူပြီးလျှင် အရသာမှာလည်း ထောပတ်နှင့် ခွဲခြားမရနိုင်အောင် ကောင်းသည့် ထောပတ်တုများကို ကြံစည် ပြုလုပ်နိုင်ကြပြန်လေသည်။ ယခုအခါ အမေရိကန်ပြည်ထောင်စု တခုတည်းမှာပင် တနှစ်တနှစ်လျှင် ဒေါ်လာငွေ သန်းပေါင်းများစွာတန်သည့် ထောပတ်တုများကို ပြုလုပ်ရောင်းချလျက် ရှိလေပြီ။ ဈေးလည်းအလွန်သက်သာသဖြင့် လူဆင်းရဲများပင်လျှင် စားသုံးနိုင်ကြပြီ ဖြစ်လေသည်။

ထောပတ်တုအမျိုးမျိုးကို အိုလီယိုမာဂျရင်းဟူ၍ ခေါ်သည်။ သို့သော် အချို့ အိုလီယိုမာဂျရင်းများ၌သာ အိုလီယိုဆိုသည့် အမဲဆီမှ ချက်၍ရသောဆီ ပါရှိသည်။ ထိုပစ္စည်းအားလုံးကိုပင် မာဂျရင်းဟူ၍သာခေါ် ထိုက်ပေသည်။ မာဂျရင်းဆိုသည့်စကားသည် လက်တင်စကားဖြစ်၍ ပုလဲဟု အဓိပ္ပါယ်ရသည်။ ထိုကြောင့် မာဂျရင်းသည် ပုလဲကဲ့သို့ အရောင်အဆင်းရှိသည့် ထောပတ်တုပင် ဖြစ်လေသည်။

မာဂျရင်း နှစ်မျိုးနှစ်စားရှိရာ တမျိုးနှင့်တမျိုး အလွန်တူ၍ အရသာလည်း အတူတူပင်ဖြစ်ကြသည်။ တမျိုးမှာ တိရစ္ဆာန် အဆီများဖြင့် ပြုလုပ်၍ အိုလီယိုအမဲဆီပါသောကြောင့် အိုလီယိုမာဂျရင်းဟု ခေါ်သည်။ အခြားတမျိုးမှာ ဟင်းသီး ဟင်းရွက်ဆီများမှပြုလုပ်၍ နို့နှင့် ထောပတ် အနည်းငယ်မှတပါး အခြား မည်သည့်တိရစ္ဆာန်အဆီမျှ မပါချေ။ အမေရိကန်ပြည်ထောင်စုရှိ မာဂျရင်း အလုပ်ရုံကြီးများတွင် တနှစ်တနှစ်လျှင် ပေါင်ချိန် သန်းပေါင်းများစွာသော မာဂျရင်းကို ပြုလုပ်လျက်ရှိသည်။ မာဂျရင်းကိုပစ္စည်းအမျိုးမျိုးမှ နည်းအမျိုးမျိုးဖြင့် ပြုလုပ်ကြသည်။ ထိုပစ္စည်းများမှာ အမဲဆီ၊ ဝက်ဆီ၊ နို့၊ ထောပတ်၊ အုန်းဆီ၊ ဝါစေ့ဆီ၊ ပဲဆီနှင့် ဆားအပြင် ဗီတာမင်ဓာတ်လည်း ပါဝင်လေသည်။ သို့သော် နို့နှင့်ထောပတ်သည် ရာခိုင်နှုန်း ၁၀ မျှသာ ပါဝင်ရမည်ဟု ဥပဒေဖြင့် ကန့်သတ်ထားလေသည်။ ထိုပစ္စည်းများထဲတွင် ပဲဆီသည် အာဟာရဓာတ် များစွာပါဝင်သော ပစ္စည်းဖြစ်သည်။

မာဂျရင်း ပြုလုပ်ရာတွင် နို့သည် အရေးကြီးသောပစ္စည်း တခုပင် ဖြစ်၏။ အဘယ်ကြောင့် ဆိုသော် နို့ခဲနှင့် ဆီတို့ ပေါင်းစပ်မှသာလျှင် ထောပတ်နှင့် တထေရာတည်း တူသော မာဂျရင်းကို ရနိုင်သောကြောင့်ဖြစ်သည်။ ကျိုပြီးသား နို့ကို အချဉ်ဖောက်လိုက်သောအခါတွင် နို့ခဲဖြစ်လာသည်။ ထို နောက် အဆီ၊ သို့မဟုတ် ဆီများကိုထည့်ရောရ၍ ခပ်နာနာ ခေါက်ပေးပြီးလျှင် အအေးခံထားသည်။ ထိုအခါလတ်ဆတ် သည့် ထောပတ်ကဲ့သို့သော ပစ္စည်းသည် အပေါ်သို့ ပေါ လောပေါ်၍ တက်လာသည်။ ယင်းကို စစ်ထုတ်၍ နယ်ပေး ပြီးလျှင် လိုသလို ပျစ်ခဲလာသည့်တိုင်အောင် လိမ့်စက်ဖြင့် ကြိတ်ချေ ပေးရသည်။ ထို့နောက် ဆားရောရ၍ နယ်ပြီးလျှင် စက်ဖြင့် သေတ္တာများ၊ ဗူးများတွင် ထည့်လေသည်။

မာဂျရင်း၏ အရောင်သည် ဖြူ၍ ထောပတ် အစစ်၏ အရောင်မှာ အလွန်ဖျော့သည်။ ထို့ကြောင့် မာဂျရင်းကို ထောပတ်အစစ်ကဲ့သို့ အသွင်တူစေရန် တခါတရံ အရောင် ထည့်ပေးတတ်၏။ အရောင်ထည့်သောကြောင့်လည်း အ ကောက်ဆောင်ရလေသည်။ မာဂျရင်းသည် ထောပတ်အ စစ်ကဲ့သို့ပင် အနံ့အရသာမှာ အစစ တူသောကြောင့် အ ရောင် မထည့်ဘဲလည်း စားသုံးနိုင်လေသည်။

မာဂျရင်းထောပတ်ထုတ်လုပ်ရာတွင် ပစ္စည်းများ၏ လတ် ဆတ်မှုသည် အလွန်ပင်အရေးကြီးသည်။ မာဂျရင်းလုပ်ငန်း ပိုင်ရှင်ကြီးများသည် အစိုးရအား အချို့သောပစ္စည်းကြမ်း များ မဝယ်ယူမီကပင် တင်ကြို၍စစ်ဆေးပေးရန် အကြောင်း ကြားလေ့ရှိကြသည်။ ထို့ကြောင့် မာဂျရင်းသည် သန့်ရှင်း၍ ကျန်းမာရေးနှင့်ညီညွတ်သော ပစ္စည်းဖြစ်ကြောင်းကို စိတ် ချယုံကြည်နိုင်သည်။ ထို့ပြင် မာဂျရင်းသည် ထောပတ်ကဲ့ သို့ အာဟာရဓာတ် အပြည့်အစုံပါ၍ အစာကြေလွယ်သော ကြောင့် လူအများပင် ကြိုက်နှစ်သက်ကြသည်။ မာဂျရင်း သည် အလွန်လတ်ဆတ်သောအခါ ထောပတ်၏ အနံ့အရ သာတမျှ ရှိလေသည်။

**မာသ။** ။သိကြားမင်း — ရှု။

**မာသနက္ခတ်။** ။နက္ခတ် ၂၇ လုံး — ရှု။

**မာဆရိုက်ခြည်လုပ်ခြင်း။** ။မာဆရိုက် ခြည်ဖြင့် ရက် လုပ်သောအထည်များကို လူတိုင်းလိုပင် တွေ့မြင်ဘူးကြပေ သည်။ မာဆရိုက်ခြည်မှာချော၍ ပိုးသားကဲ့သို့ ပြောင် လက်နေသည်။ မာဆရိုက်ခြည် လုပ်ရာ၌ ဗူးညွန့်ကဲ့သို့ ခွေ လိပ်နေသော ဝါခြည်ကို စန့်ထွက်စေ၍ အရောင်တောက် ပြောင်လာအောင် လုပ်ပေးရသည်။ တီထွင်သူ မာဆာ၏ အမည်ကို အစွဲပြု၍ မာဆရိုက်ခြည်ဟုတွင်လေသည်။

မာဆရိုက်ခြည်ကို ရှေးဦးစွာ ပြုလုပ်ခဲ့သူမှာ အင်္ဂလိပ်လူ မျိုးအထည်ကုန်သည် ဂျွန် မာဆာဆိုသူဖြစ်၍ ၁၈၄၄ ခုနှစ် တွင် မာဆရိုက်ခြည်လုပ်နိုင်ကြောင်းကို ကမ္ဘာသို့ ကျေညာ ခဲ့လေသည်။ မာဆာ၏နည်းမှာ ဓာတုဗေဒနည်းအရ ဖြစ်၍ ပြုလုပ်ပုံမှာ အောက်ပါအတိုင်း ဖြစ်၏။ ဝါခြည်ကို အတန် ငယ်အေးအောင် ပြုလုပ်ထားသော ကော့စတစ်ဆိုဒါ၊ သို့မ ဟုတ် ကော့စတစ်ပိုတက်စသည့် အယ်လကာလီပျော်ဝင်ရည် တခုခုထဲ၌ စိမ်ပေးရသည်။ ထိုသို့ စိမ်ရာတွင် ဝါခြည်ထဲသို့ အယ်လကာလီ ကောင်းကောင်းဝင်အောင် လှန်လှော်ပေးရ သည်။ ထို့နောက် ခြည်ကို ဆန့်၍ထားရပြီးလျှင် နောက်ဆုံး တွင် ရေဖြင့်လျှော်ပစ်ရသည်။ ထိုသို့ ပြုလုပ်ပြီးသော ဝါခြည် သည် မူလရှိရင်းစွဲထက် လေးပုံတပုံခန့် ကျုံ့ဝင်သွားသည်။ ခြည်မျှင်များသည် တခုနှင့်တခု ပို၍နီးကပ်လာကာ ယခင် ကလို ခွေလိမ်မနေတော့ဘဲ စန့်ထွက်လာသည်။ အရောင်မှာ လက်လာ၍ အသားမှာ ပိုးသားကဲ့သို့ချောလာသည်။

အကောင်းစား မာဆရိုက်ခြည် ပြုလုပ်နည်းမှာ ထိုထက် စရိတ်အကုန်အကျ များသော်လည်း ခဝါပေးသောအခါ အ ရောင်မှိန်သွားခြင်း မရှိပေ။ မာဆရိုက်ခြည်ဖြင့် ရက်လုပ် ထားသော အထည်များမှာ ရိုးရိုးခြည်ထည်တို့ထက် ပို၍ ပျော့ပျောင်းခိုင်ခံ့သည်။ ဆေးဆိုးရာတွင်လည်း ဆေးပို၍ စွဲသည်။ ကော့စတစ်ဆိုဒါရည်ကို တမျိုးတမည် စိမ်အသုံး ပြုခြင်းဖြင့်လည်း ပိုးတွန့်ကဲ့သို့သော မာဆရိုက်ခြည် အမျိုး မျိုးကိုရရှိနိုင်သည်။

**မာဆာရစ်, ဂျေ၊ ဂျီ** (ခရစ်၁၈၈၆ – ၁၉၄၈)။ ။ယန်ဂါး ရစ် မာဆာရစ်သည် တောမတ် မာဆာရစ်၏ သားဖြစ်၍ ၁၈၈၆ ခုနှစ်တွင် ပရာဟာမြို့၌ဖွားမြင်သည်။ ပရာဟာတက္ကသိုလ် နှင့် ဗော့စတန်တက္ကသိုလ်တို့တွင် ပညာသင်ကြားပြီးနောက် ၁၉၁၉ ခုနှစ်မှစ၍ ချက်အစိုးရ၏ နိုင်ငံခြားရေးဌာနသို့ ဝင် ရောက် အမှုထမ်းသည်။ ၁၉၂၅ ခုနှစ်တွင် ဗြိတိန်နိုင်ငံသို့ သံ အမတ်အဖြစ်ဖြင့် သွားရောက်ရသည်။ ၁၉၃၈ ခုနှစ်အထိ ယင်းရာထူးတွင် အမှုထမ်းရသည်။ ၁၉၃၉ ခုနှစ်တွင် သံ အမတ်ရာထူးမှ နုတ်ထွက်လိုက်သည်။

ထို့နောက် ဒုတိယကမ္ဘာစစ်အတွင်း လန်ဒန်မြို့၌ ၁၉၄၀ ပြည့်နှစ်တွင် ဖွဲ့စည်းထားသော ချက်ကိုဆလိုဗားကီးယား ယာယီအစိုးရအဖွဲ့တွင် နိုင်ငံခြားရေးဝန်ကြီး ဖြစ်လာသည်။ ၁၉၄၁ ခုနှစ်မှ ၁၉၄၅ ခုနှစ်အတွင်း အဆိုပါ အစိုးရအဖွဲ့၏ ဒုတိယဝန်ကြီးချုပ်အဖြစ် အမှုထမ်းဆောင်ရပြန်သည်။ စစ် ကြီးအပြီး ၁၉၄၅ ခုနှစ်တွင် နိုင်ငံခြားရေးဝန်ကြီးအဖြစ် ခန့် အပ်ခြင်းခံရလေသည်။ ကမ္ဘာ့ကုလသမဂ္ဂ၏ ဆန်ဖရန်စစ္စကို ညီလာခံတွင် ယန်မာဆာရစ်သည် ချက်ကိုဆလိုဗားကီးယား ကိုယ်စားလှယ်များ၏ ခေါင်းဆောင်အဖြစ်ဖြင့် ဦးစီး၍ တက်

ရောက်ခဲ့လေသည်။ ၁၉၄၈ ခုနှစ် ဖေဖွာရီလတွင် ကွန်မြူနစ်အစိုးရတက်လာပြီးသည့်နောက် နိုင်ငံခြားရေးဝန်ကြီးအဖြစ်ဖြင့် ဆက်လက်ဆောင်ရွက်နေခဲ့ရာမှ ထိုနှစ် မတ်လ ၁၀ ရက်နေ့တွင် မိမိကိုယ်ကို အဆုံးစီရင်လိုက်သည်ဟုဆိုသည်။

**မာဆာရစ်,တီ၊ဂျီ** (ခရစ်၁၈၅၀ – ၁၉၃၇)။ ။ချက်ကိုဆလိုဗားကီးယားနိုင်ငံ၏ ပဌမဆုံး သမတကြီး တောမတ်ဂါးရစ် မာဆာရစ်သည် ၁၈၅၀ ပြည့်နှစ် မတ်လ ၇ ရက်နေ့တွင် မိုရေးဗီးယားပြည်နယ် ဟိုဒိုနင်နယ်စပ် မြို့ကလေး၌ဖွားမြင်သည်။ သူ၏ဖခင်မှာ ဩစတြီးယန်း ဧကရာဇ်ဘုရင်၏ ရထားထိန်းတဦး ဖြစ်သည်။

တောမတ် မာဆာရစ်သည် အသက် ၁၄ နှစ်အရွယ်တွင် ဗီယင်နားမြို့ရှိ သော့ခလောက်လုပ်ငန်းတခုတွင် ဝင်ရောက်လုပ်ကိုင်လေသည်။ ထိုနောက် ပန်းဘဲဆရာတဦး၏ အကူအညီအဖြစ်လည်း လုပ်ကိုင်ခဲ့ဘူး၏။ သို့ရာတွင် ပင်ပန်းကြီးစွာ ကြိုးပမ်းလျက် ဗီယင်နားနှင့်လိုက်ပဆစ်တက္ကသိုလ်များ၌ ပညာသင်ကြားခဲ့ပြီးနောက် ၁၈၈၂ ခုနှစ်၌ ပရာဟာမြို့ ချားတက္ကသိုလ်တွင် သဘာဝတ္တဗေဒနှင့် လူမှုရေးပညာရပ်များဆိုင်ရာ ပါမောက္ခ ဖြစ်လာလေသည်။ တက္ကဗေဒနှင့်ဆိုင်သော စာအုပ်စာတမ်းများကို ရေးသား ထုတ်ဝေခဲ့သည်။ ထိုနောက်သဘာဝတ္တဗေဒနှင့်လူမှုရေးဆိုင်ရာစာအုပ်စာတမ်းများကိုလည်း ဆက်လက်ထုတ်ဝေ၍ ကျော်ကြားလာသည်။

၁၈၈၇ ခုနှစ်တွင် သူ၏မိတ်ဆွေအချို့ တည်ထောင်သောသတင်းစာတစောင်ကို ဝင်ရောက် ဦးစီးပြီးလျှင် နိုင်ငံရေးတွင်ပါဝင်လိုက်စားခဲ့လေသည်။ သူ၏အယူအဆများ၊ အဆိုအမိန့်များကို သဘောကျသူ များလာခဲ့ရာ ၁၈၉၁ ခုနှစ်တွင် ပါလီမန်အမတ် ဖြစ်လာလေသည်။ သို့ရာတွင် ၁၈၉၃ ခုနှစ်၌ အမတ်အဖြစ်မှ နုတ်ထွက်၍ "တိုးတက်ရေးအဖွဲ့" ဟူသော နိုင်ငံရေးအဖွဲ့တဖွဲ့ကို ဦးစီးတည်ထောင်လိုက်သည်။ ၁၉၀၇ ခုနှစ်တွင် ထိုအဖွဲ့မှပင် ပါလီမန်အမတ်အဖြစ် ထပ်မံ ရွေးကောက်တင်မြှောက်ခြင်း ခံရလေသည်။

ပဌမ ကမ္ဘာစစ်ဖြစ်ပွားသောအခါ တောမတ်သည် အခါကောင်း အခွင့်ကောင်းကိုယူ၍ ချက်ကိုဆလိုဗားကီးယားနိုင်ငံတည်ထောင်ရေးအတွက် ကြိုးပမ်းလေတော့သည်။ ထိုအခါတွင် တောမတ်မှာ အသက် ၆၀ ရှိပြီဖြစ်သော်လည်း အားကစားသမားပီပီ ကျန်းမာသန်စွမ်းလျက်ပင် ရှိသေးသည်။ တောမတ်သည် ဣတလီ၊ ပြင်သစ်၊ အင်္ဂလန်၊ ရုရှ၊ အမေရိကန်ပြည်ထောင်စုစသည့် နိုင်ငံများသို့ ချက်ကိုဆလိုဗားကီးယားကိုယ်စားလှယ်အဖြစ် လှည့်လည်ခဲ့သည်။ ထိုနောက် လန်ဒန်မြို့ ဘုရင့်သိပ္ပံကျောင်းတွင် ပါမောက္ခ အဖြစ်သွားရောက်ဆောင်ရွက်ခဲ့သေးသည်။ ထိုကြောင့် သမတဖြစ်နေသည်တိုင်အောင်ပင် ပါမောက္ခ မာဆာရစ်ဟု အခေါ်



ချက်အမျိုးသားမျိုးချစ်ခေါင်းဆောင်ကြီး ဂျေ၊ ဂျီ၊ မာဆာရစ်



ချက်ကိုဆလိုဗားကီးယား သမတ နိုင်ငံ၏ ပဌမဆုံး သမတ တီ၊ ဂျီ၊ မာဆာရစ်

များကြသည်။ တောမတ်သည် ဤကဲ့သို့ ဆောင်ရွက်ရာမှ မဟာမိတ်နိုင်ငံများ၏အရေးပေးခြင်းကို ခံယူခဲ့ရသည်။ တောမတ်၏ နိုင်ငံရေးဝါဒကား ချက်ကိုဆလိုဗားကီးယား နိုင်ငံ လွတ်လပ်ရေးရရန် ဩစတြီးယန်းအင်ပိုင်ယာကြီးကို တော်လှန်၍ ပြိုကွဲအောင် လုပ်ရမည်ဟူသည်ပင်ဖြစ်၏။ ၁၉၁၆ ခုနှစ်တွင် ဩစတြီးယန်းအစိုးရတို့က သူ့ကို တိုင်းပြည် သစ္စာဖောက်မှုဖြင့် သေဒဏ်အပြစ်ပေးလိုက်သည်။သို့ရာတွင်တောမတ်သည် တိမ်းရှောင်နေပြီးနောက် ၁၉၁၇ ခုနှစ်တွင်အမေရိကန်သမတ ဝုဒရိုးဝီလဆန်၏ အကူအညီကို တောင်းခံရန် အတွက် အမေရိကန်ပြည်ထောင်စုသို့ သွားရောက်ခဲ့လေသည်။ ၁၉၁၈ ခုနှစ်တွင် ဩစတြီးယန်းအင်ပိုင်ယာကြီး ပြိုကွဲသွားပြီးနောက် ချက်ကိုဆလိုဗားကီးယား သမတနိုင်ငံ ထူထောင်သောအခါ တောမတ်အား ပြန်ခေါ်ပြီးလျှင် သမတအဖြစ် ရွေးကောက် တင်မြှောက်ကြလေသည်။ တောမတ်သည် ချက်ကိုဆလိုဗားကီးယားနိုင်ငံ၏ ပဌမဆုံးသောသမတဖြစ်ရုံမက ချက်ကိုဆလိုဗားကီးယား နိုင်ငံ၏ ဖခင်ဟူ၍လည်း ကျော်ကြားခဲ့၏။ (ချက်ကိုဆလိုဗားကီးယား နိုင်ငံ — လည်းရှု။)

တောမတ်မာဆာရစ်သည် အသက် ၈၀ ကျော်အထိ ကျန်းမာသန်စွမ်း၍ မြင်းစီး ကျွမ်းကျင်လှသည်။ သူ၏ သန်မာမှု၊ ကိုယ်လက်ကြံ့ခိုင်မှုကို လူတိုင်းအံ့ဩရ၏။ ဗဟုသုတပြည့်စုံ၍ ဘာသာစုံတတ်ကျွမ်းသော စွယ်စုံပညာရှိ ပုဂ္ဂိုလ်ကြီးလည်း ဖြစ်ပေသည်။ သမတရာထူးသို့ ၁၉၂၀ ပြည့်နှစ်တွင်တကြိမ်၊ ၁၉၂၇ ခုနှစ်တွင်တကြိမ်၊ ၁၉၃၄ ခုနှစ်တွင်တကြိမ် ဆက်လက်ရွေးကောက်တင်မြှောက်ခြင်းခံရသည်။ ၁၉၃၅ ခုနှစ်တွင် သမတရာထူးမှ နုတ်ထွက်သည်။ ၁၉၃၇ ခုနှစ် စက်တင်ဘာလ ၁၄ ရက်နေ့တွင် ကွယ်လွန်လေသည်။

**မာဆေးမြို့။** ။မာဆေးမြို့သည် ပြင်သစ်နိုင်ငံတွင်ပါရစ်မြို့နောက် ဒုတိယလိုက်သော မြို့ကြီးတမြို့ဖြစ်၏။ မြေထဲ ပင်လယ်မှ ကွေ့ဝင်သွားသော လိုင်းယန်းပင်လယ်ကွေ့ပေါ်တွင် တည်ရှိ၍ ရန်းမြစ်ဝ၏ အရှေ့ဖက် ၂၇ မိုင် ကွာဝေးသည်။ မြောက်ဖက် အနည်းငယ်ကွာလှမ်းသောနေရာတွင် မာဆေး-ရုန်းတူးမြောင်းအားဖြင့် ရန်းမြစ်နှင့် ဆက်စပ်လျက်ရှိ၏။မာဆေးမြို့ဆိပ်ကမ်းသည် ပြင်သစ်နိုင်ငံတွင်သာမက မြေထဲပင်လယ်တလျှောက်တွင်ပါ အကောင်းဆုံး ဆိပ်ကမ်းဖြစ်သည်။ သဘာဝအားဖြင့် အသင့်အတင့် ကောင်းမွန်သော ဆိပ်ကမ်းဟောင်းကို ၁၈၅၀ ပြည့်နှစ်က တိုးချဲ့ ပြုပြင်ထားခဲ့သည်။



ရှေးဟောင်းအဆောက်အအုံများဖြင့် တင့်တယ်စွာရှိသည့် မာဆေးမြို့၏ သာယာသောရှုခင်း

မာဆေးဆိပ်ကမ်းတွင် ကမ္ဘာ့အရပ်ရပ်မှ အတ္တလန္တိတ်သမုဒ္ဒရာ၊ ဂျီဗရော်တာရေလက်ကြား၊ ဆူးအက်တူးမြောင်း၊ မြေထဲပင်လယ်တို့ကို ဖြတ်သန်းလာသော သင်္ဘောပေါင်း တနှစ်လျှင် ၄,၅၀၀ မျှ လာရောက် ဆိုက်ကပ်သဖြင့် အလွန်ပင်စည်ကားပေသည်။

မာဆေးမြို့ပုံသဏ္ဌာန်မှာလခြမ်းပုံဖြစ်၍ဆိပ်ကမ်းဟောင်းကို ပတ်၍ တည်ထား၏။ ထိုမြို့ရှိ ရှေးဟောင်း အဆောက်အအုံများအနက် နိုထရာဒမ်ဒလာဂဒ် ဘုရားရှိခိုးကျောင်း၊ စိန့်ဗစ်တာ ဘုရားရှိခိုးကျောင်းနှင့်စန်မာရီဘုရားရှိခိုးကျောင်းကြီးတို့သည် ထင်ရှားသော အဆောက်အအုံများဖြစ်၏။

မာဆေး ဆိပ်ကမ်းသည် ဆိုခဲ့သည့်အတိုင်း ပြင်သစ်နိုင်ငံနှင့် မြေထဲပင်လယ်တွင် အကြီးဆုံးဆိပ်ကမ်း ဖြစ်သည့်အလျောက် ကုန်သွယ်မှု အထူးဖွံ့ဖြိုးကောင်းမွန်၏။ မာဆေးမြို့သည် စက်မှုလက်မှု ကုန်ပစ္စည်းထုတ်လုပ်သော မြို့ဖြစ်၏။ ကုန်ကြမ်း ပစ္စည်း၊ ကျောက်မီးသွေး၊ သံနှင့် ဆပ်ပြာ လုပ်ငန်းအတွက် ဆီတို့ကို တင်သွင်းသည်။ မာဆေးမြို့တွင် ဆပ်ပြာလုပ်ငန်းသည် ကြီးကျယ်၏။ နာမည်ကျော်မာဆေးဆပ်ပြာများကို ပြုလုပ်၏။ မာဆေးမြို့၏ အခြားထွက်ကုန်များမှာ သံနှင့် ကြေးထည်ပစ္စည်းများ၊ စက်ကရိယာများ၊ အုတ်ကြွပ်၊ ဖန်ထည်၊ မီးရထားစက်ခေါင်း၊ မော်တော်ကားများ၊ ဖယောင်းတိုင်၊ မာကရိုနီ၊ သကြား၊ မာတ်ဆီ၊ မီးခြစ် အစရှိသည်တို့ ဖြစ်၏။

မာဆေးမြို့ရှိ လူဦးရေမှာ ၁၉၅၆ ခုနှစ်တွင် ခန့်မှန်းခြေ ၆၆၁,၄၉၂ ယောက်ဖြစ်၏။

မာဆေးမြို့သည် ပြင်သစ်နိုင်ငံ၌ ရှေးဦးတည်သောမြို့များတွင် အပါအဝင် ဖြစ်၏။ မာဆေးမြို့ကို ဘီစီ ၆၀၀ ခန့်က အာရှမိုင်းနားနယ်၊ ဖိုးစီးယမြို့က ဂရိလူမျိုးများက တည်ထောင်ခဲ့၏။ ရှေးအခါက မာဆေးလီယာဟုတွင်၍ ဆိပ်ကမ်းဟောင်းနေရာတွင် တည်ရှိ၏။ မာဆေးလီယာသည် ရှေးကျသော ဆိပ်ကမ်းမြို့ ဖြစ်လျက် ရောင်းဝယ် ဖောက်ကားမှု ဖွံ့ဖြိုးကောင်းမွန်ပြီးလျှင် ဂရိယဉ်ကျေးမှု၏ အချက်အခြာဒေသလည်း ဖြစ်ခဲ့၏။ ရောမနှင့်ကားသေ့ဂ်စစ်ဖြစ်ပွားစဉ်က ရောမဖက်မှ ပါဝင်တိုက်ခိုက်ခဲ့၏။ ဘီစီ ၄၉ ခုနှစ်တွင် မာဆေးလီယာမြို့ကို ဂျူးလယပ်ဆီဇာ သိမ်းပိုက်ခဲ့သည့် အချိန်မှစ၍ ခရစ် ၁၅၇၅ ခုနှစ်တွင် တတိယ ဟင်နရီဘုရင် သိမ်းပိုက်သည့်တိုင်အောင် မကြာခဏပင် တိုင်းတပါးတို့၏ တိုက်ခိုက်ခြင်းကို ခံရလေသည်။ ပြင်သစ် တော်လှန်ရေး ဖြစ်ပွားစဉ်က မာဆေးမြို့တွင် သွေးထွက်သံယို တိုက်ခိုက်ပွဲများ ဖြစ်ပွားခဲ့၏။ ပြင်သစ်အမျိုးသားသီချင်း 'လာ မာဆလေ့'သည် မာဆေးမြို့မှ တော်လှန်ရေးတပ်သားများ စတင်သီဆိုသောကြောင့် ယင်းအမည်ကို ရရှိခဲ့ခြင်းဖြစ်၏။ ဒုတိယကမ္ဘာစစ်အတွင်းက မာဆေးဆိပ်ကမ်းသည် ၂ ကြိမ် ဗုံးကြဲတိုက်ခိုက်ခြင်း ခံခဲ့ရ၏။ ဂျာမန်တို့လက်တွင်း ကျရောက်နေခဲ့စဉ်က ဆိပ်ကမ်းဟောင်းနှင့် အနီးတဝိုက်ရှိ အဆောက်အအုံများ ဖျက်ဆီးခြင်း ခံခဲ့ရသည်။ မာဆေးမြို့မှာမူကား ဗုံးဒဏ် အပြင်းအထန် မခံရပေ။ အမေရိကန်တို့ ဝင်ရောက်သောအခါ မြို့သည် ထပ်မံပျက်စီးပြန်လေသည်။

**မာဇာရင်,ယူး**(ခရစ် ၁၆၀၂ – ၁၆၆၁)။ ။ပြင်သစ်လူမျိုး နိုင်ငံပြုသုခမိန်တဦးဖြစ်၍၊ ၁၇ ရာစုနှစ်က ပြင်သစ်နိုင်ငံတွင် နာမည်ကျော်ခဲ့သူမှာ မာဇာရင်ဖြစ်သည်။ ၁၆၀၂ ခုနှစ် ဇူလိုင်လ ၁၄ ရက်နေ့တွင် ဣတလီပြည် ပစ်ဆီနာမြို့၌ ဖွားမြင်သည်။ ရောမမြို့နှင့် စပိန်နိုင်ငံတို့တွင် ပညာသင်ကြားပြီးနောက်၊ ပုပ်ရဟန်းမင်းကြီး လက်အောက်တွင် အမှုထမ်းရာ ၁၆၃၄ ခုနှစ်တွင်ပြင်သစ်နိုင်ငံသို့ သံတမန်အဖြစ် စေလွှတ်ခြင်းခံရသည်။ ယင်းသို့ သွားရောက်ရာတွင် ထိုအခါက ၁၃ ဆက်မြောက်လူဝီဘုရင်၏နန်းရင်းဝန် ကာဒင်နယ်ရစ်ရှလျူးနှင့် တွေ့ဆုံရင်းနှီးခင်မင်ရသဖြင့် ရစ်ရှလျူး၏ ဆွဲဆောင်ချက်အရ ၁၆၃၂ ခုနှစ်တွင် ပြင်သစ်အမျိုးသားအဖြစ်ကို ခံယူခဲ့လေသည်။ (ရစ်ရှလျူး,ကာဒင်နယ် — ရှု။) ထိုနောက် ၉ နှစ်ကြာသောအခါ ကာဒင်နယ်အဖြစ် ခန့်ထားခြင်းခံခဲ့ရလေသည်။ ၁၆၄၂ ခုနှစ်တွင် ရစ်ရှလျူး ကွယ်လွန်သောအခါ ကာဒင်နယ် မာဇာရင်သည် နန်းရင်းဝန် ဖြစ်လာလေ



ပြင်သစ်နိုင်ငံပြု သုခမိန် ယူး မာဇာရင်

သည်။ နောက်တနှစ်တွင် ၁၃ ဆက်မြောက် လူဝီဘုရင် နတ်ရွာစံလွန်ပြန်ရာ ၁၄ ဆက်မြောက်လူဝီဘုရင်မှာ ငယ်သေးသည်နှင့် သူ၏မယ်တော်က နိုင်ငံတော်ကို ရင်ခွင်ပိုက် အုပ်ချုပ်ရလေသည်။ သို့သော်လည်း အကယ်စင်စစ် ပြင်သစ်နိုင်ငံကို စိုးမိုးအုပ်ချုပ်နေသူမှာ မာဇာရင်သာလျှင် ဖြစ်ပေသည်။ မာဇာရင်သည် ၁၆၁၈ ခုနှစ်မှ ၁၆၄၈ ခုနှစ်အထိ နှစ်များအတွင်း ဖြစ်ပွားခဲ့သော နှစ်သုံးဆယ်စစ်ပွဲကြီးကို ပြီးဆုံးအောင် စီမံစိုင်းပြင်း၍ ပြင်သစ်နိုင်ငံကြီးတခုလုံး၏ ဂုဏ်ကျက်သရေ တိုးမြင့်စေသော စာချုပ်များကို အောင်မြင်စွာ ချုပ်ဆိုခဲ့လေသည်။ (နှစ်သုံးဆယ် စစ်ပွဲ — ရှု။)

မာဇာရင်သည် ဟိတ်ဟန်မာနကြီးသည့်အရာတွင် ရစ်ရှလျူးကို မမှီသော်လည်း၊ အာဏာကို လုံးဝအသုံးပြုလျက် ပြည်သူပြည်သား ဆင်းရဲသားများထံမှ အခွန်အတုတ်ကြီးလေးစွာ ကောက်ခံခြင်းဖြင့် ဖိနှိပ်သည့် အရာတွင်ကား ရစ်ရှလျူးနှင့် အတူတူပင်ဖြစ်သည်။ သို့ဖြစ်ရာ ပြင်သစ်နိုင်ငံသူနိုင်ငံသားတို့က မာဇာရင်အား မလိုလားကြချေ။ သို့ရာတွင် မာဇာရင်သည် ရင်ခွင်ပိုက် အုပ်စိုးသော ဘုရင်မကြီး၏ အကြိုက်ကို လုပ်ပေးခြင်းဖြင့် အာဏာကို လက်ထဲ၌ တည်မြဲအောင် ထားနိုင်ခဲ့လေသည်။ သူ၏ မတရားမှုများသည် သူ့ကို ဆင်းရဲသူ ဆင်းရဲသားများက သာမက အထက်တန်းစား မှူးမတ်သူဌေးသူကြွယ်များကပါ မုန်းတီးစေခဲ့လေသည်။ ဤသို့ဖြင့် ၁၆၄၈ ခုနှစ်တွင် ပြည်တွင်းစစ်ပွဲ ဖြစ်ပွားခဲ့လေသည်။ မာဇာရင်သည် ပြည်တွင်းစစ်ကို အောင်မြင်စွာ နှိမ်နင်းလိုက်ပြီးနောက်၊ လူဝီဘုရင်၏ တန်ခိုးအာဏာကို တိုးတက်သည်ထက် တိုးတက်အောင် ကြိုးစားခဲ့လေသည်။ မာဇာရင်သည် အုပ်ချုပ်မှုအရာတွင် ကျွမ်းကျင်သော်လည်း သူ၏ငွေမက်မှုမှာ ချတ်ယွင်းချက်ကြီးတရပ်ပင် ဖြစ်လေသည်။ မာဇာရင်သည် နန်းရင်းဝန် ရာထူးဖြင့် သဌေး ဖြစ်လာခဲ့သည်။ သူသည် ၁၆၆၁ ခုနှစ် မတ်လ ၉ ရက်နေ့တွင် ကွယ်လွန်လေသည်။

**မာရီအန်တွာနတ်မိဖုရား**(ခရစ် ၁၇၅၅–၁၇၉၃)။ ။မာရီအန်တွာနတ်သည် ပြင်သစ်ပြည် ၁၆ ဆက်မြောက် လူဝီဘုရင်၏ မိဖုရားဖြစ်၏။ ဩစတြီးယန်း ဧကရီဘုရင်မ မရီးယာတရီးဇားနှင့် ဒုတိယဖရန်စစ်ဘုရင်တို့၏ စတုတ္ထသမီးတော်ဖြစ်၍ အသက် ၁၅ နှစ်အရွယ်၌ ပြင်သစ်အိမ်ရှေ့မင်းသားလူဝီ၏ ကြင်ယာတော်ဖြစ်လာလေသည်။ (မရီးယာ တရီးဇား ဘုရင်မ — ရှု။)

မာရီအန်တွာနတ်သည် အပူအပင်မရှိဘဲ ပျော်ပျော်နေတတ်၍ အသုံးအဖြုန်းကြီးသူ ဖြစ်၏။ ပြင်သစ်ထီးနန်းဓလေ့ထုံးစံများကို ဂရုမစိုက်သည့်ပြင် ယင်းတို့ကို ငြီးငွေ့လှသဖြင့် သူ မိဖုရားကြီးဖြစ်လာသည့်အခါ တမျိုးတဖုံ ပြောင်းလဲပစ်



ပြင်သစ်တော်လှန်ရေးအတွင်းက ခေါင်းဖြတ်အသတ်ခံရရှာသည့် မာရီအန်တွာနတ်မိဖုရား

မည်ဟူ၍ပင်ကြံစည်စိတ်ကူးခဲ့လေသည်။၁၇၇၄ ခုနှစ်၌မိဖုရားကြီးဖြစ်လာလေသည်။ ထိုအခါ အသုံးအဖြုန်းကို လျှော့ရန်ကြိုးပမ်းနေခဲ့သော ဝန်ကြီးတားဂိုးနှင့် ဇန်ကြီးနက်ကာတို့ကိုရန်သူပမာ သဘောထားကာဩစတြီးယား၏ အကျိုးစီးပွားကို လိုလားသောလက္ခဏာများ အထင်အရှားပြလာပြီးလျှင် နိုင်ငံရေးတွင် ဝင်၍ ခြေရှုပ်လာသည်နှင့် သူ့ကို လူများက အယုံအကြည် ကင်းမဲ့လာကြလေသည်။ မိဖုရားကြီးသည် ပြင်သစ်နိုင်ငံကို ကောင်းကျိုး အနည်းငယ်မျှ ပေးမည်မဟုတ်သည့် ဩစတြီးယန်း သူလျှိုဖြစ်သည်ဟုလည်း တီးတိုးပြောဆိုကြလေသည်။ သို့ဖြစ်၍ ၁၇၈၉ ခုနှစ်၌ ပြင်သစ်တော်လှန်ရေး မဖြစ်ပွားမီကလေးတွင် ဆင်းရဲသားများကသူတို့ငတ်ပြတ်နေခြင်း၏ အကြောင်းရင်း တခုမှာ မိဖုရားကြီး အန်တွာနတ် အသုံးအဖြုန်းကြီးခြင်းဖြစ်သည်ဟု စွပ်စွဲပြောဆိုကြလေသည်။ (ပြင်သစ် တော်လှန်ရေး — ရှု။)

သူသည် သက်ဦးဆံပိုင်စံနစ်ကို နှစ်သက်သူဖြစ်၍ သမ မျှတသော ဘုရင့်ဂိုဏ်းသားများနှင့်ပင် သဘော ကွဲလွဲခဲ့လေသည်။ ပြောင်းလဲလှုပ်ရှားနေသော နိုင်ငံရေး အခြေအနေကို သူနားမလည်ချေ။ ထိုသို့ အခြေအနေ ပြောင်းလဲလာသဖြင့် သူရင်ဆိုင်ရမည်ဖြစ်သော ဘေးအန္တရာယ်များကိုလည်း သူမသိ မမြင်ချေ။ စိတ်သဘောထား ပျော့ညံ့သော ဘုရင်

မှာ သူကြိုးဆွဲတိုင်း ကနေရလေသည်။ သူသည် ဘုရင်အား အခွင့်အရေးများ မပေးရန် ကြိုးဆွဲခဲ့၏။ သို့ဖြစ်၍ တိုင်းပြည်ကို အုပ်ချုပ်ပုံ ညံ့ဖျင်းသည်ဟု ဘုရင်ကို စွပ်စွဲသည်ထက် သူ့ကိုသာ စွပ်စွဲသင့်လေသည်။ ထိုပြင် အကယ်၍သာ သူသည် မျှတသော သဘောရှိသည့် တော်လှန်ရေး ခေါင်းဆောင်များနှင့် ပူးပေါင်းဆောင်ရွက်ခဲ့လျှင် အခြေအနေမှာ တမျိုးတဖုံ ကောင်းလာဦးမည် ဖြစ်လေသည်။

ခေါင်းဆောင် တဦးဖြစ်သော ကောင့် မီးရာဗိုးသည် အင်္ဂလန် ပြည်တွင်ကဲ့သို့သော စည်းမျဉ်းခံ ဘုရင်အစိုးရ စံနစ်ကို လိုလားသည်ဟု ဆိုလေသည်။ သို့သော် မိဖုရားကြီးကား ခေါင်းမာစွာနှင့် မီးရာဗိုး၏ အုပ်ချုပ်ရေးကို ပြုပြင်ရန် အကြံကို လက်မခံခဲ့ချေ။

၁၇၇၉ ခုနှစ် ဆောင်းရာသီတွင် ဗာဆေးနန်းတော်၌နေထိုင်ခဲ့စဉ်က အငတ်ငတ် အမွတ်မွတ် ဖြစ်နေသော လူအုပ်ကြီး၏ တိုက်ခိုက်ခြင်းကို ခံရပြီးနောက် ပါရစ်မြို့သို့ ပြောင်းရွှေ့နေထိုင်သည်မှ အစပြု၍ မိဖုရားကြီး အန်တွာနတ်မှာ ယခင်ကထက်ပင် ခေါင်းမာလာခဲ့လေသည်။ ထိုကြောင့် တော်လှန်ရေးသမားတို့ကို အနည်းငယ်မျှပင် လျှော့ပေးရန် ငြင်းဆန်ခဲ့၏။ ထိုမျှမကသေး သူ၏မောင်တော် ဩစတြီးယားဘုရင် ဒုတိယဂျိုးဇက်ထံသို့ပင် လူသူလက်နက် အကူအညီပေးရန် တောင်းခဲ့သေးသည်။

၁၇၉၁ ခုနှစ်တွင် ဘုရင်ကို သွေးဆောင်ပြီးနောက် သူတို့မိသားစု ညဥ့်အချိန် ပါရစ်မြို့မှ တိတ်တဆိတ်ထွက်ပြေးခဲ့ရာ၊ ပြင်သစ်နယ်စပ် ဗာရင်းမြို့တွင် ဖမ်းမိသွား၍ သူတို့ကို ပါရစ်မြို့သို့ ပြန်လည်ခေါ်ဆောင်သွားလေသည်။ ထိုသို့ထွက်ပြေးရန် ကြံစည်ခဲ့သဖြင့် အခြေအနေမှာ ပို၍ဆိုးခဲ့လေသည်။

၁၇၉၂ ခုနှစ် ဇွန်လအတွင်းတွင် တကြိမ်၊ ထိုနှစ် ဩဂုတ်လအတွင်းတွင် တကြိမ် ပါရစ်လူထုသည် နန်းတော်ကို လာရောက်တိုက်ခိုက်ခဲ့၏။ ဒုတိယအကြိမ်တွင် ဘုရင်၊ မိဖုရားနှင့် တကွ ဆွေမျိုးတစုကို ဖမ်းဆီးပြီးလျှင် ထောင်သွင်း အကျဉ်းထားခဲ့လေသည်။ ၁၇၉၃ ခုနှစ် ဇန္နဝါရီလ ၂၁ ရက်နေ့တွင် လူဝီဘုရင် ခေါင်းဖြတ် အသတ်ခံရလေသည်။

မာရီအန်တွာနတ်မိဖုရားကြီးမှာ ဩစတြီးယားနှင့်စစ်ဖြစ်စဉ်က ပြင်သစ်တို့၏ အကြံအစည်များကို သစ္စာဖောက်ကာ ရန်သူဖက်သို့ ပေးပို့မှုဖြင့် စွပ်စွဲခံရ၍၊ သာမန်အကျဉ်းသားများထားရှိသော ထောင်အတွင်း ချုပ်ထားခြင်းခံရသည်။

သူ့ကို သစ္စာဖောက်မှုနှင့် တရားစွဲဆို စစ်ဆေးနေခဲ့စဉ် လူအများက ပြက်ရယ်ပြောဆို လှောင်ပြောင် ကျိန်ဆဲကြသည်များကို သဘောထားကြီးကြီးနှင့် သည်းခံကာ အမူအရာမပျက်ဘဲ ရှိနေခဲ့လေသည်။ သူ့ကို အပြစ်ထင်ရှားသည်ဟု သေဒဏ်ပေးလိုက်သောအခါတွင်လည်း တည်ငြိမ်ခန့်ညားသော အမူအရာနှင့် ဣန္ဒြေမပျက် လူသတ်စင်ပေါ်သို့ တက်ရောက်ခဲ့လေသည်။ သို့ဖြင့် ၁၇၉၃ ခုနှစ် အောက်တိုဘာလ ၁၆ ရက်နေ့တွင် တခါက ဥရောပတိုက်တွင် အလှပဆုံးနှင့် အပျော်ရွှင်ဆုံး ဖြစ်ခဲ့သော မိဖုရားသည် လူ့ဘဝကို စွန့်ခွာသွားရလေတော့သည်။

**မာရား၊ ဂျေ၊ ပီ** (ခရစ် ၁၇၄၃ – ၁၇၉၃)။ ။ဇင်ပေါမာရားသည် ပြင်သစ်တော်လှန်ရေးကို လှုံ့ဆော် အားပေးခဲ့၍ အလွန်ရက်စက် ကြမ်းကြုတ်သော ခေါင်းဆောင် တဦးဖြစ်၏။ ဒန်တွန်၊ ရောဗက်စပျဲတို့နှင့်အတူ ခေတ်ဆိုးကြီးဖြစ်ပေါ်ရေးတွင် တာဝန်ရှိသူတဦးလည်း ဖြစ်လေသည်။ (ပြင်သစ်တော်လှန်ရေး။ ဒန်တွန်။ ရောဗက်စပျဲ — လည်းရှု။)

မာရားသည် ဆွစ်ဇာလန်နိုင်ငံ နျူရှားတဲခရိုင် ဗုဒရီမြို့တွင် ခရစ် ၁၇၄၃ ခုနှစ် မေလ ၂၄ ရက်နေ့၌ဖွားမြင်၏။ ပါရစ်မြို့တွင် ဆေးပညာကို သင်ယူခဲ့သည်။ သူသည် ဆရာဝန်ဖြစ်လာသောအခါ ပါရစ်မြို့နှင့် လန်ဒန်မြို့များတွင် ဆေးဝါးကုသနေထိုင်ခဲ့လေသည်။ မာရားသည် လျှပ်စစ်နှင့် မျက်စိဆိုင်ရာ စာပေများကို ပြုစုသည်။ သို့သော် နောက်ပိုင်းတွင် သူ၏ရက်စက်မှုကြမ်းကြုတ်မှုကြောင့် သူရေးသားခဲ့သော စာပေကောင်းများသည် အရာမထင်ဘဲ ရှိခဲ့လေသည်။

ခရစ် ၁၇၇၉ ခုနှစ်တွင် ပြင်သစ်တော်လှန်ရေး စတင်ဖြစ်ပွားခဲ့စဉ်က မာရားသည် မိမိ၏အလုပ်အကိုင်တွင် နာမည်ရ



ပြင်သစ်တော်လှန်ရေး ခေါင်းဆောင် ဂျေ၊ ပီ၊မာရား




မာရားသည် ပြင်သစ်တော်လှန်ရေး ကော်မီတီဝင်အဖြစ် အမှုထမ်းရွက်နေစဉ် ဆန့်ကျင်ဖက်ဂိုဏ်းသားတဦး၏ လက်ချက်ဖြင့် အသက်ဆုံးခံရသည်။

၍ အောင်မြင်နေပြီဖြစ်၏။ သို့သော် ပြင်သစ်တော်လှန်ရေး ဖြစ်ပွားသည်ဆိုလျှင်ပင် အလုပ်ကို ကြိုးစားပမ်းစား လုပ်ကိုင်နေသော ဆရာဝန်အဖြစ်မှ စိတ်အားထက်သန် ပြင်းပြသော တော်လှန်ရေးသမားတဦးဖြစ်လာလေ၏။ တော်လှန်ရေးခေါင်းဆောင်ဒန်တွန်သည် စိတ်အားအထက်သန်အပြင်းပြဆုံးလူများကို စုစည်းခဲ့ရာတွင် မာရားသည်လည်း ပါဝင်ခဲ့ပေ၏။ မာရားသည် 'ပတ်ဗလစ်စစ်တီပါရစ်ဆီယန်' သတင်းစာ၏ စာတည်းဖြစ်လာ၏။ နောင်အခါ ထိုသတင်းစာ၏အမည်ကို ပို၍ လူသိများသော 'လာ အမီ ဒျူ ပီပယ်' အမည်သို့ ပြောင်းလိုက်၍၊ ထိုနောက်တွင် 'ဂျာနယ်ဒီလာရီပတ်ဗလစ် ဖရန်ဆေး' ဟူ၍ပြောင်းလဲခေါ်ဝေါ်ခဲ့ပြန်လေသည်။ ယင်း သတင်းစာသည် ပါရစ်မြို့ရှိ သွေးဆာနေသည့် တော်လှန်ရေးသမား လူအုပ်ကြီးများ၏ အာဘော်ကို ထုတ်ဖော်ပြသရာ ဟတ်တိုင်ပင်ဖြစ်၏။ မာရားသည် ကလောင်ထက်ထက်ဖြင့် ရက်စက်အောင် လှုံ့ဆော်ပေးခဲ့၏။ မာရားသည် ပြင်သစ်နိုင်ငံရှိ အဆိုးရွားဆုံးသော အစိတ်အပိုင်း၏ အားထားရာ ခေါင်းဆောင်တဦး ဖြစ်လာသည်။ သူသည် သူ့အား ဆန့်ကျင်ပြောဆိုသော ပြင်သစ်လူမျိုးဟူသမျှကို သေဒဏ် ပေးရန် တောင်းဆိုခဲ့၍၊ တကြိမ်ကလည်း လူပေါင်း ၂၇၀,၀၀၀ ကို သေဒဏ် ပေးရန် တောင်းဆိုခဲ့လေသည်။

မာရားသည် ၁၇၉၂ ခုနှစ်တွင် ပါရစ်ကွန်မျှန်းအဖွဲ့၏ အဖွဲ့ဝင်တဦး ဖြစ်လာသည်။ သူ အာဏာရလာသည်နှင့်အမျှ သူ၏ ရက်စက်ကြမ်းကြုတ်မှုသည်လည်း တိုးတက်ပြင်းထန်လာခဲ့၏။ ၁၇၉၂ ခုနှစ် စက်တင်ဘာ လူသတ်ပွဲကြီး ဖြစ်ပေါ်လာခဲ့သည်မှာ သူ၌ တာဝန်မကင်းခဲ့ပေ။ တော်လှန်ရေး ခုံရုံးနှင့် တော်လှန်ရေး ခေါင်းဆောင်များအဖွဲ့တို့ကိုလည်း သူ၏ အကြံပေး တိုက်တွန်းချက်အရ ဖွဲ့စည်းခဲ့သည်။ သို့သော် သူ၏ အရေးအသားများသည် ပြင်းထန်သည်ထက် ပြင်းထန်လာရကား အကြည်ညိုပျက်စေမှုဖြင့် ၁၇၉၃ ခုနှစ် ဧပြီလတွင် တော်လှန်ရေး ခုံရုံးတင်ကာ စစ်ဆေးခြင်းခံရသည်။ သို့သော် မာရားကို ခုံရုံးက တရားသေ လွှတ်လိုက်၏။ မာရားသည် ၁၇၉၃ ခုနှစ်ဇူလိုင်လ ၁၃ ရက်နေ့တွင် သူ၏ယုတ်မာရက်စက်မှုများကို သည်းမခံနိုင်အောင် ဖြစ်နေခဲ့သော ပြင်သစ်နိုင်ငံ မြောက်ပိုင်းပြည်နယ်တခုမှ ရှားလော့ကော်ဒေးဆိုသူ အမျိုး

သမီးတဦးက သူ ရေချိုးနေခိုက် ဓားနှင့်ထိုးသတ်ခြင်း ခံရလေသည်။

**မာရှယ်, ဂျော့** (ခရစ် ၁၈၈၀–၁၉၅၉)။ ။အမေရိကန် ဗိုလ်ချုပ်မှူးနှင့် နိုင်ငံပြု သုခမိန်ကြီး ဂျော့ ကက်တလက် မာရှယ်သည် အမေရိကန်တရားဝန်ကြီး ဂျွန်မာရှယ်၏ မြေးတော်စပ်၍ ၁၈၈၀ ပြည့်နှစ် ဒီဇင်ဘာလ ၃၁ ရက်နေ့တွင် ပင်ဆိလဗေးနီးယားပြည်နယ်၊ ယူနီယန်တောင်းမြို့၌ ဖွားမြင်လေသည်။ သူ၏ဖခင်မှာ ပစ္စည်းဥစ္စာကုံလုံပြည့်ဝသော ကုန်သည်တဦးဖြစ်၏။ ဝက်စပွိုင့်စစ်တက္ကသိုလ်သို့ ဝင်ခွင့်မရခဲ့၍ ဗာဂျင်းနီးယားစစ်ကျောင်းသို့ တက်ရောက် သင်ကြားခဲ့ရသည်။ ၁၉၀၁ ခုနှစ်တွင် ဗိုလ်ရာထူးကို ရခဲ့သည်။ ၁၉၀၈ ခုနှစ်တွင် စစ်ဗိုလ်အတတ်သင်ကောလိပ်သို့ တက်ရောက်သင်ကြားခဲ့ရာ ထူးချွန်စွာ အောင်မြင်ခဲ့သဖြင့် ဗိုလ်အဆင့်အတန်းဖြင့်ပင် ဗိုလ်ကြီးများ ဗိုလ်မှူးများ ပါဝင်သော အတန်း၌ နည်းပြဆရာအဖြစ် ခန့်အပ်ခြင်း ခံရလေသည်။

၁၉၁၃ ခုနှစ်တွင် ဖိလစ်ပိုင်ကျွန်းရှိ စစ်တပ်တွင် ဗိုလ် အဆင့်အတန်းဖြင့် အမှုထမ်းခဲ့သည်။ ထိုသို့ အမှုထမ်းခဲ့စဉ်က မာရှယ်သည် စစ်ဦးစီးချုပ်ကြီး၏ ခြီးကျူးခြင်းကို ခံရလောက်အောင်ပင် ထူးချွန်စွာ အမှုထမ်း ခဲ့ပေသည်။ ၁၉၁၇ ခုနှစ်တွင် ဗိုလ်ကြီး အဆင့်အတန်းဖြင့် ပြင်သစ် နိုင်ငံသို့သွားရောက်ကာ အမှတ် ၁ တပ်မတွင် စစ်ဆင်မှုရေးရာ လက်ထောက် ဦးစီးချုပ်အဖြစ် ဆောင်ရွက် ရလေသည်။ တနှစ်အတွင်းမှာပင် ဗိုလ်မှူးကြီး ရာထူးသို့ တိုးမြှင့် ခန့်ထားခြင်းခံရပြီးနောက် အမှတ် ၁ အမေရိကန်တပ်မ၏ စစ်ဆင်ရေးမှူးချုပ်အဖြစ် ရွေးချယ်ခန့်ထားခြင်း ခံရလေသည်။ ထိုသို့ စစ်ဆင်ရေးမှူးချုပ် အဖြစ် တာဝန် ဝတ်တရားများကို ဆောင်ရွက်ရာတွင် မာရှယ်သည် လူ ၅ သိန်းနှင့် အမြောက် ၂,၇၀၀ ပါသောစစ်တပ်ကြီးကို စိန်မီအီယယ်မှ အာဂွန်းစစ်မျက်နှာသို့ ဂျာမန်တို့မသိအောင် ရက်သတ္တ ၂ ပတ်အတွင်း ပြောင်းရွှေ့ နိုင်ခဲ့သောကြောင့် စစ်ဆင်မှုရေးရာတွင် အထူးပင် ကျွမ်းကျင်သူ ဖြစ်သည်ဟု အသိအမှတ်ပြုကြလေသည်။ ဗိုလ်မှူးချုပ်အထိ ရာထူးတိုးတက်ခဲ့သော်လည်း ပဌမကမ္ဘာစစ်ပြီးသောအခါ မာရှယ်မှာ ဗိုလ်ကြီးအဆင့် အတန်းဖြင့် ဗိုလ်ချုပ်မှူး ပါးရှင်း၏ စစ်ဖက်ဆိုင်ရာ ကိုယ်ရံတော်အဖြစ် ဆက်လက်အမှုထမ်းရလေသည်။ ၁၉၂၀ ပြည့်နှစ်တွင် ဗိုလ်မှူးရာထူးကို ရခဲ့သည်။ ၁၉၂၃ ခုနှစ်တွင် ဒု-ဗိုလ်မှူးကြီးဖြစ်လာခဲ့၍ ၁၉၃၃ ခုနှစ်တွင် ဗိုလ်မှူးကြီးဖြစ်လာလေသည်။ ၁၉၃၆ ခုတွင် ဗိုလ်မှူးချုပ် ဖြစ်လာ၍ ၁၉၃၉ ခုနှစ်တွင် ဗိုလ်ချုပ်ကြီး ရာထူးကို တိုးတက်ရရှိခဲ့၏။

ထိုအတောအတွင်း တရုပ်နိုင်ငံတွင် ၃ နှစ်အမှုထမ်းခဲ့၍ စစ်တက္ကသိုလ်တွင် သင်တန်းဆရာအဖြစ် ဆောင်ရွက်ခဲ့၏။




နိုင်ငံခြားရေးဝန်ကြီးများ ညီလာခံတခုတွင် ထိုစဉ်က ဗြိတိသျှ နိုင်ငံခြားရေးဝန်ကြီး အားနက် ဗယ်ဗင်နှင့် စကားလက်ဆုံကျနေသော ဂျော့မာရှယ်(ဝဲ-ဖက်ပုံ)

ယင်းသို့ စစ်ဖက်ရာထူး အမျိုးမျိုးတွင် အမှုထမ်းခဲ့ရာ ၁၉၃၉ ခုနှစ် ဇူလိုင်လတွင် သူ့ထက် အမှုထမ်းသက်ရင့်သူများကို ကျော်လွန်ကာ ယာယီစစ်ဦးစီးချုပ်အဖြစ် ခန့်ထားခြင်းခံရလေသည်။ ဒုတိယကမ္ဘာစစ် စတင်ဖြစ်ပွားသည့်နေ့(၁၉၃၉ ခုနှစ် စက်တင်ဘာလ ၁ ရက်နေ့)တွင် မာရှယ်သည်ဗိုလ်ချုပ်မှူးရာထူးနှင့် စစ်ဦးစီးချုပ်အဖြစ် ခန့်ထားခြင်းခံရပြန်သည်။

ဒုတိယကမ္ဘာစစ် ဖြစ်ပွားစအချိန်က အမေရိကန် စစ်တပ်မှာ လူ ၃ သိန်းခန့်သာ ရှိသေး၍ တိုက်ရန်အဆင်သင့်မဖြစ်သေးချေ။ မာရှယ်သည် ထိုမျှ အင်အားနည်းပါးလှသော စစ်တပ်ကို ခေတ်မှီ စစ်တပ်ကြီးတခုဖြစ်လာအောင် ကြိုးပမ်းခဲ့လေသည်။ ၁၉၄၄ ခုနှစ် အကုန်တွင် အမေရိကန်ပြည်ထောင်စုနိုင်ငံ တပ်မတော်မှာ တပ်သားပေါင်း ၉ သန်းခန့် ပါဝင်၍ ကမ္ဘာပေါ်တွင် အကြီးဆုံးစစ်တပ်ကြီးတခု ဖြစ်လာလေသည်။မာရှယ်သည်ဒုတိယကမ္ဘာစစ်အတွင်း အမေရိကန်တပ်များ ချီတက် စစ်ဆင်ရေးတွင် ကြိုးကိုင်ဖြစ်ခဲ့၏။ အင်အား တောင့်တင်းသောတပ်များကို ဖွဲ့စည်းခဲ့သလို လူတော်လူကောင်း စစ်ဗိုလ်များကို ရွေးချယ်ကာ စစ်မြေပြင်သို့ စေလွှတ်ခဲ့သည်။ သို့ဖြစ်၍ အောင်ပွဲအလီလီ ရရှိခဲ့ပေသည်။ ထိုမျှမကသေး၊ မာရှယ်သည် မဟာမိတ်စစ်ဦးစီးချုပ်မှူးအဖွဲ့တွင်လည်း ခေါင်းဆောင်ကာ စစ်ဆင်မှုရေးရာများကို စီစဉ်ခဲ့လေသည်။ ဂျပန်များ လက်နက် ချပြီးနောက် ၁၉၄၅ ခုနှစ်တွင် စစ်ဦးစီးချုပ်အဖြစ်မှ နုတ်ထွက်၍ တရုပ်နိုင်ငံပြည်တွင်းစစ်ကို ငြိမ်းအေးအောင်ပြုလုပ်ပေးရန် အမေရိကန် သံအမတ်ကြီးအဖြစ် ခန့်ထားစေလွှတ်ခြင်း ခံရလေသည်။သို့သော် တရုပ်နိုင်ငံတွင် သူ၏လုပ်ငန်း မအောင်မြင်ခဲ့ပေ။ ၁၉၄၆ ခုနှစ် မတ်လတွင် ဆိုဗီယက်ရုရှနိုင်ငံသို့ သံအမတ်အဖြစ် စေလွှတ်ခြင်း ခံရလေသည်။ သို့သော် ထိုရာထူးတွင် ကြာရှည် မထမ်းရွက်ခဲ့ရချေ။ ၁၉၄၇ ခု ဇန္နဝါရီလ ၇ ရက်နေ့တွင် အမေရိကန် ပြည်ထောင်စုနိုင်ငံ၏ နိုင်ငံတော်ဝန်ကြီးအဖြစ် ခန့်ထားခြင်း ခံရပြန်လေသည်။

မာရှယ်သည် ၁၉၄၇ ခုနှစ်တွင် မော်စကိုမြို့တော်၌ ကျင်းပခဲ့သော နိုင်ငံခြားရေးဝန်ကြီးများညီလာခံသို့ အမေရိကန်ကိုယ်စားလှယ်အဖြစ် တက်ရောက်ခဲ့လေသည်။ ထိုနှစ်ဇွန်လ ၅ ရက်နေ့တွင် ဟားဗတ်တက္ကသိုလ်၌ ဗိုလ်ချုပ်မှူး မာရှယ်က မိန့်ခွန်းတရပ် ပြောကြားရာတွင် ဥရောပနိုင်ငံများသည် စီးပွားရေး ပြန်လည် ထူထောင်ရေး စီမံကိန်းများကို ပူးပေါင်းရေးဆွဲကြရန်နှင့် ထိုသို့ ပူးပေါင်းရေးဆွဲပြီးသောအခါ အမေရိကန်ပြည်ထောင်စုနိုင်ငံက အစားအစာ၊ထင်းမီး၊ ကုန်ကြမ်းအသုံးအဆောင် ကရိယာ တန်ဆာပလာများ စသည်ဖြင့် ကူညီရန်ပြုလုပ်ထားကြောင်း ဖော်ပြခဲ့ရာ ထိုအစီအစဉ်သည် နောင်တွင် "မာရှယ်စီမံကိန်း" ဟု ထင်ရှားလာသည်။ ယင်းစီမံကိန်းကို ကုလသမဂ္ဂက ထောက်ခံသည့်ပြင်၊ ဂရိတ်ဗြိတိန်၊ ပြင်သစ်၊ နယ်သာလန်၊ ဗဲလဂျီယမ်၊ လပ်ဇင်းဗတ်၊ ဣတလီ၊ အိုက်စလန်၊ ဒိန်းမတ်၊ နော်ဝေး၊ ဂရိ၊ တူရကီ၊ ဩစတြီးယား၊ အယ်ယာ၊ အနောက်ဂျာမနီ၊ ဆွစ်ဇာလန်နှင့် ပေါ်တူဂယ်စသော နိုင်ငံများမှ အစိုးရတို့က ထိုစီမံကိန်းကို ပူးပေါင်းလုပ်ကိုင်ရန် သဘောတူကြောင်း ဖော်ပြခဲ့လေသည်။

၁၉၄၈ ခုနှစ် ကုန်ခါနီးတွင် ဗိုလ်ချုပ်မှူး မာရှယ်သည် ကျောက်ကပ်ရောဂါ စွဲကပ်သဖြင့် ခွဲစိတ်ကုသခြင်း ခံရပြီးနောက် ၁၉၄၉ ခုနှစ် ဇန္နဝါရီလ ၇ ရက်နေ့တွင် ရာထူးမှ နုတ်ထွက်လိုက်တော့သည်။ သူ၏နေရာတွင် ဒင်း အာချီဆန်က ဆက်ခံသည်။ ထိုနှစ်တွင်ပင် အမေရိကန် ကြက်ခြေနီအသင်း၏ ဥက္ကဋ္ဌအဖြစ် တင်မြှောက်ခြင်း ခံရလေသည်။ သို့သော် ကိုရီးယားစစ်ပွဲဖြစ်ပြီးနောက်တွင် ကာကွယ်ရေးဝန်ကြီးအဖြစ် ခန့်ထားခြင်းခံရပြန်၍၊ ၁၉၅၁ ခုနှစ် စက်တင်ဘာလတွင် ထိုရာထူးမှ နုတ်ထွက်ခဲ့လေသည်။ ဂျော့ မာရှယ်သည် ၁၉၅၃ ခုနှစ်တွင် ငြိမ်းချမ်းရေးဆိုင်ရာ နိုဗဲဆုဖြင့် ချီးမြှင့်ခြင်းခံရသည်။ ၁၉၅၉ ခုနှစ် အောက်တိုဘာလ ၁၆ ရက်နေ့တွင် ကွယ်လွန်သည်။

**မာလကာပင်**။ ။ရုက္ခဗေဒ အလိုအားဖြင့် မာလကာပင်ကို ဆစ်ဒီယမ်ဂွာဂျဗား ဟုခေါ်၏။ ထိုအပင်သည် မာတေစီအီးမျိုးရင်းတွင် ပါဝင်သည်။ မြန်မာနိုင်ငံ၌ သဘာဝ အလျောက် ပေါက်သော အပင်မျိုး မဟုတ်ပေ။ မူလပေါက်



မာလကာပင်၏ အသီးနှင့် အရွက်များ

ရာ အရပ်မှာ မြောက်အမေရိကတိုက်ရှိ မက္ကဆီကိုနယ်နှင့် တောင်အမေရိကတိုက်ရှိ ပီးရူးနိုင်ငံတို့ဖြစ်ကြသည်။ မြန်မာနိုင်ငံတွင်းသို့ တဆင့်ယူဆောင် စိုက်ပျိုးသည့် သစ်ပင်ငယ်များဖြစ်သည်။

ရေမဝပ်သည့် သဲဆန်ဆန် ဂဝံမြေမျိုး၌ မာလကာပင်များ ကောင်းစွာ ဖြစ်ထွန်းသည်။ မြန်မာနိုင်ငံတွင် မေမြို့ အနီး ရှမ်းကုန်းပြင်မြင့်နှင့် အခြားအရပ်ရှိ ခြံဥယျာဉ်များ၌ မာလကာပင်များကို စိုက်ပျိုးထားကြသည်။ မာလကာပင်များ ပွားလာအောင် မြေထုပ်စည်းခြင်း၊ အကိုင်းဆက်ခြင်း၊ အကိုင်းမြေမြှုပ်ခြင်း၊ သားတက်ဖြတ်စိုက်ခြင်း စသည့်နည်းအမျိုးမျိုးတို့ဖြင့် စိုက်ပျိုးနိုင်သည်။ သို့သော် မြန်မာနိုင်ငံတွင် အစေ့စိုက်နည်းကိုသာ အသုံးပြုကြသည်။ တပင်နှင့်တပင်ပေ ၂၀ စီခွာ၍ အတန်းလိုက် စိုက်သင့်သည်။ အပင်သက် ၃ နှစ်ခန့်ရှိလာသောအခါ အသီး သီးတော့၏။ အပင်သက်နုစဉ် အချိန်မှစ၍ အကိုင်းအခက်တို့ကို ချိုင်ပေးလျှင် အသီးများ များသီးနိုင်သည်။

အခေါက်သည် ချောမွတ်၍ ညိုဖျော့ဖျော့ အရောင်တွင် အကွက်များ ပေါ်လျက်ရှိသည်။ အချင်း ၁½ လက်မခန့်



မာလကာသီး အမှည့်ကို ထက်ခြမ်းပိုင်းလိုက်သောအခါ၌ အတွင်းသားကို ဤသို့တွေ့မြင်ရသည်။

ရှိသော အပွင့်ဖြူများ ပွင့်ရာ အနံ့အနည်းငယ်မွှေး၏။ မာလကာပင်မျိုး အများအပြား ရှိသော်လည်း စင်စစ် မာလကာဖြူမျိုးနှင့် မာလကာနီမျိုးဟူ၍ နှစ်မျိုးသာ ခွဲခြားထားသည်။ မာလကာဖြူမျိုး အပင်တို့တွင် အပွင့်များ တပွင့်ချင်းပွင့်၍ သစ်သော့သီးပုံ အသီးများသီးသည်။ အနီမျိုး အပင်တို့တွင်ကား တခိုင်တွင် ၂ ပွင့်၊ ၃ ပွင့်စီ အခိုင်လိုက် ပွင့်၍ အသီးမှာ အလုံး၊ သို့မဟုတ် ရှည်ဝိုင်းဝိုင်းရှိကြသည်။ မာလကာသီးအတွင်း၌ မာသောအစေ့ငယ်များ အများအပြားရှိ၏။ အသီးမှည့်လျှင် အသားပျော့လာ၍ အရသာမှာ ချိုယောင်ယောင်ဖြစ်သည်။ အသီးတခုလုံးကို စားရသည်။ အသီးမှည့်ထက် အသီးစိမ်း အပွများကို အချိုပို၍ နှစ်သက်ကြသည်။ အသီးစိမ်းနှင့် အသီးမှည့်များ အပြင် မာလကာယို ပြုလုပ်၍လည်း စားကြသည်။

မာလကာသားသည် ညိုမွဲမွဲအရောင်ရှိ၍ အတော် အသင့် မာသည်။ ယင်းအသားကို သေနတ်ပြောင်းခံအသား ပြုလုပ်ခြင်း၊ ပုံထွင်းခြင်း၊ သင်္ချာအတိုင်းအတာ ကရိယာများ ပြုလုပ်ခြင်းတို့၌ အသုံးပြုကြသည်။

**မာလဗာရာမြို့စား**(ခရစ် ၁၆၅၀–၁၇၂၂)။ ။မာလဗာရာမြို့စားသည် အင်္ဂလန်ပြည်၏ ထင်ရှားသော ဗိုလ်ချုပ်ကြီး တဦးဖြစ်၏။ လက်ရုံးရည်နှင့် ပြည့်ဝသကဲ့သို့ပင် နှလုံးရည်နှင့်လည်း ပြည့်ဝရကား နိုင်ငံရေးပရိယာယ်တွင် ကျွမ်းကျင်လိမ်မာ၏။ မာလဗာရာမြို့စား၏အမည်ရင်းမှာ ဂျွန်ချာချီဖြစ်သည်။ မျက်မှောက်ခေတ်တွင် ထင်ရှား ကျော်စောသော အင်္ဂလိပ် နိုင်ငံပြုသုခမိန် နန်းရင်းဝန်ဟောင်း ဆာဝင်စတန်ချာချီသည် မာလဗာရာမြို့စားမှ ဆင်းသက်ပေါက်ဖွားလာသူဖြစ်သည်။ (ချာချီ၊ဆာဝင်စတန် လင်းနတ် စပင်ဆာ — လည်းရှု။)

ဂျွန် ချာချီသည် ခရစ် ၁၆၅၀ ပြည့်နှစ်တွင် ဒက်ဗွန် ရှိုင်ယာနယ်၌ မွေးဖွားသည်။ သူ၏ဖခင်မှာ ဆာ ဝင်စတန် ချာချီဖြစ်၏။ ဂျွန်ချာချီသည် ၁၆၆၃ ခုနှစ်မှ ၁၆၆၅ ခုနှစ် အထိ စိန်ပေါကျောင်းတွင် ပညာသင်ယူ၏။ ၁၆၆၅ ခုနှစ်တွင် ဒျူ့ဘ်ရ ယော့မြို့စား၏ထံတွင် လက်ပါးစေကလေး တဦးအဖြစ် အမှုထမ်းခဲ့၏။ ၁၆၆၇ ခုနှစ်တွင် စစ်ဖက်သို့ ဝင်ရောက်ကာ အမှုထမ်းရာ၌ တန်ဂျီးယားပြည်တွင် မူးဝါးလူမျိုးတို့နှင့် ပွဲဦးထွက် တိုက်ခိုက်ခဲ့ရ၏။ ထိုနောက် ဒပ်ချတို့နှင့် တိုက်သော စစ်ပွဲတွင်လည်း ပါဝင်ဆင်နွှဲခဲ့ရ၍ ပြင်သစ်စစ်သူကြီး တူရင်းလက်အောက်တွင် အမှုထမ်းခဲ့ရလေသည်။ တူရင်းမှာ ထိုခေတ်အခါက စစ်မှုရေးရာတွင် ပြောင်မြောက်ထင်ရှားသော ပုဂ္ဂိုလ်ကြီးဖြစ်သည်။ ဂျွန်ချာချီသည် ရာထူးအတက် အလွန် မြန်ခဲ့၏။ မတ်စတရစ်မြို့ကို ဝန်းရံလုပ်ကြံရာတွင် သူ၏ ပြုမူ ဆောင်ရွက်ချက်များကို သဘောကျကြသဖြင့် နာမည်ထင်ရှားလာကာ မကြာမီပင် ဒု-ဗိုလ်မှူးကြီး ရာထူးသို့ တိုးမြှင့်ပေးခြင်း ခံရ၏။ ဂျွန်ချာချီသည် ရဲစွမ်းသတ္တိနှင့်ပြည့်စုံသည် မှန်သော်လည်း သူ၏ အစ်မသည် ဒျူ့ဘ်ရ ယော့မြို့စားနှင့်ရင်းနှီးသောကြောင့်လည်း ထိုသို့ ရာထူးတိုးတက်မှု မြန်ဆန်ခြင်း ဖြစ်ကောင်း ဖြစ်ပေမည်။

အင်္ဂလန်ပြည်သို့ ပြန်ရောက်သောအခါ အန်းမင်းသမီး၏ အပျိုတော်ဖြစ်သူဆယ်ရာဂျင်းနင်းနှင့်ထိမ်းမြား၏။ ဆယ်ရာဂျင်းနင်းကို အကြောင်းပြု၍ မင်းသမီး၏ အရေးပေးခြင်းကို ခံရလေသည်။

ယော့မြို့စားသည် ဒုတိယ ဂျိမ်းဘုရင်အဖြစ် အင်္ဂလိပ်ထီး



ဗြိတိသျှသမိုင်းတွင် ထင်ရှားသည့် မာလဗာရာမြို့စားကြီး ဂျွန် ချာချီ

နန်းကို ဆက်ခံသောအခါ ဂျွန်ချာချီတို့ ဇနီးမောင်နှံသည် ပိုမိုကောင်းစားခဲ့လေသည်။ ဂျိမ်းဘုရင် နန်းတက်ပြီးနောက် မကြာမီပင် ပုန်ကန်ထကြွမှု ဖြစ်ပွားရာတွင် ဂျွန်ချာချီသည် သူပုန်ရန်ကို ကိုယ်တိုင်ဦးစီးကာ ချေမှုန်းတိုက်ခိုက် အောင်မြင်ခဲ့လေသည်။

သို့သော် ဒုတိယ ဂျိမ်းဘုရင်သည် တိုင်းပြည် လူထုနှင့် တဖက်တလမ်း ပြုလာသောအခါ လူထုဖက်မှ လိုက်ပါဆောင်ရွက်ခဲ့၍၊ ၁၆၈၈ ခုနှစ်တွင် ဩရိန်းမင်းသား ဝီလျံနှင့် မေရီမင်းသမီးတို့ကို နန်းတင်ရာ၌လည်း ဂျွန်ချာချီသည် ရှေ့တန်းမှ ပါဝင်ခဲ့လေသည်။ ဂျွန်ချာချီသည် နန်းကျဘုရင် ဂျိမ်းလက်ထက်က ခြီးမြှင့်မြှောက်စားခြင်း ခံရသူတဦးဖြစ်ကြောင်းကိုငင်း၊ နန်းကျ ဘုရင် ဂျိမ်းနှင့် အဆက်အသွယ်ရှိနေသေးကြောင်းကိုငင်း ဝီလျံဘုရင်သည် ကောင်းစွာ သိရှိခဲ့၏။ သို့သော် ဂျွန်ချာချီသည် စစ်တပ်တွင်ဩဇာညောင်းသူဖြစ်ရကား၊ အားဘွဲ့ခြီးမြှင့်ကာ မာလဗာရာ မြို့စားအဖြစ် သူကောင်းပြုခဲ့၏။ ထို့ပြင် စပိန်ထီးနန်းဆက်ခံရေးစစ်ပွဲတွင် နယ်သာလန်ရှိ အင်္ဂလိပ် စစ်တပ်များကို ဦးစီးကာ တိုက်ခိုက်စေခဲ့လေသည်။

၁၆၉၂ခုနှစ်တွင် မာလဗာရာ မြို့စားသည် ရာထူးမှ ရုတ်တရက် နုတ်ပယ်ခြင်း ခံရကာ လန်ဒန်မျှော်စင်တွင် သစ္စာဖောက်မှုဖြင့် အကျဉ်းချထားခြင်းခံရ၏။ သို့သော် များမကြာမီပင် အကျဉ်းမှ လွတ်မြောက်လျက် ရှေးကကဲ့သို့ပင် ပြန်လည် ခြီးမြှောက်ခြင်းခံရကာ ကြီးမြင့်သော ရာထူးများတွင် ခန့်ထားခြင်းခံရလေသည်။ ၁၇၀၂ ခုနှစ်၌ အန်းမင်းသမီး ထီးနန်းဆက်ခံရ၏။ မာလဗာရာမြို့စားကတော်သည် အန်းဘုရင်မ၏ အပျိုတော်ဖြစ်ခဲ့ရာ ဘုရင်မအပေါ်တွင် ဩဇာညောင်းလျက်ပင် ရှိသောကြောင့် မာလဗာရာမြို့စားနှင့် မြို့စားကတော်တို့သည် ပိုမို၍ တန်ခိုးကြီးမားလာလေသည်။

အန်းဘုရင်မသည် မာလဗာရာမြို့စားအား လက်နက်ကိုင်တပ်ဟူသမျှ၏ သေနာပတိအဖြစ် ခန့်ထား၏။ မာလဗာရာမြို့စားသည်လည်း ခြီးမြှောက်ထိုက်သော အရည်အချင်းများနှင့် ပြည့်စုံသူဖြစ်လေသည်။ ၁၇၀၂ ခုနှစ်မှ ၁၇၁၃ ခုနှစ်အထိဖြစ်ပွားသော စပိန်ထီးနန်း ဆက်ခံရေးစစ်ပွဲတွင် မာလဗာရာမြို့စားသည် မိမိ၏ မနှိုင်းရှည့်သာအောင်ထူးခြားသော စစ်မှုရေးရာ ကျွမ်းကျင်မှုကို ထုတ်ဖော် ပြသခဲ့လေသည်။ ထိုစစ်ပွဲတွင် ဒပ်ချစစ်တပ်များကို ဦးစီးခဲ့ရ၏။ ပြင်သစ်တို့နှင့် တိုက်ခိုက်ရာတွင် အထူးတလည် အောင်မြင်ခဲ့၏။ ယင်းသို့စွမ်းစွမ်းတမံ၊ အမှုတော်ကိုထမ်းရွက်ခဲ့သည့်အတွက် ဒျူ့ဘွဲ့ဖြင့် ထပ်လောင်း ခြီးမြှင့်သူကောင်းပြုခြင်း ခံရပေသည်။ ယင်းသည့်နောက် ၁၇၀၄ ခုနှစ်၌ ဩစတြီးယန်းမင်းသားကြီး ယူဂျင်းနှင့်တွဲဖက်၍ ဗလင်းနင်းတိုက်ပွဲတွင် ပါဝင်ဆင်နွှဲခဲ့ရာတွင် ပြင်သစ်တို့အား အပြတ်အသတ် အနိုင်ရလိုက်လေသည်။ ထိုတိုက်ပွဲသည် သူ့အား ဥရောပတိုက်တွင် ထိပ်တန်းအကျဆုံးဗိုလ်ကြီးအဖြစ်ထင်ရှားစေခဲ့လေသည်။(ဗလင်းနင်းတိုက်ပွဲ — ရှု။) ထိုမျှမကသေး၊ အင်္ဂလန်ပြည်သူပြည်သားတို့က ဗလင်းနင်းတိုက်ပွဲတွင် အောင်မြင်မှုအတွက် သူ့အား ဂုဏ်ပြုသောအားဖြင့် အောက်စဖို့ရှိုင်ယာနယ်ရှိ ကျယ်ပြန့်လှသော ဝုစတော့ခြံကြီးနှင့်တကွ ထိုခြံကြီးအတွင်း ခမ်းနားကြီးကျယ်သော ဗလင်းနင်းနန်းတော်ကြီးကို ဆောက်လုပ်ကာ လက်ဆောင်အဖြစ် ပေးအပ်ခဲ့ကြလေသည်။ ထိုနောက် ရမ်းမီးယီး(၁၇၀၆)၊ အိုဒနဒ်(၁၇၀၈) နှင့် မာလပလာကေး (၁၇၀၉) တိုက်ပွဲများတွင်လည်း ဆက်ကာဆက်ကာ အောင်မြင်လေသည်။ ယင်းသည့် အောင်ပွဲများကြောင့်ပင် စစ်ပြီး၍ ယူထရက်စစ်ပြေငြိမ်းရေး စာချုပ်ကို ချုပ်ဆိုရာတွင် အခွင့်အရေးများ တပန်းသာအောင် ရခဲ့လေသည်။

သို့သော် မာလဗာရာမြို့စား၏ကံကြမ္မာသည် ညှိုးမှိန်စပြုလာပြီးလျှင် ဩဇာလွှမ်းမိုး တန်ခိုးထွားခဲ့သော ပုဂ္ဂိုလ်ကြီးအဖြစ်မှ လျော့ကျနောက်ဆုံးရှိချေသော ဘဝသို့ ရောက်စေသောအကြောင်းများ ဖန်လာတော့၏။ အန်းဘုရင်မနှင့် အလွှမ်းသင့်လှသဖြင့် ဘုရင်မအပေါ်တွင် ဩဇာလွှမ်းမိုးကာ မာနတံခွန်ထူခဲ့သော မြို့စားကတော်သည် ဘုရင်မနှင့် စိတ်သဘောချင်း မညီညွတ်တော့သဖြင့် မသင့်မတင့်ဖြစ်လာကြ၏။ တစတစနှင့် သည်းမခံနိုင်သည့်အလျောက် ဘုရင်မသည် မြို့စားကတော်အား နန်းတော်မှ နှင်ထုတ်လေ၏။ မာလဗာ

ရာမြို့စားလည်း ရာထူးမှ နုတ်ပယ်ခြင်းခံရ၏။ ထိုမျှမကသေး အစိုးရငွေကို အလွဲသုံးစားပြုလုပ်သည်ဟု မလိုသူတို့က သူ့အား စွပ်စွဲပြောဆိုခြင်းကိုလည်း ခံရလေသည်။

မြို့စားကြီး၏စိတ်နေသဘောထားနှင့်စပ်လျဉ်း၍ အကျိုးအပြစ်ပြကာ ဝေဖန်စရာရှိသော်လည်း၊ သူ၏ စစ်မှုရေးရာ အရည်အချင်းနှင့် စပ်လျဉ်း၍ကား မည်သူမျှ အပြစ်မပြောနိုင်ပေ။ မြို့စားကြီးကား မိမိဖက်သို့ သူတပါးပါလာအောင် ဆွဲဆောင်နိုင်သည့် ဉပမိရုပ်ရှိ၍ နိုင်ငံရေးပရိယာယ်တွင်လည်း ကျွမ်းကျင်လိမ္မာသူ ဖြစ်လေ၏။ မြို့စားကြီး နိမ့်ကျသွားရခြင်းမှာ သူ၏အရည်အချင်း ချွတ်ယွင်းမှုကြောင့်မဟုတ်ဘဲ၊ မောက်မာဝင့်ဝါလှသော မြို့စားကတော်ကြောင့်သာ ဖြစ်လေသည်။ မြို့စားကတော်ကြောင့် ကောင်းကျိုး ခံစားခဲ့ရသလောက် ဆိုးပြစ်ကိုလည်း ခံစားခဲ့ရ၏။

၁၇၁၄ ခုနှစ်တွင် အန်းဘုရင်မ ကွယ်လွန်၍ ပဌမ ဂျော့ဘုရင်နန်းတက်လာသောအခါ မြို့စားကြီးအား စစ်ဗိုလ်ချုပ်ရာထူးကို ပြန်လည် နှင်းအပ်ခဲ့လေသည်။ သို့ရာတွင် မြို့စားကြီးကား ယခင်ကကဲ့သို့ ထိရောက်စွာ ဆောင်ရွက်နိုင်ခြင်း မရှိတော့ချေ။ ၁၇၂၂ ခုနှစ် ဇွန်လ ၁၆ ရက်နေ့တွင် မြို့စားကြီး ကွယ်လွန်လေရာ၊ ဝက်စမင်စတာအက်ဗေးအတွင်း ခမ်းနားစွာ မြှုပ်နှံသင်္ဂြိုဟ်ခဲ့၏။ နောင်အခါတွင်မူ ဗိုလ်ချုပ်ကြီး၏ ရုပ်အလောင်းကို ဗလင်းနင်း နန်းတော် ဘုရားရှိခိုးကျောင်းငင်း အတွင်းသို့ ရွှေ့ပြောင်းမြှုပ်နှံခဲ့လေသည်။

**မာလဗာရီဆိပ်ကမ်း။** ။မြေပြန့်သော ကမ်းခြေတွင် အသုံးပြုနိုင်၍ ရေတက်ရေကျအလိုက် ပေါလောပေါ် နေနိုင်သော ဆိပ်ကမ်းတန်တားအရှင်များကို ပြုလုပ်စီမံရန် ၁၉၄၂ ခုနှစ်တွင် ဗြိတိန်နိုင်ငံစစ်အတွင်း နန်းရင်းဝန် ဝင်စတန်ချာချီ၏အမိန့်အရ ကန်ကရစ်ဖြင့်ပြီးသည့် ရေကာတံတိုင်းများနှင့် ဆိပ်ကမ်း တန်တားအရှင်များကို ဗြိတိသျှတို့ ဦးစီးပြုလုပ်ခဲ့သည်။ ယင်းတို့ကို 'မာလဗာရီ' ဟု လျှို့ဝှက်စွာ ခေါ်တွင်စေသည်။ ဒုတိယကမ္ဘာစစ်အတွင်းက မာလဗာရီဆိပ်ကမ်းများသည် များစွာအရေးပါခဲ့၏။ ယင်းဆိပ်ကမ်းများမှတဆင့် ပြင်သစ်နယ်တွင်းသို့ဝင်ရောက်ကာ၊ အနောက်ဉရောပတိုက်ရှိ တိုင်းပြည်များကို ရန်သူတို့လက်တွင်းမှ ကယ်တင်နိုင်အောင် လမ်းဖွင့်ပေးနိုင်ခဲ့လေသည်။

ဂျာမန်တို့သည် စစ်ဖြစ်စကတည်းကပင် ပြင်သစ်ကမ်းခြေပေါ်သို့ မဟာမိတ်တပ်များ ချဉ်းနင်းဝင်ရောက်မည့် အရေးကို ကာကွယ်ရန် အမျိုးမျိုးစီမံထားခဲ့၏။ မဟာမိတ် စစ်တပ်များ တက်ရောက်မည် ထင်ရသော ဆိပ်ကမ်းဟူသမျှ၌ စစ်တပ်များချထားပြီးလျှင်၊ ခုခံတိုက်ခိုက်ရန် အလွန်လုံခြုံစွာ စီမံထားခဲ့သည်။ ထို့ကြောင့် ပြင်သစ်ဆိပ်ကမ်းမြို့များမှ တဆင့်ဉရောပတိုက်တွင်းသို့ ဝင်ရောက်မည့်အကြံကို မဟာမိတ်တို့ စွန့်လွှတ်ခဲ့ရပြီးနောက်၊ ထိုဆိပ်ကမ်းမြို့များမှ မဟုတ်ဘဲ မြေပြန့်သော ကမ်းပါးများမှတဆင့် တက်ရောက်ရန်ကြံစည်ခဲ့ရလေသည်။ ဤသို့အားဖြင့် မြေပြန့်သုံး ဆိပ်ကမ်းတန်တားရှင်များကို စီမံဆောက်လုပ်စေကာ၊ နော်မန်ဒီ ကမ်းခြေကို ရွေးချယ်၍ ထိုမှတဆင့် ကုန်းပေါ်သို့ တက်ရောက်ခဲ့၏။ မဟာမိတ်တပ်တို့သည် ၁၉၄၄ ခုနှစ် ဇွန်လ ၆ ရက်နေ့တွင် နော်မန်ဒီကမ်းပေါ်သို့ မာလဗာရီ ဆိပ်ကမ်းများအားဖြင့် တက်ရောက်ခဲ့သည်။ နော်မန်ဒီနယ်မှ အစပြု၍ ဝင်ရသဖြင့် ယင်းထိုးစစ်သည် နော်မန်ဒီတိုက်ပွဲဟူ၍ စစ်သမိုင်းတွင်ထင်ရှားပေသည်။ (နော်မန်ဒီ တိုက်ပွဲ — ရှု။)

မာလဗာရီ ဆိပ်ကမ်းများသည် အရေးအတွက်အားဖြင့် ၂ ခုဖြစ်၏။ တခုမှာ အမေရိကန်စစ်မျက်နှာတွင် အသုံးပြုရန်ဖြစ်ရကား 'မာလဗာရီ အေ' ဟု တွင်၍ ကျန်တခုမှာ ဗြိတိသျှစစ်မျက်နှာတွင်အသုံးပြုရန်ဖြစ်ပြီးလျှင် 'မာလဗာရီ ဗီ' ဟုတွင်၏။ တန်တားများဆောက်လုပ်ရာ၌ လျှို့ဝှက်စွာ အချိန်ယူ၍ တင်ကူးကြံစည်ရ၏။ ပြုလုပ်ရမည့် ဆိပ်ကမ်းပမာဏမှာ အင်္ဂလန်ပြည် ဒိုဗာဆိပ်ကမ်းတမျှပင် ရှိသည်။ယင်း အတွက် အစိတ်အပိုင်းများကို တင်းဆိုက်နှင့် စကော့တလန်ပြည် ကမ်းခြေမြို့များအစရှိသော ဝေးလံသည့်အရပ်များတွင် လျှို့ဝှက်စွာ ပြုလုပ်ရ၏။ စုစုပေါင်း တန်ချိန်တသန်းရှိသော အစိတ်အပိုင်းများကို အင်္ဂလိပ်ရေလက်ကြားကြီး၏ တဖက်ကမ်း မိုင် ၁၀၀ကျော် ကွာဝေးသောနေရာသို့ ယူဆောင်၍ ထိုနေရာ၌ ရေထဲတွင် တွဲယူတည်ဆောက်ရသည် ဖြစ်ရကား သေးငယ်သည့် လုပ်ငန်းမဟုတ်ချေ။

ရေကာတံတိုင်း ပြုလုပ်ရပုံမှာ ဤသို့တည်း။ တက်ရောက်မည့် ကမ်းတလျှောက် ပေ ၂၀,၀၀၀ ခန့် ရှည်လျားအောင် သင်္ဘောများကို မြှုပ်၍ အကာအရံဘိတိုင်းများ ပြုလုပ်ယူသည်။ ဤတံတိုင်းကို ၅ ပိုင်းပိုင်း၍ ထားသည်။ အင်္ဂတေဖြင့် ပြုလုပ်သော ကေဆွန်ခေါ် ရေလုံပွန်ခေါင်းကို ရေကာတံတိုင်းတွင် ဆက်ပေးထားသည့်အပြင် ရေကာ တံတိုင်းတပိုင်းနှင့် တပိုင်းကိုလည်း ကေဆွန်ဖြင့် ဆက်ထားသည်။ (ကေဆွန်—လည်းရှု။) ရေကာတံတိုင်း၏ အတွင်းဖက်တွင် ဆိပ်ကမ်းတန်တား၏ တန်တားဦး ရှိသည်။ တန်တားဦးသည် သာမန် တန်တားများတွင်ကဲ့သို့ ရေတွင် ပေါ်နေရန် လိုပေသည်။ ရေသည် အတက်အကျ ရှိသဖြင့် ရေမျက်နှာပြင်၏ ခြားနားမှုသည် ပေ ၂၀ ခန့်ပင်ရှိ၏။ ထို့ကြောင့် တန်တား၏ အခန်းတခန်းလျှင်ပေ ၇၀ စီရှိ၍ ထိုအခန်းများကို အောက်မှ နေ၍ ဘောများဖြင့် ဆောင်ထားသည်။ ဆိပ်ကမ်း အေ တန်တားနှင့် ဗီ တန်တားတို့၏ စုစုပေါင်း အလျားမှာ ၇ မိုင်ခန့်ရှည်သည်။ မာလဗာရီ ဗီတွင် တန်တားဦးမှ ကမ်းအထိ ၆ ဖာလုံမျှ ရှည်၏။

တန်တားဦးများမှာ အလျားပေ ၂၀၀၊ အနံ ပေ ၆၀ ရှိ

သည်။ ဤတန်တားဦးများကို သံမဏိတိုင် ၄ ချောင်းဖြင့် ထိန်းပေးထားသော ဘောဖြင့်ခံထား၍ သံမဏိတိုင်များကို တဖန် ပင်လယ်အောက်မြေပေါ်တွင် စိုက်ထားသဖြင့် တန်တားဦးသည် ရေအတက်အကျအလိုက် အထက်အောက် တက်နိုင်သက်နိုင်သည်။ တန်တားအခန်းများကို ဘေးတိုက် ဆက်ထားသဖြင့်လည်း လေတိုက်သည့်အခါ အထက်မှသွားလာနေသော ယာဉ်ရထားများကို မည်သို့မျှအနှောင့်အရှက် မဖြစ်စေနိုင်ချေ။

ရေတံတိုင်းအဖြစ်ဖြင့် အသုံးပြုရန် ဖြစ်သော သင်္ဘောများသည် တိုက်ခိုက်ရန် အင်အားစုနောက်မှ လိုက်သွားပြီးလျှင် ၁၉၄၄ ခုနှစ် ဇွန်လ ၆ ရက် လွန်မြောက်သည့်နောက် ၅ ရက်အတွင်းတွင် ယင်းတို့ကို ယမ်းဘီလူးများဖြင့် ဖောက်ခွဲနှစ်မြုပ်ပစ်သည်။ ထိုနောက် ကေဆွန်ရေကာတံတိုင်းနှင့် ဆိပ်ကမ်းတန်တားများကို တပ်ဆင်ခဲ့ကြသည်။ ဇွန်လ ၁၈ ရက်နေ့တွင် အဆောက်အအုံတခုလုံးမှာ အသုံးပြုရန် အဆင်သင့်ဖြစ်နေသည်။ ထိုအချိန်တွင် ၃ ရက်တိုင်တိုင် လေမုန်တိုင်း တိုက်ခိုက်လိုက်သဖြင့် မာလဗာရီ အေ သည် အကြီးအကျယ် ပျက်စီးသွားသည်။ သို့သော် အမေရိကန်တပ်များသည် ဇွန်လ ၃၀ ရက်နေ့တွင် ချားဗုဆိပ်ကမ်းမြို့ကို တိုက်ခိုက်သိမ်းပိုက်မိသဖြင့် သူတို့ စီမံပြုလုပ်ခဲ့သည့် မာလဗာရီအေကို အသုံးပြုရန် မလိုဘဲ စွန့်ပစ်နိုင်ခဲ့လေသည်။ ဤလေမုန်တိုင်းအပြင် နောက်တကြိမ် လေမုန်တိုင်း ကျရောက်သဖြင့် မာလဗာရီတန်တားများတွဲယူရန်ကိစ္စကိုရက်ရွှေ့ဆိုင်းခဲ့ရသည်။ သို့သော် ဇူလိုင်လလယ်တွင် ထိုဆိပ်ကမ်းကို စတင် အသုံးပြုနိုင်ခဲ့ကြလေသည်။ ဤဆိပ်ကမ်းကို အသုံးပြု၍ ဇွန်လ ၆ ရက်မှ ရက်ပေါင်း တရာအတွင်းတွင် လူပေါင်း ၂,၂၀၀,၀၀၀ နှင့်တကွစစ်ပစ္စည်းတန်ချိန်၄,၀၀၀,၀၀၀ နှင့်ယာဉ်ရထား၅၀၀,၀၀၀ မျှ နော်မန်ဒီကမ်းခြေပေါ်သို့တက်ရောက်နိုင်ခဲ့လေသည်။

**မာလီနော့စကီး၊ အာ.ဝိုင်** (ခရစ် ၁၈၉၈ ဖွား)။ ။ဒုတိယကမ္ဘာစစ်အတွင်းက ထင်ရှားခဲ့သော ဆိုဗီယက်စစ်သူကြီး ရိုဒီယွန် ယာကော့လီဗစ် မာလီနော့စကီးသည် အိုဒက်ဆာ နယ်တွင် ခရစ် ၁၈၉၈ ခုနှစ်က မွေးဖွားသည်။ ပဌမ ကမ္ဘာစစ်အတွင်းက ပြင်သစ် စစ်မျက်နှာ၌ ပါဝင် တိုက်ခိုက်ခဲ့သော ရုရှတပ်မဟာတွင် အမှုထမ်းခဲ့သည်။ ရုရှနိုင်ငံ၌ ပြည်တွင်းစစ် ဖြစ်ခဲ့စဉ်က တပ်နီတော်တွင် ဝင်ရောက်အမှုထမ်းခဲ့ရာ စစ်ဗိုလ်အဆင့်အတန်းသို့ တိုးတက်ခန့်ထားခြင်း ခံရလေသည်။ ထိုနောက် ၁၉၃၀ ပြည့်နှစ်တွင် စစ်တက္ကသိုလ်သို့ တက်ရောက်၍ စစ်အတတ် သင်ကြားခဲ့ရ၏။ ဒုတိယကမ္ဘာစစ်ကြီးအတွင်းက ဆိုဗီယက်ရုရှကို ဂျာမန်တို့ စတင် တိုက်



ဒုတိယ ကမ္ဘာစစ်အတွင်းက ပြင်သစ်ကမ်းခြေသို့ မဟာမိတ်တပ်များ တက်ရောက် တိုက်ခိုက်ရာတွင် အထူး အသုံးဝင်ခဲ့သော မာလဗာ ဆိပ်ကမ်းတစိတ်တဒေသကို ဤသို့ရှုမြင်ရသည်။



ရုရှားကာကွယ်ရေးဝန်ကြီး မာလီနော့စကီး

ခိုက်သောအချိန်တွင် မာလီနော့စကီးမှာ ဗက်ဆာရေးဗီးယားနယ်ရှိ တပ်ဖွဲ့များကို ကွပ်ကဲရသော ဗိုလ်ချုပ်အဖြစ် ဆောင်ရွက်နေရလေသည်။ သူ၏တပ်များသည် နာဇီတို့ တရှိန်ထိုး ချီတက်လာခဲ့သည်ကို နှောင့်နှေးအောင် ပြုလုပ်နိုင်ခဲ့လေသည်။ ထိုပြင် ယူကရိန်းနယ်တွင် ဂျာမန်တို့ ဝိုင်းဝန်းထားစဉ်က လွတ်မြောက်အောင် ချိုးဖောက်ထွက်နိုင်ခဲ့၏။ ထိုနောက်တွင် ဆိုက်ဗီးရီးယန်း တပ်များကို ဦးစီးကာ ဂျာမန်တို့လက်တွင်းသို့ စတာလင်ဂရက်မြို့ မကျစေရန် ကူညီတိုက်ခိုက်ပေးခဲ့ရာ အောင်ပွဲရခဲ့သည်။ ၁၉၄၃ ခုနှစ်တွင် ရော့စတော့မြို့ကို သိမ်းယူခဲ့သည်။ ထိုနှစ်တွင်ပင် ဗိုလ်ချုပ်မှူးအဆင့်အတန်းသို့ တိုးမြှင့်ခန့်ထားခြင်းခံရ၍ တတိယ ယူကရိန်းစစ်တပ်ကို အုပ်ချုပ်ကာ ရူမေးနီးယား၊ ဟန်ဂေရီနှင့်ချက်ကိုဆလိုဗားကီးယား နိုင်ငံများအတွင်းသို့ ချီတက်တိုက်ခိုက်ခဲ့ရာ အောင်ပွဲများ ခံရသဖြင့် စစ်သူကြီးအဆင့်အတန်းသို့ တိုးမြှင့်ခန့်ထားခြင်း ခံရလေသည်။ ၁၉၄၅ ခုနှစ် ဩဂုတ်လတွင် မန်ချူးရီးယားပြည်ရှိ ရုရှစစ်တပ်တတပ်ကို အုပ်ချုပ်ခဲ့ရသည်။

ဒုတိယကမ္ဘာစစ်ကြီး ပြီးသောအခါတွင် အရှေ့ဖျားရှိ ရုရှစစ်တပ်များ၏ စစ်သေနာပတိဖြစ်လာလေသည်။ ၁၉၅၇ ခုနှစ်တွင် ကာကွယ်ရေးဝန်ကြီးအဖြစ် ခန့်အပ်ခြင်းခံရသည်။

**မာလဲ၊ရှင်။** ။မလယထေရ် — ရှု။

**မား။** ။အင်္ဂါဂြိုဟ် — ရှု။

**မားကပ် ဩရီးလီယပ် အန်တိုနိုင်းနပ်** (ခရစ် ၁၂၀–၁၈၀)။ ။မားကပ်ဩရီးလီယပ် အန်တိုနိုင်းနပ်သည် "ရောမ ကေရာဇ် ဘုရင်ကောင်း ငါးပါး" တွင် တပါး အပါအဝင်ဖြစ်သည်။ ရောမနိုင်ငံတော်ကို ခရစ် ၁၆၁ မှ ၁၈၀ ပြည့်နှစ်အထိအုပ်စိုး၏။

ရှေးရောမ ကေရာဇ်မင်းတို့သည် မိမိတို့တွင် သားတော် သမီးတော် မထွန်းကားခဲ့သော် ဆွေတော် မျိုးတော်ထဲမှ တဦးဦးကို မွေးစားလေ့ရှိကြ၏။ သို့အားဖြင့် အန်တိုနိုင်းနပ်ပိုင်းယပ်ဘုရင် (ခရစ် ၈၆–၁၆၁) သည် တူတော်သူ မားကပ်ဩရီးလီယပ်ကို သားအဖြစ် မွေးစားခဲ့လေရာ အန်တိုနိုင်းနပ်ပိုင်းယပ် လွန်သည်တွင် မားကပ် ဩရီးလီယပ်သည် ကေရာဇ်အဖြစ် ဆက်ခံခဲ့၏။ မားကပ်ဩရီးလီယပ်ကို မွေးစားသည့်အချိန်မှာပင် အန်တိုနိုင်းနပ် ပိုင်းယပ်သည် လူစီးယပ်ဗီးရပ်အားလည်း မွေးစားခဲ့၏။ မားကပ်ဩရီးလီယပ်သည် ကေရာဇ်အဖြစ်ခံယူသောအခါ ညီတော်သူ လူစီးယပ်ဗီးရပ်အား မိမိနှင့်အတူ ရောမနိုင်ငံတော်ကို တွဲဖက်အုပ်စိုးစေခဲ့သည်။ လူစီးယပ်သည် ၁၆၉ ခုနှစ်တွင် ကွယ်လွန်သဖြင့် ထိုအချိန်မှစ၍ မားကပ် ဩရီးလီယပ်သည် ရောမနိုင်ငံကို တဦးတည်းအုပ်စိုးခဲ့လေသည်။

မားကပ်ဩရီးလီယပ် နန်းတက်သည့် အချိန်မှစ၍ နိုင်ငံတော် မငြိမ်မသက် ရှိခဲ့သည်။ ဖြစ်ပေါ်လာသမျှသော ရန်အပေါင်းကိုလည်း နှိမ်နင်းရလေသည်။ ၁၆၁ ခုနှစ်တွင် ပါသီယာပြည်နှင့် ဖြစ်ပွားခဲ့သောစစ်ပွဲသည် ၁၆၅ ခုနှစ်တွင်မှ ပြီးငြိမ်း၏။ ယင်းစစ်ပွဲ ပြီးသည့်နောက်တွင် ဂျာမန် လူရိုင်းတို့သည် ရောမနိုင်ငံတော်ကို ထိပါးတိုက်ခိုက်လာ၏။ ထိုအချိန်တွင် လူစီးယပ်ဗီးရပ်လည်း မရှိတော့ပြီ ဖြစ်ရကား စစ်တပ်များကို ဦးစီး တိုက်ခိုက်ရန် အရေးမှာ ဩရီးလီယပ်၏ တာဝန်သာ ဖြစ်နေခဲ့လေသည်။ ဩရီးလီယပ်သည် မာကိုမန်နီနှင့် အခြား ဂျာမန်လူရိုင်းတို့ကို တိုက်ခိုက်အောင်မြင်၏။

ထိုအတောအတွင်း ဆီးရီးယားနယ်မှ ဘုရင်ခံဖြစ်သူ အဗစ်ဒီယပ် ကက်ဆီယပ်သည် သစ္စာဖောက်၍ တော်လှန် ပုန်ကန်ခဲ့၏။ ဩရီးလီယပ်သည် ဂျာမန် လူရိုင်းတို့၏ရန် အေးငြိမ်းစအချိန်မှာပင် ဆီးရီးယားသို့ လှည့်ရပြန်၏။ သို့သော် ဩရီးလီယပ် အာရှတိုက်သို့ မရောက်မီပင် အဗစ်ဒီယပ် ကက်ဆီယပ်သည် သူ၏ နောက်လိုက်ငယ်သားတဦး၏ လက်ချက်ကြောင့် သေဆုံးသွားသဖြင့် သူပုန်ရန်လည်း အေးငြိမ်းသွား၏။ ဩရီးလီယပ်သည် အီဂျစ်နှင့် ဂရိနိုင်ငံတို့သို့ သွားရောက်ခဲ့ပြီးနောက် ရောမနိုင်ငံတော်သို့ ပြန်လည်ရောက်ရှိခဲ့၏။ များမကြာမီပင် မာကိုမန်နီတို့သည် နိုင်ငံတော်ကို တဖန် ထိပါးတိုက်ခိုက် လာပြန်သည့်အတွက် ဩရီးလီယပ်သည် စစ်မြေပြင်သို့ ဆင်းရပြန်၏။ ယင်းတို့ကို သုံးလေးကြိမ် နှိမ်နင်းအောင်မြင်ခဲ့သော်လည်း ယင်းတို့၏ ရန်မီးကား လုံးဝအေး

ငြိမ်းသွားခြင်း မရှိခဲ့ပေ။ ဩရီးလီယပ်သည် ယင်းတို့နှင့် စစ်ပွဲများ တိုက်ခိုက်နေဆဲမှာပင် ခရစ် ၁၈၀ ပြည့်နှစ်တွင် ကွယ်လွန်လေသည်။

မားကပ် ဩရီးလီယပ်သည် အလွန် သိမ်မွေ့နူးညံ့၍ ကိုယ်ကျင့်တရားနှင့် ပြည့်စုံသော ဧကရာဇ်ဘုရင်တပါးဖြစ်၏။ ရောမနိုင်ငံတွင် ထိုစဉ်က အကောင်းဆုံးဖြစ်သော ပညာရေးကိုလည်း သင်ကြားခဲ့ရသူ၊ ပညာရှိ ကဝိဟူသမျှတို့နှင့်လည်း ရင်းနှီး သိကျွမ်းခဲ့သောသူ ဖြစ်၏။ မိမိ သိမြင်မှတ်ကြားရသည့်အတိုင်းပင် ကျင့်သုံးသောကြောင့် မှည့်တပေါက် မစွန်းသောသူ၏။ သတ္တိရှိရန်၊ မိမိကိုယ်ကို ထိန်းသိမ်းရန်၊ ခြိုးခြံရန်နှင့် တရားမျှတရန်တို့ကို သင်ကြားသော စတိုးဝစ်ယထာဘူတ သဘောတရားတို့ကို ၁၂ နှစ်သားအရွယ်က စတင်သင်ယူကာ တသက်ပတ်လုံးလည်းလိုက်နာကျင့်သုံးခဲ့၏။ နိုင်ငံတော်ကို အုပ်ချုပ်ရာ၌လည်း တိုင်းနိုင်ငံကောင်းစားရေးကို ရှေးရှု၍ ဂလက်ဒီယေးတားခေါ် လူသတ်ကစားပွဲများကို ကန့်သတ်ပေးပြီးလျှင် ငွေဝယ်ကျွန်များ၊ အမွေဆက်ခံသူများ၊ အမျိုးသမီးများနှင့် ကလေးသူငယ်များအတွက် အကျိုးရှိစေမည့် ဥပဒေများကို ပြဋ္ဌာန်းခဲ့၏။ သို့ရာတွင် သူ၏လက်ထက်၌ ခရစ်ယန်တို့ ညှဉ်းပန်းနှိပ်စက်ခြင်းခံရ၏။ ရောမနိုင်ငံတော် ပျက်သုန်းသွားမည်စိုးရိမ်သောကြောင့် ဤသို့ ပြုလုပ်ခဲ့ခြင်းဖြစ်လေသည်။



ရောမဘုရင်ကောင်း ငါးပါးတွင် တပါးအပါအဝင်ဖြစ်သည့် မားကပ် ဩရီးလီယပ် အန်တိုနိုင်းနပ်ဘုရင်

မားကပ်ဩရီးလီယပ်သည် တိုင်းပြည်အုပ်ချုပ်၍ ရန်စွယ်အပေါင်းကို နှိမ်နင်းနေရသည့် ကြားကပင် အားလပ်သော အချိန်ကလေးများတွင် သူလိုက်နာကျင့်သုံးမည့် စည်းမျဉ်းများကို ဂရိဘာသာဖြင့် ချမှတ်ရေးဆွဲ၏။ 'မက်ဒီတေးရှင်း' ခေါ် နီတိကျမ်းသည် ဤသို့အားဖြင့်ဖြစ်ပေါ်လာ၏။ ယနေ့တိုင် ထိုကျမ်းသည် ကျမ်းကောင်းတစောင်အဖြစ် ထင်ရှားလေသည်။

**မားဒေါ့ ဝီလျံ** ( ခရစ် ၁၇၅၄ – ၁၈၃၉ )။ ။ဗြိတိသျှကျွန်းစုတွင် စက်မှုတီထွင်မှုများ ပေါ်ပေါက်လျက်ရှိသော အချိန်၌ ဗူလတန်နှင့် ဝပ်ကုမ္ပဏီသည် နာမည်ကြီးလှသည်။ ဗူလတန်နှင့် ဂျိမ်းဝပ်တို့သည်လည်း အသစ်တီထွင်သူများဖြစ်ကြ၏။ သူတို့၏ စက်မှုကုမ္ပဏီကြီး တိုးတက်ကြီးပွားလာရခြင်း၊ တီထွင်မှုများစွာတို့ကို အောင်မြင်စွာ ထုတ်လုပ်နိုင်ခြင်းတို့အတွက် ဗူလတန်နှင့် ဂျိမ်းဝပ်တို့၏ လုံ့လဝီရိယထက် ဝီလျံ မားဒေါ့၏ ထွင်နိုင်သော ဉာဏ်ရည်ကို ပို၍ ချီးကျူးသင့်လေသည်။

ဝီလျံ မားဒေါ့ကား စကော့တလန်ပြည် အဲရှိုင်ယာနယ် အော့ကင်လက်မြို့အနီး၌ ၁၇၅၄ ခုနှစ် ဩဂုတ်လ ၂၁ ရက်နေ့တွင် ဖွားမြင်သူဖြစ်သည်။ ငယ်ရွယ်စဉ်အခါမှစ၍ လက်မှုပညာတွင် စိတ်ကူးဉာဏ် ထက်သန်သူဖြစ်သည်။ သူ၏ဖခင်မှာ လယ်သမားတဦး ဖြစ်ရကား မားဒေါ့သည် ငယ်စဉ်ကပင် သူ့ဖခင်၏သိုးများနွားများကို ထိန်းကျောင်းယင်း မြေလွှာများကို တူးယက်ကာ ကျောက်မီးသွေးရှိသော မြေလွှာတွေ့သည်နှင့်တပိုင်နက် မီးမွှေး၍ ဓာတ်ငွေ့ကို စမ်းကြည့်လေ့ရှိ၏။ ချောင်းငယ် မြောင်းငယ်များကို ဖြတ်ကူးယင်းလည်း တန်တား နင်းကြမ်းများ လုပ်ထားခဲ့လေ့ရှိသည်။ တခါတရံမူ သစ်သားဖြင့် မြင်းရုပ်လုပ်၍ ရေနွေးငွေ့အားပေးကာ ၂ မိုင် ခရီးလောက်ကို ထိုအရုပ်မြင်းဆွဲသော ရေနွေးငွေ့အားနှင့် သွားသည့်လှည်းဖြင့် သွားလေ့ရှိလေသည်။ အရွယ်ရောက်လာသောအခါ လျော်ကန်မည့်အလုပ်ကိုလုပ်ရန် ဗာမင်ဂမ်မြို့သို့လာခဲ့၏။ထိုအခါက ဗာမင်ဂမ်မြို့ရှိ ဗူလတန်နှင့် ဝပ်ကုမ္ပဏီမှာ ကြီးပွား ထွန်းကားလျက်ရှိလေသည်။ မားဒေါ့သည် ဗူလတန်နှင့် ဝပ်ကုမ္ပဏီတွင် ဝင်ရောက်လုပ်ကိုင်ပြီးနောက် ၂ နှစ်ခန့်အကြာတွင် ကွန်းဝေါဒေသရှိ သတ္တုတွင်းများမှ ရေစုတ်စက်များကို တပ်ဆင်ရာ၌ ကြီးကြပ်၍လုပ်ကိုင်ရန် ခန့်အပ်ခြင်းခံရလေသည်။ မားဒေါ့သည် ကျောက်မီးသွေးဓာတ်ငွေ့ဖြင့် မီးထွန်းခြင်းကို စတင်တီထွင်

ကာ ၁၇၉၂ ခုနှစ်တွင် သူ၏အိမ်၌စတင်ထွန်းကြည့်ရာ အောင်မြင်သဖြင့် လူတို့၏ ချီးကျူးခြင်းကို ခံရသည်။ ရုံးများ၊ စက်ရုံများ၌ပင် ကျောက်မီးသွေးဓာတ်ငွေ့ဖြင့် မီးထွန်းကြလေသည်။

မားဒေါ့ကား ကျောက်မီးသွေး ဓာတ်ငွေ့နှင့် မီးထွန်းနည်းကိုသာမဟုတ်၊ ရေနွေးငွေ့နှင့်ခုတ်မောင်းသော စက်ခေါင်းကို ပိုမိုကောင်းမွန်တိုးတက်အောင် တီထွင်ပြုပြင်သူလည်းဖြစ်လေသည်။ စက်၏ဆွဲအားများကို မြင်းကောင်ရေအားဖြင့် နှိုင်းရှည့်ခေါ်ဝေါ်၍ရအောင် တွက်နည်းများကိုလည်း ရှာဖွေခဲ့သူဖြစ်၏။ ရေနွေးငွေ့ဖြင့်ပစ်ရသော သေနတ်ကိုလည်း မားဒေါ့ပင် တီထွင်လုပ်ကိုင်လေသည်။ ဓာတ်ငွေ့နှင့် ရေနွေးငွေ့တို့ဖြင့် ပြုလုပ်ရသော တီထွင်မှု မြောက်မြားစွာကိုလည်း ပြုလုပ်၏။ မားဒေါ့သည် အလုပ်လုပ်ရာ၌ ကြေးငွေရမှုထက် အောင်မြင်မှုကိုသာ ပဓာနထားသည်။ မားဒေါ့ကား ဗြိတိသျှစက်မှုလက်မှုလောကတွင် ဥာဏ်ဝီရိယ အရှိဆုံးနှင့် အထူးချွန်ဆုံး စက်မှုပညာကျော်ကြီးဖြစ်၏။ ၁၈၃၉ ခုနှစ် နိုဝင်ဘာလ ၁၅ ရက်နေ့တွင် ကွယ်လွန်လေသည်။

**မိကျောင်း။** ။မိကျောင်းသည် မျက်မှောက်ခေတ်အထိ သက်ရှိ အကြီးဆုံး တွားသွားကောင်များထဲတွင် အပါအဝင်ဖြစ်သည်။ ရက်စက်ကြမ်းကြုတ်၍ စက်ဆုပ် ရွံရှာဖွယ်ကောင်းသောသတ္တဝါလည်းဖြစ်သည်။ ကမ္ဘာအရပ်ရပ် အပူပိုင်းဒေသများရှိ မြစ်၊ ချောင်း၊ အင်း၊ အိုင်နှင့် ညွန်ပျောင်းပေါသော ကမ်းရိုးတလျှောက်တွင်နေထိုင်သည်။အသားစားသတ္တဝါကြီးများ ဖြစ်သည်အားလျော်စွာ လူနှင့် တိရစ္ဆာန်များကို ရန်မူတတ်သည်။

မိကျောင်းတွင် မိကျောင်း ခေါင်းရှည်နှင့် မိကျောင်းခေါင်းတိုဟူ၍ နှစ်မျိုးရှိသည်။ မိကျောင်းခေါင်းရှည်သည် ပါဏဗေဒအလိုအားဖြင့် ကရော့ကိုဒီလီယာမျိုးစဉ်တွင် ကရော့ကိုဒီလီဒီမျိုးရင်း၌ပါဝင်၍ ကရော့ကိုဒီလပ် နိုလိုတီကပ်ဟုခေါ်သည်။ ရှည်သောဦးခေါင်းနှင့် ချွန်သော နှာတံရှိသောကြောင့် ယင်းကို မိကျောင်းခေါင်းရှည်ဟု မိကျောင်းခေါင်းတိုမှ ခွဲခြား၍ခေါ်ရသည်။ မိကျောင်းခေါင်းရှည်နှင့် မိကျောင်းခေါင်းတိုသည် အလွန်တူကြသဖြင့် မကြာခဏမှားတတ်ကြသည်။ သို့သော် အသေအချာကြည့်လျှင် ကွဲပြားခြားနားချက်များ ရှိသည်ကိုတွေ့ရသည်။ မိကျောင်းခေါင်းတို၏ဦးခေါင်းသည် ကျယ်ပြန့်လျက် တို၍ဝိုင်းသော နှာတံရှိသောကြောင့် မိကျောင်းခေါင်းတိုဟု ခေါ်သည်။ မိကျောင်းခေါင်းရှည်၏ စတုတ္ထအောက်သွားသည် အခြားသွားများထက် ရှည်ထွက်လျက်ရှိရာ ပါးစပ်ပိတ်လိုက်သည့်အခါ အထက်မေးရိုး အပြင်ဖက်သို့ ထွက်လာပြီးသော် မြောင်းကလေးအတိုင်း အံကျရှိနေလေသည်။ မိကျောင်း



တွားသွားကောင်တို့တွင် ရေ၌ အထူးကျင်လျင်၍ အသားစားသတ္တဝါဖြစ်သော မိကျောင်း

ခေါင်းတို၏ စတုတ္ထအောက်သွားသည်လည်း အခြားသွားများထက်ရှည်၏။ သို့သော် ပါးစပ်ပိတ်လိုက်သည့်အခါ အထက်မေးရိုးရှိ တွင်းကလေးထဲသို့ အံကျဝင်နေလေသည်။

မိကျောင်းခေါင်းရှည်၏ နှာခေါင်းနှင့် မျက်လုံးများသည် မျက်နှာပေါ်တွင် မို့တက်လျက်ရှိသည်။ ယင်းတို့သည် တခါတရံရေပေါ်၌ နှာခေါင်းနှင့်မျက်လုံးများကိုသာဖော်၍ နေတတ်ရာ ရှည်လျားသောသစ်လုံးများ မျောနေဘိသကဲ့သို့ ထင်ရသည်။ သို့ဖြင့် ကိုယ်ခန္ဓာသည် ရေအောက်၌ရှိနေသော်လည်းအ သက်ရှူနိုင်ပြီးလျှင် ပတ်ဝန်းကျင်ရှိအစာဖြစ်သောသတ္တဝါများကို ကောင်းစွာမြင်နိုင်သည်။ မိကျောင်းခေါင်းရှည်သည် ရေအောက်၌ လုံးလုံးမနေနိုင်ပေ။ တနာရီ၊ တနာရီ ကျော်ကျော်မျှသာနေ၍ အသက်ရှူရန်အတွက် ရေမျက်နှာပြင်သို့ မကြာခဏ တက်လာရသည်။

မိကျောင်းခေါင်းရှည်သည် များသောအားဖြင့် ငါး၊ လိပ်နှင့် ရေငှက်များကိုဖမ်း၍ အကောင်လိုက် မျိုချတတ်သည်။ ကမ်းနဖူးသို့ ရေသောက်ရန် ဆင်းလာသော တိရစ္ဆာန်များကိုလည်း ဖမ်းယူစားသောက်တတ်သည်။ အချို့ကား လူသားစားဖြစ်ကြ၏။ ရေတွင်မဆိုထားဘိ ကုန်းပေါ်တွင်ပင် မိကျောင်းခေါင်းရှည်သည် တိရစ္ဆာန်များကို လျင်မြန်ဖျတ်လတ်စွာလိုက်၍ အမြီးဖြင့်ရိုက်ကာ ဖမ်းယူတတ်သည်။ မိကျောင်းခေါင်းရှည်သည် မိကျောင်းခေါင်းတိုထက် ပို၍ရန်မူတတ်လေသည်။

အခြားတွားသွားကောင်များကဲ့သို့ မိကျောင်းခေါင်းရှည်အမသည် ကြက်ဥသာသာကြီးသော ဥပေါင်း ၃၀ မှ ၆၀ အထိအုသည်။ အချို့က ဥများကိုချုံများကြား၌ သစ်ရွက်သစ်ကိုင်းများဖြင့် လုပ်သော အသိုက်များတွင် ထားတတ်၍၊ အချို့က ကမ်းစပ်သဲသောင်များ၌ တွင်းတူး၍ မြှုပ်နှံထားတတ်သည်။ အချို့သော မိကျောင်းမျိုးတွင် အမသည် ဥများကို ပေါက်လာသည်အထိ အနားတွင်နေ၍ စောင့်ရှောက်သည်။ ဥများသည် နေရောင်နှင့် အထက်မှဖုံးအုပ်လျက်ရှိသော ဆွေးမြည့်နေသည့် သစ်ရွက်သစ်ကိုင်းများ၏ အပူရှိန်ကြောင့် ၂ လမျှအကြာတွင် မိကျောင်းငယ်များပေါက်လာသည်။ ပေါက်ချိန်တန်လာသောအခါ ဥများအတွင်းမှ ချောင်းဆိုးသံကဲ့သို့ မြည်သံကြားရ၏။ ထိုအခါ မိကျောင်းမသည် ဥများကိုဖုံးအုပ်ထားသည့် သဲများနှင့်သစ်ဆွေးများကို ဖယ်ရှားပေးလိုက်ရာတွင် မိကျောင်းငယ်ကလေးများသည် နှာတံထိပ်ရှိအချွန်ကလေးဖြင့် ဥကိုဖောက်၍ထွက်လာကြသည်။ ထိုအချွန်သည် မကြာမီကျိုးသွား၏။ ဥမှပေါက်စ မိကျောင်းကလေးများသည် ၈ လက်မခန့်သာရှိ၍ မိခင်မိကျောင်းမက ချက်ခြင်းပင် ရေထဲသို့ခေါ်ဆောင်သွားလေသည်။ ပဌမတွင် တလလျှင် တလက်မခန့် ကြီးထွားလာ၍ ၅ နှစ်သားအရွယ်သို့ရောက်သောအခါ ၆ ပေခန့် ရှည်လာသည်။ ထိုနောက် တဖြည်းဖြည်း ကြီးပြင်းလာရာ အချို့မှာ ပေ ၂၀ မှ ၃၀ အထိပင် ရှည်တတ် လေသည်။ မိကျောင်းခေါင်းရှည်များသည် နှစ်ပေါင်း တရာကျော်မျှ အသက်ရှည်ကြလေသည်။

မိကျောင်းခေါင်းရှည်၏ ကျောနှင့်လည်ပင်းတွင် အလွန်မာ၍ကြမ်းတမ်းသောအရေထူကြီးဖြင့် ဖုံးအုပ်လျက်ရှိသည်။ သို့သော် ဝမ်းပိုက်နှင့် နံဘေးတွင်ရှိသော အရေသည် ထိုမျှ လောက် မမာချေ။ ဝမ်းပိုက်နှင့် နံဘေးမှအရေများကို ပဌမတန်းစား သားရေများပြုလုပ်၍ သားရေအိတ်နှင့် ရှူးဖိနပ်များ ချုပ်လုပ်ရာ၌ အသုံးပြုကြသည်။ မိကျောင်းသားရေသည် အလွန်လှပ၍ ကြာရှည်လည်း ခံသည်။ ထို့ကြောင့် မိကျောင်းများကို သားရေရရှိရေးအတွက် အမြောက်အများ ဖမ်းဆီးသတ်ဖြတ်ကြသည်။

မိကျောင်းခေါင်းရှည်သည် ကမ္ဘာ့ အရှေ့လုံးခြမ်း သတ္တဝါဖြစ်၍ အာဖရိကတိုက်၊ အာရှတိုက်၊ မလ္လာယုကျွန်းစုနှင့် ဩစတြေးလီးယားမြောက်ပိုင်းတို့တွင် အများအပြား ကျက်စားကြသည်။ အချို့ကို အမေရိကတိုက် အလယ်ပိုင်းတွင် တွေ့ရသည်။ ရေငန်မိကျောင်းများကို အိန္ဒိယတောင်ပိုင်း၊ မြန်မာနိုင်ငံ၊ မလ္လာယုကျွန်းစု မြစ်ဝများတွင် တွေ့ရသည်။ အကြီးဆုံးမျိုးဖြစ်သည့် အိန္ဒိယမိကျောင်းသည် ပေ ၃၀ ထိရှည်သည်။ သို့သော်လည်း ကြောက်တတ်သဖြင့် ငါးများကိုသာစားသည်။ နိုင်းမြစ်တွင် တွေ့ရသော အာဖရိက မိကျောင်းကား လူသားစားမိကျောင်းဖြစ်သဖြင့် ကြောက်မက်ဖွယ်ကောင်းပေသည်။ ရှေးအီဂျစ်လူမျိုးတို့သည် နိုင်းမြစ်အတွင်းရှိမိကျောင်းများကို ကိုးကွယ်ခဲ့ကြ၏။ သို့သော် ယခုအခါ ထိုအလေ့အထ မရှိတော့ပေ။

မိကျောင်း၏လျှာသည် အခြား တိရစ္ဆာန်များ၏ လျှာများကဲ့သို့ အပြင်သို့ မထုတ်နိုင်၊ လှုပ်ရှားမှုလည်း မပြုနိုင်ဘဲ ပါးစပ် အောက်ခြေတွင် အသေကပ်လျက် ရှိသည်။ မိကျောင်းတွင် ကတိုးရည်စိမ့်ထွက်သော ဂလင်းနှစ်စုံရှိရာ ထိုကတိုး ဂလင်းများကို ရေမွှေးပြုလုပ်ရာ၌ အသုံးပြုကြသည်။ မိကျောင်းဆီကိုလည်း လူတို့အသုံးပြုကြသည်။

မိကျောင်းခေါင်းတိုကို အမေရိကန်ပြည်ထောင်စု၏ အရှေ့တောင်ပိုင်းပြည်နယ်များရှိ မြစ်များနှင့် တရုပ်နိုင်ငံယန်ဆီမြစ်၌သာတွေ့ရ၍ အခြားဒေသ၌ မတွေ့ရပေ။ တရုပ်မိကျောင်းခေါင်းတိုနှင့် အမေရိကန် မိကျောင်းခေါင်းတိုသည် အသွင်အပြင်နှင့်တကွ အလေ့အထပါ များစွာတူသည်။ မိကျောင်းခေါင်းတိုသည် ကိုယ်အလျား ၁၂ ပေမှ ၁၅ ပေအထိ ရှည်တတ်သည်။

မိကျောင်းခေါင်းတိုသည် ကရော့ကိုဒိလီယာမျိုးစဉ်တွင် အယ်လီဂေတိုရီဒီမျိုးရင်း၌ ပါဝင်၍ ပါဏဗေဒ အမည်အားဖြင့် အယ်လီဂေတို မစ်စစ်စပီယန်ဆစ် ဟုခေါ်သည်။

မိကျောင်းခေါင်းတို့၌ တိုလွန်းသော ခြေထောက်များနှင့် ကြီးမားသော ကိုယ်ထည်ရှိသောကြောင့် ကုန်းပေါ်တွင် အသွားအလာ နှေးကွေးသည့်ပြင် ကိုးရိုးကားရား နိုင်လှပေသည်။ မိကျောင်းခေါင်းတိုသည် အများအားဖြင့် ငါး၊ ကနန်း၊ ဗုဇွန်ဆိတ်နှင့် တွားသွားကောင်ကလေးများကို ရှာဖွေစားသောက်သည်။ သို့သော် ခွေးများနှင့် အခြား ခြေလေးချောင်းသတ္တဝါများကိုလည်း စားတတ်သည်။

မိကျောင်းခေါင်းတိုအမသည် မြက်များ၊ သစ်ရွက် သစ်ကိုင်းများဖြင့် အမြင့် ၃ ပေ၊ ပြက် ၇ ပေခန့်ရှိသော အသိုက်ကို ကမ်းနပူးတွင်ပြုလုပ်၍ အသိုက်အလယ်တွင် ကြက်ဥသာသာရှိသော ဥများကို ဥပေါင်း ၄၀ မှ ၅၀ အထိ အုတတ်သည်။ ရက်သတ္တပတ် ၉ ပတ်ခန့် အကြာတွင် သားငယ်များပေါက်လာ၍ ပေါက်စတွင် ၈ လက်မခန့်သာရှိသည်။ သားငယ်များသည် ရေထဲ၌ မိခင်နောက်သို့ တကောက်ကောက် လိုက်နေပြီးသော် အတော်အတန် ကြီးပြင်းလာမှ ခွဲထွက် သွားကြသည်။ မိကျောင်းခေါင်းတိုသည် အသက် ၅၀ မှ ၆၀ အထိ ရှည်သည်။

မိကျောင်းခေါင်းတို့၏ သားရေကိုလည်း လှပ၍ကြာရှည်ခံသောကြောင့် အဖိုးတန်ဖိနပ်များ၊ လက်အိတ်နှင့် အခြားပစ္စည်းများချုပ်လုပ်ရာ၌ အသုံးပြုကြသည်။ သားရေအတွက် ယင်းတို့အား ဖမ်းဆီးသတ်ဖြတ်ကြသောကြောင့် တဖြည်းဖြည်း နည်းပါးလာလေသည်။ ယခုအခါ မြောက်အမေရိကတိုက် ဖလော်ရီဒါပြည်နယ်၌ မိကျောင်းခေါင်းတိုများကို ခြံခတ်၍ မွေးမြူထားကြသည်။

**မိကျောင်း။** ။မိကျောင်းတူရိယာသည် အငြိမ့် တီးမျိုး ၆ ပါးတွင် အပါအဝင်ဖြစ်သော တူရိယာဖြစ်၏။ မိကျောင်းရုပ်ဖြင့် ပြုလုပ်၍တီးသော မိကျောင်းတူရိယာမျိုးများကို ခရစ် ၈၀၁–၂ ခုနှစ်အတွင်း မြန်မာနိုင်ငံမှ တရုပ်နိုင်ငံသို့ စေလွှတ်ခဲ့သော ပျူယဉ်ကျေးမှု မိတ်ဆက်အဖွဲ့တွင် ထည့်သွင်းတီးမှုတ်ခဲ့သည်ကို အစောဆုံး တွေ့ရှိရလေသည်။ ထိုခေတ်က မိကျောင်း တူရိယာပုံသဏ္ဌာန် အနေအထားမှာ အလျား ၄ ပေ၊ အနံ ၇ လက်မ၊ အောက်ဝမ်းပိုက်အကျယ် ၈ လက်မ၊ အမြီး ၁ ပေ၊ သို့မဟုတ် ၁ ပေ ကျော်ကျော် ရှိပြီးလျှင် အောက်ဝမ်းပိုက်ကို ယခုခေတ် မိကျောင်းတူရိယာကဲ့သို့ပင် အခေါင်း ပြုလုပ်ထား၏။ မိကျောင်း၏ကိုယ်ပေါ် တဖက်တချက်တွင် ကြိုး ၉ ချောင်းစီ တပ်ဆင်ထားပြီးလျှင် အဆိုပါကြိုးများ အလျော့အတင်းပြုလုပ်ရန် ဒလက် ၁၈ ခု တပ်ထားကြောင်း သိရှိရသည်။

အဆိုပါ သရေခေတ္တရာခေတ် မိကျောင်းရုပ်တူရိယာမှာ ယခုခေတ် မိကျောင်းတူရိယာကဲ့သို့ မိကျောင်းရုပ်ဖြင့် ထုလုပ်ထားသော်လည်း တပ်ဆင်ထားသော ကြိုးများမှာ ယခုခေတ် မိကျောင်းတူရိယာကဲ့သို့ ကြိုး ၃ ချောင်းသာလျှင် တပ်ဆင်မထားဘဲ ကြိုးပေါင်း ၁၈ ကြိုး တပ်ဆင်ထားသည်မှာ များစွာထူးခြားလေသည်။ ထိုပြင် သရေခေတ္တရာ ခေတ် မိကျောင်း တူရိယာ၌ ယခုခေတ် မိကျောင်းတူရိယာကဲ့သို့ လက်နှိပ်ခလုတ်ကလေးများ တပ်ဆင်ထားသည့် အကြောင်း မပါရှိဘဲ ကြိုးများကိုခုတုံးတခုပေါ်တွင် တင်ထားသည်ဟုဆိုသောကြောင့် ထိုခေတ်ကမိကျောင်းတူရိယာကို ယခုခေတ် မိကျောင်းတူရိယာတီးသကဲ့သို့ တီးလိမ့်မည်ဟု မယူဆဘဲ၊ မယ်ဒလင် ဘင်ဂျိုများ တီးပုံမျိုးကဲ့သို့ရင်း၊ ရှေးပဝေဏီက ရောမလူမျိုးများ ဗျတ်စောင်းတူရိယာတမျိုးကို လက်တဖက်ဒေါင်လိုက်မ၍ ကိုယ်ဖြင့်မှီပြီး တီးပုံမျိုးကဲ့သို့ရင်း တီးမှုတ်ကြသည်ဟု ယူဆရသည်။ အဆိုပါ မိကျောင်းပုံသဏ္ဌာန်မျိုးဖြင့်



မွန်အကနှင့် တီးဝိုင်းတွင် မိကျောင်းစောင်း (ဝဲ-စွန်) သည် အမြဲတမ်းလို ပါဝင်လေ့ရှိသည်။

ပြုလုပ်ထားသောတူရိယာ၏ အမည်ကိုကား မှတ်တမ်းတွင် မတွေ့ရှိရချေ။

သို့သော် မိကျောင်း တူရိယာနှင့်စပ်လျဉ်း၍ သက္ကရာဇ် ၈၈၉ ခုနှစ်တွင် ရှင်အဂ္ဂသမာဓိ စပ်ဆိုသီကုံးခဲ့သော သုဝဏ္ဏသျှံသူဌေးခဏ်းပျို့၌ "ကျည်ကျည်သံဖျား၊နှိမ့်များမိကျောင်း၊ နင်းနင်းနှောင်းနှင့်၊စည်မောင်းမစဲ၊ တသဲသဲတည့်" ဟူ၍၎င်း၊ ဘုံခန်းပျို့၌လည်း "မှုတ်တီး ငြင်းစောင်း၊ ရွှေနှင်းနှောင်းနှင့်၊ မိကျောင်းပြိုင်ဆော်" ဟူ၍၎င်း စပ်ဆိုသီကုံးခဲ့သည်ကို အစောဆုံး တွေ့ရှိရသဖြင့် မိကျောင်းခေါ် တူရိယာသည် အင်းဝခေတ်အခါကတည်းကပင် ပေါ်ပေါက် ထွန်းကားနေပြီဖြစ်ကြောင်း သိရှိရသည်။ ထို့ပြင်ဝေဿန္တရာပျို့၌ "စောင်းငြင်း မိကျောင်း၊ အောင်းကလေးကျော်၊ သံငေါ် လက်ခုပ်၊ စည်းဆုပ်ပတ်တလား၊ စန္ဒရားတို့" ဟူ၍၎င်း၊ မဟာသီလဝပျို့၌ "ပလွေကျော်အောင်း၊လက်ပိုက်စောင်းနှင့်၊ မိကျောင်းလက်အုပ်၊ စည်းဆုပ်မြှောက်စည်" ဟူ၍၎င်း၊ကုသပျို့၌ "ငြင်းပြေနှဲ့စောင်း၊ မိကျောင်းငြိမ့်သံ၊ နာခံသာယာ၊ နေအပ်စွာ၏" ဟူ၍၎င်း၊ မိကျောင်းတူရိယာကို ထည့်သွင်း စပ်ဆိုသီကုံးခဲ့ကြသည်ကို တွေ့ရှိရသဖြင့် မိကျောင်းတူရိယာများသည် ကုန်းဘောင်ခေတ် တိုင်အောင် တီးမှုတ် နေကြောင်း သိရှိရသည်။

ထို့ပြင် ပုဂံမြို့ အာနန္ဒာအုတ်ကျောင်း စကြံ မြောက်ဖက်နံရံ၌ ကုန်းဘောင်ခေတ်က ဆေးဖြင့်ရေးသားထားခဲ့သော ပုံအလယ်တွင် ပုဝါအနက်ကျားကို ပုခုံးပေါ်၌ ခြုံထားသည့် မိန်းမမှာ မိကျောင်းတီးနေသည်ကို တွေ့မြင်ရပေမည်။ ထိုပုံတွင် အခြားတူရိယာများမပါဘဲ မိကျောင်းတူရိယာတလက်တည်းဖြင့် တီးမှုတ်ကခုန် နေသည်ကို တွေ့မြင်ရခြင်း အားဖြင့် ကုန်းဘောင်ခေတ်အခါက မိကျောင်းတူရိယာများ မည်မျှလောက် ခေတ်စားနေကြောင်းကို သိသာ ထင်ရှားစေလေသည်။ ခရစ် ၁၇၉၅ ခုနှစ်တွင် အရှေ့အိန္ဒိယကုမ္ပဏီမှ ဘိုးတော်ဘုရားထံသို့ သံတမန်အဖြစ် စေလွှတ်ခြင်း ခံရသော ကက်ပတိန်မိုင်ကယ်ဆိုင်းဆိုသူ ရေးသားခဲ့သော အင်းဝသွားသံအဖွဲ့မှတ်တမ်းစာအုပ်၌ ကုန်းဘောင်ခေတ် မိကျောင်းတူရိယာနှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း ရေးသားထားသည်ကို တွေ့ရှိရ၏။

"ဂီတာကဲ့သို့ မိကျောင်းခေါ် တူရိယာ တမျိုးမှာ အလွန်ထူးဆန်းသော တူရိယာဖြစ်လေသည်။ ထိုတူရိယာကို မိကျောင်း ပုံသဏ္ဌာန်အတိုင်း ထုလုပ်ထား၏။ ထိုတူရိယာ၏ကိုယ်ထည်ကို အခေါင်းထွင်းထားပြီး နောက်ဖက်တွင် အသံမြည်ပေါက် (နတ်သမီးပေါက်) များရှိလေသည်။ ကြိုး ၃ ချောင်းကို မိကျောင်း၏ ကျောမှ အမြီးသို့ ဆွဲလျက် တပ်ဆင်ထား၏။ အဆိုပါ ကြိုးများမှာ အစွန်းတဖက်တချက်တွင်ရှိသော ခုတုံးကလေးများပေါ်တွင် တင်ထားလျက် ကြိုးများကို အသံညှိသည့်အခါ အမြီးတွင် တပ်ထားသည့် ဒလက်များဖြင့် ရစ်ပတ်ချည်နှောင်လျက် ညှိလေသည်၊ ထိုတူရိယာကို လက်ချောင်းကလေးများဖြင့် တီး၍ အထူးသဖြင့် အဆိုများနှင့် တွဲဖက်တီးမှုတ်လေ့ရှိကြသည်။"

ယခုခေတ် မိကျောင်းတူရိယာတွင် တပ်ဆင်ထားသော ကြိုး ၃ ချောင်းမှာ ပိုးကြိုးဖြစ်ပြီးလျှင် အများအားဖြင့် ပဌမကြိုးတေးတွင် ၄-ပေါက်သံ၊ ဒုတိယကြိုးတွင်သံမှန်၊ တတိယကြိုးပြီးတွင် ၄-ပေါက်သံများ ညှိထားလေသည်။ ကြိုးများ၏အောက်မှ ဂီတာ မယ်ဒလင် လက်နှိပ်ပေါက် တုံးကလေးများ တပ်ထားသကဲ့သို့ တုံးကလေး ၁၂ ခုခန့်ကို ပျားဖယောင်းဖြင့် ကပ်၍တပ်ထား၏။ မိကျောင်းတူရိယာကိုတီးသည့်အခါ ယခုခေတ်ဂီတာများ တီးသည့်ပုံအတိုင်း ပေါင်ပေါ် သို့တင်၍သော်၎င်း၊ တခါတရံ အောက်သို့ချ၍သော်၎င်း တီးလေ့ရှိ၏။ တီးရာတွင် တီးသူ၏ ညာဖက်လက်မလက်ညှိုးတို့ဖြင့် ကြိုးကိုတီးခတ်ပြီး ဘယ်ဖက်လက်ချောင်းထိပ်ကလေးများဖြင့် မိမိအလိုရှိသော ကြိုးမှအသံကို လက်နှိပ်ပေါက် တုံးကလေးအပေါ် သို့ ဖိနှိပ်၍၎င်း၊ တခါတရံ ဖိဆွဲ၍၎င်း တီးမှုတ်ကြလေသည်။ မိကျောင်း တူရိယာကို များသောအားဖြင့် ရွှေချ၍၎င်း၊ ဆေးရောင်များ ခြယ်လယ်၍၎င်း မွမ်းမံတတ်ကြလေသည်။ မိကျောင်း၏ ကိုယ်ထည်ကို အများအားဖြင့် ပိတောက်သားဖြင့် ထုလုပ်ကြသည်။ ကိုယ်ထည်၏ ပမ်းပိုက်အောက်မှ အခေါင်းထွင်းထားသည့်အပေါ် တွင် နွားသားရေဖြင့် အုပ်ထားသည်။

မိကျောင်းတူရိယာကို လွန်ခဲ့သည့်နှစ်ပေါင်း လေးငါးဆယ်လောက်မှစ၍၊ မြန်မာလူမျိုးများ သုံးစွဲ တီးမှုတ်ခြင်း မတွေ့ရ သလောက် ကွယ်ပျောက် တိမ်မြုပ်သွားခဲ့ သော်လည်း၊ တနင်္သာရီတိုင်း ကျိုက္ခမီခရိုင်ရှိ မွန်လူမျိုးတို့သည် ယနေ့တိုင် တီးလျက်ရှိနေကြောင်း သိရှိရ၏။ အချို့ မွန်လူမျိုးများသည် မိကျောင်း တူရိယာကို မိကျောင်း ရုပ်ပုံသဏ္ဌာန်မျိုး မပြုလုပ်ဘဲ မယ်ဒလင်တူရိယာ ပုံသဏ္ဌာန်မျိုးကဲ့သို့ ပြုလုပ်၍တီးကြသည်ကို တွေ့ရှိရသည်။

မိကျောင်းတူရိယာ အသုံးနည်းသွားသဖြင့် မိကျောင်းတူရိယာတီးရာတွင် ကျော်ကြား ထင်ရှားခဲ့သော ပညာသည်ကြီးများ၏ အကြောင်းအရာအတ္ထုပ္ပတ္တိများလည်း တိမ်မြုပ်ပျောက်ကွယ် ခဲ့ရလေသည်။ ကင်းဝန်မင်းကြီး ပုရပိုက်အမှတ် ၁၅၈၇ အရ ပဉ္စမသင်္ဂါယနာတင် မင်းတုန်းမင်းတရားကြီးလက်ထက်တော်၌ မိကျောင်းတူရိယာတီးရာတွင် ကျော်ကြား ထင်ရှားခဲ့သူ မိကျောင်းဆရာကြီးဦးသင်းသည် အတွင်းအငြိမ့်တော် အမှုထမ်း စောင်းဆရာကြီး ဦးဖူးခေါင်နှင့် တွဲဖက်အမှုထမ်းခဲ့ကြောင်း သိရှိရလေသည်။

ဦးမြဦး

# တရားဦးဟောရာဌာန

**ဘုရားပစ္စေကဗုဒ္ဓါရဟန္တာတို့ ကောင်းကင်မှသက်ဆင်းရာ၊ ကောင်းကင်သို့တက်ရာဖြစ်သောကြောင့်၊ ဣသိပတနဟု အမည်ရ၍ သားသမင်အပေါင်းတို့ကို ဘေးမဲ့ပေးရာဖြစ်သော မိဂဒါဝုန်တောတွင် မြတ်စွာဘုရားသခင်သည် ဓမ္မစကြာတရားဦးကို ပဥ္စဝဂ္ဂီငါးဦးအား ဟောကြားတော်မူခဲ့၏။**

**မိဂဒါဝုန်။** ။မိဂဒါဝုန်သည်အိန္ဒိယနိုင်ငံ၊ ဥတ္တရပဒေသပြည်နယ်၊ ဗာရာဏသီမြို့အနီး ဣသိပတန အမည်ရှိသော သားသမင်အပေါင်းတို့အား ဘေးမဲ့ပေးထားရာ တောကြီးဖြစ်သည်။ ဣသိပတနဟု အမည်ရသည်မှာ ဘုရား ပစ္စေကဗုဒ္ဓါ အရိယာထေရ်ရှင်တို့ ကောင်းကင်မှ သက်ဆင်းရာ၊ ကောင်းကင်သို့ တက်ရာဖြစ်သောကြောင့် ဖြစ်သည်။ ထိုမိဂဒါဝုန် တောကြီး၌ လူနတ်ဗြဟ္မာသတ္တဝါတို့၏ ဆရာဖြစ်တော်မူသော မြတ်စွာဘုရားသည် မဟာသက္ကရာဇ် ၁၀၃ ခုနှစ် ဝါဆိုလပြည့် စနေနေ့ နေဝင်လုဆဲအချိန်၌ ပဥ္စဝဂ္ဂီငါးဦးတို့အား ဓမ္မစကြာဒေသနာတော်ကို တရားဦး ဟောတော်မူခဲ့သည်။ ထိုသို့ ဟောခဲ့သည်မှာ ယခုအခါ နှစ်ပေါင်း ၂,၅၅၀ ကျော်ခဲ့လေပြီ။ (ဓမ္မစကြာသုတ္တန်။ပဥ္စဝဂ္ဂီငါးဦး—လည်းရှု။)

မြတ်စွာဘုရား ပရိနိဗ္ဗာန်ပြုပြီးသည်နောက် နှစ်ပေါင်း ၂၅၀ ခန့်တွင် သာသနာ့ဒါယကာဖြစ်တော်မူသော သီရိဓမ္မာသောက မင်းကြီးသည် ဘုရားရှင်နှင့် စပ်လျဉ်းသည့် ဒေသများသို့ တိုင်းခန်းလှည့်လည်ပြီးလျှင် အမှတ်တရ ဖြစ်စေရန် သာသနိက အဆောက်အအုံများကို ဆောက်လုပ်လှူဒါန်းခဲ့သည်။ထိုအဆောက်အအုံများအနက် မိဂဒါဝုန်တော၌ မြတ်စွာဘုရား ဓမ္မစကြာဒေသနာတော်ကို ဟောတော်မူခဲ့သည့် နေရာတွင် တည်ထားသော ဓမ္မစက္ကစေတီသည်လည်း တခု အပါအဝင် ဖြစ်သည်။ ထိုစေတီတော်ကြီးမှာ ပျက်စီးယိုယွင်းနေလင့်ကစား ယခုတိုင် မြေပြင်မှ ဉာဏ်တော်ပေ ၁၅၀ ခန့် မြင့်မားလျက်ပင်ရှိသေးသည်။ စေတီကြီး၏ အပေါ်ပိုင်းသည် ဝိုင်း၍ ထိပ်တွင်ခုံး၍နေသည်။ အောက်ပိုင်းတွင်ကား ရှစ်ထောင့်သဏ္ဍာန်ရှိ၍ အုတ်ဖြင့် တည်ထား၍ အပေါ်ပိုင်းတွင် ကျောက်ဖြင့် တည်ထားသည်။

မိဂဒါဝုန်တောကိုယခုခေတ်တွင်“ဆားနပ်”ဟုခေါ်သည်။ ဗာရာဏသီမြို့မှ မြောက်ဖက် ၆ မိုင်ခန့်အကွာတွင် “ဆားနပ်” ခေါ် မိဂဒါဝုန်တောတန်းရှိသည်။ ကာလကတ္တားမြို့မှ ဂါယာမြို့သို့ မီးရထားဖြင့်သွားရာတွင် ၂၉၂ မိုင်ဝေး၍ တဖန် ဂါယာမှ ဗာရာဏသီမြို့သို့ ၁၂၉ မိုင်ဝေးသည်။ ဗာရာဏသီမြို့မှ မိဂဒါဝုန်တောသို့ ၆ မိုင်ဝေးသော ခရီးကိုကား မြင်းလှည်းဖြင့်



ခရစ် ၇ ရာစုနှစ်ခန့်က မိဂဒါဝုန်ရှိ သာသနိက အဆောက်အအုံများ တည်ရှိဟန် သရုပ်ပြပုံ



ပဥ္စဝဂ္ဂီ ငါးဦးတို့အား ဓမ္မစကြာ တရားဦးဟောရာ မိဂဒါဝုန်တောရှိ ဓမ္မစက္ကစေတီ

ဖြစ်စေ၊ တက္ကစီမော်တော်ကားဖြင့်ဖြစ်စေ သွားနိုင်သည်။ မိဂဒါဝုန်သို့ မရောက်မီ ၂ ဖာလုံခန့်အလို၊ လက်ဝဲဖက် တောင်ပူစာတခုပေါ်တွင် "ချောက်ဂန္ဓိ" ခေါ် စေတီတဆူကိုတွေ့ရသည်။ ထိုစေတီနေရာကား ဗုဒ္ဓမြတ်စွာသည် ပဥ္စဝဂ္ဂီငါးဦးတို့အား တရားဦးမဟောမီ ပဌမဆုံး တွေ့ကြသော နေရာဟု ဆိုသည်။

မြတ်စွာဘုရားသည် မိဂဒါဝုန်တော၌ ပဥ္စဝဂ္ဂီငါးဦးတို့အား တရားဦးဟောတော်မူသည့် ဝါဆိုလပြည့်နေ့ညမှာပင် အရှင်ကောဏ္ဍညသည် သောတာပတ္တိဖိုလ်သို့ ဆိုက်ရောက်၏။ ယင်း ဝါဆိုလပြည့်ကျော် ၁ ရက်နေ့တွင် အရှင် ဝပ္ပ၊ ၂ ရက်နေ့တွင် အရှင်ဘဒ္ဒိယ၊ ၃ ရက်နေ့တွင် အရှင်မဟာနာမ်၊ ၄ ရက်နေ့တွင် အရှင်အဿဇိတို့ အသီးအသီး သောတာပန်အဖြစ်သို့ ရောက်ကြသည်။ ဝါဆိုလပြည့်ကျော် ၅ ရက်နေ့တွင် ပဥ္စဝဂ္ဂီငါးဦးတို့အား တဖန် အနတ္တလက္ခဏသုတ်ကို ဟောတော်မူရာတွင် ပဥ္စဝဂ္ဂီငါးဦးတို့သည် မဂ်၊ ဖိုလ် အစဉ်ဖြင့် အဆင့်ဆင့်တက်၍ အရဟတ္တဖိုလ်သို့ ဆိုက်ရောက်တော်မူကြသည်။

**မိဂသီနက္ခတ်။** ။နက္ခတ် ၂၇ လုံး — ရှု။

**မိဇူးရီပြည်နယ်။** ။မိဇူးရီမြစ်ကြီးကို အစွဲပြု၍ အမည်တွင်သော မိဇူးရီပြည်နယ်သည် အမေရိကန် ပြည်ထောင်စုတွင် ဖွဲ့စည်းပါဝင်သော ပြည်နယ်တခုဖြစ်၏။ နယ်နိမိတ်အားဖြင့် မိဇူးရီပြည်နယ်ကို မြောက်ဖက်တွင် အိုင်အိုဝါပြည်နယ်၊ အနောက်ဖက်တွင် နီဗရက်စကပြည်နယ်၊ ကန်းဆပ်ပြည်နယ်နှင့် အိုကလဟိုးမားပြည်နယ်များ၊ တောင်ဖက်တွင် အာကင်ဆောပြည်နယ်၊ အရှေ့ဖက်တလျှောက်လုံးတွင် မစ်စစ်စပီမြစ်သည် နယ်စပ်ပြုလျက် ထိုမြစ်ကြီး၏ တဖက်ကမ်းတွင် အီလီနွိုင်ပြည်နယ်၊ကင်တပ်ကီးပြည်နယ်နှင့် တင်နက်ဆီပြည်နယ်တို့ဖြင့် ပတ်ရံလျက်ရှိသည်။ မိဇူးရီပြည်နယ်သည် အကျယ်အဝန်းအားဖြင့် ၆၉,၆၇၄ စတုရန်းမိုင်ရှိ၏။ မိဇူးရီပြည်နယ်၏ မြို့တော်မှာ ဂျက်ဖာဆန်စီတီဖြစ်၍ အခြားမြို့ကြီးများဖြစ်သော စိန်လူဝီ၊ ကန်းဆပ်စီတီမြို့နှင့် စိန်ဂျိုးဇက်မြို့ကြီးတို့သည် ဂျက်ဖာဆန်မြို့တော်ထက်ပင် ကြီးမားသေးသည်။

မြောက်ဖက်မှ စီးဆင်းလာသော မိဇူးရီမြစ်သည် အနောက်မြောက်ဖက်တွင် နယ်စပ် တစိတ်တဒေသအဖြစ်တည်ရှိပြီးသော် အရှေ့ဖက်သို့ကွေ့သွားကာ ပြည်နယ်ကိုဖြတ်ဆင်းပြီးလျှင် မစ်စစ်စပီမြစ်နှင့် ပေါင်းဆုံလေသည်။ မိဇူးရီပြည်နယ်တွင် သဘာဝအပိုင်းအခြား ၃ ပိုင်းရှိသည်။ယင်းတို့ကား ပရေရီဒေသ၊ အိုဇတ်ကုန်းမြင့်ဒေသနှင့် အရှေ့တောင် မြေနိမ့်ဒေသတို့ဖြစ်၏။ ပရေရီဒေသသည် မိဇူးရီမြစ်၏ မြောက်ဖက်တကြောဖြစ်လျက် ပြည်နယ်၏တဝက်နီးပါးမျှရှိသည်။ ယင်းဒေသ၌ ရေအစီးနှေး၍ ရေနောက်သောမြစ်နှင့် ချောင်းများရှိရာ ချောင်းကြီးများ၏ကမ်းပါးရှိမြေမှာ မြေဩဇာကောင်း၏။ လယ်ယာစိုက်ပျိုးရေး၊ တိရစ္ဆာန်မွေးမြူရေးနှင့် သစ်သီးသစ်နှံစိုက်ပျိုးရေးတို့ကို ပြုလုပ်သည်။ တွင်းထွက်ပစ္စည်းများကား ကျောက်မီးသွေး၊ မြေစေး၊ ရေနံ၊ သဘာဝဓာတ်ငွေ့တို့ဖြစ်သည်။ အိုဇတ်ကုန်းမြင့်ဒေသသည် ပရေရီဒေသ၏ တောင်ဖက်နှင့် အရှေ့ဖက်တလျှောက်တွင် တည်ရှိ၍ ပြည်နယ်၏ ၅ ပုံ ၂ ပုံခန့်မျှဖြစ်သည်။ မြေပြင်အမြင့်မှာ ပင်လယ်ပြင်အထက်ပေ ၁,၀၀၀ မှ ၁,၇၀၀ အထိဖြစ်၏။ ဤဒေသတွင် မြေပြန့်ဟူ၍ ချိုင့်ဝှမ်းများတွင်သာရှိ၏။ အိုဇတ်ကုန်းမြင့်ဒေသတွင် မြင့်မားသောတောင်များ၊ နက်ရှိုင်းကျဉ်းမြောင်းသောချိုင့်ဝှမ်းများ၊ ကြည်လင်၍ ရေစီးသန်သော ချောင်းများ၊ လှပသော အိုင်များ၊ လိုဏ်ခေါင်းများ၊ စိမ့်စမ်းများရှိကာ၊ ကျန်းမာရေးအတွက် ညီညွတ်သော ရာသီဥတုရှိခြင်းကြောင့် ထင်ရှားသည်။ သစ်တောအများအပြားကို ခုတ်ထွင်ရှင်းလင်းပြီး ဖြစ်သော်လည်း ဤဒေသ၏ ထက်ဝက်ခန့်တွင် သစ်တောများဖြင့် ဖုံးလွှမ်းလျက်ပင် ရှိသေးသောကြောင့် သစ်လုပ်ငန်းသည် အရေးပါသော လုပ်ငန်းဖြစ်သည်။ တောင်စောင်းများတွင် သစ်သီးခြံများ၊ စပျစ်ခြံများ၊တိရစ္ဆာန်စားကျက်များကို တွေ့နိုင်ပေသည်။ပြည်နယ်မှ ထွက်သမျှသော ခဲ၊ သွပ် စသည်တို့မှာ ဤဒေသမှ ရရှိသည်။ ယင်းတို့အပြင် သံရိုင်း၊ ကျောက်မီးသွေး၊ နှမ်းဖတ်ကျောက်၊ထုံးကျောက်များလည်းထွက်သည်။အရှေ့တောင်မြေနိမ့်ဒေသသည် မစ်စစ်စပီမြစ်၏ အနောက်ဖက်တွင်ရှိ၍ စတုရန်းမိုင် ၃,၀၀၀ ခန့်ကျယ်ပြန့်သည်။ပြည်နယ်တွင်းအနိမ့်ဆုံးအပိုင်းဖြစ်သည်။ ဤဒေသသည် နှစ်ပေါင်း များစွာကပင် သစ်ပင်များဖြင့် ထူထပ်စွာဖုံးလွှမ်းလျက်ရှိခဲ့သော်လည်း

နောင်သော် များစွာသော အပင်တို့ကို ခုတ်ထွင်ရှင်းလင်းလိုက်သောကြောင့် ယခုအခါ လယ်ယာ စိုက်ပျိုးခြင်းနှင့် နွားနို့ပစ္စည်းလုပ်ငန်းများအတွက် အထူးတလည် ကောင်းမွန်သောဒေသ ဖြစ်နေလေသည်။

မိဇူးရီပြည်နယ်တွင်းရှိ မြစ်ချောင်းများသည် ကုန်သွယ်ရေးနှင့် စက်မှုလုပ်ငန်းတို့အတွက် အရေးပါအရာရောက်သည်။ မိဇူးရီမြစ်သည် အနောက်မြောက်ဖက်တွင် နယ်စပ်အဖြစ်တည်ရှိပြီးသော် အနောက်ဖက်မှ အရှေ့ဖက်သို့ ပြည်နယ်ကို ဖြတ်သန်းစီးဆင်းကာ မဇ်စဇ်စပီမြစ်နှင့် စိန့်လူဝီမြို့အထက်နားတွင် ပေါင်းဆုံသည်။ မိဇူးရီပြည်နယ် အတွင်းရှိ မြစ်ချောင်းအများအပြားမှ ရေအားဖြင့် လျှပ်စစ်ဓာတ်အား ထုတ်ယူလေသည်။

မိဇူးရီပြည်နယ်တွင် ဆောင်းအခါ၌ အလွန်အေးချမ်း၍ နွေတာရှည်ကာ ပူပြင်းသည်။ ဆောင်းအခါတွင် ဖာရင်ဟိုက်သုညဒီဂရီအောက်ပင် ရောက်၍ နွေကာလတွင်မူ ဒီဂရီ ၁၀၀ ကျော်ရှိတတ်ပေသည်။ မြင့်သော အပိုင်းဖြစ်သည့် အိုဇတ်ကုန်းမြင့်ဖက်တွင် ရာသီဥတု ပို၍မျှတသည်။ မိုးရေချိန်မှာလည်း အရှေ့တောင်ပိုင်းတွင် ၅၁ လက်မခန့် ရွာသွန်း၍ အနောက်မြောက်ပိုင်းတွင် ၃၄ လက်မခန့် ရွာသွန်းသည်။

မိဇူးရီပြည်နယ်တွင် လယ်ယာစိုက်ပျိုးခြင်းသည် အဓိကလုပ်ငန်းဖြစ်၏။ ကြက်၊ ဘဲ၊ ဝက်၊ နွားများကိုလည်း အကြီးအကျယ်မွေးမြူသည်။ လယ်ယာစိုက်ပျိုးရေး လုပ်ငန်းထွက်ပစ္စည်းများမှာ နွား၊ ဝက်၊ နို့ထွက်ပစ္စည်းများ၊ ဂျုံ၊ ကြက်နှင့် ကြက်ဥများ၊ မြင်းစားဂျုံ၊ မုယောဝါဂွမ်း၊ ပဲကျတ်ပျဉ်အာလူး၊ သစ်သီးများ၊ဆေးရွက်စသည်တို့ဖြစ်၏။ မိဇူးရီပြည်နယ်တွင် စက်မှုလက်မှုလုပ်ငန်းများလည်း ထွန်းကားသည်။ စက်မှုလက်မှုလုပ်ငန်းထွက် ပစ္စည်းများမှာ ဖိနပ်၊ မော်တော်ကား၊ အရက်၊ ဆေးဝါး၊ လျှပ်စစ်တန်ဆာပလာများ၊ ဂျုံမှုန့်၊ သံနှင့် သံမဏိထည်များ၊ ဖန်ထည်၊ သားရေထည်၊ အထည်အလိပ်၊ သတ်ဆေး၊ ရေနံထွက်ပစ္စည်း စသည်တို့ဖြစ်သည်။ ပြည်နယ်ထွက် သယံဇာတပစ္စည်းတို့မှာ သွပ်၊ ခဲ၊ ကျောက်မီးသွေး၊ မြေစေး၊ ဆီလီကာ အစရှိသည်တို့ ဖြစ်၏။ မိဇူးရီပြည်နယ်တွင် မော်တော်ကားလမ်း၊ မီးရထားလမ်းများ ဒွာရှိသည်။ စိန့်လူဝီနှင့် ကန်းဆပ်စီတီမြို့တို့သည် မီးရထားလမ်းနှင့် လေကြောင်းလမ်းဆုံမြို့များဖြစ်၏။

မိဇူးရီပြည်နယ် လူဦးရေမှာ ၄,၃၁၉,၈၁၃ (၁၉၆၀) ယောက်ဖြစ်၏။

မိဇူးရီနယ်သို့ ဦးစွာရောက်ရှိခဲ့သော လူဖြူမှာ ဒါဆိုဘိုဆိုသူဖြစ်၍၊ ၁၅၄၁ ခုနှစ်တွင် ရောက်ရှိခဲ့သည်။ ထို့နောက် ၁၆၇၃ ခုနှစ်တွင် မားကတ်ဆိုသူရောက်ရှိလာသည်။ သို့သော် ၁၇၃၅ ခုနှစ်တွင်မှ ပြင်သစ်တို့က ဦးစွာအခြေစိုက်၍ စိန့်ဂျင်နဗီမြို့ကို တည်ထောင်သည်။ ထိုစဉ်က ဤနယ်သည် ပြင်သစ်တို့၏ လူဝီဇီယန္နားနယ်ကြီး၏ တစိတ်တဒေသ ဖြစ်ခဲ့၏။ ၁၇၆၂ ခုနှစ်တွင် ထိုလူဝီဇီယန္နားနယ်ကြီးကို စပိန်တို့အားပေးအပ်လိုက်ရသည်။ ၁၈၀၀ ပြည့်နှစ်တွင် ပြင်သစ်တို့ ပြန်ရသည်။ ၁၈၀၃ ခုနှစ်တွင် အမေရိကန် ပြည်ထောင်စုက လူဝီဇီယန္နားနယ်ကြီးကို ပြင်သစ်တို့ထံမှ ဝယ်ယူလိုက်သော အခါ မိဇူးရီနယ်လည်း ပါလာသည်။ ၁၈၁၂ ခုနှစ်တွင် မိဇူးရီနယ်



မိဇူးရီပြည်နယ်၏ မြို့ကြီးများအနက် လေကြောင်းလမ်းဆုံမြို့ကြီးဖြစ်သော စိန့်လူဝီမြို့၏ရှုခင်း

ကို နယ်ပယ်အဖြစ်ဖွဲ့စည်းသည်။ ၁၈၂၁ ခုနှစ်တွင် မိဇူးရီနယ်ကို အမေရိကန်ပြည်ထောင်စုတွင် ပြည်နယ်တခုအဖြစ် သွတ်သွင်းလိုက်သည်။ ပဌမဆုံးမြို့တော်မှာ စိန်ချားဖြစ်၍ ၁၈၂၆ ခုနှစ်တွင်မှ ဂျက်ဖာဆန်စီတီကို မြို့တော်အဖြစ် ရွေးချယ်ခဲ့သည်။ အမေရိကန်ပြည်တွင်းစစ် ဖြစ်ပွားစဉ်က မိဇူးရီပြည်နယ်သည် ကြားနေပြည်နယ်ဖြစ်ခဲ့လေသည်။ ထိုနောက်တွင် မိဇူးရီပြည်နယ်သည် တဖြည်းဖြည်း တိုးတက်ကြီးပွားလာခဲ့ရာ ၁၈၆၀ ပြည့်နှစ်တွင် အမေရိကန်ပြည်ထောင်စုအတွင်း၌ အဋ္ဌမ အကြီးဆုံးပြည်နယ်ဖြစ်လာခဲ့၏။ ပဌမနှင့် ဒုတိယကမ္ဘာစစ်များအတွင်း၌ မိဇူးရီနယ်သား ထောင်ပေါင်းများစွာ ပါဝင်အမှုထမ်းခဲ့သည်။ သတ္တုတူးဖော်ရေး လုပ်ငန်း၊ စက်မှုလုပ်ငန်းနှင့် စိုက်ပျိုးရေးလုပ်ငန်းတို့လည်း လျင်မြန်စွာ တိုးတက် ကြီးပွားခဲ့လေသည်။

**မိဒလူမျိုး။** ။ရှေး အထက်ကျောက်ကာရီက အာရှတိုက်အနောက်ပိုင်းတွင် တန်ခိုးကြီးခဲ့သော လူမျိုးတမျိုးမှာ မိဒလူမျိုးဖြစ်သည်။ ပါးရှင်းလူမျိုးများကဲ့သို့ပင် အင်ဒိုဥရောပလူမျိုး အဆက်အနွယ်များ ဖြစ်ကြ၍ ယခုကာလ ဥရောပတိုက်သား အားလုံးလောက်သည် ယဟူဒီလူမျိုးများမှတပါးထို မိဒလူမျိုးများမှ ဆင်းသက်လာကြသည်။

မိဒလူမျိုးတို့၏ နိုင်ငံဖြစ်သော မီးဒီးယားမှာ ယခု အီရန်နိုင်ငံ အနောက်မြောက်ပိုင်းဒေသဖြစ်သည်။ ယင်းလူမျိုးတို့၏ အရင်းအမြစ်ကို အသေအချာ မသိရသော်လည်း၊ ဘီစီ ၉၀၀ ခန့်လောက်တွင် အဆီးရီးယားနိုင်ငံ၏ လက်အောက်ခံဖြစ်လာရာမှ စတင်၍ မိဒလူမျိုးများရှိကြောင်း သိရှိရသည်။

မိဒလူမျိုးတို့သည် အစ ပဌမတွင် ရိုင်းစိုင်း ကြမ်းတမ်းသော လူမျိုးများဖြစ်သော်လည်း လခြမ်းဒေသကြီး ဖြစ်သည့် အနောက်တောင်ဒေသများမှ ယဉ်ကျေးမှုများကို တစတစ ရရှိကြလေသည်။ အဆီးရီးယားလူမျိုးတို့သည် နိုင်ငံတော်ကြီး တန်ခိုးထွားမှုကို အကြောင်းပြုကာ စည်းစိမ်ယစ်မူးနေယင်း တဖြည်းဖြည်း အင်အားယုတ်လျော့လာချိန်တွင် မိဒတို့သည် အင်အားတောင့်တင်းလာပြီးလျှင် ခေါင်းထောင်လာကြသည်။ ဘီစီ ၇၀၀ ခန့်တွင် တိုင်းဂရစ်မြစ် အရှေ့ဖက်တောင်တန်း ဒေသ၌ အင်အားကောင်းသော အိုင်ရေးနီးယန်း နိုင်ငံတခုကို တည်ထောင်လာကြလေသည်။ထိုနိုင်ငံမှာ ပါရှင်းပင်လယ်ကွေ့ဖက်မှ မြောက်ဖက် ပင်လယ်နက်ဒေသများသို့တိုင်၏။ ထိုနိုင်ငံ၏မြို့တော်မှာ အက်ဗာတာနာ ဖြစ်သည်။ ဘီစီ ၆၁၂ ခုနှစ်သို့ ရောက်သောအခါ မိဒတို့သည် ဗက်ဗီလုံးနှင့် ပူးပေါင်းကာ အဆီးရီးယားနိုင်ငံနှင့် နင်းနိဗမြို့တော်ကြီးကိုပင် သိမ်းပိုက်လိုက်ကြလေသည်။

ဤသို့ဖြင့် မိဒတို့သည် အာရှတိုက်အနောက်ပိုင်းဖက်တွင် တန်ခိုးကြီးသော လူမျိုးတမျိုး ဖြစ်လာလေသည်။ သို့သော်လည်း သူတို့၏ခေါင်းထောင်နိုင်မှုသည် တာမရှည်လှချေ။ အနှစ် ၅၀ ခန့်ကြာသောအခါ သူတို့နှင့် အဆက်အနွယ်တူ၊ အယူဝါဒတူဖြစ်၍ သူတို့၏စိုးမိုးခြင်းကို ခံနေခဲ့ရသော ပါးရှင်းလူမျိုးများ ထကြွလာတော့၏။ဆိုင်းရပ် ဦးစီးခေါင်းဆောင်ပြုကာ ပုန်ကန်၍ ဘီစီ ၅၅၉ ခုနှစ်လောက်တွင် မိဒဘုရင် အက်ဒတျာဂီး၏ ထီးနန်းကို တိုက်ခိုက်သိမ်းယူအောင်ပွဲဆင်ခဲ့သဖြင့် မိဒတို့သည် ပါးရှင်းတို့၏လက်အောက်သို့ ရောက်သွားလေ၏။ (ဆိုင်းရပ် — ရှု။) ပါးရှင်းတို့၏လက်အောက်တွင် အယူဝါဒတူ အဆက်အနွယ်တူ ဖြစ်သော မိဒတို့မှာ ထိုအချိန်မှစ၍ ပါးရှင်းတို့နှင့် လူမျိုးချင်း ပေါင်းစပ်ရောနှောသွားလေသည်။

**မိတာ။** ။လျှပ်စစ်ဓာတ်မီးကို အသုံးပြုသည့် အိမ်တိုင်း၌ အိမ်ထောင့် နံရံတနေရာတွင် ကပ်ရိုက်ထားသော သေတ္တာငယ်တခုကို တွေ့မြင်နိုင်လေသည်။ ထိုသေတ္တာမှာ မိတာသေတ္တာ ဖြစ်သည်။ ဓာတ်မီး ကုမ္ပဏီသည် တလတကြိမ် မိတာပေါ်၌ ပြနေသော ဂဏန်းအမှတ်အသားများကိုကြည့်၍ မိတာထားသောအိမ်၌ သုံးစွဲသည့် လျှပ်စစ်ဓာတ်အားကို စစ်ဆေးသည်။ ထိုနောက် ကျသင့်သမျှတန်ဖိုးကို အိမ်နေသူတို့ထံမှ တောင်းယူသည်။ ထိုမိတာမျိုးကို လျှပ်စစ်မိတာဟု ခေါ်သည်။

လျှပ်စစ်ဓာတ်မီး မပေါ်မီ ဓာတ်ငွေ့ဖြင့် မီးထွန်းသည့်ခေတ်က ဓာတ်ငွေ့မိတာဟူ၍ မိတာတမျိုးရှိခဲ့သည်။ ဓာတ်ငွေ့မိတာတွင် အစိုမိတာ၊ အခြောက်မိတာဟူ၍ နှစ်မျိုးနှစ်စားရှိ၏။ အစိုမိတာမျိုးမှာ မိတာ၌ တဝက်သာသာမျှ ရေထည့်ထားရသဖြင့် အစိုမိတာဟု ခေါ်ခြင်းဖြစ်သည်။ အများအားဖြင့် ထိုမိတာမျိုးကို မသုံးကြဘဲ ခြောက်သွေ့သည့် မိတာမျိုးကိုသာ အသုံးများကြသည်။ ဓာတ်ငွေ့မိတာတွင် ဓာတ်ငွေ့လုံသော အခန်းငယ်နှစ်ခုပါဝင်၍ အခန်းတခုစီတွင် လေဖိုတခုစီတပ်ဆင်ထားသည်။ လေဖိုတခု ပိန်သွားသောအခါ အခြားတခု ဖောင်းကြွလာစေရန် စီမံထားသည်။ ဖောင်းနေသော ပဌမလေဖိုရှိသည့်အခန်းမှ အဆို့ရှင်သည် ပွင့်နေစဉ် ဒုတိယအခန်းမှ အဆို့ရှင်သည် ပိတ်လျက်ရှိသည်။ ထိုအခါ ပဌမအခန်းထဲသို့ ဓာတ်ငွေ့သည် တိုးဝင်လျက် နေသည်။ ဓာတ်ငွေ့မီးအိမ်ကို ဖွင့်လိုက်သောအခါ ပဌမ အခန်း၏လေဖိုမှ ဓာတ်ငွေ့ကို စုတ်ယူလိုက်သဖြင့် အခန်းတွင်းရှိ ဓာတ်ငွေ့က လေဖိုကို ဖိတွန်းသည်။ ထိုအခါတွင် ထိုလေဖိုမှာ ပြားသွား၍ ဒုတိယအခန်းမှလေဖိုသည် ဖောင်းလာပြီးလျှင် အခန်းထဲတွင် အစကသွင်းထားသော ဓာတ်ငွေ့ကို စုတ်ယူသည်။ ထိုအခါ၌ ပဌမအခန်း၏အဆို့ရှင်မှာ ပိတ်သွား၍ ဒုတိယအခန်းမှအဆို့ရှင်သည် ပွင့်လာပြီးလျှင် ဓာတ်ငွေ့ကိုသွင်းပေးလေသည်။ ဓာတ်ငွေ့၏ဖိအားဖြင့် လေဖိုတွင်းရှိ ဓာတ်ငွေ့

သည် မီးအိမ်သို့ ရောက်သွားသောကြောင့် ထိုလေဖိုမှာ ပိန်ကပ်သွားလျက် ပဌမအခန်းမှ လေဖိုသည် ဖောင်းကြွလာပြန်သည်။ ထိုနောက် ဖော်ပြခဲ့သည့်အတိုင်း မီးအိမ်သည် လေဖိုတခုစီမှ ဓာတ်ငွေ့ကို တလှည့်စီ ရရှိလေသည်။ အဆိုရှင်များမှာ ခွေးသွားစိတ် ဘီးများနှင့် ဆက်သွယ်ထားခြင်းဖြင့်ခွေးသွားစိတ်ဘီးလည်သည့်အတိုင်း ခွေးသွားစိတ်ဘီးနှင့် ဆက်ထားသော ဒိုင်ယယ်မျက်နှာပြင်ပေါ်ရှိ လက်တံကလိုက်၍ လည်နိုင်သည်။ ထိုဒိုင်ယယ် မျက်နှာပြင်ပေါ်မှ လက်တံကို ကြည့်ခြင်းဖြင့် အိမ်၌သုံးစွဲသော ဓာတ်ငွေ့၏အတိုင်းအဆကို သိနိုင်သည်။

လျှပ်စစ်မီတာများတွင် လျှပ်စစ်သံလိုက်များ ပါရှိသည်။ ထိုသံလိုက်တို့ကို ရစ်ပတ်ထားသော ကြေးနန်းကြိုးခွေထဲတွင် လျှပ်စစ်ဓာတ်စီးသည် ဖြတ်သန်းသွားသည်။ လျှပ်စစ်ဓာတ်စီး ဖြတ်သန်းသွားသောအခါ သံလိုက်မှ သံလိုက်အားတို့သည် ဝင်ရိုးတံငယ်ကလေးတခုကို လည်စေသည်။ ဝင်ရိုးတံနှင့် ဆက်သွယ်လျက်ရှိသော သတ္တုဆလင်ဒါလည်း လိုက်၍လည်သည့်။ ထိုဝင်ရိုးတံနှင့် ဆလင်ဒါတို့သည် ဒိုင်ယယ်မျက်နှာပြင်ပေါ်ရှိ လက်တံနှင့် ဆက်သွယ်နေသည်။ လျှပ်စစ်ဓာတ်စီး များလာလေလေ ထိုပစ္စည်းတို့သည် မြန်မြန် လည်လေလေဖြစ်သည်။ ဒိုင်ယယ် မျက်နှာပြင်ပေါ်က လက်တံလည်သည်ကို ကြည့်ခြင်းဖြင့် လျှပ်စစ်ဓာတ်စီး မည်မျှ ဖြတ်သန်းသွားသည်ကို သိနိုင်ပေသည်။ ထိုလက်တံသည် ဒိုင်ယယ်မျက်နှာပြင်ပေါ်၌ သုံးစွဲပြီးသော လျှပ်စစ် ဓာတ်စီး (ကီလိုဝပ်အာဝါ)ကို ပြသည်။ ထိုမှတဆင့် ဆက်သွယ်ထားသော ခွေးသွားစိတ်ဘီးများဖြင့် အစဉ်လည်လိုက်နေသော အခြားဒိုင်ယယ် မျက်နှာပြင်များပေါ်က လက်တံများသည် ကီလိုဝပ်၏ ဆယ်ကိန်း၊ ရာကိန်း၊ ထောင်ကိန်းတို့ကို အစဉ်လိုက် ပြကြလေသည်။

**မီယာရှမ် ပင်လယ်ရေမြှုပ်။** ။မီယာရှမ် ဆိုသည်မှာ ဂျာမန် စကားမှ ဆင်းသက်လာ၍ ပင်လယ်ရေမြှုပ်ဟု အဓိပ္ပါယ်ရသောကြောင့် မီယာရှမ် ပင်လယ်ရေမြှုပ်ဟု ခေါ်စေကာမူ စင်စစ်ယင်းမှာနူးညံ့၍ဖြူသော မြေစေးကဲ့သို့သော တွင်းထွက် ပစ္စည်းတမျိုးဖြစ်သည်။ ခြောက်သွေ့သောအခါ ရေပေါ်တွင် ပေါ်နိုင်သည်။ မြေစေးနှင့် တူ၍ ဆေးတံများ ပြုလုပ်ရာတွင် အသုံးပြုလေ့ရှိသည်။ ထိုပစ္စည်းကို အာရှမိုင်းနားပြည်တွင် အများအပြားရနိုင်သည်။ မြေလွှာအောက်၌ အခဲလိုက်တည်ရှိတတ်သည်။ ယင်းတွင် မက်ဂနီဇီယမ်၊ဆီလီကွန်၊ အောက်ဆီဂျင်နှင့် ရေပါဝင်၍ ဓာတုဗေဒအခေါ်အရ ထိုပစ္စည်းသည် ရေပါဝင်သောမက်ဂနီဇီယမ် ဆီလီကိတ်ပင် ဖြစ်သည်။

ထိုပင်လယ်ရေ မြှုပ်ဖြင့်ပြုလုပ်ထားသော ဆေးတံတွင်စိမ့်နိုင်သောအ ပေါက်ကလေးများ ပါရှိသဖြင့် အရောင်ကို စုတ်ယူပြီးလျှင် တဖြည်းဖြည်း အညိုရောင်ထ၍ တောက်ပလာသည်။ သို့သော် ဆေးအိုးသည် ပူလွယ်ပြီးလျှင် ကျိုးလွယ်တတ်၏။ အဆိုပါဆေးတံမျိုးကိုဗီယင်းနားနှင့် ပါရစ်မြို့များ၌ အကြီးအကျယ် ပြုလုပ်ကြသည်။ စီးကရက် စွပ်တံများ ပြုလုပ်ရာတွင်လည်း ထိုပင်လယ် ရေမြှုပ်မျိုးကို အသုံးပြုတတ်ကြသည်။

တူးခါစတွင် ထိုပင်လယ်ရေမြှုပ်သည် ဆပ်ပြာကဲ့သို့ ပျော့ပျောင်း၍ ရေနှင့်ထိလျှင်လည်း အမြှုပ်ထကာ ချေးနှင့်ဆီကို ချွတ်နိုင်သည်။ အဆိုပါ ပင်လယ်ရေမြှုပ်ကို အာရှမိုင်းနားအပြင် ချက်ကိုဆလိုဗားကီးယားနိုင်ငံ မိုရေးဗီးယားပြည်နယ်၊ စပိန်နိုင်ငံ၊ ရုရှ နိုင်ငံ ကရိုင်းမီယားနယ်နှင့် အမေရိကန်ပြည်ထောင်စု တောင်ကရိုလီးနား ပြည်နယ်များမှလည်း ရနိုင်သည်။ စပိန်နိုင်ငံတွင် ထိုပင်လယ်ရေမြှုပ်ကို အိမ်ဆောက်အုတ်အဖြစ် အသုံးပြုကြသည်။

**မီလတန်, ဂျွန်** (ခရစ် ၁၆၀၈ – ၁၆၇၄)။ ။ဗြိတိသျှ စပီးယားမှတပါး အထင်ပေါ် အကျော်စောဆုံးသော အင်္ဂလိပ်ကဗျာဆရာကြီးမှာ ဂျွန်မီလတန်ဖြစ်လေသည်။ ထိုပုဂ္ဂိုလ်ကြီးကား ကဗျာစာဆိုကြီး တဦးသာမက နိုင်ငံရေးစာရေးဆရာကြီးလည်း ဖြစ်ပေသည်။ မီလတန်သည် ၁၆၀၈ ခုနှစ် ဒီဇင်ဘာလ ၉ ရက်နေ့တွင် လန်ဒန်မြို့၌ မွေးဖွားခဲ့ရာ ရှိတ်စပီးယား မကွယ်



နာမည်ကျော် အင်္ဂလိပ် ကဗျာဆရာကြီး ဂျွန်မီလတန်

လန်ဒန်မြို့မှ ၈ နှစ်ခန့်က ဖြစ်၏။ ဖခင်ဖြစ်သူမှာ စာချုပ်စာတမ်းများရေးသူနှင့် ငွေချေးကိုယ်စားလှယ်အလုပ်ဖြင့် အသက်မွေးသူ ဖြစ်လေသည်။ သို့သော် တူရိယာဂီတဖက်တွင် ဝါသနာထုံ၍ သီချင်းများလည်း ရေးတတ်၏။ စာပေလည်း အတော်အတန် တတ်မြောက်လေသည်။ သူ၏ အလုပ်အကိုင်ဖြင့် ဝင်ငွေလမ်းဖြောင့်နေသော လူရည်တတ်တဦးဖြစ်သည့်အတိုင်း သားဖြစ်သူ ဂျွန်မီလတန်အား အိမ်၌ ဆရာများဖြင့်ပညာသင်စေပြီးလျှင် သူကိုယ်တိုင်လည်း သင်ကြားပေးခဲ့လေသည်။ မီလတန်သည် ဖခင်ဖြစ်သူကဲ့သို့ပင် အတီးအမှုတ်တော်သည့်ပြင် အသံကောင်းကောင်းနှင့် အဆိုပိုင်သူတဦးဖြစ်လေသည်။ ၉ နှစ်သားအရွယ်မှစ၍ ကဗျာများ စတင် ရေးသားခဲ့လေသည်။

၁၂ နှစ်အရွယ်တွင် စိန်ပေါကျောင်းသို့ တက်ရောက်ပညာသင်ယူ၏။ ဂရိ၊ ပြင်သစ်၊ ဣတာလျံ၊ ဟီဗြူဘာသာစာပေတို့နှင့် အက်ဒမန် ဆပင်စာ၏ ကဗျာများကို လေ့လာဆည်းပူးခဲ့၏။ နောင်အခါတွင် သူ၏ စိတ်ကူးစိတ်သန်းများမှာ ဆပင်စာ၏ကဗျာများကို လေ့လာရာမှ ပေါ်ပေါက်ခဲ့သည်ဟု ဝန်ခံလေသည်။

ထိုနောက်တွင် ကိမ်းဗရစ်တက္ကသိုလ် ခရိုက်ကောလိပ်တွင် ၁၇ နှစ်အရွယ်မှ ၂၄ နှစ် အရွယ်တိုင်အောင် ၇ နှစ်မျှ ပညာဆည်းပူးခဲ့ရာ စာပေများကို အထူးလေ့လာလိုက်စားခဲ့လေသည်။ မီလတန်မှာ ပိန်ပိန်ပါးပါးနှင့် ရုပ်ရည်သန့်ပြန့်တင့်တယ်သူ ဖြစ်လေသည်။ ပညာဉာဏ် ပါရမီထူးခြားသူဖြစ်၍ စာပေ သင်အံလေ့ကျက်ရာ၌ တတန်းထဲနေ အခြားသူများထက် ပေါက်ရောက်တတ်မြောက်ခဲ့လေသည်။ မိမိ၏အကျင့်စာရိတ္တတွင် မှဲ့တပေါက် အစွန်းမခံရအောင် ခပ်တည်တည်ခပ်အေးအေးနေတတ်သဖြင့် ပညာချွန်သော်လည်း ခင်မင်ရင်းနှီးသူ မများလှချေ။

မီလတန်မှာ ငယ်ရွယ်စဉ်ကပင် အယူဝါဒဖက်တွင် ရိုသေကိုင်းရှိုင်းသူဖြစ်ရာ၊ မိဖများက သူကို သာသနာ့ ဝန်ထမ်းဖြစ်စေလို၏။ သို့သော် ထိုစဉ်ကအင်္ဂလန်သာသနာရေးဂိုဏ်း၏ စည်းမျဉ်းနှင့် ဝါဒများကို မီလတန်သည် သဘောမကျခဲ့သဖြင့် သာသနာ့ဘောင်သို့ ဝင်ရန်အကြံကို နောင်အခါတွင် စွန့်လွှတ်လိုက်လေသည်။

တက္ကသိုလ်မှထွက်ပြီးသည့်နောက်တွင် မီလတန်မှာ ပညာဆည်းပူး၍ မပြည့်စုံသေးဟု ယူဆထားသဖြင့် စာပေကို ဆက်လက်လေ့လာလိုက်စားလိုသော ဆန္ဒရှိနေခဲ့သေး၏။ ထိုအခါ သားဖြစ်သူ၏ အစွမ်းအစ တိုးတက်လာရေးအတွက် ဆောင်ရွက်ပေးလိုသောဆန္ဒ အမြဲပင်ရှိနေခဲ့သော ဖခင်ဖြစ်သူသည် သားဖြစ်သူ အလိုရှိသည့်အတိုင်း လန်ဒန်မှ မိုင် ၂၀ ဝေးသော ဗတ်ကင်ဟမ်ရှိုင်ယာနယ် ဟော်တန်မြို့ရှိ သူပိုင်သော တောပိုင်းအိမ်တွင် စိတ်တိုင်းကျ စာပေများ ဆက်လက်လိုက်စားကာ အေးချမ်းစွာ နေထိုင်နိုင်အောင် စီစဉ်ပေးခဲ့လေသည်။ မီလတန်သည် ထိုအိမ်တွင် ၆ နှစ်မျှ အသက် ၇၀ ကျော်ဖခင်အိုကြီးနှင့် အတူနေထိုင်၍ ရှိတ်စပီးယားနှင့် ဆပင်စာတို့၏ စာပေများ၊ အခြား စာကြီး ပေကြီးများ၊ ဂရိနှင့်ဣတာလျံ သမိုင်းနှင့် စာပေတို့ကို ဖတ်ရှု လေ့လာလိုက်စားခဲ့လေ၏။ ထိုအတောအတွင်း သူ၏ အကောင်းဆုံးကဗျာများဟု ဆိုလောက်သည့် သီချင်းကဗျာများကိုလည်းစပ်ဆိုခဲ့လေသည်။

၁၆၃၇ ခုနှစ်တွင် မိခင်ကွယ်လွန်သွားပြီးနောက် ၁၆၃၈ ခုနှစ် အသက် ၃၀ အရွယ်တွင် မီလတန်သည် ဥရောပတိုက်သို့ ဒေသန္တရခရီးထွက်ခဲ့လေသည်။ ယင်းသို့ ခရီးထွက်ခဲ့ရာတွင် ထိုခေတ်အခါက ထင်ရှားကျော်ကြားသော ပုဂ္ဂိုလ်ကြီးများနှင့် တွေ့ဆုံခဲ့ရလေ၏။ ၁၅ လခန့် ဥရောပတိုက်တလွှားတွင် လည်ပတ်နေခဲ့စဉ် အင်္ဂလန်ပြည်တွင် ဘုရင်နှင့်ပါလီမန်တို့ အာဏာလုနေသည့်အတွက် ပြည်တွင်းစစ်ဖြစ်လုဆဲဆဲ ရှိနေသည်ဟူသောသတင်းကို ကြားရလေသည်။ ထိုအခါ မိမိ၏တိုင်းပြည်တွင် လှုပ်လှုပ် ရွ ရွ ဖြစ်နေစဉ် မိမိက စိတ်လက်အေးချမ်းပျော်ရွှင်စွာဖြင့် လည်ပတ်မနေလိုသည့်ပြင် မိမိ၏တိုင်းသူပြည်သားများကို လွတ်လပ်ရေးအတွက် တိုက်ခိုက်ရာတွင် ကူညီလိုသော ဆန္ဒကြောင့် အင်္ဂလန်ပြည်သို့ ပြန်ခဲ့လေသည်။

အင်္ဂလန်ပြည်သို့ ပြန်ရောက်သောအခါ လန်ဒန်မြို့တွင် နေထိုင်၍ ပါလီမန်နှင့် ပျူရီတန်တို့ဖက်မှ အားပေးကူညီခဲ့လေသည်။ သူသည် ပါလီမန်နှင့် ပျူရီတန်တို့အား ထောက်ခံအားပေးသည့် စာရွက်စာတမ်း အများအပြား ရေးသားခဲ့၏။ ထို့ကြောင့် ယခင်ကကဲ့သို့ ကဗျာများကို မရေးသားတော့ဘဲ စကားပြေဖြင့်သာ နိုင်ငံရေးရာများကို ကလောင်ဝင်ခဲ့လေသည်။ ၁၆၄၂ ခုနှစ်တွင် ပါလီမန်နှင့် ပဋ္ဌမချားတို့အာဏာလုပွဲမှာ လက်နက်စွဲကိုင်တိုက်ခိုက်သည့်ပြည်တွင်းစစ်အဖြစ်သို့ ပြောင်းလဲသွားလေ၏။ မီလတန်မှာကိုယ်တိုင်တိုက်ခိုက်ခြင်း မပြုသော်လည်း ပျူရီတန်တို့အား များစွာ ကူညီခဲ့လေသည်။ ထို့ပြင် ပါလီမန်ဖက်တော်သားများအတွက် ဝါဒဖြန့် စာရွက်စာတမ်း များစွာ ရေးသားထုတ်ဝေခဲ့၏။ ၁၆၄၉ ခုနှစ်တွင် ချားဘုရင်အား ခေါင်းဖြတ်သတ်သည့် အခါ၌လည်း ပျူရီတန်တို့မှာ ဝတ်တရား ရှိလာသောကြောင့်သာ ဘုရင်အား စီရင်ရကြောင်း ရှင်းလင်းချက် စာတမ်းပင် ရေးသားထုတ်ဝေခဲ့လေသည်။

၁၆၄၃ ခုနှစ်လောက်တွင် မီလတန်သည် ဘုရင့်ဖက်တော်သား မြေပိုင်ရှင်တဦး၏သမီး မေရီပေါင်ဝယ်ဆိုသူနှင့် လက်ထပ်ခဲ့လေသည်။ ထိုမိန်းကလေးမှာ အသက် ၁၇ နှစ်မျှသာရှိသေးရာ သူ၏အသက်၊ ထက်ဝက်မျှ ငယ်သေး၏။ ထို့ပြင် အပူအပင်မရှိဘဲ ပျော်ပျော်နေတတ်သူကလေးဖြစ်ရာ

မီလတန်က တည်ကြည်အေးစက်စွာ ပြောဆိုဆက်ဆံသည်ကို သည်းမခံနိုင် ဖြစ်လာသောကြောင့် လက်ထပ်ပြီး တလခန့်အကြာတွင် မိဖရပ်ထံသို့ ခေတ္တဆိုကာ ပြန်သွားရာ ၃ နှစ်ကြာမှ ပြန်လာခဲ့၏။ ၁၆၅၂ ခုနှစ်တွင်ကား ထိုဇနီးသည်က လေး သေဆုံးသွားခဲ့ရာ သမီး ၃ ယောက် ကျန်ခဲ့လေသည်။ ယင်းသို့ဖြင့် မီလတန်၏ အိမ်ထောင်ရေးမှာ ချမ်းမြေ့ သာယာခြင်းမရှိ ဖြစ်ခဲ့ရပေသည်။

မီလတန်သည် မိမိ၏အိမ်ထောင်ရေး မသာယာမှုကို အကြောင်းပြုကာ လွတ်လပ်စွာ လင်မယား ကွာရှင်းနိုင်ရေးကို ထောက်ခံသော စာတမ်းတစောင် ရေးသားခဲ့၏။ ယင်းစာတမ်းနှင့်စပ်လျဉ်း၍ လူများ အတော်လှုပ်လှုပ်ရှားရှား ဖြစ်ခဲ့သည့်ပြင် ပြင်းပြင်းထန်ထန် ဝေဖန်ခြင်းလည်း ခံရလေသည်။

ချားဘုရင်အား ခေါင်းဖြတ် အဆုံးစီရင်ပြီးသည့်နောက်တွင် ကွမ်မွန်းဝဲ့အစိုးရ၏ နိုင်ငံခြား ဘာသာစကားများဆိုင်ရာ အတွင်းရေးမှူးအဖြစ် ခန့်ထားခြင်း ခံရလေသည်။ ထိုအလုပ်မှာ နိုင်ငံခြားတိုင်းပြည်များနှင့် ဆက်ဆံရာတွင် အလဲအလှယ် ပေးပို့ကြသော သဝဏ်လွှာများကို လက်တင်ဘာသာသို့ ပြန်ဆိုခြင်းနှင့် နိုင်ငံအစိုးရ၏ သဘောထားဝါဒများကိုလည်း တိုင်းတပါးတို့ သိရှိရန် စာတမ်းများကို လက်တင်ဘာသာဖြင့် ရေးသားထုတ်ဝေရခြင်း ဖြစ်လေသည်။ ထိုကြောင့် မီလတန်အား လက်တင်အတွင်းရေးမှူးဟုလည်း ခေါ်ကြလေသည်။

မီလတန်သည် ကရွမ်းဝဲအား လေးစားကြည်ညိုခဲ့သူ ဖြစ်လေရာ ကရွမ်းဝဲကိုယ်တိုင် ခန့်ထားသည့် ထိုရာထူးတွင် ထမ်းရွက်ရာ၌ တာဝန်ကျေပြွန်အောင် အထူးပင် ကြိုးစား လုပ်ကိုင်ပေးခဲ့လေ၏။ ထိုကြောင့် ငယ်စဉ်ကပင် စာပေလေ့လာလွန်း၍ မျက်စိမှုန်ခဲ့သူ မီလတန်မှာ ၁၆၅၂ ခုနှစ်တွင် မျက်စိလုံးလုံး ကွယ်ခဲ့လေသည်။ သို့သော် မီလတန်သည် မိမိ၏ ရာထူးကို လက်မလွှတ်သေးဘဲ ငယ်သားတို့၏ အကူအညီဖြင့် ၁၆၅၇ ခုနှစ်တိုင်အောင် ဆက်လက်လုပ်ကိုင်ခဲ့၏။

၁၆၆၀ ပြည့်နှစ်တွင်ကား မျက်စိကွယ်သည်ထက် မီလတန်အား ပိုမို စိတ်ထိခိုက်သည့် ပြောင်းလဲမှုကြီး ဖြစ်ပေါ်ခဲ့လေသည်။ထိုနှစ်တွင် မီလတန်အထင်ကြီးကြီးနှင့် မြှော်လင့်အားထားခဲ့သော ကွမ်မွန်းဝဲ့အစိုးရ အုပ်ချုပ်မှု ပျက်ပြားသွား၍ ဘုရင့်အုပ်စိုးမှုပြန်လည်ထွန်းကားလာလေသည်။မီလတန်တို့ ခေါင်းဖြတ်အဆုံးစီရင်ခဲ့သော ချားဘုရင်၏ သားတော် ဒုတိယ ချား နန်းတက်လေရာ၊ မီလတန်အား ဖိနှိပ်ညှဉ်းပန်းခြင်းမှာ အဆန်းမဟုတ်ချေ။ အသတ်မခံရခြင်းပင် ကုသိုလ်ကောင်းသည်ဟု ဆိုရပေမည်။ မီလတန်သည် နာမည်ကြီးသော ကဗျာဆရာဖြစ်သဖြင့်သာ အသက်ဘေးမှ လွတ်ခဲ့ရသည်ဟု ဆိုလေသည်။ မည်သို့ဖြစ်စေ အောက်လွှတ်တော်အမိန့်ဖြင့် ထောင်သွင်း အကျဉ်းချခြင်းကား ခံခဲ့ရ၏။ သို့သော် မျက်နှာကြီး မိတ်ဆွေကောင်းများက ကူညီစောင့်ရှောက်သောကြောင့် ထောင်မှ လွတ်ခဲ့ရလေ၏။

မီလတန်မှာ အသက် ၅၂ နှစ် တတိယအရွယ်တွင် ကံဆိုးမိုးမှောင်ကျခဲ့သည်ဟု ဆိုနိုင်လေသည်။ သူသည် ထောင်မှ လွတ်ခဲ့သော်လည်း ပစ္စည်းဥစ္စာလည်း ပျက်ပြား၊ လူကလည်း ကောင်းစွာမမာသည့်ပြင်၊ မျက်စိလည်း ကွယ်နေလေသည်။ထိုပြင် ပဌမဇနီးနှင့် ရသည့်သမီးများမှာလည်း စောင့်ရှောက်ထိန်းသိမ်းမည့်သူ မရှိဘဲ ကြီးပြင်းလာရသည့် အားလျော်စွာ စာမတတ်ဘဲ၊ တကိုယ်ကောင်းစိတ်မွေးကာ ဖြုန်းတီးရန်သာတတ်သဖြင့် မီလတန်မှာ သူတို့အတွက် များစွာ စိတ်ဆင်းရဲခဲ့ရလေ၏။ ၁၆၅၆ ခုနှစ်တွင် ကက်သရင်းဟုကော့အမည်ရှိ အမျိုးသမီးတဦးနှင့် လက်ဆက်ပြန်ရာ ၁၆၅၇ ခုနှစ်တွင် မီးတွင်း၌ဆုံးသွားလေသည်။ ၁၆၆၃ ခုနှစ်မှ စ၍ကား မီလတန်မှာ အိမ်ထောင်ရေးသုခကို အတော်ကလေး ခံစားရလေသည်။ အကြောင်းမှာ ထိုနှစ်တွင် လက်ထပ်ခဲ့သည့် တတိယဇနီး အယ်လစ်ဇဗက်မင်ရှယ်သည် မီလတန်ထက် အသက် ၃၀ ခန့်ငယ်သော်လည်း မီလတန်အား ချစ်ခင်ယုယစွာ လုပ်ကျွေးပြုစုခဲ့သောကြောင့် ဖြစ်လေသည်။

မီလတန်သည် ထောင်မှ လွတ်ပြီးနောက် ဟော်တန်မြို့ရှိ တောအိမ်တွင်ပြောင်းရွှေ့နေထိုင်ပြီးသော် သူရည်ရွယ်ခဲ့ရင်းအတိုင်း စာပေရေးသားခြင်းလုပ်ငန်းကို ပြန်လည် လုပ်ကိုင်ခဲ့လေသည်။ ဒုက္ခမှန်တိုင်းအမျိုးမျိုး ကြုံခဲ့ရပြီးနောက် သူ၏ တတိယအရွယ် နောက်ပိုင်းတွင် ချမ်းမြေ့သာယာမှုကလေးများ ရခဲ့သဖြင့် မီလတန်မှာ သူရေးသားရန် ကြံရွယ်ခဲ့သည့် 'ဆုံးရှုံးရသည့်လောကနိဗ္ဗာန်' ဟူသောကဗျာရှည်ကြီးကိုရေးသားနိုင်ခဲ့လေ၏။ ၁၆၆၇ ခုနှစ်တွင် ထိုကဗျာကြီးကို ပုံနှိပ်ထုတ်ဝေခဲ့လေရာ လူကြိုက်အလွန်များ၍ မီလတန်၏အမည်မှာ တမုဟုတ်ခြင်း ဟိုးလေးတကျော် ဖြစ်သွားလေသည်။ ထိုကဗျာကြီးကား မီလတန်၏ အမည်ကို ကမ္ဘာတည်သရွေ့ အဓွန့်ရှည်စွာ ဥဒါန်းတွင်စေမည့် ကောင်းခြင်း အင်္ဂါနှင့်ပြည့်စုံလှသည့် ကဗျာကြီးပေတည်း။ မီလတန်မှာ ဘုရားတရား အလွန်ကြည်ညိုသူဖြစ်လေရာ ထိုကဗျာကြီးကို သမ္မာကျမ်းစာပါ အာဒမ်နှင့်ဧဝတို့၏ အကြောင်းကို မူတည်လျက် ရေးသားထားသဖြင့် အလွန်ခန့်ညားလှသည့် သမ္မာကျမ်းလာ ကဗျာကြီးဟု ခေါ်ထိုက်လှပေသည်။

ထိုကဗျာကြီးအပြင် နောင်အခါတွင် "လောကနိဗ္ဗာန်ပြန်ရခြင်း" ကဗျာနှင့် "ဆမ္မဆန်၏ သောက" ကဗျာကြီးများကိုရေးသားခဲ့သေး၏။ သို့သော် "ဆုံးရှုံးရသည့် လောကနိဗ္ဗာန်" လောက်မကောင်းလှချေ။ မီလတန်၏စာပေများကို အချိန်ကာလအလိုက် ၃ ပိုင်းခွဲခြားနိုင်ပေသည်။ ပြည်တွင်းစစ်မဖြစ်မီ ပဌမကာလတွင် မီလတန်သည် သီချင်းကဗျာတိုကလေးများကို ရေးသားခဲ့၏။ ပြည်တွင်းစစ်ခေတ် အတွင်း

ဒုတိယကာလ၌မူ နိုင်ငံရေး စာပေများကို စကားပြေဖြင့် ရေးသားခဲ့သည်။ တတိယကာလတွင် ရေးသားခဲ့သည့် ''ဆုံးရှုံးရသည့် လောကနိဗ္ဗာန်'' စသည့်ကဗျာရှည်ကြီးများကား အလွန်တရာတင့်တယ်ခန့်ညားလှ၍ ခေတ်အမျိုးမျိုး ပြောင်းသော်လည်း တသမတ်တည်း အစွန့်ရှည်စွာ ကျော်ကြားနေမည့် မီလတန်၏ အကောင်းဆုံး လက်ရာများ ဖြစ်ပေသည်။ ဆုံးရှုံးရသည့် လောကနိဗ္ဗာန် ကဗျာကြီးမှာ သမ္မာကျမ်းစာနှင့် ရှိတ်စပီးယား၏ ပြဇာတ်များမှလွဲ၍ အင်္ဂလိပ်လူမျိုးတို့၏စာပေနှင့် အတွေးအခေါ်ကို အလွှမ်းမိုးဆုံးသော ကဗျာဖြစ်လေသည်။

မီလတန်ကား မိမိ၏ ယုံကြည်အားထားချက်ကို စွဲစွဲလမ်းလမ်းနှင့် အနစ်နာခံကာ ဆောင်ရွက်ခဲ့သူ ဖြစ်၏။ ပျူရီတန်တို့၏ဝါဒကို ယုံကြည်လေးစားသူ ဖြစ်သည့်အတိုင်း ပျူရီတန်တို့ ခေါင်းဆောင်သည့် ကွမ်မွန်းဝဲ့ အစိုးရအဖွဲ့အတွက် မျက်စိနှစ်လုံးအကွယ်ခံကာ ဆောင်ရွက်ခဲ့လေသည်။ မီလတန်ကား အကျင့်စာရိတ္တတွင် မှဲ့တပေါက်မစွန်းရလေအောင် တည်ကြည်ဖြောင့်မှန်စွာ နေခဲ့လေ၏။ ဤကဲ့သို့သောအရည်အချင်းများနှင့် ပြည့်စုံခဲ့သည့် စာဆိုကြီးသည် ၁၆၇၄ ခုနှစ် နိုဝင်ဘာလ ၈ ရက်နေ့တွင် အနိစ္စရောက်သွားလေသည်။

ထိုအချိန်တွင် သူ၏ စာပေအရေးအသားတို့ကြောင့် သူ့ရန်သူဟောင်းများပင် မီလတန်အား ချစ်ခင်လေးစားလာကြပြီဖြစ်၏။ မီလတန်ကွယ်လွန်ပြီးနောက်တွင်ကား သူ၏ စွမ်းရည်ကို မှီအောင် လိုက်နိုင်သည့် စာဆိုများ မပေါ်ပေါက်ခဲ့သေးချေ။

**မီလန်မြို့။** ။ဣတလီနိုင်ငံ၏ ဒုတိယအကြီးဆုံးမြို့ဖြစ်သော မီလန်မြို့သည် ဣတလီနိုင်ငံမြောက်ပိုင်း လောင်ဗာဒီလွင်ပြင်ဒေသရှိ အော်လိုးနားမြစ်ကမ်းပေါ်တွင် တည်ရှိ၏။ လောင်ဗာဒီခရိုင် မီလာနိုနယ်၏ ရုံးစိုက်မြို့ ဖြစ်သည်။ လူဦးရေ ၁,၂၈၅,၇၀၀ မျှ ရှိလျက်၊ ပိုးထည်လုပ်ငန်း၊ ခြည်ထည်လုပ်ငန်း၊ ပိုးတုထည်လုပ်ငန်း၊ စက်ကရိယာလုပ်ငန်းကြီးများဖြင့် အထူးပင် စည်ကားသော မြို့ကြီးဖြစ်၏။ မီးရထားစက်ခေါင်းများ၊ မီးရထားတွဲများ၊ မော်တော်ယာဉ်နှင့် အခြားယာဉ်များ၊လျှပ်စစ်ဓာတ်ဆိုင်ရာ ပစ္စည်းများနှင့်တကွ ကြက်ပေါင်စေးဖြင့် ပြုလုပ်သော ပစ္စည်းများ အကြီးအကျယ်ထုတ်လုပ်၏။လေယာဉ်ပျံကွင်းကြီးတခုနှင့် ကမ္ဘာပေါ်တွင်အကြီးဆုံးဟုဆိုသော ခမ်းနားသည့် မီးရထားဘူတာရုံတခု ရှိ၏။

ထိုမြို့တွင် အစိုးရ လယ်ယာ စိုက်ပျိုးရေးနှင့် ကူးသန်း



**အနုပညာနှင့် စာပေထွန်းကားခဲ့သော မီလန်မြို့၏ ကျက်သရေဆောင် ငြိမ်းချမ်းရေးမုခ်ခုံး**

ရောင်းဝယ်ရေး အတတ်သင် ကျောင်းကြီးတခုအပြင်၊ နာမည်ကျော် စာကြည့်တိုက်ကြီး ၂ ခုလည်း ရှိ၏။ မီလန်မြို့ရှိ စကေလာပြဇာတ်ရုံကြီးမှာ ဥရောပတိုက်တွင် ဒုတိယအကြီးဆုံး အော်ပရာဇာတ်ရုံဖြစ်၏။ တူရိယာဂီတ အတတ်သင် ကျောင်းကြီးမှာလည်း ဥရောပတိုက်တွင် ရှေးအကျဆုံးနှင့် အလှပဆုံး အဆောက်အအုံတခု ဖြစ်လေသည်။

မီလန်မြို့သည် အနုပညာနှင့် စာပေထွန်းကားခဲ့သော မြို့ကြီးတမြို့လည်း ဖြစ်၏။ ဗရဲရာနန်းတော် အဆောက်အအုံကြီးကား မီလန်အနုပညာနှင့် သိပ္ပံပညာရပ်ဆိုင်ရာ ပညာတံခွန်အဖွဲ့တည်ရာ ဌာနတခုဖြစ်၏။ ထိုနန်းတော်ရှိ ပန်းချီခန်းကြီးတွင်လည်း ကမ္ဘာကျော် ပန်းချီဆရာကြီးများဖြစ်သော ရက်ဖီအယ်၊ တစ်ရှန်အစရှိသော ပန်းချီကျော်များ၏လက်ရာများကို ပြသထား၏။ မြို့၏ အလယ်တွင်ရှိသော ပီယာဇာဒယ် ဒူအော်မို ဘုရားရှိခိုးကျောင်းကြီးသည် ဥရောပတိုက်တွင် တတိယအကြီးဆုံး ဖြစ်၏။ ထိုဘုရားရှိခိုးကျောင်းကြီးသည် အလွန်ကျယ်ဝန်း၍ တကြိမ်တည်းတွင် လူပေါင်း လေးသောင်းမျှ ဝတ်ပြုနိုင်လေသည်။ ထိုကျောင်းကြီး၏ အုတ်မြစ်ချပွဲကို ၁၃၈၇ ခုနှစ်ကပင် ကျင်းပခဲ့သည် ဖြစ်သော်လည်း ၁၈၁၃ ခုနှစ်ရောက်မှပင် လုံးဝပြီးစီးလေသည်။ အလျားပေ ၄၉၀ ရှည်၍၊ ပေ ၁၈၀ ကျယ်ပြီးလျှင် ၃၅၄ ပေမြင့်၏။ ပုံပန်းသဏ္ဌာန်မှာ ဂေါ့သစ်ပုံစံဖြစ်လျက် နံရံကပ်လိုဏ်မုခ်များတွင်လည်း ရုပ်တုပေါင်း နှစ်ထောင်ကျော်မျှထုလုပ်ထားရှိ၏။

မီလန်မြို့ကြီးသည် ရှေးအထက်ကျော် ကာရီကပင်လျှင် မြောက်ပိုင်းဒေသများမှ ဝင်ရောက်လာကြသော တိုင်းတပါးသားတို့၏ လမ်းကြောင်းပေါ်တွင် တည်ရှိနေသဖြင့် ကူးသန်းရောင်းဝယ်ရေးတံခါးမကြီးသဖွယ် ဖြစ်နေလျက် စီးပွားရေး တိုးတက်ဖွံ့ဖြိုးခဲ့၏။ ဒုတိယကမ္ဘာစစ်ကြီး မဖြစ်မီက မီလန်မြို့သည် ဣတလီနိုင်ငံ စက်မှုလက်မှုလုပ်ငန်း၏ အချက်အခြာ ဌာနတခု ဖြစ်နေခဲ့သည်။ ဘီ၊ စီ၊ ၂၂၂ ခုနှစ် ဂေါလလူမျိုးများလက်မှ ရောမလူမျိုးတို့က မီလန်မြို့ကိုတိုက်ခိုက်သိမ်းယူအုပ်ချုပ်ခဲ့ကြရာမှအစ၊ ထိုမြို့သည် အကြိမ်ကြိမ်အဖန်ဖန် တိုက်ခိုက်မီးရှို့ဖျက်ဆီးခြင်းခံရသည့်အထဲမှပင်လျှင် တနေ့တခြားတိုးတက်စည်ကားလာခဲ့လေသည်။ ထိုမြို့ကြီးကိုဟန်းလူမျိုးများကတကြိမ်၊ ဂေါ့သလူမျိုးများက နှစ်ကြိမ်၊ ၁၁၆၂ ခုနှစ်တွင် ဖရက်ဒရစ် ဗာဗာရောဆားက တကြိမ် မီးရှို့ဖျက်ဆီးခဲ့ကြဘူးလေသည်။ ထိုနောက် အနှစ်တရာခန့်တိုင်အောင် ဆူပူမှုများ အဆက်မပြတ်ပေါ်ပေါက်ခဲ့၍ ၁၇၁၄ ခုနှစ်အထိ စပိန်နိုင်ငံက ထိုမြို့ကြီးကို သိမ်းပိုက်ထားခဲ့၏။ ထိုနောက် သြစတြီးယားနိုင်ငံ၏ လက်အောက်သို့ ကျရောက်သွားခဲ့၏။

ပဌမနပိုလီယန်ဘုရင်က ဣတလီနိုင်ငံ ထူထောင်ရာတွင် ထိုမြို့ကြီးကိုပင် မြို့တော်အဖြစ် သတ်မှတ်ခဲ့လေသည်။ ၁၈၁၅ ခုနှစ် နပိုလီယန်အရေးရှုံးနိမ့်သွားသောအခါ၌ကား သြစတြီးယားတို့လက်သို့ ကျရောက်ခဲ့ရပြန်၏။ ၁၈၅၉ ခုနှစ်တွင်မူ မီလန်မြို့ကြီးသည် လွတ်လပ်သော ဣတလီနိုင်ငံ၏ မြို့ကြီးတမြို့အဖြစ်သို့ ရောက်ရှိခဲ့လေသည်။ မီလန်မြို့သည် ဒုတိယကမ္ဘာစစ်ကြီးအတွင်းက မဟာမိတ်တို့ အကြီးအကျယ် ဗုံးကြဲတိုက်ခိုက်ခြင်းဒဏ်ကို ခံခဲ့ရလေသည်။

**မီး။** ။ရေ၊ မီး၊ မင်း၊ ခိုးသူ၊ မချစ်မနှစ်သက်သောသူ ဟူသည့် ရန်သူမျိုးငါးပါးတွင် မီးသည် အပါအဝင်ဖြစ်၏။ မီးကို မထိန်းသိမ်းတတ်လျှင် လူကို အကြီးအကျယ် ဒုက္ခပေးနိုင်ပေသည်။ ခိုးသူဆိုသည့် ရန်သူနှိပ်စက်သော်လည်း မီးနှိပ်စက်သလောက်မဆိုးရွားချေ။ မီးနှိပ်စက်ခံရသူတို့သည် မည်သည့် ပစ္စည်းကိုမှ ဂရုမစိုက်နိုင်တော့ဘဲ အသက်ချမ်းသာရာ ရအောင် လွတ်ရာသို့ ပြေးကြရသဖြင့် လူချည်းသက်သက် ကျန်ရစ်သူသာ များလေသည်။

အလွန် ကြီးကျယ်ခမ်းနားသည့် ရောမမြို့တော်ကြီးကို ခရစ် ၆၄ ခုနှစ်တွင် မီးရန်သူက ဖျက်ဆီးခဲ့ဘူးလေသည်။ လန်ဒန်မြို့တွင် ၁၆၆၆ ခုနှစ်၌ မီးရန်သူက အကြီးအကျယ် ဖျက်ဆီးခဲ့ဘူးသည်။ ၁၈၇၁ ခုနှစ်၌ ရှီကာဂိုးမြို့တွင်မီးအကြီးအကျယ် လောင်ခဲ့ဘူးသည်။ ဂျပန်နိုင်ငံ တိုကျိုမြို့တော်တွင်လည်း ၁၉၂၃ ခုနှစ်၌မီးအကြီးအကျယ်လောင်ဘူးလေသည်။

မီးသည် ထိုမျှ လူကိုရန်သူသဖွယ်နှိပ်စက်တတ်သော်လည်း အသုံးချတတ်ပါက လူကို များစွာ အကျိုးဖြစ်ထွန်းစေနိုင်ပေသည်။ မီးကိုသာမတွေ့ခဲ့ကြပါက ဤကမ္ဘာတွင် တိုးတက်မှုများကို မည်သည့်နည်းနှင့်မျှ ရရှိနိုင်ခဲ့ကြမည် မဟုတ်ချေ။ မီးဖြင့် ရေကိုကျိုရာမှ ရေနွေးငွေ့ ဖြစ်ပြီးလျှင် ရေနွေးငွေ့အားဖြင့် လိုရာစက်များကို ခုတ်မောင်းနိုင်သဖြင့် မီးရထား မီးသင်္ဘောစသည်တို့ ဖြစ်ပေါ်လာနိုင်ကြပေသည်။

မီးကို မည်သူကစ၍ တွေ့ခဲ့သည်ဆိုသည်ကို ပြောရန်မှာ မဖြစ်နိုင်ပေ။ အဘယ်ကြောင့်ဆိုသော် သမိုင်းမတင်မီ ရှေးပဝေဏီကပင်လူတို့သည်မီးကိုစ၍အသုံးပြုခဲ့ကြသောကြောင့် ဖြစ်သည်။ သို့ရာတွင် မီးကို တစတစ မည်ကဲ့သို့ အသုံးပြုလာခဲ့ကြသည့် အကြောင်းကိုကား သိနိုင်ပေသည်။ ရှေးအခါက မီးသည် ရံဖန်ရံခါ၌သာ ပေါ်ပေါက်လာတတ်သည်။ မိုးကြိုးပစ်ရာမှသော်၎င်း၊ မီးတောင်ပေါက်ကွဲသဖြင့် ပါလာသည့် ချော်များမှသော်၎င်း၊ ဥပါကြွယ်ပျံများမှသော်၎င်း ဖြစ်ပေါ်လာတတ်ပေသည်။ မိုးကြိုးပစ်ရာမှ သွေ့ခြောက်နေသော သစ်ပင်ကြီးတပင်ကို ထိမှန်ပြီးလျှင် မီးတောက်လောင်ကာ တတောလုံးကို ပြာအဖြစ်သို့ ရောက်သွားစေနိုင်ခဲ့ပေသည်။ မီးတောင်ချော်နှင့် ဥပါကြွယ်ပျံများကလည်း မီးကို ဖြစ်စေနိုင်ခဲ့သည်။ သို့ရာတွင် ထိုကဲ့သို့သောဖြစ်ပေါ်မှုသည် တရံတခါသာဖြစ်ပေါ်တတ်သဖြင့်မီးကို အလိုရှိသူသည်အချိန်ကြာမြင့်စွာ စောင့်ဆိုင်း၍ နေရမည်ကဲ့သို့ ဖြစ်နေလေသည်။

ရှေးခေတ်လူတို့သည် မီးကို ရယူရန် ဂရုပြုခဲ့ကြမည် မဟုတ်ချေ။ ဖြစ်သလို နေထိုင်စားသောက်၍သာ အချိန်ကုန်ခဲ့ကြပေမည်။ အမှန်အားဖြင့် ရှေးခေတ်လူများနှင့် သားရဲတိရစ္ဆာန်များသည် မီးကို အသုံးမပြုကြရုံသာမက မီးကို မြင်လျှင် ခြေကုန်ပြေးတတ်ကြလေသည်။

လူနှင့် တိရစ္ဆာန်တို့တွင် အဓိက ခြားနားချက်တခုရှိ၏။ ယင်းမှာ လူတွင် ဖြစ်ပေါ်လာမှုကိစ္စ၌ အကြောင်းရင်းကို သိလိုစိတ်ရှိသည်။ ထိုသို့ သိလိုစိတ်ဖြင့် လူသည် မီးလောင်လျက်ရှိသော သစ်ကိုင်းကို ကောက်ယူပြီးလျှင် လောင်နေသည့်မီးကို သေချာကျနစွာ ကြည့်ခဲ့ပေမည်။ မီးသည် မည်သည့် ပစ္စည်းဖြစ်မည်၊ ထိုပစ္စည်းဖြင့် မည်ကဲ့သို့ ပြုလုပ်နိုင်မည် စသည်ဖြင့် အကြောင်းကြောင်းကို စဉ်းစား ကြည့်ခဲ့ပေမည်။ စိုစမ်းဖန် များလာသောအခါ မကြာမီအတွင်း၌ မီးကို အသုံးချနိုင်ကြောင်းကို တွေ့ခဲ့ပေမည်။ မီးရှိသည့် သစ်စတခုကို ဝှေ့ရမ်း၍ ပြခြင်းဖြင့် အလွန်ကြောက်မက်ဖွယ်ကောင်းသည့် သားရဲတိရစ္ဆာန်များပင် သူတို့၏ အနီးသို့ ချဉ်းကပ်ဝံ့မည် မဟုတ်ကြောင်းကို သိခဲ့ပေမည်။ ထိုနောက် အခြားသစ်ခြောက်စများကို မီးပေါ်တွင် ထားခြင်းဖြင့် သစ်ခြောက်စများတွင် မီးကူးလာပြီးလျှင် မီးကိုလိုသလောက် တာရှည်စွာ ထားနိုင်ကြောင်းကိုလည်း သိလာခဲ့ပေမည်။

ရှေးခေတ်လူတို့သည် တိုက်များ အိမ်များနှင့် မနေထိုင်ခဲ့ကြသော်လည်း ရာသီဥတုဒဏ်ကို ခံနိုင်ရန် အကာအရံများ ရှိရာတွင် နေထိုင်တတ်ကြသည်။ ဥရောပတိုက်ရှိ ရှေးခေတ်လူများသည် ဂူများတွင် နေထိုင်ခဲ့ကြသဖြင့် ဂူပေါက်မှ သားရဲတိရစ္ဆာန်များသည် ညဥ့်အချိန်၌ လူကိုဥပဒ်ပေးနိုင်ကြပေသည်။ မီးကို လိုသလောက် တာရှည်စွာ ထားလာနိုင်သောအခါတွင် ညဥ့်အချိန်၌ ဂူဝတွင် မီးဖိုကာ ထားကြသဖြင့် စိတ်ချမ်းသာစွာ အိပ်နိုင်ကြပေသည်။ သားရဲတိရစ္ဆာန်များသည် မီးကို အလွန်ကြောက်ကြသဖြင့် မီးရှိသည့် ဂူအနီးသို့ပင် လာဝံ့ကြမည်မဟုတ်ချေ။

လူတို့သည် မီးကို တာရှည်စွာ ဖိုထားနိုင်သောကြောင့် အပူဓာတ်ရရှိကာ ရာသီဥတု၏ဒဏ်ကို ခံနိုင်လာကြသည်။ မီးကို ထိုမျှလောက် အသုံးချလာတတ်သော်လည်း မီးကို ဖြစ်ပေါ်စေနိုင်သည့် အကြောင်းကိုကား မသိကြသေးချေ။ ဤသို့ မီးသည် အအေးဒဏ်နှင့် သားရဲတိရစ္ဆာန်များ၏ ဘေးမှ ကာကွယ်ပေးနိုင်မှုန်းကို လူတို့သိပြီးနောက် မကြာမီအတွင်း၌ပင် မီးဖြင့် ချက်ပြုတ်နိုင်ကြောင်းကို သိလာကြပြန်သည်။

ထိုသို့ သိကြခြင်းမှာ အမှတ်မဲ့ သိလာခြင်းသာဖြစ်သည်။ မီးဖိုတွင် လူရှိနေခိုက် သားတစ်တခုသည် မီးဖိုထဲသို့ အမှတ်မဲ့ကျသွားကောင်းကျသွားပေလိမ့်မည်။ လှင့်၍လည်းမပစ်ရက်သဖြင့် မီးထဲသို့ကျသွားသည့်သားတစ်ကို စားကြည့်ရာမှ အစိမ်းကိုစားရသည်ထက် ပို၍အရသာထူးသည်ကို သိလာပေမည်။ အရသာရှိမှန်းကို သိလာသောအခါကျမှ တောလယ်သွားရာ၌ ရခဲ့သော အသားများကို မီးကင်၍ စားကြခြင်း ဖြစ်ဟန်တူလေသည်။

အသားများကို မီးကင်၍ စားတတ်လာကြသော်လည်း၊ မီးရနိုင်ရန်ကိုကား မပြုလုပ်နိုင်ကြသေးပေ။ မီးဖိုရှိရာမှ မီးကို ကူးယူနိုင်မှုသာပါး အခြားနည်းကို မသိကြသေးချေ။ ထိုနောက်မှ သိလိုမှုက စေ့ဆော်ပေးသဖြင့် လူတဦးသည် မီးဖြစ်ပေါ်နိုင်သည့် အကြောင်းကို စဉ်းစားမိပေလိမ့်မည်။

ထိုသူသည် သူ၏လက်ဖဝါးနှစ်ဖက်ကို ခပ်ပြင်းပြင်း ပွတ်လိုက်သောအခါ၌ ပူ၍လာသည်ကို သိခဲ့ရာမှ တုတ်ချောင်းနှစ်ချောင်းကို ပြင်းပြင်းပွတ်ပေးလျှင်လည်း ပူ၍ မီးဖြစ်လာနိုင်မည်ဟု ယူဆမိခဲ့ပေလိမ့်မည်။ တခါတရံ၌လည်း သစ်ကိုင်းခြောက် အချင်းချင်း လေတိုက်သဖြင့် ပွတ်တိုက်မိကြရာမှ မီးဖြစ်ပေါ်လာသည်ကိုလည်း သတိထားမိကောင်း ထားမိပေလိမ့်မည်။ မည်သည့်နည်းနှင့်ပင်ဖြစ်စေ ထိုသိလိုစိတ်ရှိသူသည် ခြောက်သွေ့သော တုတ်နှစ်ချောင်းကို ပြင်းထန်စွာ ပွတ်ပေးခြင်းဖြင့်ဖြစ်စေ၊ ခြောက်သွေ့သော တုတ်ချောင်းကို ပြော့ကြောင်းတခုတွင် လျှင်မြန်စွာ ပွတ်ဆွဲပေးခြင်းဖြင့်ဖြစ်စေ မီးဖြစ်လာနိုင်ကြောင်းကို တွေ့ခဲ့ပေလိမ့်မည်။

သွေ့ခြောက်သည့် တုတ်နှစ်ချောင်းကို ပြင်းပြင်း ပွတ်ပေးလျှင် မီးရနိုင်ကြောင်းကို သိလာကြရာမှ ရာစုနှစ်ပေါင်း အတန်ကြာပြီးသောအခါတွင် မီးခတ်ကျောက်နှင့် သံမဏိကို ခတ်ပေးခြင်းဖြင့် မီးရနိုင်ကြောင်းကို သိလာကြလေသည်။ ခတ်လိုက်သဖြင့် ဖြစ်ပေါ်လာသော မီးပွားကလေးများကို လောင်စာနှင့် ထိပေးလိုက်သော အခါတွင် လောင်စာတွင် မီးစွဲပြီးလျှင် လိုသလို သုံးစွဲနိုင်ခဲ့ကြပေသည်။ သို့ရာတွင် မီးခတ်ကျောက်နှင့် သံမဏိမှ ဖြစ်ပေါ်သော မီးကို တွေ့ခဲ့ကြသည်မှာ မကြာလှသေးချေ။

မီးခတ်ကျောက် အကြောင်းကို မသိကြမီ ရှေးခေတ် လူများသည် တုတ်ငယ်တချောင်းကို ကျောက်၏အပေါက်တွင် ထည့်ကာ စိတ်ရှည်ရှည်နှင့် ပြင်းထန်စွာ ပွတ်ပေးသောအခါတွင် အပေါက်တွင်းရှိ တုတ်စွန်းတွင် မီးစွဲလာသည်ကို တွေ့ကြရလေသည်။ ထိုကဲ့သို့ ပြုလုပ်ရန်မှာ မလွယ်ကူသော်လည်း မီးမရှိလျှင် မဖြစ်ကြောင်း သိလာကြသဖြင့် ထိုနည်းဖြင့်သာ အဆင်းရဲခံကာ မီးကို ပွတ်ယူခဲ့ကြရလေသည်။

ရှေးခေတ် ချက်ပြုတ်နည်းမှာ အသားများကို ညှပ်တွင်ထည့်ကာ မီးခဲပေါ်၌ကင်ပေးခြင်းမျှသာ ဖြစ်သည်။ သို့ရာတွင် ထိုအစာကိုပင် အရသာ ထူးကဲလှပြီဟု မှတ်ထင်ကြပြီးလျှင် မီးဖြစ်ပေါ်ရေးအတွက် အပတ်တကုတ် ပြုလုပ်ခဲ့ကြသည်။တုတ်တုတ်ချင်း ပွတ်ပေးရာ၌ ထိုတုတ်များသည် သွေ့ခြောက်၍ မီးလောင်လွယ်သော တုတ်များဖြစ်ရန်ကိုလည်း သတိပြုခဲ့ကြသည်။

၁၈၂၇ ခုနှစ်လောက်တွင်မှ မီးခြစ်ကို အင်္ဂလိပ်လူမျိုးတဦး ဖြစ်သည့် ဂျွန်ဝေါကားဆိုသူက တီထွင်နိုင်ခဲ့ပေသည်။ ထိုမီးခြစ်မျိုးသည် ရှေးခေတ် မီးခတ်ကျောက်မျိုးထက် လွယ်ကူသည်ဟု ပြောနိုင်သော်လည်း အကြမ်းစားမျှသာဖြစ်သည်။ ထို့ပြင် ထိုမီးခြစ်မျိုးကို ပြုလုပ်သူများအား အဆိပ်သင့်စေတတ်သဖြင့် ဥပဒ်ကင်းသည်ဟုမဆိုနိုင်ပေ။ ထို့နောက်မှ ဘေးကင်းသော မီးခြစ်ပြုလုပ်နည်းကို သိလာခဲ့ကြသည်။ ထိုနည်းမှာ မီးခြစ်ဗူးပြုလုပ်ခြင်းပင်ဖြစ်သည်။ မီးခြစ်ဗူး ပြုလုပ်ရာတွင် မီးခြစ်အိမ်နှင့် မီးခြစ်ဆံများပါဝင်သဖြင့် အလွန်လက်ဝင်သောလုပ်ငန်းဖြစ်ပေသည်။ သို့ရာတွင် ထိုအချိန်၌စက်များကို တီထွင်နိုင်ကြပြီဖြစ်၍ မီးခြစ်ဆံနှင့် မီးခြစ်အိမ်များကို စက်များဖြင့် ပြုလုပ်ပေးကြလေသည်။ မီးရရန်အတွက်တုတ်နှစ်ချောင်းကို ပြင်းထန်စွာ ပွတ်တိုက်ခဲ့ရသည့် ရှေးခေတ် လူများသာ မီးခြစ်ဖြစ်လာသည့်ခေတ်တွင်ရှိပါက မည်မျှအံ့သြကြမည်ကို မစဉ်းစားနိုင်အောင်ပင် ဖြစ်ပေသည်။

မီးခြစ်လုပ်စက်များကိုလည်း မီးကသာ လည်စေသဖြင့် မီးဖြစ်ပေါ်လာရေးအတွက် မီးကပင် ပြုလုပ်၍ ပေးသည်ဟု ဆိုနိုင်ပေသည်။ မီးဖြစ်ပေါ်ရေးကို မနေမနားသိလိုစိတ် ကြံစည်လိုစိတ်များ လူ၌မရှိခဲ့လျှင် ယခုတိုင် လူ့ရိုင်းဘဝမှ တိုးတက်ဦးမည်မဟုတ်ချေ။ မီးမရှိလျှင် ယခုကဲ့သို့လည်း နေထိုင်ဝတ်စား၍ သွားလာနိုင်ကြမည် မဟုတ်ပေ။

ရှေးခေတ်လူများသည် မီးကဲ့သို့ အရေးကြီးပြီးလျှင် တန်ခိုးရှိသည့် ပစ္စည်းတခုကို တွေ့ကြသောအခါ ဝပ်တွား၍ ရှိခိုးတတ်ကြသည်။ မီးနတ်နှင့်သက်ဆိုင်သော ပုံပြင် အမြောက်အမြားပင်ရှိ၏။ မီးသည် ဤမျှအရေးကြီး၍ တန်ခိုးကြီးမှန်းကို ရှေးလူများ သိခဲ့ကြသော်လည်း ယခုခေတ်တွင် ပေါ်ပေါက်လျက်ရှိသော မီးရထား၊ မီးသင်္ဘော၊ မော်တော်ကားတို့ကို မီးဖြင့်သွားလာစေမည်ကိုကား အိပ်မက်မျှ မက်ခဲ့ကြမည် မဟုတ်ပေ။

ဤမျှ မီးနှင့်ရင်းနှီး၍ နေထိုင်လျက် ရှိကြပြီးဖြစ်သော်လည်း မီးသည် မည်သည့်အရာဖြစ်သည်ဆိုသည့် အချက်ကို လူတိုင်းမသိကြချေ။ မီးဆိုသော်လည်း မီးအမျိုးမျိုးရှိ၏။ ပုံ ပမာ-ကျောက်မီးသွေးသည် မီးလောင်ရန် မလွယ်ချေ။ လောင်သောအခါ၌လည်း တဖြည်းဖြည်းနှင့် လောင်ပြီးလျှင် မီးလျှံမကြီးလှချေ။ သို့သော်ရုပ်ရှင်ရိုက်ကော်ပြားများသည် မီးနှင့် ထိသည်နှင့် တပြိုင်နက် မီးလျှံကြီးဖြင့် ထတောက်တတ်သည်။ ထိုမီးကို လောင်လွယ်သော မီးဟု ခေါ်သည်။ ယမ်းနှင့် ဓာတ်ဆီကဲ့သို့သော ပစ္စည်းမျိုးတို့ကား ကော်ပြားထက်ပင် မီးလောင်မြန်သေး၏။ မီးပွားကလေး ထိရုံမျှဖြင့် လောင်တတ်သည်။ ထိုမီးမျိုးကို ပေါက်ကွဲစေတတ်သော မီးဟု ခေါ်သည်။

မီးအမျိုးမျိုးရှိသော်လည်း မီးဆိုသည့် သဘောမှာ ပစ္စည်းတခုခုသည် လေ၌ပါဝင်သည့် အောက်ဆီဂျင်ဓာတ်ငွေ့နှင့် ဓာတ်ပေါင်းစပ်မိသောအခါမှ မီးလောင်၍ အပူကို ဖြစ်ပေါ်စေသည်။ အောက်ဆီဂျင်ဓာတ်ငွေ့ မရှိသော မည်သည့် နေရာမျိုးတွင်မှ မီးဖြစ်ပေါ်နိုင်မည် မဟုတ်ချေ။ လျှပ်စစ်ဓာတ်မီးသီးအတွင်းရှိ မီးစာမီးမလောင်ခြင်းမှာ မီးသီး အတွင်း၌ လေမရှိခြင်းကြောင့်၊ သို့မဟုတ် အောက်ဆီဂျင်ဓာတ်ငွေ့မရှိခြင်းကြောင့် ဖြစ်သည်။ ကမ္ဘာမြေကြီးအတွင်း၌ အပူဓာတ်သည် အလွန်အားကြီးသော်လည်း လေမရှိသောကြောင့် မီးလောင်၍ မနေချေ။ နေလုံးကြီးမီးလောင်၍ မသွားခြင်းမှာလည်း နေပေါ်၌ လေမရှိခြင်းကြောင့် ဖြစ်လေသည်။

**မီး, ဂျေ၊အက်(စ)** ( ခရစ် ၁၈၀၆ – ၁၈၇၃ )။ ။ဂျွန်စတူးဝပ်မီးသည် အင်္ဂလိပ်လူမျိုး သဘာဝတ္တဗေဒ ပညာရှင်၊ ဘောဂဗေဒ ပညာရှင်နှင့် စာရေးဆရာ တဦးဖြစ်၏။ ခရစ် ၁၈၀၆ ခုနှစ် မေလ ၂ ရက်နေ့တွင် လန်ဒန်မြို့၌ မွေးဖွားသည်။ သူ၏ ဖခင်မှာ သဘာဝတ္တဗေဒပညာရှင်၊ ဘောဂဗေဒပညာရှင်၊ သမိုင်းပညာရှင်နှင့် စာရေးဆရာအဖြစ် ထင်ရှားသော ဂျိမ်းမီးဖြစ်၏။

ဂျိမ်းမီးသည် သူ၏သားကြီး ဂျွန်စတူးဝပ်မီးအား သူကိုယ်တိုင် ကြပ်မ၍ ပညာသင်ပေး၏။ အသက် ၃ နှစ် အရွယ်တွင် ဂရိဘာသာကို စတင်သင်ကြားပေးသည်ဟု ဆိုသည်။



ဗြိတိသျှသဘာဝတ္တဗေဒနှင့် ဘောဂဗေဒပညာကျော် ဂျွန်စတူးဝပ်မီး

ဤသို့ သင်ပေးခြင်း၌ ရည်ရွယ်ချက်မှာ မိမိကဲ့သို့ပင် တွေးတောဆင်ခြင်ကြံဆလျက် မိမိ၏ဝါဒကိုဆက်လက်ဖြန့်ပေးရန် ဖြစ်၏။ ဂျိမ်းမီးသည် ယူတီလီတေးရီးယန်း ဝါဒကို စွဲမြဲယုံကြည်သူ ဖြစ်သည်။ ဖခင်ဖြစ်သူက စည်းကမ်းစံနစ် ကျနစွာ ကိုယ်တိုင်ပင် သားဖြစ်သူအား အရွယ်နှင့်မမျှသော စာကြီးပေကြီးများ သင်ကြားပေးသည်ကို ဂျွန် စတူးဝပ် မီးသည် ကောင်းစွာလက်ခံသင်ယူနိုင်သဖြင့် အရွယ်နှင့်မလိုက်အောင်ပင် စာပေဂန္ထဝင်၌ နှံ့စပ်နေတော့၏။ အသက် ၁၀ နှစ်အရွယ်တွင်ပလေးတိုးနှင့်ဒီမော့စသီးနီးအစရှိသော ဂရိပညာရှင်ကြီးများ၏ စာပေများကို လွယ်လွယ်နှင့်ပင် ဖတ်နိုင်ပေ၏။ အသက် ၁၄ နှစ်အရွယ်သို့ ရောက်လျှင် ထူးကဲများပြားသော ပညာရပ်အဝဝကို ကောင်းစွာ တတ်မြောက်သော စွယ်စုံပညာရှင်တဦး ဖြစ်နေလေပြီ။

ဂျွန်စတူးဝပ်မီးသည် ၁၈၂၀ ပြည့်နှစ်တွင် ပါရစ်မြို့သို့သွားရောက်လည်ပတ်ခဲ့ရာ၊ ပြင်သစ်စာပေ၊ ပြင်သစ်နိုင်ငံရေးနှင့် ပြင်သစ်တို့၏ လူမှုရေးအခြေအနေတို့ကို တတ်သိနားလည်ခဲ့၏။ ထိုနောက် ဂျွန်စတူးဝပ်မီးသည် ဥပဒေပညာ ဆည်းပူးရန်ရည်ရွယ်ချက်ကို ဖျက်ပြီးနောက် ၁၇ နှစ်အရွယ် ၁၈၂၃ ခုနှစ်၌ အရှေ့အိန္ဒိယကုမ္ပဏီအလုပ်တိုက်တွင် စာရေးအဖြစ်ဖြင့် ဝင်ရောက်အမှုထမ်း၏။ ၁၈၅၈ ခုနှစ်တွင် ကုမ္ပဏီ ဖျက်သိမ်းသည့်တိုင် ၃၅ နှစ် မျှအမှုထမ်းခဲ့ရာ တဖြည်းဖြည်း ရာထူးတိုးမြှင့်ခြင်းခံရသဖြင့် အငြိမ်းစားရိက္ခာဖြင့် အလုပ်မှထွက်ရချိန်တွင် ဌာနအကြီးအကဲတဦးပင် ဖြစ်ခဲ့လေသည်။

ဂျွန်စတူးဝပ်မီးသည် အလုပ်အားလပ်ချိန်များတွင် စာရေးဆရာ ဂျယ်ရီမီးဗင်တမ်၏ နေအိမ်တွင် စာကောင်းပေမွန်များကို ဖတ်ရှုဝေဖန်လျက် ယူတီလီတေးရီးယန်း စာပေအဖွဲ့ကို ပြုစုပျိုးထောင်ခဲ့၏။ (ဗင်တမ်၊ ဂျယ်ရီမီး—ရှု။) အသက် ၂၀ မကျော်မီပင် ယူတီလီတေးရီးယန်းဝါဒကို ထိရောက်စွာ အားပေးပြုစုသူ တဦးဖြစ်လာလျက် 'ဝက်စမင်စတာရီဗျူး' စာစောင်တွင် ဆောင်းပါး စာညွှန့်များ ရေးသားခဲ့သည်။ ၁၈၂၆–၂၇ ခုနှစ်တွင် မီးသည် မိမိကိုယ်မိမိ ပြန်လည်စစ်ဆေးသုံးသပ်ရာ၌ စိတ်ဓာတ် တမျိုးတမည် ပြောင်းလဲလာ၏။ တည်ကြည်လေးနက် အသုံးဝင်မည့် အကြောင်းရပ်များကိုသာ ရေးရှုရလေအောင် ငယ်စဉ်က ဖခင်ဖြစ်သူ၏ သင်ကြားပုံသွင်းခြင်း ခံခဲ့ရသော မီးသည် အများအမြင်တွင် ဗဟုသုတ ဟင်းလေးအိုးမျှသာ ဖြစ်နေတော့သည်။ ဤသို့ ပြန်လည် သုံးသပ်မိသည်၏ အခြားမဲ့၌ မီးသည် လူလောက သဘာဝနှင့် အပ်စပ်သော အာရုံခံစားမှု၊ ပျော်ရွှင်မှုတို့၏ အရည်အသွေးတန်ဖိုးကို နားလည်သဘောပေါက်လာသဖြင့် အနုစာပေ၊ ကဗျာနှင့် စိတ်ကူးယဉ်မှုဖက်သို့ ယိမ်းလျက် စိတ်ဝင်စားလာ၏။ ထိုအချိန်မှစ၍ ဗင်တမ်၏ ဝါဒမှ ဖဲခွာလာတော့သည်။

မီးသည် ၁၈၃၀ ပြည့်နှစ်တွင် မစ္စစ်တေလာဆိုသူ အမျိုးသမီးတဦးနှင့် မိတ်ဆွေဖြစ်ခဲ့၏။ တဖြည်းဖြည်းနှင့် ခင်မင်အကျွမ်းဝင်လာကာ မစ္စစ်တေလာ၏ ခင်ပွန်းသည် ကွယ်လွန်လေလျှင်၊ ၁၈၅၁ ခုနှစ်တွင် မစ္စစ်တေလာနှင့် လက်ထပ်၏။ မီးသည် ဇနီးဖြစ်သူအား ချစ်မြတ်နိုးလျက် သူ၏ "ကိုယ်တိုင်ရေးအတ္ထုပ္ပတ္တိ" တွင် မကြာခဏတင်စားဖော်ပြကာ မိမိကို ပြုပြင်ပေးကြောင်းနှင့်လည်း ရေးသား ထားပေသည်။ မီး၏ အဦးဆုံး အောင်မြင်မှုရရှိသည့် လက်ရာမှာ 'တက္ကဗေဒ' ဖြစ်၍ ၁၈၄၃ ခုနှစ်တွင် ထုတ်ဝေခဲ့သည်။ ၁၈၄၈ ခုနှစ်တွင် 'ဘောဂဗေဒ' ကိုထုတ်ဝေခဲ့၏။ ၁၈၅၉ ခုနှစ်တွင် သူ ဂရုတစိုက်ရေးသားသော 'လွတ်လပ်ရေးစာမွန်' ကို ထုတ်ဝေသည်။

မီးသည် ၁၈၆၅ ခုနှစ်မှ ၁၈၆၈ ခုနှစ်အထိ ပါလီမန်အမတ်အဖြစ် ဝက်စမင်စတာနယ်မှ ရွေးကောက် တင်မြှောက်ခြင်းခံရ၏။ အမတ်အဖြစ် ဆောင်ရွက်ခဲ့စဉ်က ပြုပြင်ပြောင်းလဲမှုများကို အဆိုသွင်းခဲ့၏။ အမျိုးသမီးများကို အမျိုးသားများနှင့် တန်းတူအခွင့်အရေးများ ရရှိစေရန်လည်း ကြိုးပမ်းဆောင်ရွက်ခဲ့သည်။ "အမျိုးသမီးများအား ချုပ်ချယ်ခြင်း" စာအုပ်ကိုလည်း ၁၈၆၉ ခုနှစ်တွင် ထုတ်ဝေခဲ့သည်။ မီးသည် ၁၈၇၃ ခုနှစ် မေလ ၈ ရက်နေ့တွင် ပြင်သစ် နိုင်ငံ အဗီညွန်မြို့တွင် ကွယ်လွန်လေသည်။

**မီးကျည်မီးပန်း။** ။လွတ်လပ်ရေးနေ့၊ တော်လှန်ရေးနေ့ စသည့် အောင်ပွဲ၊ ပျော်ရွှင်ပွဲများတွင် မီးကျည် မီးပန်းများ ရှို့၍၎င်း၊ ဗျောက်အိုးများ ဖောက်၍၎င်း စည်ကားသိုက်မြိုက်စွာ ဆင်ယင် ကျင်းပတတ်ကြသည်။ တခါတရံ ဘုန်းကြီးပျံပွဲများတွင်ပင် မီးကျည် မီးပန်းများလွှတ်၍ ကျင်းပလေ့ရှိကြသည်။

မီးကျည်မီးပန်းများသည် တရုပ်နိုင်ငံမှ စတင်ဖြစ်ပေါ်လာခဲ့သည်ဟု ယုံကြည်ရသည်။ တရုပ်ရပ်ကွက်များတွင် သေးငယ်သော အခမ်းအနားများမှအစ ကြီးကျယ်ခမ်းနားသော ပွဲတော်များအထိ မီးကျည်မီးပန်းများ အများဆုံး အသုံးပြုကြသည်ကို တွေ့ရသည်။ တရုပ်နိုင်ငံနှင့် အိန္ဒိယနိုင်ငံတို့ဘွင် မီးကျည် မီးပန်းများကို စတင်အသုံးပြုနေချိန်က ဥရောပတိုက်တွင် ထိုပစ္စည်းများ မပေါ်ပေါက်သေးချေ။ ယမ်းမှုန့်များ ပြုလုပ်နိုင်လာမှသာ မီးကျည်မီးပန်းများကို စတင် လုပ်ကိုင်လာကြသည်။ ခရစ် ၁၅၄၀ ပြည့်နှစ်တွင် ဣတလီနိုင်ငံ၌ မီးကျည် မီးပန်းများကို လုပ်ကိုင်လျက် ရှိလေပြီ။ ၁၇ နှင့် ၁၈ ရာစုနှစ်များတွင်ကား အခမ်းအနား ပျော်ပွဲ ရွှင်ပွဲများ၌ မီးကျည် မီးပန်းများကို အသုံးပြုလာကြကြောင်းတွေ့ရသည်။ ၁၉ ရာစုနှစ်သို့ ရောက်သောအခါ မီးကျည်မီးပန်းလုပ်သော အတတ်သည် များစွာအဆင့်အတန်းတိုးတက်လာခဲ့လေသည်။ ယခုခေတ်တွင်ကား အောင်

ပွဲ၊ ပျော်ပွဲရွှင်ပွဲများတွင် ထင်ရှားသည့် အမျိုးသားခေါင်းဆောင်များ၏ ရုပ်ပုံ၊ နိုင်ငံတော်အလံပုံ၊ မီးသဘော်ပုံ စသည့် အရုပ်မျိုးစုံကို အရောင်မျိုးစုံတို့ဖြင့် ခင်းကျင်းပြသထားနိုင်သည့် အဆင့်တိုင် ရောက်ရှိခဲ့လေသည်။

မီးကျည် မီးပန်းလုပ်ရာ၌ ပါဝင်သော အခြေခံ ပစ္စည်း ၃ ခုမှာ ယမ်းစိမ်း၊ ကန့်နှင့် မီးသွေးဖြစ်သည်။ ထိုပစ္စည်း ၃ မျိုးကိုကြိတ်၍ရသော အမှုန့်တွင် သံမှုန့်၊ သံမဏိမှုန့်၊ ကြေးနီမှုန့်၊ သွပ်မှုန့်၊ ပရုတ်မှုန့်စသည့်အမှုန့်များကို ရောစပ်ထည့်ပေးရသည်။မီးကျည်မီးပန်းရှို့ရာ၌ တောက်ပသောရောင်စုံများ ထွက်ပေါ်လာခြင်းမှာ သတ္တုများရောစပ်ထားသောကြောင့် ဖြစ်သည်။ ထိုသတ္တုများအနက် ဆိုဒီယမ်သည် မီးလောင်သောအခါ အဝါရင့်ရောင်ဖြစ်ပေါ်စေသည်။ ကယ်လဆီယမ်သည် အနီရောင်ကို ဖြစ်ပေါ်စေသည်။ စထရွန်ရှီယမ်သည် ကြက်သွေးရောင်ကိုဖြစ်ပေါ်စေသည်။ဗေရီယမ်သည် အစိမ်းရောင်ကို ဖြစ်ပေါ်စေပြီးလျှင် ကြေးနီသည် အစိမ်းနှင့် အပြာရောင်များကို ဖြစ်ပေါ်စေသည်။သံမှုန့် သွပ်မှုန့်တို့ရောစပ်ပေးခြင်းသည် တောက်ပသည့် မီးပွားကလေးများ ဖြစ်ပေါ်စေသည်။ ပြင်းထန်စွာပေါက်ကွဲသည့် မီးကျည်မီးပန်းများဖြစ်စေလိုလျှင် ယမ်းမှုန့်များကို ညက်စွာကြိတ်၍ ထည့်ပေးရသည်။ ပရုတ်မှုန့်ကား အလွန်ကြည်လင်သော မီးတောက်ကိုဖြစ်စေ၍ အနံ့လည်း မွှေးသည်။

မီးကျည်မီးပန်းပြုလုပ်ရာ၌ မီးစွဲလွယ်သည့် အမှုန့်၊ ပေါက်ကွဲတတ်သည့်ဓာတ်ပစ္စည်းများနှင့် စနက်တံ ပါရပေမည်။ မီးစွဲလွယ်သည့် အမှုန့်ကို ပဌမဆုံးမီးစွဲ၍ နောက်ဆုံးပေါက်ကွဲသည့် ဓာတ်ပစ္စည်းသို့ ရောက်သွားသည်။ စနက်တံကား မီးကို တနေရာမှတနေရာသို့ ရောက်သွားစေသည်။ စနက်တံကို ဂွမ်းမီးစာဖြင့် ပြုလုပ်၍ ယမ်းမှုန့်နှင့်ကော်ရည်တွင် နှစ်ပြီးလျှင် အခြောက်လှန်းထားရသည်။

မီးကျည်မီးပန်းများသည် ပျော်ပွဲရွှင်ပွဲများအပြင် အခြားကိစ္စများ၌လည်း များစွာအသုံးဝင်သည်။ ၁၈၄၁ ပြည့်နှစ်က တရုပ်နိုင်ငံမှ ထွက်သည့် မီးကျည်မီးပန်းများကို တင်ဆောင်လာသော နှစ်ပင်တိုင် ရွက်သဘော်တစင်းသည် ဆူမတြာကျွန်းအလွန်၌ လေမရ၍ ရွက်မတိုက်နိုင်သဖြင့် မသွားနိုင်ဖြစ်ခဲ့၏။ ညဥ့်နက်သန်ကောင်ယံအချိန်တွင် ပင်လယ်ဓားပြများ ရုတ်တရက် ရောက်လာသဖြင့် သဘော်သားများမှာ ဘာမျှမလုပ်နိုင်တော့ဘဲ သေဘေးနှင့်သာ ရင်ဆိုင်ရမလောက် ရှိနေ



ယမ်းရောစပ်ပြီး မီးကျည်မီးပန်းများတွင် ယမ်းဆံတပ်ပေးနေကြပုံ



ဝါရှင်တန်မြို့တော်တွင်  လွတ်လပ်ရေး အထိမ်းအမှတ်ကို မီးကျည်မီးပန်းများနှင့်တကွ ဆလိုက်မီးမောင်းများထိုးကာ ကျင်းပလေ့ရှိကြသည်။

လေသည်။ သင်္ဘောမာလိန်မှူးသည် ရုတ်တရက် အကြံရကာ မီးရှူးမီးပန်းတသေတ္တာကိုဖွင့်၍ မီးရှို့လိုက်ရာ ပြင်းထန်စွာ ပေါက်ကွဲပြီးသော် ဓားပြဗိုလ်တဦးမှာ အနည်းငယ်ထိခိုက်သွားလေသည်။ ကျန်ဓားပြများလည်း ကြောက်၍ ထွက်ပြေးကုန်လေသည်။

တုံးပျံများနှင့် ရောင်စုံ မီးရှူးမီးပန်းများကို ပင်လယ်ထဲရှိသင်္ဘောများ အချက်ပေးရာ၌လည်း အသုံးပြုကြသည်။ သို့ဖြင့် ညဉ့်အချိန်တွင် သင်္ဘောအချင်းချင်း စကားပြောနိုင်ကြသည်။ အထူးသဖြင့် တုံးပျံများကို ပင်လယ်ထဲ၌သင်္ဘောများ ဒုက္ခရောက်နေသည့်အခါ သုံးကြသည်။ ညဉ့်အချိန် ပင်လယ်ထဲတွင် တုံးပျံကိုမြင်သဖြင့် ကယ်ဆယ်နိုင်သောကြောင့် အသက်ပေါင်းများစွာ ချမ်းသာခဲ့ကြရသည်။ ပဌမကမ္ဘာစစ်ပွဲ၌ နောက်တန်း အမြောက်တပ်ကို တုံးပျံဖြင့် အချက်ပေး၍ အပစ်ခိုင်းကြသည်။ အပစ်ရပ်ရန်လည်း တုံးပျံဖြင့်ပင် အချက်ပေးလေသည်။

မီးကျည်မီးပန်းများသည် ဤမျှ အသုံးဝင်သော်လည်း ပျော်ပွဲရွှင်ပွဲများ၌ အကိုင်အတွယ် မကျွမ်းကျင်မှုကြောင့် လူ အသေအပျောက်နှင့် မီးလောင်မှုများ ရှိခဲ့လေသည်။ ထို့ကြောင့် သက်ဆိုင်ရာ အစိုးရများက မီးကျည် မီးပန်းနှင့် သက်ဆိုင်သော ပညတ်ချက်များကို ထုတ်ပြန်ထားသည်။

**မီးခိုး။** ။မီးခိုးသည် ကျောက်မီးသွေး၊ ထင်း၊ ရေနံဆီ စသော လောင်စာများကို မီးရှို့ရာမှ ထွက်ပေါ်လာသော အခိုးအငွေ့ဖြစ်သည်။ စက်ရုံကြီးများတွင် ရေနွေးငွေ့အားကို ယူရာ၌ ဗိုင်လာအိုးမီးဖိုများတွင် ကျောက်မီးသွေးကို ထည့်၍ မီးရှို့ကြသည်။ ကျောက်မီးသွေး မီးစွဲလောင်ရာ၌ လေကောင်းကောင်းရ၍ မီးအရှိန်ပြင်းပြင်းဖြင့် ကောင်းကောင်းလောင်နေသည့်အခါ မီးခိုးအနည်းငယ်သာ ထွက်သည်။ တခါတရံ မီးခိုးထွက်မှန်းကို မသိရချေ။ သို့သော်လည်း ကျောက်မီးသွေးအထည့်များပြီးလျှင် လေကောင်းကောင်း မရသည့်အခါ ထည့်လိုက်သော လောင်စာအားလုံးကို မီးအရှိန်ကောင်းကောင်းဖြင့် မလောင်နိုင်သဖြင့် ခေါင်းတိုင်မှ မဲမှောင်သော မီးခိုးလုံးကြီးများ ထိုးထွက်လာလေသည်။

ကျောက်မီးသွေးမှ ထွက်သောမီးခိုးတွင် အလွန်သေးငယ်သော ကာဗွန်မှုန်များပါရှိ၍ ထိုကာဗွန်မှုန်များသည် ကျပ်ခိုးအဖြစ် စုပေါင်းသွားကြသည်။ ရာသီဥတုခြောက်သွေ့၍ သာယာသောနေ့များတွင် ခေါင်းတိုင်မှ ထွက်သော မီးခိုးသည် အပြာရောင်ရှိ၏။ သို့သော် စိုစွတ်ထိုင်းမှိုင်းသောနေ့များတွင်မူကား မှိုင်းမှုန် ကလေးများသည် ရေခိုးရေငွေ့ကြောင့် ရေနှင့်လုံးမိသွားကာ အရွယ်ကြီးလာသဖြင့် ညိုမဲသောအရောင်သို့ ပြောင်းသွားကြသည်။ စက်မှု လုပ်ငန်းများ တည်ထောင်ဖွင့်လှစ်ထားသော မြို့ကြီးပြကြီးများတွင် ကျောက်မီးသွေးမီးဖြင့် ရေနွေးငွေ့အားကို ယူကြသည့်အတွက် မီးခိုးခေါင်းတိုင်များမှ စုးရှသောအနံ့ရှိသည့် မီးခိုးလုံးများသည် တရှိန်ထိုး ထွက်လာကြသည်။ စိုစွတ်သောနေ့များတွင် ထိုမီးခိုးလုံးများသည် ရေခိုးရေငွေ့များဖြင့် လုံးပြီးလျှင် ညစ်ညမ်းပေကျံ၍ မနှစ်မြို့ဖွယ်ကောင်းသော မီးခိုးလုံးကြီးများ ဖြစ်ပေါ်လျက်ရှိလေသည်။

ကျောက်မီးသွေးမီးမှထွက်သော မီးခိုးလုံးတွင် ဓာတ်သဘောအရ ရေခိုးရေငွေ့၊ ကာဗွန်ဒိုင်အောက်ဆိုက်နှင့် ဆာလဖာဒိုင်အောက်ဆိုက်ဓာတ်များ ပါဝင်ဖွဲ့စည်းထားသည်။ ကာဗွန်ဒိုင်အောက်ဆိုက်နှင့် ဆာလဖာဒိုင် အောက်ဆိုက်ဓာတ်တို့သည် ရေတွင် ပျော်ဝင်လွယ်၍ ကာဗွန်နစ်အက်ဆစ်နှင့် ဆာလဖျူရစ်အက်ဆစ်အဖြစ်သို့ ပြောင်းလဲသွားသည်။ ထို့ကြောင့် မြို့ကြီးပြကြီးများတွင်ရှိသည့် မီးခိုးခေါင်းတိုင်တို့မှ ထွက်သော မီးခိုးလုံးကြီးများသည် ကျန်းမာရေးကို ထိခိုက်နိုင်သည့်ပြင် အဆောက်အအုံကြီးများကိုလည်း ပျက်စီးစေနိုင်သည်။

တခါတရံ ခေါင်းတိုင်များတွင် တွယ်ကပ်လျက် ရှိသော ကျပ်ခိုးများ မီးစွဲလောင်လျက် ရှိနေသည်ကို တွေ့ကြရ၏။ ကျောက်မီးသွေးမီးမှ ဖြစ်ပေါ်လာသော ကျပ်ခိုးမီးစွဲလောင်ခြင်းမှာ အံ့သြဖွယ်ရာပင် ဖြစ်ပေမည်။ သို့သော် ဤကဲ့သို့ဖြစ်ရခြင်းမှာ ကျောက်မီးသွေးကို ထည့်၍ရှို့သောဖိုထဲ၌ လေကောင်းစွာမရသဖြင့် ကျောက်မီးသွေး အားလုံး ကုန်စင်အောင် မလောင်ရသောကြောင့် ဖြစ်လေသည်။

ယခုခေတ်တွင် ရေနွေးငွေ့အားကို ကျောက်မီးသွေးမီးဖြင့် မယူတော့ဘဲ ဓာတ်ငွေ့မှရသော မီးဖြင့်၎င်း၊ မီးခိုးမှိုင်း မတက်နိုင်သော လောင်စာများဖြင့်၎င်း ရယူကြလေသည်။ ရာသီဥတု အလွန်အေးသော တိုင်းပြည်များရှိ အိမ်တိုင်းလိုလိုမှာပင် မီးလှုံရန် မီးလင်းဖိုများရှိကြရာ ဆောင်းရာသီရောက်ချိန်တွင် ထိုမီးလင်းဖိုများကို နေ့ရောညဉ့်ပါ အစဉ်မပြတ် ထင်းများ၊ ကျောက်မီးသွေးများဖြင့် မီးဖိုထားကြရသည်။ ရာသီဥတု၏ အအေးဒဏ်ကို မခံနိုင်ရကား အိမ်ဘံခါးများကို လုံအောင်ပိတ်၍ အိမ်ထဲရှိမီးလင်းဖိုတဝိုက်တွင် နေ့ရောညဉ့်ပါ မီးလှုံကာ အချိန်ကုန်ကြရလေသည်။ ထိုမီးလင်းဖိုများမှထွက်သော မီးခိုးများသည် အထက်တွင်ဆိုခဲ့သည့်အတိုင်း ကျန်းမာရေးကို ထိခိုက်စေနိုင်သည့်ပြင် အိမ် အဆောက်အအုံကိုလည်း ညစ်ညမ်းစေ၍ မကြာမီအတွင်း ပျက်စီးစေနိုင်သည်။ ထိုအန္တရာယ်မျိုးမှ ကာကွယ်ရန် ယခုအခါ အိမ်တွင်းတွင် ထင်း၊ ကျောက်မီးသွေး စသည်တို့နှင့် မီးမဖို တော့ဘဲ အခန်းများကို လျှပ်စစ်ဓာတ်ဖြင့် နွေးအောင် ပြုလုပ်ထားခြင်း၊ လေကောင်းလေသန့် ရနိုင်ရန် အတွင်းမှ လေကို အပြင်သို့၊ အပြင်မှ လေကို အတွင်းသို့ လျှပ်စစ်ဓာတ်

ဖြင့် ထုတ်သွင်းခြင်း စသည်တို့ကို စီမံပြုလုပ်ကြလေသည်။ ထိုပြင် စက်မှုလုပ်ငန်းအလုပ်ရုံကြီးများနှင့် မီးရထားများတွင် ယခုအခါ ကျောက်မီးသွေးထင်းများဖြင့် ရေနွေးငွေ့အားကိုမယူဘဲ လျှပ်စစ်အားကိုယူပြီး ခုတ်မောင်း သွားလာနိုင်သောကြောင့် အန္တရာယ်အမျိုးမျိုးမှ ကင်းလွတ်အောင် စီမံထားနိုင် ကြပေပြီ။ ကျောက်မီးသွေးမှ ထွက်သော မီးခိုးသည် ဘေးအန္တရာယ်များသည့်ပြင် အဖိုးတန်ပစ္စည်းများဖြစ်သော ကတ္တရာစေးများလည်း အလဟဿ မီးထဲတွင် လောင်သွားရလေသည်။ ကျောက်မီးသွေးထဲတွင် ပါရှိနေသော ကတ္တရာများ စွဲလောင်မှုကြောင့် အဆိပ်ဖြစ်စေတတ်သော မီးခိုးများ ဖြစ်ပေါ်လာသည်။ သို့ရာတွင် ယခုအခါ ထိုအန္တရာယ်များလှသော မီးခိုးများ ရပ်စဲယုတ်လျော့သွားစေရန် သိပ္ပံနည်းများဖြင့် တိုးတက်ကြံစည်လာသောကြောင့်၎င်း၊ တရားဥပဒေများ ပြဋ္ဌာန်း၍ တားမြစ်ခြင်းကြောင့်၎င်း မြို့ကြီး ပြကြီးမှစ၍ မြို့ရွာနေအိမ်တို့မှာ သန့်ရှင်း၍ လေကောင်း လေသန့်များ ကောင်းစွာ ရလာနိုင်ကြပေပြီ။

မီးခိုးကို ဘေးအန္တရာယ်များသည့်အတွက် တရားဥပဒေများ ပြဋ္ဌာန်း၍ပင် တားမြစ်လာရသော်လည်း၊ တပြည်နှင့်တပြည် စစ်မက်ဖြစ်ပွားကြသောအခါ၌ကား မီးခိုးသည် ရန်သူမမြင်နိုင်အောင် ကာကွယ်ပေးသည့် တံတိုင်းကြီးကဲ့သို့ အသုံးဝင်ပြန်လေသည်။ ပင်လယ်တွင် စစ်သင်္ဘောကြီးများ သွားလာနေသည့်အခါ တဖက်ရန်သူများ မမြင်နိုင်အောင် မီးခိုးလုံးကြီးများကို လွှတ်ထားလေ့ ရှိသည်။ စစ်တပ်များကို ရန်သူလေယာဉ်ပျံမှ မမြင်နိုင်အောင်လည်း မီးခိုးဖြင့် ဖုံးအုပ်ထားတတ်ကြလေသည်။

**မီးခတ်ကျောက်။** ။မီးခတ်ကျောက်သည် ကျောက်သလင်းတမျိုးဖြစ်၍ ဆီလီကာ အများဆုံးပါဝင်သော တွင်းထွက်ကျောက်ဖြစ်သည်။ ထိုကျောက်သည် အလွန်မာ၍ ယင်းကို ခွဲစိတ်သောအခါ အလွှာအလွှာကွဲထွက်တတ်သည်။ အရောင်မှာ အမည်းမှ အညို၊ အနီ့ခွဲရောင်၊ အနီ၊ အဝါနှင့် ညိုမွဲရောင်ဟူ၍ အမျိုးမျိုးရှိသည်။ အချို့မှာ အစက်အပြောက်ကလေးများနှင့် စွန်းထင်လျက် ရှိနေတတ်သည်။ မာသည့် နေရာတွင် မီးခတ်ကျောက်သည် သံမဏိထက်ပင် မာသေးသည်။ ဥတုဖောက်ပြန်မှု မရှိသောအခါ နက်မှောင် မာချောသော အစိုင်အခဲဖြစ်၍ နေတတ်သည်။ သို့သော် အပိုင်းအပြတ်နှင့်အကျိုးအပဲ့များမှာ ဝါဖျော့ဖျော့၊ သို့မဟုတ် ဖြူညိုညိုအရောင်များ ရှိတတ်လေသည်။

မီးခတ်ကျောက်ကို အမေရိကန်ပြည်ထောင်စုတွင် အများအပြား တွေ့ရ၍ ကမ္ဘာ့ အခြားဒေသများ၌လည်း တွေ့ရသည်။ အင်္ဂလန်နှင့် ပြင်သစ်နိုင်ငံတို့တွင် ထုံးကျောက်ဖြူတောင်များ၌ အများအပြားတွေ့ရသည်။ ထိုနေရာများ၌ သမိုင်းမတင်မီခေတ်က ရှေးလူများ၏ လက်ရာများဖြစ်ဟန်ရှိသော မီးခတ်ကျောက်မှပြုလုပ်ထားသည့် ဓား၊ ပုဆိန်၊ လှံသွား၊ မြှားခေါင်းစသော လက်နက် အသုံးအဆောင်



ရှေးခေတ် လူတို့သည် တူ၊ ပုဆိန်နှင့် ဆုံတို့ကို မီးခတ်ကျောက်ဖြင့် ပြုလုပ် အသုံးချခဲ့ကြသည်။



မီးခြစ်အိမ်များကို သီးခြား ပြုလုပ်ပြီးနောက် တံဆိပ်များ ကပ်လျက်ရှိစဉ်

များကိုတွေ့ရသည်။ ကျောက်ခေတ်ဟောင်းနှင့် ကျောက်ခေတ်သစ်ဟူ၍ ကျောက်ခေတ်နှစ်ခေတ်ရှိရာတွင် ကျောက်ခေတ်ဟောင်းမှလူများ အသုံးပြုခဲ့သည့် အဆိုပါ ဓား၊ လှံသွား၊ မြှားခေါင်း၊ ပုဆိန်သွားစသော ကရိယာများမှာအလုံးအဖန်ကြီး၍ လုပ်ကိုင်ထားရာ၌လည်း ကြမ်းထမ်းကြောင်း တွေ့ရသည်။ နောက်ခေတ်မှ ကရိယာများမှာမူ အတော်ပင် သပ်ရပ်ပြီးလျှင် သေးသွယ်ချွန်ထက်ကာ ပုံပန်းလည်း ကျသည်ကို တွေ့ရသည်။

၁၇ ရာစုခေတ် အစလောက်တွင် မီးခတ် သေနတ်တမျိုး ပေါ်ပေါက်လာခဲ့ရာ ယင်းတွင် မီးခတ်ကျောက်ကို သေနတ်မောင်း၌ တပ်ဆင်ထားသည်။ ခလုတ်ကို ဆွဲလိုက်သောအခါ မောင်းကျလာ၍ မောင်းထိပ်တွင်ရှိသော မီးခတ်သည် နားခွက်ဖုံးနှင့် ရိုက်၍ မီးပွင့်လေသည်။ မီးသည် ယမ်းသို့ ကူးသွားသည်နှင့် ကျည်ဆံထွက်လေသည်။

ထိုအတူ မီးခြစ်မပေါ်မီခေတ်က မီးရရှိရေးအတွက် မီးခတ်ကျောက်နှင့် သံကြမ်းတုံးကို ရိုက်ခတ်ပေးရသော မီးခတ်များကို အသုံးပြုခဲ့ကြရသည်။ အထက်ပါ နည်းများမှာ ရှေးကျောက်ခေတ်လူများမှ ကျွန်ုပ်တို့အား အဆင့်ဆင့် ပေးခဲ့သော နောက်ဆုံး အမွေအနှစ် ဖြစ်သော်လည်း ယခုအခါတွင်မူ မီးခတ်ကျောက်သည် ထိုစဉ်ကလောက် အရေးတကြီး အသုံးမဝင်တော့ပေ။

**မီးခြစ်။** ။သစ်သားမီးခြစ်၊ ဓာတ်မီးခြစ် စသော မီးခြစ်များ ပေါ်ပေါက်လျက်ရှိသည့် ယခုခေတ်တွင် မီးကိုအလွယ်တကူဖြင့် ရနိုင် ဖြစ်ပေါ်စေနိုင်ပြီဖြစ်သော်လည်း ရှေးခေတ်များကမူ မီးဖြစ်ပေါ်စေရန်အတွက် အလွန်ပင် ခက်ခက်ခဲခဲဖြင့် ပြုလုပ်ခဲ့ရပေသည်။ အပူဓာတ် ပြင်းအားကြီးလျှင် မီးတောက်လောင်တတ်၍ အရာဝတ္ထု နှစ်ခုကို ပွတ်တိုက်ပေးလျှင် ပူလာတတ်သည်။ ဤသဘောကို လူတို့သည် ရှေးခေတ်များကပင် သိရှိခဲ့ကြ၏။ ထိုသို့ သိရှိခဲ့ကြသည့်အတိုင်း ရှေးက ကျောက်ကို ကျောက်နှင့်ဖြစ်စေ၊ သံကို ကျောက်နှင့်ဖြစ်စေ ခတ်ပေးခြင်းဖြင့်၎င်း၊ ဝါးဝါးချင်း၊ သစ်သစ်ချင်း နာနာပွတ်တိုက်ပေးခြင်းဖြင့်၎င်း မီးမွေးခဲ့ကြသည်။ ကျောက်နှင့်ကျောက်၊ သို့မဟုတ် သံနှင့်ကျောက်ကို မီးခတ်ပေးရာတွင် မီးပွင့် ထွက်လာမည့်အနား၌ ဝါဂွမ်းကဲ့သို့သော မီးစွဲလွယ်မည့်ပစ္စည်းတခုခုကိုထားရ၏။ မီးခတ်၍ ဂွမ်းစကိုမီးစွဲလောင်သောအခါ သစ်စ၊ ဝါးစ၊ သစ်ရွက်ခြောက် စသောလောင်စာများဖြင့် စုပုံဝိုင်းရံပြီးလျှင် ဂွမ်းစကို မှုတ်ပေးခြင်းဖြင့် အလိုရှိသော မီးတောက်မီးပုံတို့ကို ဖန်တီးရလေသည်။ ယခုခေတ်တိုင်အောင်ပင် လူရိုင်းများနေထိုင်ရာ ခေတ်မမှီသေးသော ဒေသများ၌ ဤရှေးနည်းများကို သုံးစွဲလျက်ရှိပေသေးသည်။

နောင်သော် ဖော့စဖောရပ်(မီးစုန်း)၊ ကန့်စသော အပူ

ချိန်အနည်းငယ်တက်ရုံမျှနှင့် မီးတောက်လွယ်သော ပစ္စည်းများကို တွေ့ရှိလာရာမှ ယခုခေတ်သုံး သစ်သားမီးခြစ်များ ဖြစ်ထွန်းပေါ်ပေါက်လာလေသည်။ သို့သော် အဆိုပါ မီးခြစ်များကို ၁၈၂၇ ခုနှစ်တွင် စတင်တီထွင်နိုင်ခဲ့၍ ၁၈၃၃ ခုနှစ်တွင်မှ စတင်ရောင်းချခဲ့သည်ကို ထောက်လျှင် ဤခေတ်မှီ မီးခြစ်များ ပေါ်ပေါက်လာသည်မှာ အနှစ်တရာကျော်မျှသာရှိသေးသည်ဟု သိအပ်ပေသည်။

မီးခြစ်များကို စတင်တီထွင်စဉ်က မီးခြစ်ဆံ ယမ်းခေါင်းပြုလုပ်ရန် အတွက် ဖော့စဖောရပ်အဖြူနှင့် ကန့်ရောထားသော ဒြပ်ပေါင်းကို အသုံးပြုခဲ့ကြသည်။ သို့ရာတွင် အဆိုပါယမ်းခေါင်းသည် မီးအလွန် လောင်လွယ်၍ မီးလောင်သောအခါ ဆိုးရွားသောအနံ့ရှိသည့် အခိုးများထွက်ခြင်းကြောင့် တကြောင်း၊ ဖော့စဖောရပ် အဖြူမှထွက်သော အဆိပ်ငွေ့များကြောင့် မီးခြစ်ရုံရှိအလုပ်သမားများ မကြာခဏ မေးခိုင်ရောဂါ ရတတ်ခြင်းကြောင့်တကြောင်း ဥရောပနိုင်ငံကြီးများတွင် ဖော့စဖောရပ်အဖြူကို မသုံးရန် ပိတ်ပင်လာရသည်။ထိုကြောင့် ဖော့စဖောရပ်အဖြူအစား ဖော့စဖောရပ်အနီကို ဖြစ်စေ၊ သို့မဟုတ် ဖော့စဖောရပ်နှင့် အခြား မီးတောက်လွယ်သော ဓာတ်ပစ္စည်းများကို ရော၍ဖြစ်စေ အသုံးပြုခဲ့ကြရာမှ ယခုခေတ်သုံး ဘေးကင်းမီးခြစ်ခေါ် မီးခြစ်မျိုး ပေါ်ပေါက်လာခဲ့လေသည်။

ဘေးကင်း မီးခြစ်ဆိုသည်မှာ သူ့အလိုလို ထတောက်ခြင်း မရှိဘဲ မီးခြစ်ဆံယမ်းခေါင်းကို မီးခြစ်ဗူးဘေးရှိ ဓာတ်ပစ္စည်းများနှင့် စီမံထားသော ယမ်းခွံတွင်ခြစ်ပေးမှ မီးလောင်သည့် မီးခြစ်မျိုးဖြစ်သည်။ ဤမီးခြစ်မျိုးကို ဥတုမရွေး အသုံးပြုနိုင်၍ အလိုအလျောက် မီးထတောက်ခြင်း မရှိသည့်အတွက် စိတ်ချစွာ ကိုင်တွယ်အသုံးပြုနိုင်ပေသည်။ မီးခြစ်တွင် မီးခြစ်ဆံယမ်းခေါင်းကို ပိုတက်ဆီယမ် ကလိုရိတ်ကဲ့သို့သော မီးလောင် လွယ်သည့် ဓာတ်ပစ္စည်းများဖြင့် ပြုလုပ်ထား၍ ယမ်းခွံလုပ်မည့်နေရာတွင် ဖော့စဖောရပ်ပါဝင်သော ဒြပ်ရောဖြင့် သုတ်လိမ်းပေးထားသည်။ အချို့ဥရောပနိုင်ငံများတွင်မူ သစ်သား မီးခြစ်ဆံအစား ဖယောင်းစိမ် မီးစာတမျိုးကို အသုံးများကြသည်။

မီးခြစ်များ စတင် ပေါ်ပေါက်ချိန်မှစ၍ ၁၈၆၀ ပြည့်နှစ်တိုင်အောင် လက်ဖြင့်ပင် ကြာရှည်လေးမြင့်စွာ တပင်တပန်း ပြုလုပ်ခဲ့ကြရ၏။ သို့သော် ယခုအခါ မီးခြစ်များကို အစမှ အဆုံးတိုင် စက်ဖြင့် ပြုလုပ်လျက်ရှိပေပြီ။ မီးခြစ်ဆံ လုပ်ရန်အတွက် သစ်သားအပွစားကို အသုံးပြုလေ့ရှိရာ များသောအားဖြင့် ထင်းရှူးသား အဖြူမျိုးကို အသုံးများကြသည်။ ရှေးဦးစွာ သစ်သားများကို အလောတော် အတုံးများဖြစ်အောင် ပြုလုပ်ပြီးနောက် အသားသေစေရန် တနှစ်ကျော်မျှ ထားရသည်။ ထိုနောက် မီးခြစ်ဆံပြုလုပ်သော စက်ထဲသို့ ထည့်သွင်းလိုက်သောအခါ စက်ထဲရှိ ဓားသွားများက မီးခြစ်ဆံအရွယ် သစ်သားချောင်း ကလေးများဖြစ်အောင် လျင်မြန်စွာ ခွဲစိတ်ပေးသည်။ ခေတ်မှီသောစက်တလုံးသည် တနာရီဘွင် မီးခြစ်ဆံအချောင်းရေ တသန်းကျော်မျှ ခွဲစိတ်ပေးနိုင်သည်။ ထိုသို့ ခွဲစိတ် ပြီးသောအခါ စက်ကပင် မီးခြစ်ဆံများကို ဆန်ခါပေါက်ဖောက်ထားသော သတ္တုပြားတွင် ထိုးစိုက်ပေးလိုက်၏။ သတ္တုပြားများမှာ အများအပြားရှိ၍ တခုနှင့်တခုကို အစအဆုံး မရှိဘဲ ခါးပတ်ကွင်းဖြစ်နေအောင် ပတ္တာများဖြင့်ဆက်ထားပြီးလျှင် ဒလိမ့်တုံးများဖြင့် အဆက်မပြတ် လည်နေစေသည်။ သတ္တုပြားများ သယ်ဆောင်ရာသို့ လိုက်ပါနေရသော မီးခြစ်ဆံ သစ်သားချောင်း ကလေးများသည် အဆင့်အားလုံးကို လွန်မြောက်သောအခါ မီးခြစ်ရန် အဆင်သင့်ဖြစ်သော ယမ်းခေါင်းတပ် မီးခြစ်ဆံများအဖြစ်ဖြင့် ထွက်လာလေသည်။

မီးခြစ်ဆံပြုလုပ်သည့် ပဌမဆင့်တွင် မီးခြစ်ခြစ်၍ အသုံးပြုငြိမ်းသတ်ပြီးနောက် မီးခြစ်ဆံသစ်သားချောင်း၌ မီးရဲပြီး ကျန်မနေခဲ့စေရန်အတွက် မီးခြစ်ဆံများကို ဓာတ်ဆေးရည်တမျိုးတွင် နှစ်ပေးရသည်။ ပြီးလျှင် အခြောက်ခံ၍ ဖယောင်းရည်တွင် နှစ်ပေးရ၏။ ဖယောင်းရည်တွင် နှစ်ပေးခြင်းမှာ မီးခြစ်သောအခါ၌ လွယ်လင့်တကူ မီးလောင်စေရန် ဖြစ်သည်။ ထိုနောက် ယမ်းရည် နှစ်မျိုးတွင် နှစ်ကြိမ်နှစ်ပေးခြင်းဖြင့် ယမ်းခေါင်းဖြစ်အောင် ယမ်းနှစ်ကြိမ်တင်ပေးရသည်။ ပဌမအကြိမ်တွင် သာမန် ပွတ်တိုက်မှုဖြင့် မီးမလောင်နိုင်သော ယမ်းရည်ထဲ၌ မီးခြစ်ဆံ ခေါင်းဖျားကို နှစ်ပေးသည်။ ပြီးမှ မီးတောက်လွယ်သော အခြား ယမ်းရည်ထဲတွင် နှစ်ပေးရပြန်သည်။ ဤသို့ ယမ်းနှစ်ဆင့်တင်ပြီးသောအခါ မီးခြစ်ဆံများကို လေပူဖြင့် သွေ့ခြောက်စေရသည်။ ထိုနောက် သတ္တုပြားများမှ မီးခြစ်ဆံများကို စက်က ထိုးထုတ်ပေး၍ စက်ဖြင့်ပင် မီးခြစ်ဗူးထဲသို့ ထည့်ခြင်း၊ ထုပ်ခြင်း၊ တံဆိပ်တပ်ခြင်း စသည်တို့ကို ပြုလုပ်ယူလေသည်။ မီးခြစ်ဗူးတွင် မီးခြစ်ဆံ ၅၀ မှ ၆၀ အထိ (မြန်မာနိုင်ငံတွင် အများဆုံး ၄၀) ပါဝင်တတ်၍ မီးခြစ်ဗူးအရွယ်မှာ အကြမ်းအားဖြင့် ၂ ၁/၄ × ၁ ၁/၂ × ၁/၂ လက်မခန့် ရှိတတ်လေသည်။

ဤမီးခြစ်မျိုးကို ယခုအခါ မြန်မာနိုင်ငံတွင်လည်း ပြုလုပ်လျက်ရှိပေပြီ။ ကမ္ဘာသုံးအတွက် မီးခြစ်များကို အကြီးအကျယ်ပြုလုပ်ရောင်းချသော နိုင်ငံများတွင် အမေရိကန်ပြည်ထောင်စုက ပဌမစွဲ၍ ဆွီဒင်နိုင်ငံနှင့် ဂျပန်နိုင်ငံတို့က ဒုတိယလိုက်လေသည်။

ဗူးဖြင့် ထည့်ထားသော မီးခြစ်မျိုး အပြင် စာအုပ် ကလေးသဖွယ် ပြုလုပ်ထားသော မီးခြစ်ကပ်ကလေးတမျိုးကိုလည်း တွေ့မြင်ဘူးကြပေမည်။ ထိုမီးခြစ်ဘွင် သစ်သား အစား ကပ်ထူစက္ကူကိုသုံးထား၍ စက်နှစ်လုံးဖြင့် ပြုလုပ်ရ၏။



အင်ဒိုနီးရှားနိုင်ငံ ဂျာဗားကျွန်းရှိ မီးတောင်များကို အမိုးအငွေ့တလူလူဖြင့် ဤသို့တွေ့မြင်ရသည်။

ပဋ္ဌမစက်က ကပ်ထူစက္ကူကို လိုသလို ခွဲစိတ်ပေးခြင်း၊ ဖယောင်းရည်၊ ယမ်းရည်များတွင် နှစ်ပေးခြင်းစသည်တို့ကို ပြုလုပ်ပေး၍ ဒုတိယစက်က စာအုပ်သဖွယ် ဖြစ်အောင် အဖုံးကပ်ပေးသည်။ အသုံးပြုသောအခါ မီးခြစ်ဆံချောင်းကို မီးခြစ်ကပ်မှ ဆွဲထုတ်၍ အဆင်သင့်ပါလာသော ယမ်းခွံတွင် ခြစ်ယူရလေသည်။

တဖန် မီးခြစ် လုပ်ငန်း စတင်ပေါ်ပေါက်ခဲ့သည့်အချိန်မှစ၍ မီးခြစ်တီထွင်လုပ်ကိုင်သူတို့ ကြံစည် မြော်မှန်းလာခဲ့သော ရေခံမီးခြစ်တမျိုးကို ဒုတိယကမ္ဘာစစ်ကြောင့် အမေရိကန် ပြည်ထောင်စုမှ ပဋ္ဌမဦးစွာ တိုးတက်ကြံစည်နိုင်ခဲ့ပေသည်။ အဆိုပါ ရေခံမီးခြစ်ကို စမ်းသပ်ကြည့်ရာ ရေထဲ၌ ၈ နာရီကြာမျှ စိမ်ထားပြီးသည့် တိုင်အောင် မီးခြစ်၍ တောက်သည်ကို တွေ့ရ၏။ ထိုမီးခြစ်ကို ၁၉၄၃ ခုနှစ်တွင် စတင်ပြုလုပ်၍ အမေရိကန်လက်နက်ကိုင် တပ်များသို့ တနေ့လျှင် မီးခြစ်ဗူးပေါင်း တကုဋေကျော်မျှ ဖြန့်ချီပေးဝေနိုင်ခဲ့လေသည်။

**မီးတောင်။** ။ကမ္ဘာမြေကြီး အတွင်းမှ အလွန်ပူသော ချော်ရည် ကျောက်ရည်များသည် အင်အားနုသည့် မြေပျော့မှ ထွက်ပေါက်ရှာ၍ အပြင်သို့ ပန်းထွက်လာသောအခါ မီးတောင်ဖြစ်ပေါ်လာလေသည်။

ကျောက်ရည် ချော်ရည်ပူများရှိရာ မြေအတွင်းဖက် တလျှောက်မှ မြေမျက်နှာပြင်သို့ မီးခိုးခေါင်းတိုင်သဖွယ် အပေါက်တပေါက်ရှိ၏။ ထိုအပေါက်မှ ပန်းထွက်လာသော အရာများသည် တအိအိ ကျဆင်းလာ၍ ကာလကြာမြင့်သောအခါ ထိပ်ဝကျယ်လာပြီးလျှင် အောက်ခြေ၌ ပွင့်ကားကာ ခမောက်ပုံသဏ္ဍာန်ရှိသော တောင်ပူစာသဖွယ် ဖြစ်လာလေသည်။ ထိပ်၌မူ ချိုင့်ဖြစ်နေ၍ ယင်းကို မီးတောင်ထိပ်ဝဟု ခေါ်သည်။

အတွင်းမှ ရုန်းကန် ပန်းထွက်လာသော အရာများမှာ ချော်ရည် ချော်တုံး၊ ပြာတုံး ပြာခဲ၊ ဖုံ၊ သဲနှင့်အပူငွေ့၊ မီးခိုးများဖြစ်ကြသည်။ ယင်းတို့အပြင် ကလိုရင်း၊ ကန့်နှင့်ကာဗွန်ဒိုင်အောက်ဆိုက် စသော ဓာတ်ခိုးဓာတ်ငွေ့များလည်း ပါဝင်၏။

မီးတောင်တလုံးသည် ချော်ရည်ချော်မြုပ် မီးခိုး တစုံတရာ မထွက်တော့ဘဲ ငြိမ်သက်သွားသောအခါ ယင်းကို မီးတောင်သေဟု ခေါ်သည်။ မြန်မာနိုင်ငံ မြင်းခြံနယ်ရှိ ပုပ္ပါးတောင်သည် မီးတောင်သေ ဖြစ်သည်။ တခါတည်း လုံးလုံးသေမသွားဘဲ ခေတ္တမျှ ငြိမ်သက်နေသော မီးတောင်များလည်းရှိတတ်ရာ ယင်းတို့ကို မီးတောင်မြုံဟုခေါ်သည်။

ဥရောပတိုက်၌ ထင်ရှားသော မီးတောင် ၂ လုံးရှိရာ တလုံးမှာ စစ္စလီကျွန်းရှိ အက်တနာမီးတောင်ဖြစ်၍ အခြား

တလုံးမှာ ဣတလီနိုင်ငံတောင်ပိုင်း နေပယ်မြို့အနီးရှိ ဗီဆူးဗီးယပ် မီးတောင်ဖြစ်သည်။ (ဗီဆူးဗီးယပ်မီးတောင်—ရှု။) ဗီဆူးဗီးယပ် မီးတောင်သည် နှစ်ပေါင်းကြာမြင့်စွာ မီးတောင်သေကဲ့သို့ ငြိမ်သက်နေသဖြင့် အနီးပတ်ဝန်းကျင်၌ လူများသည် ရွာများ တည်ဆောက်၍ အမှုမဲ့ အမှတ်မဲ့ နေထိုင်ခဲ့ကြ၏။ သို့သော် ၁၉၀၆ ခုနှစ် ဧပြီလတနေ့တွင် ရုတ်တရက် ပေါက်ကွဲသဖြင့် အနီးအနားရှိ လူနေအိမ်ခြေပေါင်း မြောက်မြားစွာ ပျက်စီးသွားခဲ့ရလေသည်။

မီးတောင်များသည် ငြိမ်သက်လျက် ရှိရာမှ ပေါက်ကွဲတော့မည်ရှိသောအခါ ထိုနေရာတဝိုက်တွင် မြေလျှင်တုန်လှုပ်တတ်သည်။ မြေအောက်မှ ကြောက်မက်ဖွယ်ကောင်းသော ပဲ့တင်သံ၊ တော်လဲသံများ ကြားရတတ်သည်။ စိမ့်စမ်းများတွင် အပူအအေး ရုတ်တရက် ပြောင်းလဲသွားတတ်သည်။ အကယ်၍ မီးတောင်သေဖြစ်ပြီးလျှင် မီးတောင်ဝတွင် ရေအိုင်ကလေးတခုကဲ့သို့ ရေများရှိနေခဲ့သော် ထိုရေများသည် အလွန်ပူလာပြီးလျှင် တခါတရံ ပွက်ပွက် ဆူလာတတ်လေသည်။

ကမ္ဘာပေါ်တွင် မီးတောင်ပေါင်း ၃၀၀ ကျော် ၄၀၀ ခန့်ရှိသည့်အနက် သုံးပုံတပုံသည် တိုက်ကြီးများပေါ်တည်ရှိ၍ ကျန်မီးတောင်များသည် ကျွန်းများပေါ်တွင် တည်ရှိကြသည်။ ပစိဖိတ်သမုဒ္ဒရာ၏ မျက်နှာပြင်အောက်၌ မီးတောင်များစွာရှိ၍ ထိုသမုဒ္ဒရာအတွင်းရှိ ကျွန်းများသည် အများအားဖြင့် မီးတောင်၏တောင်ထိပ်များ၊ သို့မဟုတ် မီးတောင်မှဖြစ်လာသော ကျွန်းများဖြစ်သည်ဟု ယူဆဖွယ်ရှိသည်။ ၁၇၉၆ ခုနှစ်က ပစိဖိတ်သမုဒ္ဒရာမြောက်ပိုင်း တနေရာ၌ မီးခိုးများထွက်နေသည်ကို တွေ့ရ၏။ မကြာမီ ထိုနေရာ၌တောင်ပို့ကြီးကဲ့သို့ မြေများ ရေမျက်နှာပြင်ပေါ်သို့ မောက်တက်လာသည်ကို တွေ့ရလေသည်။ နောက် ၆ နှစ်မျှကြာ၍ ထိုကျွန်းပေါ်သို့ လူအချို့ ရောက်သွားသောအခါ မြေကြီးမှာ အလွန်ပူနေသေးကြောင်းကိုရင်း၊ အတော်အတန် မြင့်နေသော တောင်တတောင်ရှိ၍ တောင်ခြေမှာ ၃ မိုင်ပတ်လည်ခန့်ရှိကြောင်းကိုရင်း တွေ့ရလေသည်။

အရှေ့အိန္ဒိယကျွန်းစုရှိ ကရာကာတိုအားခေါ် ကျွန်းတကျွန်းပေါ်တွင် မီးတောင်တလုံးရှိ၏။ ၁၈၈၃ ခုနှစ်က ထိုမီးတောင်ပေါက်ကွဲရာ ကျွန်းကလေးမှာ ပဋမ ထက်ခြမ်းကွဲ၍ နောက် လုံးလုံးပျောက်ကွယ်သွားသည်။ ပင်လယ်မှ ထန်းတဖျားခန့်မြင့်သော လှိုင်းလုံးကြီးများ တက်လာသဖြင့် ကမ်းခြေတလျှောက်ရှိ ရွာပေါင်း ၃၀၀ ခန့်ပျက်စီးပြီးလျှင် လူပေါင်း ၃၆,၅၀၀ ခန့် ရေနစ်သေဆုံးကြသည်။ ထိုလှိုင်းလုံးကြီးများသည် ကမ္ဘာကို တပတ်ပတ်၍သွား၏။ မီးတောင်ပေါက်ကွဲသံကြီးမှာ ကြောက်ခမန်းလိလိ ကျယ်လောင်လှ၍ မိုင်ပေါင်း၂,၅၀၀ ဝေးသော နေရာကပင် ကြားရသည်။ကရာကာတိုအား မီးတောင် ပေါက်ကွဲခြင်းသည်ကား ကမ္ဘာ့သမိုင်း၌ မကြုံစဖူး အထူးကြောက်မက်ဖွယ်ကောင်းသော မီးတောင်ပေါက်ကွဲမှုတရပ် ဖြစ်တော့သည်။

မီးတောင် ပေါက်ကွဲသောအခါ ချော်ရည် ချော်မြုပ်ထက် မီးတောင်က မှုတ်ထုတ်လိုက်သော ပြာပူပြာခဲနှင့် အခိုး အငွေ့များက ပို၍ ကြောက်စရာ ကောင်းသည်။ ချော်ရည်များမှာ တဖြည်းဖြည်း စီးဆင်း၍ အတန်ငယ် စီးဆင်းမိသောအခါ မာခဲသွားတတ်သည်။ မီးတောင်က မှုတ်ထုတ်လိုက်သော အရာများမှာကား ဝေးလံသော နေရာများသို့ လွင့်စဉ်ပျံ့နှံ့ကာ ပတ်ဝန်းကျင်ရှိ လူတို့၏ အသက်နှင့်စည်းစိမ်ဥစ္စာကို များစွာဆုံးရှုံးပျက်စီးစေနိုင်လေသည်။

မီးတောင်ပတ်ဝန်းကျင်ရှိ အရပ်ဒေသသည် အများအားဖြင့် အလွန်မြေသြဇာကောင်းသည်။ ထိုအရပ်၌ ကောက်ပဲသီးနှံများ အထူးဖြစ်ထွန်း၏။ သို့ဖြစ်၍လည်း လူတို့သည် ကြောက်မက်ဖွယ်ကောင်းသော မီးတောင်များ အနီးအနား၌ အရဲစွန့်ကာ နေထိုင်ကြလေသည်။ ဣတလီ နိုင်ငံ၊ တပ်စကင်နီနယ်၌မူ မီးတောင်မှ အပူအားကိုယူ၍ လျှပ်စစ်ဓာတ်အားပေးရာ၌ အသုံးချကြသည်။

မီးတောင် အရေအတွက်သည် ကမ္ဘာမြေကြီး အသက်နုစဉ်က ယခုထက် ပို၍များသည်။ ထိုအခါက မြေကြီးသည် များစွာမအေးသေးသဖြင့် အတွင်းမှ ချော်ရည်နှင့် အခြားအရာများသည် အင်အားနုနယ်သော မြေနေရာများမှ အပေါ်သို့ ထိုးထွက်နိုင်ကြသည်။ ကမ္ဘာကြီး အသက်ရင့်လာသောအခါ ထိုကဲ့သို့ အင်အားနည်းသော မြေနေရာများ နည်းပါးသွား၍ မီးတောင်များလည်း နည်းပါးလာရသည်ဟု ဆိုလေသည်။

မီးတောင်ပေါက်ကွဲရာ၌ ထွက်ပေါ်လာသော ချော်ရည်များသည် စင်စစ်အားဖြင့် မီးတောင်တွင်းရှိ ကျောက်တုံးကျောက်ခဲများ အရည်ပျော်ကျလာခြင်းပင် ဖြစ်သည်။ မီးတောင်ချော်ရည် အပျစ်၊ အကျဲ ဟူ၍ နှစ်မျိုးနှစ်စားရှိသည်။ ဆီလီကာ ၅၈ ရာခိုင်နှုန်းထက် ပို၍မပါသော ချော်ရည်များသည် ကမ္ဘာမြေကြီးအောက် နက်သောနေရာများမှ ထွက်လာ၍ အပူချိန် ဖာရင်ဟိုက် ၂,၂၅၀ံ လောက်တွင် အရည်ပျော်သည်။ ဤချော်ရည်များကို ဗေးဆစ်ချော်ရည်ဟုခေါ်၍ အရည်ကျဲသည်။ ဆီလီကာ ၆၆ ရာခိုင်နှုန်းနှင့်အထက်ပါဝင်သော ချော်ရည်များသည် မြေကြီးအပေါ်ယံ အထပ်များမှ ထွက်လာ၍ အရည်ပျစ်သည်။ အပူချိန် ဖာရင်ဟိုက် ၃,၁၀၀ံ မှာပင် အရည်ပျစ်လျက် ရှိသေးသည်။ ဤချော်ရည်မျိုးကို အက်ဆစ်ချော်ရည်ဟုခေါ်သည်။

ဗေးဆစ်ချော်ရည်သည် အရည်ပိုသွက်သဖြင့် အက်ဆစ်ချော်ရည်ထက် အစီးမြန်သည်။ ဗေးဆစ်ချော်ရည် ထွက်သော မီးတောင်ထိပ်များသည် များသောအားဖြင့် နိမ့်၍

တောင်စောင်းများမှာလည်း ပြေပြေနိမ့်ဆင်းသည်။ အက်ဆစ် ချော်ရည်ထွက်သော မီးတောင်များမှာ မြင့်၍ တောင်စောင်း မတ်စောက်သည်။ မီးတောင်မှ ပန်းထွက်ခါစ ချော်ရည် လတ်လတ်ဆတ်ဆတ်များသည် တနာရီလျှင် မိုင် ၅၀ နှုန်းလောက်နှင့် စီးဆင်းကြသော်လည်း ကြာသွားသော အခါ အစီးနှေးလာ၍ တနာရီလျှင် တမိုင်မပြည့် တပြည့် နှုန်းလောက်နှင့် စီးလေသည်။

မီးတောင်ထိပ်ဝမှ စီးဆင်းလာသော ချော်ရည်များသည် အလွန် အအေးမြန်သောအခါ ကျောက်သလင်းဖြစ်ရန် အချိန်မရသဖြင့် ဖန်ကဲ့သို့ ပြောင်ချောချောအပြင် ဖြစ်သွား၍ ယင်းကို ဖန်ချော်ဟု ခေါ်သည်။ ကျောက်ခဲကလေးများတွင် နစ်၍နေသော အက်ဆစ်ချော်ရည်အစိုင်အခဲကြီးများကို ခဲဝင်မှုန်ကျောက်ဟု ခေါ်သည်။ ချော်ရည်မျက်နှာပြင်၌ ဓာတ်ငွေ့ကြောင့် စည်ဖောင်းကလေးများဖြစ်ကာ အမြှုပ်ထနေတတ်သည်။ ဗီဆူးဗီယပ်မီးတောင် ပေါက်ကွဲစဉ်က စီးထွက်လာသော ချော်ရည်များမှာ ကျောက်ခဲအတိ ဖြစ်နေသည်ကို ယနေ့တိုင် တွေ့ရှိနိုင်လေသည်။

**မီးတောင်ဖိုနက်။** ။လင်းမြီးဆွဲ — ရှု။

**မီးထိုးအင်ဂျင်စက်။** ။ရေနွေးငွေ့အား အင်ဂျင်စက် — ရှု။

# သေနတ်လက်နက်

**တလုံးထိုး၊ နှစ်လုံးပူး၊ ခြောက်လုံးပူး၊ မြင်းသေနတ်၊ ရိုင်ဖယ်စသည့် လက်နက်ငယ်များ ဖြစ်သော မီးပေါက်လက်နက်များ အကြောင်းကို ၁၄ ရာစုနှစ် နောက်ပိုင်းတွင် ပဌမဆုံး ပေါ်သည့် လက်ပစ်သေနတ်မှ အစပြု၍ စိတ်ဝင်စားဖွယ် တင်ပြထားသည်။**

**မီးပေါက်လက်နက်။** ။မီးပေါက်လက်နက်ဟူသည်မှာ တလုံးထိုး၊ နှစ်လုံးပူး၊ ရိုင်ဖယ်၊ မြင်းသေနတ်၊ ခြောက်လုံးပူး စသည့်လက်နက်ငယ်များဖြစ်ကြသည်။ယမ်းကို လက်ဖြင့်မီးရှို့ပြီးပစ်ရသော ပဌမဆုံးပေါ်သည့် လက်ပစ်သေနတ်မျိုးကို ၁၄ ရာစုနှစ် နောက်ပိုင်းလောက်မှ စတင်အသုံးပြုခဲ့ကြသည်။ ထိုလက်ပစ်သေနတ်ကို ၃ ပေမျှ ရှည်သော တဖက်ပိတ် သတ္တုပြောင်းဖြင့် ပြုလုပ်ထား၍ သစ်သားချောင်း အပြောင်း တချောင်းတွင် မြဲမြံစွာ တပ်ဆင်ထားလေသည်။ ယမ်းကို ပြောင်းဝမှ ကျောက်ခဲစ၊ သံစများနှင့် ရော၍ထည့်ပေးရသည်။ ပစ်လိုသောအခါ လူတယောက်က လက်မောင်းအောက်တွင် ယင်းကို မြဲမြဲညှပ်ထားရ၍ အခြား တယောက်က သေနတ်နောက်ပိုင်းရှိ အပေါက်မှယမ်းကို သံချောင်းရဲရဲနှင့် မီးရှို့ပေးရသည်။ ထိုအခါ မီးခိုးလုံးများထ၍ ပြင်းထန်သော အသံဖြင့် ပေါက်ထွက်သွားလေသည်။ ပဌမဆုံးပေါ်သည့်ထိုသေနတ်ပစ်နည်းသည် အနီးရှိရန်သူအနည်းငယ်အား ထိခိုက်သေဆုံး ဒဏ်ရာရရှိစေသည် မှန်သော်လည်း ပစ်သူများကိုယ်တိုင်မှာလည်း မသက်သာဘဲ ထိခိုက်သေဆုံးတတ်ကြလေသည်။ ဤရှေးအကျဆုံးသေနတ်မျိုးနှင့် ယခု ၂၀ ရာစု ခေတ်ပေါ် သေနတ်မျိုးကို နှိုင်းရှည့် ကြည့်ပါက မည်မျှကွာခြားသည်ကို တွေ့ရလိမ့်မည်။ ယခုခေတ် သေနတ်များသည် ရှေးခေတ်သေနတ်များကဲ့သို့ ယမ်းနှင့် ကျည်ဆံများ ထည့်၍ ပစ်ကြရသဖြင့် မူချင်းအတူတူပင် ဖြစ်ကြသည်။ သို့သော်လည်း ယခုခေတ် သေနတ်များကိုပစ်ရာ၌ ပစ်သူသည် ဒင်ကို ပခုံးတွင် ထောက်၍ ချိန်ပြီးလျှင် မောင်းကိုဆွဲလိုက်ရုံမျှနှင့် ချက်ခြင်းဆိုသလို ကျည်ဆံများသည် လေထက် လျှင်မြန်သောနှုန်းဖြင့် ထွက်သွားပြီးလျှင် မိုင်ဝက်ဝေးသောနေရာ၌ ရှိသည့် လက်မတမတ်အထုရှိသော သံမဏိကို ဖောက်ထွင်းသွားနိုင်လေသည်။ ဤသည်ကို ထောက်လျှင် မည်မျှကွာခြား၍ မည်မျှတိုးတက်လာသည်ကို တွေ့နိုင်ပေသည်။

ပဌမဆုံး ပေါ်သည့် လက်ပစ်သေနတ်မျိုးကို မူတည်၍ ယင်းမှ ဆင်းသက်ပေါက်ပွားလာသော "အာကွီဗတ်" ခေါ် သေနတ်တမျိုးသည် ၁၅ ရာစုခေတ်တွင် ပေါ်ပေါက်လာသည်။ ဤသေနတ်မျိုးသည် ပြောင်းရှည်၍ လက်မောင်းအောက်တွင် ညှပ်၍မပစ်ရတော့ဘဲ သေနတ်ဒင်ကို ပခုံးတွင် ထောက်၍ ပစ်ရသည်။ အာကွီဗတ်သေနတ်မျိုးမှ တဖန် တိုးတက် လုပ်ကိုင်လာသော သေနတ်တမျိုးတွင် သေနတ်ပြောင်း နောက်နားပေါ်၌ စနက်မောင်းတခု တပ်ဆင်ပါရှိသည်။ ထိုစနက်မောင်းသည် ခလုတ်ကို ဆွဲလိုက်သည်နှင့် တပြိုင်နက် စနက်ပေါက်တွင် လာ၍ ရိုက်သဖြင့် မီးပွင့်ပြီးလျှင် သေနတ်ကျည်ဆံထွက်သွားသည်။ ဤသေနတ်မျိုးကို စနက်မောင်းသေနတ်ဟု ခေါ်သည်။ သို့သော် ယင်းသည် မိုးတွင်းအခါ၌ဖြစ်စေ၊ လေပြင်းထန်သော ရာသီဥတု၌ဖြစ်စေ ထိုင်းမှိုင်းစွတ်စိုသဖြင့် မီးကူးလေ့ မရှိသောကြောင့် ယင်းကို များစွာ အသုံးမပြုခဲ့ကြချေ။

စနက်မောင်းသေနတ်ကိုအသုံးပြုလာကြရာမှ ၁၅၂၀ ပြည့်နှစ်လောက်တွင် သေနတ်နောက်နား၌ ဘီးကလေး တခု တပ်ဆင်ထားသော သေနတ်တမျိုးကို တီထွင်ပြုလုပ် လာကြပြန်သည်။ ထိုသေနတ်မျိုးတွင် ခလုတ်ကိုဆွဲလိုက်သည့်အခါ

ဘီးကလေးသည် လည်၍ မီးခတ်ကျောက်နှင့်ခြစ်သဖြင့် မီးပွင့်လာပြီးလျှင် ကျည်ဆံထွက်သွားလေသည်။ ဤသေနတ်မျိုးကို ဘီးသေနတ်ဟုခေါ်၍ မြင်းသေနတ်များတွင် အများအားဖြင့် အသုံးပြုကြသည်။

၁၅၄၀ ပြည့်နှစ်လောက်တွင် စပိန်လူမျိုးတို့သည် စနက်မောင်းသေနတ်ထက် ကောင်းသော "မတ်စကက်" ခေါ် စစ်သုံးသေနတ်တမျိုးကို တိုးတက်လုပ်ကိုင်လာကြသည်။ ထိုသေနတ်မျိုးသည် သာမန်သေနတ်ထက် ပြောင်းဝ အနည်းငယ်ကြီး၍ ရှည်သည်။ အလွန်လေးသောကြောင့် ပစ်သောအခါ မြေကြီးတွင် သေနတ်ကို ခွနှင့်ထောက်၍ ပစ်ရသည်။ ယင်းတွင် ခဲကျည်လုံး တလုံးတည်းကိုသာအသုံးပြုရ၍ ကျည်လုံးကို ယမ်းဆောင့်တံနှင့် ပြောင်းဝမှနေ၍ ယမ်းရှိရာသို့ ထိုးသွင်းပေးရသည်။ ဤသေနတ်မျိုးကို ၁၇ ရာစုခေတ်တိုင်အောင် အသုံးပြုလာကြသည်။

၁၇ ရာစုနှစ်အစလောက်တွင် မီးခတ်သေနတ်တမျိုးကို တီထွင်လာနိုင်ကြပြန်လေသည်။ လက်ပစ် သေနတ်မျိုးမှ တဖြည်းဖြည်း တိုးတက်ကောင်းမွန်အောင် ပြုလုပ်လာခဲ့ကြသော သေနတ်များသည် မီးခတ်သေနတ်ခေတ်သို့ ရောက်လာသောအခါ ယခင်ကဲ့သို့ သံချောင်းရဲရဲနှင့် ယမ်းတွင် တို့ပေးရခြင်း၊ စနက်မောင်းထားပေးရခြင်းများ မရှိတော့ချေ။ ဤမီးခတ်သေနတ်တွင် စပရင်နှင့် တပ်ဆင်ထားသောမောင်း၏ထိပ်တွင် တူကဲ့သို့ ခေါင်းကလေးတခုရှိ၍ ထိုခေါင်းတွင် မီးခတ်ကျောက်စကလေး တခုကို တပ်ထားသည်။ သေနတ်ပြောင်းဘေးရှိ စနက်ပေါက်တဝိုက်တွင် ယမ်းထည့်ထားသော နားခွက်တခုရှိ၏။ ထိုနားခွက်ကို အထက်သို့ပွင့်သော အဖုံးကလေးတခုဖြင့် ဖုံးထားလေသည်။ ခလုတ်ကို ဆွဲလိုက်သောအခါ မောင်းကျလာ၍ မောင်းထိပ်တွင်ရှိသော မီးခတ်သည် နားခွက်ဖုံးတွင်ရိုက်၍ မီးပွင့်စေပြီးလျှင် နားခွက်ရှိ ယမ်းတွင် မီးကူးစေသည်။ နားခွက်မှမီးသည် စနက်ပေါက်မှ ဆင်း၍ ပြောင်းတွင်းရှိ ယမ်းကိုမီးကူးပြီးလျှင် ကျည်ဆံအား ပေါက်ထွက်သွားစေလေသည်။

ဤမီးခတ်သေနတ်မျိုးကို ၁၇ ရာစုမှ ၁၉ ရာစုခေတ်အစလောက်တိုင်အောင် အသုံးပြုလာခဲ့ကြသည်။ အမေရိကန်နိုင်ငံသို့ ပဌမဦးစွာ ရောက်ရှိ သွားကြသော ဥရောပတိုက်သား နယ်သစ်ရှာ အာဇာနည်တို့သည် တိုင်းရင်းသားများ ဖြစ်ကြသော ရက်အင်ဒီးယန်း များနှင့် တိုက်ခိုက်ကြရလေရာ ထိုမီး ခတ်သေနတ်မျိုးကိုပင် အသုံးပြု၍ အောင်မြင်ခဲ့ကြလေသည်။ ဥရောပတိုက်တွင် ပြင်သစ်တော်လှန်ရေးနှင့် နပိုလီယန်စစ်ပွဲများ၌လည်း ဤမီးခတ်သေနတ်မျိုးကို အသုံးပြုခဲ့ကြလေသည်။

၁၈၀၇ ခုနှစ်တွင် စကော့လူမျိုးဘုန်းကြီးတပါးက သေနတ်၌ ပေါက်ကွဲစေတတ်သည့် ယမ်းတမျိုးကိုထည့်၍ စတင်အသုံးပြုလာခဲ့ပြန်သည်။ ၁၉ ရာစု အလယ်ခေတ်လောက်တိုင်အောင် သေနတ်များတွင် မီးခတ်ကျောက်ကို အသုံးမပြုတော့ဘဲ ယင်းအစား တူမီးကို အသုံးပြုလာကြသည်။ တူမီးသေနတ်များတွင် ထိပ်သီးကလေးကို သေနတ်နောက်ပေါက်တွင် တပ်ဆင်ထား၍ ယမ်းထည့်ထားသော ကြေးအဖုံးကလေးကို ထိုထိပ်သီးပေါ်၌ တပ်ထားသည်။ ခလုတ်ကို ဆွဲလိုက်သောအခါ ကျလာသော မောင်းသည် ထိပ်ဖုံးကို ရိုက်သဖြင့် ပေါက်ကွဲသွားပြီးလျှင် ပြောင်းထဲရှိ ယမ်းကို မီး



၁၇ ရာစုခေတ်တွင်း ဥရောပ၌ အသုံးပြုခဲ့သည့် မီးပေါက်လက်နက်များ

ကူးသွားသောကြောင့် ကျည်ဆံထွက်သွားသည်။ ၁၉ ရာစု အလယ်ခေတ်ကျော်တိုင်အောင် ခေတ်စားလာခဲ့သော အထက်ပါ ရှေးသေနတ်များတွင် ချွတ်ယွင်းချက် နှစ်ခုရှိ၏။ ပဌမ အချက်မှာ ပစ်လိုက်သည့်အခါ အထိနာစေရန် ကျည်လုံးများကို အတော်အတန် ကြီးထားရာ၊ ကြီးထားရသဖြင့် လေအဆီးအတားများသောကြောင့် ထင်သလောက် မမြန်နိုင်ချေ။ ဒုတိယအချက်မှာ ကျည်လုံးသည်ချောနေသော သေနတ် ပြောင်းထဲမှ ထွက်သွားရသောကြောင့် ဖြောင့်ဖြောင့်မသွားဘဲ တဖြည်းဖြည်း လမ်းကောက် သွားတတ်သည်။ ထို့ကြောင့် ကိုက်တရာကျော်ကျော်လောက်တွင် ရှိသော အရာဝတ္ထုတခုကို မမှန်နိုင်ချေ။

ယင်းချွတ်ယွင်းချက်များမှ လွန်မြောက်စေရန် သေနတ်ပြောင်းတွင်း၌ ဝက်အူရစ်ကြောင်း ထွင်းသည့်စနစ်ကို တီထွင်လုပ်ကြပြန်သည်။ သို့လုပ်ရာ၌ သေနတ် ပြောင်းအတွင်း၌ ဝက်အူရစ်ပုံထွင်းကြောင်းများကို ထွင်းကြရသည်။ ဤဝက်အူရစ်ပုံထွင်းကြောင်းများကြောင့် ကျည်ဆံသည် သေနတ်ပြောင်းအတွင်း၌ လည်၍တဖြောင့်တည်း ထွက်သွားလေသည်။ ထို့မှတဆင့် ရှည်၍ကတော့ပုံရှိသော ကျည်ဆံများသုံးနိုင်သည်အထိ တိုးတက်လာခဲ့လေသည်။ ကတော့ပုံကျည်ဆံများကို သုံးခြင်းအားဖြင့် လေအဆီးအတားနည်းပြီးလျှင် ပို၍လည်း လေးသည်။ ကျည်ဆံများဝက်အူရစ်ကဲ့သို့ လည်၍ ထွက်သွားသော သတ္တိသည် ကျည်ဆံအချွန်ကို တသမတ်တည်း ဖြောင့်ဖြောင့် ထွက်သွားစေ၍ အမြီးပြန်ခေါင်းပြန်လည်သွားခြင်းကိုလည်း တားဆီးနိုင်လေသည်။ ၁၈ ရာစုခေတ် အမေရိကန် လွတ်လပ်ရေးစစ်ပွဲ၌ ဤဝက်အူရစ်ပုံထွင်းထားသော သေနတ်များကို အသုံးပြုခဲ့ကြသည်။ ဝက်အူရစ်ပုံထွင်းထားခြင်းကို အကြောင်းပြု၍ သေနတ်များကို ရိုင်ဖယ်သေနတ်ဟု ခေါ်တွင်ခဲ့ကြလေသည်။

ဤရှေးခေတ် ရိုင်ဖယ်သေနတ်များသည် ရှေ့ထိုးသေနတ်များဖြစ်ကြ၍ ကျည်လုံးများကို အမဲဆီဆွတ်ထားသော အဝတ်တွင် ထုပ်ပြီးလျှင် ပြောင်းဝမှနေ၍ အထဲသို့ ထိုးသွင်းရသည်။ ဤရိုင်ဖယ်သေနတ်မျိုး ပေါ်လာသော်လည်း ကျည်လုံးများထည့်သွင်းရာ၌နှေးကွေးသောကြောင့်ပြောင်းချောသေနတ်များလောက် လူကြိုက် မများခဲ့ချေ။ စစ်ဖက်တွင် ပြောင်းချော သေနတ်များကိုသာ ဆက်လက် အသုံးပြုကြသည်။ ကတော့ပုံကျည်ဆံသည် ရှည်သောကြောင့် ရှေ့ထိုးသေနတ်တွင် အသုံးပြုရာ၌ ကျပ်သဖြင့် အသုံးမများကြချေ။ ၁၈၅၂ ခုနှစ် လောက်တွင်မှ အသစ်တီထွင်၍ ပေါ်ပေါက်လာခဲ့သော ရိုင်ဖယ်သေနတ်တမျိုးမှာ ကျည်ဆံထည့်ရာ၌ ချောင်ချောင်ချိချိရှိ၍ ပစ်လိုက်သည့်အခါမှ ကြီးလာပြီးလျှင် ပြောင်းထဲတွင် အံကျဖြစ်၍ ထွက်သွားလေသည်။ ဤရိုင်ဖယ်သေနတ်မျိုး ပေါ်လာသောအခါ ပြောင်းချောသေနတ်ကို အသုံးမပြုကြတော့ချေ။ အသုံးမပြုဟု ဆိုငြားသော်လည်း လုံးလုံးမဟုတ်သေးပေ။ နောက်ထိုး ရိုင်ဖယ်သေနတ်များ ပေါ်လာမှသာ လုံးလုံးအသုံးမပြုတော့ချေ။

မီးခတ်နောက်ထိုး သေနတ်ကို အမေရိကန်လူမျိုး ဂျွန်ဟော ဆိုသူက ၁၈၁၀ ပြည့်နှစ်လောက်ကတည်းက တီထွင်ပြုလုပ်ခဲ့သော်လည်း ယမ်းငွေ့များနောက်ပေါက်မှ အများအပြား ထွက်တတ်သောကြောင့် ကျည်ဆံထွက်ရာ၌ အရှိန်မပြင်းလှသဖြင့် များစွာအကျိုးမများလှချေ။ ၁၈၃၆ ခုနှစ်၌ ဆယ်မျူယယ်ကို ဆိုသူလည်း နောက်ထိုး ခြောက်လုံးပူးသေနတ်တမျိုးကို ကြံစည်ပြုလုပ်ခဲ့၏။ သို့သော် မီးခတ်နောက်ထိုးသေနတ်ကဲ့သို့ပင် နောက်ပေါက်မှ ယမ်းငွေ့အများအပြား ထွက်သောကြောင့် လူသုံးမများလှချေ။

ထိုနောက် ယမ်းတောင့်ကို အသုံးပြုသော ပရပ်ရှင်း နောက်ထိုးရိုင်ဖယ် သေနတ်တမျိုး ပေါ်လာပြန်သည်။ ထိုရိုင်ဖယ်သေနတ်မျိုးကို ပဌမဆုံး စစ်ဖက်တွင် အသုံးပြုသဖြင့် ပရပ်ရှင်း လူမျိုးတို့သည် ဩစတြီးယန်း လူမျိုးတို့အား ကောင်းစွာ အောင်မြင်ခဲ့ကြသည်။ နောက်ထိုးသေနတ်များတွင် ပဌမဆုံးအသုံးပြုသည့် ယမ်းတောင့်သည် စက္ကူအထုပ်တခုတွင် ယမ်းနှင့်ကျည်ဆံကို ထည့်ထားသဖြင့် သေနတ်နောက်မှ လွယ်ကူစွာ ထည့်သွင်းနိုင်သည်။ ထည့်ရာတွင်လည်း စက္ကူထုပ်၏ ထောင့်စွန်းကလေးကို ပါးစပ်ဖြင့် အသာကိုက်ဆုတ်ပြီး ထည့်လိုက်ပါက စနက်ထိပ်ဖုံးမှမီးသည် ယမ်းရှိရာသို့ ရောက်လာကာ သေနတ်ပေါက်ထွက်သွားတော့သည်။ ဤသို့ စက္ကူယမ်းတောင့်ကို အသုံးပြုလာကြရာမှ တဖြည်းဖြည်း မကြာမီပင် ကြေးနီနှင့် ကြေးဝါခွံတို့ဖြင့် လုပ်သော ယမ်းတောင့်ကို သုံးနိုင်လာကြသည်။ ထိုသတ္တုယမ်းတောင့်များသည် ယမ်းပေါက်ကွဲသောအခါ၌ အနည်းငယ်ကြီးလာသဖြင့် သေနတ် နောက်ပေါက်ကို ကျပ်သွားစေသောကြောင့် ယမ်းငွေ့များမထွက်တော့ပေ။ ထို့ကြောင့်လည်း သတ္တုယမ်းတောင့်များနှင့် အသုံးပြုရသော နောက်ထိုးသေနတ်များကို အသုံးများလာကြသည်။

ယမ်းတောင့်ကို အသုံးပြုသော နောက်ထိုးသေနတ်များ ပေါ်လာပြီးနောက် မကြာမီပင် ယမ်းတောင့်ခွံများ အလိုအလျောက် ထွက်သွားစေသည့် ကရိယာတခုပေါ်လာသည်။ ထိုကရိယာကို သေနတ်ပစ်ပြီး၍ နောက်တကြိမ် ထပ်ပစ်ရန် ဖွင့်လိုက်သည့်အခါ ပစ်ပြီးယမ်းခွံသည် အလိုအလျောက် ထွက်သွားလေသည်။ဤကရိယာပေါ်လာပြီး မရှေးမနှောင်းပင် ယမ်းတောင့်အများ ထည့်နိုင်သော ယမ်းတောင့်ကပ် ပေါ်လာပြန်သည်။ ဤယမ်းတောင့်ကပ်ကို တီထွင် ထားသည့်စနစ်ကား ယမ်းတောင့်များသည် သေနတ်ထဲသို့ စနစ်တကျဝင်လာပြီးလျှင် ပစ်ပြီးသော ယမ်းတောင့်ခွံများလည်း အလိုအလျောက် ထွက်သွားသည်။ ဤနည်းဖြင့် အချက်

ပေါင်းများစွာကို တခဏခြင်းနှင့် အလွယ်တကူ ပစ်နိုင်ပေသည်။ ယခုခေတ်ပေါ် ရိုင်ဖယ်သေနတ်များတွင် ယမ်းတောင့်ကပ် အမျိုးမျိုးရှိကြသည်။ ပေါမော်ဇာအမည်ရှိ ဂျာမန်လူမျိုးတဦး တီထွင်ခဲ့သော မော်ဇာရိုင်ဖယ်တွင် ထည့်သော ယမ်းတောင့်ကပ်၌ ယမ်းတောင့်များသည် တခုပေါ် တခုဆင့်၍ ရှိကြသည်။

ယမ်းတောင့်ကပ်များ ပေါ်လာပြီးနောက် မီးခိုး မထွက်သော ယမ်းတောင့်များပေါ်လာပြန်သည်။ ထိုအသစ်ပေါ် ယမ်းတောင့်များသည် မီးခိုးမထွက်သည်သာမက ပစ်ရာတွင်လည်း ယမ်းအား အလွန်ကောင်းသောကြောင့် သေနတ် အနည်းငယ် ခုန်တတ်သည်။ ခုန်သည့် အခြား အကြောင်းတခုမှာ ခဲကျည်လုံးများ ပျော့၍ ပေါ့သောကြောင့် ဖြစ်သည်။ ထိုကြောင့် ကျည်ဆံကို ဖမ်းထားသည့် အညှပ်ကို တီထွင်ပြုလုပ်ကြပြန်လေသည်။ အညှပ်ကို ကြေးနီနှင့် နစ်ကယ်ရောထားသော သတ္တုရောတို့ဖြင့် ပြုလုပ်ထားရာ အလွန်မာသည်။ ဤအညှပ်ရှိခြင်းကြောင့် ကျည်ဆံမခုန်သည့်ပြင် ဝက်အူရစ်ပုံ ထွင်းကြောင်းမှ လျင်မြန်စွာ လည်၍ထွက်သွားသည်။ ၀.၃၀ လက်မ အချင်းရှိသည့် ကျည်ဆံနှင့်ထည့်၍ ပစ်သော စပရင်ဖီး ရိုင်ဖယ်သေနတ်သည် တစက္ကန့်လျှင် ပေပေါင်း ၂,၇၀၀ အထိ သွား၍ တမိုင်အတွင်း အလွန်တည့်၏။ ၃ မိုင်အတွင်း၌ရှိသော ရန်သူကို သေစေနိုင်သည်။

ပဌမ ကမ္ဘာစစ်ပွဲတွင် အလိုအလျောက် ပစ်သော ရိုင်ဖယ်တမျိုးကို တိုးတက်လုပ်ကိုင် လာကြသည်။ ဤသေနတ်မျိုးတွင် ပစ်ပြီးယမ်းတောင့်များကို အလိုအလျောက်ထုတ်၍ ယမ်းတောင့် အသစ်များကိုလည်း ပြန်ဖြည့်ပြီးလျှင် တဆက်တည်း ယမ်းတောင့် ၄၀ အထိ ပစ်နိုင်အောင် စီမံထားသည်။ ဤအော်တိုမက်တစ် ရိုင်ဖယ်မျိုးကို စက်သေနတ် အပေါ့စားဟု ခေါ်သည်။

ရှေးမြင်းသေနတ်များသည် လက်တဖက်တည်းနှင့် ပစ်ရသော သေနတ်ငယ်များ ဖြစ်ကြသည်။ မြင်းသေနတ်များ ပြုလုပ်ရာမှ တဖြည်းဖြည်းတိုးတက်ကောင်းမွန်လာရာနောက်ဆုံး ခြောက်လုံးပူး သေနတ်ကို တီထွင်ပြုလုပ်နိုင်လာသည်အထိ ရောက်ခဲ့လေသည်။ ခြောက်လုံးပူး သေနတ်တွင် ကျည်ဆံ ၆ ခု ပါသော ဆံလည် ဆလင်ဒါတခု ရှိ၏။ သေနတ်မောင်းကို ဆွဲလိုက်တိုင်း ကျည်ဆံများသည် ပြောင်းတခုတည်းမှ အလှည့်ကျ ပတ်၍ထွက်လာကြသည်။ သို့သော် အလိုအလျောက် ပစ်သော အော်တိုမက်တစ်မြင်းသေနတ်တမျိုး ထပ်မံပေါ်လာရာ ခြောက်လုံးပူးထက် သာလေသည်။ ယင်းသည် အရှိန်ပြင်းပြင်းဖြင့် ၈ ချက်မှ ၁၀ ချက်အထိ ပစ်နိုင်သည်။ ခြောက်လုံးပူးတွင် ပြောင်းနှင့် ဆလင်ဒါအဆက်၌ ချတ်ယွင်းချက်ရှိသဖြင့် ယမ်းခိုးများ ထွက်လာတက်သည်။

၁၅၈၀ ပြည့်နှစ်လောက်ကတည်းက ပျံနေသော ငှက်များကိုပစ်ရန် ငှက်ပစ်သေနတ် အပေါ့စားတမျိုး ပေါ်လာခဲ့ဘူးဟန်တူသည်။ သံစ၊ ကျောက်ခဲစ စသည့် စရိတ်များထည့်၍ ပစ်သဖြင့် ခရာကဲ့သို့ အာကျယ်သော သေနတ်များကို စစ်ပွဲ၌ငှင်း၊ လမ်းခရီး၌ လုယက်တိုက်ခိုက်သော ဓားပြများ ဘေးမှ ကာကွယ်ရန်ငှင်း အသုံးပြုလာကြသည်။ ထိုအဝကျယ်သေနတ်များမှ ယခုခေတ် နှစ်လုံးပူးသေနတ်များသည် ရိုင်ဖယ်သေနတ်များ ပေါ်လာသကဲ့သို့ တဆင့်ပြီးတဆင့် ပေါ်လာခဲ့ကြလေသည်။ ယခုခေတ် နှစ်လုံးပူး သေနတ်များတွင် ၈ ဗိုးမှ ၂၄ ဗိုးအထိ ပြောင်းအရွယ် အမျိုးမျိုး ရှိကြသည်။ ပုံပမာ-၁၂ ဗိုးပြောင်းရှိသော စံနှစ်လုံးပူးသေနတ်သည် အတော်အသင့်ကြီးသော ခဲကျည်လုံး တလုံး ထည့်၍ ပစ်နိုင်ရာ ထိုခဲကျည်လုံးမျိုး ၁၂ လုံးသည် အလေးချိန် တပေါင် စီးလေသည်။

ကြေးဝါအပိတ်နှင့် စက္ကူထူဘေးပတ်တို့ဖြင့် ပြုလုပ်ထားသော နောက်ထိုး နှစ်လုံးပူးသေနတ် ယမ်းတောင့်များတွင် ငှက်ကလေးများပစ်သည့် စရိတ်ကျည်ကလေးများမှ သားကြီးများပစ်သည့်ကျည်လုံးကြီးများအထိ ထည့်ထားသည်။

ပြောင်းဝကျဉ်းသည့် သေနတ်တမျိုး ရှိသေးသည်။ ယင်းသေနတ်မျိုးသည် ပြောင်းဝကျဉ်းသဖြင့် ကျည်ဆံများ စု၍ထွက်သွားသောကြောင့် တာဝေးပစ်ရန်အတွက် ကောင်း၏။ ထိုသေနတ်မျိုးကို ကြက် ငှက်များပစ်ရန်အတွက် အထူး စီမံထားသည်။ စံနှစ်လုံးပူးသေနတ်တွင် တဖက်သော ပြောင်းဝကို ကျဉ်းထား၍ တဖက်သော ပြောင်းဝကို နဂိုအတိုင်းထားသည်။

**မီးပြတိုက်။** ။ရေလမ်းခရီး သွားလာရသည်မှာ ကုန်းလမ်းခရီးသွားရခြင်းထက် ဘေးအန္တရာယ်ပိုမိုများလေသည်။ သင်္ဘောများသည် ကျောက်ဆောင်တို့ကို မကြာခဏ ဝင်ရောက်တိုက်ခိုက်မိ၍ ကွဲပျက်နစ်မြုပ်ခဲ့ကြရသည်။ ရေလယ်၌သာမဟုတ် တခါတရံ ဆိပ်ကမ်းသို့ ကပ်ရာတွင် ကျောက်ကမ်းပါးများကို ဆိုက်ကပ်မိကလည်း ကွဲပျက်သွားနိုင်သည်။ ရေမျက်နှာပြင် ပေါ်၌ အနည်းငယ် ပေါ်ထွက် နေသော ကျောက်ဆောင်ကြီးများကိုပင် ညဥ့်အချိန်များ၌ မြင်ရန်ခက်လှ၏။ နေ့အချိန်၌ပင် အဝေးက မြင်ရမည် မဟုတ်သောကြောင့် ရှောင်ရှားသွားရန် လွယ်ကူမည်မဟုတ်ချေ။ သို့ဖြစ်ရကား ပင်လယ်ခရီးသွားတို့အား ထိုဘေးအန္တရာယ်တို့မှ ကင်းလွတ်စေရန် နေ့ရောညဥ့်ပါ သတိပေးအချက်ပြဖို့ လိုလေသည်။ ထိုသို့ အချက်ပြ သတိမပေးနိုင်ခြင်းကြောင့် ရှေးခေတ်နယ်သစ်ရှာအာဇာနည်များ အသက်ဆုံးရှုံး ခဲ့ရသည်မှာ မရေမတွက်နိုင်တော့ချေ။ ယင်းသို့လျှင်ကျောက်ဆောင်၊ ကျောက်တန်း၊ ကျောက်ကမ်းပါးများကို အဝေးမှ နေ၍

သိရှိ ရှောင်ရှားနိုင်စေရန် စီမံဆောင်ရွက်ရာမှအစ မီးပြတိုက်များ ပေါ်ပေါက်လာခဲ့ပေသည်။ ညဉ့်အချိန်တွင် ကျောက်ဆောင် ကျောက်တန်းတို့ရှိရာကို အဝေးမှပင် သိရှိနိုင်စေရန် မီးရောင်ဖြင့်သာ အချက်ပြ သတိပေးနိုင်ရကား၊ ဘေးအန္တရာယ် ထူပြောရာ ကျောက်ဆောင်ကျောက်ကမ်းပါးများပေါ်မှ မီးရောင်များထွန်းညှိ၍ ပြထားလေသည်။

ကမ္ဘာပေါ်တွင် ရှေးအကျဆုံး မီးပြတိုက်များမှာ ခရစ်မပေါ်မီနှစ်ပေါင်း ၃၀၀ လောက်က ရောမလူမျိုးတို့ တည်ခဲ့သော အယ်လက်ဇန္ဒြီးယားပင်လယ်အော်ရှိ ဖာရိုမီးပြတိုက်နှင့် အော့စတီယာ မီးပြတိုက်၊ ရာဗန်နာ မီးပြတိုက်၊ ဗိုလုံးမီးပြတိုက်၊ ဒိုဗာမီးပြတိုက်တို့ ဖြစ်ကြသည်။ အယ်လက်ဇန္ဒြီးယားရှိဖာရိုမီးပြတိုက်ကား ကမ္ဘာ့အံ့ဖွယ်ခုနစ်သွယ်တွင် တခုအပါအဝင်ဖြစ်လေသည်။ ရှေးအခါက တည်ဆောက်ခဲ့သော မီးပြတိုက်များမှာ ကျောက်ဆောင် ကျောက်ကမ်းပါး ထိပ်များ၌ တိုင်လုံးမျှော်စင်သဖွယ် အဆောက်အဦမြင့်ကြီးများ ဖြစ်၍ ထိပ်၌ ကျောက်မီးသွေးမီး၊ ဆီမီးစသည်တို့ ထွန်းညှိ၍ အချက်ပြထားပေသည်။ သို့ရာတွင် ထိုမီးရောင်များသည် ဆီးနှင်းများ ပိတ်ဖုံးနေသည့် ရာသီတွင် ဘေးအန္တရာယ်ကို တိမ်းရှောင်သာသော အကွာအဝေးမှ ထင်ထင်လင်းလင်း မမြင်နိုင်သဖြင့် သင်္ဘောများမှာ မကြာခဏ ဘေးဒုက္ခနှင့် ကြုံတွေ့ခဲ့ကြရသည်။ ယခုခေတ်၌မူကား ရေနံဆီမီး၊ ဓာတ်ဆီမီး၊ လျှပ်စစ်မီး စသည့် မီးအိမ်များကို သုံးရုံမက အဝေးကပင်မီးရောင်ကို မြင်နိုင်စေရန် မှန်ဘီလူးများ၊မှန်ရောင်များဖြင့် ထိုးပြနိုင်အောင် စီမံထားသဖြင့် အထူး တိုးတက်လျက်ရှိလေသည်။

မီးပြတိုက်ကို စောင့်ရှောက်ရသော အလုပ်မှာလည်းဘေးအန္တရာယ် အများဆုံးနေရာမှနေ၍ သင်္ဘောများကို သတိပေးရသောကြောင့် သင်္ဘောများတွေ့ရတတ်သည့် ဘေးအအန္တရာယ်မျိုးကို မီးပြတိုက်များ(ဝါ) မီးပြတိုက် အလုပ်သမားများ မကြာခဏ ခံခဲ့ရလေသည်။ ကမ်းခြေမီးပြတိုက်များထက် ရေလယ်ကျောက်ဆောင်မှ မီးပြတိုက်များသည် ပို၍ အန္တရာယ်များသည်။ အင်္ဂလန်ပြည် ကမ်းခြေ၊ အင်္ဂလိပ်ရေလက်ကြားရှိ အက်ဒီစတုန်းမီးပြတိုက်ကို ၄ ကြိမ်တိုင်တိုင် အသစ်ပြန်လည် တည်ဆောက် ခဲ့ရသည်ကို ထောက်ခြင်းဖြင့် သိသာနိုင်လေသည်။

ကျောက်ဆောင် ကျောက်တန်းများရှိရာ၌ ရေအရှိန် ပိုမိုပြင်းထန်သည်အလျောက် ရေထဲ၌ အုတ်မြစ်ချ၍ မီးပြတိုက်များ တည်ဆောက်ရန်မှာ အလွန်မလွယ်ကူလှသော အလုပ်ဖြစ်ရုံသာမက၊ ဘေးအန္တရာယ်လည်း များလှသည့်အတွက် စွန့်စား၍ တည်ဆောက် ကြရသည်။ ပြင်းထန်စွာ ရိုက်ခတ်သော လှိုင်းလုံးကြီးများ၏ ဒဏ်ကို တန့်ရုံခိုင်သော မီးပြတိုက်သည် တာရှည်မခံနိုင်ချေ။ လှိုင်းလုံးခတ်၍ ပျက်စီးသွားရသော မီးပြတိုက်ပေါင်းလည်း များလှလေပြီ။ ယခုခေတ်၌ကား မီးပြတိုက်များကို အံချ၍ အင်္ဂတေဖြင့်ဆက်



**ပင်လယ်ကြောင်းသွား သင်္ဘောများအား မီးပြ အချက်ပေးရုံမျှမက ရာသီဥတု အခြေအနေများကိုပါ ခန့်မှန်းသတင်းပေးပို့နိုင်သည့် ခေတ်မီ မီးပြတိုက်ကြီးတခု**

သောကျောက်တုံးများဖြင့် ခိုင်ခံ့စွာ ဆောက်လုပ်ကြပြီဖြစ်သဖြင့် ရှေးကလောက် အပျက်အစီး မများတော့ချေ။ ကမ်းခြေအတွင်းရှိ အလွန် ကြောက်မက်ဖွယ် ကောင်းသော ကျောက်ဆောင်ပေါ်၌ မီးပြတိုက်များ ဆောက်လုပ်၍ မရနိုင်သောကြောင့် ခိုင်ခံ့သည့် သံမဏိမီးပြသင်္ဘောများကို ထားရပေသည်။ မီးပြသင်္ဘောများသည် မီးပြတိုက်ဆောက်၍မရသော ကမ်းခြေများ၊ ကျောက်ဆောင်များနှင့် မနီးမဝေးအရပ်မှနေ၍ မီးပြခြင်း၊ အချက်ပေးခြင်းတို့ဖြင့်သင်္ဘောများကို သတိပေးရသည်။ ယခုခေတ်မီးပြသင်္ဘောများ၊ မီးပြတိုက်များတွင် မီးအိမ်များသာမက အခြားသောနည်းများဖြင့် အချက်ပြ သတိပေးရန် နည်းအမျိုးမျိုး ကရိယာအသွယ်သွယ် ထားရှိလေသည်။

ဗြိတိသျှကျွန်း၏ကမ်းခြေသည် ကျောက်ဆောင်ကျောက်ကမ်းပါး အထူထပ်ဆုံးဖြစ်၍ မီးပြတိုက် အများဆုံးရှိ၏။ ကမ္ဘာပေါ်တွင် အထင်ရှားဆုံး မီးပြတိုက်မှာ ပလင်းမတ်မြို့မှအထွက် ၁၃ မိုင်ကွာတွင် တည်ရှိသော အက်ဒီစတုန်းမီးပြတိုက်ဖြစ်၏။ ထိုမှတပါး အိုင်ယာလန်နိုင်ငံ အနောက်တောင်ကမ်းခြေရှိ ဖတ်စနက်မီးပြတိုက်၊ ကွန်းဝေါနယ် လစ်ဇတ် မီးပြတိုက်၊ ဆပ်ဆက်နယ် ကမ်းခြေရှိ ဗီချီဟက်မီးပြတိုက် စသည်တို့သည်လည်း ထင်ရှားပေသည်။

မီးပြတိုက်များမှာ ရေကြောင်းတွင်သာ မဟုတ်ဘဲ ယခုအလွန်ခေတ်စားလျက်ရှိသော လေကြောင်း ခရီး အတွက်လည်း လိုလေသည်။ လေယာဉ်ပျံကွင်းများ၌ ညဉ့်အချိန်လေယာဉ်ပျံအဆင်းတွင် ကွင်းကို မီးထိုး၍ပြရ၏။ မီးပြတိုက်များကိုတည်ဆောက်ရာတွင် ကြေးငွေများစွာ ကုန်ကျသော်လည်း ရေကြောင်းခရီးသည်များအဖို့ အလွန်အကျိုးများလှလေသည်။

စင်စစ် မီးပြတိုက်နှင့်မီးပြသင်္ဘောများသည် အထူးအသုံးဝင်သော်လည်း ယင်းတို့၌ အလုပ်လုပ်ရသော အလုပ်သမားများအဖို့ ငြီးငွေ့ဖွယ် ကောင်းလှပေသည်။ အလုပ်သမားတို့မှာ လူသူနှင့် ဝေးသောနေရာတွင် လာရောက်လုပ်ကိုင်ကြရသည်ဖြစ်ရာ အဖော်ကင်းမဲ့လျက် အနေမကျသည့် ဒုက္ခကိုခံစားကြရသည်။ ထိုသို့ လူများနှင့် ဝေးကွာသော အရပ်တွင် လုပ်ကိုင်ကြရသည့်အထဲ တခါတရံ စားနပ်ရိက္ခာနှင့် ဖျော်ဖြေမှု လုံလောက်စွာ မရရှိသည်တို့နှင့် တွေ့ကြုံရတတ်သေးရကား ပို၍ စိတ်မချမ်းမြေ့ဖွယ်ရာ ဒုက္ခကို ခံစားကြရသည်။ ထိုသို့ ဒုက္ခများမှ သက်သာမှုရစေရန်နှင့် သင်္ဘောများကို မီးပြရာတွင် လွယ်လင့်တကူဖြစ်စေရန် ရည်ရွယ်၍ ဒုတိယကမ္ဘာစစ်အတွင်းက မီးပြတိုက်နှင့် မီးပြသင်္ဘောများတွင် အီလက်ထရွန်းနစ်ကို အသုံးပြုခဲ့ကြသည်။

မီးပြတိုက်နှင့် မီးပြသင်္ဘောများတွင် ရေဒီယို အချက်ပြစက်ကို တပ်ဆင်ထားခြင်းအားဖြင့် အလုပ်သမားများသည်



မီးပြတိုက် အမျိုးမျိုးရှိသည့် အနက်၊ ပင်လယ်တွင်းရှိ ကျောက်ဆောင်ထက်၌ တည်ဆောက်ထားသော မီးပြတိုက်တခုကို ဤသို့ရှုမြင်ရသည်။

မီးပြတိုက်နှင့် မီးပြသင်္ဘောများအပေါ်တွင် ထာဝစဉ် နေထိုင်ရန် မလိုတော့ချေ။ မြောက်အမေရိကတိုက် ကုန်းတွင်းအိုင်ကြီးတခုတွင် မီးပြသင်္ဘောတစင်း၌ ရေဒီယို အချက်ပြစက်တပ်ဆင်၍ အသုံးပြုစမ်းကြည့်ရာ အထူးပင်ကောင်းမွန်အသုံးဝင်ကြောင်း တွေ့ရ၏။ အလုပ်သမားများသည် ယခင်ကဲ့သို့ ကုန်းပတ်ပေါ်တွင် အမြဲနေထိုင်ရန် မလိုတော့သဖြင့် ငြီးငွေ့ဖွယ်ရာ၊ လူသူနှင့် ကင်းကွာ၍ နေရသည့်ဒုက္ခမှ သက်သာရာ ရကြလေသည်။ မီးပြ သင်္ဘောနှင့် မိုင်အနည်းငယ်ခန့်သာ ဝေးသော ကမ်းပေါ်တွင် ရေထဲ၌ သွားလာနေသော လှေသင်္ဘောများအား အချက်ပြရန် အိမ်တလုံး ဆောက်ထားလေသည်။ ထိုအိမ်မှ နေ၍ ခလုတ်နှိပ်လိုက်ရုံနှင့် မီးပြသင်္ဘောတွင် အလိုအလျောက် မီးလင်း၍ အန္တရာယ်ရှိကြောင်း အချက်ပြနိုင်လေသည်။ ထိုသို့ အလိုအလျောက်မှန်ကန် တိကျစွာ ဆောင်ရွက်နိုင်ခြင်းမှာ အီလက် ထရွန်းနစ်ကို အသုံးပြုထားခြင်းကြောင့် ဖြစ်လေသည်။

မီးပြတိုက်တွင် ရေဒီယိုအချက်ပြစက် တပ်ဆင်သောအခါ၌လည်း မီးပြတိုက်အစောင့်သမားသည် ကမ်းခြေရှိ မိမိနေ

အိမ်မှာပင် နေလျက် ခလုတ်ကို နှိပ်လိုက်ရုံနှင့် မြို့ဆိုင်းချိန်၌ အချက်ပေးဥသြကို မြည်စေနိုင်ခြင်း၊ မီးပြတိုက်မှမီးကိုလည်း ငင်းကနဲ လင်း၍သွားစေနိုင်ခြင်းစသော အကျိုးထူးများရရှိလေသည်။ သို့ဖြစ်ရကား ရေလမ်းသွားလာရေး၌ အထူး အရေးပါအရာရောက်သော မီးပြတိုက်နှင့်မီးပြသင်္ဘောများတွင် ရေဒီယိုအချက်ပြစက်များ တပ်ဆင် အသုံးပြုခြင်း အားဖြင့် အနာဂတ်ကာလတွင် အသက်ဘေးမှုရင်း၊ လုပ်သား ကုန်ကျခြင်းမှုရင်း များစွာ သက်သာလာမည် ဖြစ်ပေသည်။

**မီးငြိမ်းဖို။** ။ယခုအခါ၌ အလွန်ကြီးမား ခိုင်ခံ့လှသည့် စစ်သင်္ဘောကြီးများ၊ သံချပ်ကာကားကြီးများ၊ အမြောက်ကြီးများစသည့် ထုထည်ကြီးမားလှသော အဆောက်အဦများကို သံမဏိတို့နှင့် ဆောက်လုပ်ကြသည်။ သံ၊ သံမဏိများကို အလိုရှိသော ပုံမျိုးသွန်းလုပ်ရန် အရည်ကျိုရာ၌ရင်း၊ ပျော့ပျောင်းအောင် လုပ်ရာ၌ရင်း အလွန်ပူပြင်းသည့် မီးငြိမ်းဖိုများကို လိုအပ်ပေသည်။

မီးဖိုဆိုရာ၌ အိမ်တွင်းရှိ ထမင်းဟင်း ချက်ပြုတ်ရန် မီးဖို၊ အေးသောတိုင်းပြည်များတွင် အိမ်တွင်း အပူငွေ့ရစေရန် အတွက် အပူငွေ့ပေးထားသော မီးဖိုများကိုသာ လူသိများကြသည်။ အမှန်မှာ စက်ရုံလုပ်ငန်းများ၌ သုံးသော မီးငြိမ်းဖိုများမှာ ဆိုခဲ့သော မီးဖိုတို့ထက် အဆပေါင်းများစွာ အပူအားကြီး၍ စက်ရုံလုပ်ငန်းတွင် အလွန်အရေးပါ အရာရောက်ကြပေသည်။ ယခုအခါတွင် အသုံးအများဆုံးလည်း ဖြစ်၍ အရေးအကြီးဆုံးလုပ်ငန်း၌ အထိရောက်ဆုံးလည်းဖြစ်သော မီးငြိမ်းဖိုများမှာ လျှပ်စစ်မီးဖိုများဖြစ်ကြသည်။ ထိုမီးဖိုများသည် ဖာရင်ဟိုက် ဒီဂရီ ၇,၀၀၀ မျှရှိသော အပူချိန်ကို ပေးစွမ်းနိုင်သဖြင့် အခြားသာမန် မီးငြိမ်းဖိုများထက် နှစ်ဆမျှပို၍ အပူအားကောင်းသည်။ အလွန် အရည်ပျော်ခဲလှသော သတ္တုများပင် ထိုမီးဖိုများထဲတွင် အရည်ပျော်နိုင် ကြပေသည်။

လျှပ်စစ်မီးဖိုတွင် လုံကြီးတခု ပါဝင်၏။ ထိုလုံကြီးကို ပြင်းထန်သော အပူဒဏ်ကို ခံနိုင်၍ လျှပ်စစ်ဓာတ် မကူးနိုင်သော ပစ္စည်းဖြင့် ပြုလုပ်ထားသည်။ အချို့ လျှပ်စစ်မီးဖိုများတွင် ကာဗွန်ဓာတ်ခေါင်းနှစ်ခု အကြား၌သော်ရင်း၊ ကာဗွန်ဓာတ် ခေါင်းများမှ အပူဘိုက်ပေးရမည့် အရာဝတ္ထုသို့သော်ရင်း လျှပ်စစ်ဓာတ်စီး ဖြတ်ကူးစေသည်။ ထိုအခါတွင် လျှပ်စစ်



သံနှင့်သံမဏိတို့ကို အရည်ကျိုရာတွင် မီးငြိမ်းဖိုဖြင့် ကျိုနည်းသည် အကောင်းဆုံးဖြစ်သည်။



ဂျာမနီနိုင်ငံ ဒူဆယ်ဒေါ့မြို့ရှိ သံရည်ကျိုစက်ရုံကြီး အတွင်း၌ သံရည်များကို ပုံလောင်းယူနေကြစဉ်

ခေတ်စီးသည် ပြင်းထန်သော လျှပ်စစ်မီးစွယ်ကြီးကို ဖြစ်စေသည်။ အချို့ မီးပြင်းဖိုတွင် လုံကို ကြေးနန်းကြိုးများဖြင့်ရစ်ပတ်၍ ကြေးနန်းကြိုးထဲသို့ လျှပ်စစ်ခေတ်ဖြတ်စီးစေပြီးလျှင် အပူတိုက်ပေးသည်။ ကြေးနန်းကြိုးပြုလုပ်သော သတ္တုများတွင် နစ်ကယ်ကရိုမီယမ်ကို အပူချိန်စင်တီဂရိတ် ဒီဂရီ ၁,၀၀၀ အထိရှိသော လျှပ်စစ်ခေတ်စီးအတွက် အသုံးပြုနိုင်သည်။ ထိုအပူချိန်ထက် မြင့်သော အပူချိန်များအတွက် ပလက်တီနမ်၊သို့မဟုတ် မိုလစ်ဒီနမ်ကို အသုံးပြုရသည်။ ထိုသတ္တုတို့ကို အောက်ဆီဂျင်ပါသည့် လေထဲ၌ အသုံးပြုလျှင် အောက်ဆိုက်အဖြစ်သို့ ပြောင်းသွားတတ်ကြသဖြင့် ထိုသတ္တုတို့ကို အသုံးပြုနေစဉ်တွင် အနီးတဝိုက်၌ ဟိုက်ဒြိုဂျင်ခေတ်ငွေ့များကို လွှတ်ပေးထားရသည်။

အထက်တွင် ဖော်ပြခဲ့သည့်အတိုင်း လျှပ်စစ်မီးဖိုများသည် အရည်ပျော်ခဲသော သတ္တုများကို သတ္တုရိုင်းများမှ ထုတ်ယူရာတွင် များစွာအသုံးဝင် လေသည်။ ကျောက်မီးသွေးအဖြစ်မှ ဂရက်ဖိုက် အဖြစ်သို့ ပြောင်းလဲ ရာ၌၎င်း၊ ကျောက်သလင်းမျိုးမှ ဖန်ချိုင့်စသည်တို့ သွန်းလုပ်ရာ၌၎င်း၊ သံမဏိကျိုချက်ရာ၌၎င်း လျှပ်စစ်မီးဖိုများကသာ ထိရောက်စွာဆောင်ရွက်ပေးနိုင်ကြပေသည်။

လျှပ်စစ်မီးဖိုအပြင် အခြားမီးပြင်းဖို အမျိုးမျိုးရှိကြသေးရာ ထိုမီးပြင်းဖိုတို့ကို ၃ မျိုးခွဲခြား ထားနိုင်သည်။ (၁) မီးတိုက်လိုသော အရာဝတ္ထုနှင့် မီးတို့ကို ထိတွေ့စေသော မီးပြင်းဖိုများ။ထိုမီးဖိုမျိုးမှာ ပန်းဘဲဖိုမှ မီးဖိုများနှင့် လေမှုတ်မီးပြင်းဖိုကြီးမျိုး ဖြစ်သည်။ (၂) ထင်းမီးကို မီးဖိုအတွင်း အခန်းတဖက်၌ထား၍ မီးတိုက်လိုသော အရာဝတ္ထုကို အခြား အခန်းတဖက်၌ ထားလျက် မီးတောက်ကို မီးဖို အဖုံးအောက်တလျှောက် အရာဝတ္ထုဆီသို့ ရိုက်ဟပ်စေသော မီးဖိုများ။ ထိုမီးဖိုမျိုးမှာ မီးလှံမီးဖိုမျိုးဖြစ်သည်။ (၃) မီးတိုက်လိုသော အရာဝတ္ထုကို အိုးထဲထည့်ကာ အလုံပိတ်ထားပြီးလျှင် အပြင်မှ မီးအမျိုးမျိုးဖြင့် အပူတိုက်ပေးရသည့် မီးဖိုများ။ ထိုမီးဖိုမျိုးမှာ ဖန်ကို ကျိုသော အိုးမီးဖို၊ သံမဏိကို ကျိုသော လုံမီးဖိုမျိုးဖြစ်သည်။ ဤမီးပြင်းဖိုများသည် ပူပြင်းသောအပူကို ပေးစွမ်းနိုင်၍ ဓာတုဗေဒလုပ်ငန်းများတွင် လွန်စွာ အရေးပါ အရာရောက်လေသည်။

# အမှိုက်ကစ ပြာသာဒ်မီးလောင်

**ရန်သူမျိုးငါးပါး အဝင်အပါ မီးကို မလောင်ခင်ကကြိုတင် ကာကွယ်ရာ၏။ ထိုသို့ ကာကွယ်ရာ၌ သတိပြုအပ်သော အချက်အလက်များမှာလည်း လူတို့အမှတ်မထင် နေလေ့ ရှိသော အသေးအဖွဲကလေးများသာ ဖြစ်သော်လည်း ယင်းတို့ကြောင့် လူတို့၏ အသက်အိုးအိမ် စည်းစိမ်ဥစ္စာတို့ပင် ဆုံးရှုံးရလေသည်။**

**မီးဘေးကာကွယ်ရေး။** ။လူတို့ သတိမပြုလေ့ ရှိသော အသေးအဖွဲကလေးမှစ၍ အကြီးအကျယ် ပျက်စီးရတတ်သည်ကို အမှိုက်ကစ ပြာသာဒ်မီးလောင်သည်ဟု ဆိုစမှတ်ပြုကြသည်။ ထိုစကားမှာ မီးဘေးကာကွယ်ရေးတွင် အလွန်အဖိုးတန်သော စကားတရပ်ဖြစ်၏။ အဖိုးထိုက်တန်သော လူတို့၏ အသက် စည်းစိမ်ဥစ္စာတို့သည် မီးလောင်ခံရသော်ကြီးစွာသော အပျက်အစီး အဆုံးအရှုံးနှင့် တွေ့ရသည်ကများသည်။ ယင်းသို့ ပျက်စီးဆုံးပါးခြင်း၏ အကြောင်းရင်းကိုရှာမူ များသောအားဖြင့် လူတို့၏ ပေါ့လျော့မှုကို တွေ့ရတတ်လေသည်။ ထိုအခါမှ မိမိတို့၏ ပေါ့လျော့မှုအတွက် ကြီးစွာသော နောင်တ ဖြစ်တတ်ကြသည်။ ထို့ကြောင့် အကျိုးပျက်စီးပြီးမှ နောင်တရမည့်အစား မီးမလောင်မီက အထူးသတိထား၍ ကာကွယ်သင့်လှပေသည်။

ရန်သူမျိုး ငါးပါးတွင် တပါးအပါအဝင် ဖြစ်သော မီးကို မလောင်မီက ကြိုတင် ကာကွယ်ရာ၌ သတိပြုအပ်သော အချက်အလက်များမှာ များသောအားဖြင့် လူတို့ အမှတ်မထင် နေလေ့ရှိသော အသေးအဖွဲကလေးများပင် ဖြစ်သည်။ လူတို့၏ နေ့စဉ်သုံး ပစ္စည်းများတွင် အလွယ်တကူ မီးစွဲလောင်နိုင်သောပစ္စည်း များစွာရှိသည်ကို ရှေးဦးစွာ သတိထားသင့်သည်။ အမှတ်မဲ့ ပစ်လိုက်သော မီးခြစ်ဆံ၊ ဆေးလိပ်တိုကလေးများမှ မီးသည် မီးတောက်ကြီးအထိ ပွားကာ ဆုံးရှုံးပျက်စီးလောက်အောင် ဖြစ်စေနိုင်သည်။

မီးမလောင်ရန် သတိပြုကာကွယ်ရာ၌ မီးကိုသာ သတိနှင့် ကိုင်တွယ်ရမည်မဟုတ်၊ အိမ်တွင်းအိမ်ပ၌ မီးစွဲလောင်စေတတ်သော အရာဝတ္ထုအားလုံးကိုလည်း မီးနှင့်ဝေးရန်၊ သို့မဟုတ် မီးမစွဲနိုင်စေရန် စီမံထားဖို့လိုပေသည်။ ရေနံဆီ ဓာတ်ဆီ စသည်တို့မှတပါး မီးအစွဲလွယ်ဆုံး အိမ်တွင်းပစ္စည်းများမှာ စက္ကူနှင့် အဝတ်စများဖြစ်၏။ အိမ်ဆောက်ထားသည့် ပစ္စည်းများမှာသစ်၊ဝါး၊ဓနိ၊သက်ငယ်စသောလောင်စာများဖြစ်လျှင် မီးကို အထူးသတိပြုရပေမည်။ မီးခံ ပစ္စည်းများဟု ဆိုရမည်ဖြစ်သော သံ၊ သွပ်၊ ကျောက်၊ အုတ် စသည်တို့ဖြင့် ဆောက်လုပ်သော အဆောက်အအုံကြီးမှာပင် မီးဘေးကြီးများ ဆိုက်ရောက် လာလျှင် အပျက်အစီးမှ လွတ်ခဲလှ၏။ သို့ရာတွင် ထိုပစ္စည်းများမှာ သစ်၊ ဝါး၊ ဓနိ၊ သက်ငယ်ကဲ့သို့



ရန်ကုန်မြို့ ပန်းဆိုးတန်းနှင့် ဘားလမ်းကြားရှိ ၃၄၊ ၃၅ နှင့် ၃၆ လမ်းတို့တွင် စည်းကမ်းမဲ့စွာ ဆောက်လုပ်ထားသော တဲအိမ်များကို မီးမလောင်မီ ဤသို့ တွေ့မြင်ရသည်။



မီးလောင်ပြီးနောက် စည်းကမ်းမဲ့မှု၊ သတိပေါ့ဆမှု အကျိုးဒဏ်ကို ဤသို့ဒုက္ခဖြင့်ရင်းကာ ခံစားခဲ့ကြရရှာသည်။



မီးလောင်ရာတွင် စည်းကမ်းသေဝပ်စွာ မီးသတ်ခြင်း၊ အကူအညီပေးခြင်းများ ပြုရသည်။ အထူးသဖြင့် မီးသတ်ဝန်ထမ်းနှင့် လုံခြုံရေး တာဝန်ခံတို့အား သွားလာမှု လွယ်ကူအောင် လမ်းများ ရှင်းပေးအပ်သည်။

သို့ မီးစွဲလွယ်သော ပစ္စည်းများမဟုတ်သဖြင့် အိမ်တွင်း၌ မတော်တဆလောင်သော မီးတောက်များ တအိမ်လုံးသို့မကူးမိ ငြိမ်းသတ်ချိန် ရနိုင်ပေသည်။ နေအိမ် အဆောက်အအုံများကို တတ်နိုင်လျှင် ရတ်တရက် မီးမစွဲနိုင်သောပစ္စည်းများဖြင့် ဆောက်သင့်သည်။ ကြောက်စရာ အကောင်းဆုံးမှာ မီးတောက်ဖြစ်၏။ မီးတောက်သည် လောင်ကျွမ်းကူးစက်ရာတွင် အလျင်အမြန်ဆုံး ဖြစ်သည်။

သိပ္ပံပညာထွန်းကားသော ယခုခေတ်တွင် မီးစွဲတတ်သော ပစ္စည်းအများအပြားကို မီးမစွဲနိုင်စေရန် ဆေးရည်ဖြင့် စိမ်ထားနိုင်ကြလေသည်။ ဆာ ဝီလျံ ပါကင်သည် သစ်သားများကိုငှင်း၊ အဝတ်အထည်များကိုငှင်း မီးခံနိုင်စေရန် စိမ်သည့် ဆေးရည်များကို အောင်မြင်စွာ စမ်းသပ်ဖော်စပ်ခဲ့၏။ ထိုပြင် မီးသတ်ဗူးများကိုလည်း စီမံခဲ့ကြသည်။ မီးသတ်ဗူးတွင် ဆိုဒီယမ်ဗိုင်ကာဗွန်နိတ်နှင့် ဆာလဖျူရစ်အက်ဆစ်များကို တခြားစီ ထည့်ထားသည်။ အရေးကြုံ၍ သုံးလိုသော အခါ ထိုမီးသတ်ဗူးကို စောက်ထိုးလုပ်လိုက်ခြင်းဖြင့် ဓာတ်ရည်နှစ်ခု ရောနှောမိကာ ကာဗွန်ဒိုင်အောက်ဆိုက်ဓာတ် ထွက်ပေါ်လာပြီးလျှင် မီးတောက်ဖြစ်စေသည့် အောက်ဆီဂျင်ဓာတ်ကို ငြိမ်းသတ်နိုင်လေသည်။ ဤကရိယာမှာ ငွေကုန် ကြေးကျ မများလှဘဲ ဝယ်ယူအသုံးပြုနိုင်ကြ၍ မီးဘေးကာကွယ်ရေးတွင် များစွာခရီးရောက်ပေသည်။

မီးလောင်သောအခါ အမြန်ဆုံး ငြိမ်းသတ်နိုင်ရန် ကရိယာများကို အဆင်သင့် ထားသင့်သည်။ မီးသတ်အဖွဲ့များ မရှိသေးသည့် ကျေးလက်တောရွာများတွင် မီးချိတ် မီးကပ်များ အဆင်သင့်ထားရန် အစိုးရ၏ ဆင့်ဆိုချက်များကို အထူးသတိပြု လိုက်နာသင့်ပေသည်။

တောမီးများမှာလည်း အလွန်ကြောက်မက်ဖွယ် ကောင်း၏။ ကျေးရွာများနှင့် အဖိုးတန် သစ်တောများမှာ တောမီးလောင်၍ ပျက်စီးဆုံးရှုံးရတတ်၏။ တောတွင်းရှိ သစ်ပင်သစ်ကိုင်းချင်း ကြိတ်မိ၍ တောမီးလောင်တတ်သည်။ အနောက် နိုင်ငံများ၌ တောမီးကို အထူးဂရုပြုကြသည်။ တောမီး ကာကွယ်ရန် တောင်ပူစာ ထိပ်များ၌ မီးကြည့်မျှော်စင်များ ဆောက်ထားပြီးလျှင် တောမီးလောင်သည်နှင့် တပ်ပိုင်နက် အချက်ပေး၍ မီးငြိမ်းသတ် ကြရလေသည်။



အရေးပေါ် မီးလောင်ရာတွင် မီးသတ်ဗူးကို မည်သို့ မည်ပုံ အသုံးချရမည်ကို လက်တွေ့ သင်ကြား ပြသစဉ်

**မီးယေး ၊ ဂျေ၊အက်(ဖ)**(ခရစ် ၁၈၁၄ – ၁၈၇၅)။ ။ဂျီအင်း ဖရန်ဆွာ မီးယေးသည် ထင်ရှားသော ပြင်သစ်ပန်းချီဆရာကြီးဖြစ်သည်။ တောင်သူ လယ်သမားတယောက် ဖြစ်ခဲ့သဖြင့် ကိုယ်တွေ့အားဖြင့် တောင်သူလယ်သမားတို့၏ သုခဒုက္ခ အဝဝကို ကောင်းစွာ နားလည်သဘောပေါက်သူ ဖြစ်၏။ မီးယေး၏ အကောင်းဆုံးလက်ရာများတွင် တောင်သူလယ်သမားတို့ နေ့စဉ် ကြုံတွေ့ခံစားရမြဲဖြစ်သော ဆင်းရဲပင်ပန်းခြင်းကို ကွင်းကွင်းကွက်ကွက် သရုပ်ဖော်ထားသဖြင့် တောင်သူလယ်သမားတို့၏ ဘဝနှင့် တောသဘာဝကို ရေးခြယ်တင်ပြသော ပန်းချီဆရာကြီးဟု ဆိုနိုင်လေသည်။

မီးယေးကို ပြင်သစ်နိုင်ငံမြောက်ပိုင်း ရှားဗုမြို့အနီးရှိ နော်မန်ရွာငယ်တရွာတွင် ၁၈၁၄ ခုနှစ် အောက်တိုဘာလ ၄ ရက်နေ့ကဖွားမြင်သည်။သူ၏မိဖများမှာ တောင်သူလယ်သမားမျိုးရိုးမှ ဆင်းသက်လာကြသူများ ဖြစ်သည့်အလျောက် လယ်ယာလုပ်ကိုင်ခြင်းဖြင့် အသက်မွေးနေထိုင်ကြသည်။ ကလေးဘဝတွင် မီးယေးသည် မိဖများအား ကူညီလုပ်ကိုင်ပေးယင်း မိမိဝါသနာပါသော ပုံဆွဲအတတ်ကို လေ့ကျင့် လေသည်။ သူတို့ လယ်တော ပတ်ဝန်းကျင်ရှိ သဘာဝရှုခင်းများကို အားလပ်ချိန်ရတိုင်း ကူးယူရေးခြယ်လေ့ ရှိသည်။ မီးယေး၏ဖခင်သည် လယ်သမားတယောက်ပင် ဖြစ်လင့်ကစား ယဉ်ကျေးမှု အနုပညာ၏တန်ဖိုးကို ကောင်းစွာ နားလည်သူဖြစ်သောကြောင့် သားဖြစ်သူ၏ ဝါသနာကို အားပေးခဲ့လေသည်။ မီးယေးသည် အသက် ၁၈ နှစ်ရှိသောအခါ သူတို့ရွာနှင့် မနီးမဝေးတွင်ရှိသော ရှားဗုမြို့သို့ သွားရောက်ပြီးလျှင် ဇန်လင်ဂလွိုင်းအမည်ရှိသော ပန်းချီဆရာတဦးထံ၌ ပန်းချီအတတ်ကို လေ့လာဆည်းပူးစေလေသည်။ ၁၈၃၆ ခုနှစ်တွင် ရှားဗုမြို့မကောင်စီ အဖွဲ့ကပေးသော အထောက်အပံ့ဖြင့် ပန်းချီပညာကို ဆက်လက် ဆည်းပူးရန် ၁၈၃၇ ခုနှစ်တွင် ပြင်သစ်မြို့တော် ပါရစ်မြို့သို့ သွားရောက်လေသည်။

မီးယေးသည် ပါရစ်မြို့တော်တွင် အခက်အခဲနှင့် တွေ့ကြုံရလေသည်။သူသည်ရှေးဆန်သောနည်းစံနစ်များကို သဘောမကျသောကြောင့် ထိုစံနစ်များအတိုင်း မဆွဲလိုဟု ငြင်းပယ်လေသည်။ သို့ရာတွင် ရှေးလက်ဟောင်း ဆရာကြီးများ၏ ပန်းချီကားချပ်များကို အသစ်ရေးကူးပေးခြင်းဖြင့် သုံးစွဲလောက်ရုံမျှသော ငွေကို ရရှိခဲ့သည်။ တကြိမ်တွင် သူသည် ပါရစ်မြို့မှ ရှားဗုမြို့သို့ ပြန်သွားပြီးလျှင် ဆိုင်းဘုတ်များ ရေးခြင်းဖြင့် သူကိုယ်သူ ထောက်ပံ့နိုင်ရန် ကြိုးစားသေးသည်။ ရှားဗုတွင် နေထိုင်စဉ် သူ၏ ပန်းချီလက်ရာအချို့ကို ပြပွဲပြုလုပ်၍ တင်ပြလေသည်။ ထိုအချိန်မှစ၍ မီးယေး၏ နာမည်မှာ ထင်ရှားကျော်ကြားလာလေတော့သည်။ သူ၏ ပန်းချီကားအချို့ကို အဖိုးကောင်းကောင်းနှင့် ရောင်းရသဖြင့် ငွေအတော်အတန် ရရှိလေရာ ပါရစ်မြို့တွင် မနေတော့ဘဲ ၁၈၄၉ ခုနှစ်တွင် ဖောင်တိန်ဗလိုးတောအနီးရှိ ဗာဗီဇုံရွာတွင် အိမ်ကလေးတအိမ်ကို ဝယ်ယူလိုက်ပြီးလျှင် ထိုနေရာသို့ သွားရောက်၍ ကွယ်လွန်သည့်တိုင် ၂၇ နှစ်မျှ နေထိုင်ကာ တောင်သူလယ်သမားတို့၏ ဘဝကို ဖော်ပြသော ပန်းချီကားများ တခုပြီးတခု ရေးဆွဲခဲ့လေသည်။ ထို ၂၇ နှစ်အတွင်းဝယ် ထင်ရှားသော ပန်းချီကား ၂၀ ကျော်ကို ရေးဆွဲခဲ့၏။ ၁၈၅၇ ခုနှစ်တွင် ရေးဆွဲတင်ပြသော ‘ကောက်သင်းကောက်’ အမည်ခံ ပန်းချီကားချပ်မှာ ကောက်သိမ်းပြီးစအခါတွင် တောင်သူတို့ ထုံးစံအားဖြင့် လယ်ထဲတွင် အစအန အကြွင်းအကျန် ကောက်နှံများကို ကုန်း၍ ကောက်နေကြသော ဆင်းရဲသူ ကောက်သင်းကောက် အမျိုးသမီး ၃ ယောက်၏ ပုံဖြစ်သည်။ ၁၈၅၉ ခုနှစ်တွင် တင်ပြသော ‘သ-အန်ဂျီလပ်’ ခေါ် အခြားပန်းချီကားတခုမှာလည်း တောင်သူ လယ်သမားတို့၏ အယူဝါဒကိုင်းရှိုင်းမှုတွင် ရိုးသားဖြူစင်သည့်သဘောကို သရုပ်ဆောင်ထား၏။ ယင်းပန်းချီကားမှာ ရွာဦးဘုရားရှိခိုးကျောင်း ခေါင်းလောင်းတီးလျှင် တောင်သူလယ်သမားနှင့် ဇနီးသည်တို့ အလုပ်ရပ်နား၍ ရိုကျိုးစွာဦးညွှတ်ဝတ်ပြုနေပုံ ဖြစ်သည်။ ဤသို့ နှင့်နှင့်ပင် ‘သေမင်းနှင့် သစ်ခုတ်သမား’၊ ‘ပေါက်ပြားနှင့်လူ’၊ ‘သိုးထိန်းနှင့် သိုးအုပ်’ အစရှိသည့် ပန်းချီကားများဖြင့် တောသဘာဝရှုခင်းကို မိမိမြင်ရသမျှ အပိုမပါစေဘဲ ပန်းချီရေးခြယ် ခဲ့ပေသည်။



တောင်သူလယ်သမားတို့၏ ဘဝကို သရုပ်ဖော်ရေးဆွဲရာတွင် နာမည်ကျော်ကြားသူ ပြင်သစ်ပန်းချီကျော် မီးယေး

ပန်းချီရေးခြယ်ရာ၌ မီးယေးသည် သူ၏မှတ်ဉာဏ်ကိုသာ အသုံးပြုလေ့ရှိသည်။ အတုခိုးစရာ ပုံစံ၊ ဇယားယူ၍ မထားရှိချေ။ သူအသုံးများသော ဆေးရောင်မှာ မဲပြာရောင်နှင့် အညိုရောင်ဖြစ်သည်။ ဤအရောင်များသည် ပန်းချီကားအား ညှိုးငယ်နွမ်းလျသော အသွင်ကို ဆောင်စေသည်။ မီးယေးသည် ကျေးတောသားလယ်သမားများ၏ ရုပ်ပုံများကို မီးသွေးဖြင့်၎င်း၊ စားဆေးဖြင့်၎င်း ရေးဆွဲခဲ့သေးသည်။

မီးယေးသည် မကွယ်လွန်မီ ဆင်းရဲနွမ်းပါး သွားသော်လည်း သူ ကွယ်လွန်ပြီးသည့်နောက်တွင်ကား သူ့ပန်းချီကားများသည် အလွန်အဖိုးတန်လာလေသည်။ သူသည် ၁၈၇၅ ခုနှစ် ဇန်နဝါရီလ ၂၀ ရက်နေ့ အသက် ၆၁ နှစ်အရွယ်တွင် ကွယ်လွန်ရာ၊ သူကွယ်လွန်ပြီးနောက် ၁၅ နှစ်အကြာတွင် ၁၈၉၀ ခုနှစ်တွင် ရေးဆွဲပြီးသော "သ-အန်ဂျီလပ်" အမည်ရှိ သူ၏ပန်းချီကားတကားကို ပြင်သစ်လူမျိုး သဌေးတဦးက ငွေ ၆ သိန်းနှင့် ဝယ်ယူသွားလေသည်။

**မီးယပ်ပညာ။** ။မီးယပ်ပညာဟုဆိုထားသော်လည်း မီးယပ်နှင့် စပ်လျဉ်းသည့် ကိစ္စများတွင်သာ မက မိန်းမတို့၏ အင်္ဂါအစိတ်အပိုင်းများနှင့် စပ်လျဉ်းသည့် ရောဂါနှင့် လေ့လာကုသမှုများကိုပါ ထည့်သွင်း ဖော်ပြသွားမည်ဖြစ်သည်။

ဆေးပညာလောကတွင် ဆေးပေးပညာ၊ ခွဲစိတ် ပညာတို့အပြင် မိန်းမတို့၏ အင်္ဂါအစိတ်အပိုင်းတို့၌ ဖြစ်ပေါ်သော ရောဂါဝေဒနာများကို လေ့လာပြီးလျှင် ကုသပေးသည့် မိန်းမရောဂါဟူ၍ ရှိသေးသည်။

မိန်းမရောဂါဆိုရာ၌ မိန်းမတို့ ကိုယ်၌သာရှိသော မိန်းမကိုယ်၊ သားအိမ်၊ သားမျိုးပြွန်၊ သားမျိုးအိတ်၊ သားဥတို့တွင် ဖြစ်ပေါ်သည့် ရောဂါများကိုသာ အချို့ မိန်းမရောဂါဆေးပညာစာအုပ်များ၌ ရေးသားကြ၍၊ သားမြတ်နှင့် စပ်လျဉ်းသောရောဂါများကိုလည်း အချို့က မိန်းမရောဂါဆေးပညာနှင့် သက်ဆိုင်သည်ဟု ယူဆကြသည်။

ဆေးပညာ သမိုင်းတလျှောက်ကိုလိုက်၍ လေ့လာကြည့်ရှုမည်ဆိုလျှင် ရှေးနှစ်ပေါင်းများစွာကပင် ဆေးပညာ ထွန်းကားခဲ့ကြောင်း တွေ့ရသည်။ အီဂျစ်နိုင်ငံတွင် ဘီစီ ၂၁၆၀ ကပင် မိန်းမနှင့်စပ်လျဉ်းသည့်ရောဂါကို လေ့လာကုသခဲ့ကြပြီးဖြစ်သည်။ ခေါမ ရောမစသည် ဆေးပညာထွန်းကားခဲ့သော တိုင်းပြည်များတွင် ဆေးပညာ၏ဖခင် ဟီပေါ့ကရာတီး တို့ လက်ထက်မှစ၍ မိန်းမရောဂါဆေးပညာသည် ထွန်းကား တိုးတက်လာခဲ့သည်။ မိန်းမဆိုင်ရာ ရောဂါများတွင် အသုံးပြုသည့် ကရိယာတန်ဆာများကိုပင် တီထွင်ခဲ့ကြပြီးလျှင် ဆေးကျမ်းများကိုလည်း ပြုစုနိုင်ခဲ့ကြသည်။

ကမ္ဘာ့သမိုင်းအရ အလယ်ခေတ်တွင် ဆေးပညာ အားလုံး မတိုးတက်ဘဲ နိမ့်ကျနေခဲ့ရာ၊ ထိုအထဲတွင် မိန်းမဆိုင်ရာ ရောဂါနှင့် စပ်လျဉ်းသည့် ဆေးပညာသည်လည်း အပါအဝင်ဖြစ်၏။ အတတ်ပညာ ပြန်လည်ဆန်းသစ်လာသော ခေတ်တွင် လောကကြီးတခုလုံး နေရာတကာတိုင်း၌ တိုးတက်လာသည်နှင့်အမျှ ဆေးပညာများလည်း ပြန်လည်တိုးတက်ထွန်းကား လာခဲ့သည်။

မိန်းမဆိုင်ရာ ရောဂါများကို ကုသရာတွင် ခွဲစိတ်ကုသခြင်းများသည် တစတစ ပိုမိုတိုးတက်လာ၏။ ဆေးကျွေး ဆေးထိုးရုံမျှမက အချို့ကို ခွဲစိတ်ကုသပေးကြရ၏။ ထို့ကြောင့် မိန်းမရောဂါ ဆေးပညာတွင် ဆေးပေးပညာနှင့် ခွဲစိတ်မှုပညာနှစ်ရပ်စလုံး အကျုံးဝင်ပေသည်။

မီးယပ်ဆိုသောစကားသည် ရောဂါ၏ အမည်မဟုတ်ပေ။ အသက် တဆဲ့သုံးနှစ်ကျော်၍ အပျိုဘော်ဝင်သည့်အချိန်တွင် သားမျိုးအိတ်၊ သားအိမ်နှင့် မိန်းမတို့၏ သက်စောင့်ရည်အကြိတ်များပြောင်းလဲ လှုပ်ရှားလာချိန်မှစ၍သွေးဆုံးချိန် အသက်လေးဆဲ့ငါးနှစ်၊ ငါးဆယ် တိုင်အောင် တလတကြိမ် မိန်းမတို့ကိုယ်မှ သွေးဆင်းခြင်းသည် သဘာဝအတိုင်းဖြစ်၏။

မီးယပ်သွေးဆင်းရခြင်းမှာ နှစ်ဆဲ့ရှစ်ရက်လျှင် တကြိမ်ကျ သားမျိုးအိတ်မှ သားမျိုးဥတလုံး ပေါက်ဖွားလာရာ၊ ထို သားမျိုးဥပေါက်ချိန်တွင် သားအိမ် အတွင်းဆုံးနံရံ၌ ထိုသားဥသန္ဓေတည်ခဲ့သော် အဆင်သင့်ဖြစ်စေရန် အမြှေးများဖြင့် ပြင်ဆင်ထားရ၏။ နှစ်ဆဲ့ရှစ်ရက်ပြည့်၍ သားမျိုးဥဖြစ်ပေါ်လာသည့်တိုင် သန္ဓေမတည်ခဲ့သော် သန္ဓေသားအတွက် အသင့်ပြင်ဆင်ထားသော သားအိမ်နံရံမှ အမြှေးများ ကွာကျလာခြင်းကို မီးယပ်သွေးဆင်းသည်၊ ရာသီသွေးပေါ်သည်ဟု ပြောစမှတ်ပြုကြသည်။ အကယ်၍ သားမျိုးဥသည် သန္ဓေတည်သွားပါက သားအိမ်နံရံ အမြှေးတွင် တွယ်ကပ်စွဲမြဲကာ သန္ဓေသား ကြီးထွားရေးအတွက် ဆက်လက် လုပ်ကိုင်ပေးရ၏။ ထို့ကြောင့် အမြှေးများ ကွာမကျတော့သဖြင့် မီးယပ် မလာတော့ပေ။

မီးယပ်သည် နှစ်ဆဲ့ရှစ်ရက်လျှင် တကြိမ်ကျ၊ တကြိမ်တကြိမ်တွင် သုံးရက်မှ ငါးရက်ကြာမျှ သွေးဆင်း တတ်၏။ ထိုသို့ မဟုတ်ဘဲ ဖောက်ပြန်လာလျှင် မီးယပ်ရောဂါ ဟူ၍ မိန်းမရောဂါဆေးပညာထဲသို့ အကျုံးဝင်လာ၏။ ဖြစ်ပေါ်တတ်သော မီးယပ်ရောဂါများမှာ (၁) မီးယပ် ထိမ်ခြင်း၊ (၂) မီးယပ် သွေးလွန်ခြင်း၊ (၃) မီးယပ်ပေါ်ချိန် မြန်လွန်းခြင်း၊ (၄) မီးယပ်သွေးနည်း၍ မမှန်ခြင်း၊ (၅) မီးယပ်လာစဉ် ကိုက်ခဲခြင်းတို့ ဖြစ်သည်။

ကိုယ်ဝန်ရှိ မိန်းမအင်္ဂါ အစိတ်အပိုင်းများတွင် ဖြစ်ပေါ်တတ်သော ရောဂါများမှာ ထိခိုက်ဒဏ်ရာရခြင်း၊ ရောဂါပိုးဝင်၍ ရောင်ရမ်းခြင်း၊ အခြားကိုယ်ရည်ပြားတို့၌ ဖြစ်ပေါ်တတ်သည့် ရောဂါများဖြစ်ပေါ်ခြင်း၊ ယားယံခြင်း၊ အဖု အ

လုံး အသားတိုးများ ဖြစ်ပေါ်ခြင်းနှင့် ကင်ဆာရောဂါတို့ ဖြစ်ကြသည်။

ကိုယ်တွင်း မိန်းမအင်္ဂါ အစိတ်အပိုင်းများဖြစ်ကြသော သားအိမ်၊ သားမျိုးပြွန်၊ သားမျိုးအိတ်၊ သားမျိုးဥတို့တွင် လည်းအခြားကိုယ်အင်္ဂါ အစိတ်အပိုင်းတို့တွင် ဖြစ်ပေါ်တတ်သော ဝမ်းတွင်းပါ အင်္ဂါချို့တဲ့ခြင်း၊ အနေအထား မမှန်ခြင်း၊ ရောဂါပိုးဝင်ခြင်း၊ အလုံးအဖုဖြစ်ပေါ်ခြင်း စသည်တို့ ဖြစ်နိုင်၏။

ခွဲစိတ်မှုပညာနှင့် ရောဂါပိုးသတ်ဆေးအမျိုးမျိုး တိုးတက်နေသည်နှင့်အမျှ မိန်းမဆိုင်ရာ ရောဂါများကုသရာတွင် ခရီးရောက်ပြီးလျှင်မိန်းမရောဂါ ဆေးပညာသည် တိုးတက် ထွန်းကားလျက် ရှိပေသည်။

# သံလမ်းပြေးရထား

**လွန်ခဲ့သည့် နှစ်ပေါင်း ၁၅၀ ကျော်က ပဌမဆုံး မီးရထား စက်ခေါင်း ပေါ်ပေါက်ခဲ့သည်။ ထိုမီးရထား စက်ခေါင်းများမှာ ရေနွေးငွေ့နှင့် ခုတ်မောင်းသော စက်ခေါင်းများ ဖြစ်၍၊ ထိုနောက်တွင် လျှပ်စစ်မီးရထား စက်ခေါင်းများနှင့် ဒီဇယ် မီးရထား စက်ခေါင်းများ ပေါ်ပေါက် လာပုံကို ဓိတ်ဝင်စားဖွယ် ဖော်ပြထားသည်။**

**မီးရထား။** ။ယခုခေတ်တွင် အင်အားကြီးမားသော မီးရထား စက်ခေါင်းများသည် ကမ္ဘာအရပ်ရပ်ရှိ တိုင်းပြည်အသီးအသီးတို့၌ လူမျိုးပေါင်းစုံ၊ကုန်မျိုးပေါင်းစုံတင်ဆောင်ထားသော မီးရထားတွဲများကို မီးရထား သံလမ်းများတလျှောက်ဆွဲကာ မိနစ်မခြား၊ စက္ကန့်မခြား သွားလာခုတ်မောင်းလျက် ရှိကြသည်။ ထိုမီးရထား စက်ခေါင်းများသည် တောအထပ်ထပ်၊ တောင်အထပ်ထပ်နှင့် ခေတ်မှီအင်ဂျင်နီယာတို့၏လက်စွမ်းပြများ ဖြစ်ကြသော ဥမင်များ၊ တန်တားများကို ဖြတ်ကျော်ခုတ်မောင်းကာ သွားလာနေကြ၏။ ဤမီးရထားလမ်းများကို မည်သူများ စတင်တီထွင်၍ ငွေ့မြောက်မြားစွာ အကုန်အကျခံကာ ဆောက်လုပ်လာခဲ့ကြသနည်း။ မည်ကဲ့သို့ စတင်ဖောက်လုပ်လာခဲ့ကြသနည်း။

ပဌမဆုံး စတင်ပေါ်ထွက်လာသည့် မီးရထား စက်ခေါင်းမှာ လွန်ခဲ့သည့်နှစ်ပေါင်း ၁၅၀ ကျော်လောက်က ဖြစ်သည်။ ပဌမဆုံး မီးရထား စက်ခေါင်းမပေါ်မီ နှစ်ပေါင်း များစွာကဆိုလျှင် အင်္ဂလန်နိုင်ငံရှိ ကျောက်မီးသွေးတွင်းများမှ ကျောက်မီးသွေးများကို ပျဉ်ပြားထူများ အရှည်လိုက် ခင်းထားသော သစ်သားလမ်းများပေါ်၌ မြင်းဆွဲရထားကြီး



အရှေ့တိုင်း နိုင်ငံများတွင် အထူး အသုံးဝင်လျက်ရှိသေးသော ရေနွေးငွေ့မောင်း မီးရထား



ရှေးရိုးမီးရထားများနောက် တဆင့်တိုးတက်အသုံးပြုလာသော ခေတ်မှီဒီဇယ်ရထား

များနှင့်ဆွဲကာ သယ်ဆောင် ခဲ့ကြရပေသည်။ သစ်သား လမ်းများကို ရှုံ့ပွက်များအပေါ်၌ မြှင့်ထားပြီးလျှင် မြေကြီး ထဲ၌ မြဲစွဲစွာရိုက်နှက်သွင်းထားသည်။ မြင်းရထား ဘီးများ လမ်းချော်မထွက်သွားနိုင်အောင်လည်း ပျဉ်ပြားအပြင်ဖက် စွန်းများတွင် အနားပိုများ တပ်ဆင်ထားကြသည်။ ဤ သည်တို့ကား မီးရထားလမ်းများ၏ ရှေ့ပြေးများဖြစ်ကြ၏။ ဤနည်းဖြင့် မြင်းဆွဲရထားကြီးများသည် ရှုံ့ပွက်တွင် မကျွံ မနစ်တော့ဘဲ သက်သာစွာ သွားလာနိုင်ခဲ့သည်။ ထိုနောက် သစ်သားလမ်းများကို သံကန့်လန့်တန်းများနှင့် ဖုံး၍ အ နားပို များကို သစ်သားလမ်းပေါ်တွင် မတပ်ဆင်တော့ဘဲ ဘီးများပေါ်တွင်သာ တပ်ဆင် ထားလေသည်။ ဤနည်း ဖြင့် မီးရထားတွဲများကဲ့သို့ ကုန်တင်ရထားများကို တစင်းနှင့် တစင်းဆက်ကာ မြင်းတကောင်တည်းဖြင့် ဆွဲခဲ့ကြသည်။

ထိုအချိန်အခါကား ဂျိမ်းဝပ်ဆိုသူ အင်္ဂလိပ်လူမျိုး တ ယောက်သည် ရေနွေးငွေ့အား အင်ဂျင်စက်ကို စတင်တီထွင် လိုက်သော အချိန်ဖြစ်ရကား ထိုအင်ဂျင်စက်ကို ရထားလမ်း ပေါ်တွင် မည်သို့ အသုံးပြုရမည်ကို စဉ်းစားလာကြတော့ ၏။ လမ်းအဆုံးတွင် ထိုရေနွေးငွေ့ အင်ဂျင်စက်ကို ထားပြီး လျှင် သံနန်းလိမ်ကြိုးဖြင့် ရစ်ပတ်၍ ကုန်ရထားများကို ဆွဲယူ ကြသည်။ ခရစ် ၁၈၀၄ နှစ်ကျမှ ရစ်ချတ်ထရီဗီသစ် ဆိုသူ တီထွင်သော ယခုခေတ် မီးရထားစက်ခေါင်းမျိုး စတင်ပေါ် ပေါက်လာလေသည်။ သို့သော် တီထွင်ခါစဖြစ်၍ သေသတ် ကောင်းမွန်ခြင်းမရှိသဖြင့် လက်တွေ့အသုံးမပြုနိုင်သေးချေ။ ဝန်လေးများ ဆွဲရန်အတွက် ရထားလမ်းတွင် ခွေးသွားစိတ် များ ပြုလုပ်ထား၍ ခွေးသွားစိတ် ဘီးများဖြင့် ခုတ်မောင်း သည်ဟုဆိုသည်။ သို့မှသာ ခြေကုတ်ရပြီးဆွဲယူနိုင်ပေသည်။ သို့သော် ၁၈၁၂ ခုနှစ် မတိုင်မီပင် ချောသော ဘီးများ တပ် ဆင်ထားသည့် စက်ခေါင်းများသည် ခွေးသွားစိတ် မရှိဘဲ၊ ချောသော သံလမ်းပေါ်၌ ဝန်လေးများကို မြေညီ၌သာမက အနည်းငယ်မြင့်သော လမ်းအတက်များ၌ပင် ချိတ်ဆွဲ၍ ခုတ်မောင်း သွားလာနိုင်ကြောင်း တွေ့ရလေသည်။

တဖြည်းဖြည်း အခြေအနေတိုးတက်လာစဉ် ၁၈၁၃ ခုနှစ် ၌ ဝီလျံဟက်ဒလီ ဆိုသူသည် ကျောက်မီးသွေးတွင်းများ ၌ အသုံးပြုရန် စက်ခေါင်းတခုကို တီထွင်လိုက်သည်။ ထိုမီး ရထားစက်ခေါင်းကား အလွန်အသံမြည်၏။ ၁၈၁၄ ခုနှစ်၌ ဂျော့စတီဖင်ဆန် ဆိုသူသည် မီးရထားစက်ခေါင်း တခု ကို တီထွင်လိုက်ပြန်၍ ယင်းကို ကျောက်မီးသွေး တွင်းနှင့် သင်္ဘောဆိပ် အကြား ၉ မိုင်ဝေးသော သံလမ်းပေါ်၌ ကျောက်မီးသွေးသယ်ရန် အသုံးပြုလေသည်။ သို့သော် မြင်း လမ်းလျှောက်သည်ထက်ပင် နှေးနေပေသေးသည်။ ၁၈၂၅ ခုနှစ်သို့ ရောက်လာသောအခါ ဒုတိယအကြိမ် ပြုလုပ်သော စတီဖင်ဆန်၏စက်၌ အလဟဿ ထွက်သွားသော ရေနွေး

ငွေများကို ပြန်လည်အသုံးပြုနိုင်သဖြင့် စက်အားပိုမိုကောင်းလာလေသည်။ ထိုနှစ်တွင် စတော့တန်နှင့် ဒါလင်တန်သွား မီးရထားလမ်းဖွင့်ပွဲ၌ စတင် ခုတ်မောင်းသော မီးရထားမှာ ကမ္ဘာပေါ်တွင် ပဌမဆုံး လူစီးနှင့် ကုန်တင်ရထားဖြစ်၍ တွဲများကို စတီဖင်ဆန်၏ မီးရထား စက်ခေါင်းဖြင့် ဆွဲလေသည်။ ထိုစက်ခေါင်းကို "စက်ခေါင်းအမှတ် ၁"ဟု မှည့်ခေါ်ထားလေသည်။ (စတီဖင်ဆန်,ဂျီ — ရှု။)

ပဌမဆုံး မီးရထားပေါ်လာပြီးသည့်နောက် ရေနွေးငွေ့အား အသုံးပြုမှုမှာ လျင်မြန်စွာ တိုးတက်လာခဲ့သည် အလျောက် အင်ဂျင်စက်၏အားလည်း များစွာ ကောင်းလာလေသည်။ ၁၈၂၉ ခုနှစ်၌ မီးရထားစက်ခေါင်း ပြိုင်ပွဲတွင် ပဌမဆုရရှိသော စတီဖင်ဆန်၏ "ရော့ကက်"ခေါ် စက်ခေါင်းတွင် ပြွန်များစွာ ပါဝင်သော ဗွိုင်လာအိုးကို အသုံးပြုထားရာ စက်ခေါင်းမှာ အရွယ်ကြီးလာပြီးလျှင် အစစအရာရာ များစွာ တိုးတက်ကောင်းမွန် လာလေသည်။ ယခုခေတ် တန် ၁၅၀ မှ ၂၀၀ လေးသော မီးရထားစက်ခေါင်းများသည် ရှေးခေတ် အလွန်အသံမြည်သော စက်ခေါင်းများနှင့် စတီဖင်ဆန်၏ ရော့ကက် စက်ခေါင်းတို့မှ တိုက်ရိုက်ဆင်းသက်လာသော စက်ခေါင်းများဖြစ်ကြသည်။ ရော့ကက် စက်ခေါင်းကို အသုံးပြု၍ လီဗာပူးမြို့မှ မန်ချက်စတာမြို့သို့ သွားသော မီးရထားလမ်းကို လူအများအတွက် ၁၈၃၀ ပြည့်နှစ် စက်တင်ဘာလ ၁ ရက်နေ့တွင် အခမ်းအနားဖြင့် ဖွင့်လှစ်လိုက်လေသည်။

ဤသို့ တစတစနှင့်တိုးတက်လာခဲ့ရာ နောက်နှစ်ပေါင်း တရာခန့်ကြာသောအခါ ကမ္ဘာပေါ်ရှိ တိုင်းပြည် အသီးအသီး၌ မီးရထားလမ်းများဖြင့် ပြည့်လျက်ရှိသည်ကို တွေ့ရပေသည်။တောင်နှင့်မြောက်အမေရိကတိုက်တို့၌ မီးရထားလမ်း မိုင်ပေါင်း ၃၅၀,၀၀၀ ကျော်မျှရှိ၍ ဥရောပတိုက်တွင် မိုင်ပေါင်း ၂၅၀,၀၀၀၊ အာရှတိုက်တွင် မိုင်ပေါင်း ၈၀,၀၀၀၊ အာဖရိကတိုက်နှင့် ဩစတြေးလီးယားတိုက်တို့တွင် မိုင်ပေါင်း ၅၀,၀၀၀ စီ အသီးအသီး ရှိကြသည်။ ဗြိတိန်နိုင်ငံတွင် မီးရထားလမ်း မိုင်ပေါင်း ၂၀,၀၀၀ ကျော်မျှရှိ၍ လူပေါင်း ၆၀၀,၀၀၀ မျှ အလုပ်လုပ်ကိုင်ကြသည်။ အမေရိကန်ပြည်ထောင်စုနိုင်ငံတွင် မီးရထားလမ်းမိုင်ပေါင်း ၂၆၀,၀၀၀ ထက်မနည်းရှိ၍၊ ကနေဒါနိုင်ငံတွင် မိုင်ပေါင်း ၄၁,၀၀၀ ရှိသည်။

လင်နင်ဂရက်နှင့် မောစကိုမြို့တို့မှ ဗလာဒီ ဗော့စတော့မြို့အထိ မိုင်ပေါင်း ၅,၄၃၅ ရှည်လျားသော ဆိုက်ဗီးရီးယားနယ်ကို ဖြတ်သွားသည့် မီးရထားလမ်းသည် ကမ္ဘာပေါ်တွင် အရှည်ဆုံးဖြစ်၍ ရုရှအစိုးရက ဆောက်လုပ်ခဲ့ရာ ၁၉၀၄ ခုနှစ်တွင် ပြီးစီးသည်။ ဤမီးရထားလမ်းနှင့် ဆက်၍ တောင်ဖက် ရုရှား တာကီစတန်နယ်သို့ ဖောက်လုပ်ထားသော တပ်ဆစ်မီးရထားလမ်းမှာ ၁၉၂၉ ခုနှစ်တွင် ပြီးစီးခဲ့သည်။



ပြင်သစ်နိုင်ငံတွင် လျှပ်စစ်မီးရထားများကို အသုံးပြုလျက် ရှိကြသည်။




ခေတ်မှီဘူတာရုံအတွင်း တွေ့မြင်ရသည့် ရှုခင်းတရပ်

ဥရောပတိုက်တွင် အကျော်ကြားဆုံး မီးရထားမှာ ဆင်ပလွန်-အိုရီယင့် အမြန်မီးရထားဖြစ်သည်။ ယင်းမီးရထားလမ်းမှာ နိုင်ငံခြားအသီးအသီးရှိ မီးရထားလမ်းများနှင့် ဆက်သွယ်ထားသဖြင့် ပြင်သစ်နိုင်ငံ ကဲလေးမြို့မှ တူရကီနိုင်ငံ အစ္စတန်ဗူမြို့၊ ဂရိနိုင်ငံ အက်သင်းမြို့နှင့် အာရှမိုင်းနားကျွန်း. ဆွယ်ဒေသများသို့ မီးရထားမပြောင်းရဘဲ တောက်လျှောက်သွားနိုင်သည်။ ထိုပြင် အမြန်မီးရထားများလည်း ရှိပေသေးသည်။

ဂရိတ်ဗြိတိန် မီးရထားလမ်းစံနစ်သည် အလွန်အံ့သြလောက်အောင် ဖောက်လုပ်ထားရကား မီးရထားချင်းတိုက်မှု၊ လမ်းချော်မှု၊ မီးရထားမှောက်မှု စသော မတော်တဆထိခိုက်မှုများမှာ မရှိသလောက်ပင် ဖြစ်ခဲ့ရာ ခရီးသည်များအတွက် များစွာစိတ်ချရပေသည်။ မီးရထားသွားလာမှုစံနစ်မှာလည်း ကျွမ်းကျင်သော မီးရထား ရာထမ်းမှုထမ်းများက ထိန်းသိမ်းစောင့်ရှောက်လာသဖြင့် ခရီးသည်လူထုအတွက် အချိန်မကုန် လူမပန်းဘဲ၊ သက်သက်သာသာ သန့်သန့်ရှင်းရှင်းနှင့် သွားလာနိုင်ပေသည်။ ၁၉၂၃ ခုနှစ် မတိုင်မီက ဂရိတ်ဗြိတိန်မီးရထားများကို ကုမ္ပဏီအမျိုးပေါင်း များစွာဖွဲ့၍ အုပ်ချုပ်လာခဲ့ရာ ထိုနှစ်ရောက်သောအခါ အဖွဲ့ကြီး ၄ ဖွဲ့ဖြင့်သာ စီမံအုပ်ချုပ်လေသည်။ ယင်းတို့မှာ (၁) မိုင်ပေါင်း ၆,၉၄၀ ရှိသောလန်ဒန်၊ မစ်ဒလန်နှင့် စကော့တစ် မီးရထားလမ်း၊ (၂) မိုင်ပေါင်း ၆,၃၇၀ ရှိသော လန်ဒန်နှင့် နော့အီစတင်းမီးရထားလမ်း၊ (၃) မိုင်ပေါင်း ၃,၇၉၃ မိုင်ရှိသော ဂရိတ်ဝက်စတင်းမီးရထားလမ်း၊ (၄)မိုင်ပေါင်း ၂,၁၇၅ မိုင်ရှိသော ဆောက်သင်းမီးရထားလမ်းတို့ ဖြစ်ကြသည်။ ဤမီးရထားကုမ္ပဏီကြီး ၄ ခုဖြင့်သာ အိုင်ယာလန်ကျွန်း မီးရထားများမှအပ ဂရိတ်ဗြိတိန်ရှိ မီးရထားများကို သိမ်းကျုံးအုပ်ချုပ်ခဲ့လေသည်။

ယခုခေတ်သစ်တွင် ရှေးကထက် တနေရာမှတနေရာသို့ မီးရထားစီးရာ၌ အချိန်ကုန် သက်သာလာသည်။ အကြောင်းမှာ မီးရထား၏ အသွားနှုန်းသည် ရှေးကထက် ပိုမြင့်လာသောကြောင့် တကြောင်း၊ ခရီးဝေးသွားသော မီးရထားများသည် လမ်းခုလတ်၌ အလျင်းရပ်နားခြင်းမရှိဘဲ လမ်းဆုံးခရီးသို့ တောက်လျှောက် ခုတ်မောင်းနိုင်ခြင်းကြောင့် တကြောင်းတို့ကြောင့် ဖြစ်သည်။ "ကိုရိုနေရှင်းစကော့" နှင့် "ကိုရိုနေရှင်း" ဟု အမည်များပေးထားသော အင်္ဂလန်နိုင်ငံ အမြန်မီးရထားများသည် ၄၀၁ မိုင်ဝေးသော လန်ဒန်မှ ဂလပ်စဂိုးမြို့ခရီးကို ၆၃ နာရီနှင့် ၆ နာရီ အသီးအသီးဖြင့် မရပ်မနား ခုတ်မောင်းသွားနိုင်ကြသည်။ "ရွိုင်ရယ်စကော့" နှင့် "ဖလိုင်းယင်း စကော့" ဟု အမည်ပေးထားသော အမြန်မီးရထားများသည်လည်း ကမ္ဘာ့အမြန်ဆုံး ဗြိတိသျှ မီးရထားစက်ခေါင်းဟောင်းကြီးများ ဖြစ်ကြသည်။

ခရီးဝေးသွား မီးရထားတွဲများတွင် အများအားဖြင့် အလယ်တွင် လူသွားလမ်းရှိရာ ခရီးသည်တို့သည် တတွဲနှင့်တတွဲ ကူးရာ၌ အောက်သို့မဆင်းရဘဲ မီးရထားအစမှ အဆုံးထိ တောက်လျှောက် သွားနိုင်သည်။ ထိုတွဲများတွင် ညဥ့်အချိန်ကျရောက်သည့်အခါ အိပ်ရန် နေရာထိုင်ခင်းများ သေသေသတ်သတ် တပ်ဆင်ထားသည့်ပြင် နေ့ခင်းအချိန်၌လည်း သက်သက်သာသာစီးနိုင်ရန် စားပွဲကုလားထိုင်များပင် ထားရှိလေသည်။ ထိုတွဲများအပြင် ထမင်းစားတွဲ၊ ပျော်ပွဲစားတွဲ၊

စာတိုက်တွဲ၊ ဝန်တင်တွဲ၊ ဆံပင်ညှပ်တွဲစသည်တို့ပါရှိ၍ အမေရိကန်ပြည်ထောင်စုတွင် တခါတရံ လှည့်လည်လေ့လာသည့်တွဲများပင် ထည့်ပေးတတ်သည်။ မရပ်မနား ခုတ်မောင်းသော အရှည်ဆုံး မီးရထားလမ်းများတွင် မီးရထားခုတ်မောင်းနေစဉ် စက်ခေါင်း အလုပ်သမားများ အလှည့်ကျလူပြောင်း၍ အလုပ်လုပ်နိုင်ရန် စီမံထားပေးရသည်။ ထိုစီစဉ်ချက်မှာ စက်ခေါင်းနောက်ပိုင်းရှိ ကျောက်မီးသွေးနှင့် ရေတွဲ အတွင်းမှဖြတ်၍ မီးရထားရှေ့ဆုံးတွဲသို့ကူးရန် လမ်းဖောက်ပေးထားရသည်။ လမ်း၌ အလုပ်လွှဲယူလုပ်ကိုင်ရမည့် စက်ခေါင်းအလုပ်သမားများသည် စက်ခေါင်းသို့ကူး၍ အလုပ်လွှဲမယူမီ မီးရထားတွဲ၌ စီးနင်းလိုက်ပါသွားနိုင်သည်။ ခရီးရှည်အတွက် ကျောက်မီးသွေးကို လုံလောက်စွာ တင်ဆောင်ယူသွား၍ စက်ခေါင်း၌ ရေထည့်ရန်ကိစ္စမှာမူကား အချို့သောနေရာများ၌ မီးရထားသံလမ်း နှစ်ခုအကြားတွင် ပြုလုပ်ထားသည့် ၄ လက်မမှ ၇ လက်မအထိ နက်၍ လက်မ ၂၀ မှ ၂၄ လက်မအထိ ကျယ်ကာ ပေ ၁၂၀ မှ ၁,၅၀၀ အထိ ရှည်သော ရေကန်ငယ်များမှ ရေကို မီးရထားခုတ်မောင်းနေရင်းပင် တင်ယူသွားကြသည်။

မီးရထားကုမ္ပဏီများနှင့် နိုင်ငံတော်အစိုးရမီးရထားဌာနမှ စီမံခန့်ခွဲထိန်းသိမ်းအုပ်ချုပ်ရသော အရာများမှာ မီးရထားသံလမ်းနှင့် မီးရထားစက်ခေါင်း၊ လူစီးတွဲ၊ ကုန်တွဲများဖြစ်သည်သာမက အဆောက်အဦလုပ်ငန်း၊ စက်ရုံ၊ သင်္ဘောကျင်း၊ သင်္ဘော၊ ဟော်တယ်၊ မော်တော်ယာဉ်နှင့်တကွ လေယာဉ်ပျံများပင် ပါဝင်သည်။ မီးရထားသယ်ယူပို့ဆောင်ရေးလုပ်ငန်းတခုကို ကျကျနန လုပ်ကိုင်နိုင်ရေးကိစ္စမှာ အလွန်ကြီးမားသည့် စစ်တပ်ကြီးတခုအလား၊ များပြားလှစွာသော အလုပ်သမားများ ပါဝင် လုပ်ကိုင်မှသာလျှင် ဖြစ်မြောက် နိုင်ပေသည်။ ယင်းတို့မှာ မီးရထားစက်ခေါင်းမောင်းသမား၊ ဆီထိုးသမား၊ မီးထိုးသမား၊ ဂတ်ဗိုလ်၊ သံလမ်း အလုပ်သမား၊ ရုံပိုင်၊ လက်မှတ်စစ်၊ လက်မှတ်ရောင်းစာရေး၊ ကြေးနန်းစာရေး၊ အလံပြ၊ ပေါ်တယ် (ပစ္စည်းသယ်) များ စသည်တို့အပြင် မီးရထားတွဲ အမျိုးမျိုးကို ကြည့်ရှု သုတ်သင် ပြုပြင်ကြရသော ရာထောင်မကသော မီးရထား အလုပ်သမားများ ဖြစ်ကြသည်။

မီးရထား အချက်ပြ ဆိုင်ရာဌာနသည် အလွန်အရေးပါအရာရောက်သော ဌာနတခုဖြစ်သည်။ မီးရထားတွင် အသုံးပြုသော တိုင်စိုက်အလံမှန်သမျှ အားလုံးလိုလိုပင် လူ၏အားကို အသုံးပြုရန် ပြုလုပ်ထားရကား အလံချီးရာ၌၎င်း၊ မီးရထားလမ်းခွဲများကို လွှဲပြောင်းပေးရာ၌၎င်း အလံပြအလုပ်သမားသည် အားစိုက်လုပ်ကိုင်ရသည်။ အလံတိုင်ပေါ်ရှိ ရိုးရိုးလေးထောင့်မြီး ဒသက်ဘံရှည်အလံမှာ ဘူတာရုံသို့ ရောက်ပြီဆိုသော အထိမ်းအမှတ် အနေဖြင့် စက်ခေါင်း



ကုန်းလမ်းသယ်ယူပို့ဆောင်မှုတွင် မီးရထားကို အထူးအားကိုး အသုံးပြုကြရသည်။



အပန်းဖြေခရီးထွက်ရာ၌ မီးရထားသည် အထူး အသုံးဝင်သည်။

မောင်းသူအား ဘူတာရုံသို့ ဝင်စေသော အချက်ပြ ဖြစ်သည်။ ငါးကြင်းမြီးအလံအမျိုးမှာကား စက်ခေါင်းမောင်းသူအား ရှေ့အဝေးဘင် မီးရထားလမ်း၌မည်သို့ရှိသည့်အခြင်းအရာကို သိရှိစေရန် အချက်ပြခြင်းဖြစ်သည်။

လန်ဒန်မြို့မြေအောက်မီးရထားတွင် အသုံးပြုသည့် အလိုအလျောက် မီးရထားလွှတ်နည်းတမျိုးမှာ အလွန်စိတ်ချရသောနည်းဖြစ်သည်။ မီးရထားလမ်းကို အပိုင်းများ ပြုလုပ်၍ ပိုင်းခြားထားရာ မီးရထားလမ်း တပိုင်းတပိုင်းသည် ၃ မိုင် ၄ မိုင်မျှ ရှည်လျားသည်။ သံလမ်း တပိုင်းတွင်ရှိ မီးရထားလမ်းလှဲများ အားလုံးပိတ်၍ မီးရထားတစင်းမျှ မရှိသမျှ ကာလပတ်လုံး လျှပ်စစ်ဓာတ်စီးသည်သံလမ်းတလျောက်စီး၍ သံလမ်းတပိုင်း၏ အဝတွင် "ရှင်းလင်းပြီ" ဟူသော အချက်ကို ပြလေသည်။ မီးရထားသည် ထိုအပိုင်းသို့ဝင်လာသည်နှင့် မီးရထားဘီးနှင့် ဝင်ရိုးများသည် လျှပ်စစ်ဓာတ်စီးကိုဖြတ်လိုက်သဖြင့် "ရှင်းလင်းပြီ" ဟူသော အချက်မှ "ရပ်" ဟူသောအချက်သို့ ပြောင်းသွားတော့၏။စက်ခေါင်းမောင်းသမားသည် "ရပ်" ဟူသော အချက်ပြကို လွန်၍ မောင်းလာစေကာမူ အလိုအလျောက် ကရိယာက မီးရထားကို ရပ်သွားစေလေသည်။

အချို့ မီးရထားလမ်းများ၊ အထူးသဖြင့် လျှပ်စစ် မီးရထားလမ်းများပေါ်၌ လျှပ်စစ်ရောင်စုံ မီးအချက်ပြများကို အသုံးပြုကြသည်။ ဤအချက်ပြနည်းသည် တွေ့နေကျ ရိုးရိုးတိုင်စိုက် အချက်ပြအလံများကို မသုံးတော့ဘဲ မြို့ကြီးများရှိ လမ်းမကြီးများပေါ်၌ အသုံးပြုသကဲ့သို့ မီးနီ၊ မီးဝါ၊ မီးစိမ်းများကို အသုံးပြုသည်။

မီးရထား အင်ဂျင်နီယာအတတ်တွင် အချို့သော အအောင်မြင်ဆုံး လုပ်ငန်းများမှာ ဆွစ်ဇာလန်နိုင်ငံ အဲလပတောင်တန်းများကို ဖောက်ထွင်း ဆောက်လုပ်ထားသော ၁၂ မိုင်ကျော်ရှည်သည့်ဆင်ပလွန်ဥမင်လိုဏ်ခေါင်းနှင့် ၁၁ မိုင်ခွဲရှည်သည့် စိန့်ဂေါ့သတ်ဥမင်လိုဏ်ခေါင်းတို့ ဖြစ်ကြသည်။ ဆင်ပလွန် ဥမင်လိုဏ်ခေါင်းမှာ ကမ္ဘာပေါ်တွင် အရှည်လျားဆုံးသော လိုဏ်ခေါင်းဖြစ်၏။ အင်္ဂလန် နိုင်ငံတွင် ၃ မိုင်ကျော် ရှည်လျားသော ဥမင်လိုဏ်ခေါင်းပေါင်း ၆ ခုရှိရာ အရှည်ဆုံးမှာ ဆဲဗန်းဥမင်ဖြစ်သည်။ ဗြိတိန်နိုင်ငံတွင် အမြင့်ဆုံးသို့ မီးရထားရောက်သည့် နေရာမှာ စနိုးဒွန်းတောင်ထိပ်ဖြစ်၍ ပေပေါင်း ၃,၁၄၀ မြင့်သည်။ ချီလီနှင့် ပီးရူးနိုင်ငံများ၌ အန်းဒီးတောင်တန်းကို ဖြတ်သန်းသွားသော အမြင့်ဆုံး မီးရထားလမ်းများမှာ ပင်လယ်ပြင်မှပေပေါင်း ၁၅,၀၀၀ ကျော်မြင့်ကြသည်။ တောင်ပေါ်တက် မီးရထားစက်ခေါင်းများသည် ရိုးရိုး စက်ခေါင်းများကဲ့သို့ မဟုတ်ဘဲ စက်အားအလွန်ကောင်းသော အမျိုးအစားများ ဖြစ်ကြသည်။ ဤစက်ခေါင်းများတွင် ခွေးသွားစိတ်ဘီးများ ပါရှိ၍ သံလမ်း

များ၌ ဘီးနှင့်အံကိုက်လုပ်ထားသည့် အသစ်များ ပါရှိသည်။ သို့မဟုတ် ကြိုးတန်းချိတ်၍ တောင်ပေါ် သို့ ဆွဲတင်ရသည်။

မီးရထားသံလမ်း နှစ်ခုကြား၏ အကျယ်သည် နိုင်ငံကို လိုက်၍ အမျိုးမျိုးရှိကြသည်။ ဗြိတိန်နိုင်ငံ၌ ပုံမှန်မီးရထား လမ်းအကျယ်မှာ ၄ ပေ ၈ ၁/၂ လက်မဖြစ်၍ အိုင်ယာလန် နိုင်ငံ၌သာလျှင် အကျယ် ၅ ပေ ၃ လက် မဖြစ်သည်။ အမေရိကန် ပြည်ထောင်စုနှင့် ကနေဒါနိုင်ငံတို့၌လည်း လမ်းအကျယ်မှာ ၄ ပေ ၈ ၁/၂ လက်မပင်ဖြစ်၍ ဥရောပနိုင်ငံအသီးအသီးရှိ မီးရထားလမ်းများမှာလည်းဤနည်းနှင်နှင်ကျယ်သည်။ အမေရိကတိုက် တောင်ထူထပ်သောဒေသများရှိ မီးရထားလမ်းများ၏အကျယ်မှာ ၂ ပေ ၈ ၁/၂ လက်မမျှသာရှိသည်။ ယင်းကို လမ်းကျဉ်း မီးရထားလမ်းဟု ခေါ်သည်။ အိန္ဒိယနိုင်ငံ၌ကား ဗဟိုမီးရထားလမ်းကြီးများ၏ အကျယ်မှာ ၅ ပေ ၆ လက်မဖြစ်သည်။ သို့သော် မီတာလမ်းခေါ် ၃ ပေ ၃ ၃/၈ လက်မကျယ်ရှိ မီးရထားလမ်းများလည်း အမြောက်အမြားရှိသည်။ မြန်မာနိုင်ငံ မီးရထားလမ်းများသည် မီတာလမ်း ခေါ် ၃ ပေ ၃ ၃/၈ လက်မအကျယ်ရှိသည့် မီးရထားလမ်းများ ဖြစ်သည်။

မြန်မာနိုင်ငံ မီးရထားကို ရန်ကုန်မြို့မှ ပြည်မြို့သို့စတင် ဖောက်လုပ်ခဲ့ရာ ခရစ် ၁၈၇၇ ခုနှစ်၌ ပဌမဆုံး လူစီးနှင့် ကုန် တင်ရထားအဖြစ် စတင်ဖွင့်လှစ်ခဲ့သည်။ နောင်နှစ်များမှ ဆက်ကာဆက်ကာ အခြားမြို့များသို့ ဖောက်လုပ်သွားရာ ဒုတိယကမ္ဘာစစ်ကြိုခေတ်အထိ မီးရထားလမ်း စုစုမိုင်ပေါင်း ၂,၀၇၇ မိုင် ရှိခဲ့သည်။ အမရပူရမြို့နှင့် စစ်ကိုင်းမြို့အကြား ဧရာဝတီမြစ်ကို ဖြတ်၍ ဆောက်လုပ်ထားသော အင်းဝတန်တားကြီးမှာ ပေပေါင်း ၃,၉၈၀ ရှည်၍ အလယ်တွင် မီးရထားလမ်း တလမ်း၊ ဘေးနှစ်ဖက်တွင် မော်တော်ကားလမ်းများရှိလျက် ယင်းကို ခရစ် ၁၉၃၄ ခုနှစ်က ဖွင့်လှစ်ခဲ့သည်။ ယင်း အင်းဝ မီးရထား တန်တားကြီးသည် ဒုတိယကမ္ဘာစစ် အတွင်းက ပျက်စီးသွားသော်လည်း ယခုအခါ ပြင်ဆင်ဆောက်လုပ်ပြီး၍ ခရစ် ၁၉၅၄ ခုနှစ်က ပြန်လည် ဖွင့်လှစ်ခဲ့သည်။ (တန်တား — လည်းရှု။) မန္တလေးမြို့မှ လားရှိုးမြို့သို့သွားရာ မီးရထားလမ်းတွင် ဆောက်လုပ်ထားသော ဂုတ်ထိပ်တန်တားကြီးသည် ကမ္ဘာပေါ်ရှိ နာမည်ကျော်ကြား ထင်ရှားသော တန်တားများတွင် တခုအပါအဝင် ဖြစ်သည်။ စုစုပေါင်း ပေ ၂,၂၆၀ ရှည်၍ ၁၉၀၃ ခုနှစ်တွင် ဖွင့်လှစ်ခဲ့သည်။ ထိုတန်တားမှာလည်း ဒုတိယကမ္ဘာစစ်အတွင်းက ပျက်စီးသွားရာ ထပ်မံပြင်ဆင် ဆောက်လုပ်၍ ၁၉၅၁ ခုနှစ်တွင် ပြီးစီးသည်။ (ဂုတ်ထိပ် — ရှု။) ရန်ကုန် - မုတ္တမ မီးရထားလမ်းတွင် ရှိသော စစ်တောင်းတန်တားမှာလည်း ဒုတိယကမ္ဘာစစ်အတွင်းက ပျက်စီးခဲ့ရာ တန်တားသစ်တခုကို ဆောက်လုပ်ခဲ့၍ ၁၉၆၃ ခု မတ်လ ၂၃ ရက်နေ့တွင် ဖွင့်လှစ်ခဲ့၏။ ထိုစစ်တောင်းတန်တားသစ်မှာ ၂,၃၂၅ ပေရှည်သည်။



ရထားသံလမ်းများကို အစဉ်သဖြင့် စစ်ဆေးပြင်ဆင်ပေးရသည်။



ဥဒါဟို သွားလာလျက်ရှိသော မီးရထားများ၏အဝင်အထွက်ကို ထိန်းသိမ်းအချက်ပေးရသည့် အလံပြရုံ

ဆောက်သင်း အီလက်ထရစ်ခေါ် အင်္ဂလန်နိုင်ငံ လျှပ်စစ်မီးရထားသည် ကမ္ဘာပေါ်တွင် အကြီးဆုံးဖြစ်သည်။ လန်ဒန်မြို့ မြေအောက် မီးရထားများ အားလုံးလောက်သည် လျှပ်စစ်မီးရထားများ ဖြစ်သည်။ (မြေအောက် မီးရထား — ရှု။) ဂျာမနီနိုင်ငံတွင် ဘာလင်မြို့မှ ဟင်နိုဗာမြို့သို့ သွားသော ၁၅၇ မိုင် ဝေးသည့်မီးရထားလမ်းတွင် ဒီဇယ်အင်ဂျင်စက်ဖြင့် မောင်းသော မီးရထားစက်ခေါင်းသည် တနာရီလျှင် ၇၂.၃ မိုင်နှုန်းဖြင့် တောက်လျှောက် မောင်းနိုင်သည်။ ဂျာမနီနိုင်ငံနှင့် အမေရိကန်ပြည်ထောင်စုနိုင်ငံများတွင် သွားလာခုတ်မောင်းနေသော အမြန်ဆုံးမီးရထားများမှာ ဒီဇယ်အင်ဂျင်မီးရထားစက်ခေါင်းများဖြင့်မောင်းကြသည်။မြန်မာနိုင်ငံတွင်လည်း အချို့မီးရထားလမ်းများ၌ ဒီဇယ်အင်ဂျင် မီးရထားစက်ခေါင်းများကို စတင် အသုံးပြုလျက် ရှိပေသည်။

ရှေးခေတ်ပေါ်စက မီးရထားစက်ခေါင်းများနှင့် ယခုခေတ်စက်ခေါင်းများကို ယှဉ်ကြည့်လျှင် များစွာ ကွာခြားလျက်ရှိသည်ကိုတွေ့ရသည်။ ယခုခေတ် မီးရထားစက်ခေါင်းများမှာ ပို၍ကြီးမားသည်။ မြန်သည်။ အလွန်အားကောင်းသည်။ အမြန်ရထားဆွဲသော စက်ခေါင်းများမှာ တနာရီလျှင် မိုင် ၁၀၀ နှုန်းအထက်သို့ပင် ရောက်ခဲ့ကြသည်။ "မာလဒ်" ခေါ် ဗြိတိသျှ စက်ခေါင်းအမျိုးအစားသည် တနာရီလျှင် ၁၂၅ မိုင်နှုန်း စံချိန်ရရှိခဲ့ပေသည်။ ယခုအသုံးပြုလျက်ရှိသော ဗြိတိသျှ စက်ခေါင်းအကြီးစားများဆိုလျှင် အလေးချိန်တန် ၁၆၀ ခန့်ရှိလျက်ဘန် ၅၀၀ အလေးချိန်ရှိသော ဝန်ကို တနာရီလျှင် ပျမ်းမျှမိုင် ၆၀ ကျော်နှုန်းဖြင့် ခုတ်မောင်းဆွဲယူနိုင်လေသည်။

စက်ခေါင်းတခုတွင် အရေးကြီးသော အစိတ်အပိုင်းများမှာ အောက်ပါ အတိုင်း ဖြစ်ကြသည်။

၁။ ဗွိုင်လာအိုးနှင့် ယင်းတွင် ပါဝင်သော ဗွိုင်လာအိမ်နှင့် မီးခန်း၊ မီးခိုးခန်း၊ ပြာခံနှင့် အခြားရေနွေးငွေ့ကိုဖြစ်စေသည့် ကရိယာများ။

၂။ အင်ဂျင်စက်။ ယင်းတွင် ပါဝင်သော အစိတ် အပိုင်းများမှာ ဆလင်ဒါများ၊ ပစ်စတန်နှင့် ပစ်စတန်ရော့ဒ်များ။ ဘီးဆက်မောင်းတံနှင့် ဘီးလှည့် မောင်းကိုင်းများ။ အဆို့ရှင်များ၊ အဆို့ရှင် ဂီယာများနှင့် နောက်ပြန်သွားရန် ကရိယာများ ဖြစ်ကြသည်။

၃။ ဗွိုင်လာအိုးကို တင်ထားသည့် အောက်ခံ ဘောင်။ ထိုဘောင်တွင် ဆလင်ဒါများနှင့် အခြား ကရိယာများကို တပ်ဆင်ထားသည်။ ဘောင်အောက်၌ ဘီးများထားရှိရာ ၄ ဘီးသော်၎င်း၊ ၆ ဘီးသော်၎င်း၊ သို့မဟုတ် ၈ ဘီးမျှပင် ရှိနိုင်သည်။ ထိုအနက် ၂ ဘီး၊ သို့မဟုတ် ၄ ဘီးကို ဆလင်ဒါများမှ ထွက်သောအားဖြင့် လည်စေသည်။ အင်ဂျင်စက်ရှေ့ပိုင်းကို ဘီး ၄ ဘီးတပ် ဗိုဂီဘွဲက သယ်ဆောင်ပေးသည်။

၄။ ရေတိုင်ကီနှင့် ထင်း၊ သို့မဟုတ် ကျောက်မီးသွေးခန်းများ။

ဗွိုင်လာအိုးတွင် အရေးကြီးသော အစိတ်အပိုင်း ၄ ခုပါသည်။ ယင်းတို့မှာ အတွင်းမီးခန်း၊ အပြင်မီးခန်း၊ ဗွိုင်လာအိမ်ခေါ် ဗွိုင်လာပြွန်များ ပါရှိသော စည်ရှည်ကြီးနှင့် မီးခိုးခန်းတို့ ဖြစ်သည်။

ရေနွေးငွေ့ကို မည်သို့ရယူသနည်းဟူမူ ဗွိုင်လာအိုး၏ အတွင်းမီးခန်းတွင် မီးကို ထည့်ရသည်။ ထိုအခါ မီး၏အပူရှိန်ကြောင့် ဖြစ်ပေါ်လာသော လေပူတို့သည် ဗွိုင်လာအိုးအတွင်းရှိ ပြွန်ပေါက်များထဲသို့ တိုးဝင်၍ လှည့်ပတ်ပျံ့လွင့်ကြရာ ပြွန်တို့၏အပြင်၌ ဝန်းရံလျက်ရှိသောရေကို ပူစေသည်။ ပူရာမှ ရေနွေးငွေ့ ဖြစ်ပေါ်လာစေပြီးလျှင်၊ ထိုရေနွေးငွေ့ကို ဆလင်ဒါများထဲသို့ ရောက်သွားစေသည်။ ထိုမှ တဖန် ရှေ့ပိုင်း၌ ရှိသော မီးခိုးခန်းထဲသို့ ရောက်သွားစေ၍ ယင်းကမှ ခေါင်းတိုင်တွင်းသို့ ထုတ်မှုတ်လိုက်လေသည်။ ဤသို့ ခေါင်းတိုင်တွင်းသို့ ထုတ်မှုတ်လိုက်ခြင်းဖြင့် အပြင်လေကလည်း မီးခိုးခန်းထဲသို့ တိုးဝှေ့ဝင်ရောက်ခြင်းကို ဖြစ်စေရာ မီးခန်းတွင်းရှိမီးတောက်ကို ကောင်းစွာတောက်နိုင်စေရန် လေယပ်ပေးသကဲ့သို့ ဖြစ်လေသည်။

ဗွိုင်လာအိုးအတွင်းရှိ ပြွန်ပေါက်များမှာ အလွန်များသောကြောင့် ရေနှင့်လေပူတို့ တွေ့ထိရသော နယ်ပယ်မှာ အလွန်ကျယ်ဝန်းရလေသည်။ အမြန်မီးရထားစက်ခေါင်း တလုံးအတွက်ဆိုလျှင် ဗွိုင်လာအိုးမှာ ပေ ၃၀ မျှ အလျားရှိ၍ ရေနှင့် လေပူငွေ့တို့ တွေ့ထိနိုင်သောနယ်ပယ်မှာ စတုရန်းပေ ၃,၆၀၀ မျှ ရှိနိုင်ပေသည်။ ထိုက ဖြစ်ပေါ်သော ရေနွေးငွေ့၏အားမှာ မီးပေါင် ၂၅၀ (စတုရန်းတလက်မလျှင် ပေါင်ချိန် ၂၅၀)မျှ ရနိုင်လေသည်။ ဆလင်ဒါအတွင်းရှိသော 'ပစ်စတန်'တချက်ခုတ်တိုင်း ဆလင်ဒါထဲရှိ ရေနွေးငွေ့ကို ခေါင်းတိုင်ထဲသို့ အိတ်ဇောပိုက်မှ ထုတ်မှုတ်စေလေရာ မီးခိုးခန်းအတွင်းမှ လေအချို့ကိုပါ ဆွဲဆောင်သွားလေသည်။ထိုကြောင့် မီးခိုးခန်းထဲတွင် ပလာနယ် ဖြစ်သွားသည်။ ထိုအခါ နေရာလုသည့် သဘောဖြင့် အပြင်လေသည် မီးတောက်အတွင်းမှ ဖြတ်၍ အတင်းတိုးဝှေ့ဝင်ရောက်လာတော့ရာ အဆက် မပြတ် အလိုရှိသော မီးပြင်းမီးတောက်ကို ဖြစ်စေလေသည်။

ရေနွေးငွေ့အားကို အသုံးပြုခြင်းအားဖြင့် မီးရထားစက်ခေါင်းကို ရွေ့ရှား သွားနိုင်စေသည်သာမက ဝန်ကိုပါ ဆွဲဆောင်နိုင်သည်အထိ သတ္တိဖြစ်ပေါ်လာပုံမှာ ဤသို့ ဖြစ်သည်။ မီးရထားစက်ခေါင်းတွင် တပ်ထားသော ဆလင်ဒါများထဲသို့ ရေနွေးငွေ့ကို လွှတ်သွင်းသောအခါ အတွင်း၌ရှိသော ပစ်စတန်အား ရှေ့တိုး နောက်ငင်သွားလာစေရာတွင် ပစ်စတန်နှင့် ဆက်မောင်းတံကို ဆက်၍ ယင်းမှ တဖန် ဘီးဝင်ရိုးရှိ မောင်းကိုင်းဖြင့် ဘီးများကို လည်ပတ်စေလေသည်။ ထိုကြောင့် အလိုရှိသလို စက်ခေါင်းကို ရှေ့သို့ရင်း၊ နောက်သို့ရင်း ရွေ့ရှားခုတ်မောင်းနိုင်ခြင်း ဖြစ်လေသည်။

စက်ခေါင်းတွင် ဆလင်ဒါ ၂ လုံး ပါရှိလျှင် ဘီးကြီးဝင်ရိုးရှိ မောင်းကိုင်းမှာ နှစ်ခုရှိရပေသည်။ ယင်းတို့ကို တခုနှင့်တခု ဒီဂရီ ၉၀ ထောင့်မှန်ထားရှိရာ ပစ်စတန်တခုက အဆုံးနေရာသို့ ရောက်နေသောအခါ အခြားတခုက တွန်းအားအကောင်းဆုံး နေရာသို့ ရောက်နေနိုင်ရန် ဖြစ်လေသည်။ ဆလင်ဒါ ၃ လုံး၊ သို့မဟုတ် ၄ လုံး တပ်ဆင်သော စက်ခေါင်းများလည်း အများအပြားပင် ရှိ၏။

ဆလင်ဒါအတွင်းသို့ ရေနွေးငွေ့ကို လွှတ်သွင်းရာ၌ ဆလင်ဒါ၏ အစွန်း ၂ ဖက်တွင် ဝင်ပေါက် တခုစီထားရှိ၍ ပစ်စတန်၏ ရှေ့နှင့် နောက် ၂ ဖက်မှ တလှည့်စီ ဖွင့်ပိတ်၍ လွှတ်သွင်းပေးရလေသည်။ ဆလင်ဒါတွင် တတိယ အပေါက်တခု ရှိသေး၏။ ယင်းမှာ အိတ်ဇောပေါက်ဖြစ်၍ သုံးပြီးရေနွေးငွေ့ကို ခေါင်းတိုင်မှမှုတ်ထုတ်သွားနိုင်ရန်အတွက် ဖြစ်လေသည်။ ဤရေနွေးငွေ့ဝင်ပေါက်များ တခုနှင့်တခု အလှည့်ကျ ဖွင့်လိုက်ပိတ်လိုက် ဖြစ်စေရန် ပစ်စတန်ကို ရှေ့တိုးနောက်ငင်သွားစေရာတွင် အဆို့ရှင်ဖြင့် စီမံထားသည်။

ကမ္ဘာအနှံ့အပြား၌ ရာခိုင်နှုန်း ၉၀ ထက်မနည်း ရေနွေးငွေ့နှင့် ခုတ်မောင်းသော မီးရထားစက်ခေါင်းများကို အသုံးပြုလျက်ပင် ရှိကြသေးသော်လည်း ယင်းကိုပြိုင်ဆိုင်ရန်လျှပ်စစ်မီးရထားနှင့် ဒီဇယ်မီးရထား စက်ခေါင်းများ ပေါ်လာခဲ့လေပြီ။ ထိုနောက်ပေါ် ၂ မျိုးလုံးမှာပင် ရေနွေးငွေ့ မီးရထားစက်ခေါင်းထက် သာသောအချက်အလက်များ ရှိကြသည်ကား မှန်၏။ သို့ရာတွင် ထိုစက်ခေါင်းမျိုးမှာ တလုံးတလုံးလျှင် အဖိုးအလွန် ထိုက်တန်သည်။ အခြားတချက်မှာလည်း လျှပ်စစ်မီးရထားအတွက်ဆိုလျှင် စက်ခေါင်းတလုံးချင်း၏ ဈေးတန်ဖိုး အလွန်မြင့်သည်သာမက၊ လျှပ်စစ်အားပေးရုံများနှင့် ဓာတ်ကြိုး၊ ဓာတ်တိုင် အစရှိသည်တို့အတွက် စရိတ်စကတို့က ပိုမိုကုန်ကျရလေသေးသည်။ အများအားဖြင့် လျှပ်စစ်မီးရထားကို တလမ်းသုံး ရထားအဆက်မပြတ်သွားလာရန်လိုသောအရပ်များ၌သာ အသုံးပြုအပ်ပေသည်။ ဝင်စစ် မြို့ကြီးများ၏ ပတ်ဝန်းကျင်တဝိုက် ဆင်ခြေဖုံးဒေသများတွင် လူစီးများပြား၍ တစင်းပြီးတစင်း ရထားများဆက်ကာ ဆက်ကာသွားလာရန်လိုသော လမ်းများအတွက် ဖြစ်လေသည်။ အတက်အဆင်းများသော မီးရထားလမ်းများ၌လည်း လျှပ်စစ် မီးရထားကို အသုံးပြုရန် လိုအပ်ပေမည်။အကယ်၍ ရေအားနှင့်လည်နိုင်သော လျှပ်စစ်အားပေးစက်ရုံများ တည်ဆောက်နိုင်ခဲ့သော် အကုန်အကျသက်သာစွာဖြင့် လျှပ်စစ်မီးရထားကို အသုံးပြုရန်ဖြစ်နိုင်ပေမည်။

လျှပ်စစ်မီးရထားစက်ခေါင်းများမှာ အလွန်ပင် အားကောင်းကြ၏။ အဘယ်ကြောင့် ဆိုသော် ယင်းတို့အဘွက်

လျှပ်စစ် ဓာတ်အားပေးရုံများမှာ ရုံကြီးများဖြစ်ကြ၍ ယင်းတို့မှ လွှတ်ပေးသော ဓာတ်အားမှာလည်း အတောမသတ်နိုင်လောက်အောင်ပင် လိုသလောက် ရရှိနိုင်သောကြောင့် ဖြစ်သည်။ ထိုကြောင့် ရထားကြီးများကို အမြန်ခုတ်မောင်းနိုင်လေသည်။ ထိုလျှပ်စစ်မီးရထားစက်ခေါင်းများကို အချိန်မရွေး၊ ရက်ပြည့် နာရီပြည့် ခုတ်မောင်းစေနိုင်သည်။ အကြောင်းမှာ ပြင်ဆင်ကြည့်ရှုရမှုကိစ္စ နည်းပါးသောကြောင့် ဖြစ်၏။ ဤအချက်သည်ပင်လျှင် အလွန်အကျိုး ကျေးဇူးရှိပေသည်။

ရေနွေးငွေ့နှင့် မောင်းသော မီးရထားစက်ခေါင်းနှင့် လျှပ်စစ် မီးရထားစက်ခေါင်းတို့ကို အစားထိုးနိုင်သော ဒီဇယ်စက်ခေါင်းများကိုလည်း တီထွင် လုပ်ကိုင်လာကြရာ အတော်ပင် ခရီးရောက်လျက် ရှိနေပေသည်။ ရေနွေးငွေ့မောင်း မီးရထား စက်ခေါင်းကဲ့သို့ပင် ထိုဒီဇယ်အီလက်ထရစ် စက်ခေါင်းမှာလည်း မိမိကိုယ်တိုင် သီးခြားလုပ်ကိုင်နိုင်သော အစွမ်းရှိလေသည် ။ လျှပ်စစ်မီးရထားစက်ခေါင်းမှာကား ဖာသာမခုတ်မောင်းနိုင်ဘဲ အပမှ လျှပ်စစ်ဓာတ်အား၏ အကူအညီကို ရယူရပေသေးသည်။

လျှပ်စစ်မီးရထားစက်ခေါင်းများတွင် မိုတာများ ပါရှိ၍ ယင်းတို့ကို စက်ခေါင်းအောက်ရှိ ဘီးများနှင့် ချိတ်ဆက်ထားသည်။ လျှပ်စစ်ဓာတ်အားကို ကောင်းကင်ကြိုးမှသော်၎င်း၊ သို့မဟုတ် ရထားလမ်း အလယ်ဗဟိုသံလမ်းတခုမှ၎င်း ပေးသွင်းသည်။ စက်ခေါင်းမောင်းသူ အခန်း၌ ထားရှိသော ကရိယာများမှာ ဆွစ်ခေါ် ခလုတ်များ၊ ရထားတွဲများသို့ အနေးဓာတ် သွင်းသည့်စက်နှင့် ကွန်ထရိုးခေါ် စက်ခေါင်းကို မောင်းသည့် ရပ်သည့် ကရိယာတို့ ဖြစ်လေသည်။ ထိုပြင် ရထားတစင်းလုံးရှိ လေပိုက်ဗရိတ်ကိုသော်၎င်း၊ စက်ခေါင်း၏ဗရိတ်ကိုသော်၎င်း လိုသလို အသုံးပြုနိုင်ရန် ခလုတ် လက်ကိုင်အစရှိသော ကရိယာတို့လည်း ထားရှိရပေသည်။

အမေရိကန် ပြည်ထောင်စု၌ဆိုလျှင် အလွန်အားကောင်းသော ဒီဇယ်အီလက်ထရစ် စက်ခေါင်းများကို အသုံးပြုလျက်ရှိပြီးလျှင်၊ အလွန်ခေတ်မီတိုးတက်လျက်ရှိရကား၊ လမ်းဆုံးဘူတာများ၊ စက်ခေါင်းရုံများ၌၊ အလွန်ခမ်းနားကောင်းမွန်သည့် စီမံချက်များဖြင့် အစီအစဉ်တို့ကို လွယ်ကူပြီးမြောက်နိုင်စေရန် ဖန်တီးထားလေသည်။ ဤစက်ခေါင်းမျိုးများမှာ မူလတန်ဖိုး အလွန်ကြီးမြင့်သောကြောင့်၊ ဝင်ငွေရမည့် နေရာတို့၌ မနားမနေဆိုသလို ခိုင်းနိုင်၊ အသုံးပြုနိုင်မှ တွက်ခြေကိုက်မည် ဖြစ်ပေသည်။

မီးရထား စက်ခေါင်းများကို အမျိုးအစား ခွဲခြားရာ၌ ယင်းဘို့တွင် တပ်ဆင်ပါရှိသော ဘီးများ၏ အနေအထား စီစဉ်ပုံကို ကြည့်၍ ခွဲခြားလေ့ရှိသည်။ စက်ခေါင်း၏ ရှေ့ပိုင်းမှစ၍ အစဉ်အလိုက်အားဖြင့် ရှေ့ဘီးလွတ်များ၊ ယင်း၏ နောက်မှ မောင်းတံတပ်ဆင်ထားသော ဘီးကြီးများ၊ ယင်းတို့၏ နောက်ဆုံးမှ နောက်လိုက်ဘီးငယ် ဘီးလွတ်များကို ရေတွက်ရခြင်းဖြစ်သည်။ ထူးခြားသည့် အမျိုးအစားတခုမှာ ၄–၆–၂ သို့မဟုတ် 'ပစိဖိတ်' တန်းခေါ်သည့် ခေါင်းတွဲများပင် ဖြစ်လေသည်။ ဤအတန်းစားထဲတွင် ဗြိတိန်နိုင်ငံရှိ အကောင်းဆုံး အမျိုးအစားဖြစ်ကြသော စက်ခေါင်းများ ပါဝင်ကြသည်။ ၄–၆–၀ တန်း စက်ခေါင်းများမှာ ရှေ့ဘီး ဗိုဂီဘီးငယ် ၄ ဘီး၊ မောင်းဘီးကြီး ၆ ဘီး၊ နောက်လိုက်ဘီးငယ်မပါသည့် စက်ခေါင်းမျိုးဖြစ်၍၊ ဤအတန်းထဲ၌ ပါဝင်သော စက်ခေါင်းများမှာ အင်္ဂလန်နိုင်ငံ၌ ခုတ်မောင်းသော ရှိုင်ရယ်စကော့ စက်ခေါင်းမျိုးဖြစ်သည်။ အခြား ကျော်ကြားသည့် အတန်းအစားမှာ ၄–၄–၁ ဖြစ်၏။ ထို့နောက် အတ္တလန္တိတ်တန်းခေါ်သည့် ၄–၄–၂ ဘီးဆင်ပုံ၊ ထို့ပြင် အလွန်လေးလံသည့် ကုန်ရထားကြီးများဆွဲရန် အသုံးပြုသည့် 'မင်္ဂို'တန်းခေါ် ၂–၆–၀ ဘီးဆင်ပုံ၊ 'မီကာဒို' တန်းခေါ် ၂–၈–၂ ဘီးဆင်ပုံများ ဖြစ်ကြသည်။ အလွန်ကြီးမားသော 'ဗေယာ ဂဲရက်'ခေါ် ရှေ့နောက် စက် ၂ လုံးတပ် ခေါင်းများမှလွဲ၍၊ ဘီးအများဆုံးတပ်ဆင်သည့် စက်ခေါင်းဆိုလျှင် ရုရှနိုင်ငံ၌ ၁၉၃၅ ခုနှစ်က ဆောက်လုပ်သော ဘီးဆင်ပုံ ၄–၁၄–၄ တန်း မီးရထား စက်ခေါင်းပင် ဖြစ်လိမ့်မည်ဟု ထင်ရပေသည်။

**မီးသတ်။** ။ရန်သူမျိုး ငါးပါးတွင် မီးသည် ကြောက်မက်ဖွယ်အကောင်းဆုံး ရန်သူတပါးဖြစ်ရုံမက လူတို့နေ့စဉ် သုံးစွဲနေရသော အရာဖြစ်သဖြင့် အထူးဂရုပြုကိုင်တွယ် သုံးစွဲသင့်ကြပေသည်။ ၁၂ ရာသီပတ်လုံး မီးသတိဟူသော ကြော်ငြာများဖြင့် အနှံ့အပြားသတိပေးကြရ၏။ မီးဘေးသင့်လျှင် ငြိမ်းသတ်နိုင်ရန် မီးသတ်ဌာနဟူ၍ပင် အဆင်သင့်ဖွဲ့စည်းထားရလေသည်။ အစိုးရမျူနီစီပယ်နှင့် အုပ်ချုပ်ရေး ဆိုင်ရာဌာနတို့ကလည်း မီးသတ်အဖွဲ့ကို အမြဲအားပေးထောက်ပံ့ရ၏။ ယင်းသို့ ဂရုစိုက်အားပေးလာမှုကြောင့် ကြောက်မက်ဖွယ်ကောင်းလှသည့် မြို့ဖျက်၊ နိုင်ငံဖျက် မီးဘေးများလျော့ပါးလာခဲ့ခြင်း ဖြစ်ပေသည်။

မီးသတ်လုပ်ငန်းကို လျစ်လျူရှုခဲ့သည့် ရှေးခေတ်ကဆိုလျှင် ကမ္ဘာပေါ်ရှိ လူနေအိမ်ခြေ ထူထပ်များပြားသော မြို့ကြီးတိုင်းလိုလိုပင် မကြာခဏမီးဘေးကြီးများနှင့် တွေ့ကြုံကြရပေသည်။ ၁၆၆၆ ခုနှစ်က လန်ဒန်မြို့ကြီးကို မီးအကြီးအကျယ်လောင်ကျွမ်းလေရာ လူနေအိမ်ခြေပေါင်း ၁၃,၂၀၀ ကျော်နှင့် ဘုရားရှိခိုးကျောင်းပေါင်း ၉၀ ပြာကျခဲ့ရ၏။ ဒိန်းမတ်နိုင်ငံ၏မြို့တော် ကိုပင်ဟားဂင်းမြို့ကား ၁၇၂၈ ခုနှစ် မီးကြောင့် တမြို့လုံး ကုန်လုနီးနီး ပျက်စီးသွားလေသည်။ တူရကီနိုင်ငံ ကွန်စတန်တီနိုပယ် မြို့တော်တွင် ၁၇၂၉ ခုနှစ်၌



လောင်သောမီးကို အောင်မြင်စွာ ငြိမ်းသတ်နိုင်ရန်မှာ မီးသတ်တို့၏ ကျင်လျင်မှုအပြင် လူထု၏ကူညီမှုအပေါ်၌လည်း တည်လျက်ရှိသည်။

လောင်သော မီးဘေးကြီးကြောင့် အိမ်ခြေပေါင်း ၁၂,၀၀၀ ကျော်နှင့် လူပေါင်း ၇,၀၀၀ ကျော် သေကြေပျက်စီး ဆုံးရှုံးခဲ့ရ၏။ ရုရှနိုင်ငံ မော်စကိုမြို့ကြီး၌လည်း ၁၇၅၃ ခုနှစ် က အိုးအိမ်တိုက်တာပေါင်း ၁၈,၀၀၀ ကျော်မီးဘေးကြောင့်ပြာကျခဲ့ရဘူး၏။ ဂျာမနီနိုင်ငံ ဟမ်းဗတ် မြို့ကြီးတွင်လည်း ၁၈၄၂ ခုနှစ်က နာရီပေါင်း ၁၀၀ ခန့်ကြာအောင် မီးအကြီးအကျယ်လောင်ကျွမ်းရာ အဆောက်အအုံပေါင်း ၄,၀၀၀ ခန့် ပျက်စီးခဲ့ရဘူး၏။ မီးဘေးကား ကြောက်မက်ဖွယ် ကောင်းလှ၏။ ဤမျှကြောက်မက်ဖွယ် ပျက်စီးဆုံးပါးမှုများကား မီးဘေး ကာကွယ်နိုင်မှုနှင်းရေးကို ဂရုမစိုက်ခဲ့ကြ၍သာ ကြုံတွေ့ရသည်ဟု ဆိုဖွယ်ရာ ရှိ၏။ သို့ရာတွင် အိုးအိမ် ထူထောင်သည့် အလေ့အထ ပေါ်သည်မှစတင်၍ မီးဘေးကိုကာကွယ်ရန် ဆောင်ရွက်မှုများ ရှိခဲ့ကြသည်ကို ရှေးဟောင်းသမိုင်းများ၌ တွေ့ရသည်။

ခရစ်မပေါ်မီ နှစ်ပေါင်း ၄၀ လောက်က ရောမနိုင်ငံတော်တွင် ယခုခေတ်တွင်ကဲ့သို့ စနစ်တကျဖွဲ့စည်းထားသော မီးသတ်အဖွဲ့ ရှိခဲ့သည်။ ၁၆၆၆ ခုနှစ် လန်ဒန်မြို့ မီးဘေးကြီး သင့်ပြီးသည်မှ စ၍ အင်္ဂလန် နိုင်ငံတွင် မီးဆိုလျှင် လေသံမျှ မကြားဝံ့အောင် ကြောက်ရွံ့လျက်ရှိရကား၊ မီးသတ်လုပ်ငန်းကို မြို့ရွာ အုပ်ချုပ်ရေးလုပ်ငန်းတွင် အရေးကြီးသော တာဝန်တခု အဖြစ်ဖြင့် သတ်မှတ်၍ လုပ်ကိုင် ကြသည်။ ၁၇၇၄ ခုနှစ်တွင် မီးသတ်လုပ်ငန်းနှင့် စပ်လျဉ်း၍ ပါလီမန်လွှတ်တော်တွင် အက်ဥပဒေတရပ် အတည်ပြုထုတ်ပြန်လိုက်သည်။ ထိုအက်ဥပဒေအရ လန်ဒန်မြို့ရှိ နယ်အသီးအသီးတွင် မိမိတို့ဆိုင်ရာ နယ်မြေများ အတွက် မီးဘေးဖြစ်ပွားသည့်အခါ ငြိမ်းသတ်နိုင်ရန် မီးသတ်ဌာနများ ဖွင့်လှစ်၍ မီးသတ်စက်များထားရှိခဲ့လေသည်။ ကျေးလက်နယ်မြေများတွင်လည်း မီးသတ်စက်များထားရန် နှိုးဆော်လေသည်။ ၁၈၃၃ ခုနှစ်တွင် ဂျိမ်းဗရိတ်ဝု ဆိုသူက ပဌမဆုံး မီးသတ်စက်ကို တည်ဆောက်၍ လန်ဒန်မြို့အတွက် ထားရှိလေသည်။ ၁၈၆၆ ခုနှစ်၌ကား လန်ဒန်မြို့ စည်ပင်သာယာရေးအဖွဲ့က လန်ဒန်မြို့၌ မီးသတ်ဌာနကြီးတခု စနစ်တကျ ဖွင့်လှစ်လိုက်ရာ ထိုအချိန်မှ အစပြု၍ လန်ဒန်မီးသတ်ဌာနမှာ တိုးတက်ကောင်းမွန် လာခဲ့ပေသည်။ လန်ဒန်မြို့တည်ရှိရာ တင်းမြစ်ကမ်း၌ မီးသတ်ဌာန ၃ ခု ထားကာ ကမ်းပါး၌ မီးလောင်လျှင် မီးသတ်သင်္ဘောများဖြင့် ငြိမ်းသတ်စေသည်။ လန်ဒန်မြို့ တမြို့ထဲ၌ပင်လျှင် ၁၉၃၇ ခုနှစ် စာရင်းအရ စာရင်းသွင်းပြီး မီးသတ်သမား ၁,၉၇၇ ဦး ရှိလေသည်။

၁၉၃၇ ခုနှစ် ဇူလိုင်လက ဆဌ ဂျော့ဘုရင်နှင့် အယ်လစ်ဇဗက် မိဖုရားတို့ကိုယ်တိုင် ဖွင့်လှစ်သော လင်းဗက်မီးသတ်ဌာနသည် ဥရောပတိုက်တွင် မီးသတ် ကရိယာများ အစုံလင်ဆုံးနှင့် အကောင်းဆုံး မီးသတ်ဌာန ဖြစ်၏။ ခေတ်မှီ မီးသတ်ကရိယာများ စုံစုံလင်လင်ထားရှိရုံမျှမက မီးငြိမ်းသတ်နည်းများကိုလည်း စနစ်တကျ သင်ကြားပေးသဖြင့် အင်္ဂလန်နိုင်ငံ အရပ်ရပ်၌ ကျွမ်းကျင်သော မီးသတ်သမားများစွာ ရှိလေသည်။ မြို့ကြီးများသာမက မြို့ငယ် ရွာငယ်ကလေးများတွင်လည်း သူ့မီးသတ်ဌာနနှင့်သူ ရှိကြ၏။ မြို့ကြီးများ၌ ကျွမ်းကျင်တတ်မြောက်ပြီးသော မီးသတ်သမားများကို အခကြေးငွေဖြင့် ငှါးရမ်းခန့်ထားပြီးသော် စေတနာဝန်ထမ်း မီးသတ်အလုပ်သင်များကိုလည်း ထိုသူတို့ကို ကူညီရန် ဖွဲ့စည်းထားရှိလေသည်။ ဆင်ခြေဖုံးရပ်ကွက်များနှင့် တောရွာတို့တွင်ကား စေတနာဝန်ထမ်း မီးသတ်သမားများက ဆောင်ရွက်သည်ကို တွေ့ရလေသည်။

မီးသတ်လုပ်ငန်းမှာ အလွန်ဖျတ်လတ်၍ အလွန်သတ္တိရှိရန်လို၏။ တစက္ကန့် နှောင့်နှေးလျှင် နှောင့်နှေးသလောက် သိသိသာသာ ပျက်စီးဆုံးပါး နိုင်လေသည်။ မီးသတ်ဌာနတွင် မီးလောင်သည်နှင့် တပြိုင်နက် သိနိုင်စေရန် အစောင့်အနည်းဆုံး ၂ ယောက်ထားရ၏။ မီးကြည့်ရန် ဆောက်လုပ်ထားသော မျှော်စင်မှရင်း၊ အရပ်ရပ် ဌာနအသီးအသီးနှင့် ဆက်ထားသော မီးအချက်ပြ သံကြိုးအရရင်း မည်သည့်နေရာ၌ မီးလောင်ပြီဟု သိသည်နှင့် တပြိုင်နက် တစက္ကန့်မနှောင့်နှေးစေဘဲ မီးသတ်သမားအားလုံးကို အချက်ပေးခေါ်ယူပြီးလျှင် မီးလောင်ရာဌာနသို့ ထွက်ကြရ၏။ မီးသတ်

သမားများသည် မည်သည့်အခါ၌ မဆို မီးသတ်ဝတ်စုံကို အပြည့်အစုံဝတ်၍ဖြစ်စေ၊ ဝတ်ရန် အဆင်သင့် ပြင်ဆင်၍ ဖြစ်စေ ရှိနေရမည် ဖြစ်၏။ တာဝန်အလှည့်ကျ မီးသတ်သမားများကို အစဉ်သဖြင့် မီးသတ်စက်ရုံ၏ အထက်ထပ်၌ အိပ်စေပြီးလျှင် မီးအချက်ပေး သံကြိုးရသည်နှင့် တပြိုင်နက် အထက်ထပ်နှင့် ဆက်ထားသော အချက်ပေးခေါင်းလောင်းကို လှုပ်လိုက်ရ၏။ အချက်ပေးသံ ကြားသည်နှင့် အဆင်သင့် ကားပေါ် ရောက်ရန် လျှောလှေကားများမှ ဆင်းကြသည်။ မီးသတ်ကား သွားရေးလာရေး မနှောင့်နှေးစေခြင်းငှါ အခြားယာဉ်များနှင့် လူများကို လမ်းဖယ်ရန် ခေါင်းလောင်းသံအဆက်မပြတ်ပေး၍ အမြန်နှင်ရလေသည်။ မီးကိစ္စနှင့် ဤသို့ အရေးတကြီး သွားရစဉ် အခြားယာဉ်၊ လူ စသည်တို့နှင့် တိုက်မိလျှင် မီးသတ်စက်၌ အပြစ်မရှိချေ။ မီးလောင်သည့် နေရာသို့ ရောက်လျှင်ပင် မည်မျှပင် ကြီးကျယ်၍ ကြောက်မက်ဖွယ်ကောင်းအောင် လောင်နေစေကာမူ ထိုမီးကို သတ်ရမည်မှာ မီးသတ်သမားတို့၏ တာဝန် ဖြစ်၏။ မည်သူ ထွက်ပြေးပြေး၊ မီးသတ်သမားကား မပြေးရ။ မီးငြိမ်းသည် အထိ သူ့တာဝန် ဖြစ်လေသည်။

မီးသတ်သမား၏ တာဝန်မှာ ရှေးဦးစွာ လူဘို့၏ အသက်ကို ကယ်၍ နောက်မှ ပစ္စည်းကို ကာကွယ်ရ၏။ အိမ်တွင်းမှ ငိုသံ၊ ညည်းသံကြားလျှင် မိမိအသက်ကို ပမာနမထားဘဲ၊ စွန့်စားဝင်ရောက် ကယ်ဆယ်ရ၏။ အိမ်၏ အဝင်တံခါးပေါက်၌ မီးဝိုင်းနေလျှင် မီးသတ်စက်၌ အဆင်သင့်ပါလာသော လှေကားရှည်ကြီးဖြင့် ထောင်၍တက်ကာ မီးမစွဲသေးသည့် ပြတင်းကို မိမိ၌ပါသော ရဲတင်း ပုဆိန် စသည်တို့ဖြင့် ဖွင့်၍ ပိတ်မိနေသော လူတို့၏ အသက်ကို ကယ်ဆယ်ရ၏။ မီးသတ်လှေကားတို့မှာ ပေ ၁၀၀ မြင့်သော နေရာအထိပင် တက်နိုင်လေသည်။ သို့ရာတွင် ဤနေရာ၌ မီးသတ်သမား၏ ကျွမ်းကျင်မှု အလွန်လိုလေသည်။ အသက်ကယ်ဆယ်ရန် တယောက်တည်း တက်ရသည်ထက် အိမ်တွင်းမှာ သတိမေ့နေသော သူကို ချီ၍ အောက်သို့ ရောက်အောင် ဆင်းရသော တာဝန်မှာ ပို၍ပင် အသဲထိတ်စရာ ကောင်းလှပေသည်။

မီးသတ်သမားသည် အပူရှိန် ပြင်းလှသော မီးလုံးကြီးများ မှိုင်းလုံးကြီးများကြားမှ အသက်ကိုမငဲ့ဘဲ ပါလာသမျှ ကရိယာများကို ဖြစ်နိုင်သလိုအသုံးပြုကာ ဆောင်ရွက်ရ၏။ ယင်းသို့ ကိုယ်ကျိုးမဖက် အသက်ကိုစွန့်၍ တာဝန်ကြေသူတို့အား မည်သူသည် အကြွင်းမဲ့ မချီးကျူးဘဲ နေနိုင်အံ့နည်း။

မီးသတ်သမားတို့သည် မီးရှိန်ကို ကာကွယ်နိုင်သော အဝတ်အစားများကို ဝတ်ထားလင့်ကစား တခါတရံ အထက်မှ လောင်ကျွမ်း၍ ပြိုကျလာသော သစ်တို၊ သစ်စ၊ သံတို သံစ တို့ လူပေါ် တည့်တည့် ကျ၍ သေကြရ၏။ တခါတရံ မိမိ တက်နေသော အိမ်ပြိုကျ၍ သေကြရ၏။ မီးလုံးကြီးများ၏ အပူရှိန်ကို မခံနိုင်သဖြင့် မေ့မြော၍လည်းသွားကြ၏။ ဤသို့ သိလျက် အားကြိုးမာန်တက်ဆောင်ရွက်လိုသော မီးသတ်သမားတို့၏ သတ္တိနှင့် ဇွဲမှာ ချီးမွမ်းစရာ ဖြစ်လေသည်။

မီးသတ်လုပ်ငန်းတွင် အရေးအကြီးဆုံးမှာ ဖျတ်လတ်ခြင်းပင် ဖြစ်၏။ မီးလောင်ရာဌာနသို့ မြန်နိုင်သမျှ မြန်မြန်ရောက်ရန် အရေးကြီးပေသည်။ ရှေးခေတ်ကဆိုလျှင် မီးစောင့်သမားသည် အေးအေးဆေးဆေးနှင့် ဖြေးဖြေး လုပ်လေ့ရှိသောကြောင့် နှောင့်နှေးနေသည့် အချိန်တွင် လူ့အသက်နှင့် ပစ္စည်းများ မပျက်စီးသင့်ဘဲ ပျက်စီးဆုံးရှုံးရ၏။ မီးလောင်သောအခါမှ လမ်းတလျှောက်ပြေး၍ မီး မီးဟူ၍ အော်ကာသတိပေးတတ်ကြသည်။ သတိပေးပြီးမှ စေတနာဝန်ထမ်း မီးသတ်သမားများက မီးငြိမ်းရန် လူစု၍ သွားကြ၏။ ဤသို့ဖြင့် တမြို့လုံးကုန်မှ မီးသတ်သမားများ ရောက်တတ်ကြလေသည်။ သို့ရာတွင် ယခုခေတ်၌ ဌာနအသီးအသီးနှင့် အချက်ပေး သံကြိုးသေတ္တာများဖြင့် အဆင်သင့် ဆက်သွယ်ထားသောကြောင့် မြန်နိုင်သမျှမြန်စွာ မီးလောင်ရာသို့ ရောက်ရန်မှာ မီးသတ်သမားတို့၏ ကျွမ်းကျင် ဖျတ်လတ်မှုပေါ် တွင်သာ တည်လျက် ရှိပေသည်။

**မီးသွေး။** ။မီးသွေးကို နေ့တိုင်းပင် လူအများ တွေ့မြင်ဘူးကြသော်လည်း မည်ကဲ့သို့ လုပ်ယူရရှိ၍ မည်မျှ အသုံးဝင်ပုံကိုကား လူတိုင်းမသိရှိကြချေ။ ထင်းမီးသွေး၊ အရိုး မီးသွေး ဟူ၍ မီးသွေးနှစ်မျိုးနှစ်စားရှိရာ သစ်သားကို မီးရှို့လိုက်သောအခါတွင် ထင်းမီးသွေးကိုရ၍၊ အရိုးကို မီးရှို့လိုက်သောအခါ အရိုးမီးသွေးကိုရလေသည်။ ထိုမီးသွေးများသည် အရောင် မည်းနက်၍ အပေါက်ငယ်ကလေးများ ရှိပြီးလျှင် ဆတ်၏။ မီးသွေးသည် ကာဗွန် အစစ်မဟုတ်ပေ။ သို့သော် ကာဗွန်ရာခိုင်နှုန်း အများဆုံးပါ၍ ဓာတ်ငွေ့များကို စုတ်ပြီးလျှင် ထိန်းသိမ်းထားနိုင်သော သတ္တိရှိသောကြောင့် မီးသွေးကို အမျိုးမျိုး အသုံးပြုနိုင်လေသည်။ မီးသွေးသည် မီးခိုးမထွက်ဘဲ လောင်၍ မီးအရှိန် ပြင်းသည်။ ထို့ကြောင့် ရှေးက သတ္တုကျောက်ရိုင်းများမှ သတ္တုကိုထုတ်ရာ၌ မီးသွေးမီးဖြင့် ကျိုယူကြသည်။

သစ်သားသည် ဓာတ်သဘောအရ ကာဗွန်၊ ဟိုက်ဒြိုဂျင်နှင့် အောက်ဆီဂျင်တို့ပါဝင်သော ကာဗိုဟိုက်ဒရိတ် ဖြစ်သည်။ သစ်သားကို လေသာတွင် မီးရှို့လိုက်သော အခါ မီးလောင်သွား၍ ပြာအဖြူ အနည်းငယ်ကျန်ရစ်သည်ကို တွေ့ရသည်။ သို့သော် သစ်သားကို မီးရှို့ရာတွင် လေအကုန်ထွက်မသွားစေဘဲ သစ်ရွက်များ၊ မြက်ပင်များနှင့် ဖုံး၍ လေကို ပိတ်ထားလိုက်လျှင် မလိုသောအရာများ ပျံလွင့် ထွက်သွားကာ မီးသွေးသာ ကျန်ရစ်နေမည် ဖြစ်သည်။

မီးသွေးဖုတ်ရာတွင် ကျင်းများပြုလုပ်၍ ဖုတ်လေ့ရှိကြ၏။

သစ်သားအတိုအစများကို ထောင်၍ အတန်းလိုက်အတန်းလိုက် စီပြီးလျှင် အပုံကြီးဖြစ်လာအောင် ပုံထားကြသည်။ ထိုနောက် အပုံပေါ်တွင် မြက်များ၊ ပြာအစိုများဖြင့် ဖုံးအုပ်ထားပြီးလျှင် အောက်ဖက်မှ လေဝင်သာအောင် အပေါက်ဖောက်ထားရသည်။ အပေါ် ထိပ်၌လည်း ခေါင်းတိုင်သဖွယ် အပေါက်တပေါက် ဖောက်ထားရလေသည်။ ထိုသစ်တိုသစ်စများကို မီးရှို့လိုက်၍ လောင်လာသောအခါ မီးသည် အပေါ်မှ အောက်သို့ တဖြည်းဖြည်း လောင်ဆင်းပြီးလျှင် အလယ်မှ ဘေးသို့လည်း တဖြည်းဖြည်း လောင်လာလေသည်။ ယင်းသို့ အားလုံးလောင်ကျွမ်းပြီးသောအခါ ဖုံးထား၍ ၂ ရက် ၃ ရက် တန်သည် အအေးခံထားရလေသည်။ မီးသွေး ဖုတ်ခြင်းလုပ်ငန်းသည် အရေးကြီးသည့် လုပ်ငန်းတရပ်ဖြစ်သည့်အလျောက် တောင်တန်းဒေသများတွင် များစွာ တွေ့မြင်ရသည်။

မီးသွေးဖုတ်ရာတွင် ဖိုများကို အလုံပိတ်၍ ထားလျှင် မီးသွေးပို၍ ရနိုင်မည်ဖြစ်သည်။ ထိုသို့ ဖုတ်ရာတွင် ဘေးထွက်ပစ္စည်းများဖြစ်သော ကတ္တရာစေး၊ သစ်သားအရက်ပျံ၊ အက်ဆီတစ်အက်ဆစ်နှင့် အက်ဆက်တုန်းတို့ ရရှိနိုင်လေသည်။ ထင်းမီးသွေးသည် အရေးကြီး၍ အလွန်အသုံးဝင်သော ပစ္စည်းတရပ်ဖြစ်ရကား ယမ်းများပြုလုပ်ရာ၌ ဖြစ်စေ၊ ရေစစ်ရာ၌ဖြစ်စေ၊ အပူမလိုက်နိုင်သော ပစ္စည်းများ ပြုလုပ်ရာ၌ဖြစ်စေ အများပင် အသုံးပြုကြလေသည်။ ထိုပြင်ဆေးအဖြစ်ဖြင့်လည်း အသုံးပြုနိုင်သေး၏။ အဆိပ်ဓာတ်ငွေ့များမှ ကာကွယ်သော ဓာတ်ငွေ့ မျက်နှာဖုံးပြုလုပ်ရာ၌လည်း မီးသွေးကို အသုံးပြုကြ၏။ သို့သော် ထိုမီးသွေးမှာ အုန်းခွံများကို ဖုတ်၍ရသော မီးသွေးဖြစ်သည်။

အရိုးများကို အိုးတခုတွင် ပိတ်၍ ဖုတ်သော အခါ ဓာတ်ငွေ့များ၊ ရေခိုး ရေငွေ့များနှင့် ဆီများ ထွက်သွားသဖြင့် အရိုးမီးသွေးကို ရလေသည်။ သွေးကို မီးတိုက်ပေးခြင်းဖြင့်လည်း အရိုးမီးသွေးတမျိုးကို ရနိုင်သည်။ အရိုးမီးသွေးသည် ပဲနောက် အရွယ်မှ အလုံးသေးသေးလေးထိ အရွယ်အစားစား ရှိ၏။ အရိုး မီးသွေးကို မကောင်းသော အနံ့အသက်များ ပပျောက်စေရန်၌ ဖြစ်စေ၊ အရည်များတွင် ရှိသော အရောင်များကို ချွတ်ရာ၌ ဖြစ်စေ များစွာအသုံးပြုကြသည်။

**မီးအိမ်မီးခွက်။** ။ကမ္ဘာဦးလူတို့တွင် ညဉ့်အခါ ကြယ်ရောင် လရောင်မှ လွဲ၍ အခြားအလင်းရောင် မရှိခဲ့ပေ။ နေဝင်မှ နေထွက် တိုင်အောင် အိပ်နေရန်မှာလည်း သားရဲ တိရစ္ဆာန်တို့၏ ဘေးရန်ကို အထူး စိုးရိမ်ရသည်။ ထိုဘေးမှ လွတ်ကင်းရန် နည်းလမ်းများကို ရှာဖွေကြရာတွင် သားကောင် ကင်သော မီးပုံများ ညဉ့်အခါ တောက်လောင် နေပါက မိမိတို့နေသော ဂူနားသို့ တိရစ္ဆာန်တို့ မချဉ်းကပ်ဝံ့ကြောင်း တစတစ သိရှိလာကြသည်။ ထိုကြောင့် တိရစ္ဆာန်



မီးအိမ်မပေါ်မီခေတ်က ဆီမီးခွက်ကို အသုံးပြုခဲ့ရသည်။



ရိုမနေဆွန်းခေတ်တွင် စတင် အသုံးပြုခဲ့သော မီးအိမ်

တို့ဘေးမှကာကွယ်ရန် ညဉ့်စဉ် ဂူဝ၌မီးပုံကြီးများ ဖို၍ထားကြ၏။ ဤမီးရောင်မှာ အလင်းရောင်ရရန်အတွက် လူတို့ ဖန်တီးသော ပဌမဆုံး မီးရောင်ပင်ဖြစ်လေသည်။

လူတို့သည် အသိဉာဏ် တနေ့တခြား တိုးတက်လာသည်နှင့်အညီ ဂူဝတွင်ရသော အလင်းရောင်နှင့် မတင်းတိမ်ဘဲ ဂူတွင်း၌ မီးရောင်ရရန် ကြံစည်ကြပြန်ရာ ထိုမီးပုံမှ မီးစမီးတုတ်များကို ဂူထဲသို့ ယူခဲ့ခြင်းဖြင့် အလင်းရောင် ရနိုင်ကြောင်း တွေ့ကြလေသည်။ သို့သော် ထိုမီးတုတ်များမှ မီးရောင်သည် ကြာရှည်မခံချေ။ တဖန် တိုးတက်ကြံစည်ကြပြန်ရာ သားကောင် ဖျက်ရာတွင် ရသော အမဲဆီများမှာ မီးတောက် ကြာရှည်ခံကြောင်း တွေ့ကြလေသည်။ ထိုကြောင့် အမဲဆီကို သားကောင်တို့၏ ဦးခေါင်းခွံဘွင် ထည့်၍ မှော်၊ ကျူပင်မှအူတိုင်စသော မီးစာအကြမ်းစားများဖြင့် မီးထွန်းကြလေသည်။ ထိုကဲ့သို့ မီးထွန်းရန် အသုံးပြုခဲ့သော ဦးခေါင်းခွံများကို ရှေးလူများ နေသည့် ဂူများထဲတွင် ယခုထက်တိုင် တွေ့ရသည်။

ကျွန်ုပ်တို့ခေတ်သို့ မရောက်မီ နှစ်ပေါင်း ၂၀၀ နီးပါးခန့်တိုင်အောင် လူတို့သည် ထိုကဲ့သို့သောနည်းကို အခြေပြု၍ မီးထွန်းလာခဲ့ကြသည်။ သို့သော်လည်း တဆင့်ထက်တဆင့် တိုးတက်ကောင်းမွန်အောင်ကိုမူကား အစဉ်ကြံစည် ပြုလုပ်လျက် ရှိကြသည်။ ထိုကြောင့် ဦးခေါင်းခွံအစား ကျောက်တုံးကို ထုထွင်း၍၎င်း၊ ကြေးသတ္တုကို မီးခွက်ပြုလုပ်၍၎င်း၊ မြေကိုဖုတ်၍ မြေမီးခွက်ပြုလုပ်၍၎င်း မီးခွက်အမျိုးမျိုးကို အသုံးပြုလာကြသည်။ ထိုခေတ်အခါက မီးခွက်များမှာ မီးစာထည့်သော နှုတ်သီးနှင့် လက်ကိုင်တပ်ထားသော ခပ်စောက်စောက် ပန်းကန်ကဲ့သို့ ပုံမျိုး ဖြစ်သည်။ ထိုမှ ဉာဏ်ကွန့်၍ အရုပ်များ၊ ပန်းခက်ပန်းနွယ်များ ထုလုပ် မွမ်းမံလာကြလေသည်။ မီးခွက်များ သုံးသောခေတ်မှာ ရှေးဂရိနှင့် ရောမခေတ်မှသည် အမေရိကန်တော်လှန်ရေးခေတ် တိုင်အောင် နှစ်ရာပေါင်းများစွာ ကြာခဲ့သည်။ သို့ရာတွင် ထိုမီးခွက်မျိုးသည် ကောင်းစွာမလင်း၍ မီးတောက် မတည်ငြိမ်သည့်ပြင် မိုင်းလည်းတက်သည်။ ညှော်လည်းညှော်သည်။

ထိုကြောင့် ပိုမိုကောင်းမွန်သော မီးခွက်မျိုးကို တိုးတက်ကြံစည် လာပြန်ရာ မီးရောင်ကြည်၍၊ ငြိမ်သောအလင်းကို ရသည့် မီးအိမ်ဘမျိုး ပေါ်ပေါက်လာလေသည်။ သို့ပေါ်ပေါက်လာသည်နှင့် အမျှ မီးထွန်းပုံ မီးထွန်းနည်းလည်း ပြောင်းလဲသွားလေသည်။ ဆွစ်လူမျိုး အေမီးအာဂန်ဆိုသူ ဓာတုဗေဒဆရာတဦးက ၁၇၈၂ ခုနှစ်တွင် အခေါင်းပါသော မီးစာတိုင်တွင် မီးစာအပြား ထည့်သွင်း ထွန်းညှိရသော မီးအိမ်ကို တီထွင် လေသည်။ ထိုမီးစာသည် အထက်အောက် လေရှိန်ရသဖြင့် အလင်းအား ပို၍များ၏။ ထိုမီးတောက်ကိုမှ ပြောင်းစွပ်၍လေကာထားသဖြင့် မီးအရှိန် ပို၍ကောင်းပြီးလျှင် မီးတောက်လည်း ငြိမ်သက်၏။ အလင်းရောင်လည်း ပိုထွက်၍ မိုင်းလည်း မတက်တော့ချေ။ ထိုမီးအိမ်မျိုးကို တစတစ ပိုမိုကောင်းမွန်အောင် ပြုပြင်၍ အရွယ်အစားစားပုံအမျိုးမျိုး ချဲ့ထွင်ပြုလုပ်ကြသည်။ သို့ရာတွင် ထိုမီးအိမ်မျိုးမှာ အောက်ဆီဂျင်ဓာတ်ကို အယူများလှ၍ လူဘို့၏ကျန်းမာရေးကို ထိခိုက်စေတတ်လေသည်။

မီးခွက် မီးအိမ်များကို ထွန်းညှိရန်အတွက် အမဲဆီများကို စတင် အသုံးပြုခဲ့ရာမှ ငါးဆီနှင့် ဟင်းသီးဟင်းရွက်ဆီများကိုလည်း အသုံးပြုလာကြလေသည်။ သို့သော် ၁၈၅၃ ခုနှစ်တိုင်အောင် မီးထွန်းရန်အတွက် ရေနံဆီကိုအသုံးမပြုကြသေးပေ။

ဂူနေလူတို့၏ မီးခွက်မှဖယောင်းတိုင်အထိ ပါဝင်သော မီးထွန်းနည်းတို့မှာ မီးတုတ်မှတဆင့် ဆင်းသက်ပေါက်ဖွားလာ

ကြသည်။ ဖယောင်းတိုင်ကို ပျားဖယောင်းဖြင့်၎င်း၊ ဝေလငါးမှရရှိသော ဖယောင်းမှ၎င်း ပြုလုပ်ကြလေသည်။ ရှေးဂရိနှင့် ရောမလူမျိုးတို့သည် ဖယောင်းတိုင်တင်ထွန်းရန် ခုံများနှင့် ချိတ်ဆွဲရန် ပဒေသာမီးပန်းဆိုင်းများကို စိတ်ကူး ယဉ်သလောက် သံ၊ ကြေးနီ၊ ကြေးဝါစသော သတ္တုတို့ဖြင့် လှပစွာ ပုံသဏ္ဌာန်အမျိုးမျိုး ပြုလုပ်ကြသည်။ ဤသို့လှပတင့်တယ်သော ဖယောင်းတိုင်တင်ခုံနှင့် ပဒေသာဖယောင်းတိုင်ပန်းဆိုင်းများကို ယခုခေတ် ခမ်းနားကြီးကျယ်သော ညစာစားပွဲကြီးများ၌၎င်း၊ အချို့အိမ်များကို မွမ်းမံခြယ်လှယ်တန်ဆာဆင်ရာ၌၎င်း ကျက်သရေ ဆောင်အဖြစ် သုံးလျက်ပင် ရှိသေးသည်။

ရှေးအခါက အိမ်ပြင်ပ တနေရာမှတနေရာသို့ ညဥ့်အချိန်ကူးသန်းသွားလာသည့်အခါ လက်ဆွဲမီးအိမ်များကို အသုံးပြုကြသည်။ မှန်မီးပြောင်းမပေါ်မီခေတ်က လက်ဆွဲမီးအိမ်တွင် ဖယောင်းတိုင်ထည့်ထွန်း၍ အပေါက်များ ဖောက်ထားသည့် သံပြားတချပ်ဖြင့် ကာရံထားသဖြင့် လေတိုက်ခြင်းမှ ကာကွယ်ပေးသည်။ ထိုအပေါက် များမှ မီးရောင်ထွက်လာသည်။ ၁၆ နှင့် ၁၇ ရာစုခေတ်သို့ ရောက်သောအခါ သံပြားအကာ နေရာတွင် ကျွဲကော်ပြားကို အသုံးပြုလာကြသည်။ ထိုနောက် ဆီထည့်၍ ထွန်းသော မှန်မီးပြောင်းတပ်လက်ဆွဲ မှန်အိမ်များကို အသုံးပြုလာကြသည်။ မီးရထားဂတ်ဗိုလ်များသည် အချို့ နေရာများတွင် ဆီထွန်း လက်ဆွဲမှန်အိမ်များကို ယခုတိုင် အသုံးပြုလျက်ရှိသည်။

ကျောက်မီးသွေးတွင်းတူးသမားများအတွက် ဘေးကင်းမီးအိမ် တမျိုးကို ၁၈၁၅ ခုနှစ်တွင် ဆာ ဟမ်ဖရီ ဒေဗီ ဆိုသူပုဂ္ဂိုလ်တဦးက ကြံစည်၍ လုပ်ကိုင်ခဲ့လေသည်။ (ဒေဗီ, ဆာဟမ်ဖရီ — ရှု။) ကျောက်မီးသွေးတွင်းတူးသည့်အခါ မီးအိမ်ကိုပါ ယူဆောင်သွားရ၏။ သာမန်မီးအိမ်နှင့် ကျောက်မီးသွေးတူးဖော်ရာဝယ် မကြာခဏ ကျောက်မီးသွေးငွေ့ကို မီးဟပ်ကာ တွင်း ပေါက်ကွဲပြိုကျ၍ အသက်ပေါင်း များစွာဆုံးရှုံးကြလေသည်။ ထိုကြောင့် ဆာ ဟမ်ဖရီ ဒေဗီသည် သာမန် ရိုးရိုးမီးအိမ်မျိုးကိုပင် မီးတောက်၏ပတ်လည်၌ သံဆန်ခါပါး ကာပေး၍ စမ်းသပ်ကြည့်ရှုရာ မီးအိမ်မှ အပူရှိန်သည် ကျောက်မီးသွေးတွင်း ထဲရှိ ပေါက်ကွဲစေတတ်သော ဓာတ်ငွေ့များရှိရာသို့ မရောက်ကြောင်း တွေ့ရှိရလေသည်။ ထိုအခါမှစ၍ ထိုမီးအိမ်မျိုးကို အသုံးပြုကြရာ မရေတွက်နိုင်သော အသက်ပေါင်းများစွာကို ဆုံးရှုံးခြင်းမှ ကာကွယ်နိုင်ခဲ့လေသည်။

၁၈ နှင့် ၁၉ ရာစုခေတ်လောက်တွင် ဓာတ်ငွေ့ဖြင့် မီးထွန်းနည်းတနည်းကို စမ်းသပ်တွေ့ရှိပြန်လေသည်။ ထိုဓာတ်ငွေ့မှာ ကျောက်မီးသွေးကို မီးဖုတ်ရာမှ ရရှိနိုင်သော ဓာတ်ငွေ့ဖြစ်၍ ၁၈ဝ၂ ခုနှစ်တွင် ဝီလျံမားဒေါ့ဆိုသူသည် ဗာမင်ဂမ်မြို့စက်ရုံတရုံကို ဤနည်းဖြင့် မီးထွန်းပြနိုင်လေသည်။ ထိုအခါမှစ၍ လန်ဒန်မြို့ရှိ အိမ်များလမ်းများတွင် ဓာတ်ငွေ့မီးများဖြင့် လင်းနေခဲ့သည်။ သို့ရာတွင် ထိုဓာတ်ငွေ့မှာ အသုံးပြုရာ၌ သတိမရှိလျှင် အဆိပ်ငွေ့သင့်ကာ အသက်ဆုံးရှုံးတတ်သဖြင့် ယခုခေတ်အခါတွင် ထိုဓာတ်ငွေ့မျိုးကို ချက်ပြုတ်ရာတွင်သာ အသုံးပြုကြလေသည်။ ၁၈၂၈ ခုနှစ်မှစ၍ လျှပ်စစ်ဓာတ်မီးထွန်းနည်းကို စတင်ကြံစည်လာရာ ၁၈၄ဝ ပြည့်နှစ်တွင် တဖြည်းဖြည်း အောင်မြင် ထမြောက်လာလေသည်။

အစတွင် လျှပ်စစ်ဓာတ်မီးရောင်သည် မကောင်းလှသေးချေ။ ၁၈၇၈ ခုနှစ်တွင် တောမတ် အယ်လဗာ အက်ဒီဆင်ဆိုသူပုဂ္ဂိုလ်ကြီးသည် ဓာတ်မီးကို ကြာရှည်အသုံးပြုနိုင်ရန် လေမရှိသောဖန်သီးထဲတွင် လျှပ်စစ်ကြိုးမျှင်ကလေးကိုထည့်သွင်းပေးလေသည်။ (အက်ဒီဆင်, တောမတ် — ရှု။) သို့ဖြင့် ကြည်လင်စွာ လင်းသော ဓာတ်မီးလုံး ကလေးများ စတင်ပေါ် ပေါက်လာလေသည်။ ထိုဓာတ်မီးလုံးကလေးများကို တိုးတက်ကောင်းမွန်အောင် ချဲ့ထွင်ပြုလုပ်ခြင်းဖြင့် ယခုကျွန်ုပ်တို့ ခေတ်တွင် အသုံးပြုလျက်ရှိသော ဓာတ်မီးရောင်များမှာ အတော်ကောင်းသောအခြေသို့ ရောက်လာလေပြီ။

တွဲရရွဲကျနေသော ကြိုးအဖျားမှ ဓာတ်မီးလုံးကလေးတပ်ဆင်ထွန်းရခြင်းမှာ အလှအပကြိုက်သောသူတို့အဖို့ တခုခု လိုနေသကဲ့သို့ ဖြစ်နေကြသဖြင့် အနည်းနည်းအဖုံဖုံပန်တီးပြုပြင်ကြပြန်ရာမှ လှပသော မီးအုပ်၊ မီးစလောင်းတို့ ပေါ်ပေါက်လာလေသည်။ အချို့ အဆောက်အအုံကြီးများတွင် မီးရောင်ကို တိုက်ရိုက်မကျစေဘဲ ကြွေဖန်လုံးကြီးများထဲတွင် ထည့်သွင်း၍ ထွန်းကြသည်။ ထိုမှတဖန် တိုးတက်ကြံစည်လာကြရာ ၁၉၁၁ ခုနှစ်တွင် နီယွန်ဓာတ်ဖြင့် ထွန်းသောလျှပ်စစ်ဓာတ်မီးမျိုးကို စမ်းသပ် အောင်မြင် လာကြပြန်သည်။ ဖန်ပြွန်ချောင်းများထဲတွင် နီယွန်ဓာတ်ငွေ့ ထည့်ထား၍ လျှပ်စစ်ဓာတ်နှင့် တွေ့ရှိသောအခါ လှပဆန်းကြယ်သော ဓာတ်မီးရောင်များ ရရှိလေသည်။ ဖန်ပြွန်ချောင်းများကို အလိုရှိရာ ပုံအမျိုးမျိုးပြုပြင်၍ ထွန်းရာ ကြော်ငြာနှင့် အခြားအထိမ်းအမှတ်များအတွက် အသုံးပြုကြလေသည်။

၁၉၃၈ ခုနှစ်မှစ၍ လျှပ်စစ်ဓာတ်မီးချောင်းကို တီထွင်အသုံးပြုလာကြပြန်သည်။ ထိုဓာတ်မီးချောင်းမှ ဓာတ်မီးရောင်မှာ နေ့ခင်း၏ အလင်းရောင်ကဲ့သို့ပင် ဖြစ်၍ အခြားဓာတ်မီးရောင်များကဲ့သို့ မျက်စိအန္တရာယ် မဖြစ်ပေ။ လျှပ်စစ်ဓာတ်အား အသုံးချင်းတူသော်လည်း အခြားလျှပ်စစ်ဓာတ်မီးများထက် သုံးဆပို၍ အလင်းရောင်ရလေသည်။

နေအိမ်များတွင် အဖိုးတန်ဆုံးသော အလင်းရောင်မှာ နေရောင်ခြည် ဖြစ်သည်။ နေရောင်ခြည်မှာ လူတို့၏ ကျန်းမာရေးအတွက် အသုံးဝင်၍ ကူးစက်တတ်သော ရောဂါပိုးများကို ဖျက်ဆီးနိုင်သည်။

ရှေးအခါက အိမ်များတွင် ပြတင်းပေါက် အလွန်နည်းပါး၏။ ထိုကြောင့် အိမ်တွင်းတွင် သဘာဝ အလင်းရောင်ကောင်းစွာမရချေ။ ပြတင်းပေါက်တွင် တပ်ဆင်ရန်မှန်များဈေးပေါပေါ မရနိုင်မီ အိမ်များတွင် ပြတင်းပေါက်များ အဖောက်နည်းကြ၏။ အလယ်ခေတ်လောက်က သာမန် လူဆင်းရဲတန်းစားများ၏ အိမ်ပြတင်းများတွင် ဆီစိမ်စက္ကူများကို ကပ်၍ ကာကြလေသည်။ ထိုနောက်မှ ကျောက်ဖြူများကို ပါးပါးလွှာ၍၎င်း၊ သတ္တုပြားများကို သံဆန်ခါကဲ့သို့ အပေါက်ဖောက်၍၎င်း ပြတင်းပေါက်တွင် တပ်ဆင်ကြခြင်းဖြင့် အလင်းရောင်လည်း ရ၍ လူဆိုးသူခိုးများဘေးမှလည်း စိတ်ချ၍နေနိုင်ကြလေသည်။

**မုစကောင်**။ ။သမင်မျိုးရင်းတွင် မုစကောင်သည် အကြီးဆုံးအမျိုးဖြစ်သည်။ ယင်းတို့ကို အမေရိကန် ပြည်ထောင်စု မြောက်ပိုင်း မိန်းပြည်နယ်မှ မြောက်ဒကိုးတားပြည်နယ် အထိ၎င်း၊ ကနေဒါနိုင်ငံ တဝှန်းလုံးအပြင် မြောက်ဖက် ဟဒ်ဆန်ပင်လယ်အော်မှ အာတိတ်စက်ဝိုင်းတိုင်အောင်၎င်း တွေ့ရသည်။ စကန်ဒီနေးဗီးယားကျွန်းဆွယ်ကြီးမှ ဆိုက်ဗီးရီးယားပြည်နယ်အထိ ဖြစ်သော ဥရောပနှင့် အာရှတိုက်မြောက်ပိုင်း ဒေသများတွင် တွေ့ရသော မုစကောင်ကဲ့သို့ အကောင်မျိုးကို အဲ့ ဟုခေါ်ကြသည်။

မုစကောင်သည် အခြား သမင်များနှင့်မတူ၊ အချိုးအစားမကျသော သတ္တဝါ ဖြစ်၏။ ရှည်လျားသောခြေထောက်၊ ရှည်လျားသေးသွယ်သော ဦးခေါင်း၊ အတွင်းသို့များစွာ ဝင်နေ၍ သေးငယ်သော မျက်လုံး၊ ရှည်လျား၍ ကားနေသောနားရွက်၊ တိုတုတ်သောလည်တံ၊ ကားထွက်နေသော နှုတ်ခမ်းများဖြင့် အလွန်အချိုးအစားမကျချေ။ ယင်း၏ ဦးချိုတို့မှာ ပြားနေ၍ စောင်းများမှ ထက်သော ချွေးသွားစိတ်သဏ္ဍာန်အချွန်များ ထိုးထွက်နေသည်။ ၅ နှစ်သား အရွယ်တွင် အကောင်ကြီးဖြစ်လာ၍ ဦးချိုများမှာ တဖက်မှ တဖက်သို့ ၆ ပေမျှပင်ရှိ၏။ ထူထဲသော လည်ဆံမွေးများလည်း ရှိသည်။ လည်ပင်းအောက်မှ အမွေးထူသည့် အိတ်တခုတွဲကျနေ၍ ခလောက်ကဲ့သို့ရှိနေလေသည်။ ခွာများမှာ ရှည်၍ အဖျားရှူးပြီးလျှင် နှစ်ခြမ်းကွဲနေသည်။

မုစကောင်အထီးသည် ၆ ပေခန့်မြင့်၍ အလျား ၉ ပေခန့် ရှိသည်။ အလာစကာပြည်နယ်မှ မုစကောင်များသည် ၇ ပေခန့်အထိ မြင့်ကြ၍ အလျား ၁၀ ပေခန့်အထိရှိသည်။ အမကား အထီးလောက် မကြီးချေ။ ၄ ပုံ ၃ ပုံခန့်လောက်သာ ရှိသည်။ ကြီးသော ပါးစပ်၊ ကားနေသော နားရွက်များနှင့်လိုက်အောင် ဦးချိုများမရှိသဖြင့် အကြည့်ရ အလွန်အရုပ်ဆိုး၏။ တခါတရံ ခလောက်သဏ္ဍာန် အိတ်ရှိတတ်သော်လည်း များသောအားဖြင့် မရှိချေ။

မုစကောင်သည် အုပ်နှင့် မနေ။ တကောင်တည်းသာ သွားလာ နေတတ်သည်။ နွေအခါတွင် ရေအိုင်မြစ်ချောင်းဘေးတို့၌နေ၍ ပျော်ပါးစွာ ရေချိုးလိုက်၊ ရွှံ့လူးလိုက်နှင့် နေသည်။ အေးမြသောရေထဲတွင် လျှောက်သွား၍ အပင်များကို စားသည်။ အခြား အခါများတွင် တောထဲ၌ လှည့်လည်၍ အညွန့်၊ အစို့တို့ကို စားသောက်လေသည်။ ရှည်လျားသော ခြေထောက်များသည် ဤနေရာ၌ အလွန်အသုံးဝင်၏။ သို့သော် တခါတရံ အပင်များမြင့်လွန်း၍ မမှီနိုင်ပေ။ ထိုအခါ ပတတ်ရပ်၍ အပင်ကို မှီပြီးလျှင် ကိုင်းညွတ်လာအောင် လုပ်လေသည်။

မုစကောင်သည် ဆောင်းရာသီဝင်ရောက်လာသော အခါတွင် ကုန်းမြင့်များသို့ တက်ရောက်၍ နေထိုင်၏။ ထိုအခါ၌ တကောင်တည်း မနေတော့ပေ။ အထီးအမ များစွာ စုရုံး၍ သုံးလေးကေခန့်ရှိသော နေရာတကွက်ကို ရွေးချယ်ပြီးလျှင်၊ ထိုစည်းဝိုင်းထဲမှ မထွက်ဘဲ နေကြတော့၏။ ဝံပုလွေများကို အလွန်ကြောက်၏။ ဝံပုလွေဟောင်သံကို ကြားလျှင်ပင် ကြောက်လွန်း၍ တုန်နေသည်။ ဝံပုလွေများ အနီးသို့ ရောက်လာသောအခါ ပြေးရမည်လား၊ ပုန်းရမည်လား မသိနိုင်အောင်ပင် ရှိတော့သည်။ သို့သော် အသက်ကို အလဟဿမစွန့်လွှတ်ဘဲ တတ်နိုင်သမျှ ခုခံ၏။ ဦးချိုနှင့်ဝှေ့၍ ခြေထောက်နှင့်ကန်ကာ၊ ဝံပုလွေအုပ်ငယ်ငယ်ကို တွန်းလှန်နိုင်သည်။ အုပ်ကြီးလျှင်ကား အစုလိုက် အပြုံလိုက် သေကြရလေသည်။



သမင်မျိုးတွင် အကြီးဆုံးမျိုးဖြစ်သည့် မုစကောင်

အထီး ၂ ကောင်ရှိလျှင် မိတ်လိုက်ချိန်၌ အကြီးအကျယ် တိုက်ခိုက်တတ်ကြ၏။ အမများမှာလည်း သားငယ်ကို တဦးဦးက နှောင့်ယှက်လျှင် အတင်းလိုက်၍ ဝှေ့တတ်၏။ အခြားအချိန်များ၌ မုစကောင်တို့သည် သိမ်မွေ့၍ရန်သူလာသည်ဟု ထင်သည်နှင့် တပြိုင်နက် လျင်မြန်စွာ ထွက်ပြေးလေ တော့သည်။

မုဒုံမြို့။ ။မြန်မာနိုင်ငံ အောက်ပိုင်း တနင်္သာရီတိုင်း ကျိုက္ခမီခရိုင် မုဒုံမြို့နယ်၏ မြို့ပိုင်ရုံးစိုက်ရာ ဖြစ်သော မုဒုံမြို့သည် မော်လမြိုင်မြို့ တောင်ဖက် ၁၈ မိုင်အကွာ မော်လမြိုင် ကျိုက္ခမီ မော်တော်ကားလမ်းပေါ်၌၎င်း၊ ၁၅ မိုင်အကွာ မော်လမြိုင်မြို့နှင့် ယေးမီးရထားလမ်းပေါ်၌၎င်း တည်ရှိရာ အဆက်အသွယ်ကောင်း၍ အသွားအလာ လွယ်ကူသဖြင့် ကူးသန်းရောင်းဝယ်ရေးတွင် စည်ကားသည်။ မော်တော်ကားလမ်းသည် မြို့၏ အရှေ့ဖက်၌ရှိ၍ မီးရထားလမ်းသည် မြို့၏ အနောက်ဖက်ဆုံးတွင်ရှိသည်။ မုဒုံမြို့သည် မွန်မြို့ဖြစ်သည်အားလျော်စွာ မွန်ဘာသာအားဖြင့် "မု-သည် အစွန်း၊ ဒုံ-သည်မြို့" အစွန်းကျသောမြို့ဟု ဆိုလိုသည်။

မုဒုံမြို့ပေါ်တွင် ၁၉၅၃ ခုနှစ် သန်ကောင်စာရင်းအရ လူဦးရေ ၂၀,၁၂၃ ယောက်ခန့်ရှိ၍ မွန်၊ မြန်မာ၊ ကရင်၊ တရုပ်၊ ကုလားလူမျိုးများ နေထိုင်ကြသည်။ မွန်လူမျိုးတို့ အများဆုံး နေထိုင်သည်။ မြို့ပေါ်တွင် ရဲဌာန၊ စာပို့တိုက်၊ မြို့ပိုင်ရုံး၊ ငွေတိုက်၊ အစိုးရအထက်တန်းကျောင်း၊ မြေစာရင်းရုံး၊ သစ်တောဌာနနှင့် ဆေးရုံတို့ရှိသည်။ မုဒုံမြို့နယ်တွင် ကော်ဖတ်ခြံများ အမြောက်အမြားရှိသည်။ မြို့နယ်အတွင်း ဆန်စပါး စိုက်ပျိုး လုပ်ကိုင်ကြသည်။ မြို့နေလူများသည် လယ်ယာလုပ်ခြင်း၊ ရက်ကန်းရက်ခြင်းတို့ဖြင့် အသက်မွေး မှုကြသည်။ ဆန်စပါး၊ ကော်ဖတ်နှင့် ရက်ကန်းထည်များစွာ ထွက်သည်။



မုဒုံမြို့ အရှေ့တောင်ဖက် မော်တော်ကားလမ်းနံဘေးရှိ မုဒုံကန်ကို အေးချမ်းသာယာဖွယ် ရှုမြင်ရပုံဖြစ်သည်။

မုဒုံမြို့တွင် ကန်တော်ကြီး၊ ကန်ကြီးဘုရားနှင့် ဂျူးဂျူးကျ တောရကျောင်းဟူ၍ ထင်ရှားသော ဌာနသုံးခုရှိသည်။ ကန်တော်ကြီး၊ သို့မဟုတ်ကန်ကြီးသည် ၃ မိုင်ပတ်လည် ကျယ်ဝန်း၍ နဂါးများ ကျက်စားပျော်မွေ့ရာဟု ထင်ရှားကျော်ကြားခဲ့သည်။ ဂေါတမ မြတ်စွာဘုရား ၈ ဝါမြောက်တွင် နောက်ပါ ရဟန္တာများနှင့် ဤကန်တော်ကြီးဌာနသို့ ကြွလာတော်မူဘူးသည်ဟု ဆိုသည်။ ရသေ့ကြီးတပါးနှင့် တွေ့တော်မူရာ နောင်ရေးကိုမျှော်ရှုကာ ရသေ့ကြီးအား ဆံတော်တဆူ သနားတော်မူခဲ့လေသည်။ ထိုအကြောင်းကို သိကြားမင်းသိ၍ ရသေ့အား ဆံတော်ကိုဌာပနာ၍ စေတီတည်ရန်လျှောက်ထားသည်တွင် ကန်တော်ကြီးအနီး၌ သိကြားတရစ်၊ နဂါးတရစ်၊ လူတရစ်စေတီတည်ကြသည်။ ထိုဆံတော်ဓာတ်စေတီကို ရှေးအခါက နဂါးစေတီဟု ခေါ်ကြသည်။ နောင်မှ ကန်တော်ကြီးအနီး၌ တည်ထားသောကြောင့် ကန်ကြီးဘုရားဟု တွင်ပြန်သည်။ ကန်ကြီးသည် မုဒုံမြို့မတည်မီ ရှေးအခါက တည်းကပင် သဃ်ဇာတအားဖြင့် တည်ရှိသော အဓိကရ ကန်တော်ကြီး ဖြစ်သည်။

ဂျူးဂျူးကျတောရတွင် ရေအဟုန်ပြင်းစွာဖြင့် အမြင့်မှ အဆက်မပြတ်စီးဆင်းလျက် ရှိသောကြောင့် ဂျူးဂျူးကျစမ်းဟုခေါ်သော စမ်းရှိသည်။ ထိုစမ်းကို အမှီပြု၍ ဆောက်လုပ်ထားသော တောရကျောင်းကို ဂျူးဂျူးကျတောရကျောင်းဟုခေါ်သည်။ ထိုကျောင်းတွင် ဆရာတော်တပါး သီတင်းသုံးတော်မူခဲ့ဘူးသည်။ ထိုဆရာတော်ဘုရားသည် သီလသိက္ခာနှင့် ပြည့်စုံ၍ တရားထူးရရှိပြီးသော ပုဂ္ဂိုလ်မြတ်ဟု ကျော်စောခဲ့သည်။ ပျံလွန်တော်မူရာတွင် ရုပ်ခန္ဓာ ရုတ်တရက် ပျောက်ကွယ် သွား၍ ရုံတော်မူသော သင်္ကန်းများမှာ ပုံမပျက် ပက်လက်ကျိန်းနေဘိသကဲ့သို့ ကျန်ရှိနေသေးသည်ကို ယနေ့တိုင် တွေ့မြင်နိုင်သည်။ မုဒုံမြို့သည် ဤဆရာတော်ဘုရားကြောင့်လည်း ထင်ရှားကျော်စော၏။ မုဒုံမြို့သည် ရှေးက မွန်ဘုရင်များထီးနန်းစိုက်ရာ ဖြစ်ကြောင်းကို ကွမ်ဒုံအရပ်တွင် ယနေ့ထိရှိနေသေးသော မြို့ရိုးများကို ကြည့်ခြင်းဖြင့် သိနိုင်သည်။

မုယော။ ။ဥရောပတိုက် ဆွစ်ဇာလန်နိုင်ငံတွင် ရှေးကျောက်ခေတ်က နေထိုင်ခဲ့သော သူများသည် မုယောကို အသုံးပြုကြကြောင်း ထိုနိုင်ငံမှ တူးဖော်ရရှိသော အခြားဝတ္ထုပစ္စည်းများနှင့် အတူ မုယောစေ့များကိုပါ တွေ့ရှိရခြင်းဖြင့် သိရလေသည်။ တရုပ်ပြည်တွင် ခရစ်တော် မပေါ်မီ နှစ်ပေါင်း နှစ်ထောင်အထက်က မုယောကို စိုက်ပျိုးခဲ့ကြောင်း တရုပ် လူမျိုးတို့၏ အယူဝါဒရေး စာအုပ်များတွင် ဖော်ပြ



မုယောစပါးကို ကျွဲနွားစာထက် ဗျစ်နှင့် အရက်ချက်ရာတွင် ပိုမိုအသုံးပြုကြသည်။

ထားသည်။ အီဂျစ်နိုင်ငံ၌ ဟီဗြူလူမျိုးတို့သည် မုယောပင်ကို စိုက်ပျိုးခဲ့ကြောင်း ခရစ်ယန်တို့၏ သမ္မာကျမ်းစာတွင် ဖော်ပြချက်ပါရှိသဖြင့် သိရလေသည်။ ထို့ကြောင့် မုယောပင်သည် အလွန်ရှေးကျသော ကောက်ပင်များတွင် အပါအဝင်ဖြစ်သည်ဟု ဆိုရပေမည်။

မုယောပင် မူလပေါက်ရောက်ရာ အရပ်မှာ အာရှတိုက် အနောက်ပိုင်း ဖြစ်သည်ဟု ထင်မှတ်ရသည်။ အကြောင်းဆိုသော် ထိုဒေသများတွင် မုယောပင်အရိုင်းများ ပေါက်လျက်ရှိသည်ကို တွေ့ရခြင်းကြောင့် ဖြစ်သည်။ ယခု အခါ အလွန်အေးသော ရာသီရှိသည့် မြောက်ဖက် အလာစကာပြည်နယ်မှ တောင်ဖက် အိန္ဒိယနိုင်ငံကဲ့သို့ ပူအိုက်သော တိုင်းပြည်များအထိ မုယောပင်ကို စိုက်ပျိုးလျက် ရှိကြသည်။ ရှေးအခါက မုယောကို လူတို့ စားသုံးရန် အတွက် အသုံးချခဲ့ကြ၏။ သို့သော် မုယောထက် အာဟာရဓာတ် ပြည့်စုံသည့် အခြားကောက်ပင်များကို ယခုစိုက်ပျိုးလျက် ရှိကြရာ မုယောမှုန့်နှင့်လုပ်သောပေါင်မုံ့အမည်းများကို ဥရောပတိုက်တောလက်ကျေးရွာများတွင် နေထိုင်ကြသော တောင်သူလယ်သမားတို့လောက်သာ စားသုံးလျက်ရှိကြသည်။ ယခုခေတ်တွင် ဗီယာခေါ် ဗျစ်ရည်ချက်လုပ်ရန်နှင့် နို့မှုန့် စသော အစားအသောက်များ၌ ရောစပ်ရန်အတွက် မုယောကို အမြောက်အမြား အသုံးပြုကြသည်။ တိရစ္ဆာန် အစာအတွက်လည်း မုယောမှုန့်ကို အသုံးချနိုင်သည်။ အထူးသဖြင့် ဝက်များကို မုယောမှုန့်ကျွေးလျှင် ပို၍ဆူဖြိုးလာမည်ဖြစ်သည်။ မုယောပင်၏ ရိုးတံများတွင် ထက်မြက်စူးရှသော အမွေးအမှင်ကလေးများ ပေါသဖြင့် တိရစ္ဆာန်များကို ကျွေးရန် အစာအဖြစ် ထိုကောက်ရိုးများကို အသုံးမချနိုင်ချေ။ မုယောပင်များမှာ ကောက်လျင်ပင်မျိုးဖြစ်ရာ အများအားဖြင့် ဂျုံပင်များ စိုက်ပျိုးပြီးမှ မုယောကိုစိုက်လေ့ရှိကြသည်။ ဂျုံထက်ဦးစွာ မုယောကို ရိတ်သိမ်းကြရသည်။ စိမ့်မနေ၊ ရေမဝပ်သည့် သဲမြေမျိုးတွင် မုယောပင်များ ကောင်းစွာ ဖြစ်ထွန်း၍ အမြစ်တိုသည့် ကောက်ပင်မျိုးဖြစ်သောကြောင့် မြေယာကို နက်စွာ ထွန်ယက်ပြုပြင်ရန် မလိုချေ။

ရုရှားနိုင်ငံသည် မုယောအများဆုံး စိုက်ပျိုးသော နိုင်ငံဖြစ်သည်။

**မုယောပင်ပေါက်။** ။မော့ခေါ် မုယောပင်ပေါက်ကို မုယောစပါးမှ အပင်ဖောက်ယူရ၏။ ဦးစွာ၌ မုယောစပါးများကို အပူချိန် ဖာရင်ဟိုက် ၅၅ ဒီဂရီရှိသော ရေထည့်ထားသည့် စည်များတွင် စိမ်ထားရသည်။ ရေစိမ်ထားသည်မှာ ၂ ရက်မှ ၄ ရက်အထိ ကြာ၍ ထိုအချိန်အတွင်း အပူချိန်တညီတည်း ဖြစ်နေစေရပြီးလျှင်၊ ရေကိုလည်း ဗက်တီးရီးယားများ လွန်ကဲစွာ မပွားစေရန် မကြာခဏ လဲလှယ်ပေးရသည်။ ထို့နောက် မုယောစပါးများကို ဆယ်ယူပြီးသော် ကြမ်းပြင်ပေါ်တွင်ဖြန့်ကြဲကာ ၁၂ ရက်ကြာမျှ လှန်းထားရ

ပြန်သည်။ထိုအချိန်အတွင်း ကဇော်ပေါက်လာ၍အညှောက်လည်း စတင်ထိုးထွက်လာသည်။ ကဇော်ပေါက်သည်ဟုဆိုရာ၌ ဖာမင်တေးယှင်းဖြစ်ခြင်းကို ဆိုလိုသည်။ ကဇော်ပေါက်၍ ဖြစ်ပေါ်လာသော အင်ဇိုင်းသည် ကစီဓာတ်ကို သကြားဓာတ်အဖြစ်သို့ ပြောင်းလဲနိုင်သည့်ပြင် ပို၍ အစာကိုလည်း ကြေလွယ်စေနိုင်သည်။ နောက်ဆုံးတွင် မီးဖိုထဲ၌ အပူဓာတ်ပေးခြင်းဖြင့် အညှောက်ကြီးပွားလာခြင်းကို ရပ်စဲစေ၍ အညှောက်များကို ဖယ်ပစ်ရသည်။ ထိုအခါတွင် မုယောပင်ပေါက် (ဝါ) မေ့ကို ရရှိလေသည်။

မုယောပင်ပေါက်ကို ဗီယာချက်ရာ၌ အဓိကထား၍ အသုံးပြုကြသည်။ နို့မှုန့်နှင့် မုယောပင်ပေါက်ကို ရောစပ်၍ ပြုလုပ်ထားသော မုယောပင်ပေါက် နို့မှုန့် (မေ့နို့မှုန့်) ပြုလုပ်ရာ၌လည်း မုယောပင်ပေါက်ကို အမြောက်အမြား အသုံးပြုကြသည်။ မေ့ပါသော နို့မှုန့်သည် အစာကြေလွယ်စေသဖြင့် လူနာနှင့် ကလေးများအား တိုက်ကျွေးရန် အထူးသင့်လျော်ပေသည်။

**မုလေးပန်း။** ။မုလေးပန်းကို မုလေးပင်မှ ရရှိသည်။ ထိုမုလေးပန်းကိုပင် မြတ်လေးပန်းဟုလည်း ခေါ်ကြသည်။ မုလေးပင်ကို ရုက္ခဗေဒအလိုအရ ဂျပ်စမင်နမ် ဂရန်ဒီ ဖလိုရမ်ဟုခေါ်သည်။ မူလပေါက်ရာအရပ်မှာ ဟိမဝန္တာတောင်၏ အနောက်မြောက်ဖက် ဒေသဖြစ်၏။ ယခုအခါတွင်မူ ကမ္ဘာ ဟောင်းနှင့် ကမ္ဘာသစ် နှစ်ခုစလုံးတွင် စိုက်ပျိုးယူနိုင်ပေပြီ။ မုလေးပင်သည် ချုံနှင့် နွယ်မျိုးဝင် ဖြစ်ပြီးလျှင် အိုလီစီအီး မျိုးရင်းဝင် ဖြစ်သည်။ မျိုးစိတ်ပေါင်း ၁၀၁ ခန့်ရှိလေသည်။

မုလေးပင်၏ အရွက်များသည် အကိုင်း၏ တဖက်တချက်မှ မျက်နှာချင်းဆိုင် ထွက်သည်။ အရွက်သည် စိမ်း၍ရှည်ရှည်ဖြစ်ပြီးလျှင် အဖျားဖက်သို့ ချွန်သွားသည်။ အဖြူရောင်အပွင့်၏ အောက်ဖက်တွင် အနီရောင်သန်းနေသည်။ ပန်း၏ ရနံ့မှာ အလွန်မွှေးသည်။

မုလေးပန်းဟု ရေးသားခေါ်ဝေါ်ကြသည်မှာ အဘိဓာန်ကျမ်းတွင် သုမနာ၊ မုလေး။ ဇာတိသုမနာ၊ မုလေး။ မာလတီ၊ မုလေး။ ဇာတိ၊ မုလေး။ ဝဿိကီ၊ မုလေးဟူ၍ ပရိယာယ် ၅ ပုဒ်ပြသည်။ မြန်မာဘာသာမှာ မာလတီဟူသော ပုဒ်တွင် တီသဒ္ဒါကြေ၍ မာလသဒ္ဒါပျက် မုလေးဟု မြန်မာဘာသာ ရေးသားခေါ်ဝေါ်ကြသည်ဟု ယူရန်ရှိသည်။

ထိုမုလေးပန်းကို ဒသင်္ဂုတ္တိုရ်အပ္ပမာဒသုတ် ပါဠိတော်မှာ သတ္တဝါတွင် ဘုရား၊ မြေနိုက်သွား၍ ထင်သည်တွင် ဆင်၏ ခြေရာ၊ အခြင်တကာတွင် အထွတ်၊ အမြစ်နံ့သာတွင် ကာဠာနုသာရီ၊ အနှစ်နံ့သာတွင် လောဟိတ စန္ဒန၊ အပွင့်နံ့သာတွင်



ရနံ့မွှေးသည့် မြတ်လေးခေါ် မုလေးပန်း

ဝဿိကီပုပ္ဖ၊ မုလေးပန်း၊ မင်းများအပေါင်းတွင် စကြာမင်း၊ ကြယ်တကာ အရောင်တွင် လရောင်၊ မှောင်တကာကို ဖျောက်၍ထွန်းလင်းသောအရောင်တွင် နေ၊ မြစ်တကာတွင် သမုဒ္ဒရာသာ အကြီးအကဲ အထွတ်အမြတ် ဖြစ်သကဲ့သို့ ကုသိုလ်တကာတွင် အပ္ပမာဒတရား မြတ်ကြောင်းများကို ဘုရားဟောတော်မူသည်ဖြစ်၍၊ မုလေးပန်းကား ပန်းတကာတွင် အထွတ်အမြတ်အသာဆုံး မှတ်ရမည်။ ဝိမာနဝတ္ထုအဋ္ဌကထာတွင်လည်း ပန်းတွင် မုလေးပန်းမြတ်ကြောင်းကို ဆိုလေသည်။

ရွှေထီးရွှေနန်း မင်းအဆက်ဆက် ထွက်စံတော်မူရာ ရာဇမတ်တန်း မင်းလမ်းများတွင် တံခွန်ကုက္ကား၊ မုလေးပွားစိုက်ဆောက်သည်မှာလည်း အခါခပ်သိမ်း မုလေးပန်းဆိုင်း မရသောကြောင့်၊ မုလေးပန်းတု အထည်စက္ကူများကို ပြုလုပ်ကြသည်။ ထို့ကြောင့် မုလေးပွားခေါ်သည်။

ယင်းမုလေးပွင့်၊ မုလေးမုံ၊ မုလေးရွက်တို့၏ အကျိုးကို သီရိရာဇဗြွှ သေန ရသေ့စီရင်သည့် ဒြဗျဂုဏ်ဆေးကျမ်းတွင် ဤသို့ဆိုသည်။ မုလေးပန်းသည် သလိပ်နာ၊ သည်းခြေနာ၊ သွေးနာ၊ ပေါက်သောအနာ၊ ပိုးနာ၊ နူနာကို ပယ်နိုင်၏။ ထိုမုလေးပန်း၏ အမုံအကင်းသည် မျက်စိနာနှင့်သင့်၏။ ထိုမုလေးရွက်သည် သလိပ်သည်းခြေကို နိုင်၏။

မုလေးကျီးပေါင်းကို ရေဝတီနက္ခတ်အကြိုက်တွင်ယူဆောင်လျှင်၊ လူအပေါင်းတို့ စကားကိုနာယူရသည်ဟု ဝေဿာမိတ္တရသေ့စီရင်သည့် သရ ရတုကထန ဆေးကျမ်းတွင်ဆိုသည်။

**မူဆိုလိနီ,ဗင်နီတို** (ခရစ် ၁၈၈၃–၁၉၄၅) ။ ။ပဌမကမ္ဘာစစ်နှင့် ဒုတိယကမ္ဘာစစ်အကြား ကမ္ဘာတလွှားတွင် အတော်ပင် တန်ခိုးထွားခဲ့သော ဣတလီနိုင်ငံ အာဏာရှင် ဗင်နီတိုမူဆိုလီနီ၏ အတ္ထုပ္ပတ္တိမှာ ထူးဆန်းအံ့ဩဖွယ်ကောင်းလှသည်။ သူသည် အသက် ၄၀ မကျော်မီကပင် ကျောင်းဆရာ၊ နွားသတ်သမား၏တပည့်၊ အုတ်စီသူ၏အကူ၊ သတင်းစာဆရာ၊ ပြင်သစ်ဘာသာပြ ဆရာ၊ စစ်သား၊ ပါလီမန် အမတ်၊ တော်လှန်ရေးခေါင်းဆောင် စသည်ဖြင့် သူ၏ဘဝတွင် အခြေတကျမဟုတ်ဘဲ၊ အမျိုးမျိုးလုပ်ကိုင် ဆောင်ရွက်ခဲ့ဘူးလေသည်။ နောက်ဆုံးတွင် ဣတလီနိုင်ငံ၏ အာဏာရှင်အဖြစ်ဖြင့် ဇာတ်သိမ်းခဲ့ရလေသည်။

မူဆိုလိနီသည် ၁၈၈၃ ခုနှစ် ဇူလိုင် ၂၉ ရက်နေ့တွင် လူ့လောကကြီးသို့ စတင်ရောက်ရှိလာသည်။ သူ၏မွေးရာ ဌာနမှာ ဣတလီနိုင်ငံ၊ ဖော်လီမြို့၊ ဒိုဗီးယား အရပ်ဖြစ်၏။ သူ၏ ဖခင် အယ်လက်ဇန္ဒြီ၊ မူဆိုလိနီသည် ပန်းဘဲဆရာဖြစ်၍ မိခင်ဖြစ်သူ ရိုဆာမာတိုနီမှာ ကျောင်းဆရာမ ဖြစ်လေသည်။



ဖက်ဆစ်ဝါဒကို စတင်အသက်သွင်းတီထွင်ခဲ့သူ အာဏာရှင် ဗင်နီတိုမူဆိုလိုနီ

မူဆိုလီနီကို မက္ကဆီကို တော်လှန်ရေးခေါင်းဆောင် ဗင်နီတို ဟွားရေး၏ နာမည်မှ ဗင်နီတိုကို ယူ၍ မှည့်ခေါ် ထားခဲ့ သည်။ မူဆိုလီနီသည် ကျောင်း၌ နေစဉ်မှာပင် ဉာဏ် ကောင်းသူဖြစ်၏။ ထိုပြင် သူ့တွင် အောက်ကျို့ခံလိုသော စိတ်မျိုး မရှိချေ။ သူသည် အသက် ၁၈ နှစ်ခန့်တွင် ကျောင်း ဆရာဖြစ်လက်မှတ် ရရှိခဲ့လေသည်။

ဆရာအတတ်သင်ခဲ့သော်လည်း မူဆိုလီနီသည် ပညာရေး တွင် စိတ်မဝင်စားဘဲ နိုင်ငံရေးလုပ်ရန်သာ စိတ်ထက်သန် နေခဲ့သည်။ ရှေးဦးစွာ သူသည် အယူသည်းသော ဆိုရှယ် လစ်တဦး ဖြစ်ခဲ့၏။ ကျောင်းဆရာအဖြစ် တနှစ်ခန့် အလုပ် လုပ်ပြီးနောက် ထိုအလုပ်ထက်သာသော အလုပ်ကို ရှာရန် ဆွစ်ဇာလန်နိုင်ငံသို့ ထွက်သွားလေသည်။ ဆွစ်ဇာလန်တွင် ငတ်တလှည့် ပြတ်တလှည့်နှင့် အလုပ်အမျိုးမျိုးလုပ်ယင်း ပညာသင်ကြား၍ ဗဟုသုတအဖြာဖြာ ရှာမှီးခဲ့သည်။ သို့ သော် တော်လှန်ရေးစိတ်၊ နိုင်ငံရေးစိတ် ပြင်းထန်သော ကြောင့် ဆွစ်ဇာလန်အစိုးရက သူ့အား နယ်နှင်လိုက်သည်။ ဣတလီနိုင်ငံသို့ ပြန်ရောက်သောအခါ သူသည် စစ်တပ်သို့ ဝင်ရောက် အမှုထမ်းသည်။ ဆိုရှယ်လစ် ပါတီတွင်လည်း အ ရေးပါသော ပါတီဝင် ဖြစ်လာလေသည်။ တခါက ထောင် ၁ဝ ရက်မျှ အကျခံရ၍ ပုလိပ်များ မျက်ခြည်မပြတ် လိုက် လံကြည့်ရှုခြင်းကိုပင် ခံခဲ့ရသေးသည်။

၁၉ဝ၉ ခုနှစ်တွင် မူဆိုလီနီသည် ထရင်တိုမြို့သို့ သွားပြန် သည်။ ထရင်တိုမြို့မှာ ထိုစဉ်က ဩစတြီးယားနိုင်ငံ လက် အောက်ခံ ဖြစ်၏။ ထရင်တိုမြို့တွင် သတင်းစာဆရာ လုပ် ယင်း စာအုပ်စာတမ်းများ ရေးသားထုတ်ဝေခဲ့သည်။ သို့ရာ တွင် သူ၏ သတင်းစာတွင် ဣတာလျံလူမျိုးနှင့် ဣတာလျံ စကားပြောသူများ နေထိုင်ရာ အရပ်များကို ဣတလီ နိုင်ငံ တွင်း သွတ်သွင်းရန် ရေးသားသောကြောင့် နယ်နှင်ဒဏ်ခံရ ပြန်သည်။

၁၉၁ဝ ပြည့်နှစ်တွင် မူဆိုလီနီသည် ဖော်လီမြို့မှ ဣတလီဆို ရှယ်လစ်ပါတီ၏ အတွင်းရေးမှူး ဖြစ်လာခဲ့သည်။ ရက်သတ္တ ပတ်စဉ် သတင်းစာတစောင်၏ အယ်ဒီတာလည်းဖြစ်ခဲ့၏။ ၁၉၁၁ ခုနှစ်တွင် အလုပ်သမားများအား တော်လှန်အောင် သွေးဆောင်မှုကြောင့် ထောင်ဒဏ် ၅ လ အပြစ်ပေးခြင်း ခံရ သည်။ ၁၉၁၂ ခုနှစ်တွင်ကား သူ့အား လက်ဝဲခေါင်းဆောင် တဦးဟု အသိအမှတ် ပြုကြလေပြီ။ ဆိုရှယ်လစ်ပါတီ၏အာ ဘော်ဖြစ်သော "အဗန်တီ" သတင်းစာတွင်လည်း အယ်ဒီ တာအဖြစ် ခန့်အပ်ခြင်းခံရလေသည်။ ၁၉၁၃ ခုနှစ်တွင် "ယူ တီးပီးယား" ခေါ် သတင်းစဉ်ကို တည်ထောင်သည်။ ထို နှစ်မှာပင် အမျိုးသမီးတဦးနှင့် လက်ထပ်ခဲ့ရာ သားသမီး ၆ ယောက် ထွန်းကားလေသည်။ သူ၏ သမီးအကြီးဆုံး သည် ကောင့်ရှာနို၏ဇနီး ဖြစ်လေသည်။

၁၉၁၄ ခုနှစ်တွင် ပဌမ ကမ္ဘာစစ်ကြီး ဖြစ်ပွားသောအခါ မူဆိုလီနီသည် သူ၏ဘဝသစ်ကို ဖန်တီးမည့် ပြောင်းလဲမှုများ ကို ပြုလုပ်ခဲ့သည်။ သူသည် အစပဌမ၌ ကြားနေရေးဝါဒကို ထောက်ခံသော်လည်း နောင်သောအခါ မဟာမိတ်တို့ဖက်မှ ဝင်တိုက်ရန် လှုံ့ဆော်ပေးလေသည်။ မူဆိုလီနီ၏ စစ်ထဲပါ ဝင်ရေးဝါဒသည် ဆိုရှယ်လစ်တို့၏ စစ်မတိုက်ရေး ဝါဒနှင့် ဆန့်ကျင်နေရာ မူဆိုလီနီသည် ဆိုရှယ်လစ် ပါတီ နှင့် အိုးစား ကွဲကာ ဆိုရှယ်လစ်ပါတီမှရင်း၊ ပါတီသတင်းစာ အယ်ဒီတာ အဖြစ်မှရင်း နုတ်ထွက်ရလေသည်။ ထိုနောက် သူသည် "ပိုပိုလိုဒီတာလီယ" ခေါ် နေ့စဉ် သတင်းစာတစောင်ကို တည်ထောင်၍ မဟာမိတ်များဖက်မှ ပါဝင်တိုက်ရေး ဝါဒကို ဖြန့်လေတော့၏။ သူကိုယ်တိုင်လည်း သာမန်စစ်သား အဖြစ် ဖြင့် ဝင်ရောက် တိုက်ခိုက်ခဲ့ရာ ဒဏ်ရာ အပြင်းအထန် ရရှိခဲ့ သည်။ ဒဏ်ရာမှ ပျောက်ကင်းသောအခါ ဆေးရုံမှ ဆင်း၍ အယ်ဒီတာ ပြန်လုပ်ကာ စစ်အောင်မြင်ရေးကို ကြိုးပမ်းပြန် လေသည်။

၁၉၁၉ ခုနှစ် စစ်ပြေငြိမ်းပြီးနောက် မူဆိုလီနီသည် ဖက် ဆစ်ပါတီကို ဖွဲ့စည်းတည်ထောင်ခဲ့သည်။ (ဖက်ဆစ်ဝါဒ — ရှု။) ထိုစဉ်က ဣတလီနိုင်ငံ၏ အခြေအနေမှာ အတော်ပင် စိတ်ပျက်ဖွယ်ရာ ကောင်းနေ၏။ အစိုးရမှာ အကြွေး ပင် လယ်ဝေနေပြီးလျှင် နိုင်ငံတွင်း၌လည်း သပိတ်မှောက်မှုများ၊ အဓမ္မအကြမ်းဖက်မှုများ အတော်ထကြွနေသည်။ ၁၉၂ဝ ပြည့် နှစ်တွင် မီလန်မြို့၌ ကွန်မြူနစ်တို့ ပုန်ကန်ထကြွကြ၏။ ထိုနောက် ဗလုံးညားမြို့တွင်လည်း ထကြွပြန်၏။ သို့ဖြစ်ရာ တွင် ကွန်မြူနစ်တော်လှန်ရေးကိုစိုးရိမ်သော အရင်းရှင်များ နှင့် စစ်ပြေငြိမ်းရေး စည်းကမ်းချက်များကို မကျေနပ်သော စစ်သားဟောင်းများသည် မူဆိုလီနီအား ငွေအား လူအား ဖြင့် ထောက်ခံကြလေသည်။

ဖက်ဆစ်ပါတီဝင်များသည် အမျိုးသားရေးဝါဒစိတ် လွန် ကဲသူများဖြစ်၍ အာဏာကြီးမားသော ဗဟိုအစိုးရနှင့် စည်း ကမ်းသေဝပ်ရေးကို လိုလားသည်။

မူဆိုလီနီသည် ၁၉၂ဝ ပြည့်နှစ်မှစ၍ ဖက်ဆစ် အဖွဲ့များကို နေရာအနှံ့အပြားတွင် ဖွဲ့စည်းလေသည်။ ရှပ်နက်တပ်ဖွဲ့များ ကို ဖွဲ့စည်းကာ အတိုက်အခံဂိုဏ်းများကို ဖြိုဖျက်သည်၊ နယ်များရှိ ဖက်ဆစ်အဖွဲ့များသည် ကွန်မြူနစ်များနှင့် မင်း မဲ့ဝါဒီတို့၏ အစည်းအဝေးများကို နှောင့်ရှက် ဖျက်ဆီးခြင်း၊ ထိုအဖွဲ့များ၏ ဌာနချုပ်များနှင့် အဖွဲ့များနှင့် ဆိုင်သော စာအုပ်စာတမ်းများ ရောင်းချရာဆိုင်များကို ဝင်ရောက် လုယူဖျက်ဆီးခြင်း စသည်တို့ကို ပြုလုပ်လေသည်။ နောက် တွင် တဆင့်တက်ကာ ခေါင်းမာသော ခေါင်းဆောင်များကို လုပ်ကြံသတ်ဖြတ်ကြ၏။ ထိုအချိန်တွင် ဥပဒေပြုလွှတ်တော် တွင် ဖက်ဆစ်အမတ်ဦးရေ ၃၅ ယောက်ခန့် ရှိနေပြီဖြစ်သည်။

၁၉၂၁ ခုနှစ်တွင် ဖက်ဆစ်အဖွဲ့ကို နိုင်ငံရေးပါတီ အသွင်သို့ ပြောင်းလဲလိုက်သည်။ မူဆိုလီနီအားလည်း "အီးဒူးချေး" (ခေါင်းဆောင်ကြီး) ဟု အသိအမှတ် ပြုကြသည်။

နိုင်ငံအခြေအနေမှာ တဖြည်းဖြည်း ဆိုးရွားလာရာ ဆိုရှယ်လစ်တို့သည် ဖက်ဆစ်တို့ကို အစိုးရကနှိမ်စေရန် အထွေထွေ သပိတ်မှောက်မှုကြီး ပေါ်ပေါက်လာအောင် ဖန်တီးလေတော့သည်။ လက်ရှိအစိုးရအဖွဲ့သည် မည်သို့မျှ မတတ်နိုင်ရှာပေ။ ၁၉၂၂ ခုနှစ် အောက်တိုဘာလတွင် နေပယ်မြို့၌ ဖက်ဆစ်အဖွဲ့ကြီး ညီလာခံတရပ်ကျင်းပလေသည်။ ထိုလ ၃၀ ရက်နေ့တွင် မူဆိုလီနီ နှင့် သူ၏နောက်လိုက်များသည် ရောမမြို့သို့ ချီတက်ကြရာ မည်သူမျှ အတိုက်အခံ မပြုလုပ်ကြပေ။ တတိယအီမန်နျူအယ် ဘုရင်သည် လက်ရှိအစိုးရ အဖွဲ့ကို ဖြုတ်ချကာ မူဆိုလီနီကို အစိုးရဖွဲ့ရန် ဖိတ်ခေါ်ရ၏။ သို့ဖြစ်၍ သွေးတစက်မျှ မကျသော တော်လှန်ရေးဖြင့် မူဆိုလီနီသည် အာဏာသိမ်းပွဲခံကာ အစိုးရအဖွဲ့ ဖွဲ့စည်းလေသည်။

မူဆိုလီနီသည် အာဏာသိမ်းပိုက်ပြီးနောက် အစိုးရကို အကြီးအကျယ်ပြောင်းလဲလိုက်သည်။ နိုင်ငံ၏အထွတ်အထိပ် အဖြစ် ရှင်ဘုရင်ကို ဆက်လက်ထားရှိသော်လည်း၊ တကယ့်အာဏာကိုမူကား သူ၏လက်ထဲတွင် ထားသည်။ အထက်လွှတ်တော်သည် လုံးဝအာဏာ မရှိတော့ချေ။ အောက်လွှတ်တော်ကိုမူကား "ဖက်ဆစ်ကောင်စီအဖွဲ့ကြီး"က ချုပ်ကိုင်ထားသည်။ အစိုးရအဖွဲ့ဝင် ဝန်ကြီးများမှာလည်း ဝန်ကြီးချုပ်ဖြစ်သူ မူဆိုလီနီ၏ကိုယ်စားလှယ်များ ဖြစ်ကြလေတော့သည်။ မူဆိုလီနီကိုယ်တိုင်ကလည်း ဝန်ကြီးဌာန ၈ ဌာနကို တယောက်တည်း ကိုင်ထားလေသည်။ ၁၉၃၄ ခုနှစ်တွင် တရားဥပဒေအရ အသင်းများကို အလုပ်အကိုင်အလိုက်ဖွဲ့စည်း၍ နိုင်ငံ၏စီးပွားရေးကို စီမံခန့်ခွဲသည်။ ယင်းသို့အားဖြင့် မူဆိုလီနီသည် တရားဥပဒေအရ ဖွဲ့စည်းသောအသင်းများ နိုင်ငံကို ထူထောင်လေသည်။

၁၉၂၅–၂၆ ခုနှစ်များတွင် ဆိုရှယ်လစ်၊ကွန်မြူနစ်စသော အတိုက်အခံအဖွဲ့များကို ဖြိုဖျက်ရန် ဥပဒေအမျိုးမျိုး ထုတ်လေသည်။ အကြမ်းဖက်၍လည်း နှိမ်နင်း၏။ ဆိုရှယ်လစ်၊ ကွန်မြူနစ်နှင့် ရီပတ်ဗလစ်ကင် ပါတီများကို ဖွဲ့စည်းခွင့်မပေးတော့ချေ။ အတိုက်အခံသတင်းစာများကိုလည်း ပိတ်ပစ်လေသည်။ ထိုသို့ ပိတ်ပင်ချုပ်ကိုင်မှုများ ရှိသင့်ကစား နိုင်ငံအတော်ပင် နိုးကြားတိုးတက်လာသည်မှာ မူဆိုလီနီ၏ကျေးဇူးကြောင့်ပင် ဖြစ်သည်ဟု ဆိုရချေမည်။ သူသည် တနိုင်ငံလုံးတွင် ပျံ့နှံ့နေသော လာဘ်ပေးလာဘ်ယူခြင်းများ၊ အလဟဿဖြုန်းတီးခြင်းများနှင့် ဝတ်တရား မကျေပြွန်မှုများကို ပပျောက်အောင် ဆောင်ရွက်သည်။ အလုပ်ရပ်စဲခြင်း၊ သပိတ်မှောက်ခြင်းများကို ပိတ်ပင်သည်။ စိုက်ပျိုးရေး ပါရဂူများကို လယ်သမားများထံ စေလွှတ်ညွှန်ကြား ပြသစေရာ ကောက်ပဲသီးနှံ ၂၅ ရာခိုင်နှုန်း ပိုမိုထွက်သည်။ နိုင်ငံတွင် သူ့ကိုကြည်ညိုသူ များလာသည်။ သို့သော် သူ့အား သေကြောင်း ကြံမှုများလည်း ရှိခဲ့လေသည်။ ကြံစည်မှုများ အထမမြောက်သည်နှင့် အမျှ နာမည်ကြီးကာ ကြည်ညိုသူများ လာလေသည်။

တိုင်းပြည်တွင် အာဏာရှင် ဖြစ်နေပြီဖြစ်သော မူဆိုလီနီသည် ပြည်တွင်းရေး၌သာမက ပြည်ပရေးတွင်လည်း တွင်ကျယ်စပြုတော့သည်။ ၁၉၂၃ ခုနှစ်တွင် ဂရိလူမျိုးတို့ ပိုင်သော ကောဖူးကျွန်းကိုသိမ်းရန်ကြံစည်ရာ ဥရောပအနောက်နိုင်ငံများက ကန့်ကွက်သောကြောင့် နောက်ဆုတ်လိုက်ရသည်။ ၁၉၃၅ ခုနှစ်တွင်မူ အီသီအိုးပီးယားနိုင်ငံကို တိုက်ခိုက်သိမ်းယူသည်။ ၁၉၃၆–၃၉ နှစ်များတွင် ဖြစ်ပွားသော စပိန်ပြည်တွင်းစစ်တွင်လည်း ဝင်ရောက် စွက်ဖက်လေသည်။ ဂျာမနီအာဏာရှင် ဟစ်တလာနှင့်လည်း ပူးပေါင်း၍ စာချုပ်များချုပ်ဆိုသည်။ ၁၉၃၉ ခုနှစ်တွင် အယ်လဗေးနီးယားနိုင်ငံကို သိမ်းယူသည်။ ၁၉၄၀ ပြည့်နှစ် ဇွန်လတွင် ဣတလီနိုင်ငံသည် ဒုတိယကမ္ဘာစစ်တွင် ဟစ်တလာ၏ ဖက်တော်သားအဖြစ် ပါဝင်လေတော့သည်။

ဒုတိယ ကမ္ဘာစစ်ဖြစ်စဉ် မူဆိုလီနီသည် အောင်ပွဲများခံခဲ့ရသော်လည်း နောက်နောင်တွင်ကား တဖြည်းဖြည်း အရှုံးပေးရလေသည်။ မြောက်အာဖရိကတိုက်ပွဲများတွင် ဣတာလျံတို့ ရှုံးနိမ့်ခြင်း၊ စစ္စလီကျွန်းကို မဟာမိတ်တို့ တက်ရောက်ခြင်း၊ ပြည်တွင်းအုံကြွမှုများ ပြင်းထန်လာခြင်းတို့ကြောင့် ၁၉၄၃ ခုနှစ် ဇူလိုင်လတွင် မူဆိုလီနီသည် ရာထူးမှ နုတ်ထွက်ရပြီးလျှင် အကျဉ်းချထားခြင်း ခံရလေသည်။ ထိုနှစ် စက်တင်ဘာလတွင် နာဇီလေထီးတပ်သားများက မူဆိုလီနီအား အချုပ်မှ ကယ်တင်ခဲ့ပြီးနောက် ဣတလီနိုင်ငံမြောက်ပိုင်းတွင် ဖွဲ့စည်းသော "ဖက်ဆစ်သမတ" အစိုးရ၏ ခေါင်းဆောင် အဖြစ်တင်မြှောက်လေသည်။ သို့သော် ၁၉၄၅ ခုနှစ် ဧပြီလတွင် မူဆိုလီနီနှင့် သူ၏ဇနီးတို့သည် အရေးမလှသဖြင့် နိုင်ငံမှ ထွက်ပြေးရန် ကြိုးစားနေခိုက် နောက်ဖွဲ့သည့် ဣတာလျံ အစိုးရလူများက ကိုးမိုအိုင်အနီးရှိ ရွာတရွာတွင် မူဆိုလီနီတို့ကို ဖမ်းမိပြီးနောက် ၁၉၄၅ ခုနှစ် ဧပြီလ ၂၈ ရက်နေ့တွင် အဆုံးစီရင်လိုက်ကြလေသည်။

**မူပိုင်ခွင့်။** ။စက်ကရိယာမှစ၍ ဝတ္ထုပစ္စည်း အသစ်အဆန်း တစုံတရာကို စတင်တီထွင်သူတို့သည် ပင်ပန်းခဲယဉ်းစွာ ကြံစည်စိတ်ကူးလုပ်ကိုင်ပြီးမှသာ အောင်မြင်မှု ရရှိကြလေသည်။ သို့သော် ထိုပစ္စည်းကို လူအများအသုံးပြုရန် ထုတ်ဝေရောင်းချသောအခါ တဦးတယောက်သောသူက ထိုပစ္စည်း၏ ပြုလုပ်ပုံကို တွေ့မြင်ရသဖြင့် အတုယူကာ အလားတူပစ္စည်းကို အလွယ်တကူ လုပ်ယူရောင်းချလေ့ရှိသည်။ သို့ဖြင့်

ခဲယဉ်းစွာ တီထွင်ခဲ့ရသူ မူလပညာရှင်မှာ အကျိုးခံစားခွင့်ရှိသင့်သလောက် မရှိဘဲ ဖြစ်ရတတ်သည်။ ဤသို့သော မတရားအကျိုးခံစားမှုများ မဖြစ်စေခြင်းငှါ နိုင်ငံကြီးတိုင်းမှာပင် မူပိုင်ခွင့် မှတ်ပုံတင်ရုံးများ ဖွင့်၍ မှတ်ပုံတင်ထားခြင်းဖြင့် ကာကွယ်ပေးထားလေသည်။

မူပိုင်ခွင့် မှတ်ပုံတင်ရန် လျှောက်ထားသူတို့သည် မိမိ တီထွင်သည့် ပစ္စည်း၏ အကြောင်းအရာ၊ အတိုင်းအထွာ၊ အသုံးဝင်ပုံမှစ၍ ပြည့်စုံစွာရေးသားဖော်ပြ၍ လျှောက်ထားကြရ၏။ ထိုအခါ မှတ်ပုံတင်အရာရှိများက အသစ် တီထွင်သောပစ္စည်း ဟုတ်မဟုတ်၊ လျှောက်ထားချက်နှင့် ညီမညီ တိုင်းသူပြည်သားတို့အတွက် အကျိုးရှိ မရှိ စသည်တို့ကို သေချာစေ့ငုစွာ စစ်ဆေးကြရသည်။ ထိုပြင် လွန်ခဲ့သော အနှစ် ၅၀ အတွင်းကစ၍ အလားတူပစ္စည်းမျိုးပေါ် ပေါက်ပြီး ရှိမရှိမှစ၍ အသေအချာ စမ်းသပ်ရှာဖွေ ကြည့်ရှုစစ်ဆေးကြရလေသည်။ အကယ်၍ ဥပဒေအချက်အလက်နှင့် မညီပါက မူပိုင်ခွင့် မှတ်ပုံတင်ရန် အခွင့်မပြုချေ။

ပုံစံအားဖြင့် အင်္ဂလန်နိုင်ငံ တနိုင်ငံတည်း၌ပင် တနှစ်လျှင် မူပိုင်ခွင့် မှတ်ပုံတင်ရန် လျှောက်လွှာပေါင်း ၃၀,၀၁၀ ခန့်ရှိသည့်အနက် ထက်ဝက်မျှသော လျှောက်လွှာတို့မှာ အထက်ပါစည်းကမ်းချက်များနှင့် မညီညွတ်သဖြင့် ပယ်ချခြင်းခံရလေသည်။ လျှောက်လွှာ၌ အရေးကြီးသော အချက်ကြီး ၂ ချက်ရှိရာ၊ ပဌမအချက်မှာ ပင်ကိုယ်ဉာဏ်ဖြင့် တီထွင်ခြင်း ဟုတ်မဟုတ်ဖြစ်၍၊ ဒုတိယအချက်မှာ ရှိပြီးတီထွင်မှုများ အပေါ်တွင် အကယ်ပင် အသုံးဝင်အကျိုးရှိလောက်အောင် ထပ်လောင်းတီထွင်ခြင်း ရှိမရှိဟူသောအချက်ဖြစ်လေသည်။ ဥပဒေနှင့် ညီညွတ်ကြောင်း သိရှိကျေနပ်သောအခါ ကန့်သတ်ထားသော အခကြေးငွေပေးဆောင်စေပြီးလျှင် မှတ်ပုံတင်လက်မှတ်ကို ထုတ်ပေးလေသည်။ ဤမူပိုင်ခွင့်လက်မှတ်ကို ရရှိသူသည် တဦးတည်းလုပ်ကိုင်ရောင်းချခွင့်မူကို ၁၆ နှစ်တိုင်တိုင် အကျိုးခံစားခွင့် ရှိလေသည်။ ၁၆ နှစ်ကျော်လွန်သောအခါတွင်မူကား အခြားသူများလည်း အလားတူလုပ်ကိုင်ရောင်းဝယ်ခွင့် ရရှိလေသည်။ သို့သော် တီထွင်သူ တဦးသည် ထို ၁၆ နှစ်အတွင်း အကျိုးခံစားခွင့် ရှိသင့်သလောက် အကျိုးမရှိကြောင်းဖြင့် လုံလောက်စွာ အကြောင်းပြ၍ လျှောက်ထားပါက နောက်ထပ် ၇ နှစ်ဆက်လက်၍ မူပိုင်ခွင့်ကို ထုတ်ပေးနိုင်လေသည်။

မူပိုင်ခွင့်ရသူသည် မိမိ၏အခွင့်အရေးကို အခြားသူ တဦးဦးသို့ တဆင့်ရောင်းချပိုင်ခွင့် ရှိလေသည်။ ဤသို့ အခွင့်ရသူက မူပိုင်ရှင်အား နှစ်ဦးနှစ်ဝ ကျေနပ်သော အဖိုးနှုန်းထား၊ အခကောက်အစားကို ပေးရလေသည်။

**မူရီလျို**။ ။မျူရီလို့ဗီအီ — ရှု။

**မူလနက္ခတ်**။ ။နက္ခတ် ၂၇ လုံး — ရှု။

**မူးမြစ်**။ ။“ရေမမြင်ဘူး မူး မြစ်ထင်”ဟူသောစကားပုံကို လူအများပင်ကြားဘူးကြပေသည်။မူးမြစ်သည်ဧရာဝတီမြစ်၏လက်တက်ငယ်ဖြစ်၍ မိုင် ၁၇၀ ခန့်ရှည်၏။ ရှေးအခါက မူးမြစ်တလျှောက် မိုးအခါတွင် လှေငယ်များသွားလာနိုင်၍ သစ်ဖောင်များ မျှောရန် အသုံးပြုသော်လည်း၊ ယခု တူးမြောင်း ရေလွှဲဆည်များ ပြုလုပ်ပြီးဖြစ်၍ လှေငယ်များ မသွားလာတော့ပေ။ ဖောင်များကိုမူ မျှောပေသေးသည်။ ယခုအခါ မူးမြစ်သည် လယ်ယာစိုက်ပျိုးရေးအတွက် ရေပေးသွင်းရန် အသုံးဝင်၍ အရေးပါလေသည်။

မူးမြစ်သည် ကသာခရိုင် ဗန်းမောက်မြို့နယ် အနောက်တောင်ပိုင်းမှ စတင်ပြီးလျှင် မြောက်မှသည် တောင်ဖက်သို့ စီးဆင်းသည်။ သို့သော် ကသာခရိုင်အတွင်းရှိ မူးမြစ်တလျှောက်၌ ယခင်အခါကပင် ကူးသန်းသွားလာခြင်း မရှိခဲ့ပေ။ မူးမြစ်သည် ကသာခရိုင်မှ ကျော်လွန်လေသော် ရွှေဘိုခရိုင်တွင်းသို့ရောက်ကာ အလယ်မှ ဖြတ်သန်း သွားပြီးလျှင် စစ်ကိုင်းခရိုင်တွင်းသို့ စီးဆင်းလေရာ စစ်ကိုင်းနယ်နှင့် မြင်းမူနယ်တို့ကို နယ်နိမိတ်ပိုင်းခြားသတ်မှတ်ထားသကဲ့သို့ ရှိနေပေသည်။ မြင်းမူမြို့အနီးတွင် ဧရာဝတီမြစ်တွင်းသို့ လက်ျာဖက်မှ စီးဝင်ပေါင်းဆုံသည်။

မူးမြစ်သည် ရေစီးကြောင်း တလျှောက်လုံး၌ ရေစီးသန်ပေသည်။ အကွေ့အကောက်လည်း များသည်။ နွေအခါတွင် ရေခန်းခြောက်သောအခါ၊ချောင်းသာသာ မြစ်ကလေးမျှဖြစ်သော်လည်း မိုးရာသီတွင် ရေဒလဟော စီးဆင်းသည်။ မူးမြစ်၏ အောက်ခင်းသည် ကိုင်းပြတ်ငုတ်တို ပေါများပြီးလျှင်သဲသောင်လည်း ရှိသည်။

မြန်မာမင်းများ လက်ထက်က မူးမြစ်မှရေကိုဆည်မြောင်းများဖြင့် သွယ်ယူကာ လယ်ယာစိုက်ပျိုးစေခဲ့သည်။ သို့သော် မပြင်နိုင်လောက်အောင် ပျက်စီးသွားပြီဖြစ်၍ ဆက်လက်အသုံးမပြုကြတော့ပေ။ မူးဟောင်းဟု ယခုတွင်သည်။

၁၉၀၆ ခုနှစ်တွင် အင်္ဂလိပ် အစိုးရသည် ရွှေဘိုတူးမြောင်းကို ဖောက်လုပ်သည်။ ၁၉၁၁ ခုနှစ်တွင် ရေဦးတူးမြောင်းကို ဖောက်လုပ်သည်။ ဤတူးမြောင်း ၂ ခုအတွက် ကဘိုရေလွှဲဆည်မှတဆင့် မူးမြစ်ရေများကိုလွှဲပြောင်းပေးသောကြောင့် မြစ်၏ ကမ်း ၂ ဖက်လုံးရှိ လယ်မြေအများကို ရေသွင်း ပေးနိုင်ခဲ့ပေသည်။ (ကဘို ရေလွှဲဆည် — ရှု။) တူးမြောင်းရေသောက် ဧရိယာ ကေပေါင်းမှာ ၃၁၃,၀၀၀ ခန့် ဖြစ်သည်။ ထို့ကြောင့် မူးမြစ်သည် ရွှေဘိုတူးမြောင်း၊ ရေဦးတူးမြောင်းတို့ကို ရေပေးသွင်းရာ၌ အရင်းခံဖြစ်ခြင်းကြောင့်သာလျှင် ယခုအခါ အရေးပါတော့သည်။ ရှေးအခါကကဲ့သို့ ကူးသွယ်ရာ၌ အရာမရောက်တော့ပေ။ မူးမြစ်အောက်ဖက်

ပိုင်း ကမ်းပါး တဖက်တချက်တွင် မိုးအခါ၌ မြစ်ရေလွှမ်း တင်နေတတ်သည့် 'မူးတိမ်' များရှိသည်။ ယင်းတို့ကို အမှီပြု၍ မုယင်းစပါးစိုက်ပျိုးလေသည်။ ရွှေဘိုခရိုင်အတွင်း မူးမြစ်၏ လက်ျာဖက်ကမ်းပေါ်တွင် ရေဦးမြို့ တည်ရှိသည်။

**မူးဝါးလူမျိုး။** ။အာဖရိကတိုက် အနောက် မြောက်ဖက် မြေထဲပင်လယ် ကမ်းခြေတလျှောက်၊ ယခုအခါ မိုရော့ကို၊ တျူနစ်ဇီးယားနှင့် အယ်လဂျီးရီးယားဟု ခေါ်တွင်သော ဒေသကို ရှေးအခါက ဗာဗရီနယ်များဟုခေါ်တွင်၏။ ထိုဗာဗရီနယ်တွင် နေသူများကို ဗာဗာလူမျိုးဟုခေါ်၏။ မူးဝါးလူမျိုးတို့သည် ယင်းဗာဗာလူမျိုး အုပ်စုကြီးတွင် အပါအဝင်ဖြစ်လျက် ယင်းတို့မှ ဆက်နွယ်ပေါက်ဖွားလာသူများ ဖြစ်၏။ ဗာဗရီနယ်တွင် အပါအဝင်ဖြစ်၍ ယခုအခါ မိုရော့ကိုဟုခေါ်သောဒေသကို ရှေးက မော်ရီတီးနီးယားဟု ခေါ်တွင်လျက် ယင်းအမည်မှာလည်း ရောမလူမျိုးတို့ မှည့်ခေါ်သော အမည် ဖြစ်၏။ မော်ရီတီးနီးယားတွင် နေထိုင်သူတို့ကို ရောမလူမျိုးတို့က မောရီဟုခေါ်၏။ မူးဝါးဟူသော စကားသည် ယင်းစကားမှပျက်လာသော စကားဖြစ်သည်။ ကာလ ရွေ့လျောလတ်သော် အာဖရိက အနောက်မြောက်ပိုင်းတွင် နေထိုင်လျက် အစ္စလမ် အယူဝါဒီများဖြစ်၍ အာရဗီစကား ပြောဆိုသူ မှန်သမျှကို မူးဝါးဟူ၍ ခေါ်ဝေါ် လာသည်မှာ ယခုဘိုင်ဖြစ်၏။

၇ ရာစုနှစ်အတွင်းက အာရပ်လူမျိုးတို့သည် အာဖရိကတိုက်မြောက်ပိုင်းသို့ နယ်ချဲ့ယင်း ရောက်ရှိလာပြီးလျှင် ဗာဗာလူမျိုးတို့နှင့် တွေ့ဆုံမိကြသည်။ အာရပ်တို့သည် လူနည်းစုပင် ဖြစ်သော်လည်း လူများစုဖြစ်သော ဗာဗာတို့ကို မိမိတို့ကိုးကွယ်ရာဖြစ်သော အစ္စလမ်အယူဝါဒတွင်းသို့ တဖြည်းဖြည်း သွတ်သွင်း၏။ အာရပ်နှင့် ဗာဗာတို့သည် ပူးပေါင်း၍ စပိန်နိုင်ငံတွင်းသို့ ဝင်ရောက်တိုက်ခိုက် သိမ်းပိုက်သည်။ ထိုလူမျိုး နှစ်စုတို့ သွေးနှောကာ ပေါက်ဖွားလာသူတို့သည် မူးဝါးဟူ၍ တွင်လာ၏။

မူးဝါးလူမျိုးတို့သည် နီးဂရိုး ဖြစ်သည်ဟု အချို့က ထင်မှတ်မှားကြ၏။ အမှန်မှာ မူးဝါးလူမျိုးတို့သည် တင့်တယ်ပြေပြစ်သော အဆင်းရှိ၏။ ဆံပင်နက်မှောင်၍ မျက်လုံးညိုကာ အသားညိုပြီးလျှင် မြေထဲပင်လယ်သားဟု ခေါ် အပ်သောလူမျိုးစုတွင် ပါဝင်ရာ၊ လူဖြူမျိုးဖြစ်သည်မှာထင်ရှားပေသည်။

မူးဝါးလူမျိုးတို့သည် အလယ်ခေတ်တွင် ထင်ရှားခဲ့၍၊ ယဉ်ကျေးမှုအရာ၌ အထွတ်အထိပ်သို့ ရောက်ခဲ့၏။ မူးဝါးယဉ်ကျေးမှုဟု ဆိုရသော်လည်း တစိတ်တဒေသအားဖြင့်ကား အာရပ်ယဉ်ကျေးမှုပင် ဖြစ်၏။ စပိန်နိုင်ငံတွင် မူးဝါးလူမျိုးတို့၏ ရှေးဟောင်းအနုပညာ လက်ရာကောင်းများကို ယခုတိုင် တွေ့နိုင်ပေသေးသည်။ (စပိန်နိုင်ငံ။ စပိန် အနုပညာ—လည်းရှု။)မူးဝါးလူမျိုးတို့သည် စပိန်နိုင်ငံကို နှစ်ပေါင်း ၅၀၀ ခန့်အုပ်စိုးခဲ့၍ ကော်ဒိုးဗားကို အစိုးရသော ကဲလစ်ဘုရင် လက်ထက်တွင် အထွတ်အထိပ်သို့ ရောက်ရှိခဲ့၏။ နှစ်ပေါင်း များစွာပင် ကော်ဒိုးဗားသည် အနောက် ဥရောပတိုက်၌ အကြီးဆုံးမြို့ ဖြစ်ခဲ့သည်။

ခရစ် ၁၂၁၂ နှစ်မှစ၍ မူးဝါးတို့ အင်အား ဆုတ်ယုတ်နေခဲ့ပြီဖြစ်သော်လည်း စပိန်ဘုရင် ဖာဒီနန်နှင့် အဇ္ဇဗဲလားမိဖုရားတို့လက်ထက် ၁၄၉၂ ခုနှစ်ဘွင်မှ အပြီးတိုင် တိုက်ခိုက်အောင်မြင်သည်။ မူးဝါး အမြောက်အမြားပင် အာဖရိကတိုက် မြောက်ပိုင်းသို့ တိုက်ထုတ်ခြင်း ခံရ၏။ စပိန်နိုင်ငံတွင် ကျန်ရစ်သူတို့အား စပိန်လူမျိုးတို့က မောရစ္စတိုဟု ခေါ်၏။ အာဖရိကတိုက်သို့ ပြန်ရောက် သွားသူတို့ကိုမူ အဒန်လျူရှန် ဟုခေါ်ကြလေသည်။

**မေ့ဆေးထုန်ဆေး။** ။လွန်ခဲ့သည့် နှစ်ပေါင်း တရာကျော်လောက်က သွားနုတ်လိုလျှင် ဖြစ်စေ၊ ကိုယ်အင်္ဂါ အစိတ်အပိုင်းတခုခုကို ခွဲစိတ်ကုသလိုလျှင်ဖြစ်စေ လူကို ခုတင်ပေါ်တွင် တင်၍ သားရေပတ်များဖြင့် မလှုပ်မရှားနိုင်အောင် ကျပ်တည်းစွာ စည်းထားပြီးမှ ခွဲစိတ်ကုသကြရလေသည်။ ထိုအခါက မေ့ဆေးမပါဘဲ အစိမ်းသက်သက် ခွဲစိတ်ကုသရသဖြင့် လူနာမှာသတိရလျက်ပင် နာကျင်ခြင်းဝေဒနာကို မခံမဆန့်ခံစားရရှာသည်။ အချို့လူနာများမှာ ရောဂါပျောက်ကင်းကြသော်လည်း များသောအားဖြင့်ကား ခွဲစိတ် ကုသခြင်း၏ ဒဏ်ကို မခံမဆန့်ခံစားယင်းပင် အသက်ဆုံးရှုံးကြရလေသည်။ ဤသည်ကား မေ့ဆေးမပေါ်မီခေတ်က တွေ့ကြုံခံစားခဲ့ကြရသော ဒုက္ခများပင်တည်း။

မေ့ဆေးပေါ်လာသော ယခုခေတ်၌ကား ခွဲစိတ်ကုသရာ၌ လူများသည် နာကျင်ခြင်းဝေဒနာကို အနည်းငယ်မျှ မခံစားရဘဲ ရာခိုင်နှုန်းပြည့်အသက်ချမ်းသာမှုရရှိကြလေသည်။ မေ့ဆေးကို ခွဲစိတ်ကုသရာ၌ အသုံးပြုရန် ပဌမဆုံး အကြံပေးခဲ့သူမှာ နာမည်ကျော် ဗြိတိသျှဓာတုဗေဒပညာရှင် ဆာဟမ်ဖရီဒေဗီအမည်ရှိ ပုဂ္ဂိုလ်ကြီးဖြစ်သည်။ ၁၈၀၀ ပြည့်နှစ်တွင် ဆာဟမ်ဖရီဒေဗီက နိုက်ထရပ်အောက်ဆိုက်ခေါ် "ရယ်စေတတ်သော ဓာတ်ငွေ့" ကို ခွဲစိတ်ကုသရာ၌ အသုံးပြုရန် အကြံပေးခဲ့သည်။ သို့သော် သူ၏ အကြံပေးချက်ကို မည်သူမျှ ဂရုမပြုခဲ့ကြချေ။ ၁၈၁၈ ခုနှစ်၌ တဖန် ဗြိတိသျှသိပ္ပံပညာရှင်တဦးဖြစ်သူ မိုက်ကယ် ဖာရဒေးက အီသာဓာတ်ငွေ့တွင် နိုက်ထရပ် အောက်ဆိုက်မှာကဲ့သို့ အလားတူ မေ့ဆေး ဂုဏ်သတ္တိများရှိကြောင်း ပြသခဲ့ဘူးလေသည်။ သို့သော် လက်တွေ့အားဖြင့် အသုံးမပြုခဲ့ပေ။

မေ့ဆေးကို ခွဲစိတ်ရာ၌ ပဌမဆုံး လက်တွေ့ အသုံးပြုခဲ့သူမှာ အမေရိကန်လူမျိုးထဲမှ ဖြစ်သည်။ ၁၈၄၂ ခုနှစ်တွင်

အမေရိကန် ပြည်ထောင်စုနိုင်ငံ၊ ဂျော်ဂျီယား ပြည်နယ်မှ ဒေါက်တာ စီ ဒဗျူ လောင်းအမည်ရှိ ဆရာဝန်တဦးသည် အီသာကို အသုံးပြု၍ လူနာတဦး၏ အသားပိုကို အောင်မြင်စွာ ခွဲထုတ်နိုင်ခဲ့လေသည်။ သို့သော် ဒေါက်တာလောင်းသည် သူ၏ အောင်မြင်မှုကို ၁၈၄၉ ခုနှစ်တိုင်အောင် ထုတ်ဖော်မပြောခဲ့ပေ။ ၁၈၄၄ ခုနှစ်တွင် တဖန် အမေရိကန်နိုင်ငံ ကွန်နက်တီကတ်ပြည်နယ် ဟတ်ဖို့မြို့မှ ဒေါက်တာ ဟိုးရေ့ဝဲ အမည်ရှိ သွားကုဆရာဝန်တဦးသည် နိုက်ထရပ်အောက်ဆိုက်ဓာတ်ငွေ့ကို အသုံးပြု၍ လူနာတဦး၏သွားကို မနာမကျင်ဘဲ နုတ်ယူနိုင်ခဲ့လေသည်။ ထိုအချိန်မှစ၍ မေ့ဆေးများ၏ အသုံးဝင်ပုံကို သိရှိလာကြသည် အလျောက် ဆက်ကာဆက်ကာ အသုံးပြုလာကြလေသည်။ အီသာနှင့် နိုက်ထရပ်အောက်ဆိုက်ဓာတ်ငွေ့တို့အပြင် ၁၈၄၇ ခုနှစ်၌ အက်ဒင်ဗာရာမြို့မှ စကော့လူမျိုး ဆာဂျိမ်း ဆင်မဆင်ဆိုသူ ပဂ္ဂိုလ်တဦးက ကလိုရိုဖောင်းမေ့ဆေးကို ပဌမဆုံး တွေ့ရှိခဲ့လေသည်။ အစပဌမ၌ အကြောင်းအမျိုးမျိုးတို့ကြောင့် ကလိုရိုဖောင်းမေ့ဆေး အသုံးပြုခြင်းကို ကန့်ကွက်ခဲ့ကြသည်။ သို့ရာတွင် ဝိတိုရိယဘုရင်မကြီးကိုယ်တိုင် မီးဖွားရာ၌ ကလိုရိုဖောင်းကို အသုံးပြုပြလိုက်သောအခါ မေ့ဆေးသုံးစွဲခြင်းမှာ ခေတ်စားလာလေသည်။

အီသာဓာတ်ငွေ့သည် အလွန်ထက်မြက်သော မေ့ဆေးဖြစ်သော်လည်း ဆရာဝန်များသည် အသေးအဖွဲ ခွဲစိတ်ခြင်းများအတွက် အက်သလိန်း၊ ဆိုင်ကလိုပရိုပိန်း ဓာတ်ငွေ့များကိုလည်း အသုံးပြုကြသေးသည်။ မေ့ဆေးအဖြစ် အသုံးပြုရာ၌ ရှူသွင်းရသော ဤဓာတ်ငွေ့များ အပြင် ပါးစပ်မှ မျိုရသော အခဲမေ့ဆေးများလည်းရှိ၏။ ယင်းတို့မှာ ဖီနိုဗာဗီတဲ၊ အမ်မီတဲ၊ ပင်တိုဗာဗီဘဲ နှင့် အီဗီပဲ တို့ဖြစ်ကြသည်။ ယင်းတို့ကို ထိုးဆေးအဖြစ်ဖြင့်လည်း အသုံးပြုနိုင်သည်။

မေ့ဆေးများ ဆက်ကာဆက်ကာပေါ်လာပြီးသည့်နောက် ထုန်ဆေးဟူ၍လည်း ပေါ်လာပြန်သည်။ မေ့ဆေးကို အသုံးပြုလိုက်သည့်အခါ လူသည် အိပ်ပျော်သွားပြီးလျှင် တကိုယ်လုံး ဘာမျှမသိ၊ သတိမရတော့ဘဲ ခွဲစိတ်မှုကို မသိတော့ပေ။ သို့သော် ထုန်ဆေးကို ထိုးလိုက်သောအခါ ဆေးထိုးထားသည့် နေရာတဝိုက်၌သာ ထုန်သွား၍ အခြားနေရာများ၌ကား ပကတိအတိုင်းပင် နာကျင်မှု ရှိလေသည်။ ထုန်သွားသော နေရာတဝိုက်တွင် ခွဲစိတ်၍နေသော်လည်း လူနာတွင် နာကျင်မှု အနည်းငယ်မျှမရှိ၊ သတိရှိလျက် ခွဲစိတ်မှုကိုပင် ကြည့်ရှုနေနိုင်သည်။ထုန်ဆေးများကား ကိုကိန်း(ကိုကင်း)၊ နိုဗို့ကိန်း၊ယူကိန်း၊ မီတီကိန်း၊ ပွန်တိုကိန်း၊ နူပါကိန်းတို့ဖြစ်ကြသည်။ ဤဆိုးဆေးများသည် ထိုးလိုက်သည့် နေရာရှိ နာဗ်ကြော အားလုံးကို ထုန်ထိုင်းသွားစေသည်။ အခြား ထုန်ဆေးတမျိုးမှာ အက်သဲကလိုရိုက် ဆေးရည်ဖြစ်၍ အနာဘဝိုက်တွင် ယင်းဆေးရည်ကို မှုတ်ပေးလိုက်သည့်အခါ ထုန်သွားလေသည်။

ကျောရိုးထိုး ထုန်စေသည့် နည်းတနည်း ရှိသေး၏။ ထိုနည်းတွင် ထုန်ဆေးကို ကျောရိုးနာဗ်ကြောတဝိုက် တနေရာတွင် ထိုးလိုက်သည့်အခါ ဆေးထိုးလိုက်သည့်နေရာ အောက်ပိုင်းတခုလုံးသည် လုံးလုံးထုန်သွားသော်လည်း လူနာကား သတိရလျက် ရှိနေသည်။ ဤထိုးဆေးမျိုးကို ဝမ်းပိုက်ခွဲသည့်အခါနှင့် ကိုယ်အောက်ပိုင်း၌ ခွဲစိတ်သည့် အခါများတွင် သုံးသည်။ မြီးပွားထုန်ဆေးဟု ခေါ်သောထုဆေးကို မီးဖွားရာ၌ ကျောရိုး နာဗ်ကြောတွင် ထိုးပေးလျှင် မနာမကျင် လွယ်ကူစွာ သားဖွားနိုင်လေသည်။

**မေထေးလူမျိုး။** ။ကသည်းလူမျိုး — ရှု။

**မေဒေးနေ့။** ။ကမ္ဘာ့အလုပ်သမားနေ့ — ရှု။

**မေပယ်ပင်။** ။ရုက္ခဗေဒ အလိုအားဖြင့် မေပယ်ပင်သည် အေဆာရေးစီအီး မျိုးရင်းတွင် ပါဝင်သည်။ မေပယ်ပင်မျိုးပေါင်း ၁၀၀ ခန့်မျှရှိရာ အားလုံး၏ မူလပေါက်ရာ အရပ်မှာ မြောက်သမပိုင်းဇုန် ဒေသများဖြစ်သည်။ မေပယ်ပင်တွင် စိမ်းလန်းသော အရွက်များဖြင့် အုပ်အုပ်ဆိုင်းဆိုင်းရှိသောကြောင့် နွေအခါ၌ အေးမြသော အရိပ်အာဝါသရသည်။ သို့သော် ဆောင်းကူးရာသီသို့ ရောက်သည်နှင့် အစိမ်းရင့်ရောင်ရှိသော ထိုအရွက်များသည် အနီရဲရဲနှင့် တောက်ပသော အဝါရောင်များသို့ ပြောင်းသွားသဖြင့် အထူးပင် ကြည့်ကောင်းလှပေသည်။ မေပယ်ရွက်များ အားလုံးသည် အစုံအစုံရွက်ချင်းဆိုင်၍ ပေါက်ကြသည်။ အရွက်များသည် ပြား၍ ကျယ်ပြန့်ပြီးလျှင် လက်ဝါးပုံကဲ့သို့ ရွက်ကြောများနှင့် ရွက်ခြားများရှိသည်။ အရွက်တရွက်တွင် ရွက်ခြား ၃ ခုမှ ၇ ခုအထိ ရှိသည်။ မေပယ်သီးများသည် စက္ကူပြားတောင်ပံကဲ့သို့ တောင်ပံ ၂ ခုဖြင့် သီးရာ တောင်ပံတခု၏ အရင်းတွင် အစေ့တစေ့စီပါရှိ၍ တစုံစီ သီးကြသည်။

ဗြိတိန်နိုင်ငံတွင် အများဆုံး တွေ့ရသော မေပယ်ပင် ၂ မျိုးမှာ ရုက္ခဗေဒအမည်အားဖြင့် အေဆာစူဒိုပလက်တာနပ်ဟု ခေါ်သော ဆစ်ကမိုးမေပယ်ပင်နှင့် အေဆာ ကမ်ပက်စတာဟု ခေါ်သော ကွင်းတွင်ပေါက်သည့် မေပယ်ပင်တို့ ဖြစ်ကြသည်။ ကွင်းမေပယ်ပင်မျိုးသည် အခြားမေပယ်ပင်များကဲ့သို့ အရွက်များရှိသော်လည်း အပင်ကြီးမျိုး မဟုတ်ချေ။ ခြံစည်းရိုး အပင်အဖြစ် စိုက်လေ့ရှိကြသည်။ရုက္ခဗေဒအမည်အားဖြင့် အေဆာ ပလက်တာနွိုက် ဟုခေါ်သော နော်ဝေး မေပယ်ပင်နှင့် အေဆာ နီဂန်းဒိုး ဟု ခေါ်သော အခြား မေပယ်ပင်မျိုးကိုလည်း တွေ့ရသည်။

မြောက်အမေရိကတိုက်တွင် အများဆုံးတွေ့ရသော မေပယ်ပင်မျိုးမှာ သကြားမေပယ်ပင်မျိုးဖြစ်၍ ရုက္ခဗေဒအမည်အားဖြင့် အေဆာ စက်ကရမ်းဟုခေါ်သည်။ ဤမေပယ်ပင်မျိုးသည် ပေ ၇၀ မှ ၁၂၀ ထိမြင့်၍ နျူးဖေါင်းလန်းကျွန်းမှ မနီတိုးဗားပြည်နယ်အထိဝင်း၊ အက်ပလက်ချီယန်တောင်တန်းတလျှောက်မှ ဂျော်ဂျီးယား ပြည်နယ်အထိဝင်း ပေါက်ကြသည်။ သကြားမေပယ်ပင်မှ မေပယ်သကြားရသည်သာမက အိမ်ထောင်ပရိဘောဂအတွက် အကောင်းဆုံးသစ်များကိုလည်း ရသည်။ အခြား အမေရိကန်မေပယ်ပင်မျိုးမှာ ရုက္ခဗေဒအမည်အားဖြင့် အေဆာ စက်ကရီးနမ် ဟုခေါ်သော ငွေရောင်မေပယ်နှင့် အေဆာ ရူဗရမ်ဟုခေါ်သောအနီနှင့်ကြက်သွေးရောင်မေပယ်ပင်များဖြစ်ကြသည်။ ချစ်စဖွယ် ဂျပန် မေပယ်ပင်များကိုလည်း တွေ့ရသည်။ ကနေဒါနိုင်ငံတွင် ခရစ် ၁၈၆၀ ပြည့်နှစ်မှစ၍ မေပယ်ရွက်ကို အမျိုးသား အမှတ်တံဆိပ်အဖြစ်ဖြင့် အသုံးပြုခဲ့ကြသည်။

မာ၍ အသားကျစ်သော သကြားမေပယ်သားသည် အလွန်ကောင်းသဖြင့် အကောင်းစား အိမ်ထောင်ပရိဘောဂများနှင့် သစ်အချောဆက် လုပ်ငန်းများတွင် များစွာ အသုံးပြုကြသည်။ ငှက်မျက်စိကဲ့သို့ အမျက်များ ပါသော သကြားမေပယ်သားကို အိမ်ထောင် ပရိဘောဂ အတွက် မံလွှာများအဖြစ် ခွဲစိတ်ကြသည်။

အားလုံးသော မေပယ်ပင်များတွင် ပင်ချိုရည်ရှိကြသော်လည်း သကြားမေပယ်ပင်မှ ရသော အချိုရည်သည် အကောင်းဆုံးဖြစ်သည်။ ကနေဒါနှင့် အမေရိကန်ပြည်ထောင်စုတွင်ရောင်းချသောသကြားနှင့် အချိုရည်အားလုံးလောက်သည် ထိုပင်ချိုရည်မှ ရခြင်းဖြစ်သည်။ မေပယ်သကြားလုပ်ငန်းသည်အမေရိကန်ပြည်ထောင်စုအရှေ့မြောက်ဒေသများနှင့် အနီးတဝိုက်ရှိ ကနေဒါနိုင်ငံပြည်နယ်များ၌သာ စီးပွားရေးအရ ကြီးကျယ်သည်။ အဘယ်ကြောင့်ဆိုသော် နွေကူးရာသီတွင် သစ်ရည်များများထွက်ရန် ရာသီဥတုသည် ရေခဲသည်အထိအေးလိုက်၊ နှင်းခဲအရည်ပျော်လောက်သည်အထိ ပူလိုက်နှင့် တလှည့်စီ အေးလိုက်နွေးလိုက် ဖြစ်နေရပေမည်။ တချိန်လုံး ဆက်၍ အေးနေလျှင်သော်၎င်း၊ နွေးနေလျှင်သော်၎င်းသစ်ရည်အထွက်ရပ်သွားတော့၏။သကြားမေပယ်ပင်သည် ကြီးခဲသောအပင်မျိုးဖြစ်သည်။ အပင်သက်အနှစ် ၄၀ မပြည့်မီအတွင်း သစ်ရည်ကောင်းကောင်း မထွက်ချေ။ အပင်သက် ၈၀ ကျော်ပြီးသောအခါတွင်ကား သစ်ရည်အများဆုံး ထွက်တော့၏။ နွေကူးရာသီစသည်နှင့် သစ်ရည်များ စထွက်ရာ ရက်သတ္တ ၃ ပတ်ခန့်အထိ ထွက်နေလေသည်။ သကြားမေပယ်ပင် တပင်လျှင် သစ်ရည် ၁၀ ဂါလံ ပျမ်းမျှ ထွက်၏။ ကျိုလိုက်သည့်အခါ အချိုရည်တဂါလံ ၄ ပုံ ၁ ပုံ၊ သို့မဟုတ် သကြား ၂ ပေါင်ခန့် ရလေသည်။

နွေကူးရာသီ စလျှင်စခြင်း အလုပ်သမားများသည် မေပယ်တောထဲသို့ ရောက်နှင့် နေကြပြီးလျှင် အသင့်စောင့်နေကြရသည်။ တရက်နှစ်ရက် နောက်ကျသွားလျှင်ပင် အတော် ဆုံးရှုံးမှုရှိတတ်သည့်ပြင် ပဌမရက်အနည်းငယ်အတွင်း လောက်သာ အချိုဆုံးသစ်ရည် ထွက်လေသည်။ ညများသည် သာယာအေးမြ၍ နေ့ဖက်၌ နွေး၍ နေရောင်ဖြင့် ထွန်းပနေစဉ် အလုပ်သမားများသည် ရက်သတ္တ ၃ ပတ် ၄ ပတ်မျှ သကြားချက်စခန်းတွင် နံနက်အရုဏ်တက်မှ မိုးချုပ်နေဝင်သည်တိုင်အောင် အလုပ် လုပ်ကြရသည်။

သစ်ရည်ခံရာ၌ သစ်ပင် မနာရအောင် အထူးဂရုပြုရ၏။ သစ်ရည်ခံရန် အပေါက်မဖောက်မီ ဖောက်မည့်နေရာ ပင်စည်တဝိုက်တွင် အညစ်အကြေးနှင့် အခေါက်ကလေးများ စင်သွားအောင် ပွတ်တိုက်လိုက်ရသည်။ မြေကြီးမှ ၃ ပေခွဲ၊ သို့မဟုတ် ၄ ပေလောက်အမြင့်တွင် ပင်စည်၌ အချင်းလက်မ သုံးမူးခန့်လောက် အပေါက်တပေါက်ကို လွန်ကောက်ဖြင့် အနက်တလက်မခွဲခန့် အပေါ်သို့ ခပ်စောင်းစောင်း ဖောက်ရ၏။ ဖောက်ပြီးသော အပေါက်တွင် သတ္တုရေတံလျှောက်တခုကို ရိုက်သွင်းလိုက်၏။ ရေတံလျှောက်အဖျားတွင် သစ်ရည်ခံသည့် ပုံးတပုံးကို ချိတ်ဆွဲထားရာ သစ်ရည်သည် တဖြည်းဖြည်း စီးဆင်းလာလေသည်။ ယခုခေတ်တွင် အချို့မေပယ်တောများ၌ သစ်ရည်ခံသည့် ပုံးအစား သံဖြူဖြင့် လုပ်သော ပြွန်တံများ တပ်ဆင်ထားလေသည်။ နှစ်စဉ်နှစ်တိုင်း သစ်ရည်ခံရာ၌ အပေါက်များကို တနေရာတည်း မဖောက်ဘဲ နေရာအမျိုးမျိုး လွှဲ၍ဖောက်ရသည်။ သို့မှသာ



မြောက်ဖက် သမပိုင်းဒေသတွင် ပေါက်လေ့ရှိသော မေပယ်ပင်၏ အရွက်များ

နောက်တနှစ်တွင် ယခင်ဖောက်ခဲ့သည့်နေရာ၌အခေါက်များ ဖုံးသွားကာ အပေါက်ပိတ်သွားလေသည်။

သစ်ရည်ကို ကျိုလိုက်သည့်အခါ အချိုရည်ဖြစ်လာသည်။ အချိုရည် ပြုလုပ်ရာ၌ ပဌမ သစ်ရည်များကို သံဒယ်ကြီးများထဲသို့ လောင်းထည့်၍ အချိုရည် ဖြစ်လာသည့်တိုင်အောင် ယောက်ခွက်များဖြင့် တဒယ်မှတဒယ်သို့ ပြောင်းခပ်ပေးရသည်။ သကြားချက်လိုသည့်အခါ အချိုရည်ကို တဖန် ကျိုရပြန်သည်။ မေပယ်ပင် ၂,၀၀၀ ကျော်ကျော် ခန့်ရှိသော ခြံကြီးများတွင် သစ်ရည်ကို စခန်းတွင် မကျိုချက်ဘဲ စက်သို့ယူလာ၍ ချက်ကြသည်။ အချိုရည် ဖြစ်လာသည်နှင့် ချက်ခြင်း စည်သွတ်၍ ပိတ်ရသည်။ သို့မဟုတ်က ဗက်တီးရီးယားများဝင်လာပြီးလျှင်ချဉ်သွားတတ်သည်။ သကြားအဖြစ်ထိ ချက်သည့်အခါ၌ သံဖြူဗူးများနှင့်ထည့်၍ သင်္ဘောဖြင့် တင်ပို့ကြလေသည်။



မေ ၂၀၀ ကျော်မြင့်သည့် မေမြို့ အနီးစခန်း ရေတံခွန်ကြီး

**မေမြို့။** ။ရှေးအခါက ပြင်ဦးလွင် ဟူ၍ တွင်လျက် ယခု မေမြို့ဟုခေါ်ကာ ကဗျာဆန်၍ နှယဉ်သော အမည်ဆောင်သည့်မြို့သည် ရာသီဥတု အေးချမ်းသာယာ၍ အထူးသဖြင့် နွေရာသီတွင် လူအများ အပူရှိန်မှ လွတ်ကင်းရာ လွတ်ကင်းကြောင်း အနားယူ အပန်းဖြေရာမြို့အဖြစ် နာမည်ထင်ရှားပေသည်။ ရှေးဗြိတိသျှ အစိုးရလက်ထက်က နွေရာသီတွင် ဘုရင်ခံနှင့် အစိုးရအရာရှိကြီးများသည် မေမြို့သို့ တက်ကြသည်။ မေမြို့သည် ဗြိတိသျှတို့လက်ထက်က ပြုပြင်ထားသော တောင်စခန်းမြို့တခု ဖြစ်၏။

မေမြို့သည် မန္တလေးခရိုင်တွင် ပါဝင်သော မေမြို့နယ်၏ ရုံးစိုက်မြို့ဖြစ်သည်။ မန္တလေးမြို့ အရှေ့ဖက်ရှိ အမြင့်ပေ ၃,၅၀၀ ခန့်ရှိသော ကုန်းပြင်မြင့် တောင်ကလပ်တွင် တည်ရှိသည်။ မေမြို့ကို တောင်နိမ့်များ ဝန်းပတ်လျက်ရှိသည်။ ဗင်္ဂလားအော်နှင့် မိုင် ၃၀၀ ကျော်၊ မုတ္တမကွေ့နှင့် မိုင် ၄၀၀ ကျော်ကွာလှမ်းသည်။ မန္တလေးမြို့နှင့် မော်တော်ကားလမ်းအားဖြင့် ၄၃ မိုင်အကွာ မန္တလေး-လားရှိုး မော်တော်ကားလမ်းပေါ်တွင် တည်ရှိသည်။ အကျယ်အဝန်းအားဖြင့် ၁၇ စတုရန်းမိုင်မျှ ရှိသည်။

မေမြို့တွင် နယ်ပိုင်၊ မြို့ပိုင်၊ ငွေတိုက်၊ ရာဇဝတ်တရားသူကြီး၊ သစ်တော၊ လမ်း၊ မြေတိုင်း၊ ရဲ၊ ကြေးနန်းနှင့် စာတိုက် စသောဌာနများ ရုံးစိုက်သည်။ ထိုပြင် ဗိုလ်သင်တန်းနှင့် စစ်တက္ကသိုလ်ကြောင့်လည်း မေမြို့သည် ယခုအခါတွင် ထင်ရှားသည်။ မေမြို့တွင် ရှေးယခင် ဗြိတိသျှလက်ထက်ကစ၍ ယခုတိုင် ဗရင်ဂျီသာသနာပြုကျောင်းများ ရှိသည်။ ဆေးရုံ၊ ဈေးရုံ၊ တိုက်တာ အဆောက်အအုံများအပြင် ဘီ၊ တီ ဘုရားသားရေကူးကန်၊ ဧက ၃၅၀ ကျယ်ဝန်းသော အစိုးရ ဥယျာဉ်၊ ရက်ကန်းရုံနှင့် နို့ဆီချက်ရုံများလည်း ရှိ၏။

မေမြို့သည် သွားလမ်း လာလမ်းအားဖြင့် လေကြောင်းလမ်း၊ ကားလမ်း၊ ရထားလမ်းများရှိသည်။ ရန်ကုန်မှ မေမြို့သို့ လေယာဉ်ဖြင့်သွားနိုင်သည်။ မန္တလေး-လားရှိုးမီးရထားလမ်းပေါ်တွင် တည်ရှိသဖြင့် မန္တလေးမှ မီးရထားဖြင့် သွားနိုင်သည်။ မန္တလေးမှ မေမြို့သို့ ကားဖြင့်သွားသော် ၂ နာရီမျှကြာ၍ လမ်းတွင် သုံးထပ်ကွေ့လမ်းများကို တွေ့ရသည်။ မီးရထားဖြင့် သွားလျှင် ပို၍ကြာသည်ဟု ထင်ရသည်။ အဘယ်ကြောင့် ဆိုသော် မီးရထားမှာ အရှိန်ပြင်းပြင်း မခုတ်ဘဲ မှန်မှန် တောင်တက် တောင်ဆင်း လုပ်ရသည်။ မေမြို့သည် မန္တလေး၊ ရှမ်းပြည်နယ်နှင့် ရှေးအခါက တရုပ်ပြည် အနောက်ဖက်မှ ကုန်သည်များ စုဝေးရာဌာနဖြစ်၏။ မေမြို့တွင် ၅ ရက်တဈေး ရှိသည်။

တနှစ်ပတ်လုံးပင် မေမြို့သည် မန္တလေးထက် ဒီဂရီ ၂၀ ပို၍ အေးသည်။ ရာသီဥတုအေးမြသောကြောင့် မြေနိမ့်ပိုင်းတွင် နေထိုင်သူတို့ မနှစ်သက်ကြသော်လည်း ဗြိတိသျှနှင့် ဥရောပတိုက်သားတို့နှစ်သက်သဖြင့် သာယာအောင်ပြုပြင်ခဲ့သည်။ အအေးမှ လုံခြုံအောင် ပြုလုပ်နိုင်လျှင် ကျန်းမာရေးနှင့် ညီညွတ်သောမြို့ ဖြစ်သည်။

ဤသို့ရာသီဥတုအေးမြသောကြောင့် မေမြို့နှင့် အနီးပတ်

ဝန်းကျင်မှာ ရှုခင်းသာယာလှပေသည်။ ဟင်းသီးဟင်းရွက် သစ်သီး သစ်နှံ ပန်းမာလ်များ ကောင်းစွာ ဖြစ်ထွန်း၏။ တောင်စောင်း တောင်ခါးပန်းများတွင် ကာဖီ၊ စထရော်ဗယ်ရီ၊ နာနတ်စသော စိုက်ခင်းများကို မြင်နိုင်ပေသည်။ ထို့ပြင် ဂေါ်ဘီထုပ်၊ဂေါ်ဘီပန်း၊ခရမ်းချဉ်စသည့် အပင်များနှင့် အင်္ဂလိပ်တို့ စတင်စိုက်ပျိုးသော ယူကလစ်ပင်၊ ထင်းရှူးပင်၊ဝက်သစ်ချပင် စသည်တို့ကိုလည်း မေမြို့တွင် တွေ့မြင်နိုင်ပေသည်။ အထူးသဖြင့် အမျိုးသမီးတိုင်း ကြီးငယ်မဟူ နှစ်သက်သည့် မေမြို့၊ ဒေလီယာ၊ ဂန္ဓမာ စသည့် ပန်းရောင်စုံကား မေမြို့ကို အထူးတန်ဆာဆင်ပေသည်။

မြို့တွင်းရှိ လှပတင့်တယ်သော ရှုခင်းများသာမက မေမြို့၏ အနီးပတ်ဝန်းကျင်မှာလည်း အပန်းဖြေလည်ပတ်ရန် နေရာများရှိလေသည်။ မေမြို့အလွန် ၇ မိုင်ခန့်အကွာတွင် အနီးစခန်း ရေတံခွန် ရှိသည်။ ၁၅ မိုင်ခန့်အကွာတွင် ဝက်ဝံရေတံခွန်ရှိသည်။ ၃၅ မိုင်အကွာ မေမြို့-လားရှိုးကားလမ်းပေါ်တွင် ဂုတ်ထိပ်တန်တား ရှိပေသည်။

မေမြို့သည် ရှေးမြန်မာ မင်းများ လက်ထက်က ပြင်ဦးလွင်ဟု ခေါ်တွင်သည်။ ခရစ် ၁၈၈၆ ခုနှစ်တွင် ဗင်္ဂလား ခြေလျင်တပ်မှ ဗိုလ်မှူးကြီးမေသည် ပြင်ဦးလွင်တွင် တပ်စွဲခဲ့သည်။ ယင်းဗိုလ်မှူးကြီးမေကို အစွဲပြု၍ မေမြို့ဟု တွင်လာလေသည်။ ရှေးအခါက မေမြို့မှာ ဓနုလူမျိုးများ နေထိုင်ရာ အရပ်ဖြစ်၏။ ယခုမူကား အင်္ဂလိပ်၊ တရုပ်၊ အိန္ဒိယ နှင့် ရှမ်း မြန်မာအမျိုးသားပေါင်းစုံ နေထိုင်ရာအရပ် ဖြစ်သည်။

မေမြို့ရှိ ဦးရေမှာ ၁၉၆၂ လူ ခုနှစ် ခန့်မှန်းသန်ကောင်စာရင်းအရ ၂၈,၇၈၃ ခန့်ဖြစ်သည်။

**မေယုနယ်ခြားခရိုင်။** ။မေယုနယ်ခြား ခရိုင်သည် နယ်ခြားအုပ်ချုပ်ရေးဌာနမှ တိုက်ရိုက်အုပ်ချုပ်ရန် ပြဋ္ဌာန်းထားသောခရိုင်နယ်ဖြစ်၏။ နယ်ခြား အုပ်ချုပ်ရေးကို နိုင်ငံအစိုးရက ပြဋ္ဌာန်းကျေညာပြီးနောက် မေယုနယ်ခြားခရိုင်ကို လွှဲပြောင်း ပေးခဲ့သည်။ သို့သော် အကြောင်းကြောင်းတို့ကြောင့် လက်တွေ့အကောင်အထည် မဖော်နိုင်ခဲ့ပေ။ ၁၉၆၀ ခုနှစ် မေလ ၃၀ ရက်နေ့ဘွင်မှစ၍ ထိရောက်သော အုပ်ချုပ်ရေးကို ဆောင်ရွက်ခဲ့လေသည်။

မေယု နယ်ခြား ခရိုင်သည် အရှေ့ပါကစ္စတန်နှင့် မြန်မာနိုင်ငံ စပ်ကြားတွင် တည်ရှိသည်။ နတ်မြစ်အားဖြင့် နယ်နိမိတ်သတ်မှတ်ထားလျက်ရှိသည်။ မေယုနယ်ခြားခရိုင်သည် အနောက်ဖက် လားသော် အရှေ့ပါကစ္စတန်၊ အရှေ့ဖက် လားသော် မယူမြစ် စိုင်တင်ချောင်းအားဖြင့်ရင်း၊ တောင်ဖက်လားသော် ရခိုင်ကမ်းရိုးတန်း၊ ဗင်္ဂလားအော်တို့ဖြင့်ရင်း၊ မြောက်ဖက်လားသော် အရှေ့ပါကစ္စတန် အားဖြင့်ရင်း ပိုင်းခြားသတ်မှတ်ထား၏။ ယခင်ရခိုင်တိုင်း စစ်တွေခရိုင်အတွင်းရှိ ဘူးသီးတောင်မြို့နယ်၊ မောင်းတောမြို့နယ်နှင့် ရသေ့တောင်အနောက်မြောက် မြို့နယ်များပါဝင်သောဒေသဖြစ်သည်။ မယူတောင်တန်းကို ဗဟိုပြု၍ မယူမြစ်နှင့် နတ်မြစ်ကြားရှိနေရာများသည် မေယုနယ်ခြား ခရိုင်အတွင်းပါဝင်



မေမြို့—မန္တလေးသွားလမ်းမကြီးကို ဤသို့ တောင်ဆင်း တောင်တက်ကွေ့ကာကောက်ကာဖြင့် ဖောက်လုပ်ထားသည်။

လေသည်။ မေယုနယ်ခြား ခရိုင်သည် တောအထပ်ထပ်၊ တောင်အလျှိုလျှို၊ မြစ်ချောင်းအင်းအိုင်များဖြင့် ရေ သုက်ဝန်းရံလျက်ရှိသော ဒေသတခုဖြစ်၏။ မြောက်ဖက်တွင်မြင့်၍၊ တောင်ဖက်သို့ ဆင်ခြေလျှော တဖြည်းဖြည်း နိမ့်ဆင်းသွားသည်။ စိုင်တင်တောင်နှင့် မယုတောင်တန်းဟူ၍ တောင်တန်းနှစ်ခုရှိပြီးလျှင်၊ မယုမြစ်နှင့် နတ်မြစ်တည်းဟူသော ထင်ရှားသည့် မြစ်နှစ်သွယ်ကလည်း မြောက်ဖက်မှ တောင်ဖက်သို့ စီးဆင်းလေသည်။

မေယုနယ်ခြား ခရိုင်တွင် လူဦးရေ ၄ သိန်းကျော် ၅ သိန်းနီးပါးရှိ၏။ များသောအားဖြင့် လယ်ယာစိုက်ပျိုးရေးလုပ်ငန်းနှင့် တံငါလုပ်ငန်းများဖြင့်သာ အသက်မွေးကြသည်။ လူများစု(၇၅ ရာခိုင်နှုန်းခန့်)မှာ ရိုဟင်ဂျာ လူမျိုးဖြစ်၍၊ ရခိုင်၊ ဒိုင်းနက်၊ မြို၊ ခမီးစသောတိုင်းရင်းသားလူမျိုးစုများလည်း နေထိုင်လျက်ရှိသည်။ ရိုဟင်ဂျာတို့သည် အစ္စလမ်အယူဝါဒီများဖြစ်၏။ ရခိုင်လူမျိုးများကား ဗုဒ္ဓအယူဝါဒီများဖြစ်၍၊ ကျန်လူမျိုးစုများသည် နတ်များကို ကိုးကွယ် ဆည်းကပ်ကြလေသည်။ လောလောဆယ်အားဖြင့်မေယုနယ်ခြားခရိုင်ဌာနချုပ်ကိုမောင်းတောမြို့တွင် ဖွင့်လှစ်ထားသည်။ရခိုင်တပ်ပေါင်းစုမူးသည်မေယုနယ်ခြားခရိုင်၏လုံခြုံရေး၊ ကာကွယ်ရေး၊ ငြိမ်းချမ်းရေး၊ တရားဥပဒေစိုးမိုးရေးနှင့်လူမှုဖွံ့ဖြိုးရေးတို့ကိုဆောင်ရွက်ရန်အတွက် မေယုနယ်ခြားခရိုင်အထူးအုပ်ချုပ်ရေး အရာရှိအဖြစ် အာဏာကုန် လွှဲအပ်ထားခြင်း ခံရသည်။ မေယုနယ်ခြားခရိုင်တွင် အထူးသဖြင့် မောင်းတောမြို့၊ ဘူးသီးတောင်မြို့များတွင် အုပ်ချုပ်မှုဆိုင်ရာ အစိုးရရုံးများ အများအပြားရှိသည်။ထိုအပြင်အစိုးရစာသင်ကျောင်းများလည်းရှိသည်။ (ဘူးသီးတောင်မြို့။ မောင်းတောမြို့ — လည်းရှု။)

မေယုနယ်ခြားခရိုင် ဖွဲ့စည်းရခြင်း၏ အဓိကရည်ရွယ်ချက်မှာ တရားဥပဒေစိုးမိုးရေးနှင့်ရပ်ရွာအေးချမ်းရေးတို့ဖြစ်၏။ လောလောဆယ်အားဖြင့် မေယုနယ်ခြားခရိုင် အုပ်ချုပ်ရေးအာဏာပိုင်တို့သည် အောက်ပါအချက်များကို အဓိက ထား၍ ဆောင်ရွက်လျက် ရှိကြသည်။ ယင်းတို့မှာ ဆူပူ သောင်းကျန်းနေသော မူဂျာဟစ် သူ ပုန်များအား ထိရောက်စွာ နှိမ်နင်းရန်၊ တရားဥပဒေအပြင်ဖက်မှ နည်းအမျိုးမျိုးဖြင့် ဆိုးသွမ်းလျက် ရှိသော စီးပွားရေး သောင်းကျန်းသူများနှင့် လာဘ်ပေး လာဘ်ယူ ကိစ္စများကို ထိရောက်စွာအရေးယူရန်၊ နယ်ခြားဒေသများတွင် တွေ့ကြုံရမြဲဖြစ်သည့် တရားဥပဒေမဲ့ ဝင်ရောက်လာသူများအား နိုင်နင်းစွာ တားဆီးပိတ်ပင်ရန်၊ မေယုနယ်ခြားခရိုင်တွင် လူမျိုးရေးအားဖြင့်ဖြစ်စေ၊ အယူဝါဒရေးအားဖြင့်ဖြစ်စေ ခွဲခြားမှုမရှိဘဲ ပြည်ထောင်စုစိတ်ဓာတ်မွေးမြူရေးကို အဓိကထား၍ တရားမျှတစွာ အုပ်ချုပ်သွားရန်၊ နိုင်ငံအစိုးရ၏ ချမှတ်ထားသောဝါဒ၏အရ အိမ်နီးချင်း နိုင်ငံဖြစ်သည့် ပါကစ္စတန်အစိုးရနှင့် ချစ်ကြည်ရင်းနှီးမှုတိုးတက်ရန် အစွမ်းကုန် ဆောင်ရွက်ရန်၊ မေယုနယ်ခြားခရိုင်တွင် တရားဥပဒေစိုးမိုးရေးနှင့် လုံခြုံရေး တိုးတက်ကောင်းမွန် လာသည်နှင့်အမျှ အထူးလိုအပ်လျက် ရှိသော တိုးတက်ဖွံ့ဖြိုးရေးလုပ်ငန်းများကို ဆက်လက် လုပ်ကိုင်သွားရန်၊ နယ်ခြားဒေသသို့ သွားရောက် အမှုထမ်းကြသည့် အမှုထမ်းများသည် လေးလေးနက်နက် ပြုပြင်၍ အတတ်နိုင်ဆုံး သံတမန်စိတ်ဓာတ်ဖြင့် ဆောင်ရွက် သွားရန်၊ ပြည်ထောင်စုအစိုးရ ပို့ထားသော အမှုထမ်းအရာထမ်းများ အားလုံးသည် နယ်ခြားဒေသအုပ်ချုပ်ရေး၏ ဦးဆောင်မှု အောက်တွင် တစည်းတလုံးတည်း စုပေါင်းကြ၍ ပြဿနာ အရပ်ရပ်ကို ညီညာစွာ ရှင်ဆိုင်ဖြေရှင်းသွားရန် စသည်တို့ဖြစ်လေသည်။

မေယုနယ်ခြားခရိုင်ကို ဤသို့ နယ်ခြားဒေသ အုပ်ချုပ်ရေး ဌာနမှ တိုက်ရိုက် အုပ်ချုပ်လာခဲ့ရာ၊ ယခုအခါတွင် အခြေအနေများ တိုးတက် ကောင်းမွန်လာသည်။ ထို့ကြောင့် မေယု နယ်ခြားခရိုင်ကို စစ်တွေခရိုင် အတွင်းသို့ ပြန်လည် သွတ်သွင်းပြီးလျှင် ပြည်ထဲရေးဌာန၏ အုပ်ချုပ်မှုလက်အောက်သို့ ပြန်လည်ထားရှိရန် ပြည်ထောင်စု မြန်မာနိုင်ငံ တော်လှန်ရေးအစိုးရ အဖွဲ့က ဆုံးဖြတ်ခဲ့၏။ မေယုနယ်ခြား ခရိုင်ကို နယ်ခြားဒေသ အုပ်ချုပ်ရေး လက်အောက်မှ ပြည်ထဲရေးဌာန လက်အောက်သို့ ၁၉၆၄ ခုနှစ် ဖေဖွာရီလ ၁ ရက်နေ့တွင် လွှဲပြောင်းပေးခဲ့လေသည်။

**မေရီလန်ပြည်နယ်။** ။မေရီလန်ပြည်နယ်သည် အမေရိကန်ပြည်ထောင်စုနိုင်ငံ၏ မူရင်းတဆဲ့သုံးပြည်နယ်တွင် အပါအဝင်ဖြစ်၍ အတ္တလန္တိတ်ကမ်းခြေ၊ ချက်စပိပင်လယ်အော်တလျှောက်တွင် တည်ရှိသည်။မေရီလန်ပြည်နယ်၏ မြောက်ဖက်တွင် ပင်ဆီလဗေးနီးယားပြည်နယ်၊ အရှေ့ဖက်တွင် ဒဲလဝဲယားပြည်နယ်နှင့် အတ္တလန္တိတ် သမုဒ္ဒရာ၊ တောင်ဖက်တွင် ဗာဂျင်နီးယား ပြည်နယ်၊ အနောက်ဖက်တွင် အနောက်ဗာဂျင်နီးယားပြ ည်နယ်တို့ အသီးအသီးတည်ရှိ၏။ အကျယ်အဝန်းမှာ ၁၀,၅၇၇ စတုရန်းမိုင်ဖြစ်၏။ ပြည်နယ်၏ရုံးစိုက်မြို့မှာ အန္နပေါလစ် ဖြစ်၍၊ အခြားမြို့ကြီးများကား ဗော လတီမိုး၊ ကမ်ဗာလန်၊ ဟေးဂါးစတောင်းတို့ဖြစ်သည်

မေရီလန်ပြည်နယ်ကို သဘာဝအပိုင်းအခြားအာ ဖြင့် ၃ ပိုင်း ပိုင်းခြားနိုင်သည်။ ယင်းတို့မှာ ကမ်းမြောင် မြေပြန့်ဒေသ၊ ပီးဒမွန့်ကုန်းပြင်မြင့်နှင့် အက်ပလက်ချီယန် ဒေသတို့ဖြစ်၏။ကမ်းမြောင် မြေပြန့်ဒေသသည် မေရီလန်ပြည်နယ်၏ အရှေ့ပိုင်း တခြမ်းဖြစ်၏။ လူဖြူတို့ဦးစွာ အခြေစိုက်ရာဒေသလည်း ဖြစ်၏။ ရေမြေကျယ်ပြန့်သောကြောင့် ကုန်သွယ်ရန်နှင့် ငါးဖမ်းရန်အပြင် သီးနှံစိုက်ပျိုးရန်ကောင်းသော ဒေသဖြစ်လေသည်။ တောင်ဖက်ပိုင်းတွင် ဆေးပင် စိုက်ပျိုး

ရန် အထူးသင့်လျော်၏။ ပီးဒမွန့်ကုန်းပြင်မြင့်မှာ နိမ့်သော တောင်စဉ်တောင်တန်းများဖြစ်လျက် ရေမျက်နှာပြင်ထက် ပေ ၈၀၀ မြင့်၏။ ဤဒေသတွင် အထွေထွေစိုက်ပျိုးရန် ကောင်းမွန်၏။ သဘာဝ ပင်ရင်းအခြေအမြစ်များ ပေါကြွယ်ဝသဖြင့် စက်မှု လက်မှုလုပ်ငန်းသည် အရေးပါသည်။ အက်ပလက်ချီယန်ဒေသသည် ပြည်နယ်၏ အနောက်ဖက်စွန်းတွင် တည်ရှိ၍၊ တောင်အထူထပ်ဆုံး ဒေသဖြစ်၏။ အရှေ့တောင်မှ အနောက်မြောက်ဖက်သို့ ဖြတ်သန်းလျက် တည်ရှိသော အယ်လီဂေးနီ တောင်စဉ်တောင်တန်းသည် မြေသြဇာကောင်းသည့် ချိုင့်ဝှမ်းများဖြစ်စေ၏။ ဤအပိုင်းတွင် အရေးပါသော မြစ်ချောင်းများမှာ ယော့ကိုဂေးနီမြစ်၊ ဝီးလချောင်း၊ ပိုတိုမက်မြစ်တို့ဖြစ်သည်။ ဓာတ်သတ္တုတူးဖော်ရေးနှင့် သစ်ခုတ်လှဲခြင်းတို့မှာ အဓိက လုပ်ငန်းများဖြစ်၏။

မေရီလန်ပြည်နယ်တွင်းရှိ မြစ်များသည် မြစ်ဝကျယ်၍ ချက်စပီ ပင်လယ်အော်တွင်းသို့ စီးဝင်ကြသည်။ အတ္တလန္တိတ် သမုဒ္ဒရာတွင်းသို့ စီးဝင်သောမြစ်များမှာ သေးငယ်၍ အရာမရောက်ပေ။ ပိုတိုမက်မြစ်သည် ပြည်နယ်၏ အနောက်တောင်ဖက် နယ်စပ်တလျှောက် ဖြတ်သန်းစီးဆင်း၍ ချက်စပီပင်လယ် တောင်ဖက်အော်တွင်းသို့ စီးဝင်သည်။

မေရီလန်ပြည်နယ်သည် ချက်စပီ ပင်လယ်အော်ကြောင့်ရင်း၊ မြေမျက်နှာပြင် မတူညီသောကြောင့်ရင်း၊ ရာသီဥတု တပြေးညီညာမရှိဘဲ တနေရာနှင့်တနေရာ ကွာခြားလေသည်။ ယေဘုယျအားဖြင့်သော်ကား အပူအအေး လွန်ကဲခြင်း မရှိချေ။ တနယ်လုံးတွင် မိုးရွာသွန်းပုံမှာ မျှတသည်ဟု ဆိုရပေမည်။ လယ်ယာ စိုက်ပျိုးရန်အတွက်လည်း မိုးရေလုံလောက်စွာ ရရှိလေသည်။ မိုးအပြင်းထန်ဆုံး ရွာသွန်းသော နေရာများမှ ချက်စပီပင်လယ်အော်ကမ်းရိုးတန်းတလျှောက်နှင့် အနောက်ဖက် တောင်တန်းတလျှောက်တွင် ဖြစ်၏။

မေရီလန်ပြည်နယ်တွင်းရှိ သစ်တောများတွင် ထင်းရှူး၊ ဆီဒါ၊ သင်းဝင်၊ ဘုဇပတ်နှင့် မေပယ်ပင်စသည့် စီးပွားရေးအားဖြင့် အဖိုးတန်သောသစ်ပင်များပေါက်သည်။ လယ်ယာစိုက်ပျိုးခြင်းသည်လည်း အရေးပါ၏။ မေရီလန်ပြည်နယ်၏ လယ်ယာ လုပ်ငန်းထွက် ပစ္စည်းများမှာ ပြောင်း၊ ဂျုံ၊ ဗာလီ၊ ရိုင်းစပါး၊ ဆေးရွက်၊ ဟင်းသီးဟင်းရွက်၊ နို့ထွက်ပစ္စည်းများ၊ ကြက်ငှက် စသည်တို့ဖြစ်၏။ အဓိကတွင်းထွက် ပစ္စည်းများမှာ ကျောက်မီးသွေးနှင့် ကျောက်စရစ် စသည်တို့ ဖြစ်၏။ စက်မှုလုပ်ငန်းထွက် ပစ္စည်းတို့မှာ သံနှင့် သံမဏိထည်များ၊ စက်ကရိယာများ၊ သယ်ယူပို့ဆောင်ရေး အသုံးအဆောင်ပစ္စည်းများ၊ အထည် အလိပ်များ၊ မြေထည်နှင့် ဖန်ထည်များ၊ ရေနံနှင့် ကျောက်မီးသွေးထွက်ပစ္စည်းများ၊ သားရေထည်များ၊ စည်သွတ်သီးနှံ၊ ဟင်း



မေရီလန်ပြည်နယ်၏ အကြီးဆုံးမြို့ဖြစ်သော ဗောလတီမိုးမြို့၏ ရှုခင်းတစိတ်တဒေသ

သီး ဟင်းရွက်များ၊ အိမ်ထောင် ပရိဘောဂ အစရှိသည်တို့ ဖြစ်၏။

မေရီလန်ပြည်နယ်သည် ကိုလိုနီနယ်အဖြစ် ရှိနေခဲ့စဉ်က စက်မှု လက်မှု လုပ်ငန်းများ မထွန်းကားခဲ့ပေ။ အဘယ်ကြောင့်ဆိုသော် အင်္ဂလိပ်တို့သည် ကုန်ကြမ်းအားလုံးကို မိမိတို့သာ ဝယ်ယူ၍ မိမိတို့ပြုပြင်ပြီးကုန်ချောများကို ပြည်နယ်သားများအား ဝယ်ယူစေခဲ့သောကြောင့် ဖြစ်သည်။ အင်္ဂလန်မှ ကုန်ပစ္စည်းများ မသွင်းရန် သဘောတူညီပြီးသည့် ၁၇၆၉ ခုနှစ်နောက်ပိုင်းတွင်မူကား ယခင်က ဝယ်ယူရရှိနေကျဖြစ်သော ကုန်ပစ္စည်းများကို ထုတ်လုပ် နိုင်ရန် စက်ရုံများ တည်ထောင်လာကြရသည်။ ပဌမဦးဆုံး တည်သောစက်မှာ သံရည်ကျိုစက်ဖြစ်၍ ၁၇၁၅ ခုနှစ်တွင် တည်ထောင်သည်။ သံဖြင့်ပြီးသော ပဌမဆုံးသင်္ဘောကို ဗောလတီမိုးမြို့တွင် ၁၈၃၉ ခုနှစ်၌ တည်ဆောက်၍ ပြီးစီးသည်။ သင်္ဘောဆောက်လုပ်နိုင်ရေးအတွက် သံမဏိ ထုတ်လုပ်ရေးလုပ်ငန်းသည် တိုးတက်ထွန်းကားလာသည်။ ယခုအခါ မေရီလန်ပြည်နယ်သည် အတ္တလန္တိတ် ကမ်းခြေတလျှောက်ရှိ ပြည်နယ်များတွင် စက်မှုလက်မှု လုပ်ငန်းများ အတွက် အရေးပါဆုံး ဒေသဖြစ်၏။ ဤသို့ စက်မှုလက်မှု လုပ်ငန်းများထွန်းကားနေခြင်းမှာ ကုန်ကြမ်းကို လက်လှမ်းမှီလျက် ဈေးကွက်လည်းကောင်း၊ ဆိပ်ကမ်းများလည်း ကောင်းသောကြောင့်ဖြစ်လေသည်။

မေရီလန်ပြည်နယ်သည် ပင်လယ်ကမ်းရိုးတန်းတွင် တည်ရှိသည်နှင့်အညီ သယ်ယူပို့ဆောင်ရာ၌ ရေလမ်းကို အသုံးများသည်။ မြစ်ချောင်းများအပြင် ချက်စပိနှင့် ဒဲလဝဲယားတူးမြောင်းများလည်းရှိသည်။ မီးရထားလမ်း၊ ကုန်းလမ်းများလည်းရှိသည်။ ပြည်တွင်းပြည်ပ ဆက်သွယ်ထားသော လေကြောင်းလမ်းများလည်း ရှိသည်။

ရှေးအခါကမေရီလန်နယ်တွင် ရက်အင်ဒီးယန်းတို့နေထိုင်ခဲ့၏။ လူဖြူတို့သည် ၁၆၃၂ ခုနှစ်တွင်မှစ၍ လာရောက် အခြေစိုက် နေထိုင်ကြသည်။ ယင်းနှစ်တွင် လော့ဗောလတီမိုးဘွဲ့ကို ခံယူသူ ဂျော့ကဲလဗတ်သည် ကိုလိုနီစိုက်ထူခွင့်ကို ပဌမချားဘုရင်ထံမှ ရရှိခဲ့သည်။ မေရီလန်ဟူသော အမည်မှာ ချားဘုရင်၏ မိဖုရား ဟင်နရီယက်တာ မရီးယားကို ဂုဏ်ပြုမှည့်ခေါ်ထားသော အမည်ဖြစ်၍ မေရီ၏ပြည်ဟု အဓိပ္ပါယ်ရသည်။ မေရီလန်နယ်သည် လော့ဗောလတီမိုး၏ သားမြေးစဉ်ဆက် ပိုင်ဆိုင်သော နယ်မြေ ဖြစ်လာ၍၊ မိမိတို့လိုရာ ဥပဒေများ ရေးဆွဲအုပ်ချုပ်ခွင့်လည်း ရခဲ့၏။ သို့သော် လော့ဗောလတီမိုးသည် အတင်းအကြပ် အုပ်ချုပ်ခဲ့ခြင်း မရှိပေ။ လော့ဗောလတီမိုးသည် ထိုနယ်ကို တည်ထောင်ခဲ့စဉ်က တနည်းအားဖြင့် အပယ်ခံ ဗင်္ဂလီ ဂိုဏ်းဝင်များ ခိုလှုံရာအဖြစ် ရည်ရွယ်တည်ထောင်ခဲ့သော်လည်း၊ ဘာသာအယူဝါဒတွင် သဘောထားကြီးစွာနှင့် လွတ်လပ်ခွင့်များပေးသောကြောင့် ပျူရီတန်များလည်း ဝင်ရောက် ခိုလှုံလာသည်။ သို့သော် ၁၆၅၄ ခုနှစ်တွင် ပျူရီတန်တို့ လော့ဗောလတီမိုး၏ အာဏာကိုဖီဆန်လျက် ကိုလိုနီကို သိမ်းပိုက်ထားခဲ့ရာ၊ ၁၆၅၈ ခုနှစ်ကျမှ နှစ်ဦးနှစ်ဖက် ညှိနှိုင်းမှု ရရှိသဖြင့် ပြန်လည်ပေးအပ်ခဲ့သည်။ ၁၆၈၉ ခုနှစ်တွင် ပရိုတက်စတန့် အသင်း၏ တောင်းပန်ချက်အရ မေရီလန်ကို အင်္ဂလန်ပြည်မှ တိုက်ရိုက်အုပ်ချုပ်ခဲ့လေရာ၊ အနှစ်အစိတ်မျှ ရှည်ကြာသည်။ ၁၇၁၅ ခုနှစ်တွင် ဗောလတီမိုးအဆက်အနွယ်ဖြစ်သော ပဥ္စမလော့ဗောလတီမိုးသည် ပရိုတက်စတန့်ဖြစ်သောကြောင့် ထိုနယ်ကို အုပ်ချုပ်ခွင့် ပြန်လည် ရရှိသည်။ ကိုလိုနီနယ်အဖြစ် သက်တမ်း တလျှောက်လုံးတွင် ဗောလတီမိုး၏ အဆက်အနွယ်များ လက်ထဲ၌သာရှိနေခဲ့လေသည်။ ၁၇၆၇ ခုနှစ်တွင် နယ်စပ်အရေးနှင့် စပ်လျဉ်း၍ ပင်ဆီလဗေးနီးယားပြည်နယ်နှင့် အချင်းပွားခဲ့ရသေးသည်။ ကိုလိုနီနယ်များ တော်လှန်ခဲ့စဉ်က မေရီလန်လည်း တော်လှန်ရေးဖက်မှ ပါဝင်ခဲ့သည်။ တော်လှန်ရေးပြီးဆုံးသည့်နောက် ၁၇၈၈ ခုနှစ် ဧပြီလတွင် ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေကိုလက်ခံကာအမေရိကန်ပြည်ထောင်စုဝင် သတ္တမ ပြည်နယ် ဖြစ်လာလေသည်။ မေရီလန်ပြည်နယ်သည် အမေရိကန် ပြည်တွင်းစစ်ပွဲဖြစ်ပွားခဲ့စဉ်က ပြည်ထောင်စုအပေါ်တွင် သစ္စာစောင့်ထိန်းခဲ့သည်။ ၁၉၀၀ ပြည့်နှစ်နောက်ပိုင်းတွင် မေရီလန်ပြည်နယ်သည် အစစအရာရာတွင် တိုးတက် ထွန်းကားလာခဲ့သည်။ ဒုတိယကမ္ဘာစစ်အတွင်းက မေရီလန်ပြည်နယ်သည် လူအားသာမကဘဲ ပြည်နယ်တွင်းရှိ စက်ရုံများ၊ လယ်ယာများမှ ထွက်သည့် ပစ္စည်းခပ်သိမ်းတို့ကို စစ်ကြီးအတွက် အားသွန်ခွန်စိုက် ထုတ်လုပ်ပေးလေသည်။

မေရီလန်ပြည်နယ်၏ လူဦးရေမှာ ၁၉၆၀ ပြည့်နှစ် ခန့်မှန်းချက်အရ ၃,၀၇၂,၉၉၉ ယောက် ဖြစ်၏။

**မေအောင်၊ဦး**(ခရစ် ၁၈၈၁–၁၉၂၆)။ ။ဦးမေအောင်သည် ဗြိတိသျှလက်ထက်က မြန်မာပြည်တွင် ဒိုင်အာခီအုပ်ချုပ်ရေးစံနစ် တည်ဦးစအချိန်၌ ဒုတိယမြောက်ပြည်ထဲရေးဝန်ကြီးအဖြစ် ထမ်းရွက်ခဲ့သူဖြစ်သည်။

ဦးမေအောင်သည် ခရစ် ၁၈၈၀ ပြည့်နှစ်တွင် စစ်တွေမြို့၌ အဖ ဦးသဒိုးဖြူ အမိ ဒေါ်နှောင်းဒွေးတို့မှ ဖွားမြင်သည်။ ၂ နှစ်အရွယ်တွင် ဖခင်သေဆုံး၍၊ ၁၂ နှစ်အရွယ်တွင် မိခင်သေဆုံးသောကြောင့် ဦးလေးတော်သူ ဦးလှအောင်က တာဝန်ယူ ကျွေးမွေး စောင့်ရှောက်ခဲ့ရသည်။ ဦးလှအောင်သည် ကာလကတ္တားမြို့၌ အမှုထမ်းခဲ့ရသည် ဖြစ်သောကြောင့် ဦးမေအောင်သည် ငယ်စဉ်အခါက ကာလကတ္တားမြို့တွင် ပညာသင်ယူခဲ့သည်။ တက္ကသိုလ်ဝင်ခွင့် စာမေးပွဲ



ဒိုင်အာခီခေတ် ပြည်ထဲရေးဝန်ကြီး ဦးမေအောင်

ကို ရန်ကုန်မြို့ အစိုးရ ဟိုက်စကူးကျောင်းမှ ဖြေဆိုရာတွင် မြန်မာဘာသာနှင့် အင်္ဂလိပ်ဘာသာတို့တွင် ပဌမစွဲ၍ ထူးချွန်စွာ အောင်မြင်သည့်အတွက် ရနောင်းဘုရင်ခံ၏ ဆုဖြင့် ချီးမြှင့်ခြင်းခံရသည်။ ထိုဆုကိုပင် ၁၉၁၉ ခုနှစ်၌ သားကြီး သဒိုးအောင် ကရင်း၊ ၁၉၂၀ ပြည့်နှစ်တွင် သားငယ် ထွန်းလှအောင် (ကွယ်လွန်သူ ရဲမင်းကြီးဟောင်း ဦးထွန်းလှအောင်) ကရင်း အဖခြေရာနင်း၍ ထူးခြားစွာ ရရှိခဲ့လေသည်။ ဦးမေအောင်သည် ရန်ကုန်ကောလိပ်သို့ ဆက်လက်တက်ရောက် ပညာသင်ယူသည့် အခါတွင်လည်း အက်(ဖ) အေ (ဥပစာတန်း) စာမေးပွဲကို ပဌမစွဲ၍ အောင်မြင်ပြန်သဖြင့် ဂျာဒင်းဆုဖြင့် ချီးမြှင့်ခြင်းခံရသည်။ တဖန်ထိုဆုကို ဦးမေအောင်၏ တဦးတည်းသောသမီးမမြစိန် (ယခင် တက္ကသိုလ် ရာဇဝင်ဌာန ကထိက ဒေါ်မြစိန်) က ၁၉၂၃ ခုနှစ်တွင် ထူးခြားစွာပင် ရရှိခဲ့ပြန်သည်။ ဦးမေအောင်သည် ၁၈၉၈ ခုနှစ်၌ ဘီအေ နောက်ဆုံးနှစ် စာမေးပွဲ မဝင်မီကလေးတွင် ကျန်းမာရေး ချွတ်ယွင်းလာသောကြောင့် စာမေးပွဲကို မဖြေလိုက်ရဘဲ ရှိခဲ့လေသည်။

ခေတ္တမျှ အနားယူပြီးလျှင် ထိုနှစ်တွင်ပင် မြိတ်မြို့အစိုးရ ဟိုက်စကူးကျောင်းတွင် အထက်တန်းပြ ဆရာအဖြစ် ဝင်ရောက် အမှုထမ်းသည်။ နောက်တနှစ်တွင် မော်လမြိုင်မြို့ရှိ ရှင်ဗုဒ္ဓဃောသကျောင်း၏ ကျောင်းဆရာကြီး အဖြစ် ဆောင်ရွက်ခဲ့သည်။ ၁၈၉၉ ခုနှစ်တွင် မော်လမြိုင်မြို့ရမ္မာပူရ စာပုံနှိပ်တိုက်ပိုင်ရှင် ဦးလွန်းဖြူ၊ ဒေါ်မေမေတို့၏ သမီး မသိန်းမြနှင့် လက်ထပ်သည်။ မသိန်းမြသည် စစ်ကဲ ဦးထော်လေး၏ တီတော်သူဖြစ်၏။

ဦးမေအောင်သည် ၁၉၀၀ ပြည့်နှစ်တွင် ရန်ကုန်မြို့ အလုံရပ်ရှိ ဦးရွှေအို၏ ရေခဲစက်တွင် ဝင်ရောက်လုပ်ကိုင်သည်။ ထိုနောက် ဦးရွှေအို၏ သစ်နှင့်စပါး ကိုယ်စားလှယ်အဖြစ်ဖြင့် ရှမ်းပြည်နှင့်မြစ်ဝကျွန်းပေါ် ဒေသများတွင် လအနည်းငယ်မျှ နေထိုင်လုပ်ကိုင်ခဲ့ရသည်။ ၁၉၀၂ ခုနှစ်၌ ဒုတိယတန်း ရှေ့နေစာမေးပွဲကို ဖြေဆိုအောင်မြင်သည်။ မော်လမြိုင်မြို့တွင် ၂ နှစ်တာမျှ ရှေ့နေလိုက်ပြီးသော် ၁၉၀၄ ခုနှစ် မေလတွင် ဝတ်လုံဘွဲ့ကို ရယူရန် အင်္ဂလန်ပြည်သို့ ထွက်ခွါသွားသည်။ ကိမ်းဗရစ်တက္ကသိုလ်မှ မဟာဝိဇ္ဇာဘွဲ့ရယူကာ၊ ဝတ်လုံတော်ရဘွဲ့ကိုလည်း ဆွတ်ခူး ခဲ့ပြီးလျှင် မြန်မာပြည်သို့ ၁၉၀၇ ခုနှစ်တွင် ပြန်လည်ရောက်ရှိသည်။ ဦးမေအောင်သည် ဘီဂန်းဒက် ရွှေတံဆိပ်ဆုကိုလည်း ရရှိခဲ့၏။

ဦးမေအောင်သည် အင်္ဂလန်ပြည်တွင် ပညာသင်ကြားနေစဉ် အခါက အိန္ဒိယနိုင်ငံရေး သမားများနှင့် တွေ့ရှိ အားကျလာခဲ့ပြီးလျှင် နိုင်ငံရေးကို စိတ်ဝင်စား၍ လေ့လာခဲ့သည်။ အင်္ဂလန်ပြည်တွင်ပင် ဦးဥတ္တမကိုယ်တော်နှင့် တွေ့ဆုံ၍ နိုင်ငံရေးအကြောင်းဆွေးနွေးခဲ့သည်။ မြန်မာပြည်သို့ ပြန်လည်ရောက်ရှိလာသောအခါတွင် မြန်မာပြည်မှာလည်း နိုင်ငံရေးနိုးကြားစ ပြုချိန်ဖြစ်သည်။ မြန်မာ လူငယ်အချို့တို့နှင့် အတူ ဗုဒ္ဓဘာသာ ကလျာဏယုဝအသင်း (ဝိုင်၊ အမ်၊ ဘီ၊ အေ) ကို တည်ထောင်၍ စိတ်အားထက်သန်စွာ ပါဝင်ဆောင်ရွက်ခဲ့၏။ ဝိုင်၊ အမ်၊ ဘီ၊ အေ၏ ဥက္ကဋ္ဌအဖြစ်ပင် တင်မြှောက်ခြင်း ခံခဲ့ရသည်။ ဝိုင်၊ အမ်၊ ဘီ၊ အေသည်ကား ၁၉၁၉ ခုနှစ်တွင် ပေါ်ပေါက်သော ဂျီ၊ စီ၊ ဘီ၊ အေ ခေါ် နိုင်ငံရေးအဖွဲ့ချုပ်၏ မျိုးစေ့ပင်ဖြစ်သည် ။ (ဂျီ၊ စီ၊ ဘီ၊ အေ။ ဗုဒ္ဓဘာသာ ကလျာဏယုဝအသင်း — လည်းရှု။)

၁၉၁၇ ခုနှစ် ဒီဇင်ဘာလတွင် ဦးမေအောင်သည် မင်းတိုင်ပင်အမတ် ဦးဖေ၊ သူရိယ ဦးဘဖေ၊ မန္တလေးမှ ဝတ်လုံ ဦးစုတို့နှင့် အတူ ဝိုင်၊ အမ်၊ ဘီ၊ အေ အသင်း၏ ကိုယ်စားလှယ်အဖြစ် ကာလကတ္တားမြို့သို့ သွားရောက်ရသည်။ သွားရခြင်းအကြောင်းမှာ အိန္ဒိယပြည် ဆိုင်ရာ အတွင်းဝန် မစ္စတာ မွန်တေဂူ အိန္ဒိယပြည်သို့လာ၍ အခြေအနေ လေ့လာစစ်ဆေးသည်တွင် မြန်မာပြည်သူ ပြည်သားတို့၏ အခွင့်အရေးများကို တင်ပြတောင်းဆိုရန် ဖြစ်၏။

ဦးမေအောင်သည် ၁၉၂၀ ပြည့်နှစ်တွင် လက်ထောက်အစိုးရ ရှေ့နေအဖြစ် ဆောင်ရွက်ရ၏။ ထိုနောက် ဥပဒေသုံးသပ်ရေး အရာရှိအဖြစ်၎င်း၊ ဥပဒေပြုအဖွဲ့၏ အတွင်းရေးမှူးအဖြစ်၎င်း၊ အစိုးရရှေ့နေအဖြစ်၎င်း ဆောင်ရွက်ခဲ့သည်။

၁၉၂၂ ခုနှစ်၌ ဟိုက်ကုတ် (တရားလွှတ်တော်) တွင် တရားဝန်ကြီးအဖြစ် ခန့်အပ်ခြင်းခံရသည်။ ၁၉၂၄ ခုနှစ်၌ ပဌမဆုံး ပြည်ထဲရေးဝန်ကြီး ဆာမောင်ခင် ကွယ်လွန်သည်တွင် ဦးမေအောင်သည် ပြည်ထဲရေးဝန်ကြီးအဖြစ် ဆောင်ရွက်ရလေသည်။ ပြည်ထဲရေးဝန်ကြီးအဖြစ် အမှုထမ်းဆောင်နေစဉ် ၁၉၂၆ ခုနှစ် ဇွန်လ ၅ ရက်နေ့တွင်မေမြို့၌ကွယ်လွန်လေသည်။

ဦးမေအောင်သည် တိုင်းပြည်အတွက် စိတ်အား ထက်သန်စွာ ဆောင်ရွက်သော ပုဂ္ဂိုလ်ဖြစ်သည်။ အထူးသဖြင့် ပညာရေးကို လိုလားအားပေးသည်။ ယူနီဗာစီတီကောင်စီနှင့် ယူနီဗာစီတီကောလိပ် အုပ်ချုပ်ရေးအဖွဲ့တို့တွင် အဖွဲ့ဝင်လူကြီးတဦးလည်း ဖြစ်ခဲ့သည်။ ရန်ကုန်ကောလိပ် ဗုဒ္ဓဘာသာအသင်း၊ စကားရည်လုပွဲ အသင်းကိုလည်း အားပေးသည်။ ပညာရေး၊ နိုင်ငံရေးသာမက ကစား ခုန်စားရေးတွင်လည်း စိတ်ပါဝင်စားသည်။ ဘီ၊ အေ၊ အေ အသင်းတွင် ဒုတိယဥက္ကဋ္ဌအဖြစ် ဆောင်ရွက်ခဲ့၍ အစည်းအဝေးများကို တတ်နိုင်သမျှ မှန်မှန်တက်ခဲ့၏။ ဤသို့ အသင်းအပင်းကော်မီတီအစည်းအဝေးများသို့ နေ့စဉ်ရက်ဆက် ဆိုသလို တက်ရောက်ရသဖြင့် အားလပ်သည်ဟူ၍ မရှိခဲ့ပေ။

ထိုပြင် ဦးမေအောင်သည် ဗုဒ္ဓတရားတော်များကိုကောင်းစွာတတ်ကျွမ်း နားလည်သူ ဖြစ်သည်။ မြန်မာ ဗုဒ္ဓ ဘာသာတရားဥပဒေများအကြောင်းကို စာတစောင် ပေတဖွဲ့ ပြုစုခဲ့ပေသည်။ ယင်းစာအုပ်ဖြင့် ကိမ်းဗရစ်တက္ကသိုလ်မှ ၁၉၂၂ ခုနှစ်တွင် အယ်၊ အယ်၊ အမ် (ဥပဒေ မဟာဝိဇ္ဇာဘွဲ့) ကို ရရှိခဲ့လေသည်။ ဦးမေအောင်သည် မြန်မာပိုင် ပဌမဆုံး အင်္ဂလိပ်သတင်းစာဖြစ်သော "သ-ဘားမင်း" သတင်းစာကို ကိုယ်တိုင် အယ်ဒီတာအဖြစ် ဦးစီးဆောင်ရွက် ထုတ်ဝေခဲ့သည်။ ငယ်စဉ်က မြန်မာစာပေကို ဘာသာရပ်တခုအနေနှင့် မသင်ဘူးခဲ့သော်လည်း၊ မြန်မာရာဇဝင်၊ မြန်မာစာပေတို့ကို လေ့လာဆည်းပူးပြီးလျှင် ချေင်း ၉ စောင်ကို တည်းဖြတ်ထုတ်ဝေခဲ့သည်။ ဦးမေအောင်သည် မြန်မာမှုကို လေးစားကိုင်းညွတ်သည်။ မြန်မာနိုင်ငံ သုတေသနအသင်း တည်ထောင်ရာတွင် ပါဝင်၍ အဖက်ဖက်တွင် ထူးချွန်သော ပုဂ္ဂိုလ်ကြီး ဖြစ်ပေသည်။

**မယ်စယ်ဘော်ရနီ။** ။ဗားနေး၊ မေဂျာ — ရှု။

**မယ်ဇလီပင်။** ။မယ်ဇလီပင်သည် လီဂူမိနိုးစီအီး မျိုးရင်းတွင်ပါဝင်၍ ယင်းကို ရုက္ခဗေဒအလိုအားဖြင့် ကက်စီယာ ဆိုင်းရမ်းမီး ဟု ခေါ်သည်။ မယ်ဇလီပင်သည် ဆဲနှစ်ရာသီစိမ်းလန်းသော သစ်ပင်ဖြစ်၍ အထက်အောက်မြန်မာနိုင်ငံရှိ သစ်တောများ၌ပေါက်သည်။ အစေ့ကိုစိုက်ခြင်းဖြင့် အလွယ်တကူ အပင်ပေါက် နိုင်သည့်ပြင် ကြီးလွယ်၍ ခိုင်ခံ့သော သစ်ပင်ဖြစ်သောကြောင့် တောလက်ကျေးရွာများနှင့် ဘုန်းကြီးကျောင်း ဝင်းများအတွင်း၌ မယ်ဇလီပင်များကို စိုက်ပျိုးထားတတ်ကြသည်။ မယ်ဇလီပင်သည် အမြင့် ပေ ၅၀ အထိရှိ၍ အစိမ်းရင့်ရောင် ထိပ်ဝိုင်း နေသော အရွက်များဖြင့် ထူထပ်စွာ ဖုံးအုပ်လျက် ရှိသည်။ ယင်းအပင်ကို အရိပ်အာဝါသအတွက် စိုက်ပျိုးကြသည်။

အရွက်သည် ငှက်မွေးပုံကဲ့သို့ ရိုးတံ တဖက်တချက်တွင် ရွက်မြွှာများစီ၍ ထွက်နေသည်။ ရွက်ရိုးတံသည် ၆ လက်မမှ ၁၂ လက်မထိရှည်၍ ရိုးတံ တခုတခုတွင် ရွက်မြွှာများ ၆ စုံမှ ၁၀ စုံအထိရှိသည်။ ရွက်မြွှာတခုတခုသည် ၁ လက်မမှ ၂ လက်မအထိ ရှိသည်။ ထိပ်ဝိုင်းသည်။ အဝါရောင်အပွင့် သေးကလေးများသည် အကိုင်းရင်း၌ အခိုင်လိုက်ပွင့်ကြသည်။ သီးတောင့်များသည် ပြား၍ ၆ လက်မခန့်ရှည်သည်။ သေးသွယ်သည်။ မှည့်လာသောအခါ ညိုလာ၏။ သီးတောင့်ထဲတွင် အစေ့များရှိသည်။

မယ်ဇလီပင်ကို စိုထိုင်းသော မြေမျိုး၌စိုက်လျှင် ကောင်းစွာ ဖြစ်ထွန်း၍၊ မြေစေးမြေ၌ စိုက်လျှင် အပင်ကြီးသင့်သလောက်မကြီးဘဲ၊ လှီ၍နေတတ်သည်။ အရွက်နုကလေးများနှင့် အဖူးများကို ချက်ပြုတ်စားလေ့ရှိကြသည်။ တန်ဆောင်မုန်းလပြည့်နေ့၌ မယ်ဇလီဖူးလက်သုပ် စားခြင်းသည် မြန်မာ့ရိုးရာအရ ဆေးဖက်ဝင်သည်ဟု ဆိုသည်။ ချောမွတ်၍ မွဲပြာရောင်ရှိသော အခေါက်နှင့် အသီးများကို သားရေနယ်ရာ၌ အသုံးပြုကြသည်။ ရှမ်းပြည်နယ်တွင် မယ်ဇလီပင်များကို ထင်းအလို့ငှါစိုက်ပျိုးကြသည်။



မယ်ဇလီပင်၏ အသီးအရွက်နှင့် အပွင့်များ

မယ်ဇလီသားသည် ညိုမည်းမည်း အရောင်ရှိ၍ မာသည်။ ပြောင်လက်လာအောင် အရောင်တင်နိုင်သော သစ်သားလည်း ဖြစ်သဖြင့် ဘီရိုကဲ့သို့ အိမ်အသုံးအဆောင်များ လုပ်ရန် အသုံးကျသည်။ ထို့ပြင် ပုဆိန်ရိုး၊ သစ်သားဆောက်ပုတ်ရိုးမှစ၍ အခြားတန်ဆာပလာအရိုးများနှင့် လက်ကိုင်တုတ်များလုပ်ရန် အသုံးပြုကြသည်။

မယ်ဇလီကြီးပင်ဟူ၍ အပင်တမျိုး ရှိသေး၏။ ယင်းကို သဘော်မယ်ဇလီပင်ဟုလည်း ခေါ်ကြသည်။ မယ်ဇလီကြီးပင်များသည် ချုံယောင်ပင်ငယ်များဖြစ်၍ မြန်မာနိုင်ငံတွင် အနှံ့အပြားတွေ့ရသည်။ ဆေးဖက်ဝင်သော အပင်များဖြစ်သဖြင့် ခြံဝင်းများအတွင်း၌ စိုက်ပျိုး ထားတတ်ကြသည်။ ပွေး ကဲ့သို့ ယားယံသည့် အကွက်အနာများကို ထိုအပင်၏ အရွက်တို့ဖြင့် ပွတ်တိုက်ပေးလျှင် အနာ ပျောက်ကင်းနိုင်သည်။ အပွင့်များကို ဝမ်းနုတ်ဆေးအဖြစ်ဖြင့်လည်း အသုံးပြုနိုင်သည်။

တောင်မယ်ဇလီပင်၊ သို့မဟုတ် တောမယ်ဇလီပင်ခေါ် အပင်တမျိုးလည်း ရှိသေးသည်။



ညိုမဲ့ရောင်အသွေးရှိသည့် မယ်ညိုငှက်

**မယ်ညို။** ။မယ်ညိုငှက်သည် ရေငုံး၊ ရေကြက်၊ မောင်တုတ်နှင့် သဘော်ရေကြက်ဟုလည်း ခေါ်သော ရေကြက်ဒိုတို့နှင့် အတူ ရယ်လီဒီးမျိုးရင်းတွင် ပါဝင်၍ ပါဏဗေဒ အမည်မှာ ပေါ်ဖီရီအို ပေါ်ဖီရီအို ပေါ်လီဆီဖာလပ် ဖြစ်သည်။ အလျား ၁၇ လက်မရှိ၏။ ငှက်မသည် ငှက်ဖိုနှင့်တူသော်လည်း အမောက်ငယ်၏။ ဆူညံစွာ အော်တတ်သည်။ ပျံသန်းရာတွင် အလွန်ချည့်နဲ့၍ ပင်ပန်းပုံရသည်။ ဝေးဝေးလည်း မပျံနိုင်ချေ။

မယ်ညိုသည် အင်းများ အိုင်များ၌သာ ကျက်စားလေ့ရှိသည်။ အထူးသဖြင့် အင်းရိုးတလျှောက် ကိုင်းတော၊ ကျူတောနှင့် ချုံများရှိသော အင်းအိုင်များကို ပိုမိုနှစ်သက်ကြသည်။ မြစ်ကြီးနားခရိုင် အင်းတော်ကြီးတောင်ဖက်နှင့် အရှေ့မြောက်အစပ်များနှင့် ကျောက်ဆည်ခရိုင် စွန်ရဲအင်း၏ ကျူတောကြီးများတွင် အမြောက်အမြား တွေ့ရသည်။

နေဝင်ဆည်းဆာအချိန်တွင် အအုပ်အသင်းဖွဲ့ကာ လယ်များရှိရာသို့ ပျံ၍ စပါးပင်များကို ခြေဖြင့်နင်းလျက် များစွာဖျက်ဆီးတတ်ကြသည်။ အနှောင့်အရှက် မပြုလျှင် လူအနားကပ်ခံသည်။

ပြက်တပေခန့်ရှိသော အသိုက်ကို အကိုင်းအခက်ကလေးများဖြင့် ရေပေါ်ရှိ အပင်များပေါ်တွင် ပြုလုပ်ထားသည်။ အသိုက်မှာ ခွက်ကြီးကဲ့သို့ရှိသည်။ အနီးအနားမှ အပင်များကို ဖျက်ဆီး၍ အသိုက် ပြုလုပ်သဖြင့် အသိုက်ကို ရှာရန် လွယ်ကူ၏။ တမြုံလျှင် ၃ ဥမှ ၁၀ ဥအထိရှိ၍ တဥလျှင် ပျမ်းမျှအလျား ၁.၉၉ လက်မနှင့်ပြက် ၁.၄၁ လက်မရှိသည်။

မယ်ညိုသည် အာရှမိုင်းနားမှ အိန္ဒိယနှင့် မြန်မာနိုင်ငံတို့တလျှောက် မလ္လာယုအထိ ပျံ့နှံ့၏။ အာဖရိကနှင့် ဥရောပတောင်ပိုင်းဒေသများ၌လည်း တွေ့ရသည်။ မြန်မာ နိုင်ငံတဝှန်းလုံး အင်းအိုင်များရှိသော ဒေသတွင် မယ်ညိုကို တွေ့နိုင်သည်။

# သိရီမဟာ မာယာဒေဝီ

ဒေဝဒဟပြည့်ရှင်အဥ္စနမင်း (မဟာသုပ္ပဗုဒ္ဓ)နှင့် ယသောဓရာမိဖုရားကြီးတို့မှ မြင်သော သမီးတော်ဖြစ်၍၊ ကပိလဝတ်ပြည်သီဟဟနုမင်း၏သားတော် သုဒ္ဓေါဒနမင်းနှင့် စုံဖက်ရာတွင် အလောင်းတော် သိဒ္ဓတ္ထကုမာရမင်းသားကို ဖွားမြင်သည်။ ထို့ကြောင့် ''မယ်တော်မာယာ'' ဟုခေါ် ဆိုကြလေသည်။

**မယ်တော်မာယာ (သိရီမဟာမာယာဒေဝီ)။** ။ဂေါတမမြတ်စွာဘုရား၏ မယ်တော် ဖြစ်သော သိရီမဟာမာယာဒေဝီ၏ အမျိုးအနွယ် အစဉ်အဆက်မှာ ဩက္ကာကမင်းမှစ၍ ဇယသေနမင်းတိုင်အောင် ရှစ်သောင်းနှစ်ထောင် တကျိပ်သော မင်းတို့သည် ကပိလဝတ်ပြည်ကြီးကို စိုးမိုးအုပ်ချုပ်ခင်းလုပ်ခဲ့ကြလေသည်။ အခြား အမျိုးတို့နှင့် ထိမ်းမြား

လက်ထပ်ခြင်း မပြုဘဲ၊ မိမိတို့အမျိုးတွင်း၌သာ လက်ထပ်ထိမ်းမြားခြင်း ပြုကြသောကြောင့် သာကီဝင် မင်းမျိုးဟု ခေါ်ကြသည်။

ထိုသာကီဝင် မင်းမျိုးတို့ ရေဖျန်းကစားရာ ရေအိုင်ကြီးသည် အလွန်ကြီးကျယ်၏။ သာကီဝင် မင်းမျိုးတို့သည် ထိုရေအိုင်ကြီး၏ အနီး၌ မင်းကွန်းတည်းနန်းဆောက်၍ ပျော်ပျော်ရွှင်ရွှင် နေခဲ့ကြ၏။ ထိုသို့ နေခဲ့ကြရာမှ ကာလကြာရှည်လတ်သော် ကပိလဝတ်ပြည်မှ တသီးတခြား ဖြစ်၍ "ဒေဝဒဟပြည်" ဟု ခေါ်တွင် ပေါ်ပေါက်လာခဲ့လေသည်။ ကပိလဝတ်နှင့် ဒေဝဒဟနှစ်ပြည်ထောင်တို့သည် သာကီဝင် မင်းမျိုးများသာ ဖြစ်ကြ၍၊ အမျိုးချင်း ဖလှယ်ကာ၊ ရွှေလမ်းငွေလမ်း သွယ်တန်းခြင်းအမှုကို ပြုခဲ့ကြလေသည်။

ကပိလဝတ်ပြည် ဇယသေနမင်း၏ သမီးတော် ယသောဓရာနှင့် ဒေဝဒဟမင်း၏ သားတော် အဥ္ဇန (မဟာသုပ္ပဗုဒ္ဓ) မင်းတို့ စုံဖက်ကြရာတွင် သိရီမဟာမာယာမင်းသမီး၊ မဟာပဇာပတိဂေါတမီ မင်းသမီး၊ မောင်တော်ဒဏ္ဍပါဏိ၊ ညီတော်သုပ္ပဗုဒ္ဓ ဟူသော သားတော် သမီးတော် လေးပါးကို ဖွားမြင်ခဲ့လေသည်။

ဤလေးပါးမှ သိရီမဟာမာယာမင်းသမီးနှင့် ကပိလဝတ်ပြည် သီဟဟနုမင်း၏ သားတော်သုဒ္ဓေါဒနမင်းတို့ စုံဖက်ခဲ့ကြရာမှ ဘုရားအလောင်းတော် သိဒ္ဓတ္ထကုမာရ မင်းသားကို ဖွားမြင်ခဲ့လေသောကြောင့် "မယ်တော် မာယာ" ဟူသော ဂုဏ်ထူးဖြင့် ခြီးကျူး ခေါ်ဆိုကြခြင်းဖြစ်လေသည်။ (သုဒ္ဓေါဒနမင်းကြီး။ သိဒ္ဓတ္ထမင်းသား — ရှု။)



သိရီမဟာမာယာ မိဖုရားကြီး အိပ်မက်မြင်ခဏ်း

(ဤနေရာ၌ မယ်တော် မာယာ၏ ခမည်းတော်မှာ မဟာဝင်စသော ကျမ်းများ၌လာသော ဘိုးတော်အဥ္ဇန ဟူသော အမည်ကိုသာ အသိများ ကြ၏။ သို့ရာတွင် ကေနိပါတ်အင်္ဂုတ္တိုရ်အဋ္ဌကထာစသည်ကိုရင်း၊ "မဟာသုပ္ပ၊ ဗုဒ္ဓဟူသည်၊ ရိပ်ဖြူတစင်း၊ မင်း၏ ရင်သွေး၊ အထွေးအကြီး၊ ညီးရရီးသား၊ သမီးစစ်တွင်၊ လက်ဦးမြင်သည်၊ မိခင်မာယာ၊ ဖြစ်တုံလှာ၍" ဟု ရှင်မဟာရဋ္ဌသာရက ဘူရိဒတ်ဇာတ်ပေါင်း လင်္ကာတွင် စပ်ဆိုသည်ကိုရင်း ထောက်၍ မဟာသုပ္ပဗုဒ္ဓမည်ကြောင်းကိုလည်း သိသင့်ပေသည်။ မယ်တော်မာယာ၏ မောင်တော်မှာ သုပ္ပဗုဒ္ဓဖြစ်၍ ခမည်းတော်မှာ မဟာသုပ္ပဗုဒ္ဓဟုဆိုလိုသည်။)

မယ်တော် မာယာသည် မိမိ၏ကောင်းမှု အထူးကြောင့် အလွန်လျှင် သူတပါး၏ နှလုံးကို ဆောင်တတ်သော အဆင်း၏တင့်တယ်ခြင်း၊ ဘုန်းရှိသော သူတို့၏ ဘုန်းကြောင့် ဖြစ်သော လက္ခဏာရှိခြင်းနှင့် ပြည့်စုံ၏။ အလွန် အဆင်းလှ၏။ ရှုချင်ဖွယ်ရှိ၏။ ခပ်သိမ်းသော ရတနာတို့ဖြင့် တန်ဆာဆင်ယင်ကုန်ဘိသကဲ့သို့ ကြည်ညိုဖွယ် ရှိ၏။ မယ်တော် မာယာသည် အဆင်းအင်္ဂါ လက္ခဏာနှင့် ပြည့်စုံခြင်းကြောင့် လူအပေါင်းအား မတည်တံ့နိုင်သော သဘောရှိ၏။ မယ်တော်မာယာ စံမြန်းနေထိုင်သော ကပိလဝတ်ပြည်ကြီးဝယ် ဥတ္တရာသဠ်နက္ခတ်သဘင်ကြိမ်၍ လူအများတို့ နက္ခတ်သဘင် ကစားကြကုန်သော်၊ မယ်တော် မာယာသည်လည်း နက္ခတ်သဘင်ပွဲကြီး၌ တိုင်းသားပြည်သူတို့နှင့်အတူ ပါဝင်ဆင်နွှဲလေသည်။ ထိုသို့ ဆင်နွှဲ၍ ၇ ရက်မြောက်သော နေ့ဝယ် မွန်မြတ်သော ခဲဖွယ်ဘောဇဉ်များကို စားသုံးပြီး၍ ဉပုသ်သီတင်းသီလ ဆောက်တည်ပြီးလျှင်၊ ကျက်သရေတိုက်ခန်းသို့ဝင်၍ စက်တော်ခေါ်လေသော်၊ ဤသို့သော အိပ်မက်ကို မြင်၏။

စာတုမဟာရာဇ်နတ်မင်းကြီးလေးယောက်တို့သည်မဟာမာယာမိဖုရားကို အိပ်ရာနှင့်တကွ ချီလေ၍၊ ဟိမဝန္တာတောသို့ ဆောင်ယူပြီးလျှင်၊ ယူဇနာခြောက်ဆယ်ရှိသော ဆေးဒန်းမြင်းသီလာကျောက်ဖျာအပြင်၌ ခုနစ်ယူဇနာ ရှိသော အင်ကြင်းပင်ကြီးအောက်၌ ထား၍ တင့်တယ်စွာရပ်ကုန်၏။ ထိုအခါ နတ်မင်းကြီးတို့၏ နတ်မိဖုရားတို့ လာ၍ မဟာမာယာမိဖုရားကို အနဝတတ်အိုင်သို့ ယူဆောင်ပြီးလျှင် လူတို့၏အနံ့ကို ဖျောက်ခြင်းငှါ ရေချိုးစေ၍၊ နတ်တို့၏ အဝတ်တန်ဆာကို ဝတ်ဆင်စေ၍၊ နတ်တို့၏ နံ့သာတို့ဖြင့် လိမ်းစေ၍၊ နတ်တို့၏ ပန်းကိုပန်စေ၍၊ နတ်တို့၏တန်ဆာကို ဆင်ယင်စေပြီးလျှင်၊ အနဝတတ်အိုင်၏အနီး၌ ငွေတောင်သည်ရှိ၏။ ထိုငွေတောင်၏ အတွင်း ရွှေဗိမာန်သည်ရှိ၏။ ထိုဗိမာန်၌ အရှေ့သို့ ဦးခေါင်းပြု၍နတ်တို့အိပ်ရာကို ခင်း၍ သိပ်ကုန်၏။ ထိုအခါ၌ ဆင်ဖြူသည် ထိုငွေတောင်၏ အနီး၌ ရွှေတောင်တတောင်ရှိ၏။ ထိုရွှေတောင်၌ သွားဦး၍ ရွှေတောင်မှသက်



ရှိ မဟာ မာယာဒေဝီ မဟေသီသည် လုမ္ဗိနိဥယျာဉ်ဝယ် မင်္ဂလာ အင်ကြင်းကိုင်းကို အသာလှမ်း၍ လက်ကမ်းကာကိုင်လျက် အလောင်းတော်
မင်းသားကို မီးရှူးသန့်စင် ဖွားမြင်တော်မူဟန် ဖော်ပြသော ရှေးမြန်မာ ပန်းချီလက်ရာ



**မယ်တော်မာယာသည် ကပိလဝတ်ပြည်မှ ဒေဝဒဟပြည်အသွား လုမ္ဗိနီအင်ကြင်းတောဥယျာဉ်သို့ ရောက်ရှိဟန် ရုပ်လုံးဖော်ထားသော စဥ့်ကွင်း**

ပြီးလျှင်၊ မြောက်မျက်နှာမှလာ၍၊ ငွေပန်းဆိုင်းနှင့် တူသော နှာမောင်းဖြင့် ကြာဖြူကိုယူ၍၊ ကြိုးကြာသံကဲ့သို့ မြည်၍၊ ရွှေဗိမာန်သို့ ဝင်ပြီးလျှင် မိဖုရားအိပ်ရာကို သုံးကြိမ်လက်ျာရစ် လှည့်၍၊ လက်ျာနံတောင်းကို ခွဲ၍ ဝင်သကဲ့သို့ဖြစ်၏။ ဤသို့သောအိပ်မက်ကို မြင်မက်၏။

မယ်တော်မာယာသည် ဤအိပ်မက်ကို မြင်မက်၍၊ ဘုရားလောင်း ပဋိသန္ဓေယူသည်မှအစပြုပြီးလျှင်၊ယောကျ်ားတပါးတို့၌ တပ်မက်သောစိတ် မရှိ၊ လာဘ်သပ္ပကာပြန့်ပြောခြင်း၊ အခြံအရံ ပြန့်ပြောခြင်းသို့ ရောက်၏။ ကိုယ်စိတ်နှစ်ဖြာ ချမ်းသာ၏။ မပင်မပန်းသော ကိုယ်ရှိ၏။ မယ်တော်ဝမ်း၌ တည်သော ဘုရားလောင်းကိုလည်း ကြည်လင်လှစွာသော ပတ္တမြား၏ အတွင်း၌ တည်အပ်သော ခြည်ဖြူကြိုးကဲ့သို့ မြင်ရ၏။ ဘုရားလောင်းနေတော်မူသော ဝမ်းတိုက်သည် စေတီအိမ်နှင့် တူလေ၏။

မယ်တော်မာယာသည် ရင့်သော ကိုယ်ဝန်ရှိလတ်သော်၊ ဆွေတော်မျိုးတော်များ စံပျော်ရာ ဒေဝဒဟပြည်သို့ ပြန်လိုကြောင်း သုဒ္ဓေါဒနမင်းကြီးအား လျှောက်ကြားလေ၏။ သုဒ္ဓေါဒနမင်းကြီးလည်း ကပိလဝတ်ပြည်မှ ဒေဝဒဟပြည်တိုင်အောင် လမ်းခရီးတို့ကို ညီညွတ်စွာသုတ်သင်စေ၍၊ တန်ဆာဆင်ယင်စေပြီးသော်၊ မိဖုရားအား ရွှေထမ်းစင်၌ စီးစေ၍ အမတ်တထောင် ခြံမစေကာ၊ အထိန်းအယ များစွာဖြင့် လွှတ်တော်မူ၏။ကပိလဝတ်နှင့် ဒေဝဒဟပြည်အကြား လုမ္ဗိနီမည်သော အင်ကြင်းတော ဥယျာဉ်သို့ ရောက်သော အခါ မယ်တော်မာယာသည် သာယာကြည်နူး အထူးပင် နှစ်သက်ဖွယ် ကောင်းလှသော အင်ကြင်းရနံ့တို့၏ သင်းပျံ့ပုံကိုရင်း၊ ပင်လုံးပွင့်ညွတ် ဆွတ်ချင်စရာ အင်ကြင်းမာလာတို့ကိုရင်း မြင်တွေ့ရ၍၊ အင်ကြင်းပင် တပင်အောက်သို့ ရောက်သွားလေ၏။ အင်ကြင်းခက်တခက်ကို လက်တော်ဖြင့် လှမ်းလင့်ယူငင်လိုက်၍၊ မတ်ရပ် နေရာကပင် ဘုရားအလောင်းတော်ကို ဖွားမြင်လေ၏။

ယင်းသို့ အလောင်းတော် မင်းသားကို ဖွားမြင်တော်မူပြီးသော်၊ ပြည်ကြီး နှစ်ပြည်မှ ရောက်လာကြကုန်သော ဆွေတော်မျိုးတော် အပေါင်းတို့သည် ကောင်းစွာ ဝန်းညီ၍ ကပိလဝတ်ပြည်သို့ ပြန်ပို့ကြကုန်၏။

အလောင်းတော်ကို ဖွားမြင်၍ ၇ ရက်စေ့သော နေ့ဝယ် ဗုဒ္ဓမာတာ ဘုရားလောင်း မိခင်တို့၏ ဓမ္မတာအရ လူ့ပြည်မှ ကွယ်လွန်၍ တုသိတာ နတ်ပြည်၌ သန္တုသိတနတ်သားဖြစ်၏။

နောင် မြတ်စွာဘုရားသည် ခုနစ်ဝါမြောက်သော အခါ တာဝတိံသာနတ်ပြည်၌ ဝါတွင်းသုံးလပတ်လုံး အဘိဓမ္မာတရား ဟောကြားတော်မူရာ၊ ဒေသနာတော်၏ အဆုံး၌ မယ်တော်မိနတ်သားသည် သောတာပတ္တိဖိုလ်သို့ ရောက်ရှိလေသတည်း။

ဆရာဥာဏ်

**မဲခေါင်မြစ်။** ။မဲခေါင်မြစ်သည် အာရှတိုက်တွင် စီးဆင်းသောမြစ်ကြီးတသွယ်ဖြစ်သည်။ မိုင်ပေါင်း ၂,၇၀၀ မျှရှိ၍ အာရှတိုက်တွင် ရှည်လျားသောမြစ်ကြီးများ စာရင်းဝင်ဖြစ်သည်။ မဲခေါင်မြစ်သည် တိဗက်ကုန်းပြင်မြင့်တွင် မြစ်ဖျားခံသည်။ သံလွင်မြစ်၏ မြစ်ဖျားခံရာနေရာနှင့်များစွာ မဝေးလှပေ။ အဦးအစ စီးဆင်းသည့်မှစ၍ အထက်ပိုင်းတွင် အနောက်ဖက်ရှိ သံလွင်မြစ်နှင့်၎င်း၊ အရှေ့ဖက်ရှိ ယန်စီမြစ်တို့နှင့်၎င်း မျဉ်းပြိုင်ဆိုသလို စီးဆင်းသည်။ မိုင်ပေါင်း ၁,၂၀၀ မျှ တရုပ်ပြည်သူ့ သမတနိုင်ငံတွင်း စီးဆင်းပြီးနောက် မြန်မာနိုင်ငံဖြစ်သော ရှမ်းပြည် ကျိုင်းတုံနယ်စပ်တလျှောက် ဝိုက်သန်းစီးဆင်း၍ တစိတ်တဒေသအားဖြင့် လာအို နိုင်ငံနှင့် နယ်နိမိတ် ပိုင်းခြားသတ်မှတ် လိုက်သည်။ ထိုနောက် လာအိုနိုင်ငံတွင်းသို့ ဖြတ်သန်းစီးဝင်ပြီးလျှင် ယိုးဒယားနိုင်ငံ၏ အရှေ့ဖက် နယ်စပ်တလျှောက် ပတ်သန်းစီးဆင်း၏။ ထိုမှ တဖန် ကမ္ဘောဒီးယားနိုင်ငံကို ဖြတ်သန်းစီးဆင်းပြီးသောအခါ ဗီယက်နမ်နိုင်ငံတွင်းသို့ စီးဝင်ပြီးလျှင် ဆိုင်ဂုံမြို့အနီးတွင် တောင် တရုပ်ပင်လယ်တွင်းသို့ စီးဝင်သည်။ ထို့ကြောင့် မဲခေါင်မြစ်သည် တိဗက်ကုန်းပြင်မြင့်မှ စတင်စီးဆင်းပြီးလျှင် နိုင်ငံ ၅ ခုတွင်းသို့ ဖြတ်သန်းစီးဝင်သည်။ သို့ဖြစ်၍လည်း အရပ်ဒေသကိုလိုက်၍ အမည်အမျိုးမျိုးတွင်သည်။

မဲခေါင်မြစ်သည် တိဗက်ပြည် ဒဇနတ်လွန်မွန်တောင်ခြေမှ စတင်စီးဆင်းသည်ဟု ယူဆရသည်။ ထိုဒေသကား ပင်လယ်ပြင်အထက် အမြင့်ပေ ၁၆,၇၀၀ ခန့်တွင် တည်ရှိသည်။ တိဗက်ပြည်တွင် ဒဇချူဟု တွင်သည်။ မြစ်ဖျားခံရာမှ အရှေ့တောင်ဖက် ချီယမ်ဒိုသို့ စီးဆင်းသည်။ ထိုဒေသကား ပင်လယ်ပြင်အထက် အမြင့်ပေ ၁၀,၀၀၀ ခန့်တွင် တည်ရှိသည်။ ဆက်လက်၍ တောင်ဖက်သို့ မထင်ရှားသော တောကြိုတောင်ကြား တလျှောက် စီးဆင်းသည်။ လတ္တီတွဒ် ၂၆° ရှိ ဒါယူမှ လွန်သောအခါ လန်ဆန်ကျန်ဟူ၍ တရုပ်အမည်ဖြင့် တွင်သည်။ မိုင်ပေါင်း ၃၀၀ မျှ မထင်မရှား မြင့်မားသော တောင်စောင်း ကျောက်ကမ်းပါးများ အကြားတွင် အဟုန်ပြင်းစွာ စီးဆင်းသည်။ တရုပ်နိုင်ငံမှ လွန်သောအခါ မြစ်သည် ကိုက် ၃၀၀-၄၀၀ ခန့် ကျယ်လာသည်။ ရှေးအခါက ဗန်းမော်မှ တာလီဖူးသို့ သွားသောလှည်းဝန်တင်လမ်းသည် မဲခေါင်မြစ်ကို ကြိုးတန်တားဖြင့် ဖြတ်ကျော်ရသည်။

မဲခေါင်မြစ်သည် ယင်းဖြတ်သွားရသော တောင်ထုကြီးများအလိုက်၊ လမ်းကြောင်းပြောင်း၍ စီးဆင်းသည်။ မြန်မာနိုင်ငံ ရှမ်းပြည်နယ်နှင့် လာအိုနိုင်ငံတို့ကို ပိုင်းခြားသော နယ်နိမိတ်သဖွယ်လည်း ဖြစ်၏။ ယိုးဒယားနိုင်ငံ ချီအင်ဆန်းမြို့နှင့်လူအန်ပရဗန်တို့အကြားတွင် အရေးပါသော မြစ်လက်တက်များစီးဝင်သည်။ မဲခေါင်မြစ်တွင် ရေမော် ၄ တန်ရှိသည်။ မြောက်လတ္တီတွဒ် ၁၆ ဒီဂရီရှိ ကေမာရတ်တွင်ရှိသော ရေမော်သည် မိုင် ၆၀ မျှ ရှည်ကာ အဟုန်ပြင်းထန်၏။ စတုတ္ထရေမော်လည်း ဖြစ်၏။ နောက်ဆုံး ရေမော်သည် ခွန်တွင် ရှိသည်။ ယင်းနေရာမှသည် တောင်တရုပ်ပင်လယ်တွင်းသို့ မစီးဝင်မီ မိုင် ၄၀၀ မျှ ကွေ့ကောက်စီးဆင်းသည်။ ကမ္ဘောဒီးယားနိုင်ငံတွင်းသို့စီးဝင်ပြီးနောက်ဗီယက်နမ်နိုင်ငံတွင်းသို့ ရောက်လျှင် မြစ်သည် ၃ ကြောင်းကွဲကာ တောင်တရုပ်ပင်လယ်တွင်းသို့ စီးဝင်သည်။

မဲခေါင်မြစ်သည် မြေပြန့်နှင့် မြစ်ဝကျွန်းပေါ် ဒေသများတွင် ရေကြီးတတ်သည်။ ကမ္ဘောဒီးယား နိုင်ငံနှင့် ဗီယက်နမ်နိုင်ငံတို့သည် မဲခေါင်မြစ်ကြောင့် မြေသြဇာကောင်းမွန်ကြသည်။

မဲခေါင်မြစ် တလျှောက်တွင် လေ့လာသူများ သွားလာနိုင်အောင် ပြင်သစ်တို့က များစွာ ကြိုးပမ်း ပြုပြင်ခဲ့သည်။ ယခုအခါတွင်လည်း အမေရိကန်နှင့် အာရှ တိုင်းရင်းသားတို့သည် မဲခေါင်မြစ်အကြောင်းကို ပိုမိုသိရှိနိုင်ရန် လေ့လာစုံစမ်းလျက်ရှိ၍၊ တိုးတက်ရေး လမ်းစများကို ရှာဖွေနေကြပေပြီ။

မဲခေါင်မြစ်ပေါ် တွင် တည်ရှိသောမြို့များအနက် ထင်ရှားသည်တို့ကား လာအိုနိုင်ငံမြို့တော် ဗီယင်တျန်းမြို့နှင့်ကမ္ဘောဒီးယား (ကမ္ဘောဇ) နိုင်ငံ၏မြို့တော် ဖနွမ်းပင်တို့ဖြစ်ကြ၏။

**မဲဆန္ဒပေးခြင်း။** ။နိုင်ငံ အရေးအခင်းများကို ဆုံးဖြတ်ရာ၌၎င်း၊ ခေါင်းဆောင်များနှင့် အစိုးရ အဖွဲ့များကို ရွေးချယ်ရာ၌၎င်း ပြည်သူလူထုသည် မဲဆန္ဒပေးသည့်နည်းကို အသုံးပြုလေ့ ရှိကြသည်။

ဆိုရှယ်လစ်နိုင်ငံဖြစ်သော ဆိုဗီယက်ရုရှနိုင်ငံ၌ အသက် ၁၈ နှစ်ပြည့်သော တိုင်းသူပြည်သားများသည် မိမိတို့ နှစ်ခြိုက်သော ပုဂ္ဂိုလ်များကိုပြည်သူ့လွှတ်တော် အမတ်များနှင့် လူမျိုးစု လွှတ်တော် အမတ်များ အဖြစ်သို့ မဲဆန္ဒဖြင့် ရွေးကောက် တင်မြှောက်ကြသည်။ ဗြိတိန်၊ အမေရိကန်၊ ပြင်သစ် စသော ပါလီမန်ဒီမိုကရေစီ နိုင်ငံများရှိ ပြည်သူပြည်သားများသည်လည်း မဲဆန္ဒဖြင့် ပါလီမန်အမတ်များကို ရွေးချယ်ကြရသည်။ (ပါလီမန် — ရှု။)

ပါလီမန် အမတ်များအား မဲဆန္ဒပေး၍ ရွေးကောက်တင်မြှောက်သော စံနစ်မှာ ဗြိတိသျှတို့ စတင် ကျင့်သုံးသော စံနစ်ဖြစ်သည်။ အကျဉ်းအားဖြင့် ဖော်ပြရသော် ရှေးဦးကာလ ဆိုင်ရာခရိုင်များမှ ကိုယ်စားလှယ်အမတ်များကို ရွေးကောက် တင်မြှောက်ကြရာ၌ လက်ထောင်၍ ရွေးကောက်ခြင်း ပြုကြသည်။ ၁၈ ရာစုနှစ်တွင်မှ မဲဆန္ဒပေးခြင်း စံနစ်ပေါ် လာသည်။ ထိုစဉ်အခါက မဲဆန္ဒပေးသူသည် မဲရုံသို့ သွား၍ မိမိမဲပေးလိုသော အမတ်လောင်း၏ အမည်ကို လူအများရှေ့တွင် ထုတ်ဖော်ပြောရ၏။ ဤသို့ ပြောရခြင်း



လျှို့ဝှက်မဲပေးသည့် စံနစ်အရ၊ မိမိနှစ်သက်ရာ ကိုယ်စားလှယ်အား မဲဆန္ဒအသီးအသီး ပေးနေကြစဉ်

စံနစ်ကြောင့် လပ်ပေးလပ်ယူ ပြုခြင်း၊ ခြိမ်းခြောက်ခြင်းတို့ ပေါ်ပေါက်ရုံမကဘဲ ရွေးကောက်ပွဲသည်လည်း အမိကရုဏ်းဖြင့် အပြီးသတ်လေ့ရှိ၏။ ၁၈၇၂ ခုနှစ်တွင် လျှို့ဝှက် မဲပေးရေး ဥပဒေကို ဗြိတိန်ပြည်၌ ပြဋ္ဌာန်းခဲ့သည်။ ၁၈၃၂ ခုနှစ် မတိုင်မီက မဲဆန္ဒပေးခွင့်ရှိသူ လူဦးရေကို အကန့်အသတ် ပြုခဲ့၏။ မြေပိုင်၍ ချမှတ်ထားသော နှစ်စဉ် အသားတင် ဝင်ငွေရှိသူများကိုသာ မဲဆန္ဒပေးနိုင်ခွင့်ရှိ၏။ တဖြည်းဖြည်း ဖြင့် မဲပေးခွင့်ကို ပြုပြင်ပြောင်းလဲခဲ့ရာ ၁၈၈၄ ခုနှစ် နောက်ပိုင်းတွင် အသက် ၂၁ နှစ်ပြည့်သော ယောကျ်ားတိုင်း မဲဆန္ဒပေးခွင့်ရ၏။ ဗြိတိသျှ အမျိုးသမီးတို့သည် ၁၉၁၈ ခုနှစ် နောက်ပိုင်းတွင်မှ မဲဆန္ဒပေးခွင့်ရကြသည်။

ရုရှနိုင်ငံကို ဇာဘုရင်တို့ အုပ်စိုးစဉ် ပြည်သူလူထုသည် နိုင်ငံအရေးတို့ကို မဲဆန္ဒပေး၍ ဆုံးဖြတ်နိုင်ခွင့် ပြောပလောက်အောင် မရရှိခဲ့ကြချေ။ ၁၉၁၇ ခုနှစ်အောက်တိုဘာလ တော်လှန်ရေး ပြီးသည့်နောက် ဆိုရှယ်လစ် ရုရှနိုင်ငံဖြစ်လာသောအခါ၌ကား အသက် ၁၈ နှစ်ပြည့်သော တိုင်းသူပြည်သား ယောကျ်ား မိန်းမ အားလုံးတို့သည် လူမျိုး၊ ဘာသာ၊ ပညာ၊ စီးပွားရေးအခြေအနေ၊ ဇာတိဂုဏ်၊ အရည်အချင်း၊ နေထိုင်ရာဒေသတို့ ကွဲပြားခြားနားမှုကြောင့် အကန့်အသတ် မရှိစေရဘဲ၊ မဲဆန္ဒပေးခွင့် ရှိလာသည်။ သို့ရာတွင် ရူးသွပ်သူ၊ တရားရုံးမှ ရာဇဝတ် အပြစ်ဒဏ် အပေးခံရသူနှင့် မဲဆန္ဒပေးခွင့်ကို ရုပ်သိမ်းခြင်း ခံရသူတို့သည် မဲဆန္ဒပေးခွင့်မရှိချေ။ မဲပေးရာ၌ လျှို့ဝှက်မဲပေးစံနစ်ကို အသုံးပြု၏။ (လျှို့ဝှက်မဲ — လည်းရှု။)

မဒီချီ။ ။ဣတလီနိုင်ငံတွင် မြို့ကြီးများကို ပြည်ထောင်ငယ်ကလေးများအဖြစ် တထီးတနန်း အုပ်စိုးခဲ့သည့် ခေတ်က ဖလော်ရင့်မြို့ကို စိုးမိုးခဲ့သော မဒီချီဆွေမျိုးစုသည် ဣတလီနိုင်ငံသမိုင်းတွင်သာမဟုတ်၊ ပြင်သစ်နိုင်ငံသမိုင်းတွင်လည်း ထင်ရှားပေသည်။ ထိုစဉ်အခါက ဆွေမျိုးစု အများအပြားသည် ပြည်ထောင်ငယ်များကို အုပ်ချုပ်နိုင်မှုအတွက် လက်နက်အားကိုးလျက် တိုက်ခိုက်ခြင်းဖြင့်ရင်း၊ လျှို့ဝှက်စွာ လုပ်ကြံ သတ်ဖြတ်ခြင်းဖြင့်ရင်း ကြံစည် ရယူခဲ့ကြသော်လည်း၊ မဒီချီ ဆွေမျိုးစုတို့မှာမူကား စီးပွားတိုးတက် ကြွယ်ဝလာသောကြောင့် ဓနအင်အားဖြင့် ဩဇာတိက္ကမ ကြီးလာပြီးလျှင် ဖလော်ရင့်မြို့ကို ၁၃ ရာစုနှစ်မှစ၍ကြီးစိုးနိုင်ခဲ့ပေသည်။ ဣတလီနိုင်ငံမှ စဘင် ထွန်းကား၍ ဥရောပနိုင်ငံတို့သို့ ပျံ့နှံ့သွားသော ဉာဏ်သစ် အရေးပုံခေါ် ပညာအရပ်ရပ် ပြန့်

လည်ထွန်းကားသည့် ခေတ်က မဲဒီချီမျိုးဆက် အုပ်စိုးသော ဖလော်ရင့်မြို့သည် အုပ်ချုပ်သူတို့၏ အားပေးမှုကြောင့် အနုပညာနှင့် စာပေပညာများ အထွန်းတောက်ဆုံး နေရာ ဖြစ်ခဲ့ပေသည်။ (ဥဘဏ်သစ် အရေးပုံ—ရှု။) မဲဒီချီ ဆွေမျိုးဆက် ကြွယ်ဝချမ်းသာ၍ တန်ခိုးအာဏာ ထွားလာအောင် ကြံဆောင်သူမှာ ဂျီဗန်နီ ဒါ မဲဒီချီ (ခရစ် ၁၃၆၀ – ၁၄၂၉) ဖြစ်၍ ကုန်သွယ်ရောင်းဝယ်ခြင်း၊ ဘဏ်လုပ်ငန်း လုပ်ကိုင်ခြင်းတို့ဖြင့် ကြီးပွားချမ်းသာလာကာ ဣတလီတနိုင်ငံလုံးတွင် ကျော်ကြားသော သဌေးဖြစ်လေသည်။ ဂျီဗန်နီသည် ရာထူးဌာနန္တရများကို မခံယူဘဲ မြို့သူမြို့သားများအပေါ် သြဇာသောင်းလျက် သားစဉ်မြေးဆက် တန်ခိုးအာဏာ ဆက်ခံနိုင်အောင် ရှေ့ဆောင်သွားပေသည်။

ကောဇီမိုး ဒါ မဲဒီချီ (ခရစ် ၁၃၈၉ – ၁၄၆၄) သည် ဂျီဗန်နီကို ဆက်ခံသော သားကြီးဖြစ်၍၊ မဲဒီချီအမျိုးဆက်အနက် ဦးစွာ နာမည်ထင်ရှား ကျော်ကြားလာသူဖြစ်၏။ ရောမ၊ ဗင်းနစ်၊ ဂျီနီးဗား၊ ဗရုဂျနှင့် လန်ဒန်မြို့များတွင် ဘဏ်ခွဲများ ဖွင့်ခြင်းဖြင့် ဖခင်၏လက်ငုတ်လက်ရင်း ဘဏ်လုပ်ငန်းကို ကြီးကျယ်အောင် တိုးချဲ့လုပ်ကိုင်သည်။ သို့အားဖြင့် မဲဒီချီဆွေမျိုးဆက်၏ စီးပွားရေးကို တိုးတက်စေရုံသာမက၊ လိမ်မာကျွမ်းကျင်ပြေပြစ်စွာပေါင်းသင်းဆက်ဆံတတ်သောကြောင့်



ဖလော်ရင့် သုခုမ အနုပညာရပ်များကို ထူးထူးခြားခြား အားပေးခြီးမြှောက်ခဲ့သည့် လော်ရင်ဇိုမဲဒီချီ

လည်း လူချစ်လူခင် များပြားခဲ့သည်။ ထိုပြင် အနုပညာနှင့် စာပေတိုးတက်မှုတွင် အထူးစိတ်ပါဝင်စားသဖြင့် အားပေးထောက်ပံ့လေသည်။ ဤသို့ မြှင့်တင်အားပေးမှုကို ရရှိသဖြင့် ဖလော်ရင့်မြို့သည် ဥဘဏ်သစ်အရေးပုံခေတ်က အချက်အခြာဒေသ ဖြစ်ခဲ့ပေသည်။ ကောဇီမိုးသည် ဖလော်ရင့်မြို့ကို ကြီးစိုးရာ၌ အုပ်ချုပ်ရေးဆိုင်ရာ ရာထူးဌာနန္တရများတွင် ဝင်ရောက် အရွေးခံခြင်း ပြုခဲ့သည်မဟုတ်ပေ။ ရိုးရိုးအရပ်သားတဦး အဖြစ် နေထိုင်ကာ အုပ်ချုပ်ရေးဆိုင်ရာ အကြီးအကဲများ ရာထူးရအောင်ပြုပေးပြီးလျှင် ထိုသူများကို ကြိုးကိုင်ထားခြင်းသာ ဖြစ်လေသည်။ ဤသို့ အားဖြင့် ဖလော်ရင့်တမြို့လုံးသည် သူ၏ သြဇာခံ ဖြစ်နေခဲ့၏။ ကောဇီမိုးသည် "ဖလော်ရင့်မြို့၏ သရဖူ မဆောင်းသော ဘုရင်" သဖွယ် လုံးဝအာဏာကို ချုပ်ကိုင်ထားနိုင် ခဲ့လေသည်။ ဤသို့ လုံးဝအာဏာဖြင့် ကျပ်တည်းစွာ အုပ်ချုပ်ခြင်းခံရငြားလည်း မြို့သူမြို့သားများသည် ကောဇီမိုးအား အကြည်ညို မပျက်ရုံသာမက "ဖလော်ရင့် မြို့၏ ဖခင်ကြီး" ဟူ၍ပင် ဂုဏ်ပြုခေါ်ဝေါ်ကြလေသည်။

ကောဇီမိုးကွယ်လွန်သောအခါ သူ၏သား ပီယဲရို ဆက်ခံသော်လည်း ဖခင်၏ ခြေရာကို မမှီပေ။ ဖခင်ကဲ့သို့ သြဇာမညောင်းဘဲ မဲဒီချီဆွေမျိုးဆက်၏ အုပ်စိုးမှု မပြတ်ရုံမျှသာ ဖလော်ရင့်မြို့ကို အုပ်စိုးခဲ့သူ ဖြစ်လေသည်။

လော်ရင်ဇို-သ-မဂ္ဂနီဖဆင့် (ခရစ် ၁၄၄၉–၉၂) သည် ပီယဲရို၏သားကြီးဖြစ်၍ ဖခင်ကွယ်လွန်လျှင် ဆက်ခံသည်။ လော်ရင်ဇိုသည် မဲဒီချီဆွေမျိုးဆက်တွင် အထင်အရှား အကျော်ကြားဆုံးဖြစ်၍ ဖလော်ရင့်မြို့ကို ထိပ်ဆုံးအခြေအနေသို့ ပို့ဆောင်ခဲ့သူ ဖြစ်၏။ မိမိကိုယ်တိုင်ပင် ကဗျာစာဆိုတဦးဖြစ်၍ စာပေအနုပညာကို လိုက်စားခဲ့သည်သာမက စာပေ၊ အနုပညာဆိုင်ရာပညာရှင်များကို ကမ္ဘာကျော် ပုဂ္ဂိုလ်များဖြစ်အောင် ခြီးမြှောက်အားပေးခဲ့၏။ စာပေ၌၎င်း၊ အနုပညာ၌၎င်း၊ အလှအပ အာရုံခံစားမှုများ၌၎င်း ဖလော်ရင့်တမြို့လုံးယစ်မူးလျက်ရှိနေစဉ် လိုရင်ဇိုသည် အုပ်ချုပ်ရေးအာဏာများကို သူတဦးတည်း၏ လက်ဝယ် အရယူထားခဲ့လေရာ၊ ဘုရင်ဟူသောအမည်ကို မခံယူသော်လည်း အချို့ ဘုရင်များထက်ပင် တန်ခိုးအာဏာ ကြီးမားခဲ့လေသည်။ သူ၏ ဆောင်ရွက်ချက်များကြောင့် ဖလော်ရင့်မြို့သည် ကမ္ဘာပေါ်ရှိ အလှပဆုံး မြို့ကြီးတမြို့ ဖြစ်ခဲ့လေသည်။ ထို့ကြောင့်ပင် မြို့သားများက 'လော်ရင်ဇို-သ-မဂ္ဂနီဖဆင့်' ဟူ၍ ခြီးကျူးခေါ်ကြ၏။ အဓိပ္ပါယ်မှာ ကျက်သရေ မင်္ဂလာအပေါင်းနှင့် ပြည့်စုံသော လော်ရင်ဇိုဟူသတည်း။ လော်ရင်ဇို၏သြဇာအာဏာသည် ဖလော်ရင့်မြို့ဘွင်သာမကဘဲ ရောမမြို့သို့ပင် ပျံ့နှံ့ခဲ့လေရာ၊ သူ၏ ဒုတိယသား ဂျီဗန်နီအား ၁၄ နှစ်သားအရွယ်ကပင် ကာဒင်နယ်ဂိုဏ်းချုပ်ရာထူးကို ရရှိအောင် ကြံဆောင် ပေး

နိုင်ခဲ့လေသည်။ ဂျီဗန္နီးသည် ၁၅၁၃ ခုနှစ်တွင် ဒသမ လီယို ဘွဲ့ကို ခံယူကာ ပုပ်ရဟန်းမင်း ဖြစ်လာ၍ အနုပညာ ရပ်များကို အထူးအားပေးသူ အဖြစ် ထင်ရှား ကျော်စောခဲ့လေသည်။

လော်ရင်ဇို ကွယ်လွန်ပြီးနောက် ဆက်ခံသောသားဖြစ်သူ ပီယက်တရိုသည် ပျော့ညံ့သူဖြစ်ရကား မြို့သူမြို့သားများက အကြည်ညို ပေါ့လာသဖြင့် မဲဒီချီမျိုးဆက်လည်း တန်ခိုးအာဏာ ယုတ်လျော့သွား၏။ ၁၄၉၄ ခုနှစ်တွင် မြို့သူမြို့သားများ၏ ပစ်ပယ်ခြင်းကို ခံရ၍ ၁၅၁၂ ခုနှစ်တွင်မှ ပြန်လည် ကြီးစိုးနိုင်သည်။

ခရစ် ၁၅၂၇ ခုနှစ်တွင် မဲဒီချီ မျိုးဆက်များ ဒုတိယ အကြိမ် ပစ်ပယ်ခြင်း ခံရပြန်၏။ ၁၅၃၀ ပြည့်နှစ်တွင်မှ တန်ခိုးအာဏာ ပြန်လည်ရရှိသည်။ ယင်းသည့်အချိန်မှစ၍ မဲဒီချီ အဆက်အနွယ်တို့သည် ဒျူဘွဲ့ကို ခံယူကြလေသည်။

မဲဒီချီအဆက်အနွယ်တွင် အခြား ထင်ရှားသော ပုဂ္ဂိုလ်များမှာ ၁၁ ဆက်မြောက် လီယိုဘွဲ့ခံ ပုပ်ရဟန်းမင်းနှင့် သတ္တမ ကလီးမင့်ဘွဲ့ခံ ပုပ်ရဟန်းမင်းတို့အပြင် ကက်သရင်းဒါ မဲဒီချီ ဖြစ်၏။

ကက်သရင်း ဒါမဲဒီချီ (ခရစ် ၁၅၁၉ – ၈၉) သည် လိုရင်ဇို၏ မြစ်ဖြစ်၍ ပြင်သစ်ပြည့်ရှင် ဒုတိယ ဟင်နရီဘုရင်၏ မိဖုရားဖြစ်လေသည်။ဟင်နရီဘုရင်နှင့်ခရစ် ၁၅၃၃ ခုနှစ်တွင်စုလျားရစ်ပတ် လက်ထပ်ခဲ့၏။ သူ၏ သားတော် ၃ ပါးသည် ဒုတိယ ဖရန်စစ်၊ နဝမချားလ်၊ တတိယ ဟင်နရီဘွဲ့များကို အသီးအသီး ခံယူလျက် ခမည်းတော်၏ အရိုက်အရာကို အစဉ်အတိုင်း ဆက်ခံကြသည်။ ကက်သရင်း ဒါ မဲဒီချီသည် သားတော်များ အပေါ် ဩဇာလွှမ်းမိုးလျက် နိုင်ငံအုပ်ချုပ်ရေးတွင်ဝင်ရောက်စွက်ဖက်သည်။ ထိုစဉ်က ပြင်သစ်နိုင်ငံ သမိုင်းတွင် ထင်ရှားသည့်အဖြစ်အပျက် များစွာ ပေါ်ပေါက်ခဲ့ရာ၊ များသောအားဖြင့် မယ်တော် ကက်သရင်း၏ ပယောဂ မကင်းခဲ့ချေ။ အထူးသဖြင့် ခရစ် ၁၅၇၂ ခုနှစ်တွင် ဖြစ်ပွားသော စိန့်ဗာသောလမျူးနေ့ လူသတ်ပွဲမှာ သူ၏ လက်ချက်ဟု ဆိုရပေမည်။ အနုပညာကိုမူကား မိရိုးဖလာအတိုင်း အားပေးသည်။ ၁၅၈၉ ခုနှစ်တွင် ကွယ်လွန်သည်။

ခရစ် ၁၆၀၀ ပြည့်နှစ်မှစ၍ မဲဒီချီမျိုးဆက်သည် တဖြည်းဖြည်း ပျော့ညံ့လာပြီးလျှင် ၁၇၃၇ ခုနှစ်သို့ ရောက်လျှင် ဖလော်ရင့်မြို့ကို တကြိမ်က ကြီးစိုးခဲ့သော မဲဒီချီမျိုးဆက်ပြတ်၍ တိမ်ကောသွားလေသည်။

**မဲနည်။** ။မဲနည်ဟုခေါ်သော အပြာရင့်ရောင်ဆိုးဆေးကို မဲနည်ပင်မှ သီးခြားရ၍ ရှေးအခါကပင် ဆိုးဆေးအဖြစ် အသုံးပြုလာခဲ့ကြသည်။ အိန္ဒိယနိုင်ငံမှ မဲနည်အကောင်းဆုံးနှင့် အများဆုံး ထွက်သဖြင့် မဲနည်ရောင်းဝယ်ရေးသည် အိန္ဒိယနိုင်ငံနှင့် အခြား မဲနည်ထွက်သော နိုင်ငံများတွင် များစွာ ဖွံ့ဖြိုးခဲ့လေသည်။ ယခုခေတ်တွင်ကား သိပ္ပံပညာသည်များသည် ဓာတုဗေဒနည်းဖြင့် မဲနည်များကို အဖိုးချိုချိုဖြင့် မြောက်မြားစွာ ထုတ်လုပ်နိုင်ပြီ ဖြစ်ရကား အပင်မှရသော သဘာဝ မဲနည်လုပ်ငန်းမှာ ပျက်စီး ခဲ့ရလေသည်။



မဲနည်ပင်၏ အသီးအပွင့်နှင့် အရွက်များ

မဲနည်ပင်သည် ပဲမျိုးတွင်ပါဝင်၍ အမြင့် ၃ ပေမှ ၅ ပေထိ ရှိသည့် ပင်ပျပ်ဖြစ်သည်။ အရွက်များ၏ ထိပ်သည် ဝိုင်း၍ နီဖျော့ဖျော့ပန်းများ ပွင့်ကြသည်။ မဲနည်ပင်ကို အိန္ဒိယနိုင်ငံ ဗင်္ဂလားနယ်တွင် အများဆုံးစိုက်၍ ဂျားဗားကျွန်း၊ တရုပ်နိုင်ငံ၊ သီဟိုဠ်ကျွန်း၊ မက္ကဆီကိုနိုင်ငံ၊ ဗရာဇီးနိုင်ငံနှင့် အမေရိကတိုက် အလယ်ပိုင်းတို့တွင်လည်း စိုက်ပျိုးကြသည်။ ဗင်္ဂလားပြည်နယ်မှ မဲနည်ပင်၏ ရုက္ခဗေဒအမည်မှာ အင်ဒီဂိုဖာရာ စူမာထရားနာ ဖြစ်၍ တရုပ်နိုင်ငံမှ မဲနည်ပင်၏ ရုက္ခဗေဒအမည်မှာ ပေါ် လီဂိုနမ် တင့်ကိုရီယမ် ဖြစ်သည်။

မဲနည်ကိုစိုက်၍ ၃ လကြာသောအခါ အပွင့်များ ပွင့်ကြ၏။ ထိုအခါ အပင်ကို ခုတ်ကြလေသည်။ သို့သော် မကြာမီ အပင်များ ပြန်တက်လာသဖြင့် ဒုတိယအကြိမ် ခုတ်ကြပြန်သည်။ တနှစ်အတွင်း တတိယအကြိမ် ထိအောင် ခုတ်ကြသည်။ ခုတ်ပြီးသော အကိုင်းအခက် အရွက်များကို စင်း၍ ရေအပြည့်ရှိသော စည်ကြီးများထဲသို့ ထည့်ပြီးလျှင် ၉ နာရီမှ ၁၄ နာရီခန့် ကြာအောင် ရေစိမ်ထားရသည်။ ထိုအခါ ကဇော်ပေါက်လာလေသည်။ ကဇော် ပေါက်လာသော အဝါရောင် ရေကြည်ကြည်ကို အခြားစည်ကြီးတခုသို့ လောင်းယူပြီးလျှင် မွှေပေးရသည်။ လေသလပ်ခံရသဖြင့် အပြာ

ရောင် မဲနည်လွှာကလေးများ အဖြစ်ဖြင့် ရေအောက်သို့ အနည်ထိုင်သွားလေသည်။ ထိုအနည်ကို ပိတ်ဖြင့် စစ်ယူပြီးလျှင် အတုံးကလေးများလုပ်၍ အခြောက် လှန်းလေသည်။ ထိုနောက် ဗူးများတွင်ထည့်၍ ရောင်းချကြသည်။

ဓာတုဗေဒနည်းဖြင့် မဲနည်ထုတ်ယူသော နည်းမှာ လွန်စွာ စိတ်ဝင်စားဖွယ်ကောင်းပေသည်။ ယင်းလုပ်ငန်း အောင်မြင်ထမြောက်၍ အကောင်အထည်ပေါ် လာစေရန် ၁၇ နှစ်ကြာမျှ မနေမနား အချိန်ယူ၍ လက်တွေ့စမ်းသပ် ပြုလုပ်ပြီးလျှင် ငွေကြေး မြောက်မြားစွာအကုန်အကျခံခဲ့ရလေသည်။ ခရစ် ၁၈၈၀ ပြည့်နှစ် စောစောပိုင်းလောက်က အဒေါ့ ဖွန် ဗေယာဆိုသူ ဂျာမန်ဓာတုဗေဒပညာ ရှင်တဦးသည်ကျော်ကမ်းသွေး ကတ္တရာမှ ဓာတ်ဖော် မဲနည်ကို ဖော်စပ်နိုင်ခဲ့၏။ သို့သော် ယင်းမှာ အပင်မှရသော သဘာဝမဲနည်ထက် ထုတ်လုပ်ရာ၌ စရိတ်များစွာ ပိုမိုကုန်ကျသဖြင့် တွက်ကိန်းမကိုက်ချေ။ ထိုမှ တဖန် ခရစ် ၁၈၉၇ ခုနှစ် ရောက်သောအခါ ယင်းဓာတုဗေဒ ပညာရှင်ကြီးနှင့် အခြားပုဂ္ဂိုလ်များပူးပေါင်း၍ ကြံစည်လုပ်ကိုင်ရာတွင် အပင်ထွက် မဲနည်ထက် တဝက်မျှ စရိတ် သက်သာသော နည်းကို နောက်ဆုံး တွေ့ရှိခဲ့လေသည်။ သို့ဖြင့် ယခုခေတ်တွင် အပင်ထွက်မဲနည်လုပ်ငန်းမှာ များစွာ ပျက်စီးခဲ့လေသည်။ သို့သော် အရောင်ခိုင် ဆိုးဆေးအပြာများကို အလိုရှိသည့်အခါ အပင်ထွက် သဘာဝမဲနည်ကို မှာယူကြရလေသည်။

**မဲလဗုန်းမြို့။** ။မဲလဗုန်းမြို့သည် ဩစတြေးလီးယားတိုက်ရှိ ဝိတိုရိယ ပြည်နယ်၏ မြို့တော်ဖြစ်၏။ ဩစတြေးလီးယား တိုက်၏ ဒုတိယမြို့ကြီးလည်း ဖြစ်သည်။ ဝိတိုရိယ ပြည်နယ်၏ တောင်ဖက်၊ ဩစတြေးလီးယားတိုက်၏ အရှေ့တောင်ဖက်ရှိ ယာရာယာရာမြစ်၏ မြစ်ဝ၊ ပို့ဖိလစ် ပင်လယ်အော်၏ ကမ်းခြေပေါ်တွင် တည်ရှိလျက် အကျယ် အဝန်းအားဖြင့် ၇၁၄ စတုရန်းမိုင် ရှိ၏။ ပို့ဖိလစ် ပင်လယ်အော်သည် ပုံသဏ္ဌာန်အားဖြင့် အချိုးအစားကျ၏။ ကမ်းရိုးသည် တဖက်တွင် ၃၁ မိုင်ရှည်လျား၍ တဖက်တွင် မိုင် ၂၀ ရှိ၏။ သို့ရာတွင် မဲလဗုန်းကမ်းခြေသည် ဆစ်ဒနီကမ်းခြေကဲ့သို့ သဘာဝ ရှုခင်း သာယာလှပခြင်း မရှိချေ။ ဆစ်ဒနီဆိပ်ကမ်းကဲ့သို့ သဘာဝအားဖြင့် ကောင်းမွန်သော ဆိပ်ကမ်း မဟုတ်ဘဲ ပြုပြင်ထားရသော ဆိပ်ကမ်းဖြစ်၏။ ယခုအခါတွင် မဲလဗုန်း ဆိပ်ကမ်းသည်ပေ ၆၂,၀၀၀ မျှ ရှည်လျားကျယ်ပြန့်ကာသင်္ဘောအဝင် အထွက်များရှိ၍ သင်္ဘောများစွာ ဆိုက်ကပ်နိုင်သည်။ ပင်



ဩစတြေးလီးယားတိုက်၏ ဒုတိယအကြီးဆုံးမြို့ဖြစ်သော ဝိတိုရိယပြည်နယ် မြို့တော်မဲလဗုန်းမြို့၏ ရှုခင်း

လယ်ရပ်ခြားသို့၎င်း၊ ပြည်နယ်ချင်းချင်းသို့၎င်း ကုန်ပစ္စည်းများ တင်ဆောင်ပို့ချခြင်းကို မဲလဘုန်းဆိပ်ကမ်းတွင် အများဆုံး ပြုလုပ်သောကြောင့် မဲလဘုန်းဆိပ်ကမ်းသည် ဩစတြေးလီးယားတိုက်၏ အဓိကဆိပ်ကမ်း ဖြစ်၏။

မဲလဘုန်းမြို့သည် လွန်ခဲ့သည့် နှစ် ၁၀၀ ကျော်ကမှသာ တည်ထောင်သော မြို့ဖြစ်ရကား အလွန်ခေတ်မီပေသည်။ လမ်းများကို မြို့တည်စကတည်းက စံနစ်တကျအကွက်ကျကျ ဖြစ်အောင် စီမံထားလေသည်။ လမ်းများသည် ၉၉ ပေ ကျယ်လျက် ကိုက် ၂၂၀ ခြားလျှင် တလမ်းချိုးသည်။ မြို့တွင်းရှိ လမ်းများမှာ စတုဂံကွက်များဖြစ်၏။ လမ်းအမည်များ ပေးရာ၌ မြို့တည်ရေးတွင် ထင်ရှားသော ပုဂ္ဂိုလ်များ၏ အမည်များကို အစွဲပြု၍ မှည့်ခေါ်ထားလေသည်။ လမ်းကျယ်များ ကြားတွင်လည်း ဆိုင်များရုံးများ ရှိသည့်လမ်းကျဉ်းများလည်း ရှိ၏။ တဖက်တချက်တွင် သစ်ပင်များ အစီအရီ ပေါက်လျက် ပေ ၂၀၀ မျှ ကျယ်သော လမ်းကြီးများလည်း ရှိပေသည်။ မြို့ကြီးဖြစ်သည်နှင့် အညီ အစိုးရရုံးကြီးများ၊ ဆိုင်ကြီးများ၊ ကျောင်းများ၊ ဆေးရုံများ၊ ဘုရားရှိခိုးကျောင်းများ၊ ပြတိုက်၊ စာကြည့်တိုက်၊ ဇာတ်ရုံ၊ ရုပ်ရှင်ရုံများ အစရှိသည့် ထယ်ဝါခန့်ညားသော တိုက်တာ အဆောက်အအုံများလည်း အမြောက်အမြား ရှိသည်။

လက်ရှိရာစု နှစ်ဦးပိုင်းက မဲလဘုန်းမြို့တွင် အဆောက်အအုံများကို ၁၃၂ ပေ အမြင့် အထိသာ ဆောက်လုပ်ရမည်ဟု ကန့်သတ်ချက် ထုတ်ပြန်ခဲ့သော်လည်း ၁၉၅၀ ပြည့်နှစ်လယ်လောက်ကမူ ပေ ၂၃၀ အမြင့်ရှိသော အစိုးရရုံးကို အရှေ့ဖက် မဲလဘုန်းတွင် ဆောက်လုပ်ရန် စီမံစိုင်းပြင်းပြီးလျှင် စိန်ကီလဒါ၌ ပေ ၂၅၀ အမြင့်ဆောင်သော မိုးမျှော်တိုက် နှစ်ဆောင်တွဲကို ဆောက်လုပ်ခြင်းဖြင့် ကန့်သတ်ချက်ကို ပြင်ဆင်လိုက်ပေသည်။ တိုက်တာ အဆောက်အအုံများ အပြင် မြို့တွင်းဝယ် ဥယျာဉ်ပန်းခြံ ကစားကွင်း များစွာလည်းရှိပေသည်။ မဲလဘုန်းမြို့သည် ကမ္ဘာစစ်များ၏ဒဏ်ကို မခံခဲ့ရချေ။

ဤသို့ ကြီးကျယ်ခမ်းနားသော မဲလဘုန်းမြို့သည် စီးပွားရေးအားဖြင့်လည်း ဖွံ့ဖြိုး၍ စည်ကားပေ၏။ စက်မှု လက်မှုထွန်းကားသော မြို့ဖြစ်၏။ မဲလဘုန်းမြို့၌ အထည်ကြီး စက်ပစ္စည်းများနှင့် လယ်ယာထွက် ပစ္စည်းများ ထုတ်လုပ်သည်။ စက်ပစ္စည်းတွင် မော်တော်ကား၊ လေယာဉ်ပျံ၊ မီးရထား ပစ္စည်းများ၊ ဓာတ်အားပေးစက်ရုံ တန်ဆာ ပလာများ၊ သံမဏိထည်များ၊ လယ်ယာ စိုက်ပျိုးရေး ကရိယာများ၊ မြေသယ်စက်၊ မြေတူးစက်၊ ဓာတ်ပစ္စည်း ကရိယာများ အစရှိသည့် အထည်ကြီး စက်ပစ္စည်းများ ပါဝင်သည်။ ထိုပြင် ဂျုံ၊ ဂျုံမှုန့်၊ နို့ထွက်ပစ္စည်းများ၊ သစ်သီးသစ်နှံ၊ နွားမှ ရရှိသော ပစ္စည်းများ၊ သိုးမွေး၊ အထည်အလိပ်၊ စက္ကူ အစရှိသော ပစ္စည်းအမျိုးစုံလည်း ထွက်သည်။

မဲလဘုန်းမြို့၏ မြို့လယ်မှာ စက်မှုလက်မှု လုပ်ငန်းအဝဝ စုဝေးရာဌာနဖြစ်၍ ၇၅ရာခိုင်နှုန်းသောလုပ်ငန်းများ၏တည်ရာဌာနဖြစ်၏။ မဲလဘုန်းမှ စက်မှုလက်မှုပစ္စည်းတို့သည် ဝိတိုရိယ ပြည်နယ်ထွက် ပစ္စည်းအနက် ၇၅ ရာခိုင်နှုန်း ဖြစ်လျက်၊ ဩစတြေးလီးယားတိုက်မှ စက်မှုလက်မှုပစ္စည်းအနက် ၂၈ ရာခိုင်နှုန်း ဖြစ်ပေသည်။ မဲလဘုန်းမြို့သည် သယ်ယူပို့ဆောင်ရေးတွင် အချက်အခြာ ဌာနဖြစ်၏။ မြို့၏ မြောက်ဖက်တွင် ကီလမိုတောင်ကြားသည် အရှေ့နှင့် အနောက် ကုန်းပြင်မြင့်များကို ခြားထား၍ ဝိတိုရိယ မြောက်ပိုင်းနှင့် နယူးဆောက်ဝေး ပြည်နယ်များသို့ ပေါက်ရောက်သည့် မီးရထားလမ်းနှင့် မော်ဘော်ကားလမ်းများ၏ တည်ရာ ဖြစ်လေသည်။ ပြည်တွင်းပြည်ပ ကုန်ပစ္စည်းများကို မဲလဘုန်းဆိပ်ကမ်းမှ တင်ချပို့ဆောင်ရသဖြင့် အရေးပါသော မြို့ဖြစ်၏။

မဲလဘုန်းမြို့ကို ၁၈၃၇ ခုနှစ်တွင် တည်ထောင်ခဲ့သည်။ တည်ထောင်ရာ၌ ဩစတြေးလီးယားတိုက်မှ အခြားမြို့ကြီးများကဲ့သို့ အစိုးရက ကမကထပြု၍ တည်ထောင်ခြင်းကား မဟုတ်ချေ။ တက်စမေးနီးယားကျွန်းတွင် ရောက်ရှိနေသူတို့သည် နွားစားကျက်များရှာဖွေရန်အတွက် ဗတ်စရေလက်ကြားကို ကူးသန်းကျော်ဖြတ်လာကာ မဲလဘုန်းတည်ရှိရာသို့ ရောက်လာကြ၏။ ထိုသို့ ကူးသန်းလာသူများကို ခေါင်းဆောင်သူမှာ ဂျွန်ဗက်စမန်ဖြစ်၍ယင်းတို့သည် ၁၈၃၅ ခုနှစ် မေလတွင် ဆိုက်ရောက်ကြ၏။သူတို့သည် တိုင်းရင်းသားများ ထံမှမြေဧက ၆၀၀,၀၀၀ကို စောင်များ၊ ရဲတင်း၊ ပုဆိန်၊ ဂျုံ နှင့် အခြား ကုန်ပစ္စည်းများပေး၍ လဲလှယ်ခြင်းဖြင့် ဝယ်ယူလေသည်။ ဦးစွာ၌ အစိုးရက ဗက်စမန်တို့လူစုကို အစိုးရ အမိန့်မရဘဲ အစိုးရမြေကိုကျူးကျော်ကြောင်းစွပ်စွဲသော်လည်း နောင်သော် အသိအမှတ်ပြု၍ အခွင့်ပြုရလေ၏။ ထိုသို့ဖြင့် လူအများ တဖွဲဖွဲ ရောက်လာကြကာ အိမ်ယာ တည်ထောင်ခြင်းဖြင့် မဲလဘုန်းမြို့ကြီး ဖြစ်ပေါ်လာလေသည်။ မဲလဘုန်းဟူသောအမည်မှာ မြို့တည်ထောင်စဉ်က ဗြိတိသျှ အစိုးရကို ခေါင်းဆောင်သည့် နန်းရင်းဝန်လော့မဲလဘုန်းကို ဂုဏ်ပြု၍ မှည့်ခေါ်ထားခြင်း ဖြစ်၏။ ရှေးဦးကာလကမူ မြို့သစ်ကိုဗက်တမေးနီးယားဟူ၍၎င်း၊ ဂလဲနဲ့ဟူ၍၎င်း၊ တိုင်းရင်းသားတို့၏အခေါ် ဗာရာရင်း၊ ဗဲရင်းကို မူတည်၍ ဗဲယားဟိ၊ဗဲယားပို့၊ ဗဲယားဗရပ်ဟူ၍၎င်း ခေါ်ဝေါ်ခဲ့၏။

မဲလဘုန်းတွင် နေထိုင်သော လူဦးရေမှာ ၁၉၅၈ ခုနှစ်သန်းကောင်စာရင်းအရ ၁,၇၂၆,၁၀၀ ဖြစ်၏။ ယင်းသည် ဝိတိုရိယပြည်နယ်ရှိ လူဦးရေ၏ ရာခိုင်နှုန်း ၆၀ ဖြစ်လေသည်။

**မော့ဆယ်မျုယယ်**(ခရစ် ၁၇၉၁–၁၈၇၂)။ ။ကမ္ဘာ့ တဖက်စွန်းမှ အခြားတဖက်စွန်းသို့ သတင်းအရပ်ရပ်ကို လျှပ်စစ်သံလိုက်ဓာတ်အားဖြင့် တခဏခြင်း ပေးပို့နိုင်သော ကြေး

နန်းဆက်သွယ်ရေး လုပ်ငန်းကို စတင်တီထွင်ခဲ့သူ ကမ္ဘာကျော် ပုဂ္ဂိုလ်ကြီး ဆယ်မျူယယ် မော့သည် ၁၇၉၁ ခုနှစ် ဧပြီလ ၂၇ ရက်နေ့တွင် အမေရိကန် ပြည်ထောင်စု နိုင်ငံ၊ မက်ဆချူးဆက် ပြည်နယ်၊ ချားစတောင်းမြို့၌ ဖွားမြင်ခဲ့သည်။ အသက် ၁၉ နှစ်အရွယ်တွင် ယေးတက္ကသိုလ်မှ ဝိဇ္ဇာဘွဲ့ ရရှိသည်။ ထိုပုဂ္ဂိုလ်ကြီး၏ နာမည်အပြည့်အစုံမှာ ဆယ်မျူယယ် ဖင်လီဗရီ မော့ ဖြစ်သည်။

မော့သည် ပန်းချီပညာကို အထူးနှစ်သက်လိုလားသည့် အားလျော်စွာ ယင်းပညာကို လေ့လာဆည်းပူးနေသည့် အတွင်း လျှပ်စစ်ဓာတ် ပညာရပ်များကိုလည်း အထူး ဝါသနာပါခဲ့လေသည်။ ဝါသနာ ပါသည့်အလျောက် တခါတရံ ထိုပညာဖက်သို့ လုံးဝ အာရုံပြုလိုစိတ်များ ပေါ်ပေါက်ခဲ့ဘူးလေသည်။ သို့သော် ပန်းချီပညာကိုသာ လေ့လာစေရန် အခြေအနေက ဖန်တီးလာသဖြင့် ၁၈၁၁ ခုနှစ်တွင် မိဖရပ်ရွာမှ ထွက်ခွာခဲ့ပြီးလျှင် ပင်လယ်ရပ်ခြား တိုင်းတပါး ဖြစ်သော အင်္ဂလန်နိုင်ငံ လန်ဒန်မြို့တော်ကြီးသို့ လာရောက်၍ ပန်းချီပညာကို လေ့လာဆည်းပူးလေသည်။

လန်ဒန်မြို့တွင် ပန်းချီပညာကို လေ့လာ သင်ကြားနေစဉ်ပင် ဓာတုဗေဒ၊ ရူပဗေဒ အထူးသဖြင့် လျှပ်စစ်ဓာတ် ပညာကို အထူးစိတ်ဝင်စားပြီး လေ့လာခဲ့လေသည်။ ပန်းချီ ပညာဖက်တွင်လည်း မဆုတ်မနစ်သော လုံ့လဖြင့် ကြိုးစားလာခဲ့ရာ ထင်ရှားကျော်စောသော ပုဂ္ဂိုလ်ကြီးတဦး ဖြစ်လာလေသည်။ အင်္ဂလန်နိုင်ငံတွင်သာမက ဥရောပတိုက်ရှိ နိုင်ငံအသီးအသီး၌တည်ရှိနေသေးသော ရှေးဟောင်းပန်းချီပညာကျော်ကြီးတို့၏ လက်ရာများကိုပင် သွားရောက် ကြည့်ရှုလေ့လာခဲ့ပေသေးသည်။ ၁၈၂၅ ခုနှစ်တွင် မော့သည် အခြား ပညာကျော်များနှင့် အတူ လန်ဒန်မြို့တော်၌ အမျိုးသား ပန်းချီအသင်းကြီးကို တည်ထောင်ခဲ့ပြီးလျှင် ၁၈၂၆ ခုနှစ်မှ ၁၈၄၅ ခုနှစ်အထိ ဥက္ကဋ္ဌအဖြစ်ဖြင့် ဆောင်ရွက်ခဲ့လေသည်။

အသက်အားဖြင့် ၄၀ ကျော်လာပြီ ဖြစ်သော မော့သည် အင်္ဂလန်နှင့် ဥရောပတိုက်တခွင်၌ ပန်းချီဖက်တွင် ထင်ရှားသောပုဂ္ဂိုလ်ကြီး ဖြစ်လာပြီးနောက် နယူးယော့မြို့သို့ပြန်ရန် ၁၈၃၂ ခုနှစ်တွင် ဆာလီအမည်ရှိ သင်္ဘောကို စီးနင်းလိုက်ပါလာခဲ့သည်။ ပန်းချီပညာကိုသာ အနှစ် ၂၀ ကျော် လေ့လာခဲ့သော်လည်း သူ၏ အထုံဝါသနာပါခဲ့သော ဓာတုဗေဒနှင့် ရူပဗေဒပညာရပ်များ လိုက်စားရေးကိုကား တနေ့တရက်မျှ မေ့ပျောက်ခြင်း မရှိခဲ့ချေ။ သင်္ဘောပေါ်တွင်လည်း လျှပ်စစ်ဓာတ်အကြောင်း ဝါသနာ ပါသော မိတ်ဆွေများနှင့် တွေ့ဆုံသဖြင့် လျှပ်စစ်ဓာတ်သဘောကို ဆွေးနွေး ကြရာတွင် မော့၏ စိတ်အာရုံကို ပန်းချီပညာမှ လျှပ်စစ်ဓာတ်နှင့် စပ်လျဉ်းသော သိပ္ပံပညာရပ်များသို့ လုံးဝကူးပြောင်းစေလေသည်။

ဆာလီ သင်္ဘောပေါ်တွင် သူ၏ မိတ်ဆွေများအား လျှပ်စစ်ဓာတ်၏ တနေရာမှတနေရာသို့ ပို့ဆောင်ရေးနှင့် စပ်လျဉ်းသော အကြောင်းအရာများကို ပုံကြမ်းများဖြင့် မော့ ဆွဲပြဘူးသည်။ စင်စစ်သော်ကား ထိုပုံကြမ်းသည်ပင်လျှင် နောင်အခါ မော့တီထွင်မည့် ကြေးနန်းရိုက်နည်း စက်ကရိယာ ပုံကြမ်းဖြစ်လေသည်။ ထိုပုံကြမ်းကို အနည်းငယ် ဖြည့်စွက်ပြင်ဆင်လိုက်ပါက ယခုခေတ်တွင် အသုံးပြုသော ကြေးနန်းရိုက်စက်ဖြစ်လာပေမည်။

မော့သည် နယူးယော့မြို့သို့ ပြန်ရောက်သည့် အချိန်မှစ၍ ၁၂ နှစ်တိုင်တိုင် လျှပ်စစ်ဓာတ်ဖြင့် ကြေးနန်းရိုက်နိုင်သည့် နည်းလမ်းကို ကြိုးစား ရှာဖွေခဲ့လေသည်။ သို့ရာတွင် ဤနည်းကို ကြံစည်တီထွင်ရာ၌ ငွေကြေးအမြောက်အမြား ကုန်ကျမည်ဖြစ်ရာ ကူညီမစမည့်သူများကို ရှာဖွေရလေသည်။ မော့သည် ကြေးနန်းရိုက်နည်း အောင်မြင်ရန် လီယိုနတ်ဂေး ဆိုသူထံမှ အကြံဉာဏ်ကောင်းများ ရရှိ၍ အဲလဖရက် ဗေး ဆိုသူထံမှ ငွေကြေးအကူအညီများ ရရှိလေသည်။



ကြေးနန်းရိုက်နည်းကိုစတင်တီထွင်အောင်မြင်ခဲ့သူဆယ်မျူယယ်မော့

ဗေးသည် မော့အား ငွေကြေးဖြင့်သာ ကူညီသည်မဟုတ်၊ မော့၏လုပ်ငန်းကိုလည်း ကောင်းသည်ထက်ကောင်းအောင် ကိုယ်တိုင် ပြုပြင် ကူညီပေးသေးသည်။ ယင်းသို့ မနေမနား ကြိုးစား လုပ်ကိုင် လာကြပြီးနောက် လက်တွေ့ စမ်းသပ်ကြည့်ရာ အောင်မြင်မှုကို ရရှိလေသည်။ ယင်းအောင်မြင်မှု

ကို အကောင်အထည်ဖော်ရန် လိုအပ်လာပြန်သည်။ ၁၈၃၇ ခုနှစ်တွင် မော့သည် သူတီထွင်လိုက်သော "အမေရိကန်လျှပ်စစ်သံလိုက် ကြေးနန်း" ကို အမေရိကန်အစိုးရထံ မူပိုင်ခွင့်မှတ်ပုံတင်ရရန် လျှောက်ထားလေသည်။

အမေရိကန် အစိုးရက မော့၏ ကြေးနန်းမှာ လက်တွေ့အားဖြင့် လုပ်ကိုင်၍ မဖြစ်နိုင်သေးဟု ယူဆက ၁ မူပိုင်ခွင့်မှတ်ပုံတင်ရန်ခွင့်မပေးချေ။ထို့ကြောင့် မော့သည် ငွေကြေးအကူအညီရရန် အင်္ဂလန်၊ ပြင်သစ်နှင့် ရုရှနိုင်ငံများသို့ သွားရောက်၍ ကြိုးစားပြန်သော်လည်း အထ မမြောက်ခဲ့ပေ။ ယင်းသို့ဖြင့် တနှစ်မျှ အချိန်ကုန်ခဲ့ပြီးနောက် အမေရိကန်ပြည်ထောင်စုသို့ ပြန်လာခဲ့ရလေသည်။

၁၈၄၃ ခုနှစ်တွင် မော့သည် တနေရာမှတနေရာသို့ ကြေးနန်းများ ဆက်သွယ်ရန်နှင့် ကြေးနန်းရိုက်ရုံများ ဆောက်လုပ်ရန်အတွက် ဒေါ်လာငွေ ၃၀,၀၀၀ ထုတ်ပေးရန် အမေရိကန်ပြည်ထောင်စု လွှတ်တော်သို့ လျှောက်ထား ပြန်လေသည်။ မော့၏လျှောက်လွှာကို လွှတ်တော်မှ လပေါင်းများစွာ အရေးမယူခဲ့ချေ။ မော့လည်းများစွာစိတ်ပျက်၍ လက်လျှော့ရမည့် အခြေသို့ ရောက်ခဲ့လေသည်။ လွှတ်တော်နောက်ဆုံး နေ့ကျမှ မော့တောင်းဆိုသော ဒေါ်လာငွေ ၃၀,၀၀၀ ထုတ်ပေးရန် ဆုံးဖြတ်လိုက်လေသည်။ မော့သည် ကြေးနန်းရိုက်ရုံများကို ဆောက်လုပ်၍ ကြေးနန်းကြိုးများကို ဆက်သွယ်ပြီးနောက် ၁၈၄၄ ခုနှစ် မေလ ၂၄ ရက်နေ့တွင် ဝါရှင်တန်မြို့မှ ဗောလတီမိုးမြို့သို့ ပဌမဆုံး ကြေးနန်းကို အောင်မြင်စွာ ရိုက်ကြားပေးပို့နိုင်လေသည်။ ထိုအချိန်မှစ၍ အမေရိကန်ပြည်ထောင်စုနှင့်တကွ ဥရောပတိုက်၊ အာရှတိုက်ရှိ နိုင်ငံအသီးအသီးတို့က ကြေးနန်းကို အသုံးပြုလာကြရာ အထူးသဖြင့် မော့၏ အချက်ပြ အမှတ် အသားများကိုသာ မူတည်ကြရလေသည်။

လျှပ်စစ်သံလိုက် ကြေးနန်းကို တပင်တပန်း ကြိုးစားတီထွင်လာသော မော့အဖို့လည်း ပင်ပန်းရကျိုး နပ်လေသည်။ မော့တီထွင်ခဲ့သော အစက်နှင့် မျဉ်းတိုအချက်ပြ အမှတ်အသားများကို မော့အချက်ပြ အမှတ်များဟု ယနေ့တိုင် ခေါ်ဆိုသုံးစွဲလျက် ရှိကြသည်။ ၁၈၄၇ ခုနှစ်တွင်မူကား အပြိုင်အဆိုင်များ ပေါ်ထွက်လာသဖြင့် အမေရိကန်လွှတ်တော်၌ မော့၏ မူပိုင်ခွင့်မှတ်ပုံတင်ခြင်းကို ထိရောက်စွာ ကာကွယ်ခဲ့သဖြင့် ခိုင်မြဲခဲ့ပေသည်။

၁၈၄၂ ခုနှစ်ကတည်းကစ၍ ကြံစည်ခဲ့သော ရေအောက်ကြေးနန်းဆက်သွယ်ရေး လုပ်ငန်းသည်လည်း ၁၈၅၇ ခုနှစ်တွင် အကောင်အထည်ပေါ်ခဲ့လေသည်။ မော့နှင့် ဖီးဆိုသူ ပုဂ္ဂိုလ်နှစ်ဦးတို့သည် ထိုနှစ်တွင် အတ္တလန္တိတ်သမုဒ္ဒရာကိုဖြတ်၍ ရေအောက် ကြေးနန်းကို အောင်မြင်စွာ ဆက်သွယ် နိုင်ခဲ့လေသည်။

မော့သည် ပန်းချီ ပညာသင်ကြားရန် အမေရိကန် အစိုးရက စေလွှတ်ပြီးလျှင် ပညာတတ်မြောက်လာသည့်အခါ အထက်တန်းကျသော ရာထူးကို ပေးအပ်ခြင်းခံရသော်လည်း ထိုရာထူးကို စွန့်လွှတ်ပြီးနောက် လျှပ်စစ်သံလိုက် ကြေးနန်းဆက်သွယ်ရေးကို ရှာဖွေစမ်းသပ်လုပ်ကိုင်၍ အောင်မြင်လာသဖြင့် တကမ္ဘာလုံး အသုံးဝင်ဆုံးသောနည်းကို ရှာဖွေပေးခဲ့သူဖြစ်ပေသည်။ ဤမျှ ကျေးဇူးကြီးလှသော မော့သည် ၁၈၇၂ ခုနှစ် ဧပြီလ ၂ ရက်နေ့တွင် နယူးယော့မြို့၌ ကွယ်လွန်အနိစ္စရောက်လေသည်။

**မော်ကွန်း။** ။မော်ကွန်းသည် မြန်မာစာပေတွင် လေးလုံးစပ် အဖွဲ့အနွဲ့တမျိုး ဖြစ်၏။ ဆင်တော်အကြောင်း၊ နန်းတော်များ အကြောင်း၊ လှေတော်များ အကြောင်း၊ စစ်ပွဲများအကြောင်း၊ ကန်တော်အကြောင်း၊ ဘုရားစေတီ အကြောင်း စသည့် ထင်ရှားသော အကြောင်းရပ်များကို နောင်အစဉ်အလာ ဥဒါန်းတွင်ရစ်အောင် ရေးသား စီကုံး ဖွဲ့နွဲ့ထားသည့် ကဗျာလင်္ကာဖြစ်၏။ ချောင်းများသည် ရာဇဝင်ကြောင်းများ ပါသဖြင့် ယင်းကို သမိုင်းရာဇဝင် လေ့လာသူများ အားထားရဘိသကဲ့သို့ပင် မော်ကွန်းကိုလည်း သမိုင်းလေ့လာရာတွင် အထောက်အထား ပြုနိုင်ပေသည်။

မော်ကွန်း ဟူသော ဝေါဟာရသည် မြန်မာစကား သက်သက်ဖြစ်၏။ အမှုကွန်းဟူသော ရှေးစကားမှ ရွေ့လျောပြောင်းလဲ၍ မော်ကွန်း ဖြစ်လာသည်။ ပုဂံခေတ် ကျောက်စာများတွင် အလှူရှင်တို့သည် မိမိတို့လှူသော သက်ရှိသက်မဲ့ ပစ္စည်းစာရင်းကို ခိုင်ခံ့ထင်ရှားအောင် ကျောက်ထက်တွင် ရေးမှတ် ထားခြင်းကို အမှုကွန်းတင်သည်ဟူ၍ရင်း၊ မော်ကွန်းတင်သည်ဟူ၍ရင်း ခေါ်ကြောင်း တွေ့ရသည်။ ပုဂံမြို့လေးထောင့်ကန်အရပ် မင်းဝိုင်းကျောက်စာ အရှေ့မျက်နှာတွင် မိဖုရားဖွားစောသည် ကျောင်း၊ ဥယျာဉ်၊ နွား၊ ဆိတ်၊ ကျွန်ယောကျ်ား၊ ကျွန်မိန်းမများကို လှူသောစာရင်းကို အမှုကွန်းတင်ထားကြောင်း ပြဆိုသည်။ ဤသို့ စာရင်းတင်သဖြင့် မိဖုရားကြီး၏ အလှူစာရင်းကို နောင်လာ နောက်သားများ ယခုတိုင် ဖတ်ရှု အနုမောဒနာ ပြုနိုင်ပေသည်။ နောင်အစဉ်အလာ တည်တံ့ခိုင်မြဲစွာ မှတ်သား နာယူနိုင်စေရန် ရေးမှတ်ထားသော အကြောင်းအရာများကို အင်းဝခေတ်မှ စ၍ နှောင်းခေတ် များတွင် စကားပြေဖြင့်သာမဟုတ်ဘဲ ကဗျာလင်္ကာဖြင့်လည်း ရေးသားခဲ့၏။

ကဗျာလင်္ကာဖြင့် ရေးသော မော်ကွန်းများသည် အင်းဝခေတ်တွင် ပေါ်ပေါက်၍ ထိုခေတ်တွင် အထွန်းကားဆုံး ဖြစ်၏။ သက္ကရာဇ် ၇၃၀–၇၄၂ ခုနှစ်တွင် အင်းဝရွှေနန်းကို သိမ်းမြန်း စိုးစံတော်မူသော မဟာသီဟသူရ လက်ထက်တွင် စစ်လျှင် ထောင်မှူး ရှင်ထွေးညို ရေးသားသည့် ပြည်စုန်မော်

ကွန်းမှာ အဦးဆုံး မော်ကွန်း ဖြစ်သည်။ သက္ကရာဇ် ၇၃၄ ခုနှစ်တွင် မဟာသီဟသူရသည် ညီတော်ပြည်မြို့စား မင်းကြီးစွာနှင့် သာယာဝတီစား ဦးရီးတော်ကျော်စွာတို့ ရိုင်းပျံ့ခြားနား ကြသည်ကို နှိမ်နင်းရန် ရွှေစကြာဖောင်တော်ဖြင့် ပြည်မြို့သို့ စုန်ဆင်းနိုပ်ကွပ်တော်မူရာတွင် ဖြစ်ပျက်တွေ့ကြုံရသော အကြောင်းအရာများကို ယင်းမော်ကွန်းတွင် ဖွဲ့နွဲ့စပ်ဆိုထားသည်။ ရှင်ထွေးညိုသည် ရွှေစာတိုင်ဆင်တော်မော်ကွန်းကိုလည်း ၇၇၂ ခုနှစ် အင်းဝဘုရင် ရွှေနန်းကြော့ရှင်လက်ထက်တွင် စပ်ဆိုသေးသည်။ ရှင်ထွေးညို၏ နောက်တွင်ပေလေးပင် ရှင်လေးပါး သိုက်ဝင် ရှင်မဟာသီလဝံသသည် တန်တားဦးတည် မော်ကွန်း ၁၂ ပိုဒ်ကို ဖွဲ့ဆိုသည်။ မိမိထက်ဦးစွာ ရှင်မဟာရဋ္ဌသာရက တန်တားဦးတည် မော်ကွန်းတစောင်ရေးပြီးဖြစ်ကြောင်း သိရသောအခါ၊ ဆက်လက် မရေးသားဘဲ ပုရပိုက်ပေါ် ရေးပြီးသား ၁၂ ပိုဒ်ကို ချေဖျက်စေသည်တွင် တပည့်များက ကူးယူ သိမ်းဆည်းထားခဲ့သည်ဟု ဆိုလေသည်။ ရှင်မဟာသီလဝံသသည် သျှိသျှားကန်ဖွဲ့ မော်ကွန်း (မိတ္ထီလာ ကန်ဖွဲ့မော်ကွန်း)၊ ရွှေနန်းဖွဲ့ မော်ကွန်းများကိုလည်း ရေးသားသည်။ အင်းဝခေတ်တွင် ရေးသားသော မော်ကွန်း များသည် အဆင့်အတန်းမြင့်၍ ထိုခေတ်သည် မော်ကွန်းတံခွန်စိုက်သော ခေတ်ဖြစ်၏။

တောင်ငူခေတ်တွင် မော်ကွန်း ခေတ်မစားပေ။ တောင်ငူခေတ်အဆုံးတွင် ပေါ်ပေါက်သော လက်ဆောင်ယူမူး ရှင်သံခိုတဦးသာလျှင် ရတနာပြောင်မွန် ဆင်တော်မော်ကွန်းကို ရေးသားခဲ့သော်လည်း အဆင့်အတန်း မမြင့်လှချေ။

ကုန်းဘောင်ခေတ် ပဌမပိုင်းတွင် မော်ကွန်းများကို ပြန်လည် ရေးသားကြပြန်သည်။ လက်ဝဲသုန္ဒရအမတ်သည် ဘိုးတော်မုဒ္ဒါဘိသေက မော်ကွန်း၊ နိဗ္ဗာနပစ္စယဆင်တော်မော်ကွန်း၊ ရတနာပူရအင်းဝပြည်တော်ကြီးလာမော်ကွန်း၊ မဟာဝိဇယရံသီ စည်းခုံတော် မော်ကွန်း၊ မင်းကွန်းစေတီတော်တည်မော်ကွန်း၊ စဉ့ဝတီနိုင် မော်ကွန်းများကို ရေးသားပြုစု၏။ ဆင်ဖြူ့ရှင် လက်ထက်တွင် ယိုးဒယားနိုင် မော်ကွန်းကို လက်ဝဲနော်ရထာ ပြုစုသည်။ စဉ့်ကူးမင်းလက်ထက်တွင် အတွင်းဝန်ထောက် ဦးညိုသည် ရွှေမင်းဘုန်းဆင်တော်မော်ကွန်းကို ရေးသားသည်။ ထိုရွှေမင်းဘုန်း ဆင်တော်မော်ကွန်းသည် အဆင့်အတန်းမြင့်သော မော်ကွန်းဖြစ်၏။ မြန်မာစာပေတွင် ဆင်တော်မော်ကွန်းပေါင်း ၇ စောင်ခန့် တွေ့ရှိရသည့်အနက် ဒုတိယအကောင်းဆုံးဟု ဆိုနိုင်ပေသည်။ ဦးညိုသည် ဤမော်ကွန်းဖြင့် ကျော်ကြား၏။

ကုန်းဘောင်ခေတ် ဒုတိယပိုင်းတွင်လည်း မော်ကွန်းကောင်းများထွက်ပေသည်။ တွင်းသင်းတိုက်ဝန် မဟာစည်သူသည် ပုဏ္ဏရိကဆင်တော်မော်ကွန်း၊ မင်းကွန်းဖွဲ့မော်ကွန်း၊ အမရပူရမြို့ ဖွဲ့မော်ကွန်းတို့ကို ပြုစုသည်။ ထူးထူး ခြားခြား ကောင်းမွန်သော မော်ကွန်းများ မဟုတ်ပေ။ ဝန်ကြီးသည် မော်ကွန်းနှင့် စပ်လျဉ်း၍ နာမည် မကျော်စောပေ။

တွင်းသင်းတိုက်ဝန် မဟာစည်သူနှင့် တခေတ်တည်း ပေါ်ပေါက်သော ဆားတောင်ငါးရွာ အဝင် ရွာဝေးရွာ သူကြီးရိုးဖြစ်သူ ဝက်မစွတ်နဝဒေး ဟူ၍ ထင်ရှားသည့် ဦးနုသည် မော်ကွန်းဖက်တွင် များစွာထင်ပေါ် ကျော်စောပေသည်။ မော်ကွန်းအဖွဲ့အနွဲ့ကောင်းသောကြောင့် ဦးနုကို မော်ကွန်းနဝဒေး ဟုပင် ခေါ်ဆိုကြ၏။ ဝက်မစွတ် နဝဒေးသည် မိတ္ထီလာကန်တော် မော်ကွန်း၊ စန္ဒာမုနိမော်ကွန်း၊ ရဲတင်းမော်ကွန်း၊ ရခိုင်နိုင်မော်ကွန်း၊ အာသံနိုင်မော်ကွန်း၊ တရုပ်သံရောက် မော်ကွန်း အစရှိသည်ဖြင့် မော်ကွန်း ၁၅ စောင်ခန့်ကို ပြုစုသည်။ ဝိလာသိနီ မော်ကွန်းသည် ဆင်တော်မော်ကွန်းများတွင် ပဌမတန်းစားဖြစ်၏။

ဝက်မစွတ်နဝဒေး၏နောက် တံဆိပ်ဝန် ဦးရွှေခြည်သည် ဗိမာန်ရတနာ ကျောင်းတော် မော်ကွန်း၊ မဟာဝေယန်ဘုံသာ ကျောင်းတော်မော်ကွန်းတို့ကို ပြုစုသည်။ ထိုနောက်ဦးပုညသည် မော်ကွန်း ၄ စောင်မျှ ရေးသားခဲ့သည့်အနက် ရတနာနဒီ (မြစ်တော်ဖွဲ့) မော်ကွန်းသည် အကောင်းဆုံးဟုဆိုဖြစ်ရန် သင့်သည်။ ဦးပုည၏ မော်ကွန်းများမှာ တည်တည်ကြည်ကြည် ဖွဲ့နွဲ့ထားသည် ဖြစ်၍ အထက်တန်းစားမော်ကွန်းများဖြစ်သည်။ ဦးပုည၏နောက် ကင်းဝန်မင်းကြီးသည် ရာဇနာနဒီ မော်ကွန်း၊ ဓမ္မာဇမော်ကွန်းတို့ကို ရေးသားပြုစုသည်။ သို့အားဖြင့် ကုန်းဘောင်ခေတ်သည် အင်းဝခေတ်ကဲ့သို့ပင် မော်ကွန်း ထွန်းကားသော ခေတ်ဟု ဆိုရပေမည်။ ကုန်းဘောင်ခေတ် မော်ကွန်းများသည် အင်းဝခေတ် မော်ကွန်းများ အဆင့်အတန်းကို မမှီးစကာမူ မနီးရှိုးစွဲ လိုက်လေသည်။

**မော်ချီမြို့။** ။မော်ချီမြို့သည် ကယားပြည်နယ် ဘောလခဲနယ်၏ တောင်ဖက်စွန်းတွင်တည်ရှိ၏။ ကမ္ဘာတွင်ထင်ရှားသော သတ္တုတွင်းကို အမှီပြုကာ စည်ပင်လာသော သတ္တုတွင်းမြို့ဖြစ်ရကား မော်ချီမြို့ဆိုသည်ထက် မော်ချီမိုင်းဟူ၍ ပိုမိုလူသိများသည်။ မော်ချီမိုင်းကုမ္ပဏီ စတင်ဖွင့်လှစ်သည့် အချိန်မှစ၍ ဒုတိယကမ္ဘာစစ်ကြီး ဖြစ်ပွားသည့် အချိန်တိုင်အောင် မော်ချီမိုင်းဒေသတွင် ဘောလခဲမြို့စားကြီး၏ နယ်ရှိုးနှင့် နယ်ဖက်ဆိုင်ရာ ပုသိပ်ဌာနများ ထားရှိကာ မော်ချီမိုင်းကုမ္ပဏီ အာဏာပိုင်များကပါ အုပ်ချုပ်ရေးနှင့် တရားစီရင်ရေးအာဏာဘို့ကို ဘောလခဲမြို့စားထံမှ ရယူ၍ တွဲဖက်အုပ်ချုပ်ခဲ့သည်။ ပြည်ထောင်စု မြန်မာနိုင်ငံ လွတ်လပ်ရေးရရှိပြီးနောက် မော်ချီဒေသလုံခြုံရေးကို တပ်မတော်၊ ပြည်ထောင်စု စစ်ရဲနှင့် ကယားရဲအဖွဲ့တို့က တာဝန်ယူ ထိန်းသိမ်းလျက်ရှိ၍ ကုမ္ပဏီသုပ်ငန်းမှအပ၊ အရပ်ရပ် စီရင်အုပ်ချုပ်မှု



မော်ချီမိုင်း ''အောက်ရွာ''၏ ရှုခင်းပုံဖြစ်သည်။ အောက်ရွာတွင် လျှပ်စစ်ဓာတ်အားပေးရုံ၊ ခဲလျှော်ရုံနှင့် ဓာတ်ခွဲရုံများရှိသည်။ အဝေးတွင် မြင်ရသော တောင်ထိပ်ပေါ်မှ အဆောက်အအုံမှာ တောင်ပေါ်ရွာရှိ မန်နေဂျာ၏အိမ်ဖြစ်သည်။ တောင်ပေါ်ရွာ မြေအောက်သတ္တုတူးဝန်းမှ သတ္တုများကို အောက်ရွာသို့ ကောင်းကင်ကြိုးဖြင့် သယ်ယူပို့ဆောင်သည်။ မော်ချီမိုင်းသည် ပင်လယ်ရေမျက်နှာပြင်ထက် ပေ ၄,၀၀၀ ကျော် မြင့်သည်။

များကို ကယားပြည်နယ်အစိုးရက စီမံဆောင်ရွက်လျက် ရှိနေရာ ယခုအခါ နယ်ပိုင်နှင့် ငွေတိုက်ဝန်ထောက်၊ မြို့အုပ်တို့က ရုံးစိုက်အုပ်ချုပ်လေသည်။

မော်ချီမိုင်းသည် လွိုင်ကော်မြို့၏ တောင်ဖက် ၉၃ မိုင်အကွာ ပင်လယ်ရေမျက်နှာပြင်ထက် ပေ ၄,၀၀၀ ကျော် မြင့်သော အရပ်တွင် တည်ရှိ၍၊ ခဲမဖြူ၊ အဖိုက်နက်၊ ခနောက်စိမ်း စသော အဖိုးတန်သတ္တုများ ထွက်သည်။ မော်ချီမိုင်းတွင် အမှတ် ၁၅ တောင်ပေါ်ရွာနှင့် တောင်အောက်ရွာဟူ၍ ၂ ရွာနရှိသည်။ တောင်ပေါ်ရွာမှာ အမြင့်ပေ ၄,၀၀ဝ ကျော်တွင် ရှိ၍ သတ္တုတွင်းစခန်းဖြစ်သည်။ ယင်းစခန်းတွင် မော်ချီမိုင်းကို အုပ်ချုပ်သော အထွေထွေ မန်နေဂျာနှင့် မိုင်းကက်ပတိန်တို့ ရုံးစိုက်၍ ထိုတောင်များအောက်တွင် သတ္တုများကို တူးဖော်ကြသည်။ တောင်အောက်ရွာသည်ကားစက်ရုံစခန်း ဖြစ်၏။ ထိုဒေသတွင် လျှပ်စစ်ဓာတ်အားပေးသောစက်ရုံများ၊ သတ္တုခဲများကို အမှုန့်ဖြစ်စေ၍ ဆန်ခါတင်သော စက်ရုံများ၊ ခဲလျှော်ရုံများ၊ ဓာတ်ခွဲရုံများ ရှိပြီးလျှင်

အင်္ဂလိပ်ချုပ်နှင့် စက်ရုံအုပ်ချုပ်ရေးမှူးများ ရုံးစိုက်ကြသည်။ တောင်ပေါ် သတ္တုတွင်း စခန်းနှင့် တောင်အောက်စက်ရုံများစခန်းကို တောင်နံရံကို ကွေ့ပတ်ကာ ဖောက်လုပ်ထားသော ၃ မိုင်မျှရှည်လျားသည့် ကတ္တရာစေး မော်တော်ကားလမ်းဖြင့် ဆက်သွယ်ထားသည်။ ထို့ပြင် တောင်ပေါ် သတ္တုတွင်းမှ တူးဖော်ရရှိသည့် သတ္တုရိုင်းများကို ကောင်းကင်ကြိုးရထားဖြင့် သယ်ယူ၍ တောင်အောက် စက်ရုံသို့ ပေးပို့သည်။ စာချုပ်အရ မော်ချီမိုင်းဒေသ၏ အကျယ်အဝန်းသည် ဧက ၄၀၀ ဖြစ်သည်။

ယခုမော်ချီဒေသတဝိုက်တွင် ရှေးအခါက တိုင်းရင်းသားများသည် သတ္တုများကို တူးဖော်၍ ကျိုချက်ကာ အတုံးအခဲ အချောင်းများပြုလုပ်၍ ရွာသစ်၊ ဖာထောင်း အစရှိသော ပတ်ဝန်းကျင် မြို့ရွာများနှင့် ယိုးဒယားနယ်များသို့ တင်ပို့ရောင်းချခဲ့၏။ မော်ချီမိုင်းကို ၁၉၀၃ ခုနှစ်တွင် စံနစ်တကျ စတင် တူးဖော်ခဲ့လေသည်။

၁၉၀၄ ခုနှစ်တွင် ဥရောပတိုက်သား တဦးဖြစ်သူ မစ္စတာ အိုရီလီသည် မော်ချီဒေသသို့ ရောက်ရှိလာပြီးလျှင် သတ္တုကြောများကို ဦးစွာ တွေ့ရှိလေသည်။ ထို့ပုဂ္ဂိုလ်တွေ့ရှိချက်ကို အကြောင်းပြု၍ မကြာမီ သတ္တုတွင်းဆိုင်ရာ ဥရောပတိုက်သား ပါရဂူများသည် မော်ချီသို့ ရောက်ရှိလာ၍ သတ္တုကြောများကို စစ်ဆေးကြည့်ရှုပြီးလျှင် စမ်းသပ် တူးဖော်ကြသည်။ ထိုအခါ များစွာသော သတ္တုရိုင်းများကို စမ်းသပ်တွေ့ရှိသဖြင့် ၁၉၀၉ ခုနှစ်တွင် အင်္ဂလန်ပြည်၌ မော်ချီမိုင်းလီမိတက် အမည်ဖြင့် ကုမ္ပဏီဖွဲ့စည်း တည်ထောင်ကာ၊ ဘောလခဲနယ်ရှင် စော်ဘွားကြီး၏ဘိုးတော် ဖဘန်မင်းလက်ထက်တွင် နှစ်ပေါင်း ၃၀ လုပ်ကိုင်ရန် စာချုပ် ချုပ်ဆို၍ သတ္တုများကို စတင်တူးဖော် လုပ်ကိုင်ကြသည်။ စာချုပ် စတင်ချုပ်ဆိုသည့် အရပ်မှာ မော်ချီမိုင်း အပေါ် ရွာ၊ ဘွဲ့စီးခီး ရွာတွင်ဖြစ်၍ စာချုပ် ချုပ်ဆိုသည့် အခမ်းအနားတွင် အထိမ်းအမှတ်အဖြစ် ညောင်ပင်တပင် စိုက်ပျိုးကြသည်။ ထိုညောင်ပင်ကို အစွဲပြု၍ ဘွဲ့စီးခီးရွာကို ညောင်ပင်စခန်းဟူ၍ ပြောင်းလဲ ခေါ် ဆိုခဲ့ပေသည်။

ထိုသို့သတ္တုများ စတင်တူးဖော်ရန် လိုအပ်သော စက်ကရိယာ ပစ္စည်းများကို မော်လမြိုင်မြို့မှ သံလွင်မြစ်ကြောင်း အတိုင်း လှေများဖြင့်ဆန်တက်၍ ခဲမဖြူမြို့သို့ ပို့ရ၏။ ခဲမဖြူမှ တဖန် တောတောင်များကို ကျော်ဖြတ်၍ ဆင်၊ နွား၊ လားဝန်တင်များဖြင့်၎င်း၊ လူအထမ်းသမားများဖြင့်၎င်း ၁၆ မိုင်ကွာဝေးသော မော်ချီမိုင်းသို့ ခက်ခဲစွာပို့ဆောင်ရပေသည်။ အချို့အသေးအဖွဲ့ပစ္စည်းများနှင့် ချော့စာများကိုမူ တောင်ငူဖက်မှ နွားဝန်တင်များဖြင့် သယ်ယူခဲ့ရသည်။

၁၉၁၄ ခုနှစ် ပဌမကမ္ဘာစစ်ကြီး စတင်ဖြစ်ပွားသည့် အချိန်တွင် သတ္တုဈေးများ ကောင်းလာသည့်အလျောက် ရှိသမျှ လူအင်အားစက်အင်အားဖြင့် တူးဖော် လုပ်ကိုင်ခဲ့ရာ တလလျှင် တန်ချိန် ၂၀ မှ ၅၀ အထိ ရရှိခဲ့သည်။ ပဌမကမ္ဘာစစ်ကြီး ပြီးဆုံးသည့်နောက် ၁၉၁၉ ခုနှစ်တွင် သတ္တုဈေးများ ၄၀ ရာခိုင်နှုန်းအထိ ကျဆင်းသွားသဖြင့် သတ္တုလုပ်ငန်းကို ပိတ်ထားခဲ့ရလေသည်။

မော်ချီမိုင်းကုမ္ပဏီသည် သတ္တုတွင်း စတင်တူးဖော်သည့် အချိန်ကစ၍ ကယားပြည်နယ် တိုင်းရင်းသားများကို အလုပ်မပေးဘဲ၊ ယူနန်နယ်မှ ရှမ်းတရုပ်များကို ခေါ် ယူကာ သတ္တုတွင်းတူးအလုပ်ကြမ်းသမားအဖြစ် အသုံးပြုခဲ့၏။ ၁၉၂၄ ခုနှစ်တွင် သတ္တုတွင်းလုပ်ငန်း ပြန်လည်ဖွင့်လှစ်၍ လုပ်ကိုင်သည့်အခါတွင်လည်း စက်ရုံများကို တိုးချဲ့၍ နီပေါပြည်မှ ဂေါ် ရခါးအမျိုးသား အလုပ်သမားများကို စုဆောင်းခေါ်ယူကာ၊ သတ္တုများ ဆက်လက်တူးဖော်ခဲ့သည်။

သယ်ယူပို့ဆောင်ရေး လွယ်ကူစေရန် ၁၉၃၂ ခုနှစ်တွင် ခက်ခဲကြန့်ကြာလှသော မော်လမြိုင် — ခဲမဖြူ — သံလွင်မြစ်ကြောင်းခရီးကို အသုံးမပြုတော့ဘဲ၊ ရန်ကုန်မှ ရှမ်းပြည်နယ် ရွှေညောင်သို့ မီးရထားဖြင့်၎င်း၊ ရွှေညောင်၊ တောင်ကြီးမှ လွိုင်ကော်ကိုဖြတ်၍ မော်ချီသို့ မိုင် ၂၀၀ ခန့် ကွာဝေးသော မော်တော်ကားလမ်း ခရီးကို အသုံးပြု၍၎င်း လမ်းစဉ်ပြောင်းကာ သယ်ယူပို့ဆောင်ရေးနည်းသစ် ထွင်ခဲ့၏။ ထိုသို့ နည်းသစ်ထွင်ခဲ့၍ သယ်ယူပို့ဆောင်ရေး လွယ်ကူကောင်းမွန်လာပေရာ၊ ခေတ်မီ စက်ကရိယာများ မှာယူတိုးချဲ့ ဆောက်လုပ်ခြင်း၊ သတ္တုလုပ်ငန်း တွင်ကျယ်စွာ ဆောင်ရွက်နိုင်ခြင်းတို့ကြောင့် မော်ချီမိုင်းကုမ္ပဏီသည် များစွာတိုးတက်ကြီးပွားလာခဲ့ပေသည်။ မော်ချီမိုင်းကုမ္ပဏီသည် တိုးတက်ကြီးပွားလာသည့် အလျောက် သယ်ယူပို့ဆောင်ရေးတွင် စရိတ်အကျဉ်းဆုံးနှင့် အမြန်ဆုံးဖြစ်စေရန် အတွက် ၁၉၃၅ ခုနှစ်တွင် ၉၇ မိုင်မျှ ရှည်လျားသော တောင်ငူ—မော်ချီ မော်တော်ကားလမ်းကို ကုမ္ပဏီကပင် ငွေကုန်ကြေးကျခံ၍ ဖောက်လုပ်ခဲ့ရာ၊ ၁၉၄၇ ခု နှစ်လယ်လောက်တွင် ပြီးစီးသဖြင့် လမ်းကို အသုံးပြုနိုင်ခဲ့သည်။ ထိုအချိန်တွင် ကုမ္ပဏီသည် ထိပ်ဆုံးရောက်အောင် တိုးတက်ကြီးပွားလျက် ရှိသည့်အလျောက် ခေတ်မီဆုံး စက်ပစ္စည်းများ၊ စက်ရုံများနှင့် အလုပ်သမား ၆,၀၀၀ ကျော် ၇,၀၀၀ ကျော်ခန့် အင်အားဖြင့် နေ့ရောညပါ ၂၄ နာရီပတ်လုံးလုပ်ကိုင်ခဲ့ရာ တလလျှင် သတ္တုတန်ချိန် ၅၀၀ မျှ တူးဖော်ထုတ်လုပ် နိုင်ခဲ့သည်။

ပဌမအနှစ် ၃၀ စာချုပ် ရက်ကုန်ဆုံးသည့်အတွက် ၁၉၃၉ ခုနှစ် ဧပြီလ ၃ ရက်နေ့တွင် မော်ချီမိုင်းကုမ္ပဏီသည် ဘောလခဲမြို့စားကြီး စပ်ခွန်ငယ်လက်ထက်၌ တဖန် မြေရိုင်ယာစတုရန်း ၁၀ မိုင်အတွင်း ၁၉၇၀ ပြည့်နှစ်ဒီဇင်ဘာလ ၃ ရက်နေ့အထိ နောက်ထပ် နှစ်ပေါင်း ၃၂ နှစ်မျှ သတ္တုဆက်လက်တူးဖော်ခွင့် စာချုပ်သစ်ကို နှစ်ဦးသဘောတူ ချုပ်ဆိုခဲ့သည်။

အမှန်အားဖြင့် ဤသို့စာချုပ်သစ် ချုပ်ဆိုရာတွင် မြေရှင်ဖြစ်သူဘောလခဲမြို့စားကြီးနှင့် မြေငှါးဖြစ်သူ မော်ချီမိုင်းကုမ္ပဏီတို့ ၂ ဦး ၂ ဖက်ချုပ်ဆိုရုံမက မြန်မာနိုင်ငံဘုရင်ခံမင်းကြီးကပါ၊ အရေးကြီးလျှင် လိုအပ်သလို ထိန်းသိမ်းအုပ်ချုပ်ရန် ပါဝင်သဖြင့် ၃ ဦး ၃ ဖက် သဘောတူ ချုပ်ဆိုရလေသည်။

၁၉၄၁ ခုနှစ် ဒုတိယကမ္ဘာစစ်ကြီးဖြစ်၍ အင်္ဂလိပ်များ ဆုတ်ခွာပြီးနောက် ဂျပန်များ ဝင်ရောက် လာသောအခါ ကိုဗာယာရှိ သတ္တုတူးဖော်ရေးဂျပန်ကုမ္ပဏီက မော်ချီသတ္တုလုပ်ငန်းကို ဝင်ရောက်လုပ်ကိုင်၍ ဆက်လက် တူးဖော်ရာ ဂျပန်များ ပြန်လည်ဆုတ်ခွာပြေးရသည့် ၁၉၄၅ ခုနှစ်အထိ ၃ နှစ်အတွင်း သတ္တု တန်ချိန် ၅,၀၀၀ ကျော်မျှ ထုတ်ယူရရှိမည်ဟု ခန့်မှန်းရပေသည်။

၁၉၄၆ ခုနှစ် ဒုတိယကမ္ဘာစစ်ကြီး အပြီးတွင် မော်ချီမိုင်းကုမ္ပဏီအုပ်ချုပ်သူများ ပြန်လည် ရောက်ရှိလာပြီးလျှင် ပျက်စီးချုတ်ယွင်းသွားသော စက်များကို ပြန်လည် ပြင်ဆင်လျက် ဆက်လက်တူးဖော်နေဆဲတွင် ၁၉၄၇ ခုနှစ်၌ ကေအင်ဒီအို ကရင်သူပုန်များ ထကြွသောင်းကျန်းကြသဖြင့် သတ္တုတွင်းလုပ်ငန်းကို ၁၉၅၃ ခုနှစ် နိုဝင်ဘာလ၌ အစိုးရတပ်များက မော်ချီမိုင်းကို ပြန်လည် သိမ်းပိုက်သည့်အချိန်အထိ ၅ နှစ်ကြာမျှ ပိတ်ထားခဲ့ရပြန်သည်။ ထိုအတောအတွင်း ကေအင်ဒီအို သောင်းကျန်းသူများသည် မော်ချီသတ္တုတွင်းမှ သတ္တုတန်ချိန် ၁,၀၀၀ ကျော်ခန့်ကို ခိုးယူတူးဖော်၍ ယိုးဒယားနယ်ဖက်သို့ ခိုးထုတ်ရောင်းချခဲ့သည်ဟု ဆိုလေသည်။

၁၉၅၇ ခုနှစ်တွင် မော်ချီမိုင်းကုမ္ပဏီလီမီတက်သည် မြန်မာနိုင်ငံတော် အစိုးရနှင့် ဖက်စပ်လုပ်ငန်းအဖြစ် အသစ်ပြန်လည် စာချုပ်ကြပြန်၏။ မော်ချီမိုင်း ကုမ္ပဏီ (၁၉၅၇) ဟူ၍ တွင်၏။ ထိုစဉ်က ရပိုင်ခွင့်ကို ရွှေဒင်္ဂါးပေါင် ၁၅၅,၀၀၀၊ မြန်မာငွေ ၂၃ သိန်းခန့်ဟုတန်ဖိုးဖြတ်၏။ ၂ နှစ်ခွဲမျှ လုပ်ငန်းကို ပြန်လည် လုပ်ကိုင်ခဲ့သော်လည်း အရှုံးသာလျှင် ပေါ်၏။ ၁၉၆၀ ပြည့်နှစ်လည်လောက်တွင် ၂၇ သိန်းမျှ ရှုံးနေ၏။ ဤသို့ဖြစ်ရသည်မှာ မော်ချီမိုင်း တဝိုက်တွင် သောင်းကျန်းသူများ နှောင့်ယှက်တိုက်ခိုက်သည်ကတကြောင်း၊ အဖိုက်ရိုင်းဈေးကျသည်ကတကြောင်း၊ ကုမ္ပဏီစရိတ် ကြီးလေးသောကြောင့်တကြောင်း ဖြစ်ရလေသည်။ ထိုကြောင့် ဗိုလ်ချုပ်နေဝင်းအစိုးရ တက်လာသောအခါ မိုင်းကို ရောင်းချမည်ဟု ကြော်ငြာခဲ့၏။ ယင်းအခိုက်လုပ်သား ၁၀၀ ကျော်နှင့်ဆက်လက် လုပ်ကိုင်နေရာ သတ္တုအသင့်အတင့် ထွက်ခဲ့လေသည်။

မော်ချီဟု အမည်တွင်ရခြင်းမှာ ခဲမဖြူချောင်း စတင်စီးဆင်းရာတွင် ရှိသဖြင့် ကယား ဘာသာအရ ခေါ်ခြင်းဖြစ်၍ မြန်မာဘာသာဖြင့် ချောင်းဖျားရွာဟုအဓိပ္ပါယ်ရ၏။ မော်ချီတွင် ခဲမဖြူနှင့် အဖိုက်နက် အများအပြားထွက်သည်ကို အကြောင်းပြု၍ ခဲတောင်ဟူ၍လည်း ခေါ်ကြသည်။



တရုပ်ပြည်သူ့သမတနိုင်ငံ၏ ခေါင်းဆောင်ကြီး မော်စီတုံး

**မော်စီတုံး**(ခရစ် ၁၈၉၃ ဖွား)။ ။ယခုအခါ သန်းပေါင်း ၆၀၀ ကျော်ရှိသော တရုပ်လူထုကြီး တရပ်လုံး၏ ကြည်ညိုအားထား လေးစားခြင်းခံရသူ တရုပ်ကွန်မြူနစ်ပါတီ၏ ဥက္ကဋ္ဌကြီး မော်စီတုံးသည် ၁၈၉၃ ခုနှစ်တွင် တရုပ်နိုင်ငံ ဟူနန်နယ် ဆီယန်တန်ရွာကလေး၌ ဖွားမြင်လေသည်။ အသက် ၁၈ နှစ်အရွယ်တွင် ဒေါက်တာဆွန်ယက်ဆင်၏ တော်လှန်ရေးတပ်ဖွဲ့ထဲသို့ ဝင်ရောက် အမှုထမ်းခဲ့သည်။ ထိုနောက်တပ်ဖွဲ့မှ ထွက်ပြီးလျှင် ဟူနန်နယ် ဆရာဖြစ်သင်ကျောင်းနှင့် ပီကင်းအမျိုးသားတက္ကသိုလ်တို့တွင် အထက်တန်း ပညာရပ်များကို ဆည်းပူးခဲ့လေသည်။

မော်စီတုံးသည် အနောက်နိုင်ငံ စာပေများကိုလည်း အထူးလေ့လာလိုက်စားခဲ့၍၊ ၁၉၂၀ ပြည့်နှစ်တွင် မတ်ဝါဒီတဦးဖြစ်လာပြီးလျှင်၊ ၁၉၂၁ ခုနှစ်တွင် တရုပ် ကွန်မြူနစ်ပါတီ တည်ထောင်ရေးတွင် ပါဝင်ကူညီခဲ့သည်။ ၁၉၂၂ ခုနှစ်တွင် ဟူနန်နယ် ပါတီဌာနခွဲ၏ အတွင်းရေးမှူးဖြစ်လာသည်။ ၁၉၂၄ ခုနှစ်တွင် မော်စီတုံးသည် အခြား ကွန်မြူနစ်ခေါင်းဆောင်များနှင့်အတူ ချန်ကေရှိတ်၏ ကူအိုမင်တန်အဖွဲ့တွင် ပါဝင်ခဲ့သည်။ သို့သော် ၁၉၂၇ ခုနှစ်တွင် နေရှင်နယ်လစ်တို့က ကူအိုမင်တန်ပါတီမှ ကွန်မြူနစ်တို့ကို ပယ်ထုတ်လိုက်သောကြောင့် မော်စီတုံးသည် အသတ်ခံရမည့်ဘေးမှ တရုပ်နိုင်ငံ တောင်ပိုင်းသို့ ရှောင်တိမ်းနေခဲ့ရ

၏။ ထိုသို့ တိမ်းရှောင်နေရခိုက်တွင် နောင်အခါ တရုပ်ကွန်မြူနစ်တပ်များ၏ သေနာပတိဖြစ်လာမည့် ချူတေးနှင့်အတူ ၁၉၂၈ ခုနှစ်တွင် တရုပ်တပ်နီတော် အမှတ် ၄ ကို တည်ထောင်ခဲ့၍ မော်စီတုံးသည် ထိုတပ်နီတော်၏ နိုင်ငံရေးအကြံပေးအရာရှိ ဖြစ်လာခဲ့လေသည်။ ၁၉၃၁ ခုနှစ် ဒီဇင်ဘာလတွင် ကျန်ဆီနယ် တရုပ် ဗဟိုဆိုဗီယက် အစိုးရအဖွဲ့၏ ဥက္ကဋ္ဌအဖြစ် တင်မြှောက်ခြင်းခံရလေသည်။

၁၉၃၄ ခုနှစ်တွင် တရုပ်ပြည် တောင်ပိုင်းမှသည် နေရှင်နယ်လစ် တပ်များကို ထိုးဖောက်လျက် မြောက်ပိုင်းသို့ ခရီးရှည်ချီတက်ရာ၌ ဦးစီးခေါင်းဆောင်ခဲ့လေသည်။ ထိုနောက် တရုပ်နိုင်ငံ အနောက်မြောက်ပိုင်းရှိ ရှန်စီနယ် ယီနန်မြို့တွင် ကွန်မြူနစ်ဌာနချုပ်ကို ဖွင့်လှစ်ကာ တရုပ်ကွန်မြူနစ်နိုင်ငံ၏ အခြေခံအုတ်မြစ်များအတွက် ပြင်ဆင်မှုများကို ပြုလုပ်ခဲ့သည်။တရုပ်ကွန်မြူနစ်တို့သည် ထိုနေရာကိုခြေကုတ်စခန်းပြုကာ ချန်ကေရှိတ်၏တပ်များကို တိုက်ခိုက်ခဲ့ကြရာ တရုပ်နိုင်ငံမြောက်ပိုင်းရှိ နယ်အချို့ကို သိမ်းပိုက်မိခဲ့ကြလေသည်။

၁၉၃၆ ခုနှစ်တွင် မော်စီတုံးသည် တရုပ် ကွန်မြူနစ်ပါတီ ဗဟိုကော်မတီဥက္ကဋ္ဌအဖြစ် တင်မြှောက်ခြင်း ခံရလေသည်။ ၁၉၃၇ ခုနှစ်တွင် ဂျပန်က တရုပ်နိုင်ငံကို ကျူးကျော် တိုက်ခိုက်သောအခါ မော်စီတုံးသည် ချန်ကေရှိတ်၏ အမျိုးသားအစိုးရနှင့် ပူးပေါင်းကာ ဂျပန်ရန်ကို တွန်းလှန်တိုက်ခိုက်ခဲ့သည်။ သို့ရာတွင် ယင်းပူးပေါင်းမှုမှာ ကြာရှည်မခံဘဲ ကွဲသွားရာ ၁၉၃၈ ခုနှစ်မှစ၍ မိမိတို့ဖာသာအလျောက်သာလျှင် ဂျပန်တို့ကို ခုခံ တိုက်ခိုက်ကြလေတော့သည်။ ဂျပန်တို့ လက်နက်ချပြီးနောက်တွင် အခြေအနေမှာ တင်းမာနေပြန် သဖြင့် ချန်ကေရှိတ်သည် ညှိနှိုင်းရေးရရှိရန်အတွက် မော်စီတုံးကို ချုန်ကင်းမြို့သို့ ဖိတ်ခေါ် ခဲ့သော်လည်း အကြောင်းမထူးခဲ့ချေ။

၁၉၄၆ ခုနှစ် နွေဦးတွင် ကွန်မြူနစ်တို့သည် မန်ချူးရီးယားနယ်ကို ထိုးစစ် အကြီးအကျယ်ဆင်ကြလေသည်။၁၉၄၇ ခုနှစ် မတ်လတွင်ကား တရုပ်နိုင်ငံကြီးမှာ စေ့စပ်၍ မရနိုင်လောက်အောင် နှစ်ခြမ်းကွဲသွားလေသည်။ ၁၉၄၂ ခုနှစ်က တရုပ်ကွန်မြူနစ် ပါတီတွင် လူ ၆ သိန်းမျှသာရှိခဲ့သော်လည်း ယခုအခါ ၂ သန်းကျော်နေပြီ ဖြစ်ကြောင်း ဥက္ကဋ္ဌမော်စီတုံးက ၁၉၄၇ ခု နိုဝင်ဘာလတွင် ကြေညာလိုက်လေသည်။ ထိုအချိန်တွင် တရုပ်ကွန်မြူနစ်တို့သည် မန်ချူးရီးယားပြည်၏ မြို့တော် မုကဒင်မြို့ကို သိမ်းပိုက်လိုက်ပြီးသော် တရုပ်နိုင်ငံအလယ်ပိုင်းသို့ ရွေးရှူချီတက်လျက် ရှိကြလေသည်။

၁၉၄၈ ခုနှစ် ကုန်ခါနီးတွင် ကွန်မြူနစ်တို့သည် တရုပ်နိုင်ငံကြီး၏ ၃ ပုံ ၁ ပုံကို သိမ်းပိုက်မိကြပြီး ဖြစ်၏။ ၁၉၄၉ ခုနှစ်ထဲသို့ ရောက်သည့်အခါ၌ကား တရုပ်နိုင်ငံကြီး တခုလုံးမှာ ကွန်မြူနစ်တို့ လက်အောက်သို့ ကျရောက်သွားပြီးလျှင်၊ ချန်ကေရှိတ် အစိုးရအဖွဲ့မှာ ဖော်မိုးဆား ကျွန်းကလေးပေါ်သို့ ထွက်ပြေး ကြရလေသည်။ ၁၉၄၉ ခုနှစ် အောက်တိုဘာလ ၁ ရက်နေ့တွင် တရုပ်ပြည်သူ့ သမတနိုင်ငံတော်ကို တည်ထောင်လိုက်ကြလေသည်။ မော်စီတုံးသည် ဗဟိုအစိုးရအဖွဲ့ ဥက္ကဋ္ဌ (သမတ) အဖြစ် တင်မြှောက်ခြင်း ခံရလေသည်။ ဒီဇင်ဘာလ ၁၆ ရက်နေ့တွင် မော်စီတုံးသည် မော်စကိုမြို့တော်သို့ ပဌမဆုံးအကြိမ် သွားရောက်ပြီးနောက် ခေါင်းဆောင်ကြီး စတာလင်နှင့် တွေ့ဆုံ ဆွေးနွေးခဲ့လေသည်။

၁၉၅၉ ခုနှစ် ဇန္နဝါရီလတွင် မော်စီတုံးသည် ဗဟိုအစိုးရအဖွဲ့ဥက္ကဋ္ဌအဖြစ်မှ နုတ်ထွက်ခဲ့ပြီးနောက် တရုပ်ကွန်မြူနစ်ပါတီ၏ ဥက္ကဋ္ဌအဖြစ်သာ ဆက်လက် ဆောင်ရွက်ခဲ့လေသည်။ မော်စီတုံးသည် တရုပ်ကွန်မြူနစ် ခေါင်းဆောင်တဦးအဖြစ် ကမ္ဘာတွင် ကျော်ကြားသကဲ့သို့ တရုပ်နိုင်ငံတွင်လည်း စာဆိုကဝိ ပညာရှိတဦးအဖြစ်လည်း ကျော်ကြားလေသည်။ သူရေးသားပြုစုခဲ့သည့် နိုင်ငံရေးစာပေများတွင် တရုပ်နိုင်ငံနီ (၁၉၃၄)၊ တရုပ်နိုင်ငံနှင့် ဒုတိယနယ်ချဲ့ကမ္ဘာ့စစ် (၁၉၃၉)၊ တရုပ်နိုင်ငံ၏ ဒီမိုကရေစီသစ် (၁၉၄၄)နှင့် တရုပ်နိုင်ငံသစ်အတွက် တိုက်ပွဲ (၁၉၄၅) တို့မှာ ထင်ရှားလေသည်။

**မော်တော်ယာဉ်။** ။မော်တော်ယာဉ်သည် မည်သည့် နေ့ရက်က စတင်ပေါ် ပေါက်လာသည်ကို တပ်အပ်သေချာ မပြောနိုင်သော်လည်း ၁၈ ရာစုအလယ်ခေတ်လောက်၌ကား နိုင်ငံအသီးအသီးရှိ ပညာရှင်များသည် မော်တော်ယာဉ်ပေါ်ထွက်လာမှုအတွက် ကြိုးပမ်း၍ အပြိုင်တီထွင်လျက် ရှိကြောင်း သိရပေသည်။ ယင်းတို့အထဲတွင် နစ်ကလပ် ကူညိုးဆိုသူ ပြင်သစ်လူမျိုးတဦးသည် ရေနွေးငွေ့ဖြင့် မောင်းသော ပဌမဆုံး မော်တော်ယာဉ် တစီးကို ခရစ် ၁၇၇၀ ပြည့်နှစ်ခလောက်က အောင်မြင်စွာ တီထွင် ပြုလုပ် နိုင်ခဲ့လေသည်။ ထိုမော်တော်ယာဉ် ဆောက်လုပ်ထားပုံမှာ မီးရထားနှင့် ခပ်ဆင်ဆင် တူသော်လည်း သံလမ်းမလိုဘဲ ရိုးရိုးကျောက်လမ်းပေါ်တွင်ပင် မောင်းနှင်နိုင်သည်။ ထိုယာဉ်တွင် ဘီး ၃ ဘီးသာရှိ၍ ရှေ့ဘီးဖြင့် ခုတ်မောင်းကာ တနာရီလျှင် ၂ မိုင်ခွဲ ခန့်နှုန်းဖြင့် သွားနိုင်သည်။ သို့သော် မကြာခဏ ရပ်နား၍ ရေနွေးငွေ့ပေါင်းချိန်တိုးအောင်ပြုလုပ်ပေးရသည်။ ၁၇၇၁ ခုနှစ်တွင် ကူညိုးသည် ဒုတိယယာဉ်တစီးကို ထပ်မံ ပြုလုပ်ပြန်သည်။ ထိုမော်တော်ယာဉ်ကို ပြင်သစ် နိုင်ငံပြတိုက်ကြီးတခု၌ ယနေ့တိုင်အောင် သိမ်းဆည်း ထားလေသည်။

၁၈ ရာစုနှစ် ဆုံးခါနီးနှင့် ၁၉ ရာစုနှစ် အစလောက်သို့ ရောက်လာသောအခါ အခြားပညာရှင် အသီးအသီးတို့ကလည်း ရေနွေးငွေ့ဖြင့် ခုတ်မောင်းသော ခရီးသည်တင် စက်ယာဉ်များ ဖြစ်မြောက်ရေးအတွက် အမျိုးမျိုး ကြံစည်ကြိုး

စားခဲ့ကြရာ အချို့အောင်မြင်၍၊ အချို့လည်း မအောင်မြင်ကြပေ။ ၁၈၂၇ ခုနှစ်တွင် လန်ဒန်မြို့အနီးတဝိုက်၌ ခရီးသည်တင် ရေနွေးငွေ့စက်ယာဉ်များ စတင် ပြေးဆွဲလျက်ရှိနေလေသည်။ ထိုအချိန်၌ အင်္ဂလန်နိုင်ငံတွင် စတော့တန်မြို့နှင့် ဒါလင်တန်မြို့ အကြား၌ မီးရထား ခုတ်မောင်း သွားလာနေသည်မှာ ၂ နှစ်မျှရှိနေပေပြီ။ သို့ရာတွင် မြင်းရထားဖြင့် အသက်မွေးမှုလျက်ရှိကြသောလူအချို့သည် အဆိုပါစက်ယာဉ်မျိုးကို အနည်းငယ်မျှ မရှုဆိတ်နိုင်ကြချေ။ စက်ယာဉ်များ ပေါ်ပေါက်လာသည့် အတွက် အချို့မှာ အလုပ်လက်မဲ့ ဖြစ်သွားကြရ၏။ တခါသော် စက်ယာဉ် တီထွင်သူတဦးဖြစ်သော ဂိုးဇွဲသီ ဂါနီသည် လန်ဒန်နှင့် ဗတ်မြို့အကြား၌ စက်ယာဉ်ဖြင့် ခရီးသွားလျက်ရှိစဉ် စက်ယာဉ်ကို မျက်မုန်းကျိုးနေသူ လူတစုက ဝိုင်းအုံ၍ ခဲနှင့်ပေါက်ကြသဖြင့် ဂါနီမှာ အနာတရဖြစ်ရဘူးလေသည်။

၁၈၃၁ ခုနှစ်လောက်မှစ၍ အင်္ဂလန် နိုင်ငံတွင် စက်ယာဉ်များကို ဖိနှိပ်ရာရောက်သော ဥပဒေများ စတင်ပေါ်ပေါက်လာခဲ့သည်။ ထိုဥပဒေများအနက် ၁၈၆၅ ခုနှစ်တွင် ပြဋ္ဌာန်းသောအလံနီအက်ဥပဒေမှာ အလွန်ထင်ရှား၏။ အလံနီအက်ဥပဒေအရ စက်ယာဉ်မောင်းနှင်ရာတွင် နေ့အခါ၌ လူတယောက်သည် အလံနီကိုကိုင်၍၎င်း၊ ညဥ့်အချိန်၌ မီးနီကိုကိုင်၍၎င်း ယာဉ်ရှေ့မှ သွားရမည်ဖြစ်သည်။ ထို့ပြင် လမ်းခရီးတွင် ဂိတ်ကြေးများ ကြီးလေးစွာ ကောက်ခံသည့် အတွက် စက်ယာဉ်များမှာ လမ်းပေါ်မှ ပျောက်လုနီးပါး ဖြစ်သွား၏။ ထိုအကြောင်းများကြောင့် အင်္ဂလန် နိုင်ငံတွင် စက်ယာဉ်၏ တိုးတက်မှုသည် များစွာနှောင့်နှေး ကြန့်ကြာသွားခဲ့သည်။

အထက်ပါ ဥပဒေများကို ပယ်ဖျက် လိုက်သော ၁၈၉၆ ခုနှစ်လွန်မြောက်မှ အင်္ဂလန်တွင် စက်ယာဉ်တီထွင်သူတို့ ပြန်လည်လှုပ်ရှားလာကြသည်။ အခြား နိုင်ငံများ၌ကား ထိုအချိန်တွင် စက်ယာဉ်တီထွင်သူဘို့သည် မိမိတို့၏ ကြံစည်ကြိုးစားချက်များဖြင့် အလုပ်များ တိုးတက်လျက် ရှိကြသည်။ ၁၈၈၅-၈၆ ခုနှစ်တွင် ဂျာမန်လူမျိုး ဂေါ့တလိဗ်ဒိုင်မလာက အမြန်ခုတ် အတွင်းမီး အင်ဂျင်စက်တမျိုးကို မူပိုင်မှတ်ပုံတင်၍ ထိုစက်ကြောင့် မော်တော်ယာဉ်ဖြင့် သယ်ယူပို့ဆောင်ရေးလုပ်ငန်းသည် တခေတ်ပြောင်းခဲ့ရသည်ဟု ဆိုလေသည်။ အတွင်းမီး အင်ဂျင်စက်ဖြင့် ခုတ်မောင်းသော မော်တော်ယာဉ်တီထွင်မှုနှင့် စပ်လျဉ်း၍ သမိုင်းဆရာအချို့က ၁၈၇၅ ခုနှစ်တွင် ဆိဖရိနာကပ်ဆိုသူ ဩစတြီးယားနိုင်ငံသား တဦး




၂၀ ရာစုဆန်းစက တီထွင်အသုံးပြုခဲ့သော မော်တော်ယာဉ်ဖြစ်သည်။ ထိုခေတ်က မော်တော်ယာဉ်ပုံစံမှာ မြင်းရထားပုံမျိုးဖြစ်၍ စက်နှိုးလိုသော် လက်လှည့် ကောက်တံဖြင့် လှည့်နှိုးရသည်။

က ၄ ဘီးတပ်ယာဉ်တစီးကိုရင်း၊ ၁၈၈၅ ခုနှစ်တွင် ဗင့်ဆိုသူ ဂျာမနီပြည်သား တဦးက ၃ ဘီးတပ် ယာဉ်တစီးကိုရင်း ဆောက်လုပ်ခဲ့ဘူးသည် ဆို၏။ သို့သော် အများကမူ ယခုခေတ်သုံးမော်တော်ယာဉ်များ၏ ရှေးပြေးဖြစ်သော ဓာတ်ဆီအင်ဂျင်စက်ဖြင့် ခုတ်မောင်းသည့် ပဌမဆုံးခေတ်မှီမော်တော်ယာဉ်ကို ကရက်ဆိုသူ ပုဂ္ဂိုလ်တဦးက စတင်တီထွင်ခဲ့သည်ဟု ဆိုကြသည်။ ဒိုင်မလာ စက်ပုံစံကို ပန်းနတ်နှင့် လဗားစား ဆိုသူ ပြင်သစ်အမျိုးသား ၂ ဦးက ဝယ်ယူ၍ မော်တော်ကားအတွက် ပုံစံကို ကရက်ကပင် ရေးဆွဲပေးခဲ့သည်။ ထိုစဉ်က ပြင်သစ်နိုင်ငံ ပါရစ်မြို့တော်တဝိုက်တွင် ပေါ်ပေါက်လာသော မော်တော်ယာဉ်တို့သည် အတွင်းမီးအင်ဂျင်စက် တပ်ထားသည်က တကြောင်း၊ ရော်ဘာဘီးများ တပ်ဆင်ထားခြင်းကြောင့်တကြောင်း၊ တနာရီလျှင် မိုင် ၂၀ နှုန်းဖြင့် လျင်မြန်စွာခုတ်မောင်းနိုင်ခြင်းကြောင့်တကြောင်း လူတိုင်းကပင် အံ့သြခြင်းမောနေကြရ၏။ ထိုခေတ်က ဤမျှ လျင်မြန်သော ယာဉ်မျိုး မပေါ်ပေါက်သေးရကား တနာရီလျှင် မိုင် ၂၀ ပြေးသည့်နှုန်းမှာ မြင်ရသူများအဖို့ အသက်ရှူ မှားလောက်အောင် အမှန်ပင် လျင်မြန်လှပေသည်။

၁၈၉၆ ခုနှစ်သို့ ရောက်သောအခါ မော်တော်ယာဉ် များကို ပြင်သစ်၊ အင်္ဂလန်၊ ဂျာမနီနှင့် အမေရိကန် ပြည်ထောင်စုနိုင်ငံ အသီးအသီးတို့တွင် အပြိုင်အဆိုင် လုပ်လာကြသည်။ အမေရိကန်ပြည်ထောင်စုတွင် ဓာတ်ဆီဖြင့်ခုတ်မောင်းသော ပဌမ မော်တော်ယာဉ်ကို ချားဒါရယီ ဆိုသူ အမေရိကန်လူမျိုးက ဆောက်လုပ်၍ ထိုအခါက အမေရိကန်နိုင်ငံတွင် ဒါရယီ ပြုလုပ်သော မော်တော်ကားတစီး၊ ဂျာမန်လူမျိုး ဗင့် ပြုလုပ်သော ကားတစီး၊ အမေရိကန်လူမျိုး ဟိန်း (ဇ) ပြုလုပ်သော ကားတစီးနှင့် ကမ္ဘာကျော်မော်တော်ကား လုပ်ငန်းပိုင်ရှင်ကြီးဖြစ်လာသူ ဟင်နရီဖို့ ပြုလုပ်သော ကားတစီး ပေါင်း မော်တော်ယာဉ် ၄ စီးသာ ရှိခဲ့သည်။ ဤ ၄ စီး အနက် ဟင်နရီဖို့ ပြုလုပ်မောင်းနှင်သော မော်တော်ကားကို လူကြိုက်အများဆုံး ဖြစ်ရာ ရပ်ထားသည့်အခါ ပျောက်ဆုံးသွားမည်စိုး၍ ကြိုးဖြင့် သစ်ပင်တပင်တွင် ချည်နှောင်ထားရဘူးလေသည်။ (ဖို့ ဟင်နရီ — လည်းရှု။)

ပဌမပေါ်ခါစက မော်တော်ယာဉ်များကို အထူးအဆန်း ဟရပ်အနေနှင့်သာ သဘောထားခဲ့ကြ၍ ယခုလောက်အသုံးဝင်သော ယာဉ်တမျိုးဖြစ်လာလိမ့်မည်ဟု မထင်ခဲ့ကြပေ။ ထိုအခါက မော်တော်ယာဉ်ဈေးမှာ အလွန်ကြီးသည့် အပြင် လမ်းတွင်လည်း သွားနေယင်း စက်မကြာခဏ ရပ်သွားလေ့ရှိသဖြင့် များစွာ စိတ်မချရသေးချေ။ ဈေးကြီးသည့်အတွက် ပစ္စည်းဥစ္စာ ကြွယ်ဝချမ်းသာသူများသာ ဝယ်ယူစီးနင်း နိုင်ကြ၏။ ၁၉၁၀ ခုနှစ်သို့ ရောက်မှ စက်လည်း ယခင်ကထက် ကောင်းမွန်လာပြီးလျှင် မော်တော်ယာဉ်ကို လူကြိုက်များစပြုလာသည်။ ထိုနှစ်တွင် အမေရိကန် ပြည်ထောင်စု၌ မော်တော်ယာဉ်အစီးပေါင်း ၁ သိန်း ၈ သောင်းကျော်မျှ ထုတ်လုပ်နိုင်ခဲ့လေသည်။

လက်ဦးတွင် မော်တော်ယာဉ် ပြုလုပ်ရောင်းချသူတို့သည် တစီးချင်းသာ ပြုလုပ်ရောင်းချခဲ့သည်။ တပ်ဆင်အသုံးပြုသည့် ကရိယာအစိတ်အပိုင်းများမှာ တစီးနှင့်တစီး အရွယ်ချင်းမညီကြ၊ အပိုလည်း ပြုလုပ်ထားခြင်းမရှိပေ။ ထို့ကြောင့် အစိတ်အပိုင်းတခုခု ချို့တဲ့ကျိုးပဲ့သွားလျှင် စက်ပြင်ဆရာက ထိုပစ္စည်းကို အသစ်ပြုလုပ်၍ မပြီးမခြင်း မော်တော်ယာဉ်ကို အသုံး မပြုနိုင်ဘဲ ရပ်နားထားရသည်။ ထိုအခက်အခဲများကြောင့် ဦးစွာ၌ မော်တော်ယာဉ်လုပ်ငန်းသည် ကြီးပွားသင့်သလောက် မကြီးပွားဘဲ ရှိ၏။ သို့သော် ဟင်နရီဖို့က ထိုပြဿနာကို ပြေလည်အောင် ဖြေရှင်းခဲ့သည်။

ဟင်နရီဖို့သည် ကုန်ပစ္စည်းများကို အမျိုးတူ ပုံတူ အရွယ်တူစသည်ဖြင့် စံကိုက်ကုန်လုပ်စံနစ်နှင့် ပုံစံတူ ပစ္စည်းအများထုတ် စံနစ်ဟူသော စံနစ် ၂ ခုကို ရှေးဦးစွာ အုတ်မြစ်ချပေးသည်။ ထိုစံနစ်များကို သွတ်သွင်းလိုက်ခြင်းဖြင့် ထိုအချိန်က သေးငယ်သောဘဝတွင် ရှိသေးသော မော်တော်ယာဉ် လုပ်ငန်းသည် ပဌမတန်းစား လုပ်ငန်းကြီးဘဝသို့ တဟုန်ထိုး တိုးတက်သွားလေသည်။ မကြာမီပင် ဖို့သည် မော်တော်ယာဉ် အမြောက်အမြားကို အချိန်ကုန် သက်သာစွာနှင့် ထုတ်လုပ်နိုင်လာ၍ တချိန်ထက် တချိန်လည်း မော်တော်ယာဉ် ဈေးနှုန်းကို အများဝယ်ယူနိုင်လောက်အောင် နှိမ့်ချနိုင်ခဲ့သည်။ ပစ္စည်းကရိယာ အစိတ်အပိုင်းများကို စံကိုက်ပြုလုပ်၍ရောင်းချသဖြင့်လည်း မော်တော်ယာဉ် ပိုင်ရှင်များအဖို့ ချွတ်ယွင်းပျက်စီးသွားသော အစိတ်အပိုင်းများကို လွယ်ကူစွာ ဝယ်ယူ၍ လျင်မြန်စွာ လဲလှယ်တပ်ဆင်နိုင်ကြသည်။ အမေရိကန်ပြည်ထောင်စုရှိ မော်တော်ယာဉ်လုပ်ငန်းမှာ ထိုအချိန်မှစ၍ အကြီးအကျယ် တိုးတက်လာခဲ့၏။ ပဌမကမ္ဘာစစ်ပြီးချိန်မှစ၍ အမေရိကန်ပြည်ထောင်စုတွင် မော်တော်ယာဉ်များကို တနှစ်တနှစ်လျှင် သန်းနှင့်ချီ၍ ပြုလုပ် ရောင်းချခဲ့ရာ ထိုအရေအတွက်မှာ တကမ္ဘာလုံးမှထုတ်လုပ်သော မော်တော်ယာဉ် အရေအတွက်၏ ၈၅ ရာခိုင်နှုန်းခန့်နှင့် ညီမျှလေသည်။

အင်္ဂလန်နိုင်ငံတွင်လည်း အမေရိကန်ပြည်ထောင်စုမှ ကုန်အများထုတ် စံနစ်ကို နည်းယူလုပ်ကိုင်ခြင်းဖြင့် မော်တော်ယာဉ် လုပ်ငန်းသည် အကြီးအကျယ် တိုးတက်လာခဲ့ပေသည်။ ကမ္ဘာကျော် ရိုးစရွိုက်မော်တော်ယာဉ်များကို ပြုလုပ်ရောင်းချခဲ့သော ဟင်နရီရွိုက်သည် နောင်တွင် ဆာဘွဲ့ဖြင့် ချီးမြှင့်ခြင်းခံခဲ့ရသည်။ အင်ဂျင်နီယာတဦးဖြစ်သူ ဟားဗတ်မော်ရစ်နှင့် စက်ဘီးပြုလုပ်သူ ဝီလျံရစ်ချတ် အော်စတင်တို့သည်လည်း မော်တော်ယာဉ် လုပ်ငန်းဖြင့် ကြီးပွား တိုးတက်ခဲ့ကြလေသည်။



မော်တော်ယာဉ် ထုတ်လုပ်သော စက်ရုံကြီးအတွင်း တွေ့မြင်ရသောရှုခင်းတရပ် ဖြစ်သည်။ စီတန်းတပ်ဆင်ယူနည်းဖြင့် မော်တော်ယာဉ် အစိတ်အပိုင်းများကို ဆင့်ကဲ တပ်ဆင်ပြီးနောက် စမ်းသပ်ရန် မောင်းနှင်ကြည့်ရသည်။

ယခုခေတ် မော်တော်ယာဉ် ပြုလုပ်ရာဌာနတွင် စက်ရုံအလုပ်ရုံများသာမက အလုပ်သမားတို့၏ နေရာထိုင်ခင်းများပါ ပြည့်နှက်လျက် ရှိသဖြင့် မြို့ကြီးတမြို့ပမာ ကျယ်ဝန်းပြည့်စုံပေသည်။ အချို့ဌာနတွင် မော်တော်ယာဉ်၌ တပ်ဆင်ရမည့် ကရိယာ အစိတ်အပိုင်းများကို သာမက အလုပ်သမားတို့ ကိုင်တွယ် အသုံးပြုရမည့် တန်ဆာပလာများကိုပင် မိမိတို့ဖာသာ ပြုလုပ်ယူကြသည်။ အလုပ်ရုံကြီးများမှာ ကြီးကျယ်များပြား၍ အလုပ်သမားများမှာလည်း ထောင်နှင့် ချီပြီး ရှိကြသည်။ သို့ရာတွင် ကုန်အများထုတ် စံနစ်ကို အခြေခံထားသည့်အတိုင်း အလုပ်နှင့် အချိန် အသက်သာဆုံးဖြင့် မော်တော်ယာဉ် စီးရေ အများဆုံး ပြုလုပ်နိုင်အောင် စီမံထားသည်။ စီမံထားပုံမှာ မော်တော်ယာဉ်တစီး ဖြစ်မြောက်အောင် တပ်ဆင်ရာ၌ အလုပ်သမားများသည် တပ်ဆင်ရာနေရာသို့ စုပုံလာရောက်ရန် မလိုဘဲ မော်တော်ယာဉ် အစိတ်အပိုင်းကို စက်ဖြင့် ရွေ့ရှားစေနိုင်သော ခါးပတ်ခုံရှည်ကြီးပေါ်တွင် တင်၍ အလုပ်သမားရှိရာသို့ ပို့ဆောင်ပေးသည်။ တခါတရံ အဆိုပါ ခါးပတ်ခုံရှည်ကြီးမှာ တမိုင်ခန့်ပင် ရှည်ပေသည်။

ဆိုင်ရာ အလုပ်သမားတို့သည် မိမိတို့၏နေရာဌာန အသီးအသီး၌နေလျက် မိမိတို့ထံ ရောက်လာသော အစိတ်အပိုင်းတွင် သက်ဆိုင်ရာ အစိတ်အပိုင်းကိုသာ တပ်ဆင်ပေးကြရသည်။ ကိစ္စပြီးသောအခါ ထိုအစိတ် အပိုင်းသည် အခြားအလုပ်သမားတစု ရှိရာသို့ ရောက်သွားပြန်သည်။ မော်တော်ယာဉ် တစီးဖြစ်မြောက်အောင် တပ်ဆင်ရာတွင် ပဌမဆုံး အလုပ်သမားတစုက မော်ဘော်ယာဉ်၏ အောက်ခံဘောင်ကို ရှေးဦးစွာတပ်ဆင်ပေးသည်။ ကျန်အစုများက အင်ဂျင်စက်ကိုင်၊ ကိုယ်ထည်ကိုင်၊ လျှပ်စစ်ဓာတ်နှင့် ဆိုင်သည့် ကရိယာများကိုင်၊ ဘီးများကိုင် အသီးအသီး အလှည့်ကျ တပ်ဆင်ပေးကြရသည်။ မော်တော်ယာဉ် ကိုယ်ထည်ကို ဆေးကြောတိုက်ချွတ်ခြင်း၊ စက်ဖြင့် ဆေးသုတ်ပေးခြင်း၊ အခြောက်ခံခြင်း စသည်တို့ကိုလည်း အလားတူ ပြုလုပ်ပေးကြရ၏။ ဤသို့ဖြင့် အပြည့်အစုံ တပ်ဆင်ပြီးသား မော်တော်ယာဉ်များသည် နာရီပိုင်းအတွင်းမှာပင် တစီးပြီး တစီး ထွက်ပေါ်လာကြလေသည်။ မော်တော်ယာဉ် အလုပ်ဌာနတွင် ခါးပတ်ခုံရှည်ကြီး လှည့်နေသောအလုပ်ရုံကြီးသည် အကြောမကြီးနှင့် သဏ္ဍာန်တူသည်။ လိုအပ်သော အစိတ်အပိုင်းများကို သီးခြားအလုပ်ရုံများတွင်ပြုလုပ်ကြရ၍ ယင်းတို့ကို တခုနှင့်တခု ဆက်စပ်ရန်အတွက် ပင်ရင်း အလုပ်ရုံကြီးသို့ အသင့် ပို့ဆောင်ပေးကြရသည်။ အဆိုပါ အစိတ်အပိုင်းများကို ပြုလုပ်ရာ၌လည်း စံကိုက်ကုန်လုပ်စံနစ်ဖြင့် ပြုလုပ်ရသည့်အတွက် စံထားရသော ပစ္စည်းနှင့် ထပ်တူထပ်မျှ ကိုက်ညီအောင် တိကျစွာ ပြုလုပ်ကြရလေသည်။

မော်တော်ယာဉ် လုပ်ငန်းဌာနတွင် တပ်ဆင်ပြီးသော မော်တော်ယာဉ်များကို စမ်းသပ်မောင်းနှင်ကြည့်ရန်အတွက် အင်္ဂတေဖြင့် တောင်ကုန်းများနှင့် လမ်းများလည်း ဖောက်လုပ်ထားလေ့ ရှိသည်။ ထို့မှတပါး မော်တော်ယာဉ်နှင့် စပ်ဆိုင်သော သုတေသနလုပ်ငန်းများကို ကျွမ်းကျင်သည့် အလုပ်သမားတစုက အမြဲတစေ လေ့လာစမ်းသပ်လျက်ရှိကြ၍ ငွေရေးကြေးရေး စီးပွားရေးနှင့် သက်ဆိုင်သည့် တာဝန်ခံများကလည်း မိမိတို့မော်တော်ယာဉ်များ အရောင်းရ တွင်ကျယ်မှုအတွက် အမြဲတစေ ရှာကြံကြိုးစားလျက် ရှိကြရပေသည်။

မော်တော်ယာဉ် ပေါ်ပေါက်ခဲ့သည်မှာ နှစ်ပေါင်း ၅၀ ကျော်ကျော်ခန့်သာ ရှိသေးသော်လည်း ရှေးကမော်တော်ယာဉ်များနှင့် ယခုခေတ် မော်တော်ယာဉ်များမှာ ပြောမယုံနိုင်လောက်အောင် ကွာခြားသည်ကို တွေ့ရသည်။ ရှေးကမော်တော်ယာဉ်များမှာ ပုံသဏ္ဍာန်အားဖြင့် မြင်းရထားနှင့် တူ၏။ နှေးလည်း နှေး၏။ ထိုမော်တော်ယာဉ်များ၌ လေကာမှန်များ မပါရှိသောကြောင့် အမျိုးသမီးများ မော်တော်ယာဉ် စီးစဉ် မျက်နှာတွင် ပါးလွှာသောအဝတ်များ ဖုံးအုပ်သည့် အလေ့အထ ပြုလုပ်လာကြခြင်းကို အံ့သြစရာ မရှိချေ။ ယခုခေတ် မော်တော်ယာဉ်များကား အမြင်အားဖြင့် နှစ်သက်ဖွယ် ဖြစ်သည်သာမက စည်းစိမ် ရှိရှိနှင့် စီးနင်းလိုက်ပါနိုင်၍ အလျင်စလိုလည်း သွားလာနိုင်သည်။ ကိုယ်ထည်မှာ ချောမွေ့ပြောင်လက်လျက် ရှိသည့်အပြင် ရှဉ့်သွေးရောင်၊ အမည်းရောင်၊ အစိမ်းရောင် တခါတရံ ၂ ရောင်စသည်ဖြင့် အမျိုးမျိုး ခြယ်လှယ်ထားသည့်အတွက်လည်း အလွန် လှပတင့်တယ်ပေသည်။

မော်တော်ယာဉ် ကိုယ်ထည်များမှာ များသောအားဖြင့် ရှေးကထက်နိမ့်၍ ရှည်လျားလျားဖြစ်ကာ ပြေပြစ်ကြော့ရှင်းသဖြင့် လျင်မြန်မည့်ပုံမှာ အထင်းသား ပေါ်လွင်လျက် ရှိသည်။ ယခုခေတ် မော်တော်ယာဉ် ပြုလုပ်ရောင်းချသူတို့သည် မော်တော်ယာဉ်ကို မြန်သည်နှင့်အမျှ ဘေးအန္တရာယ် မဖြစ်စေဘဲ စိတ်ချလက်ချ မောင်းနှင်နိုင်ရေးကိုလည်း အထူးဂရုစိုက်ကြသည်။ ထိုအတွက် အလှယ်တကူနှင့် ထိခိုက်ပျက်စီးခြင်းမရှိစေရန် ကိုယ်ထည်ကို သံမဏိဖြင့် ပြုလုပ်လာကြသည်။ တိုင်ယာများတွင် ပန်းကွက်ဖော်ထားသဖြင့် စိုစွတ်နေသော လမ်းများပေါ်တွင် ဗရိတ်ကို ရုတ်တရက်ဖမ်းလိုက်သောအခါ ဘီးများသည် တော်ရုံနှင့် ချော်ထွက်၍မသွားနိုင်ချေ။ မော်တော်ယာဉ်ရှေ့တွင် တပ်ဆင်ထားသော မှန်ကို မတော်တဆ ထိခိုက်မိသောအခါ ကြေမွလွင့်စဉ်၍မသွားစေရန် ပလော်စတစ်ဖြင့် စီမံထားသည်။ ဗရိတ်များကိုလည်း ဖမ်းလိုက်သည်နှင့် မိနေအောင် အထူးကြံစည်ပြုလုပ်ထားလေသည်။

အထက်တွင်ဖော်ပြခဲ့သော ယာဉ်မျိုးမှာ မော်တော်ကား၊ သို့မဟုတ် အော်တိုမိုဗိုင် ဟုတွင်ကာ ကိုယ်ပိုင် ဝယ်ယူစီးနင်းလေ့ရှိသော ကိုယ်ပိုင်မော်တော်ယာဉ်များ ဖြစ်ကြသည်။ ဤယာဉ်မျိုးအပြင်ဘတ်စကားခေါ် ခရီးသည်တင်မော်တော်ယာဉ်မျိုးနှင့် လော်ရီ၊ သို့မဟုတ် ထရပ်ကားဟု ခေါ်သော ဝန်တင်မော်တော်ယာဉ်မျိုး ရှိသေးသည်။ မြန်မာ နိုင်ငံ၌ ရှိသော မော်တော်ဘတ်စကားများမှာ တထပ်တည်းဖြစ်၍ ဗြိတိန်၊ ပြင်သစ်၊ အမေရိကန်စသော အနောက် နိုင်ငံများတွင်ရှိသည့် ဘတ်စကားများမှာ နှစ်ထပ်ဖြစ်သည်။ အချို့အဝေးပြေး ဘတ်စကားများတွင် ညဥ့်အခါအိပ်၍လိုက်ပါရန် အိပ်စင်များပင် ပါရှိပေသေးသည်။ အများအားဖြင့် ဘတ်စကားများကို ဓာတ်ဆီဖြင့် မောင်းနှင်ကြသည်။ သို့သော် မကြာခဏ ရပ်နားရ၍ အသံမမြည်စေလိုသော နေရာမျိုးတွင် တခါတရံ လျှပ်စစ်ဓာတ်ကို အသုံးပြုကြသည်။ ဒုတိယကမ္ဘာစစ်မဖြစ်မီက ရန်ကုန်မြို့တွင် ပြေးခဲ့သော ထရော်လီဘတ်စကားများမှာ လျှပ်စစ်ဓာတ်ဖြင့် မောင်းနှင်သောမော်တော်ယာဉ်မျိုးပင် ဖြစ်သည်။ နောက်ဆုံးပေါ် စက်တမျိုးမှာ ဒီဇယ် အင်ဂျင်စက်ဖြစ်၍ ထိုစက်မျိုးကို အထူးသဖြင့် မော်တော်ဘတ်စကားနှင့် လော်ရီတို့တွင် အသုံးများသည်။ (ဒီဇယ်အင်ဂျင် — လည်းရှု။) လော်ရီနှင့် ထရပ်မှာ အတူတူပင်ဖြစ်၏။ ဝန်တင်မော်တော်ယာဉ်ကို အင်္ဂလိပ် လူမျိုးတို့က လော်ရီဟူ၍၎င်း၊ အမေရိကန်လူမျိုးတို့က ထရပ်ဟူ၍၎င်း အခေါ်ကွဲခြင်းသာ ဖြစ်သည်။ ဝန်တင်မော်တော်ယာဉ်တွင် ဝန်ပေါ့တင်ရန်နှင့် ဝန်လေးတင်ရန်ဟူ၍ ခွဲခြား ပြုလုပ်ထားပြန်သည်။ ဝန်ပေါ့တင် လော်ရီများမှာ များစွာ မကြီးလှပေ။ သို့သော် ဝန်လေးတင် လော်ရီများမှာမူ အလွန်ကြီးမား၍ တခါတရံ ဘီး ၁၀ ဘီးအထိပင် ပါရှိတတ်၏။ ကိုယ်ပိုင် လူစီးမော်တော်ကားများတွင်လည်း ပြုလုပ်ထားပုံကို လိုက်၍၊ ရုတ်စတား၊ တိုးရင်းစသော ခေါက်အမိုးတပ်ကားမျိုး၊ ဆီဒင်၊ ဆလွန်း၊ ကူပေး စသော အမိုးသေတပ် အလုံပိတ်ကားမျိုး၊ လင်မူဇင်ခေါ် မောင်းသူနှင့် စီးသူကြားတွင် လျှာထိုးမှန်တံခါး ခံထားသည့် အလုံပိတ်ကားမျိုး စသည်ဖြင့် အမျိုးမျိုးရှိကြသည်။ ကိုယ်ပိုင်လူစီးဘတ်စကား၊ ခရီးသည်တင်ကား၊ ဝန်တင်လော်ရီကားမျိုးတို့အပြင် ကိစ္စအလိုက် ပြုလုပ်ထားသော ပြိုင်မော်တော်ကား၊ စစ်ရေးကိစ္စ၌ အသုံးပြုသည့် သံချပ်ကာကား၊ လယ်ယာစိုက်ပျိုးရေး၌ အသုံးပြုသည့် လယ်ထွန်ကားများလည်းရှိပေသေးသည်။

ရှေးက မော်တော်ယာဉ်များသည် နောက်ဘီးလည်ယာဉ်များသာ ဖြစ်ခဲ့ကြ၏။ ပဌမကမ္ဘာစစ် ပြီးဆုံးပြီးနောက် နှစ်အနည်းငယ်ကြာသောအခါ မော်တော်ယာဉ် အင်ဂျင်နီယာအချို့က ရှေ့ဘီးလည် မော်တော်ယာဉ်များကို စမ်းသပ်တီထွင်ခဲ့လေသည်။ ရှေ့ဘီးလည် မော်တော်ယာဉ်များသည် တောင်တက်ရာ၌ အထူးကောင်းမွန်သည်ကို တွေ့ရှိရသည်။ ယခုအခါတွင်မူ ၄ ဘီးစလုံးကို လည်စေသော ၄ ဘီးလည်မော်တော်ယာဉ်များပင် ပေါ်ပေါက် နေပြီ ဖြစ်၍ ဂျစ်ကား




**မော်တော်ယာဉ်ကို စမ်းသပ်ရန် လမ်းကိုကြမ်းတမ်းအောင် တမင်ပြုလုပ်ထားသည်။ ထိုသို့ အမျိုးမျိုးမောင်းနှင် စမ်းသပ်ပြီးမှ ရောင်းချသည်။**

မှာ ဤအမျိုးအစားတွင် ပါဝင်၏။ ၁၉၂၉-၃၂ ခုနှစ်စီးပွားရေးကျပ်တည်းမှုကြောင့် မော်တော်ယာဉ် လုပ်ငန်းရှင်တို့သည် မိမိတို့၏ မော်တော်ယာဉ်များ အရောင်းစွန်အောင် အမျိုးမျိုး တီထွင်ကြိုးစားခဲ့ကြရမှ မော်တော်ယာဉ်တွင် တိုးတက်မှု များစွာရရှိခဲ့ပြန်သည်။ ထို တိုးတက်မှုများတွင် မော်တော်ယာဉ်၏ ပုံသဏ္ဌာန်တိုးတက်မှုလည်း ရှိ၍ ဆီစားသက်သာခြင်း၊ စက်အား ကောင်းလာခြင်း၊ အသွားနှုန်း ပိုလာခြင်း၊ မောင်းနှင်ရ လွယ်ကူခြင်း၊ စက်သံငြိမ်ခြင်း တို့ကို ဖြစ်စေသော စက်၏ တိုးတက်မှုနှင့် စီးနင်းရာ၌ ညင်သာညက်ညောစေသော ဆောက်လုပ်ပုံ တိုးတက်မှုများလည်း ပါဝင်လေသည်။

မော်တော်ယာဉ်သည် တနေ့တခြား ခေတ်စားလာသည့်အတိုင်း ၁၈၉၅ ခုနှစ်က မော်တော်ယာဉ် ၄ စီးသာ ရှိခဲ့သော အမေရိကန်ပြည်ထောင်စုတွင် ၁၉၃၀ ခုနှစ်သို့ ရောက်သောအခါ တနှစ်အတွင်း မော်တော်ယာဉ် အစီးပေါင်း ၂ သန်းကျော်မျှ ထုတ်လုပ်ခဲ့ရ၍ အစီးပေါင်း ၂၅ သန်းကျော်မျှ မှတ်ပုံ တင်ခဲ့သည်အထိ တိုးတက်လာခဲ့ပေသည်။ ၁၉၃၉ ခုနှစ် စာရင်းအရ ကမ္ဘာပေါ်ရှိ နိုင်ငံအချို့၌ လူဦးရေနှင့် မော်တော်ယာဉ်စီးရေကို စာသော် အချိုးကျအားဖြင့် လူဘယ်နှစ်ယောက်လျှင် မော်တော်ယာဉ် တစီးကျ ပိုင်ဆိုင်သည်ကို အောက်ပါအတိုင်း တွေ့ရှိရပေသည်။

| | | | | |
|---|---|---|---|---|
| အမေရိကန်ပြည်ထောင်စု | လူ | ၄ | ယောက်လျှင် | တစီး |
| နယူးဇီလန် | ။ | ၆ | ။ | ။ |
| ကနေဒါ | ။ | ၈ | ။ | ။ |
| ဩစတြေးလီးယား | ။ | ၉ | ။ | ။ |
| အင်္ဂလန် | ။ | ၁၈ | ။ | ။ |
| ပြင်သစ် | ။ | ၁၈ | ။ | ။ |
| တောင်အာဖရိကပြည်ထောင်စု | ။ | ၂၄ | ။ | ။ |
| ဆွီဒင် | ။ | ၂၉ | ။ | ။ |
| နော်ဝေး | ။ | ၃၂ | ။ | ။ |
| ဗဲလဂျီယမ် | ။ | ၃၅ | ။ | ။ |
| ဂျာမနီ | ။ | ၄၂ | ။ | ။ |
| အာဂျင်တီးနား | ။ | ၄၆ | ။ | ။ |
| ဣတလီ | ။ | ၉၃ | ။ | ။ |
| စပိန် | ။ | ၁၉၆ | ။ | ။ |
| ဗရာဇီး | ။ | ၂၈၁ | ။ | ။ |
| ဂျပန် | ။ | ၃၈၉ | ။ | ။ |

### ခေတ်မှီမော်တော်ယာဉ် ခုတ်မောင်းပုံ

ခေတ်မှီမော်တော်ယာဉ်များကို သေချာစွာ ကြည့်လျှင် နေရာအကျဉ်းဆုံးနှင့်အပြည့်စုံဆုံးဖြစ်အောင် အံ့ဩလောက်ဖွယ် တည်ဆောက်ထားသော အဆောက်အအုံဖြစ်ကြောင်းကို ကောင်းစွာတွေ့ရမည်။ အင်ဂျင်စက်ကို မော်တော်ယာဉ် ကိုယ်ထည်၏ ရှေ့ပိုင်းတွင် တပ်ဆင်ထားသည်။ စက်နောက်နားတွင်ကပ်လျက် မောင်းသူထိုင်ရန် နေရာရှိ၍ မောင်းသူ၏ အနီးပတ်ဝန်းကျင်တွင် စတီယာရင်ခေါ် လက်ကိုင်ဘီးနှင့်တကွ မော်တော်ယာဉ် တစီးလုံးကို အုပ်ထိန်းသည့် ခလုတ်အမျိုးမျိုး၊ ကရိယာ အမျိုးမျိုးကို တပ်ဆင်ထားသည်။ မောင်းသူရှေ့ရှိ ဘောင်ပေါ်တွင် စက်သော့၊ စက်နှိုးခလုတ်၊ ဓာတ်မီးခလုတ်များ၊ ချုတ်ခေါ် လေအဝင်လျှော့ကရိယာ၊ သရော့တယ်ခေါ် ဓာတ်ဆီအဝင်တိုးကရိယာ၊ ဗယ်ညာပြခလုတ်၊ လေကာမှန်သုတ်ခလုတ်၊ အမ်မီတာခေါ် လျှပ်စစ်ချာဂျင်ပြဒိုင်ခွက်၊ ဓာတ်ဆီချိန်ပြဒိုင်ခွက်၊ ဆီဖိအားပြ ဒိုင်ခွက်၊ ရေအပူချိန်ပြ ဒိုင်ခွက်၊ ခရီးမိုင်ပြဒိုင်ခွက်၊ အမြန်နှုန်းပြဒိုင်ခွက် စသည်တို့အပြင် တခါတရံ နာရီ နှင့်ရေဒီယိုပါ တပ်ဆင်ထားလေ့ရှိသည်။ ဟွန်းတီး (ဥဩမှုတ်) ခလုတ်ကို စတီယာရင်ဘီး အလယ်ဗဟိုတွင် တပ်ထားလေ့ရှိ၏။ မော်တော်ယာဉ် အချို့တွင် စက်နှိုးခလုတ်ကို ခြေနင်းခုံ၌ ခြေနင်းခလုတ်အဖြစ်ဖြင့် တပ်ထားတတ်သည်။ ခုံကြမ်းပြင်တွင်မူ ဂီယာမောင်းတံ၊ လက်ဆွဲဗရိတ်မောင်းတံ၊ ခြေနင်းဗရိတ်မောင်းတံ၊ ကလပ်မောင်းတံနှင့် အရှိန်တိုးမောင်းတံများ တပ်ဆင်ထား၍ နောက်ဆုံးပေါ် မော်တော်ယာဉ် အချို့တွင် ဂီယာမောင်းတံကို စတီယာရင်ဘီးအောက်၌ တပ်ဆင်ထားလေသည်။ ထို့မှတပါး မော်တော်ယာဉ် အနောက်ဖက်ကို ကြည့်မြင်နိုင်သောမှန်တချပ်ကိုလည်း မောင်းသူရှေ့တွင်ဖြစ်စေ၊ နံဘေးတွင်ဖြစ်စေ တပ်ဆင်ထားတတ်ပေသေးသည်။

မော်တော်ယာဉ် မောင်းသူ၏ လက်နှင့် ခြေထောက်များသည် လိုသလိုအသုံးပြုနိုင်အောင်အဆင်သင့်ရှိရ၍ သူ၏စိတ်မှာလည်း ရှေ့တည့်တည့်ရှိ လမ်းနှင့်တကွ မော်တော်ယာဉ်၏အချက်အခြာဖြစ်သော ခလုတ်နှင့် ကရိယာများတွင်သာ အာရုံစူးစိုက်နေရပေသည်။ သို့မှသာ မတော်တဆဖြစ်မှုများကို ရှောင်ရှားနိုင်ပေမည်။ မော်တော်ယာဉ်ကို စက်နှိုးလိုသောအခါ ရှေးဦးစွာ စက်သော့ကိုဖွင့်၍ စက်နှိုးခလုတ်ကို ဖိနှိပ်ပေးခြင်းဖြင့် နှိုးနိုင်သည်။ တခါတရံ အနှိုးရခက်နေပါက လက်လှည့်ဖြင့် ဆင်းနှိုးပေးရ၏။ စက်နှိုးပြီးနောက် မောင်းနှင်လိုသောအခါ ကလပ်ကို တချက်စီနင်း၍ ဂီယာများကို ပဌမ၊ ဒုတိယ၊ တတိယ စသည်ဖြင့် အဆင့်ဆင့် သွင်းပေးရသည်။ ကလပ်ကိုနင်းထားချိန်တွင် စက်နှင့် ဘီးကို လည်စေသည့် အစိတ်အပိုင်းများသည် လွတ်၍နေသည်။ ဂီယာများတွင် ပဌမဂီယာသည် ဒုတိယဂီယာထက် အသွားနှေးစေသော်လည်း လည်အားပိုကြီးသည်။ ဒုတိယနှင့် တတိယ၊ တတိယနှင့် စတုတ္ထဂီယာများတွင်လည်း ထိုအတိုင်းပင်ဖြစ်၏။ ရှေ့ကို သွားစေသောဂီယာအပြင် နောက်ဆုတ်စေသည့်

ဂီယာလည်းရှိသည်။ မော်တော်ယာဉ်ကို ရပ်နားလိုသော် အရှိန်ကိုလျှော့၊ ကလပ်ကိုနင်း၊ ဗရိတ်ကို အုပ်ပြီးနောက် သော့ကို ပိတ်ပေးရလေသည်။ မော်တော်ယာဉ်မောင်းနှင်သည့် အလုပ်မှာ ထင်သလောက် မခက်ခဲလှပေ။ သို့ရာတွင် မတော်တဆ တိုက်ခိုက်တိမ်းမှောက်မှုများကို ရှောင်နိုင်ရန်မှာ အဓိကအားဖြင့် မောင်းသူ၏ သတိရှိမှုနှင့် ကျွမ်းကျင်မှုပေါ်တွင် တည်လျက်ရှိပေသည်။

## မော်တော်ယာဉ်စက်

မော်တော်ယာဉ်စက်၏ ရည်ရွယ်ချက်မှာ သာမန်အားဖြင့် နောက်ဘီး ၂ ဘီးကိုလည်စေရန်ပင်ဖြစ်သည်။ စက်မှာ လေးချက်ခုတ် အတွင်းမီးအင်ဂျင်စက်မျိုးဖြစ်၍ ဆလင်ဒါ ၄ လုံးမှ ၁၆ လုံးအထိ ပါရှိတတ်သည်။ (ဆလင်ဒါအတွင်းရှိ ပစ်စတန် လှုပ်ရှားခုတ်မောင်းပုံကို ဓာတ်ငွေ့အင်ဂျင်စက် အကြောင်းရပ်တွင် ဖော်ပြထားသည်။ ယင်းကို ရှု။) ပစ်စတန်အသီးအသီးမှ မောင်းတံများကို စက်ဝင်ရိုးတခုတည်းသို့ ဆက်ထား၍ စက်ဝင်ရိုးက တဖန် ဘီးလှည့်ဝင်ရိုးကို ဂီယာသွင်းထားသည့်အတိုင်း လည်စေရန် စီမံထားသည်။

## စက်ကို အေးအောင်စီမံထားပုံ

မော်တော်ယာဉ် စက်နှိုးထားစဉ် အဆက်မပြတ် ကြားရသောအသံမှာဆလင်ဒါအတွင်း၌ဓာတ်ငွေ့ပေါက်ကွဲတောက်လောင်မှုမှဖြစ်ပေါ်လာသောအသံဖြစ်သည်။ အဆိုပါပေါက်ကွဲတောက်လောင်မှုကြောင့် ဖြစ်ပေါ်လာသော အပူချိန်မှာ စက်အစိတ်အပိုင်းများကို အရည်ပျော်စေနိုင်လောက်အောင် ပြင်းထန်၏။ ထိုကြောင့် အတွင်းမီးအင်ဂျင်စက်များကို တနည်းနည်းဖြင့် အအေးခံပေးရန် လိုရာ မော်တော်ယာဉ်များတွင် များသောအားဖြင့် ရေနှင့် အအေးခံပေးထားလေ့ ရှိသည်။ စီမံထားပုံမှာ မော်တော်ယာဉ် စက်အုံတွင် ဆလင်ဒါအပြင်ဖက်၌ ရေလှည့်ပတ်စီးသွားနိုင်သော



မော်တော်ယာဉ်ပုံအသစ် မထုတ်လုပ်မီပုံစံကိုရှေးဦးစွာထုတ်ရသည်။ထိုပုံခံကိုအဖက်ဖက်မှစစ်ဆေးစမ်းသပ်၍ကျေနပ်ဖွယ်ရှိမှပုံသစ်ထုတ်လုပ်သည်။

အခန်းများ ပါရှိ၍ စက်ရှေ့တွင် ရေဒီယေတာခေါ် အပူခံဘော် စုတ်ကရိယာကို တပ်ဆင်ထားသည်။ ရေဒီယေတာတွင် ရေစီးဖြတ်သည့် ပြွန်ကလေးပေါင်းများစွာဖြင့် စီမံထား၍ အမြင်အားဖြင့် ပျားအုံနှင့်သဏ္ဍာန်တူသည်။ ရေဒီယေတာကို အထက်အောက် ပြွန် ၂ ခုဖြင့် စက်အုံနှင့် ဆက်ထားသည်။ မော်တော်ယာဉ် စက်နိုးလျက်ရှိစဉ်တွင် ရေဒီယေတာမှရေသည် အောက်ဖက်ရှိပြွန်မှ စက်အုံအတွင်းသို့ ဝင်ရောက်သွားပြီးလျှင် အပေါ်ဖက်ရှိပြွန်မှ ရေဒီယေတာထဲသို့ ပြန်ရောက်လာသည်။ ဤနည်းဖြင့်ရေသည် စက်အုံအတွင်းမှ အပူခံဘော်ကို သယ်ဆောင်လာပြီးလျှင် လေထဲသို့ ဖြန့်ထုတ်ပေးသည်။ ရေဒီယေတာနှင့် စက်အုံအကြားတွင် ပန်ကာတခုလည်လျက်ရှိ၍ ထိုပန်ကာ၏ တာဝန်မှာ အပြင်ဖက်မှ လေကို ရေဒီယေတာရှိ ဆန်ခါပေါက်များမှ စုတ်သွင်းပေးရန် ဖြစ်လေသည်။

### ကလပ်

ကလပ်သည် စက်နှင့် ကျန်လည်စရာအစိတ်အပိုင်းများကို အဆက်တပ်ပေး ဖြုတ်ပေးသည့် ကရိယာဖြစ်သည်။ မျက်နှာပြင်ကြမ်းသော ချပ်ပြားများကို တခုနှင့်တခု ထပ်ထားပြီးနောက် ချပ်ပြားတခုကို လှည့်ပေးလျှင် ကျန်ချပ်ပြားပါလိုက်လည်သည့်သဘောဖြင့် စီမံထားသည်။ မော်တော်ယာဉ်တွင် ဂီယာသွင်းချိန် ပြောင်းချိန်၌ ကလပ်ကို ပဌမနင်းပေးရရာ ကလပ်ကို နင်းထားစဉ် စက်ဝင်ရိုးနှင့် ဘီးကိုလည်စေသည့် ဘီးလှည့်ဝင်ရိုးတို့သည် အဆက်ပြတ်လျက်ရှိ၍ ကလပ်ကို ပြန်လွှတ်လိုက်မှ အဆက်ပြန်မိသွားလေသည်။

### ဂီယာအိမ်

ဂီယာအိမ်တွင် ရွှေ့ပြောင်းဆက်စပ်ပေးနိုင်သော ခွေးသွားစိတ်ဘီးများ ပါရှိ၍ ထိုခွေးသွားစိတ် ဘီးများအားဖြင့် စက်ဝင်ရိုးနှင့် ဘီးလှည့်ဝင်ရိုးကို လိုသလို ဆက်သွယ်ပေးနိုင်သည်။ စီမံထားပုံ သဘောမှာ ဤသို့ဖြစ်၏။ ပုံပမာ၊ ခွေးသွားစိတ်ဘီးငယ်တခုဖြင့် ခွေးသွားစိတ်ဘီးကြီးတခုကို လှည့်ပေးသည်ဆိုပါစို့။ ထိုအခါ ခွေးသွားစိတ်ဘီးကြီးသည် ဘီးငယ်ထက် အလည်နှေးပေမည်။ အကယ်၍ ခွေးသွားစိတ်ဘီးကြီးဖြင့် ဘီးငယ်ကို လှည့်ပေးပါမူကား ဘီးငယ်သည် ဘီးကြီးထက် အလည်မြန်ပေလိမ့်မည်။ ထို့အတူပင် ဂီယာအိမ်အတွင်း၌ အပတ် မှန်မှန်လည်လျက်ရှိသော စက်ဝင်ရိုးကို ဘီးလှည့်ဝင်ရိုးနှင့် ဆက်ပေးရာတွင် မော်တော်ယာဉ်ကို နှေးနှေးသွားစေလိုလျှင် ခွေးသွားစိတ်ဘီးငယ်ဖြင့် ဘီးကြီးကိုင်ငင်း၊ မြန်မြန် သွားစေလိုလျှင် ခွေးသွားစိတ် ဘီးကြီးဖြင့် ဘီးငယ်ကိုငင်း လည်စေလေသည်။ ဂီယာသုံးဆင့်ရှိသော မော်တော်ယာဉ်ဘွင် ပဌမဂီယာသွင်းထားချိန်၌ မိုင် ၂၀ နှုန်းခန့်သွား၍ ဒုတိယဂီယာ၌ မိုင် ၄၀ နှုန်းခန့်ငင်း၊ တတိယ ဂီယာ၌ ၆၅ မိုင်နှုန်းခန့်ငင်း သွားနိုင်သည်။ ထိုထက် မြန်အောင် သွားစေလိုလျှင် အရှိန်တိုးမောင်းတံကို နင်းပေးရ၏။ နောက်ဆုတ်ဂီယာတွင်မူ ဖြည်းဖြည်း သွားအောင် စီမံထား၍ ထိုဂီယာဖြင့် စက်ဝင်ရိုးကို ပြောင်းပြန်လည်စေခြင်း ဖြစ်ပေသည်။

မော်တော်ယာဉ် မောင်းနှင်သူတို့ လိုက်နာရန် ပြဋ္ဌာန်းထားသည့် ဥပဒေများနှင့် စပ်လျဉ်း၍ ထူးခြားချက်တရပ်ကို ဖော်ပြရလျှင်ကား မြန်မာနိုင်ငံနှင့်တကွ ဗြိတိသျှ အင်ပါယာအတွင်းရှိ တိုင်းပြည်အသီးအသီးတွင် မော်တော်ယာဉ်များကို လမ်း၏ လက်ဝဲဖက်မှ မောင်းနှင်ရမည်ဖြစ်၍၊ အမေရိကန်ပြည်ထောင်စုနှင့် အချို့သောနိုင်ငံများတွင်မူ လမ်း၏ လက်ျာဖက်မှ မောင်းနှင်ရန် သတ်မှတ်ထားပေသည်။ ထို့ကြောင့်ပင် မော်တော်ယာဉ်တွင် အရေးကြီးသည့်ဖက်၌ စတီယာရင် လက်ကိုင်ဘီးကိုထားရန် လိုအပ်သည့်အတိုင်း ဗြိတိသျှလုပ်မော်တော်ယာဉ်များတွင် စတီယာရင်ဘီးကို လက်ျာဖက်၌ တပ်ထား၍ အမေရိကန်လုပ်မော်တော်ယာဉ်များတွင် လက်ဝဲဖက်၌ တပ်ထားလေ့ ရှိကြသည်ကို တွေ့ရပေသည်။

**မော်မန်ဂိုဏ်း။** ။မော်မန် (ဝါ) လက်တာဒေးစိန့် ဟူသည်ကား ခရစ် ၁၈၃၀ ပြည့်နှစ်တွင် အမေရိကန်ပြည်ထောင်စု၌ ပေါ်ပေါက်သော လက်တာဒေးစိန့်တို့၏ ယေရှုခရစ်အသင်းတော်ဂိုဏ်းဝင်အား ပြောင်လှောင်သမုတ်သည့် အမည်ဖြစ်၏။ ယင်းတို့သည် သမ္မာကျမ်းစာအပြင် မော်မန်ကျမ်းကို လိုက်နာသည့်အတွက်ကြောင့် မော်မန်များဟု ခေါ်ဝေါ်ခြင်းဖြစ်၏။

မော်မန်ဂိုဏ်းကို စတင် တည်ထောင်သူမှာ ဂျိုးဇက်စမစ်ဖြစ်၏။ ဂျိုးဇက်စမစ်သည် ၁၈၀၅ ခုနှစ်တွင် ဗားမန့်မြို့၌မွေးဖွား၏။ စမစ်အသက် ၁၄ နှစ်အရွယ်က သူ့အား ထာဝရဘုရားသခင်၊ သားတော်နှင့် ဝိညာဉ်တော်တို့သည် လာရောက်၍ အရိပ်အယောင် ကိုယ်တော်ထင်ပြသည်ဟု ဆို၏။ ထိုအခါ စမစ်က မိမိသည် မည်သည့်အသင်းတော်ကို ဝင်ရောက်ကိုးကွယ်ရမည့်အကြောင်း မေးမြန်း လျှောက်ထားသည်တွင် ခရစ်ယန် အယူဝါဒသည် မူရင်းအတိုင်း မဟုတ်တော့ဘဲ သွေဖည်ဘိမ်းစောင်း နေပြီဖြစ်၍ မည်သည့် အသင်းတော်ကိုမျှမဝင်ဘဲ အသင်းတော်သစ် တခု ထူထောင်ရန် ဩဝါဒပေးခဲ့သည် ဆို၏။ ၁၈၂၀ ပြည့်နှစ်တွင် ထိုသို့ မြင်တွေ့ရပြီးနောက် ၁၈၂၃ ခုနှစ်တွင် မိုရိုနီ ခေါ် ကောင်းကင်တမန်သည် တဖန်ကိုယ်ယောင်ထင်ပြပြီးလျှင် နယူးယော့နယ်ပယ် မိုင်ရာရှာနှင့် ၄ မိုင်ခန့် ကွာဝေးသော ကျုံးမိုရာ တောင်ကုန်းတွင် ရှေးအမေရိကန်သူဟောင်းတို့၏ သမိုင်းစာအုပ်မြှုပ်နှံထားလျက်ရှိကြောင်း ပြောကြားလေရာ၊ စမစ်သည် နောက်တနေ့တွင် သွားရောက်ကြည့်ရှု၍ တွေ့ခဲ့သော်လည်း ၁၈၂၇ ခုနှစ်ရောက်မှ ယူခွင့်ရသည်ဆို၏။ ထို (ရွှေပလွှာ

များ) သမိုင်းစာအုပ်တွင် ထူးဆန်းသော အက္ခရာများ ပါသည်ကို လူ ၁၁ ယောက်တွေ့ရှိကြောင်း အထောက်အထား ရှိ၏။ ယင်းသို့ ရေးသားထားသည်ကို ဂျိုးဇက် စမစ်က ဘာသာပြန်၍ မော်မန်ကျမ်းကိုပြုစုခဲ့သည်။ ထိုနောက် ရွှေပေလွှာကို ကောင်းကင်တမန် မိုရိုနီအား ပြန်လည်ပေးအပ်ရလေ၏။ စမစ်သည် သူ၏သက်တမ်းတလျှောက်တွင် ဤသို့အရိပ်အယောင်များကို မြင်လျက် မော်မန်တို့ လိုက်နာရန်အဆုံးအမများကို လက်ခံရရှိ၏။ ၁၈၃၀ ပြည့်နှစ်ဧပြီလ ၆ ရက်နေ့တွင် ဂျိုးဇက်စမစ်သည် အပေါင်းပါ ၆ ယောက်နှင့်အတူ နယူးယော့နယ် ဖေးယက်မြို့တွင် လက်တာဒေးစိန့်၏ ယေရှုခရစ် အသင်းတော်ကို တည်ထောင်လေသည်။ မော်မန်တို့သည် အမေရိကန်ပြည်ထောင်စု၊ လက်တင်အမေရိကန်၊ ဥရောပတိုက်၊ ဩစတြေးလီးယား၊ နယူးဇီလန်အစရှိသော ဒေသများသို့ အနှံ့အပြား သာသနာပြုထွက်၏။ ယခုအခါ အသင်းဝင် တသန်းကျော်ရှိ၏။ ဂိုဏ်းကွဲများလည်း ရှိ၏။ မော်မန် အများဆုံးပါဝင်သော ဂိုဏ်းမှာ လက်တာဒေးစိန့်၏ ပြန်လည်ဖွဲ့စည်းထားသော အသင်းတော် ဖြစ်သည်။

မော်မန်တို့သည် အခါအားလျော်စွာ ဂျိုးဇက် စမစ်နှင့် အခြားပုဂ္ဂိုလ်တို့အား ဘုရားသခင်က လာရောက်ကိုယ်ရောင်ပြ၍ မြွက်ကြားသော ဩဝါဒများကို လက်ခံလိုက်နာကြ၏။ အစပဌမတွင် ယုံကြည်ကိုးကွယ်သူများပြား၏။ မော်မန်တို့သည် ဘုရားသခင်ကို ကြည်ညိုသဒ္ဓါရှိမှု၊ အမှားကို နောင်တရမှုနှင့် ခမည်းတော်၊ သားတော်၊ ဝိညာဉ်တော် တည်းဟူသည် ရေတွင်နှစ်ခြင်းဖြင့် ဗတ္တိဇံမင်္ဂလာ ပြုလုပ်သည့်အပြင် ဝိညာဏ်တော်အတွက် ဦးခေါင်း ပခုံးနှစ်ဖက် ရင်ပတ်စသည်တို့ကို တို့ထိကာ လက်ဝါးကပ်တိုင်သင်္ကေတန် ပြုလုပ်လေ့ရှိသည်။ သမ္မာကျမ်းစာအပြင်၊ မော်မန်ကျမ်း၊ မော်မန်ဂိုဏ်းဝါဒနှင့် စည်းမျဉ်းများ အစရှိသည့် ကျမ်းစာများကိုလည်း လေ့လာကြသည်။ အသက်ရှင်သူက သေသူကို ရည်မှန်း၍ ဘုရားကျောင်းတွင် ရေနှစ်မင်္ဂလာပြုခြင်းဖြင့် သေသူသည် ကောင်းရာသုဂတိသို့ လားနိုင်သည်ဟုလည်း ယုံကြည်သည်။ ထိုပြင် ဘုရားရှိခိုးကျောင်းအတွင်း လက်ထပ်သူတို့မှာ ထာဝစဉ်တည်၍၊ မွေးဖွားသော သားသမီးများလည်း တရားဝင်သည်ဟု ဆို၏။ ယင်းသို့မဟုတ်ဘဲ မွေးဖွားသော သားသမီးများကိုမူ မွေးစားခြင်းဖြင့် မိသားစုတွင် တရားဝင်စွာ ပါဝင်နိုင်သည် စသည်ဖြင့် ထူးခြားစွာယုံကြည်ကြလေသည်။ ယင်းသို့သော ဘာသာရေး အခမ်းအနားများကို ဘုရားကျောင်းတွင်သာပြုလုပ်သဖြင့် မော်မန်တို့၏ ဘုရားကျောင်း (၈) ကျောင်းသို့ လူတကာဝင်ခွင့် မပြုချေ။ သို့သော် အခြားသော စည်းဝေးခန်းနှင့် အပန်းဖြေ ခန်းမ စသည်တို့တွင်မူ လူမျိုး ဘာသာမရွေး ဝင်ခွင့်ရလေသည်။ လူတယောက်တည်း မယားအများယူသော စနစ်မှာ မူလက လိုက်



မော်မန်ဂိုဏ်းဝင်တဦး၏ ဇနီး ၅ ယောက်တို့ကို သားသမီးများနှင့်အတူ ဤသို့ပျော်ရွှင်စွာတွေ့ရသည်။

နာ လက်ခံသောစည်းမျဉ်းမဟုတ်ဘဲ စမစ်ကအရိပ်အယောင်မြင်၍ အမိန့်အရလိုက်နာကျင့်သုံးရသည်ဆို၏။ ဤသို့သော ဝါဒကို လက်ခံ ကျင့်သုံးသည့်အတွက် အသင်းတော်တွင်း မကျေနပ်မှုများ ပေါ်ပေါက်လာကာ ပုတ်ခတ် ပြောဆိုမှုများလည်း ဖြစ်ပွားလျက် အကြည်ညို ပျက်လာလေသည်။

စမစ်သည် အသင်းတော်ကို ဆိုခဲ့သည့်အတိုင်းခရစ် ၁၈၃၀ ပြည့်နှစ်တွင် တည်ထောင်သည်။ ၁၈၃၁ ခုနှစ်တွင် အိုဟိုင်းအိုနယ်သို့ ပြောင်းရွှေ့သည်။ အချို့မော်မန်များက မိဇူးရီအနီး အင်ဒီပင်းဒင့်သို့ပြောင်း၏။ မျှားမကြာမီ မိဇူးရီမှမော်မန်များအနှင်ခံရ၍ မိဇူးရီနယ်အတွင်း၌ပင်ရှိသော ဖားဝက်(အနောက်စွန်း) သို့ပြောင်းရွှေ့ရ၏။ အိုဟိုင်းအိုတွင်လည်း အခြေမလှ ဖြစ်လာသောကြောင့် ၁၈၃၈ ခုနှစ်တွင် စမစ်လည်း အနောက်စွန်းသို့ ပြောင်းရွှေ့၏။ မော်မန်တို့သည် အရပ်နီးချင်းတို့နှင့် အချင်းဖြစ်ပွား၍ ခိုက်ရန် ဖြစ်သည်။ စမစ်အဖမ်းခံရ၍ မိဇူးရီမှ မော်မန်များလည်း အနှင်ခံရသဖြင့် အီလီနွိုင်သို့ ပြောင်းရွှေ့ကြရကာ နော်ဗူးမြို့ကို တည်ကြသည်။ လအနည်းငယ်ကြာလျှင် စမစ်တို့ ထွက်ပြေးလွတ်မြောက်သဖြင့် နော်ဗူးရှိ အခြားမော်မန်တို့နှင့်ပေါင်းစည်းကြသည်။ နော်ဗူးတွင် ကြီးပွားလာ၏။ နိုင်ငံရေးခေါင်းဆောင်များ၏ မြှောက်စားခြင်းကိုခံရ၏။ ၁၈၄၀ ပြည့်နှစ်တွင် အရပ်နီးချင်းများက မော်မန်တို့ ဩဇာရှိနေသည်ကို မနာလိုသောကြောင့် တကြောင်း၊ မော်မန်အသင်းတော်တွင်းမှာလည်း လူဘယောက်တည်း မယားအများယူသော ဝါဒကို မနှစ်မြို့ မကျေနပ်သဖြင့် အတွင်းဆူနေသောကြောင့် တကြောင်း အဆုံးတွင် စမစ်နှင့် သူ၏ညီ အသတ်ခံရလေသည်။ စမစ်အသတ်ခံရပြီးသည့် နောက်ပိုင်းတွင် အသင်းတော်တွင်းမှ ဂိုဏ်းငယ်များခွဲထွက်၏။ အသင်းတော်ကို ဗရစ်ဂမ်ယန်းက စမစ်နောက်ဆက်လက်၍ ခေါင်းဆောင်သည်။ ဆက်လက်၍မနေနိုင်ဘော့သည့်အဆုံးဘွင် ဗရစ်ဂမ်ယန်းအမှူးပြုသော မော်မန်တို့ သည် အမေရိကတိုက် အနောက်ဖက် အစွန်အဖျားတွင်ရှိ၍ မိုင်ပေါင်း ၁,၀၀၀ ခန့်ကွာဝေးသော အရပ်ဖြစ်သည့် ဆားငန်အိုင်ကြီးသို့ လူအုပ်နှင့် ပြောင်းရွှေ့၏။ ၁၈၄၇ ခုနှစ် ဇူလိုင်လဘွင် ယောကျ်ား ၁၄၃ ယောက်၊ မိန်းမ ၃ ယောက်နှင့် ကလေး ၂ ယောက် အပါအဝင် မော်မန်တို့သည် ဆော့လိတ်စီတီမြို့ကို တည်ထောင်ခဲ့၏။

ယခုအခါ အမေရိကန် ပြည်ထောင်စုဘွင် ယူးတားပြည်နယ်ဟု တွင်သောဒေသတွင်းရှိ ဆော့လိဘ်စီတီမြို့ကြီးသည် မော်မန်တို့၏ ဌာနချုပ်တည်ရာ ဒေသဖြစ်၏။ အစပဌမမြို့တည်စက မော်မန်တို့သည် ကန္တာရတွင်း၌ ပြုစုရသည်ဖြစ်၍ အခက်အခဲများစွာ တွေ့သော်လည်း စက်မှုလက်မှုလုပ်ငန်းကို တိုးတက်ဖွံ့ဖြိုးအောင် ပြုလုပ်ခြင်းဖြင့် အခက်အခဲများကို ကျော်လွှန်စေ၏။ ၁၈၉၀ ပြည့်နှစ်ဘွင် လူတယောက်တည်း မယားအများယူခြင်းဝါဒကို ပယ်ဖျက်လိုက်သောအခါ ရှေးက အချင်းချင်း သံသယပွားခဲ့သော အသင်းတော်နှင့် အစိုးရတို့သည် နားလည်မှု ရှိလာကြကာ ယူးတားသည်ပြည်နယ်အဖြစ် ၁၈၉၆ ခုနှစ်တွင် အသိအမှတ်ပြုခြင်း ခံရ၏။ ယခုအခါ ယူးတားပြည်နယ်တွင် မော်မန် ၅ သိန်းမျှ ရှိလေသည်။

**မော်ရစ်ရှပ်ကျွန်း။** ။မော်ရစ်ရှပ်ကျွန်းသည် အိန္ဒိယသမုဒ္ဒရာအတွင်းရှိ ဗြိတိသျှပိုင် ကျွန်းတကျွန်း ဖြစ်၏။ အလျား ၃၉ မိုင်၊ အနံ ၂၉ မိုင်ရှိ၍ စတုရန်းမိုင် ၇၂၀ ကျယ်ဝန်းသည်။ မက်ဒါဂက်စကာကျွန်းနှင့် မိုင် ၅၀၀ ခန့်ကွာဝေး၏။ သန္တာကျောက်ဘန်းများဖြင့် ဝန်းရံလျက်ရှိသော ထိုကျွန်းသည် တောင်ထူထပ်သည်။ အမြင့်ဆုံး တောင်သည် ပေ ၃,၀၀၀ ခန့် ရှိသည်။ ချိုင့်ဝှမ်းများတွင် မြေဩဇာကောင်းသဖြင့် စိုက်ပျိုးလုပ်ကိုင်နိုင်သည်။ မော်ရစ်ရှပ်ကျွန်း၏ မြို့တော်မှာ ပို့လူဝီဖြစ်၍ တခုတည်းသော ဆိပ်ကမ်းမြို့လည်းဖြစ်သဖြင့် အချက်အခြာ ဌာနဖြစ်သည်။

တောင်ကြား ချိုင့်ဝှမ်းများတွင် ငှက်ပျော၊ နာနတ်၊ ရှောက်၊ စထရော်ဗယ်ရီ၊ သရက် အစရှိသဖြင့် အပူပိုင်းဒေသတွင် ပေါက်ရောက်သော သီးပင်များနှင့် အထူးသဖြင့် ကြံပင်တို့ကို စိုက်ပျိုးသည်။ ထို့ကြောင့် သကြားသည် ထိုကျွန်း၏ အဓိက ထွက်ကုန်ပင် ဖြစ်၏။ သယ်ယူပို့ဆောင်ရေးအတွက် မီးရထားလမ်းများနှင့် ကုန်းလမ်းများ ရှိသည်။

မောရစ်ရှပ်ကျွန်းတွင် နေထိုင်သူတို့သည် များသောအားဖြင့် အိန္ဒိယဘိုင်းသားများ ဖြစ်၏။ ၃ ပုံ ၁ ပုံ လျော့လျော့သာလျှင် ဥရောပတိုက်သား ဖြစ်၏။ လူဦးရေမှာ ၄၄၂,၀၀၀ ယောက်ခန့် ဖြစ်သည်။

မောရစ်ရှပ်ကျွန်းကို ခရစ် ၁၅၀၅ ခုနှစ်က ပေါ်တူဂီ လူမျိုးတို့ စတင်တွေ့ရှိသည်။ နောင်သော် ထိုကျွန်းကိုစွန့်လွှတ်သွားသည်။ ၁၅၉၈ ခုနှစ်တွင်မူ ဒပ်ချလူမျိုးတို့ လာရောက်နေထိုင်ကြပြီးလျှင် သူတို့၏ မင်းသားဖြစ်သော နက်ဆောမင်းသား မောရစ်ကို ဂုဏ်ပြုသောအားဖြင့် မော်ရစ်ရှပ်ကျွန်းဟု အမည်ပေးသည်။ ဒပ်ချလူမျိုးတို့သည် ၁၇၁၀ ပြည့်နှစ်တွင် ထိုကျွန်းမှ ဖယ်ခွာသွားပြီးသည့်နောက် ၅ နှစ်အကြာ ၁၇၁၅ ခုနှစ်တွင် ပြင်သစ်တို့ ရောက်ရှိ၍ အခြေစိုက် နေထိုင်ကြပြန်သည်။ ကျွန်းကိုလည်း ပြင်သစ်ကျွန်းဟူ၍ အဓိပ္ပါယ်ရသော 'အိုင်ဒါဖရန့်' ဟု အမည်ပြောင်းလိုက်သည်။ ၁၈၁၀ ပြည့်နှစ်တွင် ပြင်သစ်တို့လက်မှ ဗြိတိသျှတို့လက်သို့ ရောက်ရှိသွားလေသည်။

**မော်လတာကျွန်း။** ။မော်လတာကျွန်းသည် မြေထဲပင်လယ်ထဲတွင် တည်ရှိ၍ ဗြိတိသျှလက်အောက်ခံ ကျွန်းငယ်ဖြစ်



တောတောင်ထူထပ်သည့် မော်ရစ်ရှပ်ကျွန်း၏ မြို့တော် ပို့လူဝီသည် တခုတည်းသော ဆိပ်ကမ်းမြို့လည်းဖြစ်သည်။



မော်လတာကျွန်း၏ မြို့တော် ဗလက်တာမြို့ကို ဤသို့သာယာကြည်နူးဖွယ်ရာရှုမြင်ရသည်။

သည်။ ဂိုဇာ၊ ကိုမီနိုနှင့် အခြားကျွန်းကလေး ၂ ကျွန်းတို့သည် အပေါင်းပါကျွန်းများ ဖြစ်၏။ မော်လတာကျွန်းသည် ပုံသဏ္ဍာန်အားဖြင့် ဘဲဥပုံ မကျတကျဖြစ်၍ အလျား ၁၇ မိုင်ခွဲ၊ အနံ ၉ မိုင်ရှိကာ ၉၅ စတုရန်းမိုင် ကျယ်ဝန်း၏။ အပေါင်းပါကျွန်းငယ်များကိုပါ ထည့်သွင်းလျှင် အကျယ် အဝန်းမှာ ၁၂၂ စတုရန်းမိုင်ဖြစ်၏။ စစ္စလီကျွန်းနှင့် ၅၈ မိုင်ခန့်ကွာဝေးလျက် အာဖရိကတိုက်မြောက်ဖက်ရှိ အနီးဆုံး ကမ်းခြေနှင့် မိုင် ၁၈၀ ကွာဝေးသည်။ မော်လတာကျွန်းသည် ထုံးကျောက်မျိုးဖြင့် ဖွဲ့စည်းလျက် တောင်ဖက်မှလွဲလျှင် ကမ်းရိုးသည် အကွေ့အကောက် အဝင်အထွက်များ၏။ တောင်ဖက်တွင်မူ ကမ်းရိုးသည် ဖြောင့်၏။ မော်လတာကျွန်းသည် ငယ်ပင်ငယ်သော်လည်း ချက်ကောင်းနေရာတွင် တည်ရှိသဖြင့် အရေးပါအရာရောက်သော ကျွန်းဖြစ်၏။ မော်လတာကျွန်း၏ မြို့တော်မှာ ဗလက်တာမြို့ ဖြစ်၏။ ဗလက်တာ မြို့သည် အလွန်ကောင်းမွန်သော ဆိပ်ကမ်းမြို့ဖြစ်၍ မြေထဲပင်လယ်ထဲ၌ သွားလာဝင်ထွက်သော သင်္ဘောများ ကျောက်မီးသွေးဖြည့်ရာစခန်းဖြစ်သည်။ ထိုပြင်တဝ မော်လတာကျွန်း အထူးသဖြင့် ဗလက်တာမြို့တွင် ဗြိတိသျှတို့သည် အလွန်ခိုင်ခံ့သော ခံတပ်များကို ဆောက်လုပ်ထား၏။ မော်လတာကျွန်းသည် မြေထဲပင်လယ်ရှိ ဗြိတိသျှရေတပ်၏ ဌာနချုပ်ဖြစ်ကာ ဗြိတိသျှတို့ အလွန်အားထားရသော ကျွန်းဖြစ်သည်။ ထို့ကြောင့် ပဌမကမ္ဘာစစ်အတွင်းက မော်လတာကျွန်းသည် ဗြိတိသျှတို့၏ အရေးပါသော ရေတပ် တပ်စခန်းဖြစ်ခဲ့၍၊ ဒုတိယကမ္ဘာစစ်အတွင်းကလည်း ရန်သူတို့၏ဗုံးဒဏ်ကို အလူးအလဲခံခဲ့ရရာ၊ လေကြောင်းမှ အကြိမ်ပေါင်း ၁,၂၀၀ ကျော် ပစ်ခတ် တိုက်ခိုက်ခြင်းခံခဲ့ရသေးဟူ၏။ မော်လတာကျွန်းသည် မြေထဲပင်လယ်တွင်းသို့ ဝင်ရောက်နိုင်ရေးအတွက် ခြေကုတ်စခန်းတခု ဖြစ်လေသည်။

မော်လတာကျွန်းသည် မြေမျက်နှာပြင်အားဖြင့်ကျောက်တောင် ထူထပ်လျက် သစ်ပင်များစွာ မပေါက်ရောက်သဖြင့် ပလာထီးတည်း အသွင်ဆောင်၏။ သို့သော် အပူအအေးမျှတ၏။ မြစ်ချောင်းများစွာ မရှိစေကာမူ စိမ့်စမ်းများပေါများသဖြင့် ရေအတွက် အခက်အခဲ မတွေ့ရပေ။ ၁၈၈၀ ပြည့်နှစ်တွင် အစိုးရက ရေနှင့် မိလ္လာကိစ္စကို ပြုပြင်ဆောင်ရွက်မှုကြောင့် ကျန်းမာရေး တိုးတက်လျက်ရှိ၏။ မော်လတာကျွန်းတွင် သစ်ပင်များစွာ မပေါက်ရောက်သော်လည်း မြေ ဧကပေါင်း ၄၀,၀၀၀ ကို လယ်ယာ စိုက်ပျိုး လုပ်ကိုင်နိုင်၏။ မြေလွှာမှာ ပါးသော်လည်း မြေဆီဩဇာနှင့်ပြည့်စုံ၏။ အဓိက စိုက်ပျိုးသော သီးနှံကောက်ပင်တို့မှာ အာလူး၊ ကြက်သွန်၊ ပြောင်း၊ မုယော၊ ဝါဂွမ်း၊ လေးညှင်း၊ လိမ်မော်သီး၊ တည်သီး၊ စပျစ်သီး အစရှိသည်တို့ ဖြစ်၏။ ဆိတ်နှင့် သိုးကို မွေးမြူ၍ ကျွဲ၊ နွား၊ မြည်း၊ လား တို့ကိုလည်း အနည်းငယ် မွေးကြသည်။ ထုံးကျောက်မှာ တခုတည်းသော တွင်းထွက်ပစ္စည်း ဖြစ်၏။ စက်မှုလက်မှုလုပ်ငန်း မကြီးကျယ်လှပေ။ ယင်းတို့မှ ထွက်သော ပစ္စည်းများမှာ ဇာ၊ ဆေးတံ၊ စီးကရက်၊ ခြည်ထည်နှင့် ရွှေခြည် ငွေခြည်ထိုး အထည်များ ဖြစ်၏။

မော်လတာကျွန်း၏ သမိုင်းကို သုံးသပ်လျှင် တလက်မှ တလက်သို့ အပြောင်းများသည်ကို တွေ့ရပေသည်။ သို့ဖြစ်သောကြောင့် မော်လတာကျွန်းသည် သမိုင်းနှင့် စပ်လျဉ်း၍ စိတ်ဝင်စားဖွယ် ကောင်းပေသည်။ သမိုင်းတွင် စိတ်ပါဝင်စားသူတို့သည် မော်လတာကျွန်းရှိ ရှေးဟောင်း နေရာများသို့ သွားရောက်လည်ပတ်၍ သမိုင်းဝင် ဗဟုသုတများကို ရှာမှီး လေ့လာကြလေသည်။

မော်လတာကျွန်းသို့ ရှေးဦးမဆွ ဖိနီရှန်လူမျိုးတို့ လာရောက်အခြေစိုက် နေထိုင်ကြသည်။ ဖိနီရှန်တို့နောက် ကားသေ့လူမျိုးများ ရောက်လာကြသည်။ ယင်းသည့်နောက် ရောမ၊ ဂရိ၊ နော်မန် လူမျိုးတို့လက်တွင်းသို့ တလက်ပြီး တလက်ပြောင်းလဲ ရောက်ရှိသွားခဲ့ပြီးသော်၊ ခရစ် ၁၅၃၀ ပြည့်နှစ်တွင် စိန်ဂျွန်းအဖွဲ့ဝင် နိုက်သူရဲကောင်းတို့အား ရောမသာသနာစောင့် ကေရာဇ် ပဉ္စမချားက မော်လတာကျွန်းကို ပေးလိုက်သည်။ ထိုသူရဲကောင်းတို့သည် ခရစ်ယန် အယူဝါဒ တည်တံ့ ခိုင်မြဲရေးအတွက် မွတ်စလင်တို့၏ ထိပါးမှုကို ကြံ့ကြံ့ခိုင်ခိုင် ခုခံသည်။ ယင်းတို့သည် မော်လတာကျွန်းမှ စိန်ဂျွန်းအဖွဲ့ဝင် နိုက်သူရဲကောင်းများအဖြစ် ထိုခေတ်က ထင်ရှားခဲ့ပေသည်။ မော်လတာကျွန်းကို ၁၇၉၈ ခုနှစ်မှ ၁၈၀၀ ပြည့်နှစ်အထိ နပိုလီယန်ဗိုနာပတ်က သိမ်းပိုက်ထားခဲ့၏။ သို့ရာတွင် ကျွန်းတွင် နေထိုင်သူတို့က ပြင်သစ်တို့ကို ပုန်ကန်၍ ၁၇၉၈ ခုနှစ်မှ ၁၈၀၀ ပြည့်နှစ်အထိ ကျွန်းကို ဝန်းရံပိတ်ဆို့လာသော ဗြိတိသျှတို့ကို ကူညီခဲ့၏။ ထိုခရစ် ၁၈၀၀ ပြည့်နှစ်တွင် ဗြိတိသျှတို့က ကျွန်းကို သိမ်းပိုက်လိုက်သည်။ ၁၉၂၁ ခုနှစ်တွင် ဒိုမီနီယန် အဆင့်အတန်းကို ရရှိသော်လည်း သာသနာအဖွဲ့နှင့် အစိုးရတို့ ပဋိပက္ခဖြစ်ပွားမှုကြောင့် ၁၉၃၃ ခုနှစ်တွင် ကိုလိုနီအဖြစ်သို့ ပြန်လည် သက်လျော့ခဲ့ရ၏။ ၁၉ ရာစုနှစ်မှစ၍ မြေထဲပင်လယ်တွင် ခိုင်ခံ့သော ရေတပ်အခြေခံစခန်းဖြစ်လာသည်။

မော်လတာကျွန်းတွင် နေထိုင်သူတို့သည် မိမိတို့ ကိုယ်ကို မိမိတို့ ဖိနီရှန်လူမျိုးမှ ဆင်းသက်ဆက်နွယ်လာကြသည်ဟု ယူဆကြသည်။ လူဦးရေမှာ ၁၉၅၉ ခုနှစ် ခန့်မှန်းခြေအရ ၃၂၅,၀၀၀ ဖြစ်၏။

**မော်လမြိုင်ကျွန်းမြို့။** ။မော်လမြိုင်ကျွန်းမြို့သည် မြန်မာနိုင်ငံအောက်ပိုင်း၊ဧရာဝတီတိုင်း၊မြောင်းမြခရိုင်၊ဝါးခယ်မနယ်တွင် ပါဝင်သော မော်လမြိုင်ကျွန်းမြို့နယ်၏ ရုံးစိုက်မြို့

ဖြစ်သည်။ မြို့နယ် လူဦးရေမှာ ၁၉၅၆ ခုနှစ်တွင် ခန့်မှန်းခြေ ၇၉,၅၉၃ ယောက်ခန့် ရှိသည်။ မော်လမြိုင်ကျွန်းမြို့ကို အရပ်ထဲ၌ မော်ကျွန်းဟု ခေါ်လေ့ ရှိကြသည်။

မော်လမြိုင်ကျွန်းမြို့သည် ရေဝတီမြစ်၏ မြစ်ခွဲတခု ဖြစ်သော ရာဇဒိုင်မြစ်နှင့် တုံးလဲချောင်းတို့ဆုံရာ ကျွန်းငယ်တခု ပေါ်တွင် တည်ရှိသည်။ မြို့သည် အလျား ၂ မိုင်၊ အနံ ၁.၅ မိုင်ခန့်ရှိ၍ ၁.၂၂ စတုရန်းမိုင်ခန့် ကျယ်ဝန်းသည်။

မော်လမြိုင်ကျွန်းမြို့နယ်သည် မြစ်ဝကျွန်းပေါ်၌ တည်ရှိသည့် အလျောက် ဆန်စပါး များစွာထွက်သည်။ မော်လမြိုင်ကျွန်းမြို့နယ်သည် စပါးထွက်ရာ၌ ပဌမတန်းမှ ပါဝင်သည်နှင့်အညီ ဆန်စက် ၁၀ လုံးမျှရှိသည်။ ဆန်စပါးနောက်၊ ငါး၊ ဗုဇွန်များ ထွက်သည်။ ထင်းလုပ်ငန်း တွင်ကျယ်သည်။ သွားလမ်း လာလမ်းအတွက် ရေကြောင်း သက်သက်ကိုသာ အသုံးပြု အားကိုးရသည်။ မော်လမြိုင်ကျွန်းမြို့နှင့် ရန်ကုန်၊ မြောင်းမြ၊ ညောင်တုန်း၊ လှိုင်းဘုန်းမြို့များ အကြားတွင် ပြည်ဘွင်း ရေကြောင်းသယ်ယူပို့ဆောင်ရေးသင်္ဘောများနှင့် ပုဂ္ဂလိကပိုင်သင်္ဘောများ ခုတ်မောင်းသွားလာလျက်ရှိ၏။

မော်လမြိုင်ကျွန်းမြို့သည် ဗြိတိသျှတို့ မြန်မာနိုင်ငံအောက်ပိုင်းကို သိမ်းပြီးဖြစ်သော ခရစ် ၁၈၈၀ ပြည့်နှစ်တွင်မှ ထွန်းပေါ်လာသည့် မြို့ဖြစ်သည်။ ထိုအထက်ကမူ တံငါရွာကလေးမျှသာ ဖြစ်လျက်သင်စခန်း ကြိမ်စခန်းဟူ၍ ခေါ်ဝေါ်၏။ သင်များ၊ ကြိမ်များ ခုတ်ထွင်သူများနှင့် တံငါများသာ နေထိုင်ကြသည်။ ထိုစဉ်က သစ်တောထူထပ်သဖြင့် ကျားများ တောတွင်း ခိုအောင်း လေရာ၊ တနေ့သော် အဖွားအို တယောက်ကို ကျားချီသွား၏။ ထို့ကြောင့် အခြားသူတို့ ထိုနေရာတွင် မနေဝံ့ကြသဖြင့် သူကြီးဦးစောကဲက ကမကထပြု၍ ရွာ၏အနောက်ဖက်သို့ ပြောင်းရွှေ့ကြသည် ဆို၏။ မော်လမြိုင်ကျွန်းမြို့သည် ၁၈၉၉ ခုနှစ်တွင်မှမြို့ဖြစ်လာသည်။ တောများကို ခုတ်ထွင် ရှင်းလင်းလိုက်သည်တွင် လယ်ကွင်းများ ဖြစ်ပေါ်လာသည်။ ခရစ် ၁၈၉၅ ခုနှစ်တွင် ပဌမဆုံး ဈေးရုံကို ဆောက်သည်။ ၁၉၃၃ ခုနှစ်ဘွင် မြို့မကျောင်းကို ဆောက်သည်။ ယခု နိုင်ငံတော်အထက်တန်းကျောင်း ဖြစ်၏။ ၁၉၅၅ ခုနှစ်တွင် ရှေးအခါကကဲ့သို့ တောင်းကော်မတီမဟုတ်တော့ဘဲ မျူနီစီပယ်အဖွဲ့ ဖြစ်လာသည်။

မော်လမြိုင်ကျွန်းမြို့တွင် နေထိုင်ကြသူများမှာ မြန်မာနှင့် ကရင်လူမျိုးဖြစ်သည်။ ဗုဒ္ဓအယူဝါဒီများ၍ ခရစ်ယန် အနည်းငယ်ရှိသည်။ လူဦးရေမှာ ၁၉၆၂ ခုနှစ် ခန့်မှန်းခြေအရ ၁၇,၆၄၁ ခန့်ဖြစ်၏။

မော်လမြိုင်ကျွန်းဟုခေါ်တွင်လာခြင်းအကြောင်းမှာ မြို့၏ အရှေ့ဖက်တွင် ရှေးအခါက မော်လမြိုင် ပန်းများ ထူထပ်စွာပေါက်ရောက်၍ ရေပတ်လည် ဝန်းရံလျက် ရှိသောကျွန်းငယ်ဖြစ်နေသည်ကို အစွဲပြု၍ ခေါ်တွင်ခဲ့သည်ဟု ဆိုလေသည်။

**မော်လမြိုင်မြို့။** ။တနင်္သာရီ တိုင်းမင်းကြီးနှင့် ကျိုက်ခမီ ခရိုင်ဝန်တို့၏ ရုံးစိုက်ရာ မြို့ဖြစ်ပြီးလျှင် မြန်မာနိုင်ငံတွင် တတိယအကြီးဆုံးမြို့နှင့် ဒုတိယ အကြီးဆုံး ဆိပ်ကမ်း မြို့ဖြစ်သော မော်လမြိုင်မြို့သည် ရှေးမွန်မြို့ဟောင်းကြီး တမြို့ဖြစ်ခဲ့လေသည်။

မြတ်စွာဘုရား ပရိနိဗ္ဗာန် စံလွန်တော်မူပြီးသည်နောက် သာသနာနှစ် ၁၅၇ ခုတွင် ရှမ်းမင်းဆက် ပြတ်၍ မွန်မင်းတို့ လက်ထက်သို့ ကျရောက်သောအခါ ရာမညရာဇာမင်းသည် မူလမြို့တည်ရာမှ သံလွင်မြစ်၊ ဂျိုင်းမြစ်၊ အတ္တရံမြစ်နှင့် သောင်ရင်းမြစ်တို့၏ မြစ်လေးမြွာဆုံရာ ယခု မော်လမြိုင်မြို့ တည်ရှိရာသို့ ပြောင်းရွှေ့ပြီးလျှင် မြို့သစ် နန်းသစ် တည်ထောင် စိုးစံတော်မူ၏။ မြို့၏အမည်ကို ရမ္မာပူရ၊ ရမ္မာဝတီဟူ၍ပင် ဘွဲ့ချည်သတ်မှတ်တော်မူသည်။ ရာမညရာဇာမင်းသည် ၄ နှစ်မျှ မင်းပြုပြီးသည်နောက် သာသနာနှစ် ၁၆၁ ခုတွင် နတ်ရွာစံသည်။ ထိုအခါ သားတော်ကြီး အိမ်ရှေ့မင်းသည် မွတ်ပိရာဇာဟူသော ဘွဲ့ဖြင့် ထီးနန်းဆက်ခံ စိုးစံလေသည်။

မွတ်ပိရာဇာမင်း၏ မျက်မှောင် နှစ်ခု အလယ်တွင် တင့်တယ်လှပသော မှဲ့ရှင်တလုံး ပါသောကြောင့် မျက်စိ သုံးလုံးထင်ရလောက်အောင် ထူးခြားတော်မူရကား မွန်ဘာသာဖြင့် "မွတ်ပိရာဇာ"၊ မြန်မာဘာသာဖြင့် မျက်စိသုံးလုံး ဘုရင်ဟုခေါ်တွင်သည်။ ထိုမင်းလက်ထက် မြို့ပြစည်ပင်သာယာဝပြော၍ ထင်ရှားကျော်ကြားလာ၏။ နောင်အခါ အကြောင်းမသင့်သောကြောင့် မှဲ့ရှင်မျက်လုံး ကွယ်ပျောက်သွားရလေသည်။ ယင်းကို အစွဲပြု၍ မွတ်ပိရာဇာမင်းကို မွန်ဘာသာဖြင့် "မွတ်မယ်လိန်း" ဟု ခေါ်တွင်သည်။ မျက်စိတလုံးကွယ်သောမင်းဟူ၏။ မြို့၏အမည်ကိုလည်း ရမ္မာပူရ၊ ရမ္မာဝတီမှ မွတ်မယ်လိန်း ဟူ၍ပင် ခေါ်ဆိုကြသည်။ မွတ်မယ်လိန်း ခေါ်တွင်ရာမှ ကာလရှည်လျားလာသော အခါ မော်လမိန်း၊ ထိုမှ မော်လမြိုင် အခေါ်သို့ ပြောင်းလဲလာခဲ့လေသည်။

ဤသည့်နောက်ပိုင်းတွင် မော်လမြိုင်မြို့သည် စစ်ပွဲအမျိုးမျိုးတို့၏ ဒဏ်ကြောင့် အကြိမ်ကြိမ် ပျက်စီးခဲ့သည်ဖြစ်ရာ လက်အောက်ခံမြို့ကလေးအဖြစ်သို့ ရောက်ခဲ့သည်သာ များသည်။ ပဌမ အင်္ဂလိပ် - မြန်မာ စစ်ပွဲအပြီး ခရစ်နှစ် ၁၈၂၆ ခုနှစ် (မြန်မာ ၁၁၈၇ ခု) ဖေဖွာရီလ ၂၄ ရက်နေ့တွင် ချုပ်ဆိုသော ရန္တပိုစာချုပ်အရ မော်လမြိုင်မြို့သည် အင်္ဂလိပ်တို့ လက်သို့ကျရောက်ခဲ့လေသည်။ ထိုစဉ်အခါက မော်လမြိုင်မြို့သည် ရွာငယ်ကလေးမျှသာ ရှိနေသည်ဟု ဆိုသည်။ ထို နောက် ဒလမြို့စား(မင်းကျော်သီဟ) စစ်ကဲ ဦးထော်လေးသည် လှေကြီး လှေငယ်ပေါင်း ၂၀၀ ကျော်တွင်မွန်လူကြီး လူငယ်ပေါင်း တသောင်းကျော် ၂ သောင်းခန့်ကို တင်၍



မော်လမြိုင်မြို့ တစိတ်တဒေသကို ကောင်းကင်မှ ရှုမြင်ရပုံ ဖြစ်သည်။ ပုံအလယ်တွင် ကျိုက်သံလန်စေတီကို ဖူးမြင်နိုင်ပေသည်။

ရေကြောင်း ကူးလာရာ မော်လမြိုင် မြို့ဟောင်းသို့ ဆိုက်ရောက်လျှင် တအိမ်မျှ မရှိ၊ တောခုတ်ရှင်းလင်း၍ အိမ်ရာအသီးအသီး ဆောက်လုပ် နေထိုင်ကြသည်။ ထိုမှ တစတစ လူမျိုးခြားတို့နှင့် ဆက်ဆံလာခဲ့ရာမှ ယခုအခြေသို့ ဆိုက်ရောက် လာခဲ့လေသည်။

မော်လမြိုင်မြို့သည် သံလွင်မြစ်ဝ၏ ဝဲဖက်ကမ်းပေါ်တွင် တည်ရှိ၍ ပင်လယ်မှ ၂၈ မိုင်ဝေး၏။ မြို့သည် အနောက်ဖက်နှင့် မြောက်ဖက်ရှိ သံလွင်မြစ်နှင့် အတ္တရံမြစ် ကမ်းရိုးတလျှောက်နှင့် အရှေ့ဖက် တောင်တန်းအကြားတွင် တည်ထားသောမြို့ဖြစ်ရကား အလျားရှည်၍ အနံတို၏။ မြို့၏အလျားမှာ ၇ မိုင်ခန့်ရှိ၍ တထောင်ဆစ်ကွေး သဏ္ဍာန်ရှိ၏။ မြို့သည် အရှေ့မှ အနောက်သို့ ဆင်ခြေလျှော ရှိပြီးလျှင် အရှေ့ဖက် တောင်တန်း တလျှောက်ပေါ်၌ စေတီများ တည်ထားသည့်ပြင် ကမ်းရိုးတလျှောက်၌လည်း သစ်ပင်အမျိုးမျိုးတို့ဖြင့် စိမ်းစိမ်း လန်းလန်း စိုဒိုပြည်ပြည်ရှိရကား အလွန်သာယာသော ရှုမျှော်ခင်းကောင်း ဆိပ်ကမ်းမြို့တမြို့ အဖြစ် ထင်ရှားကျော်ကြားသည်။ ပြည်တွင်း ပြည်ပ ခရီးသည်များသည် မော်လမြိုင်သို့ မီးသင်္ဘောဖြင့်ဖြစ်စေ၊ မီးရထားဖြင့်ဖြစ်စေ လာရောက်ကြသည့်အခါ မြို့၏ သာယာလှသည့် ရှုမျှော်ခင်းကို အဝေးကပင် မြင်ကြရသည်။ ထိုကြောင့် ကင်းဝန်မင်းကြီးသည် သံအရာရှိကြီးအဖြစ်ဖြင့် ပြင်သစ်နိုင်ငံ ပါရစ်မြို့တော်သို့ အသွား သက္ကရာဇ် ၁၂၃၅ ခုနှစ် တန်ခူးလ၌ မော်လမြိုင်မြို့သို့ခေတ္တရောက်လာရာတွင် မြို့၏ရှုမျှော်ခင်းကို ခရီးစဉ်ရကန်၌ "ကိုကိုနာဒ၊ သာစွမည်တွင်၊ စက်ယာဉ်ညင်နှင့်၊ ရေပင်လယ်ချက်၊ စခန်းသို့ ထွက်ခဲ့၍၊ တရက်နှင့်တည၊ ကာလမကြာ၊ ရှုလေရာပင်၊ နတ်ရွာတပြိုင်၊ မော်လမြိုင်သို့၊ ရောက်

တိုင် ဝင်ဆိုက်၊ တွေ့ကြုံကြိုက်ရသည်၊ မျှော်လိုက်တိုင်း လွန်ပျို့နု၏။"ဟူ၍ ဖွဲ့ဆိုခဲ့လေသည်။

မော်လမြိုင်မြို့သည် (မျူနီစီပယ်နယ်နိမိတ်နှင့် ရေဝန်ဆိပ်ကမ်း အပါအဝင်) ၂၁ စတုရန်းမိုင် ကျယ်ဝန်း၏။ မျူနီစီပယ်အဖွဲ့ကို ခရစ် ၁၈၇၄ ခုနှစ်ကစ၍ တည်ထောင်ကာ မြို့၏ စည်ပင်သာယာမှုကို စီမံအုပ်ချုပ်သည်။ ၁၉၆၂ ခုနှစ် ခန့်မှန်း သန်ကောင်စာရင်းအရလူဦးရေ ၁၁၅,၉၃၁ ယောက်ရှိသည်။ မော်လမြိုင်မြို့သည်အပူပိုင်းဒေသအတွင်းကျရောက်သော်လည်း ပင်လယ်ကမ်းခြေနှင့်နီးခြင်း၊ တောင်အခံရှိခြင်း၊ မြစ်လေးမြွာတို့၏ဆုံရာ၌တည်ထားခြင်းတို့ကြောင့် ရာသီဥတုမျှတ၍ မြေဩဇာကောင်းမွန်သည်။ နှစ်စဉ် ပျမ်းမျှ မိုးရေချိန် ၁၈၈ လက်မရှိ၍ ပျမ်းမျှအပူချိန်မှာ ဒီဂရီ ၈၀ ခန့်ရှိသည်။ ဘီလူးကျွန်းသည် မော်လမြိုင်မြို့ ဆိပ်ကမ်းကို ကာကွယ်ထားသဖြင့် ပင်လယ်ကူးသင်္ဘောကြီးများ ဝင်ရောက် ဆိုက်ကပ်နိုင်ရကား မြန်မာနိုင်ငံတွင် ဒုတိယအကြီးဆုံး ဆိပ်ကမ်းမြို့ဖြစ်လာသည်။ သံလွင်မြစ်ကြီးမှာ သဲသောင် ထူထပ်သောကြောင့် ပင်လယ်ဝမှ ၂၈ မိုင်ခန့် အကွာရှိ မော်လမြိုင်မြို့ အထိသာ ပင်လယ်ကူးသင်္ဘောကြီးများ ဆန်တက်သွားလာနိုင်သည်။ သို့သော် မော်လမြိုင်မြို့မှ သံလွင် မြစ်ကြောင်း၌ ၇၄ မိုင်၊ အတ္တရံ မြစ်ကြောင်း၌ ၇၃ မိုင်နှင့် ဂျိုင်းမြစ်ကြောင်း၌ ၄၂ မိုင်အထိ ပြည်တွင်း ရေကြောင်းသယ်ယူပို့ဆောင်ရေး အဖွဲ့ပိုင် မီးသင်္ဘောများဖြင့် သွားလာ နိုင်သည်။ ထို့ပြင် ရန်ကုန် မော်လမြိုင် မီးရထားလမ်းသည် မော်လမြိုင်တဖက်ကမ်းရှိ မုတ္တမမြို့သို့ ရောက်၍ ၁၆၉ မိုင်ရှည်လျားသည်။ မုတ္တမမှ မော်လမြိုင်သို့ ကူးတို့ သင်္ဘောဖြင့် ကူးရသည်။ မော်လမြိုင်တောင်ဖက် ယေးမြို့အထိ ဖောက်လုပ်ထားသော မီးရထားလမ်းမှာ မိုင် ၉၀ ရှည်၏။ မော်လမြိုင်မှ ကျိုက္ခမီမြို့သို့ သွားသော မော်တော်ကားလမ်းမှာ ၅၅ မိုင်ရှည်လျားသည်။ (ကျိုက္ခမီမြို့ — ရှု။) မော်လမြိုင်မြို့ အရှေ့တောင်ရှိ ကျိုက်မရောမြို့သို့ သွားသော မော်တော်ကားလမ်းမှာ ၁၅ မိုင်ရှည်၏။ (ကျိုက်မရောမြို့ — ရှု။) ရာသီမရွေး အသုံးပြုနိုင်သော လေယာဉ်ပျံကွင်းတခုလည်း ရှိသည်။ မော်လမြိုင်မှ ရန်ကုန်မြို့သို့ ပင်လယ်ကြောင်းဖြင့် မြန်မာနိုင်ငံ ပင်လယ်ရေကြောင်း သယ်ယူပို့ဆောင်ရေးအဖွဲ့ပိုင်နှင့် နိုင်ငံခြား ကုမ္ပဏီများပိုင် ပင်လယ်ကမ်းရိုးတန်းသွား သင်္ဘောများဖြင့် တပတ်လျှင် တကြိမ်ကျ မှန်မှန် သွားလာပို့ဆောင်လျက် ရှိသည်။ ထို့ကြောင့် မော်လမြိုင်မြို့သည် ပြည်တွင်းပြည်ပ ကုန်ကူးသန်းရောင်းဝယ်ရေး၌ များစွာ စည်ပင်သည်။

ကျောထောက်နောက်ခံ နယ်များတွင် ကျွန်းသစ်၊ ဆန်စပါးနှင့် ကော်ဖတ် အမြောက်အမြား ထွက်သဖြင့် မြို့၏ ကမ်းရိုးတန်း တလျှောက်၌ သစ်စက်နှင့် ဆန်စက် အများအပြားရှိသည်။ ထိုကျွန်းသစ်၊ ဆန်စပါးနှင့် ကော်ဖတ်များကို နိုင်ငံခြားတိုင်းပြည်များသို့ တိုက်ရိုက် တင်ပို့ရောင်းချသည်။ ဒူးရင်းသီး၊ မင်းကွတ်သီး၊ နာနတ်သီး၊ ကြက်မောက်သီး၊ သရက်သီးတို့လည်း အမြောက်အမြား ထွက်ရာ ရန်ကုန်မြို့နှင့် အခြားမြို့များသို့ တင်ပို့ ရောင်းချရသည်။



ညနေညခင်း အပန်းဖြေသူများဖြင့် စည်ကားလှသည့် မော်လမြိုင်မြို့ ကမ်းနားလမ်းမကြီး

မြို့၏ အရှေ့တောင်တန်း တလျှောက်တွင် ကျိုက်သံလန်စေတီ၊ မဟာမြတ်မုနိဘုရား၊ ဇိနမာရ်အောင်စေတီ တော်တို့ ရှိကြသည်။ မြို့လယ်တွင်ကား ကျိုက်သုတ်စေတီ ရှိသည်။ ယင်းတောင်တန်း တလျှောက်နှင့် မြို့တွင်း မြို့ပတွင် ဘုန်းကြီးကျောင်း အများအပြား ရှိသည့်ပြင် ပရိယတ္တိ စာသင်တိုက်ကြီးများလည်း ရှိသည်။ အစိုးရအထက်တန်းကျောင်း ၂ ကျောင်းရှိသည့်ပြင် ရှင်ဗုဒ္ဓဃောသအထက်တန်းကျောင်း၊ ဗုဒ္ဓဘာသာ အမျိုးသမီး အထက်တန်းကျောင်းနှင့် နိုင်ငံခြား သာသနာပြု အထက်တန်းကျောင်းများ အတော်များများ ရှိသည်။မူလတန်းနှင့် အလယ်တန်းကျောင်းများလည်းရှိ၏။ တိုင်းမင်းကြီးရုံး၊ ခရိုင်ဝန်ရုံး၊ မျူနီစီပယ်ရုံးကြီး၊ နာရီစင်၊ အကျဉ်းထောင်၊ ဆေးရုံ၊ ဗဟိုစာတိုက်ကြီးနှင့် စာတိုက်ခွဲများ၊ မိခင်နှင့် ကလေးများ စောင့်ရှောက်ရေးအဖွဲ့များ၊ ဆရာအတတ်သင်သိပ္ပံကျောင်း၊ မျက်မမြင်ကျောင်း၊ ကူဋ္ဌနူနာဆေးရုံတို့ ရှိကြသည်။ ၁၉၅၃ ခုနှစ်မှ စတင်ဖွင့်လှစ်ခဲ့သော မော်လမြိုင် ဥပစာကောလိပ်ကို ၁၉၆၃ ခုနှစ်မှ အစပြု၍ ဒီဂရီကောလိပ်အဖြစ် တိုးမြှင့်ဖွင့်လှစ်ခဲ့သည်။

မော်လမြိုင်မြို့ တောင်ဖက် ၄ မိုင်အကွာရှိ တောင်ဝိုင်းတောင်နှင့် ရွှေနတ်တောင်ကြားတွင် မြို့သို့ရေပေးသော ကင်မွန်းချုံ ရေလှောင်ကန်ကြီးကို မျူနီစီပယ်အဖွဲ့မှ ငွေပေါင်း ၉ သိန်းခွဲ အကုန်ခံ၍ ပြုလုပ်ခဲ့ရာ ၁၉၁၀ ပြည့်နှစ်တွင် ပြီးစီးခဲ့လေသည်။ ထိုအချိန်မှစ၍ မြို့သို့ ရေကောင်း ရေသန့်များ ပေးသွင်း နိုင်ခဲ့သောကြောင့် နှစ်စဉ် နွေရာသီတွင်ဖြစ်တတ်သော ဝမ်းရောဂါဘေးမှ ကင်းလွတ်ကြရလေသည်။ မော်လမြိုင်မြို့၏ သင်္ကြန်ရေသဘင်ပွဲတော်သည် မြန်မာနိုင်ငံတွင် ကျော်ကြားသည်။ ပွဲတော်ရက်များတွင် အနယ်နယ်မှ လာရောက်၍ ရေသဘင် ဆင်နွှဲကြသည်။ နှစ်စဉ် နှစ်တိုင်း သိတင်းကျွတ်လတွင်ကျင်းပလေ့ရှိသော သင်္ဃာ ၁,၀၀၀ ကျော် ပါဝင်သည့် မောင်ငံဆွမ်းတော်ကြီးလောင်းပွဲသည် မော်လမြိုင်မြို့တွင် အလွန်စည်ကား၍ ထင်ရှားသော ပွဲတော်ကြီး ဖြစ်သည်။ သက္ကရာဇ် ၁၂၀၄ ခုနှစ်မှစ၍ မောင်ငံရပ်ကို အုပ်ချုပ်သော မင်းမောင်ငံက ဦးစီးပြုလုပ်ခဲ့ရာ ယနေ့တိုင် မပျက်မကွက် တည်တံ့လျက်ရှိသည်။

**မော်လိုက်မြို့။** ။မော်လိုက်မြို့သည်အထက်ချင်းတွင်းခရိုင်၏ ရုံးစိုက်မြို့ဖြစ်သည်။ မော်လိုက်နယ်တွင် မော်လိုက်မြို့နယ် ဖောင်းပြင်မြို့နယ် ကလေးမြို့နယ်တို့ ပါဝင်သည်။ မော်လိုက်မြို့၏ လူဦးရေမှာ ၁၉၆၂ ခုနှစ် ခန့်မှန်း သန်ကောင်စာရင်းအရ ၃,၄၂၆ ယောက် ရှိသည်။

မော်လိုက်မြို့သည် ချင်းတွင်းမြစ်၏ အနောက်ဖက်ကမ်းပေါ်တွင် တည်ရှိသည်။ မြစ်လမ်းအတိုင်း ပခုက္ကူမြို့မှ ၂၅၅ မိုင်ကွာဝေးသည်။ သဘော်ဆိပ်မြို့ ဖြစ်သည့် အလျှောက်သွားရေး လာရေးအတွက် ရေကြောင်းကို အားကိုးရသည်။ မော်လိုက်မြို့သည် ရုံးများနှင့် သဘော်ဆိပ်ဘို့ကြောင့် အချက်အခြာဖြစ်သော်လည်း လူနေအိမ်ခြေနည်းပါးသည်။

မော်လိုက်မြို့သည် မြစ်ကမ်းနှင့် ၂ မိုင်ခန့်စီ ဝေးကွာသော တောင်တန်းကလေး၏ အကြားတွင် တည်ရှိသဖြင့် သားငါး ပေါများသော်လည်း ဆန်အထွက်မလောက်သဖြင့် အောက်အရပ်ကို အားထားရသည်။ မော်လိုက်မြို့တွင် ၅ ရက်တစျေးသာရှိသည်။

မော်လိုက်မြို့မှာ ရှေးအခါက အိမ်ခြေ များသော ရွာကြီးမျှသာ ဖြစ်သည်။ ခရစ် ၁၉၁၀ ခုနှစ်တွင်မှ ကင်းတပ်မြို့မှ အရေးပိုင်ရုံးကို မော်လိုက်သို့ပြောင်းရွှေ့သဖြင့် ခရိုင်ရုံးစိုက်မြို့ ဖြစ်လာသည်။

**မော်စကိုမြို့။** ။မော်စကိုမြို့သည် ဆိုဗီယက် ပြည်ထောင်စု၏ မြို့တော်ဖြစ်၍ ကမ္ဘာ့ထိပ်တန်းဝင် မြို့ကြီးတမြို့ ဖြစ်သည်။ ဆိုဗီယက်ဆိုရှယ်လစ် ပြည်ထောင်စု သမဂ္ဂနိုင်ငံတွင် အကြီးဆုံးမြို့ဖြစ်ရုံမက ကွန်မျူနစ်အဖွဲ့၏ ဌာနချုပ်တည်နေရာလည်းဖြစ်ပေသည်။

မော်စကိုမြို့သည် ဥရောပတိုက်ဖက်ရှိ ရုရှနိုင်ငံ၏ အလယ်ပိုင်း မြောက်ဖက်ယွန်းယွန်း မော်စကို (မော့စဗာ) မြစ်၏ တဖက်တချက်တွင် တည်ရှိသည်။ မော်စကိုမြစ်သည် အိုကာမြစ်၏ လက်တက်ဖြစ်၏။ မော်စကိုမြို့သည် လီနင်ဂရက်မြို့နှင့် မိုင် ၄၀၀ ခန့်ကွာဝေးသည်။ မြို့ကိုတည်ဦးစက တောင် ၇ လုံးပေါ်တွင် ဖြစ်၏။ မော်စကိုမြစ်သည် မြို့၏ အလယ်ပိုင်းလောက်တွင် မြင်းခွာသဏ္ဌာန် ကွေ့ကောက် စီးဆင်းသွားပေသည်။ မြို့၏အကျယ်အဝန်းမှာ စတုရန်းမိုင် ၁၀၀ ကျော်ဖြစ်သည်။မော်စကိုမြို့သည် ဥရောပတိုက်မှသည် အရှေ့တိုင်းနိုင်ငံများသို့ရင်း၊ ဗော်လာတစ် ပင်လယ်မှသည် ကက်စပျန် ပင်လယ်သို့ရင်း ကုန်သွယ်ဖောက်ကားသည့် လမ်းကြောင်းများ၏ လမ်းမကြီးပေါ်တွင် တည်ရှိလေသည်။ သို့ဖြစ်ရကား မော်စကိုမြို့သည် အချက်အခြာ ဒေသဖြစ်လျက် ယခုအခါ မီးရထားလမ်း ၁၁ လမ်းတို့၏ ဆုံရာနေရာဖြစ်၏။ ထိုပြင် မော်စကိုဘူးမြောင်း (ရှေးအခေါ် မော်စကို-ဗော်လဂါ တူးမြောင်း) တူးဖော် လိုက်ခြင်းအားဖြင့် မော်စကိုမြို့သည် ပင်လယ်နှင့် အဆက်အသွယ်ရကာ အတွင်းပိုင်း ဆိပ်ကမ်းမြို့ဖြစ်လာပေသည်။ ဤသို့ဖြင့် ကုန်စည်ဖြန့်ဖြူးရေး၊ ကူးသန်းရောင်းဝယ်ရေးတွင် ကောင်းမွန် ပြေပြစ်လာသည်။

မော်စကိုမြို့သည် ရုရှနိုင်ငံတွင် အဟောင်းဆုံးမြို့တော်ဖြစ်သည်။ ရှေးအခါက ဇာဘုရင်တို့ ဦးစွာ စိုးစံသော နေရာဖြစ်ပေသည်။ ၁၇၀၃ ခုနှစ်တွင် ရုရှဇာဘုရင် ပီတာ-ဒ-ဂရိတ်သည် မြို့တော်ကို ပီတာစဗတ်(ယခု လီနင်ဂရက်) သို့ပြောင်းရွှေ့သည်။ ၁၉၁၇ ခုနှစ် ရုရှတော်လှန်ရေးဖြစ်ပွားပြီးနောက်



မောစကိုမြို့၏ သာယာသောရှုခင်းကို မာယာကော့စကီရပ်ကွက် ဆဒေါဗာယာလမ်းဖက်မှ ရှုမျှော်ရပုံ

ဆိုဗီယက် အစိုးရသည် မြို့တော်ကို မောစကိုမြို့သို့ ပြန်လည်ပြောင်းရွှေသည်။ မြို့သည် လူဦးရေ အထူးတိုးပွားလာသည့်အလျောက် ဆိုဗီယက်တို့သည် မြို့ကိုချဲ့ထွင်ခဲ့ရသည်။ ဆိုဗီယက် အစိုးရသည် မြို့ကို ပြန်လည်တည်ဆောက်ရန် စီမံကိန်းများပြုလုပ်ရလေသည်။ စီမံကိန်းများအရ လမ်းသစ်များ၊ ရိပ်သာသစ်များ၊ ပန်းခြံများ၊ဟိုတယ်များ၊ တိုက်ခန်းများ၊ ပြတိုက်များ အစရှိသည့် အဆောက်အအုံများကို ဆောက်လုပ်သည်။ မောစကိုမြို့တွင် ဆိုင်များ၊ရုံးအဆောက်အအုံများတို့မှာ ပြည်သူပိုင်ချည်းဖြစ်လေသည်။ မြို့သစ်ပြန်လည် တည်ဆောက်သည် ဆိုသော်လည်း အချို့ ရပ်ကွက်များတွင် ဟောင်းမြင်းဆွေးမြည့်နေသော အိမ်များ ရှိပေသေးသည်။

မောစကိုမြို့တွင် ထင်ရှားသော အဆောက်အအုံ ကြီးကား ကရင်မလင်ဖြစ်၍ အချက်အခြာ နေရာဖြစ်၏။ ကရင်မလင်သည် ဆိုဗီယက် အစိုးရအဖွဲ့၏ ဌာနချုပ်တည်ရာ ဖြစ်လျက် အခိုင်အခံ့ လုံခြုံစွာ တည်ဆောက်ထားလေသည်။ ကရင်မလင်သည် အနားညီတြိဂံပုံသဏ္ဌာန် ရှိ၍ ရှေးအခါက ခံတပ်အလိုင်္ငါဆောက်ထားသည်ဖြစ်၍ တခါက ငက်သစ်ချသားဖြင့် ပြုလုပ်ထားသော တန်တိုင်းရှိခဲ့၏။ ၁၆ ရာစုနှစ်အကုန်လောက်ဘွင် ပန်းပျော့ရောင် အုတ်နံရံများဖြင့် လဲလှယ် တည်ဆောက်လိုက်သည်။ ကရင်မလင်အုတ်တန်တိုင်းများကို အုပ်မိုးလျက်ရှိသော မျှော်စင်များ စွန်းထွက်နေပေသည်။ကရင်မလင်ထဲတွင်နန်းတော်များ၊ဘုရားရှိခိုးကျောင်းများရှိပေသည်။ ကရင်မလင်သည် တောင်ပူစာ အပေါ်တွင်ရှိသည်။ ၁၂ ခုမျှသော ရိပ်သာလမ်းကျယ်များသည် ကရင်မလင်မှနေ၍ ဖြာထွက်ကာ မြို့၏နယ်နိမိတ်ကို လွန်သွားသောအခါ လမ်းမကြီးများဖြစ်သွားလေသည်။ အခြားရိပ်သာများသည် ကရင်မလင်ကို ရစ်ပတ်လျက်ရှိသည်။ အခြားထင်ရှားသော အဆောက်အအုံများသည် ကရင်မလင် အနီးတဝိုက်တွင်ရှိ၏။ ကရင်မလင်၏ အရှေ့မြောက်ဖက် နံရံသည် ထင်ရှားကျော်ကြားသော“ရက်စကွဲယား”ခေါ် စတုဂံကွက်လပ်နီကြီးကို တူရူမျက်နှာမူလျက်ရှိသည်။ ယင်း စတုဂံကွက်လပ်သည် အလျားမိုင်ဝက်ခန့်ရှိ၍အနံပေ ၄၅၀ ရှိသည်။ အခါကြီး နေ့ကြီးများတွင် ယင်းကွက်လပ်၌ စစ်ရေးပြပွဲကြီး

များကို ခမ်းနား ကြီးကျယ်စွာ ပြသခင်းကျင်း၏။ လီနင် အာဇာနည် ဗိမာန်သည် ကရင်မလင်ကို မျက်နှာမူလျက် စတုရ်ကွက်လပ်နီပေါ်တွင် တည်ရှိသည်။ ၁၆၇၉ ခုနှစ်၌ ဆောက်လုပ် ပြီးစီးသော စိန်ဗဲစီ ဘုရားရှိခိုးကျောင်းသည် စတုရ်ကွက်လပ်နီ၏ တောင်ဖက်အစွန်း၌ တည်ရှိကာ ယခု အခါတွင် ပြတိုက်အဖြစ် အသုံးခံလျက်ရှိသည်။ စတုရ် ကွက် လပ်နီ၏ မြောက်ဖက်တွင် ရှေးအခါက မြို့မ ကောင်စီ အ ဆောက်အအုံ တည်ရှိ၏။ အနီး တဝိုက်ရှိ အခြား ထင်ရှား သော အဆောက်အအုံတို့မှာ သမိုင်းပြတိုက်၊ အော်ပရာဇာတ် ရုံ၊ သူကောင်းတို့၏ခန်းမဆောင်၊ ဆိုဗီယက် အစိုးရက တည် ဆောက်သော လီနင်စာကြည့်တိုက်၊ စာတိုက်နှင့် ကြေးနန်း အဆောက်အအုံ စသည်တို့ဖြစ်ကြ၏။ ထို့ပြင်လည်း မော်စကို မြို့တွင် ပြပွဲဇာတ်ရုံ၊ အနုပညာ ပြတိုက်များ၊ စာကြည့်တိုက် စသည် အများအပြားပင် ရှိ၏။ မော်စကိုမြို့ရှိ ပြည်သူ့ လီ နင်စာကြည့်တိုက်တွင် စာအုပ်ပေါင်း ၁၅,၀၀၀,၀၀၀ ရှိ၏။

ဆိုခဲ့သည့်အတိုင်း မော်စကိုမြို့သည် လမ်းပန်း ဆက်သွယ် ရေး ကောင်းမွန်သော ဒေသ၌ တည်ရှိရကား လုပ်ငန်း ဆောင်တာ အဝဝ ထွန်းကားပေသည်။ ရှေးအခါက မော်စ ကို မြို့၌ လူသုံးကုန်ပစ္စည်းများကိုသာ အဓိက ထုတ်လုပ်သော်လည်း ယခုအခါတွင်မူ စက်ကရိယာနှင့် အထည်ကြီးများကို အရေးထား၍ ထုတ်လုပ်လျက်ရှိ၏။ အဓိက ထုတ်လုပ်သော ပစ္စည်းတို့ကား စက်ကရိယာများ၊ မော်တော်ယာဉ်များ၊ လျှပ်စစ်ကရိယာ တန်ဆာပလာများ၊ လေယာဉ်ပျံများနှင့် တကွ အထည်အလိပ်၊ အစား အသောက်၊ ဆေး၊ ဖိနပ် အစ ရှိသော လူ့အသုံးအဆောင်များ ဖြစ်ပေသည်။ မြို့၏ အရှေ့ ပိုင်းတွင် သံမဏိလုပ်ငန်းများကို ပြုလုပ်လျက်၊ စက်မှု လက်မှု လုပ်ငန်းဖွံ့ဖြိုးနေသည့် ရပ်ကွက်သစ်မှာ မော်စကိုမြို့၏ အရှေ့ တောင်ပိုင်းဖြစ်၍ မော်တော်ယာဉ်များ၊ ဗွိုင်လာအိုးများ၊ လျှပ်စစ်ကရိယာများကို ထုတ်လုပ်လျက် ရှိပေသည်။

မော်စကိုမြို့သည် ထိပ်တန်းမြို့ကြီး ဖြစ်ငြားသော်လည်း ပါရစ်မြို့တို့ကဲ့သို့ လူမျိုးစုံသော မြို့ကား မဟုတ်ပေ။ မော်စ ကိုမြို့သည် ရုရှဆန်၍ ရုရှမှု မပျက်ဘဲရှိ၏။ မော်စကိုမြို့ပေါ်ရှိ လမ်းမကြီးများတွင် ဗော်လဂါမြစ်အောက်ပိုင်းမှ ကော့ဆက် လူမျိုးများ၊ ဥဇဗက်ဆိုဗီယက်ဆိုရှယ်လစ် သမတနိုင်ငံက လူမျိုးများ၊ ကော်ကေးဆပ်မှ တိုင်းရင်းသားများကို တွေ့နိုင် ပေသည်။

မော်စကိုမြို့ကို ၁၂ ရာစုနှစ် အလယ်ပိုင်း လောက်က ရော့ စတော့မှ မင်းသားတပါးဖြစ်သူ ယူရီဒေါ်လဂိုရူးကီး တည်



မော်စကိုမြို့၏ မြေအောက် မီးရထားဘူတာရုံသည် ကမ္ဘာပေါ်တွင် ထယ်ဝါခန့်ညားသော အဆောက်အအုံကြီးတခု ဖြစ်သည်။

ထောင်ခဲ့ဟန်တူသည်။ ၁၂၀၀ ပြည့်နှစ်လောက်တွင် ရုရှကို တာတာ လူမျိုးတို့က နှိမ်နင်းအောင်မြင်သဖြင့် မောစကိုမြို့သည် တာတာလူမျိုးတို့ကို လက်ဆောင်ပဏ္ဏာများ ဆက်သွင်းရသော နယ်ဖြစ်ခဲ့၏။ ဤသို့ဖြင့် မောစကိုမြို့သည် တာတာလူမျိုးတို့၏ ရမ်းကားဖျက်ဆီးခြင်းမှ လွတ်မြောက်ခဲ့ပေသည်။ ၁၂၃၇ ခုနှစ်တွင် အချို့နေရာများ၌ တာတာလူမျိုးတို့ မီးရှို့ဖျက်ဆီးခြင်းကို ခံရသည်။ တဖြည်းဖြည်းနှင့်သော်ကား မောစကိုမြို့က မင်းသားများသည် အားကောင်းလာသဖြင့် တာတာလူမျိုးတို့ကို တွန်းလှန်နိုင်ခဲ့ပေသည်။ ၁၄၆၂ ခုနှစ်တွင် တတိယအိုင်ဗန်သည် ရုရှနိုင်ငံအလုံးအုပ်စိုးသော မင်းအဖြစ် နန်းတက်ပြီးသော် ၁၅၀၅ ခုနှစ် အထိ အုပ်စိုးခဲ့၏။ ၁၅၃၀ ပြည့်နှစ်မှ ၁၅၈၄ ခုနှစ်အထိ စတုတ္ထအိုင်ဗန်သည် ဇာဟူသောဘွဲ့ကို ခံယူလျက် မောစကိုမြို့ကို မြို့တော်ပြုသည်။

ထိုနောက်ပိုင်းတွင် မောစကိုမြို့သည် စစ်မြေတလင်းဖြစ်ခဲ့သည်။ ၁၅၇၁ ခုနှစ်တွင် တာတာ လူမျိုးတို့သည် မြို့ကို မီးရှို့ဖျက်ဆီးသည်။ ၁၆၀၃ ခုနှစ်မှ ၁၆၁၃ ခုနှစ် အတွင်း မောစကိုမြို့သည် ဆူပူတိုက်ခိုက်မှုများ ဖြစ်ပွားရာနေရာ ဖြစ်ခဲ့သည်။ ၁၇၀၃ ခုနှစ်တွင် ပီတာ-သ-ဂရိတ်သည် စိန်ပီတာစဗတ်သို့ မြို့တော်ကို ရွှေ့ပြောင်းလိုက်သည်တွင် မောစကိုမြို့သည် နိုင်ငံရေးအားဖြင့် အရေးမပါလှတော့ဘဲ ရှိသော်လည်း ကုန်သွယ်မှုနှင့် ယဉ်ကျေးမှု စုဝေးရာဌာန ဖြစ်လျက်ကျန်ရစ်ခဲ့ပေသည်။ ၁၈၁၂ ခုနှစ်တွင် နပိုလီယန် ဦးဆောင်သော ပြင်သစ်တပ်များ ဝင်လာရာတွင် ရုရှလူမျိုးတို့သည် မောစကိုမြို့ကို ပြင်သစ်တို့လက်သို့မရောက်ရအောင် မီးရှို့နှင့်သဖြင့် အတော်ပင်ပျက်စီးခဲ့၏။ ပြင်သစ်တို့လည်း ဆုတ်ခွာထွက်ပြေးရ၏။ ၁၉၀၅ ခုနှစ်တွင် မောစကိုမြို့၌ ဆူပူထကြွမှုဘရပ် ဖြစ်ပွား၍၊ ငြိမ်းသွားသော်လည်း၊ ၁၉၁၇ ခုနှစ်တွင် မောစကိုမြို့၌ တော်လှန်မှုအရေးအခင်းများ ဖြစ်ပွားပြန်၏။ ယာယီ အစိုးရအဖွဲ့သည် မြို့ကို ခေတ္တသိမ်းပိုက်ပြီးနောက် ဗော်လရှီဗစ်တို့အား အလျှော့ပေးလိုက်သည်။ ၁၉၁၈ ခုနှစ်တွင် ဆိုဗီယက်အစိုးရသည် မြို့တော်ကို မောစကိုမြို့သို့ ပြန်လည် ရွှေ့ပြောင်းလိုက်သည်။ ဒုတိယကမ္ဘာစစ်အတွင်းက ဂျာမန်တို့သည် မောစကိုမြို့ကို သိမ်းပိုက်ရန် အားခဲကြံစည်ခဲ့၏။ သို့သော် ဆိုဗီယက်တို့က အချိန်မီ တွန်းလှန်ဖို့ခွင်းနိုင်ခဲ့သည်။ အကြိမ် အနည်းငယ်မျှ ဂျာမန်တို့၏ ဗုံးဒဏ်ကို ခံရသည်ဆိုငြားလည်း မပြောပလောက်ပေ။ ဒုတိယကမ္ဘာစစ်ကြီး ပြီးသည့်နောက်တွင် မောစကိုမြို့သည် ကမ္ဘာပေါ်ရှိ ကွန်မြူနစ်အဖွဲ့ဝင်တို့ကို ဦးစီးကြိုးကိုင်ရာ ဒေသဖြစ်လာသည်။

မောစကိုမြို့တွင် လူဦးရေ ၁၉၅၉ နှစ် ခန့်မှန်းခြေအရ ၅,၀၃၂,၀၀၀ ခန့် ရှိလေသည်။

**မောနေယျအကျင့်။** ။ပြုနိုင်ခဲစွာဖြင့် လွန်၍ ကျင့်ရသောအကျင့်ကိုမောနေယျအကျင့်ဟုခေါ်သည်။ ထိုအကျင့်ကား ဆည်းပူးအပ်သော ပါရမီရှိမှသာလျှင် ကျင့်နိုင်သည်။

ဂေါတမမြတ်စွာဘုရားသည် မဟာသက္ကရာဇ် ၁၀၃ ခုဝါဆိုလပြည့်နေ့တွင် မိဂဒါဝုန်တော၌ ပဉ္စဝဂ္ဂီတို့အား ဓမ္မစကြာတရားဟောတော်မူပြီးလျှင်၊ လပြည့်ကျော် ၅ ရက်နေ့၌ ထို ၅ ဦးသောရဟန်းတို့ကို အနတ္တလက္ခဏသုတ်ကို ဟောတော်မူရာတွင် ၅ ဦးလုံးပင် ရဟန္တာအဖြစ်သို့ ရောက်ကြကုန်၏။ လပြည့်ကျော် ၇ ရက်နေ့သို့ ရောက်သောအခါ ဒေဝိလရသေ့၏ တူဖြစ်သော နာဠကထေရ်ရောက်လာ၍ မောနေယျအကျင့်ကို ဟောကြားတော်မူလေသည်။

နာဠကသည် ဘုရားအလောင်းဖွားစကပင် အရှင်ဒေဝိလ၏ ဆုံးမစကားကြောင့် ဘုရားလောင်းအား ရည်မှန်း၍ ကြိုတင်ရဟန်းပြုပြီးလျှင် တခုသော တောအုပ်ကို မှီ၍နေ၏။ သုံးဆဲ့ငါးနှစ်ပတ်လုံး စင်ကြယ်စွာ အကျင့်ဖြင့်နေသည့်တွင် ဘုရားပွင့်ကြောင်းကို နတ်သားတယောက်ကြားလာ၍ သိသဖြင့် မိဂဒါဝုန်တောသို့ လာပြီးသော် ဘုရားသခင်အား နိဗ္ဗာန်အလျင်အမြန်ရကြောင်း ကောင်းမြတ်သော မောနေယျပဋိပတ်ကို ဟောတော်မူပါဟုလျှောက်၏။ မြတ်စွာဘုရားလည်း ဤမောနေယျအကျင့်ကား ဆည်းပူးအပ်သောပါရမီရှိမှသာလျှင် ကျင့်နိုင်ရာသည်။ ပြုခြင်းငှါ အလွန်ခဲယဉ်းသောအကျင့်တည်း။ သင် ကျင့်လိုက ငါ ဟောကြားအံ့။ မှတ်သားနာယူ၍ ကောင်းစွာ အားထုတ်လော ဟု ဆို၍ သမာန ဘာဝံ ကြုဗ္ဗေထ အစရှိသော နှစ်ဆဲ့နှစ်ဂါထာဖြင့် ဟောတော်မူလေသည်။

အနက်ကား၊ ရွာ၌ အမျက်ထွက်ငြား ထိပါးသောသူအားရင်း၊ ကြည်ညွတ်ရိုကျိုး ရှိခိုးလာသော သူအားရင်း မုန်းချစ်မဟူ၊ အတူအမျှပြုရာ၏။ စိတ်ဖြင့် ပြစ်မှားခြင်းကို စောင့်ရာ၏။ ဝမ်းမမြောက်ဘဲ ကျင့်ရာ၏။ ဖြားယောင်းသွေးဆောင်တတ်ကုန်သော မိန်းမတို့ကြောင့် မပျက်စီးစေလင့်။ မေထုန်အကျင့်မှ ရှောင်ကြဉ်ရာ၏။ ကာမဂုဏ် ငါးပါးတို့ကို စွန့်ရာ၏။ ရန်မူတတ်သော သတ္တဝါတို့အား ဆန့်ကျင်မှု မပြုရာ။ ကြင်နာသော သတ္တဝါတို့၌ တပ်မက်ခြင်းမရှိရာပေ။ သတ္တဝါအပေါင်းတို့အား မိမိကိုယ်ကဲ့သို့ ထပ်တူ ဥပမာကိုပြု၍ မထိပါးရာ၊ မညှဉ်းဆဲရာ။

မရသေးသော ပစ္စည်း လေးပါး၌ လိုချင်တပ်မက်သော တဏှာကိုရင်း၊ ရပြီးသည်ကို မဖိတ်မယို လိုချင်မက်မောသော လောဘကိုရင်း ပယ်စွန့်၍၊ ပညာမျက်စိဖြင့် ဆင်ခြင်ရာ၏။ ဝမ်းပြည့်ရုံမျှ အစာအာဟာရကို ပိုင်းခြား၍ စားရာ၏။ အလိုနည်းခြင်း၊ မလျှပ်ပေါ်ခြင်းတို့ ဖြစ်ရာ၏။

မောနေယျအကျင့်ကို ကျင့်သော ရဟန်းသည် ရွာသို့ဆွမ်းခံဝင်၍ ဆွမ်းစားပြီးလျှင် တောသို့သာလျှင် ရှေးရှု

သွားရာ၏။ သစ်ပင်ရင်း၌သာ မလျှောင်းမစက် ထက်ဝယ်ထိုင်၍သာ စျာန်တရားတို့ကို ပွားများရာ၏။ နံနက်လင်းသောအခါ ရွာတွင်းသို့ ဆွမ်းခံဝင်သော ကျင့်ဝတ်ကို ပြုရာ၏။ ဆွမ်းခံဝင်သောအခါ ကမ္မဋ္ဌာန်းကို နှလုံးသွင်း၍ သွားရာ၏။ အိမ်၌ ဆွမ်းစားပင့်ခေါ်ခြင်းကို မနှစ်သက်ရာ။ ရွာတွင်း၌ ဒါယကာတို့နှင့်ရောနှော၍ မနေအပ်ပေ။ စကားကို ပြတ်ပြတ် ပြောရာ၏။ အစားအဝတ် ရှာခြင်းနှင့်စပ်သော ပရိယာယ် အရိပ်နိမိတ်စကားကိုမျှ မဆိုရာ။

စိုးစဉ်းမျှသောဝတ္ထုကို ရသည်ဖြစ်စေ၊ မရသည်ဖြစ်စေ မည်သို့မျှ ဖောက်ပြန်ခြင်း မရှိဘဲ သစ်ပင်ကဲ့သို့ လျစ်လျူပြုရာ၏။ သပိတ်ကိုပိုက်၍ သွားသည်ရှိသော် အနေဘိသကဲ့သို့ ပြုရာ၏။ အနည်းငယ်မျှ လှူခြင်းကို မရှုတ်ချရာ၊ လှူသောသူကို မထေမဲ့မြင်မပြုရာ စသည်တို့ဖြစ်သည်။

နာဠကလည်း ဘုရားဆုံးမသော ဩဝါဒအတိုင်း မှတ်နာ၍ အားထုတ်ကျင့်ကြံသဖြင့် ၇ လတိုင်လျှင် အရဟတ္တဖိုလ်ကို ရပြီးနောက် တခုသောရွှေတောင်ကို မှီလျက် ပရိနိဗ္ဗာန်ပြုလေသည်။

ဘုရားတဆူတဆူတွင် မောနေယျ ကျင့်သူတယောက်သာ ရှိမြဲဖြစ်၏။ ဤနာဠကကား ဥက္ကဋ္ဌကျင့်သောကြောင့် ကျင့်သည့်နေ့မှ ၇ လ သာ အသက်ရှည်သည်။ မဇ္ဈိုကျင့်သော် ၇ နှစ်၊ မုဒုံကျင့်သော် ၁၂ နှစ် အသက်ရှည်သည်။

မောရှေ။ ။မိုးဇက် — ရှု။

**မောလျဲ** (ခရစ် ၁၆၂၂ – ၁၆၇၃)။ ။မောလျဲသည် ပြင်သစ်လူမျိုး ကမ္ဘာကျော် စာရေးဆရာဖြစ်၏။ အထူးသဖြင့် ဟာသပြဇာတ်များ ရေးရာတွင် ပြောင်မြောက်သည်။ မောလျဲဟူသည်မှာ ကလောင်အမည်ဖြစ်၍ စာဆို၏အမည်ရင်းကား ဂျီအင်း ဗက်ပတစ် ပေါကလင် ဖြစ်၏။

မောလျဲသည် ၁၆၂၂ ခုနှစ် ဇန္နဝါရီလတွင် ပါရစ်မြို့၌ မွေးဖွားသည်။ သူ၏ ဖခင်မှာ အိမ်ထောင်ပရိဘောဂ လုပ်ငန်းပိုင်ရှင်ဖြစ်ကာ နန်းတွင်းသုံး ပရိဘောဂကို ဆက်သွင်းရန် ဘုရင်က ခန့်အပ်ခြင်းခံရသောကြောင့် တော်သုံး ပရိဘောဂ လုပ်ငန်းရှင်လည်း ဖြစ်သည်။ ငယ်စဉ်က ဂျက်ဇူးအစ်ကောလိပ်ကျောင်း တကျောင်းတွင် ပညာဆည်းပူးခဲ့၏။ ဂရိပညာရှင်တို့၏ သဘာဝတ္တဗေဒများကို သင်ယူလေ့လာဘူးသည်။ ထိုပြင် ဥပဒေပညာကိုလည်း သင်ယူခဲ့သည်။ သို့သော် မောလျဲသည် မိမိသင်ယူသော ဥပဒေပညာဖြင့်၎င်း၊ ဖခင်၏ လုပ်ငန်းကို ဆက်လက်လုပ်ကိုင် ခြင်းဖြင့်၎င်း ပရိယေသနဝမ်းရေးကို မရှာမှီးဘဲ၊ အသက် ၂၁ နှစ်အရွယ် ၁၆၄၃ ခုနှစ်တွင် မက်ဒလင်းဗေးဇား ဆွေမျိုးစု၏ ဇာတ်အဖွဲ့တွင် ဝင်ရောက်ပြီးသကာလ သူ၏ ဘဝသက်တမ်းတလျှောက်လုံးတွင်



လူတို့၏ ချွတ်ယွင်းချက်ကို ဟာသပြဇာတ်များဖြင့် သရော်ခဲ့သူ ကမ္ဘာကျော် ပြင်သစ်စာရေးဆရာကြီး မောလျဲ

ပြဇာတ်များကိုရေး၊ ကိုယ်တိုင်လည်းပါဝင်ကပြခဲ့ရာ၊ ကွယ်လွန်သည့်အခါတွင်လည်း ပြဇာတ်အပြီး နာရီဝက်အဘွင်းပင် ကွယ်လွန်ခဲ့သည်ဖြစ်သောကြောင့် ပြဇာတ်လောကတွင်သာ ကျင်လည်ခဲ့သည်ဟု ဆိုရပေမည်။

ပြဇာတ်လောကတွင်းသို့ ဝင်ရောက်သည့် အချိန်မှစ၍ပင် မောလျဲဟူသောအမည်ကိုယူကာ ယခုတိုင် ထိုအမည်ဖြင့် ထင်ရှားသည်။ ပြဇာတ်လောကတွင်းသို့ ဝင်ရောက်ပြီးနောက် ၂ နှစ် အတွင်း၌ မောလျဲအဖွဲ့ အခြေမလှခဲ့သေးပေ။ ပါရစ်မြို့တွင် အခက်အခဲများစွာနှင့် ရင်ဆိုင်ခဲ့ရ၏။ ထိုနောက် မောလျဲတို့လူစုသည် နယ်များသို့ လှည့်လည်ကပြသောအဖွဲ့တွင် ပါဝင်ကပြခဲ့၏။ နောင်သော် မောလျဲသည် ထိုအဖွဲ့၏ ဦးစီးခေါင်းဆောင်ဖြစ်လာသည်။ မောလျဲသည် ၁၃ နှစ်မျှ ဤသို့ လှည့်လည်ကပြခဲ့ရာတွင် ဗဟုသုတ များစွာရရှိခဲ့၏။ သူတို့၏အဖွဲ့သည် ပါရစ်မြို့သို့ ပြန်လည်ရောက်ရှိ၍ ၁၄ ဆက်မြောက် လူဝီဘုရင်၏ ရွှေတော်မှောက်၌ ကပြ အသုံးတော်ခံရာတွင် ဘုရင်မင်းမြတ်က နှစ်ခြိုက်တော်မူရကား မောလျဲတို့ ဇာတ်အဖွဲ့ကို ပါရစ်မြို့တော်တွင် နေစေကာ ဘုရင့်ဇာတ်ရုံတွင် အမြဲတမ်း ကပြစေခဲ့သည်။ သို့အားဖြင့် ၁၆၅၈ ခုနှစ်မှစ၍ မောလျဲတို့ အဖွဲ့သည် အခြေခိုင်မြဲလာခဲ့၏။ မောလျဲသည် ၁၆၆၂ ခုနှစ် ဖေဖွာရီလတွင် မက်ဒလင်းဗေးဇား၏ ညီမ အာမန်ဒီဗေးဇားနှင့် လက်ထပ်သည်။ သို့သော် သူတို့၏ အိမ်ထောင်ရေးသည် သာယာ

ချမ်းမြေ့ခြင်း မရှိသဖြင့် အိမ်ထောင်သုခကို မခံစားရပေ။ မောလျဲသည် ထိုအချိန်တွင် ပြဇာတ်အဖွဲ့၏ ဦးစီးခေါင်းဆောင် ဖြစ်နေခဲ့ပေပြီ။ မောလျဲသည် ပြဇာတ်သဘင်သည် အနေဖြင့် ပဌမတန်းစားဖြစ်ကာ ပြဇာတ်အဖွဲ့ကို ဦးဆောင်စီမံရာ၌လည်း အလွန်နိုင်နင်းသည်ဟု ဆို၏။ မောလျဲသည် မင်းခမ်းမင်းနားများ၌ ဘုရင်မင်းမြတ် ရှေ့တော်မှောက်၌ ကပြ အသုံးတော်ခံရသည့်အခါလည်း ရှိ၏။ ဇာတ်ညွှန်းများကို ရေးရသည့်အခါများလည်း ရှိ၏။ ဤသို့ ကပြရာ၌ မောလျဲသည် အသောခန်းများတွင် ပါဝင်ကပြ၏။ ၁၆၅၉ ခုနှစ်မှသည် သူကွယ်လွန်သည့် ၁၆၇၃ ခုနှစ် အထိ ပြဇာတ်ပေါင်း ၂၀ ခုရေးသားခဲ့လေရာ၊ယင်းတို့အနက် ထင်ရှားသော ပြဇာတ်တို့ကား 'ရယ်ဖွယ်ကောင်းသော အပြာရောင် ခြေစွပ်ရှည်'(၁၆၅၉)၊'တားတပ်'(၁၆၆၄)၊'လူတို့ကိုမုန်းတီးသူ'(၁၆၆၆)၊ 'ဆရာဝန်ပါဘဲ' (၁၆၆၆)၊ 'စေးနဲသူ' (၁၆၆၈)၊ 'မဟာ ဆန်ချင်သူ'၊ 'ပညာတတ်အမျိုးသမီးများ'၊ 'အတွေးဖြင့်မမာသူ' (၁၆၇၃) စသည်တို့ဖြစ်၏။

'ဆရာဝန်ပါဘဲ' ပြဇာတ်သည် ဆရာဝန်တို့ကို စောင်းမြောင်းပြောင်လှောင် ရေးသားထားသော ပြဇာတ် ဖြစ်သည်။ ယင်းကို သခင်ဘသောင်းက မြန်မာဘာသာသို့ ပြန်ဆိုထားပေသည်။

'မဟာဆန်ချင်သူ' ပြဇာတ်မှာ ကြွယ်ဝသော ကုန်သည်တဦးက မှူးမတ်သူကောင်းဟန် ပြုမူနေပုံကို သရုပ်ပြထားပေသည်။ ယင်းကို ဦးသိန်းဟန်က 'ဇော်ဂျီ' ကလောင်အမည်ဖြင့် ဆီလျော်အောင် မြန်မာ ဘာသာသို့ ပြန်ဆိုထားလေသည်။

ပြင်သစ်နိုင်ငံတွင် ထိုခေတ် ထိုအခါက အမျိုးကောင်းသား အမျိုးကောင်းသမီးတို့သည် ပညာတတ်များ အသွင်ဆောင်လိုသောအလေ့ ခေတ်စားနေ၏။ ဤသည်ကို မောလျဲသည် 'ပညာတတ်အမျိုးသမီးများ' ပြဇာတ်တွင် သရုပ်ဖော်ထား၏။

မောလျဲနောက်ဆုံး ရေးသားကပြသော ပြဇာတ်သည် 'အတွေးဖြင့် မမာသူ' ပြဇာတ်ဖြစ်၏။ ထိုစဉ်က မောလျဲသည် ကိုယ်တိုင်ကောင်းစွာ မမာမကျန်းဖြစ်နေ၏။ ထိုပြဇာတ်တွင်ပါဝင်ကပြ၍ ပြီးသည်နောက် နာရီဝက်အတွင်းပင် ကွယ်လွန်ခဲ့သည်။ ထိုနေ့ကား ၁၆၇၃ ခုနှစ် ဖေဖွာရီလ ၁၇ ရက်နေ့ဖြစ်သည်။

မောလျဲသည် ပြဇာတ်များ ရေးရာတွင် အလွမ်းနှင့် အသောကို ဆီလျော်အောင် တွဲဖက်နိုင်မှုကြောင့် သူ့ကို ရှိတ်စပီးယားနှင့် နှိုင်းတတ်ကြပေသည်။ သို့သော် ရှိတ်စပီးယားကဲ့သို့ လူ့လောက သဘာဝကို လေးလေး နက်နက် သုံးသပ်




မောလျဲ၏ပြဇာတ်များကို ဤကဲ့သို့ခမ်းနားစွာ ပြင်ဆင်ကပြခဲ့ကြသည်။



မောလျဲရေးသားသော ''မဟာဆန်ချင်သူ'' ပြဇာတ်မှ စိတ်ရွှင်မြူးဖွယ်ရာ သရော်ထားသော ဇာတ်ကွက်တခု

ခြင်း၊ စိတ်ကူးယဉ်ခြင်းမျိုးမရှိ၊ ကဗျာလည်းမဆန်ပေ။ မောလျဲသည် ဟန်ဆောင်မှုလောကကို သဘောနှင့် မတွေ့ရကား အယောင်ဆောင်သမားတို့ကို မိမိရရထေ့ငေါ့ ပြောင်လှောင်တတ်ပေသည်။ သို့ဖြစ်လေရာ အထေ့အငေါ့ အပြောင် အလှောင်ခံရသူတို့သည် မောလျဲအား ရန်ငြိုးဖွဲ့ကြသည်။ သို့သော် မောလျဲသည် ဘုရင်မင်းမြတ်နှင့် သင့်မြတ်သည့် အတွက် ဘုရင်၏ကာကွယ်မှုကို ရသဖြင့် မလိုသူတို့၏ဘေးရန်မှ လုံခြုံ၏။ မောလျဲ၏ ပြဇာတ်များသည် သူ၏ ခေတ်ကို ရောင်ပြန်ဟပ်စေသော ခေတ်ပြကြေးမုံသဖွယ် ဖြစ်၏။ မောလျဲသည် သူမြင်ရ၊ ကြားရသည်တို့ကို အခြေခံ ပုံကာဇာတ်အိမ်ဖွဲ့၏။ လူအမျိုးမျိုးတို့၏အပြစ်ကို မြင်လည်းမြင်၊ သရုပ်ပါအောင်လည်း ဖော်ပြ၏။ မည်သည့် လူတန်းစားမျှ သူ၏ အပြောင်အလှောင် ခံရခြင်းမှ မလွတ်ကင်းခဲ့ပေ။ ဤသို့ ပြောင်လှောင်ရေးသားသည်မှာလည်း လူအများ မိမိတို့ကိုယ် မိမိတို့ပုံပြင်နိုင်ကြစေရန် ရည်သန်၍ ခေတ်ပြင် ဆရာအနေနှင့် ရေးသားခြင်းဖြစ်၏။ ထိုကြောင့် နှစ်ပေါင်း ၃၀၀ ကျော်လွန်ပြီဖြစ်သော်လည်း သူ၏စာပေတို့ကား ယနေ့တိုင် မရိုးနိုင်သေးပေ။

မိုဟမ္မဒ်။ ။မိုဟမ္မဒ် သခင်သည် အလ္လာဟ် အရှင်မြတ်၏ တမန်တော်ဖြစ်သည်။ ယခင်နှစ်ပေါင်း ၁၃၀၀ ကျော်က၊ ကမ္ဘာသူကမ္ဘာသား အားလုံးတို့ကို ကရုဏာတရား ပွားများ၍ နှစ်ဘဝ၏ သုခချမ်းသာ အဖြာဖြာကို ရစိမ့်သောငှါ အလ္လာဟ်အရှင်မြတ်သည် တမန်တော် အပေါင်းတို့၏ အချုပ်ဖြစ်သော ကမ္ဘာ့ ကရုဏာရှင် တမန်တော်မြတ် မိုဟမ္မဒ် သခင်ကို နောက်ဆုံး တမန်တော်အဖြစ် စေလွှတ်တော်မူခဲ့သည်။ ကမ္ဘာတည်ရှိသမျှ ကာလပတ်လုံး တွေ့ကြုံရမည့် ပြဿနာအရပ်ရပ်ကို တိကျ ပြတ်သားစွာ ဖြေရှင်းပေးနိုင်ရန် အလို့ငှါ ကျမ်းဂန် အပေါင်းတို့၏ အချုပ်ဖြစ်သော ကုရ်အာန်ကျမ်း (ကိုရန်ကျမ်း) မြတ်ကိုလည်း တမန်တော် မိုဟမ္မဒ်ထံသို့ ထုတ်ပြန် ပို့ချတော်မူခဲ့လေသည်။ (ကိုရန်ကျမ်း — ရှု။)

မိုဟမ္မဒ်သခင်သည် ခရစ် ၅၇၁ ခုနှစ်၊ ဧပြီလ ၂၀ ရက်၊ ရဗီအုလ်အောင်ဝါလ်လ ၉ ရက် တနင်္လာနေ့တွင် အာရေဗျပြည်၊ မက္ကာမြို့၌ ဖွားမြင်ခဲ့သည်။ ခမည်းတော်မှာ အစ်ဒုလ္လာဟ်ဖြစ်၍၊ မယ်တော်မှာ အာမေနဟ်ဖြစ်သည်။ ဘိုးတော်မှာ အစ်ဒုလ်မွတ်တွလစ်ဗ်ဖြစ်သည်။ မိုဟမ္မဒ်သခင်သည် အာရေဗျပြည်တွင် အမြင့်မြတ်ဆုံးသော ကိုရိုက်ရှ် အမျိုးအနွယ်မှ ဆင်းသက်လာသည်။

ခမည်းတော်သည် မိုဟမ္မဒ်သခင် မဖွားမြင်မီကပင် ကွယ်လွန်ခဲ့၍၊ တမန်တော်မြတ် ၆ နှစ် အရွယ်တွင် မယ်တော်သည်လည်း ကွယ်လွန်ခဲ့ပြန်သဖြင့် ပဌမဘိုးတော်၊ ထိုနောက်

ဘကြီးတော် အဗူတွာလစ်ဗ်တို့၏ ထိန်းသိမ်းစောင့်ရှောက်မှုဖြင့် ကြီးပြင်းလာခဲ့ရလေသည်။

မိုဟမ္မဒ်သခင်သည် ငယ်ရွယ်စဉ်ကပင် ကူးသန်း ရောင်းဝယ်လေ့ ရှိခဲ့သည်။ ကူးသန်း ရောင်းဝယ်ရာတွင် မိုဟမ္မဒ်သခင်၏ ဆက်ဆံမှု ပြေပြစ် ကောင်းမွန်ပုံ၊ သန့်ရှင်းပုံ၊ မှန်ကန်၍ သစ္စာသမာဓိရှိပုံ၊ တရားမျှတ မြင့်မြတ်ပုံတို့သည် အဖက်ဖက်တွင် ကျော်ကြား ပျံ့နှံ့ခဲ့၏။ ရောင်းဝယ်မှုနှင့် စပ်လျဉ်း၍ မိုဟမ္မဒ်သခင်နှင့်ဆက်ဆံခဲ့ဘူးသူတိုင်းသည် မိုဟမ္မဒ်သခင်အား မချီးကျူးဘဲ မနေနိုင်ခဲ့ပေ။

မိုဟမ္မဒ်သခင်သည် ၂၅ နှစ်အရွယ်တွင် ခဒီဂျဟ် သခင်မနှင့် ထိမ်းမြားခဲ့သည်။ ခဒီဂျဟ်သခင်မသည် ဂုဏ်သရေရှိ အမျိုးသမီးတဦးဖြစ်၍ မိုဟမ္မဒ်သခင်၏ ဦးရီး၏သမီးလည်း ဖြစ်၏။ ထိုပြင် ခဒီဂျဟ်သခင်မသည် မုဆိုးမဖြစ်၍ မိုဟမ္မဒ်သခင်နှင့် ထိမ်းမြားသည့် အချိန်တွင် အသက် ၄၀ ရှိနေလေပြီ။ ခဒီဂျဟ်သခင်မသည် မိုဟမ္မဒ်သခင်အား အသက်ထက်ဆုံး ဇနီးကောင်းပီပီ အေးအတူ ပူအမျှ ကူညီအားပေးခဲ့လေသည်။

မိုဟမ္မဒ်သခင်သည် တမန်တော် ဂုဏ်ထူးဖြင့် ချီးမြှင့်တော်မူခြင်း မခံရမီကပင် မဲမှောင်နေသော ညဉ့်တွင် ထွက်ပေါ်လျက်ရှိသော ကြယ်ပမာ၊ မသူတော်တို့အလယ်တွင် သူမတူသော သူတော်စင် ဖြစ်ခဲ့၏။ ကလေးဘဝတွင်ငှင်း၊ ပျိုရွယ်သည့် ဘဝတွင်ငှင်း ယှဉ်တွဲကိုးကွယ်မှုနှင့်အမိုက်ခေတ်၏ မလေ့ ထုံးစံများကို လုံးဝ ရှောင်ကြဉ်ခဲ့သည်။ မိုဟမ္မဒ်သခင်သည် တမန်တော် ဂုဏ်ထူးဖြင့် ချီးမြှင့်တော်မူခြင်းခံရဖို့ အချိန်နီးကပ်လာသည်နှင့် အမျှ တကိုယ်တည်းထီး နေလာခဲ့၏။ အစစအရာရာ တွေးတော ဆင်ခြင် သုံးသပ်ခဲ့၍ မက္ကာမြို့အနီးရှိ 'ဟိရာ' လိုဏ်ဂူတွင် သွားရောက်၍ တရားအားထုတ်ခဲ့၏။ မှန်ကန်သော အိပ်မက်များကို စတင်မြင်မက်လာခဲ့လေသည်။

တနေ့သော် မိုဟမ္မဒ်သခင်သည် ဟိရာလိုဏ်ဂူတွင် တရားအားထုတ်နေစဉ် ကောင်းကင်တမန် ဂျစ်ဗ်ရီလ် ကြွရောက်လာပြီးလျှင်၊ ဦးစွာပဌမ ကုရ်အာန်ကျမ်းလာ အောက်ပါ မုက္ခပါဌ်တော်ကို ထုတ်ပြန် ပို့ချတော်မူလေသည်။

"အသင်သည် မိမိအား မွေးမြူဖန်ဆင်းတော်မူသော အသျှင်၏ နာမ်တော်ဖြင့် အစပြု၍ (ကုရ်အာန်)ရွတ်ဖတ်သရဇ္ဈာယ်ပါလေ၊ ထိုအသျှင်သည် (ကမ္ဘာ့အဝှန်းကို) ဖန်ဆင်းတော်မူ၏။ ထိုအသျှင်သည် လူသားကို သွေးခဲတခုဖြင့် ဖန်ဆင်းတော်မူ၏။ အသင်သည် (ကုရ်အာန်)ရွတ်ဖတ်သရဇ္ဈာယ်ပါလေ၊ အသင့်အား မွေးမြူတော်မူသော အသျှင်သည် အလွန်တရာ နူးညံ့သိမ်မွေ့ ရက်ရောတော်မူသော အသျှင် ဖြစ်တော်မူ၏။ ထိုအသျှင်သည် (လူသားကို) '(ကလမ်)' မင်တံဖြင့် (အသိပညာကို) သင်ကြားပေးတော်မူ၏။ ထိုအသျှင်သည် လူသားအား ထို(လူသား)မသိသော အရာများကို သင်ကြားပေးတော်မူ၏။"

ကုရ်အာန်(၉၆၊ ၁--၅)

ထိုနေ့မှာ ခရစ် ၆၁၀ ပြည့်နှစ်၊ ရမ္ဗဇာန်လ ၁၇ ရက်နေ့ ဖြစ်သည်။ ထိုအချိန်တွင် တမန်တော်မြတ်၏ သက်တော်မှာ ၄၀ ရှိလေပြီ။

တမန်တော်မြတ်သည် ဦးစွာ၌ အစ္စလာမ်သာသနာကို မိမိ မိတ်ဆွေရင်းချာတို့ကိုသာ လျှို့ဝှက်စွာ ဟောကြားခဲ့ရသည်။ မိမိနှင့်တကွ အနည်းငယ်မျှသော နောက်လိုက်ငယ်သားတစုတို့သည် ဆွလာတ်ဝတ်ပြုမှုကိုပင် လျှို့ဝှက်စွာ ဆောက်တည် ခဲ့ကြရလေသည်။

တမန်တော်မြတ်၏ ဟောကြားချက်အရ အစ္စလာမ်သာသနာကို အမျိုးသမီးများအနက် ခဒီဂျဟ်သခင်မ၊ အမျိုးသားတို့အနက် သာဝကကြီး အဗူဗတ်က်ရ်သခင်၊ သူငယ်များအနက် သာဝကကြီး အလီသခင်နှင့် ကျွန်များအနက် သာဝကကြီး ဇိုက်ဒ် သခင် စသည်တို့သည် ဦးစွာပဌမ သက်ဝင်ယုံကြည်လာခဲ့ကြလေသည်။

အစ္စလာမ် သာသနာထွန်းကားစအချိန်တွင် မွတ်စလင်မ်ဦးရေမှာ အနည်းငယ်မျှသာ ရှိခဲ့၏။ ထိုနောက်တွင် တဖြည်းဖြည်း များလာခဲ့ပေသည်။ အစ္စလာမ် သာသနာကို သက်ဝင်ယုံကြည်ရာတွင် လူတန်းစား အသီးအသီး ပါဝင်ခဲ့၍ ဆင်းရဲသားများသည် အများဆုံး ပါဝင်ခဲ့ကြပေသည်။

တမန်တော်မြတ်သည် ၃ နှစ်တိုင်တိုင် အစ္စလာမ်တရားကို အထူး လျှို့ဝှက်စွာဖြင့် ဟောကြားတော်မူခဲ့ရလေသည်။ ထိုနောက်တွင် အတည့်အလင်း ဟောကြားရန် အမိန့် ကျရောက်လာသည့်အခါ ကိုရိုက်ရှ်မျိုးနွယ်ဝင်တို့အား ဖိတ်ကြား၍ 'စွဖာ' တောင်ထိပ်မှ ဦးစွာပဌမ အစ္စလာမ်တရားကို ပွင့်လင်းစွာ ဟောကြားခဲ့သည်။ ထိုနေ့မှစ၍ အရဗ်မိစ္ဆာဝါဒီတို့လည်း တမန်တော်မြတ်နှင့်တကွ မွတ်စလင်မ်တို့အား ဆန့်ကျင်လာခဲ့ကြပေသည်။

အစ္စလာမ် သာသနာ ထွန်းကားခါစ အချိန်တွင် မွတ်စလင်မ် ဖြစ်ရသည်မှာ မလွယ်ကူလှပေ။ အမျိုးမျိုး အဖုံဖုံ နှိပ်စက်ညှဉ်းပန်းခြင်း ခံခဲ့ကြရလေသည်။ မွတ်စလင်မ်တို့သည် မက္ကာမြို့တွင် နေထိုင်၍ အစ္စလာမ်၏ ကျင့်စဉ် ကျင့်ရပ်များကို လွတ်လပ်စွာ မကျင့်သုံးနိုင်ခဲ့ကြပေ။ ကိုရိုက်ရှ်မျိုးနွယ်ဝင်များ၏ နှိပ်စက် ညှဉ်းပန်းမှုများသည် တနေ့တခြား များပြားလာခဲ့၏။ နောက်ဆုံးတွင် တမန်တော်မြတ်၏ ညွှန်ကြားချက်အရ တမန်တော်ဖြစ်ပြီး ပဉ္စမနှစ်တွင် အချို့မွတ်စလင်မ်များသည် မိမိတို့ အမိတိုင်းပြည်ကိုပင် စွန့်၍ အီသီအိုးပီးယားနိုင်ငံသို့ ရွှေ့ပြောင်း သွားခဲ့ကြရလေသည်။

ရန်သူများသည် မည်မျှ အနှောင့်အရှက် ပေးခဲ့ကြသော်လည်း အစ္စလာမ် သာသနာသည် တနေ့တခြား ကျယ်ပြန့်

တိုးပွားလာခဲ့၏။ ဤသည့် အခြင်းအရာကို တွေ့မြင်ရသော အခါ ကိုရိုက်ရှ် မျိုးနွယ်ဝင်များသည် တမန်တော်မြတ်နှင့် တကွ တမန်တော်မြတ်၏ ဆွေမျိုးသားချင်းများကို တနေရာ တဌာနတွင် ဝိုင်းဝန်း၍ လုံးဝချေမှုန်းရန် ကြံစည်ခဲ့သည်။ ထိုအကြံအစည်ကို ထမြောက် အောင်မြင်စေရန် အတွက် မည်သူ တဦးတယောက်မျှ (တမန်တော်မြတ်၏ ဆွေမျိုးဖြစ်သော) ဟာရှင်မ်မျိုးနွယ်နှင့် သားသမီးချင်း ဆက်ဆံခြင်း မပြုရ၊ အရောင်းအဝယ်လည်း မပြုရ၊ မတွေ့ဆုံ မဆက်ဆံရ။ မည်သူ တဦးတယောက်မျှ ဟာရှင်မ်၏မျိုးနွယ်များကို စားဖွယ်သောက်ဖွယ် ပစ္စည်း တစုံတရာ မပေးရ၊ (တမန်တော်မြတ်) မှိုဟမ္မဒ် သခင်အား သတ်ဖြတ်ရန် မိမိတို့ လက်သို့ မအပ်သမျှ ကာလပတ်လုံး အတည်ဖြစ်စေရမည်ဟု စာချုပ်တခုကို ချုပ်ဆိုခဲ့ကြသည်။ ဤစာချုပ်ကို "ကအ်ဗဟ်" ကျောင်း တော်တွင် ချိတ်ဆွဲ ထားခဲ့ကြလေသည်။

တမန်တော်မြတ်နှင့်တကွ ဟာရှင်မ်၏ မျိုးနွယ်အားလုံးတို့သည် ၃ နှစ်တိုင်တိုင် ယင်းသည့် ဝိုင်းပယ်မှုကြောင့် ဒုက္ခအမျိုးမျိုး ခံစားခဲ့ကြရသည်။ ထိုအချိန်တွင် အလ္လာဟ် အရှင်မြတ်သည် ဘေးကင်းသောဌာနဖြစ်သည့် မဒီနာမြို့သို့ မွတ်စလင်မ်တို့အား ရွှေ့ပြောင်း နေထိုင်ရန် အမိန့်တော် ပေးတော်မူခဲ့ရာ၊ မွတ်စလင် အများပင် မက္ကာမြို့တော်မှ မဒီနာမြို့သို့ ရွှေ့ပြောင်းသွားခဲ့ကြသည်၊ သို့သော် တမန်တော်မြတ်မှာ အလ္လာဟ် အရှင်မြတ်ထံမှ ရွှေ့ပြောင်းခွင့် အမိန့်တော် မရသေးချေ။

"နဗဝီ" နှစ် ၁၃ နှစ် အစတွင် တမန်တော်မြတ်သည် ကိုရိုက်ရှ် မျိုးနွယ်အုပ်စုနှင့်တကွ အခြား မျိုးနွယ် အုပ်စုများက မိမိအား လုပ်ကြံသတ်ဖြတ်ရန် စီစဉ်ထားသည့် ညဉ့်၌ "ဟစ်ဂျရတ်" ပြုရန် အမိန့်တော် ရရှိပြီးဖြစ်သည့် အတိုင်း သာဝကကြီး အဗူဗတ်က်ရ်နှင့်အတူ အခက်အခဲပေါင်း မြောက်မြားစွာတို့ကို ကျော်လွန်ကာ မဒီနာမြို့သို့ ရွှေ့ပြောင်း သွားတော်မူလေသည်။ မဒီနာမြို့နှင့် ၃ မိုင်အကွာရှိ "ကိုဗာ" အရပ်သို့ နဗဝီနှစ် ၁၃ ခု၊ ရဗီအုလ်အောင်ဝါလ်လ ၈ ရက်၊ ခရစ် ၆၂၂ ခုနှစ် စက်တင်ဘာလ ၂၀ ရက်နေ့တွင် ရောက်ရှိကာ၊ ထိုအရပ်တွင် ၁၄ ရက် ရပ်နားပြီးလျှင် မဒီနာမြို့သို့ ကြွသွားတော်မူလေသည်။

တမန်တော်မြတ်ကို မဒီနာမြို့နှင့် ပတ်ဝန်းကျင်ရှိ မွတ်စလင်မ်တို့သည် သောင်းသောင်းဖြဖြ ကြိုဆိုခဲ့ကြသည်။ တမန်တော်မြတ်သည် မဒီနာမြို့တွင် အတည်တကျ နေထိုင်ပြီးနောက် ဦးစွာပဌမ ပလီဝတ်ကျောင်းကို တည်ဆောက်ခဲ့၏။ ထိုပလီဝတ်ကျောင်းမှာ အပြင်အဆင်မပါ၊ နံရံမှာ အုတ်စိမ်းများဖြင့် ပြုလုပ်ထား၍ အမိုးမှာ စွန်ပလွံရွက်၊ တိုင်များမှာ စွန်ပလွံတိုင်ဖြစ်သည်။

ထို့နောက် တမန်တော်မြတ်သည် မက္ကာမြို့တော်မှ ရွှေ့ပြောင်းလာကြသော "မှိုဟာဂျေ့ရီန်" မွတ်စလင်မ်များနှင့် မဒီနာမြို့ခံ "အန်ဆွာရ်" များ၏ စပ်ကြားတွင် "မိုဝါခါတ်" ညီနောင် ဖွဲ့ပေးခဲ့လေသည်။

ကိုရိုက်ရှ် မျိုးနွယ်ဝင်များသည် တမန်တော်မြတ်နှင့်တကွ မွတ်စလင်မ်တို့ကို စိတ်ရှိသမျှ ဆန့်ကျင်ခဲ့ကြရသော်လည်း တင်းတိမ်ရောင့်ရဲခြင်း မရှိကြသေးပေ။ မဒီနာမြို့ကို တိုက်ခိုက်၍ အစ္စလာမ်ကို လုံးဝ ပပျောက်သွားသည်အထိ တိုက်ဖျက်ရန် ကြိုးစားခဲ့ကြပြန်သည်။

မွတ်စလင်မ်တို့နှင့် မက္ကာမြို့သား ကာဖိရ် (မိစ္ဆာဒိဋ္ဌိ) များ စပ်ကြားတွင် စစ်ပွဲများ ဖြစ်ပွားခဲ့၏။ ဟစ်ဂျရီ သက္ကရာဇ် ၂ ခုနှစ်တွင် ဗဒ်ရ်စစ်ပွဲ ဖြစ်ပွားသည်။ ဟစ်ဂျရီ သက္ကရာဇ် ၃ ခုနှစ်တွင် အိုဟွဒ်စစ်ပွဲ၊ ဟစ်ဂျရီသက္ကရာဇ် ၅ ခုနှစ်တွင် ခန္ဒာက် စစ်ပွဲ ဖြစ်ပွားခဲ့၏။ ယင်းစစ်ပွဲများ ဖြစ်ပွားရာ ဌာနများကို ထောက်ရှုခြင်းဖြင့် ကာဖိရ်များက မွတ်စလင်မ်တို့ နေထိုင်ရာ ဒေသသို့ လာရောက် ကျူးကျော်တိုက်ခိုက်ခဲ့ကြသည်မှာ ထင်ရှားသည်။

တမန်တော်မြတ်သည် ဟစ်ဂျရီ သက္ကရာဇ် ၈ ခုနှစ်တွင် မက္ကာမြို့တော်ကို ပြန်လည်အောင်နိုင်ခဲ့ပေသည်။ တမန်တော်မြတ်သည် မိမိနှင့်တကွ မိမိ၏ နောက်လိုက်တို့အား အမျိုးမျိုးအဖုံဖုံ ရက်ရက်စက်စက် ညှဉ်းပန်းနှိပ်စက်ခဲ့ကြသော မက္ကာမြို့သားတို့အား ပြန်လည်အောင်နိုင်သည့် အခါ ရန်သူအားလုံးကို လက်စားချေခြင်း မပြုဘဲ၊ သဘောထားကြီးစွာဖြင့် ခွင့်လွှတ်ခဲ့လေသည်။

ဟစ်ဂျရီ သက္ကရာဇ် ၁၀ ခုနှစ်၊ ဇုလ်ဟစ်ဂျဂျယ်လ ၁၀ ရက်၊ ခရစ် ၆၃၂ ခုနှစ်၊ မတ်လ ၈ ရက်နေ့တွင် တမန်တော်မှိုဟမ္မဒ်သခင်သည် နောက်ဆုံး ဟဂျ်ပြုပြီး မိနာအမည်ရှိသော မြို့သို့ ရောက်ရှိနေလေသည်။ ထိုမြို့တွင် ရောက်ရှိနေသော ၁၄၀,၀၀၀ ခန့် လူထုကြီးအား တမန်တော်မြတ်သည် ကုလားအုဋ်ကို စီး၍ အလွန်လေးနက် မှတ်သားဖွယ်ကောင်းသော မိန့်ခွန်းများကို မြွက်ကြားတော်မူခဲ့လေသည်။

တမန်တော်မြတ်သည် တိုတောင်းလှသော ၂၃ နှစ်ကာလအတွင်း တိရစ္ဆာန်တမျှ ဆိုးသွမ်း မိုက်မဲ အယူလွဲလျက် ရှိကြသော အရပ် တမျိုးသားလုံးအား အမှောင်ခွင်း၍ အလင်းသို့ ဆောင်နိုင်ခဲ့သည်။ လူရိုင်းတို့အား ယဉ်ကျေးစေခဲ့သည်။ မှားယွင်းနေသူတို့အား အမှန်တရားကို ပြသခဲ့သည်။ တမန်တော်မြတ်သည် မိမိထံသို့ ကျရောက်လာသော ကုရ်အာန်ကျမ်းလာ မုဂ္ဂပါဌ်တော်များကို လင်းပြခဲ့သည်။ လက်တွေ့ ကျင့်သုံး ပြသခဲ့သည်။ မိမိသက်တမ်းအတွင်းမှာပင် ကုရ်အာန်ကျမ်းကို စံနစ်တကျ ရေးမှတ်စေခဲ့သည်။ အာဂုံဆောင်စေခဲ့သည်။ ယင်းသည့် ကုရ်အာန်ကျမ်းသည် ယနေ့ထက်တိုင် ကမ္ဘာ့မွတ်စလင်မ်တို့၏ လက်

တွင် မူရင်းအတိုင်း တည်ရှိနေသည်မှာ အထင်အရှားပင်ဖြစ်သည်။

ကုရ်အာန်ကျမ်းမြတ်တွင် ကဏ္ဍပေါင်း ၁၁၄ ရှိသည်။ ယင်းကဏ္ဍများတွင် မွတ်စလင်မ်တို့ အများဆုံး ရွတ်ဖတ်သရဇ္ဈာယ်သော ပဌမကဏ္ဍ၏ အလိုသဘောမှာ အောက်ပါအတိုင်း ဖြစ်သည်။

(၁) ချီးမွမ်းထောမနာခြင်း ဟူဟူသမျှတို့သည် စကြဝဠာ အပေါင်းတို့ကို စတင် ဖန်ဆင်း ပြုစုပျိုးထောင် ပြည့်စုံစေတော်မူသော အလ္လာဟ်အသျှင်မြတ် အဖို့သာတည်း။

(၂) ထိုအသျှင်မြတ်သည် အလွန် သနားတော်မူသော အသျှင်၊ အထူးသနားတော်မူသောအသျှင်၊

(၃) ကျိုးပြစ် စီရင်မည့် နေ့ကို စိုးပိုင်တော်မူသော အသျှင်ဖြစ်တော်မူသည်။

(၄) ကျွန်တော်မျိုးတို့သည် ကိုယ်တော် အသျှင်မြတ်အားသာလျှင် ခယရိုကျိုး ရှိခိုး ဆည်းကပ်ကြပါသည်။ ကျွန်တော်မျိုးတို့သည် ကိုယ်တော်အသျှင်မြတ်ထံတော်မှ သာလျှင် အကူအညီ ရလိုကြပါသည်။

(၅) ကိုယ်တော် အသျှင်မြတ်သည် ကျွန်တော်မျိုးတို့အား ဖြောင့်မတ် မှန်ကန်သော တရားလမ်းစဉ်ကို ညွှန်ပြတော်မူပါ။

(၆) အကြင်သူမွန်သူမြတ်တို့၏ တရားလမ်းစဉ်ကို ညွှန်ပြတော်မူပါ။ ယင်းတို့အား အသျှင်မြတ်သည် ကျေးဇူးပြုတော်မူခဲ့ပါသည်။

(၇) ထိုသူမွန်သူမြတ်တို့သည် အမျက်တော် စူးရှခြင်း ခံရသူများလည်း မဟုတ်ကြပါ။ လမ်းမှားသူများလည်း မဟုတ်ကြပါ။

တမန်တော်မြတ်သည် ၂၃ နှစ်အတွင်း အစ္စလာမ်ကို လက်တွေ့ ကျင့်သုံးပြ၍၊ စံပြအဖြစ် မွတ်စလင်မ် အုပ်စုကြီးကို မွေးထုတ်ပြီးနောက် ဟစ်ဂျ်ရီ သက္ကရာဇ် ၁၁ ခုနှစ်၊ ရဗီအွလ်အောင်ဝါလ်လ ၁၂ ရက်နေ့၊ ခရစ် ၆၃၂ ခုနှစ် မေလတွင် အလ္လာဟ် အရှင်မြတ်၏ အမိန့်တော်ကို ခံယူသွားတော်မူခဲ့လေသည်။ **မောလ္လာန-ဃာဇီမိုဟာမက်ဟာရှင်(မ)**

**မိုဇတ်, ဒဗျူ၊ အေ** (ခရစ် ၁၇၅၆ – ၁၇၉၁)။ ။ဝုဖဂန်အမ်မဒီးယပ်မိုဇတ်သည် ဩစတြီးယန်း လူမျိုးဖြစ်၍ ဂီတပါရဂူ ဆရာတဆူအဖြစ် ယခုတိုင်ထင်ရှားလေသည်။ ၃၅နှစ်တာမျှသာ နေရသော သူ၏တိုတောင်းလှသည့် ဘဝသက်တမ်းတွင် ဂီတလောကဝယ် ထင်ပေါ်ကျော်ကြားခဲ့၍ ဂီတနှင့် စပ်လျဉ်း၍ အဖက်ဖက်တွင် ကျွမ်းကျင်နိုင်နင်း၏။ ရှေးစန္ဒရား၊ တရောတို့ကို ငယ်စဉ်ကတည်းကပင် တီးတတ်လျက်




ကမ္ဘာကျော် တေးဂီတဆရာကြီး မိုဇတ်သည် ငယ်ရွယ်စဉ်ကပင်လျှင် နာမည်ကျော် တရောထိုးကောင်းသူ ဖြစ်ခဲ့သည်။

အသက် ၅ နှစ်အရွယ်ကပင် သီချင်းများကို သီကုံးခဲ့၏။ မိုဇတ်သည် ဂီတပါရမီ အလွန်ထူးချွန်ရကား တေးသံမျိုးစုံ သီချင်းပေါင်း ၆၀၀ ကျော် စပ်ဆိုခဲ့လေသည်။

မိုဇတ်သည် ဂီတအသိုက်အအုံမှ ပေါက်ဖွားလာ၍ ဂီတလောကတွင်ပင် ကျင်လည်ပျော်မွေ့၏။ ဩစတြီးယားပြည်တွင်းရှိ ဆာ့ဇဗူးနယ်တွင် ၁၇၅၆ ခုနှစ် ဇန္နဝါရီလ ၂ ရက်နေ့၌ မွေးဖွားသည်။ သူ၏ဖခင်မှာ လီယိုပို မိုဇတ်အမည်တွင်၍ ဆာ့ဇဗူးဘုရားရှိခိုးကျောင်း ဓမ္မ တီးဝိုင်း နည်းပြ ခေါင်းဆောင်ဖြစ်၏။ လီယိုပိုမိုဇတ်သည် သားငယ်ဝုဖဂန်နှင့် ဝုဖဂန်ထက် ၅ နှစ်ကြီးသော သမီးကြီး မရီးယာအန္နာတို့အား ဂီတပညာကို ကိုယ်တိုင် ကြပ်မ သင်ကြားပေးလေသည်။ သင်ပေးသည့်အလျောက်လည်း ဂီတပါရမီ အခြေခံကောင်းသော မောင်နှမ နှစ်ယောက်စလုံးပင် အရွယ်နှင့် မလိုက်အောင် လက်ခံသင်ယူနိုင်စွမ်း ရှိ၏။ မိုဇတ်သည် ၄ နှစ်သားအရွယ်မှစ၍ ဤသို့ ဂီတသင်ခန်းစာများကို စတင် သင်ယူခဲ့ပြီးလျှင် နေ့စဉ် တနာရီလေ့ကျင့်ခဲ့ရာ အသက် ၅ နှစ် အရွယ်တွင် သီချင်းတီးလုံးများကို တီထွင်၍ သီချင်းများ ရေးစပ်နေခဲ့ပြီဖြစ်၏။ ဖခင်ဖြစ်သူက သားဖြစ်သူ တီထွင်ဖွဲ့စပ်သော တီးလုံးများကို ဂီတသင်္ကေတဖြင့် ရေးမှတ်ပေး၏။

မိုဇတ် ၆ နှစ်အရွယ်ရှိလျှင် ဖခင်လီယိုပိုသည် ဥရောပတိုက်ရှိမြို့တော်ကြီးများသို့ လှည့်လည်၍ တီးမှုတ်ဖြေဖျော်ရာတွင် မိုဇတ်အား လိုက်ပါစေခဲ့၏။ မိုဇတ်အပြင် သူ၏အစ်မလည်း ပါခဲ့ရာ၊ မောင်နှမနှစ်ယောက် အရွယ်နှင့် မလိုက်အောင် တီးမှုတ် ဖြေဖျော်သည်ကို ပရိသတ်အပေါင်းက အံ့ဩခြီး ကျူးကြရ၏။ မိုဇတ်သားအဖတစုသည် ဗီယင်းနား၊ ပါရစ်၊ လန်ဒန်အစရှိသော ဥရောပတိုက်ရှိ မြို့တော်ကြီးများမှ ထီးဆောင်းမင်းများနှင့် နိုင်ငံထိပ်သီး ခေါင်းဆောင်ကြီးများ ရှေ့မှောက်တွင် ဖြေဖျော်အသုံးတော်ခံလေရာ အားလုံးပင် သဘောကျနှစ်ခြိုက်ကြ၏။ ပါရစ်မြို့တွင် အဦးဆုံး ပုံနှိပ်ထုတ်ဝေသည့် တရောအတွက် သံရှည်တီးလုံးများကို စပ်ဖွဲ့ခဲ့၏။ အင်္ဂလန်ပြည်တွင် ၃ နှစ်တာမျှ နေထိုင်လျက်ရှိစဉ် တရောအတွက် သံရှည်တီးလုံး ၆ ပုဒ်နှင့် အဦးဆုံး ညီသံတီးလုံးကို ဖွဲ့စပ်ခဲ့သည်။ ဇာတိရပ်ဌာနသို့ ပြန်ရောက်ပြီးနောက်အသက် ၁၂ နှစ် အရွယ်တွင် ဩစတြီးယန်း ဧကရာဇ်မင်းက သူ့အား အော်ပရာခေါ် သံစုံတီးလုံးကိုစပ်၍ တီးဝိုင်းကို ခေါင်းဆောင်ရန် အမိန့်ပေး၏။ ထိုနှစ်တွင်ပင် ဆာ့ဇဗူးဂိုဏ်းချုပ်က သူ့အား ဂုဏ်ထူးဆောင် ဇာတ်ဆရာအဖြစ် ခန့်အပ်၏။ မျှားမကြာမီပင် မိုဇတ်သည် ဖခင်နှင့်အတူ ဣတလီပြည်သို့ သွားရောက်၍ ထိုဒေသမှ ဂီတကိုလေ့လာယင်း မိမိ၏လက်စွမ်းကို ပြလေရာ နားသောတဆင်သူအပေါင်းတို့ အံ့၍မဆုံးနိုင်အောင်ရှိတော့၏။ တကြိမ်တခါသာ ကြားဘူးသော တီးလုံးကို ပြန်လည်၍ ကောက်ယူဖော်ထုတ်ကာ တီးနိုင်သဖြင့် ပုပ်ရဟန်းမင်းက အထူးသဘောကျနှစ်ခြိုက်သောကြောင့် မိုဇတ်အား အထွတ်အထိပ် ပုဂ္ဂိုလ်များကိုသာ ပေးသည့် ဘွဲ့ထူးဖြင့် ချီးမြှင့်လေ၏။ အသက် ၁၄ နှစ်အရွယ်တွင် မီလန်မြို့၌ သူသီကုံးဖွဲ့နွဲ့သည့်ဂီတကို ပရိသတ်က အထူးသဘောတွေ့ရကား ညဉ့်ပေါင်း ၂၀ မျှ ဆက်တိုက် အသုံးတော်ခံရသောဟူ၏။

ဆာ့ဇဗူးသို့ ပြန်လည်ရောက်ရှိပြီးသည့် နောက်ပိုင်းဖြစ်သော ၁၇၇၁ ခုနှစ်တွင် မိုဇတ်သည် ဂိုဏ်းချုပ်နှင့် မသင့်မတင့်ဖြစ်ကာ ရာထူးမှ ရုတ်တရက် ထုတ်ပယ်ခြင်း ခံရ၏။ ယင်းသည့်နောက်တွင် မိုဇတ်သည် ဗီယင်းနားတွင် နေထိုင်၏။ ၁၇၇၂ ခုနှစ်တွင် မိုဇတ်သည် အဆိုတော်တဦး ဖြစ်သူကွန်စတန့် ဗေးဗားနှင့် လက်ထပ်၏။

မိုဇတ်သည် စန္ဒရားဝိဇ္ဇာ၊ ဂီတစာဆိုရှင်၊ ဂီတပညာသင်ဆရာအဖြစ် ထင်ရှားကျော်ကြားသလောက် စီးပွားရေးတွင် အကျိုး မပေးပေ။ သူသည် အိုးအိမ်ခွဲသည့် အချိန်မှစ၍ အစဉ်ပင် ဆင်းရဲနွမ်းပါးကာ တင်ရှိသောကြွေးမြီများကို အနိုင်နိုင် ဆပ်နေရ၏။ သူ၏ဇနီးသည်မှာလည်း အိမ်ထောင်ကို ဦးမစီးနိုင်သည့်အပြင် အသုံးအစွဲလည်း ကြီးသောကြောင့် မိုဇတ်တို့မိသားစုမှာ ဆင်းရဲနွမ်းပါးလှ၏။ သို့ဖြစ်၍ မိုဇတ်သည် အလွန်ကောင်းမွန်သည့်သီချင်းများကို ရေးစပ်ဖွဲ့နွဲ့ကာ ဇာတ်များကို ဦးဆောင်ခဲ့သော်လည်း အခြားသူများသာလျှင် အကျိုးရှိပြီးလျှင် မိမိမှာမူ မွဲမြဲမွဲလျက်ပင်ရှိနေခဲ့သည်။ ဤသို့ ၉ နှစ်မျှ တပင်တပန်းကြိုးစား၍ လုပ်ကိုင်ရသောကြောင့် အားအင်ချိနဲ့ကာ ကျန်းမာရေး ချတ်ယွင်း လာခဲ့လေသည်။

၁၇၉၁ ခုနှစ်တွင် မိုဇတ်သည် မိမိ၏ကျန်းမာရေး အခြေမကောင်းဘဲရှိနေသည့် ကြားကပင် သူ၏လက်စွမ်းပြ သီချင်းကြီး ၃ ပုဒ်ကို ဖွဲ့စပ်ခဲ့ရသောကြောင့် အခြေအနေ ပို၍ဆိုးလာခဲ့၏။ ၂ ပုဒ်မှာ အော်ပရာ တေးဂီတများဖြစ်၍ ကျန်တပုဒ်မှာ သူ၏ အပြောင်မြောက်ဆုံး လက်ရာဖြစ်သည့် 'ရီကွီယမ်' ခေါ် အသုဘ ငိုချင်းရှည်ဖြစ်၏။ ဤငိုချင်းရှည်ကို မိုဇတ်သည် အမည်မသိ ပုဂ္ဂိုလ်တဦးက လာရောက်၍ မှူးမတ်ကြီးတဦး၏ အသုဘတွင် သီဆိုရန်အတွက် ရေးစပ်ပေးရန် တောင်းပန်သောကြောင့် ရေးစပ်ရခြင်းဖြစ်၏။ ဤအသုဘငိုချင်းရှည်ကို ရေးစပ်နေစဉ်ပင် မိုဇတ်သည် မိမိရေးစပ်နေသော သီချင်းမှာ မိမိအသုဘတွင် သီဆိုရန်ဖြစ်သည်ဟု အစွဲရှိလာလေ၏။ သီချင်းရေးသား၍ မပြီးဆုံးမီပင် မိုဇတ်လည်း တိုက်ဖတ်ဖျား ရောဂါဖြင့် ကွယ်လွန်သည်။ ထိုသီချင်းကို သူ၏တပည့်တယောက်က အပြီးသတ်ရေးစပ်ခဲ့၏။ မိုဇတ်သည် ကွယ်လွန်ချိန်တွင် သင်္ဂြိုဟ်စရိတ်မျှပင် မရှိသောကြောင့် သာမန် သူဆင်းရဲသင်းချိုင်းတွင်သာ မြှုပ်နှံသင်္ဂြိုဟ်လိုက်ရသည့်ပြင်၊ သူ၏ မြေပုံကိုလည်း အတိအကျ မှတ်သားထားခြင်း မရှိခဲ့ပေ။ နောင် နှစ်ပေါင်းအတော်ကြာမှ ဗီယင်းနားမြို့သားများသည် မိုဇတ်အထိမ်းအမှတ် ကျောက်တိုင်တခုကို မြေပုံလွတ်တခုပေါ်တွင် တည်ဆောက် ခဲ့ကြ၏။

မိုဇတ်၏ လက်ရာတေးဂီတပေါင်း ၆၀၀ ကျော် အနက်ထင်ရှားသည်တို့မှာ 'အီဒိုမီနီးယို' (၁၇၈၁)၊ 'ဖီဂေးရို၏ထိမ်းမြားပွဲ' (၁၇၈၆)၊ 'ဒွန်ဂျီဗန်နီ' (၁၇၈၇)၊ 'နတ်ပြွေ' (၁၇၉၁)၊ 'ဂျူပီတာ' နှင့် အဆုံးမသတ်သော အသုဘငိုချင်းရှည် အစရှိသည်တို့ဖြစ်သည်။

**မိုနိုတိုက်စာစီစက်။** ။မိုနိုတိုက် စာစီစက်သည် ရှေးစာပုံနှိပ်စက်ကဲ့သို့ လက်ဖြင့် စာစီခြင်း၊ စာဖောင်ပြုလုပ်ခြင်း စသော အလုပ်များမရှိတော့ဘဲ၊စက်ဖြင့်သာ ပြီးစီးသည့်ခေတ်မီ လက်နှိပ်စာစီစက်ဖြစ်သည်။ မိုနိုတိုက် လက်နှိပ်စာစီစက်တခုသည် စာစီသမား ၅ ဦး ၆ ဦး၏အလုပ်ကို လုပ်ကိုင်နိုင်သည်။ လက်နှိပ်စာစီစက်နှင့် ဖောက်ထားသော စာရွက်လိပ်ကို စာလုံးသွန်းစက်ထဲသို့ ထည့်လိုက်ရုံနှင့် မိုနိုစာလုံးသစ်များနှင့် အသင့်စီပြီး စာဖောင်များ ထွက်လာတော့၏။ သို့ဖြင့် စာအုပ်ထုတ်လုပ်ငန်းသည် များစွာတွင်ကျယ်၍ လျင်မြန်လာလေသည်။

မိုနိုတိုက် စာစီစက်တွင် စက် ၂ ခု ပါဝင်သည်။ တခုမှာ စာလုံးဖောက်စက်ဖြစ်၍ ကျန်တခုမှာ စာလုံးပုံသွန်းစက်ဖြစ်၏။ စာလုံးဖောက်စက်တွင် အလိုရှိသော အက္ခရာအလိုက် ခလုတ်ကို နှိပ်ပေးသောအခါ စက်အပေါ်ဖက်တွင် တပ်ဆင်ထားသော စာရွက်ပေါ်၌ အပေါက်များ ဖြစ်ပေါ်လာသည်။ ထိုအပေါက်များမှာ စာလုံးသွန်းရာ၌ ဆိုင်ရာအက္ခရာပုံကို သွန်းရန် ထိန်းပေးသည့် အပေါက်များသာ ဖြစ်သည်။ ထိုကြောင့် အပေါက်များဖောက်ထားသောစာရွက်ကို အထိန်းစာရွက်ဟု ခေါ်၍ ထိုအထိန်းစာရွက်ကို ပုံသွန်းစက်တွင် တပ်ဆင်လိုက်သောအခါမှ လိုအပ်သော အက္ခရာစာလုံးများကို ပုံသွန်းစက်က သွန်းပေးလေသည်။ မိုနိုတိုက် စာစီစက်တွင် ခလုတ်ပေါင်း ၂၆၀ ခန့်ရှိ၍ အက္ခရာအမျိုးအစား ၅ မျိုး ၆ မျိုးခန့်နှင့် စာစီပေးနိုင်သည်။ အက္ခရာတလုံးနှင့် တလုံး ကွဲပြားသကဲ့သို့ အထိန်းစာရွက်ပေါ်ရှိ အပေါက်များလည်း ကွဲပြားကြသည်။ စာစီစက်၌ အပေါက်များ ဖောက်ရာတွင်၎င်း၊ စာလုံးသွန်းစက်၌ အက္ခရာပုံများ သွန်းရာတွင်၎င်း လေဖိအားကို အသုံးပြုထားလေသည်။

မိုနိုတိုက် စာစီစက်ကို ရိုက်နှိပ်နေစဉ် စာကြောင်း တကြောင်း ဆုံးခါနီးတွင် လက်နှိပ်စက်ကဲ့သို့ ခေါင်းလောင်းငယ်ကလေးမှ အသံမြည်လာသည်။ ထိုအခါ စာစီစက်ရိုက်သူသည် စက်တနေရာရှိ ညွှန်တံက ပြသည့်အတိုင်း လိုအပ်သော ကြားခံတုံးကို စာကြောင်းပြည့် ဖြစ်အောင် ခလုတ်နှိပ်၍ ထည့်ပေးရသည်။

စာလုံးသွန်းစက်တွင် (၁) လျှပ်စစ်ဓာတ်အားနှင့် ဖြစ်စေ၊ ဓာတ်ငွေ့မီးနှင့် ဖြစ်စေ အရည်ကျိုထားသော သတ္တုအရည်ကျိုခွက် တခု၊ (၂) အက္ခရာ တလုံးစီ ပုံသွန်းပေးသည့် ပုံစံခွက်၊ (၃) အက္ခရာပေါင်း ၂၂၅ လုံးစာနေရာရှိသော ပုံစံခွက်ဘောင်နှင့် (၄) စာလုံးသွန်းရန်အတွက် လေကိုဖိအားဖြင့် ပန်းသွင်းပေးသည့်ကရိယာတို့ ပါဝင်သည်။ စာလုံးသွန်းစက်တွင် အထိန်းစာရွက်ကို ထည့်၍ စက်ကို လည်စေသောအခါ၌ သတ္တုအရည်ကျိုခွက်ပေါ်၌ မှောက်ထားသည့် မေးထရစ်ခွက်ခေါ်သည့် ပုံစံခွက်များထဲသို့ သတ္တုရည် ပန်း၍တက်လာပြီးလျှင် အက္ခရာစာလုံးများကို ပုံသွန်းပေးသည်။ သို့သော် လိုင်နိုတိုက်နှင့် ကွဲလွဲပုံမှာ လိုင်နိုတိုက်၌ တကြိမ်လျှင် စာတ



မိုနိုတိုက်ခေါ် လက်နှိပ်စာစီစက်ဖြင့် စာစီရိုက်နှိပ်နေပုံဖြစ်သည်။ ရိုက်နှိပ်လိုက်သော စာလုံးများသည် စက္ကူလိပ်တွင် အပေါက်များ သွားရောက်ဖောက်သည်။ ထိုစက္ကူလိပ်ကို မိုနိုသွန်းစက်တွင် ထည့်သောအခါ၊ အသင့်စာစီပြီး ခဲစာလုံးများ ရရှိသည်။ ဤမြန်မာ့စွယ်စုံကျမ်းမှာ မိုနိုတိုက်ဖြင့် စာစီရိုက်နှိပ်ထားခြင်း ဖြစ်သည်။

ကြောင်းစာကို ပုံသွန်းပေး၍ မိုနိုတိုက်၌မူ အက္ခရာတလုံးချင်းကိုသာ ပုံသွန်းပေးလေသည်။ (လိုင်နိုတိုက်စာစီစက် — လည်းရှု။) ထို့ကြောင့် ပုံသွန်းရရှိသော စာလုံးများ၌ အမှားတွေ့ခဲ့သော် လိုင်နိုတိုက်နှင့် သွန်းထားသော စာလုံးဖြစ်က စာတကြောင်းလုံး ပြန်လည်သွန်းလုပ်ရသော်လည်း၊ မိုနိုတိုက်နှင့် သွန်းထားသော စာလုံးဖြစ်က မှားသည့် စာလုံးများကို တလုံးချင်းပြန်လည် သွန်းလုပ်ရန်သာ လိုပေသည်။ အခြား ကွဲလွဲချက်တခုမှာ လိုင်နိုတိုက်၌ စာစီစက်နှင့် ပုံသွန်းစက်ကို ပူးတွဲထား၍ မိုနိုတိုက်၌မူ တခုစီ သီးခြားထားသည်။ ထို့ကြောင့် မိုနိုတိုက်ကို သုံးရာတွင် စာစီစက်နှင့် စာလုံးသွန်းစက်တို့ကို တမြို့စီ၊ သို့မဟုတ် တနယ်စီ၊ သို့မဟုတ် တနေရာစီ ထား၍ စာစီနိုင် ပုံသွန်းနိုင်ပေသည်။

မိုနိုတိုက်နှင့် စာစီခြင်း၊ စာလုံးသွန်းခြင်းဖြင့် ရရှိသော ပုံနှိပ် စာလုံးများကို တဖန် လိုင်နိုတိုက်မှာကဲ့သို့ပင် စာမျက်နှာအလိုက် ဖောင်သွင်းပေးပြီးလျှင် ပုံနှိပ်စက်တွင် တပ်ဆင် ရိုက်နှိပ်နိုင်ပေသည်။

မိုနိုတိုက်နှင့် သွန်းလုပ်ရရှိသော ပုံနှိပ်စာလုံးများကို တလုံးချင်း ပြန်လည်ပြင်ဆင် နိုင်ခြင်း၊ ဤစက်တွင် စာစီနှင့် ပုံသွန်းစက်ကို တနေရာစီခွဲခြားထားနိုင်ခြင်းတို့ကြောင့် မိုနိုတိုက်ကို စာအုပ်စာတမ်းများ ရိုက်နှိပ်သည့် ပုံနှိပ်တိုက်ကြီးများ၌ အသုံးများကြ၏။ သို့သော် လိုင်နိုတိုက်ဖြင့် စာများကို ပိုမိုလျင်မြန်စွာ စီနိုင် သွန်းနိုင်သည့်အတွက် သတင်းစာတိုက်ကြီးများ၌ လိုင်နိုတိုက်ကို အသုံးများကြသည်။

မိုနိုတိုက် စာစီစက်ကို တဲလဗတ် လန်စတန် ဆိုသူ အမေရိကန်တဦးက ၁၈၈၇ ခုနှစ်တွင် စတင်တီထွင်ခဲ့သည်။ မိုနိုဟူသောစကားမှာ တခုဟု အဓိပ္ပါယ်ရသဖြင့် စာတလုံးချင်း စီပေးနိုင် သွန်းပေးနိုင်သော ဤစက်ကို မိုနိုတိုက်ဟု ခေါ်တွင်ခြင်း ဖြစ်သည်။

**မိုပါဆွန်း၊ ဂီးဒါ** (ခရစ် ၁၈၅၀ – ၁၈၉၃)။ ။ဂီးဒါမိုပါဆွန်းသည် ပြင်သစ်လူမျိုး ကမ္ဘာ့ကျော် စာရေးဆရာဖြစ်သည်။ ဝတ္ထုရှည်များနှင့်ဝတ္ထုတိုများအများအပြားရေးသားခဲ့သည်။ ဝတ္ထုတိုများရေးသားရာတွင် အထူးပြောင်မြောက်သည်။ ကာလပေါ် ဝတ္ထုတိုများကို ရေးသားရာတွင် ရှေ့ဆောင်ဖြစ်၍ ယခုတိုင် သူ၏ အရေးအသားတို့ကို နှောင်းလူတို့ အတုယူကြရ၏။ ကမ္ဘာ့ကျော်ဝတ္ထုများကို ပေါင်းဖွဲ့ထုတ်ဝေသော စာအုပ်မှန်လျှင် မိုပါဆွန်း၏ဝတ္ထုတပုဒ် ပါမြဲပင်ဖြစ်၏။ မိုပါဆွန်း၏ ဝတ္ထုများကို အင်္ဂလိပ်ဘာသာမှ တဆင့် မြန်မာဘာသာသို့ တိုက်ရိုက် ပြန်ဆိုထားသည်လည်း ရှိ၍ မှီး၍ရေးသားသည်လည်းရှိသည်။ မိုပါဆွန်း၏ 'ဗယ်လာမီ' ခေါ် ဝတ္ထုရှည်ကို ဘာသာပြန်ထားခြင်းဖြစ်သော စာရေးဆရာ တင့်တယ်၏ 'ပျိုတို့အချစ်တော်' ဘာသာ



ဝတ္ထုတိုရေးရာတွင် နာမည်ကျော်ကြားသူ ဂီးဒါ မိုပါဆွန်း

ပြန် ဝတ္ထုသည် ၁၉၅၉ ခုနှစ် စာပေဗိမာန်ဘာသာပြန်ဆု ချီးမြှင့်ခြင်းခံရသည်။

မိုပါဆွန်း၏အမည် အပြည့်အစုံမှာ အန်းရီ ရာနေ အာလဗဲ ဂီးဒါ မိုပါဆွန်းဖြစ်၏။ မိုပါဆွန်းသည် ခရစ် ၁၈၅၀ ပြည့်နှစ် ဩဂုတ်လ ၅ ရက်နေ့တွင် နော်မန်ဒီနယ်၌ မွေးဖွားသည်။ ငယ်စဉ်က အက်ဗတိုးရှိ စာသင်ကျောင်းတွင် ပညာသင်ယူ၍ ရူအန်းတက္ကသိုလ်မှဘွဲ့ရရှိခဲ့သည်။ ကျောင်းမှ ထွက်သောအခါ ပါရစ်မြို့၌ ရေတပ်ဌာနတွင် စာရေးအဖြစ် ၁၀ နှစ်မျှ အမှုထမ်းသည်။ မိုပါဆွန်းသည် ကစားခုန်စားတွင် ဝါသနာထုံသည်ဟု ဆို၏။ မိုပါဆွန်းအား စာရေးဆရာဖြစ်အောင် သွန်သင်နည်းပြပေးသူမှာ နာမည်ကျော် စာရေးဆရာ ဖလိုဗဲယားဖြစ်သည်။ ဖလိုဗဲယားသည် မိုပါဆွန်း၏မိခင်နှင့် ရင်းနှီးခင်မင်သော မိတ်ဆွေတဦး ဖြစ်ရုံမက၊ မိုပါဆွန်း ဗတ္တိဇံမင်္ဂလာခံယူစဉ်က ကြီးမှူးသူ ခေါင်းကိုင်ဖခင်လည်းဖြစ်၏။ မိုပါဆွန်းသည် ဖလိုဗဲယား၏ နေအိမ်တွင် အနေများသည် ဖြစ်ရာ နာမည်ကျော် စာရေးဆရာကြီးများ ဖြစ်ကြသော အေမီးဇိုလာ၊ တူရဂေးနျက်စသည့်ပုဂ္ဂိုလ်များနှင့် တွေ့ဆုံခွင့် ရခဲ့၏။ သို့ဖြစ်၍ အားကစားဖက်တွင် ဝါသနာ ပါသော မိုပါဆွန်းသည် စာပေဖက်သို့ ညွတ်လာသည်။ ဖလိုဗဲယားသည် ၇ နှစ်ဘိုင်တိုင်ကြပ်မ၍ မိုပါဆွန်းအားစာပေအရေးသားများကို အလေ့ အကျင့် ပေးကာ နည်းပေးပြသခဲ့လေသည်။

ဦးစွာ၌ မိုပါဆွန်းသည် ကဗျာကို လက်ဘည့်စမ်းကြည့်ခဲ့၏။ ခရစ် ၁၈၈၁ ပြည့်နှစ်တွင် ဒက်ဗတ်ဟု ခေါ်သော သူ၏ ကဗျာစုစာအုပ်ကို ပုံနှိပ်ထုတ်ဝေခဲ့သည်။ သို့သော် မိုပါဆွန်းသည် ကဗျာဖြင့်ဟန်ပုံမရသောကြောင့် ဝတ္ထုတိုဖက်သို့ လှည့်ခဲ့ပြန်၏။ ထိုနှစ်တွင်ပင် သူ၏ ပဌမဆုံးဝတ္ထုတို 'ဗောဒါဆို' (အဆီတုံး) သည် ထင်ရှားသော စာရေးဆရာတို့၏ လက်ရာများပါသော 'ဝတ္ထုပဒေသာ' စာအုပ်တွင် ပါလာလေရာ လူအများသဘောကျနှစ်ခြိုက်ခဲ့လေသည်။ ထိုပွဲဦးထွက်ဝတ္ထုတိုသည်ပင် မိုပါဆွန်း၏ လက်ရာမြောက် ဝတ္ထုတိုဘပုဒ်လည်းဖြစ်၏။ ထိုအချိန်မှစ၍ မိုပါဆွန်းသည် နာမည်ရလာကာ ဝတ္ထုတို၊ ဝတ္ထုရှည်များကို ဆက်လက် ရေးသားလေတော့သည်။

အထက်တွင် ဆိုခဲ့သည့်အတိုင်း မိုပါဆွန်းသည် ဝတ္ထုတိုများတွင် ပို၍ပြောင်မြောက်၏။ သူ၏ အပြောင်မြောက်ဆုံး လက်ရာများမှာ အဆန်းမဖက်ဘဲ ရှင်းလင်းပြတ်သား တိကျသော အသုံးအနှုန်းများဖြင့် ဖော်ပြထားသည်ချည်း ဖြစ်၏။ သူမြင်တွေ့သမျှကို သဘာဝအတိုင်း ဖော်ပြလေ့ ရှိ၏။ ထိုကြောင့် သဘာဝဆရာကြီးဟုပင် ဆိုထိုက်ပေသည်။ အထူးသဖြင့် လူတို့၏သဘာဝကို သဘာဝကျကျပင် ဖော်ပြတတ်၏။ သူသရုပ်ဖော်သော ဇာတ်ကောင်များမှာ တောသားပင်ဖြစ်စေ၊ နိုင်ငံရေးသမားပင် ဖြစ်စေ၊ ဂုဏ်ကြီးရှင် အမျိုးသမီးပင်ဖြစ်စေ၊ လူမိုက်ပင်ဖြစ်စေ သူကိုယ်တိုင် သိကျွမ်းဘူးသူများကိုသာ ဖော်ပြလေ့ရှိသည်။ မိုပါဆွန်းသည် မျက်စိရှင်သန်သလောက် ကလောင်လည်း ထက်မြက်၏။

ဤသို့ ဝတ္ထုပါ ဇာတ်ကောင်များကို သရုပ်ဖော်ကောင်းသူ မိုပါဆွန်း၏ဘဝမှာ ချမ်းမြေ့လှသည်မဟုတ်။ စိတ်သောကများ၍ မှိုင်တွေနေရတတ်သူ ဖြစ်၏။ သူ၏ စာပေများသည် ပြောင်မြောက်သည်ဟု ဆိုရငြားလည်း အပျော်ဖတ်ရန်အတွက်ကားမသင့်လျော်ချေ။ မိုပါဆွန်းသည် အကောင်းဖက်ထက် အဆိုးဖက်ကို ပို၍ မြင်၏။ လောကကြီး၏ ယုတ်မာပုံ၊ မကောင်းပုံ၊ အဆင်မပြေပုံ စသည်များကို ဖော်ပြလေ့ရှိ၏။ သူ၏ အချို့သောစာအုပ်များမှာ ဆိုးယုတ်သူများ အကြောင်းကို ဖော်ပြထားသည်ဖြစ်ရာ အစိုးရကပင် ထုတ်ဝေခြင်းမပြုရန် တားမြစ် ပိတ်ပင်ရ၏။ သူ၏ အကောင်းဆုံး စာများကို ဖတ်လျှင်ပင် ဖတ်သူသည် စိတ်မသက်သာဘဲ ညှိုးငယ်ကာ၊ လောကကြီးသည် အလုံးစုံ ဆိုးရွားယုတ်မာသည်ဟု ထင်လာမိဘက်၏။ သို့ရာတွင် ယင်းအကြောင်း အရာများသည် သရုပ်ပါလှသဖြင့် ဖတ်သူတို့အား စွဲစွဲလမ်းလမ်း ဖြစ်စေသည်။

မိုပါဆွန်း၏ များလှစွာသော ဝတ္ထုတိုများအနက် ထင်ရှားသည်တို့ကား 'အဆီတုံး'၊ 'စိန်လည်ဆွဲ'၊ 'ကြိုးတပင်'၊ 'ပျော်ရွှင်မှု' အစရှိသည်တို့ဖြစ်၏။ 'အဆီတုံး' မည်သောဝတ္ထုတိုတွင် ပြင်သစ်—ပရပ်ရှား စစ်ပွဲအတွင်းက ဖြစ်ရပ်တခု အကြောင်းကို သရုပ်ဖော်ထား၏။ ၁၈၈၁ ခုနှစ်တွင် 'မမ်ဆယ်တဲလီယား၏ အိမ်' ခေါ် ဝတ္ထုတို ပဒေသာကို ထုတ်ဝေသော အခါ စာပေဝေဖန်သူတို့က မိုပါဆွန်းအား ဝတ္ထုတိုများရေးရာ၌ ကျွမ်းကျင်သော စာရေးဆရာအဖြစ် ချီးကျူးကြရ၏။ သူ၏ ပဌမဆုံး ဝတ္ထုရှည်ဖြစ်သော 'ဘဝ' ဝတ္ထုကို ၁၈၈၃ ခုနှစ်တွင် ထုတ်ဝေသည်။ ဝတ္ထုကောင်းတပုဒ် ဖြစ်၍၊ မိုပါဆွန်းသည် တိကျစွာ မြင်စွမ်းသည့်အဖြစ်ကို ထင်ရှားစေခဲ့သည်။ သို့သော် ယင်းဝတ္ထုတွင် စိတ်လှုပ်ရှားမှုလည်း မပါ၊ သင်ခန်းစာလည်း အကျုံးမဝင်ဘဲ အမှန်ကိုသာ ထုတ်ဖော် ထားသည် ဖြစ်၍ ထိထိမိမိ ရှိလှပေသည်။ 'ဗယ်လာမိ' ဝတ္ထုကို ၁၈၈၅ ခုနှစ်တွင် ထုတ်ဝေသည်။ ထင်ရှားသောဝတ္ထု တပုဒ်ဖြစ်၏။ 'ပီယဲ နှင့်ဇန်' မည်သော ဝတ္ထုရှည်၏ နိဒါန်းတွင် မိုပါဆွန်းသည် ဝတ္ထုနှင့် စပ်လျဉ်းသော သူ၏ သဘောတရားများကို ထုတ်ဖော် ရေးသားထားလေသည်။ မိုပါဆွန်း၏ ဝတ္ထုကောင်းများသည် ၁၈၈၀ ပြည့်နှစ်နှင့် ၁၈၈၆ ခုနှစ်များ အတွင်း၌ ထွက်ပေါ်ခဲ့၏။ ထိုနောက်တွင်ကား မိုပါဆွန်း၏ ကျန်းမာရေး ချွတ်ယွင်းလာသည်။ ၁၈၉၃ ခုနှစ် ဇူလိုင်လ ၆ ရက်နေ့တွင် ပါရီမြို့ရှိ စိတ္တဇဆေးရုံတခုတွင် ကွယ်လွန်လေသည်။

# အာဖရိက အနောက်အစွန်းဖျားနိုင်ငံ

**၁၉၅၆ ခုနှစ်တွင်မှ အချုပ်အချာအာဏာပိုင်လွတ်လပ်သော နိုင်ငံဖြစ်လာသည့် မိုရော့ကို နိုင်ငံကို အာရဗီဘာသာဖြင့် အယ်လ မာဂရစ် အယ်လတ်ကဆား ဟု ခေါ်ကာ အနောက်အစွန်းဖျားဟု အမိပ္ပါယ်ရသည်။ ဤအကြောင်းရပ်တွင် မိုရော့ကို နိုင်ငံ၏ အကြောင်း သိကောင်းစရာ တို့ကို ဖော်ပြထားသည်။**

**မိုရော့ကိုနိုင်ငံ။** ။မိုရော့ကို နိုင်ငံသည် အာဖရိကတိုက် အနောက်မြောက်ဖက်တွင် တည်ရှိ၍ စူလတန်ဘုရင်အုပ်စိုးသော နိုင်ငံဖြစ်၏။ များမကြာမီ နှစ်များကမှ အချုပ်အချာအာဏာကို ပြန်လည်ရရှိခဲ့လေသည်။ မိုရော့ကို နိုင်ငံကို အာရဗီဘာသာဖြင့် အယ်လ မာဂရစ် အယ်လတ်ကဆား ဟူ၍ ခေါ်ကာ အနောက်အစွန်းဖျားဟု အဓိပ္ပါယ်ရသည်။



**မိုရော့ကိုနိုင်ငံ ကာဆာဗလန်ကာမြို့၏ ကျက်သရေဆောင် ကသီဒရယ် ဘုရားရှိခိုးကျောင်း**

မိုရော့ကို နိုင်ငံသည် ဥရောပတိုက်နှင့် အလွန်နီးကပ်သည်။ မိုရော့ကိုနိုင်ငံ၏ မြောက်ဖက်ထိပ်ဖျားသည် စပိန်နိုင်ငံနှင့် ၉ မိုင်မျှသာ ရေလက်ကြားဖြင့် ခြားလျက်ရှိပေသည်။ နယ်နိမိတ်အားဖြင့်သော်ကား မိုရော့ကိုနိုင်ငံသည် မြောက်ဖက်တွင် မြေထဲပင်လယ်ဖြင့်၎င်း၊ အရှေ့နှင့်တောင်ဖက်တွင် အယ်လဂျီးရီးယားနိုင်ငံဖြင့်၎င်း၊ အနောက်တောင်ဖက်တွင် ရီအိုသေအိုးရိုဒေသဖြင့်၎င်း၊ အနောက်ဖက်တွင် အတ္တလန္တိတ်သမုဒ္ဒရာဖြင့်၎င်း ပတ်ရံလျက် ရှိ၏။ အကျယ် အဝန်းမှာ ၁၇၂,၁၀၄ စတုရန်းမိုင် ဖြစ်၏။ မိုရော့ကိုနိုင်ငံ၏ မြို့တော်မှာ ရာဗတ်မြို့ဖြစ်၏။ အခြားမြို့ကြီးများကား တေတွန်း၊ တန်ဂျီးယား၊ ကာဆာဗလန်ကာ၊ ဖက်ဇ၊ မက်ကနက်၊ ဆာဖီ၊ ဥဂျဒါအစရှိသည်တို့ ဖြစ်၏။ မိုရော့ကို နိုင်ငံသည် အချက်အခြာနေရာတွင် တည်ရှိခြင်းကြောင့် ကမ္ဘာတွင် အရေးပါအရာရောက်လေသည်။

မြေမျက်နှာပြင်အားဖြင့် မိုရော့ကို နိုင်ငံသည် တောင်ထူထပ်သည်။ အတ္တလတ်တောင်တန်းသည် အနောက်ဖက်မှ အရှေ့ဖက်သို့ သွယ်တန်းလျက် ရှိ၏။ ထို့ပြင် မြေထဲပင်လယ်ကမ်းခြေနှင့် အနည်းငယ်သာ ကွာဝေးသော အတွင်းဖက်၌ အခြားတောင်တန်းတခု ရှိသေးသည်။ ဤတောင်တန်းကြီးနှစ်ခုစပ်ကြား အတ္တလန္တိတ်ကမ်းခြေတွင် မြေသြဇာကောင်းသည့် မြေပြန့်ရှိ၍ ယင်းမြေပြန့်မှာ အချို့ နေရာများတွင် တောင်နိမ့်များ၊ တောင်ကြားများဖြင့် ဖြတ်လျက်ရှိ၏။ မိုရော့ကို နိုင်ငံတွင် မြစ်ပေါများသော်လည်း တောင်ဖက်သို့ စီးဝင်ရာ၌ သဲကန္တာရ ရှိသောကြောင့် ခန်းခြောက် သွားသဖြင့် မြစ်များမှာတို၏။ ထင်ရှားသည့်မြစ်များကား မြောက်ဖက်တွင် မူးလူးယားဖြစ်၍ အခြားမြစ်တို့ကား ဂါးဂစ်နှင့် ဂရာတို့ဖြစ်၏။ ယင်းမြစ်တို့သည် နွေရာသီတွင် လုံးဝဆိုသလို ခန်းခြောက်ကုန်၏။ အင်းအိုင်များလည်း နွေရာသီတွင် ခန်းခြောက်ကုန်၏။ ကောက်ပင်များကို ခန်းသွားသော အင်းအိုင်များတွင် စိုက်ပျိုးကြသည်။

အတ္တလတ်တောင်တန်း၏ အနောက်ဖက်ရှိ ဒေသ၌ အသင့်အတင့် သာယာသော ရာသီ ဥတုရှိ၏။ တနှစ်ပတ်လုံး ပင်လယ်မှ လေပြည်များ တိုက်ခတ်သဖြင့် အအေးဓာတ် ရသည်။ အရှေ့ဖက် ကုန်းလျှောသည် အေးမြ၍ ဆောင်းရာသီတွင် ပြင်းပြင်းထန်ထန် အေးသည်။ သို့သော် မြေပြန့်ဒေသနှင့် သဲကန္တာရဖြစ်သော အပိုင်းသည် နွေရာသီတွင် မခံမရပ်နိုင်အောင် ပူပြင်းသည်။

မိုရော့ကို နိုင်ငံတွင်းရှိ လူဦးရေမှာ ၁၉၆၀ ပြည့်နှစ်တွင် ခန့်မှန်းခြေအရ ၁၀,၅၅၀,၀၀၀ ဖြစ်၏။ မြို့ကြီး ပြကြီးများတွင် ခေတ်မီ တိုးတက်လျက် ရှိသော်လည်း မိုရော့ကို နိုင်ငံတွင် နေထိုင်သူအများမှာ စရိုက်အားဖြင့် ခပ်ရိုင်းရိုင်း ခပ်ကြမ်းကြမ်းဖြစ်သော ဗာဗာလူမျိုးစု ဖြစ်၏။ မြေပြန့်ပိုင်းနှင့် သဲကန္တာရပိုင်းတွင် အာရပ်နှင့် မူးဝါးလူမျိုးတို့ နေထိုင်ကြသည်။ ဥရောပ တိုက်သားတို့၏ အုပ်ထိန်းခြင်း ခံခဲ့ရသည့် ဒေသဖြစ်သည့် အလျောက် ဥရောပတိုက်သား ဦးရေလည်း အသင့်အတင့်ရှိသည်။ မိုရော့ကို နိုင်ငံ၏အယူဝါဒမှာ အစ္စလမ်အယူဝါဒဖြစ်၏။ မိုရော့ကို နိုင်ငံရှိ အချို့မြို့များတွင် ယဟူဒီလူမျိုးများ ရှိသည်။




**မိုရော့ကိုနိုင်ငံ တည်နေရာပြမြေပုံဖြစ်သည်။ မိုရော့ကိုနိုင်ငံသည် အာဖရိကတိုက်၏ အနောက်မြောက်စွန်းကျဆုံး နိုင်ငံဖြစ်သည်။**

မြို့ကြီးများမှအပ မိုရော့ကို နိုင်ငံတွင် နေထိုင်သူတို့မှာ သိုးထိန်း၊ နွားထိန်းတို့ ဖြစ်လျက် သိုးမွေး၊ ဆိတ်မွေး၊ လျှော်ပင်များဖြင့် ရက်လုပ်ထားသော တဲများတွင် နေထိုင်ကြသည်။ လယ်သမားတို့သည် ရွှံ့ဖြင့် ပြုလုပ်သော အိမ်များတွင် နေထိုင်ကြ၏။ သို့အားဖြင့် လယ်ယာစိုက်ပျိုးရေးသည် အရေးပါသော လုပ်ငန်းဖြစ်၍ ထွက်ကုန်ပစ္စည်းတို့ကား သံလွင်သီး၊ လိမ်မော်သီး၊ ရှောက်သီး၊ စွန်ပလွံသီးစသော အသီးများ၊ ဂျုံ၊ မုယော စပါးတို့ဖြစ်ကာ ဗာဒမ်သီးလည်း အမြောက်အမြား ထွက်၏။ ကျွဲ၊ နွား၊ သိုး၊ ဆိတ်မွေးမြူရေး လုပ်ငန်းလည်း တိုးတက်လျက်ရှိ၏။ ကမ်းခြေဖက်တွင် တံငါလုပ်ငန်းကိုလုပ်ကိုင် လေရာ ဆာဒိမ်မြို့သည် ဆာဒင်ငါးအများဆုံး ထွက်ရာ ဆိပ်ကမ်းဖြစ်ပေသည်။ အတ္တလတ်တောင်၏ အလယ်ပိုင်းရှိ မြေပြန့်တွင် ဆည်မြောင်းများနှင့် ရေအားသုံးလျှပ်စစ်ဓာတ် လုပ်ငန်းများကြောင့် လယ်ယာစိုက်ပျိုးရေးနှင့် စက်မှုလက်မှုလုပ်ငန်းများ တိုးတက်လျက်ရှိ၏။

လယ်ယာစိုက်ပျိုးရေးအပြင် ယခုအခါ မြေပြန့်ဒေသတွင် စက်ရုံများ ပေါ်ထွန်းလျက်ရှိကာ ယင်းစက်ရုံများမှ ဓာတ်သတ္တုများ၊ အထည်အလိပ်များ၊ စည်သွတ် အစားအစာများ အစရှိသည်တို့ ထွက်သည်။ မိုရော့ကို နိုင်ငံမှ သားရေပစ္စည်းများသည် ကမ္ဘာတွင် ထင်ရှားပေသည်။ မိုရော့ကိုနိုင်ငံမှ ထွက်သော ဓာတ်သတ္တုတို့ကား ဖော့စဖိတ်၊ အန်သရာစိုက် ကျောက်မီးသွေး၊ သံ၊ ကိုဗော့၊ မန်ဂနိ၊ မိုလစ်ဒီနမ်၊ ကြေးနီ၊ သံဖြူ၊ ခဲ၊ သွပ်တို့ဖြစ်၍ သစ်တောထွက် ပစ္စည်းတို့မှာ ဖော့၊ အိမ် ဆောက်လုပ်ရန် သစ်များနှင့် အိမ်ထောင် ပရိဘောဂအတွက် သစ်တို့ဖြစ်၏။

မိုရော့ကိုနိုင်ငံ၏ သမိုင်းကို ပြန်လည်သုံးသပ်လျှင် မိုရော့ကိုနိုင်ငံသည် ရှေးရောမ အင်ပိုင်ယာ လက်အောက်ခံ မော်ရီတေးနီယားနယ်တွင် ပါဝင်ခဲ့သော နယ်တခုဖြစ်၏။ ရောမအင်ပိုင်ယာ ပြိုကွဲပြီးသည့် နောက်တွင် တိုင်းပြည် ဖရိုဖရဲဖြစ်ကာ ကြမ်းတမ်းသော ဘုရင်အသီးအသီး၏ လက်တွင်းသို့ ကျရောက်ခဲ့၏။ ခရစ် ၆၀၀ ပြည့်နှစ် လောက်တွင် အာရပ်လူမျိုးတို့ ချဉ်းနင်းဝင်ရောက်လာကာ အစ္စလမ်အယူဝါဒကို သွတ်သွင်း ဖြန့်ချီ၏။ စပိန်နိုင်ငံကို မွတ်စလင်တို့ ဝင်ရောက်တိုက်ခိုက်အောင်မြင်သည့်အရေးအခင်းတွင် မိုရော့ကိုလည်း ပါဝင်ခဲ့လေသည်။ စပိန်နိုင်ငံမှ နှင်ထုတ်ခြင်းခံရသော မူးဝါးလူမျိုးတို့သည် မိုရော့ကိုတွင် အခြေစိုက်နေထိုင်ကြ၏။ ယင်းအချိန်နောက်ပိုင်းတွင် မိုရော့ကိုသည် အတော်အတန် အရေးပါသော တိုင်းပြည်တခုဖြစ်လာသည်။ ၁၈၀၂ ခုနှစ်တွင် မိုရော့ကိုပြည်သည် ပင်လယ်ဓားပြများအရေးနှင့်စပ်လျဉ်း၍ အမေရိကန် ပြည်ထောင်စုနှင့် ဆက်ဆံရေး မသင့်ဖြစ်ခဲ့၏။ ၁၈၁၄ ခုနှစ်မှ အစပြု၍မူ မိုရော့ကိုပြည်သည် ဥရောပနိုင်ငံများနှင့် အဆက် အသွယ် ပို၍ ကောင်းလာ၏။ သို့သော်



မိုရော့ကိုနိုင်ငံသည် အာရပ်နှင့် ဗာဗာလူမျိုးတို့ နေထိုင်ရာဒေသဖြစ်သည်။ ဗာဗာအမျိုးသမီးများသည် ခေါင်းမြီးခြုံခြင်းမပြုကြချေ။

၁၈၅၉ ခုနှစ်တွင် စပိန်နိုင်ငံနှင့်စစ်ဖြစ်ပွားသည်တွင် စပိန်နိုင်ငံက အနိုင်ရသဖြင့် မိုရော့ကိုက လျော်ကြေးအဖြစ် ဒေါ်လာ ပေါင်း နှစ်ကုဋေကို စပိန်နိုင်ငံသို့ ပေးရ၏။ ၁၈ ရာစုနှစ် နောက်ပိုင်းနှင့် ၁၉ ရာစု နှစ်ဦးပိုင်းအတောအတွင်းက ဥရောပ နိုင်ငံကြီးများသည် မိုရော့ကိုပြည်၌ မည်သူက ပို၍ အခွင့် အသာယူကာ ကြိုးကိုင်သင့်ကြောင်းဖြင့် အချင်းများခဲ့ကြ၏။ ၁၉၀၄ ခုနှစ်တွင် ဗြိတိန်နိုင်ငံနှင့် ပြင်သစ်နိုင်ငံတို့ နှစ်ဦး သဘောတူညီချက်အရ ပြင်သစ်နိုင်ငံသည် မိုရော့ကိုပြည်တွင် ကြီးစိုး ကြိုးကိုင် နိုင်ခဲ့သည်။ ဂျာမနီနိုင်ငံသည် မိုရော့ကို ပြည်၏ ကုန်သွယ်မှု ၅ ပုံတပုံခန့်ကို ချုပ်ကိုင်ထားရကား ကန့် ကွက်သော်လည်း ဗြိတိန်နှင့် ပြင်သစ်တို့က ပို၍ အင်အား တောင့်သဖြင့် အရာမရောက်ခဲ့ပေ။ ၁၉၁၂ ခုနှစ်တွင် ပြင်သစ် နိုင်ငံသည် စူလတန်ဘုရင်နှင့်၎င်း၊ စပိန်နှင့်၎င်း သဘောတူ ညီချက်စာချုပ်များ ချုပ်ဆိုကာ မိုရော့ကိုတွင် ပြင်သစ်အုပ် ထိန်းခံနယ်နှင့် စပိန်အုပ်ထိန်းခံနယ်များကို ခွဲခြားသတ်မှတ် လေသည်။

သို့အားဖြင့် မိုရော့ကိုသည် အချုပ်အချာ အာဏာကို ဆုံးရှုံးရလေသည်။ လွတ်လပ်ရေး မရမီက မိုရော့ကိုပြည်ကို စူလတန်ဘုရင် အုပ်စိုးသည်ဟု ဆိုရငြားလည်း တကယ်တမ်း အာဏာပိုင်သည်ကား မဟုတ်ပေ။ အယူဝါဒရေး ဆိုင်ရာ တွင် အထွတ်အထိပ် အာဏာပိုင်သောကြောင့်သာလျှင် သူ၏တိုင်းပြည်တွင် အာဏာလွှမ်းမိုးနေခြင်း ဖြစ်၏။ ပြင်သစ် နယ်တွင် ပြင်သစ်ကိုယ်စားလှယ်တော်သည် နိုင်ငံခြား ဆက် သွယ်ရေးကို ကြိုးကိုင်၏။ စပိန်နယ်တွင်လည်း စပိန်အစိုးရ ကိုယ်စားလှယ်အဖြစ် ကယ်လီဖာတဦးကို ထားရာ၌ မိမိအလို ရှိသူကို ရွေးပိုင်ခွင့်ရှိသည်ဟု ဆိုရသော်လည်း စပိန်အစိုးရ တင်ပြသော ကယ်လီဖာနှစ်ဦးအနက် တဦးကို ရွေးချယ်ရ ခြင်းဖြစ်၏။ စင်စစ်မူကား စပိန်နယ်တွင် စပိန်ဝန်ရှင်တော် မင်းကြီးကသာလျှင် လွှမ်းမိုးအုပ်ချုပ် နေခဲ့လေသည်။ ဤ သို့မိုရော့ကိုတွင် မျက်နှာဖြူ တိုင်းတပါးသားတို့ လာရောက် ခြယ်လှယ်နိုင်သည်မှာ စူလတန်ဘုရင်နှင့်လက်အောက်ခံများ အုပ်ချုပ်ရေး ညံ့ဖျင်းမှုကြောင့်ဟု ဆိုရပေမည်။ ၁၉၂၂ ခုနှစ်တွင် ရစ်ဖီယန် လူမျိုးစုတို့က မျက်နှာဖြူအစိုးရကို တော်လှန်ပုန်ကန်သော်လည်း မအောင်မြင်ဘဲ ခေါင်းဆောင် ဖြစ်သူ အဗ္ဗဒယ်ကာရင် သာလျှင် ပြည်နှင်ဒဏ် ခံခဲ့ရ၏။ ၁၉၂၃ ခုနှစ်တွင် ဂရိတ်ဗြိတိန်နှင့် ပြင်သစ်နိုင်ငံတို့သည် တန် ဂျီးယားကို အပြည်ပြည်ဆိုင်ရာ နယ်အဖြစ် သဘောတူသတ် မှတ် ကြလေသည်။

၁၉၄၂ ခုနှစ် နိုဝင်ဘာလ ၈ ရက်နေ့တွင် ဗြိတိသျှနှင့် အ မေရိကန်ခေါင်းဆောင်သောတပ်များသည်မိုရော့ကိုပြည်သို့ အတ္တလန္တိတ်ကမ်းခြေဖက်မှ တက်ရောက်ခဲ့၏။ အမေရိကန် တပ်များသည် မိုရော့ကိုပြည်ကို ကောင်းမွန်စွာ ထိန်းသိမ်း ခဲ့လေသည်။ ယင်းသည့်နောက်တွင် မိုရော့ကိုပြည်သည် အာဖရိကတိုက်၌ မဟာမိတ်တို့၏ အခြေခံစခန်း ဖြစ်လာ သည်။ ၁၉၄၆ ခုနှစ်တွင် ပြင်သစ်နိုင်ငံ၏ အခြေခံဥပဒေ အရ မိုရော့ကိုသည် ပြင်သစ်ပြည်ထောင်စုတွင် ပါဝင်သော အဖွဲ့ဝင် ပြည်တခု ဖြစ်လာ၏။ အမေရိကန် ပြည်ထောင်စု နှင့် ပြင်သစ်နိုင်ငံတို့သည် ဥရောပတိုက်အနောက်ဖက် ကာ ကွယ်ရေးအတွက် လေဘပ်စခန်းများကို မိုရော့ကိုတွင် တည်ဆောက်ရန် ၁၉၅၁ ခုနှစ်တွင် သဘောတူကြလေသည်။



မိုရော့ကိုနိုင်ငံတွင် မြည်းကိုဝန်တင်ရန်အတွက် များစွာအသုံးပြုကြသည်။



မိုရော့ကို နိုင်ငံသားတို့သည် ဧည့်သည်များအား ကာဖီခါးခါးဖြင့် ရိုးရာမပျက် လောကွတ်ပျူငှါ ဧည့်ခံလေ့ရှိကြသည်။

ပြင်သစ်အုပ်ထိန်းခံ မိုရော့ကိုပြည်သည် ပြင်သစ်တို့လက်အောက်တွင် မငြိမ်မသက်ဖြစ်ကာ အစဉ်လိုပင် ပုန်ကန် ထကြွမှုများ ပေါ်ပေါက်ခဲ့ပေသည်။ ၁၉၅၃ ခုနှစ်တွင် ပြင်သစ်တို့သည် စူလတန် ဘုရင် ဆီဒီ ဗင်ယူဆွတ်ကို နယ်နှင်လိုက်လေသည်။ သူ၏ နေရာတွင် သူ၏ ဦးရီးတော် မဟာမက် ဗင် အာရာဖာကို နန်းတင်သည်။ဦးရီးတော်မှာပြင်သစ်တို့ကို လိုလားသူဖြစ်၏။ ထိုအချိန်မှစ၍ တိုင်းပြည်တွင် ဆူပူထကြွမှုများ ပေါ်ပေါက်လာပြန်၏။ မိုရော့ကိုမျိုးချစ်အဖွဲ့ကလွတ်လပ်ရေးပေးရန်နှင့် စူလတန်ဘုရင်ဟောင်းကို ပြန်လည်နန်းတင်ရန် တောင်းဆိုကြလေသည်။ ဤသို့သောဆန္ဒပြပွဲများ အဓိကရုဏ်းများတွင် တိုင်းသူပြည်သား ထောင်ပေါင်းများစွာ သေကြေကြရလေသည်။ ၁၉၅၅ ခုနှစ် ဒီဇင်ဘာလ ၇ ရက်နေ့တွင် ပြင်သစ်တို့သည် စူလတန်ဘုရင်ဟောင်းကို ပြန်လည်နန်းတင်၏။ စူလတန်ဘုရင်သည် စီ အင်ဗာရက် ဗက်ကိုင်ကို ဝန်ကြီးချုပ်အဖြစ် ခန့်အပ်၍ ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံ ဥပဒေကို ရေးဆွဲရန်ရင်း၊ ဒီမိုကရေစီ အစိုးရအဖွဲ့ကို ဖွဲ့စည်းရန်ရင်း အာဏာနှင်းအပ်လေသည်။ ပြင်သစ်အစိုးရကိုယ်စားလှယ်တော်သည် မိုရော့ကိုတွင် လွတ်လပ်သောနိုင်ငံဖြစ်သည့်အချိန်အထိ နိုင်ငံခြားရေး ဝန်ကြီး ဖြစ်၏။ မိုရော့ကိုသည် ၁၉၅၆ ခုနှစ် မတ်လ ၂ ရက်နေ့တွင် အချုပ်အချာ အာဏာပိုင်လွတ်လပ်သော မိုရော့ကို နိုင်ငံအဖြစ်သို့ ရောက်ရှိသည်။ စပိန်အစိုးရသည်လည်း ပြင်သစ်တို့၏ လမ်းစဉ်ကိုလိုက်လျက် စပိန်အုပ်ထိန်းနယ်ကို ၁၉၅၆ ခုနှစ် ဧပြီလ ၇ ရက်နေ့တွင် လက်လွှတ်လိုက်လေသည်။ ဆီဒီ ဗင်ယူဆွတ်သည် ပဉ္စမ မဟာမက်ဘုရင်အဖြစ် နန်းတက်သည်။ ဘုရင်သည် တန်ဂျီးယားနယ်ကို မိုရော့ကိုပိုင်နယ်အဖြစ် ပြန်လည်တောင်းခံယူလျက် ယင်းဒေသတွင် ဘုရင်ခံတဦးကို ခန့်အပ်လေသည်။ မိုရော့ကို နိုင်ငံသည် ၁၉၅၇ ခုနှစ်တွင် ကုလသမဂ္ဂတွင် အဖွဲ့ဝင်တဦးအဖြစ် ဝင်ရောက်သည်။ ၁၉၆၁ ခုနှစ် ဖေဖော်ဝါရီလ ၂၆ ရက်နေ့တွင် မဟာမက်ဘုရင် နတ်ရွာစံသဖြင့် အိမ်ရှေ့နန်းလျာ မူလေဟာဆန်ကထီးနန်းဆက်ခံလေသည်။

**မိုလိုတော့ဗ်၊အမ် (ခရစ် ၁၈၉၀ ပြည့်ဖွား)။** ။ဗျာချေဆလပ်မီကိုးလိုဗျစ် မိုလိုတော့သည် ဆိုဗီယက်ပြည်ထောင်စု၏ ခေါင်းဆောင် နိုင်ငံပြုသုခမိန်ကြီးတဦးဖြစ်၍ ၁၈၉၀ ပြည့်နှစ် မတ်လ ၉ ရက်နေ့တွင် ရုရှနိုင်ငံအနောက်မြောက်ပိုင်းရှိ စိန့်ပီတာစဗတ်မြို့အနီး ဗျတ်ကာဒေသ၌ဖွားမြင်ခဲ့လေသည်။သူ၏ ဖခင်မှာကုန်သည်တဦးဖြစ်၏။ထိုပြင်သူ၏အမည်ရင်းမှာ စကရိယာဗင်ဖြစ်၍ မိုလိုတော့မှာ လူငယ်တော်လှန်ရေးသမားအဖြစ်ခံယူခဲ့သောအမည်ဖြစ်၏။ထုနှက်ရန် ဖြစ်သောတူဟုလို။

မိုလိုတော့သည် ကာဇန် အထက်တန်းကျောင်း၌ ပညာသင်ကြားနေစဉ် ၁၅ နှစ်သား အရွယ်ကပင် ဗော်လရှီဗစ်

ဂိုဏ်းဝင်တဦးဖြစ်ခဲ့၏။ အထက်တန်း ပညာသင်ကြားပြီးဆုံးခါနီး ၁၉၀၉ ခုနှစ်တွင် ဇာဘုရင်၏ပုလိပ်များက မိုလိုတော့အား ပဌမဆုံးအကြိမ် ဖမ်းဆီးကာ ရုရှားနိုင်ငံအရှေ့ပိုင်းသို့ ပို့လိုက်လေသည်။ ၁၉၁၁ ခုနှစ်တွင် ပြန်လာရပြီးနောက် စိန့်ပီတာစဗတ်မြို့ (ယခုလီနင်ဂရက်) ရှိ အင်ဂျင်နီယာကျောင်းတွင် ပညာဆက်လက်သင်ကြားခဲ့လေသည်။ ၁၉၁၇ ခုနှစ်အထိ ထိုကျောင်းတွင် နေခဲ့သော်လည်း တော်လှန်ရေးလုပ်ငန်းများတွင် ပါဝင်ဆောင်ရွက်ခဲ့ခြင်းတို့ကြောင့် ၃ ကြိမ်တိုင်တိုင် ဖမ်းဆီး ထောင်ချ နယ်နှင်ခြင်းခံခဲ့ရသည်။ ၁၉၁၇ ခုနှစ် ဖေဖွာရီလ၌ ဒုတိယ နစ်ကလတ်ဘုရင် နန်းစွန့်ပြီးသည့်နောက်တွင် မိုလိုတော့သည် ပီထရိုဂရက်မြို့နှင့် ပတ်ဝန်းကျင်ခရိုင်၏ အုပ်ချုပ်ရေးအဖွဲ့ဖြစ်သော ပီထရိုဂရက် ဆိုဗီယက် အမှုဆောင် အဖွဲ့ဝင်တဦး ဖြစ်လာလေသည်။ ထိုနှစ်အောက်တိုဘာ၊ နိုဝင်ဘာတော်လှန်ရေးကြီးတွင် ထိရောက်စွာ ပါဝင်ဆောင်ရွက်ခဲ့၍ လီနင်၊ ထရော့စကီတို့နှင့် ရင်းနှီးခင်မင် ခဲ့သည်။ တော်လှန်ရေးကြီး အောင်မြင်သောအခါ မိုလိုတော့သည် ဗော်လဂါနှင့် ယူကရိန်းနယ်များ၌ အရာရောက်သော အစိုးရ ရာထူးများတွင် ထမ်းရွက်ခဲ့ရလေသည်။ ၁၉၂၀ ပြည့်နှစ်တွင် ယူကရိန်းနယ်၏ကွန်မြူနစ်ပါတီ ဗဟိုကော်မီတီ အတွင်းရေးမှူးဖြစ်လာသည်။ ၁၉၂၁ ခုနှစ်တွင် မော်စကိုသို့ ပြန်သွားရပြီးသော် ဗဟိုအစိုးရအဖွဲ့တွင် အမှုထမ်းခဲ့ရလေသည်။ ၁၉၂၆ ခုနှစ်တွင် ဆိုဗီယက်ပြည်ထောင်စုတခုလုံး၏ ကွန်မြူနစ်ပါတီ ဗဟိုကော်မီတီ အတွင်းရေးမှူးအဖြစ် ရွေးကောက်တင်မြှောက်ခြင်း ခံခဲ့ရသည့်အပြင် ပေါ်လစ်ဗျူရို အဖွဲ့ဝင်အဖြစ်လည်း ရွေးကောက်တင်မြှောက်ခြင်းခံရလေသည်။ ၁၉၃၀ ပြည့်နှစ်တွင် ပြည်သူ့ကိုယ်စားလှယ်များအဖွဲ့ ဥက္ကဋ္ဌအဖြစ် တင်မြှောက်ခြင်း ခံရလေသည်။ ထိုရာထူးမှာ အစိုးရအဖွဲ့ ဝန်ကြီးချုပ် ရာထူးပင် ဖြစ်၏။ ၁၉၃၉ ခုနှစ် မေလ ၃ ရက်နေ့တွင် ဆိုဗီယက် နိုင်ငံခြားရေးဝန်ကြီး ရာထူးကိုလည်း လက်ခံဆောင်ရွက် ခဲ့ရလေသည်။ ၁၉၃၉ ခုနှစ် ဩဂုတ်လတွင် ဂျာမနီနှင့် ရန်မစရေး စာချုပ်တရပ်ကို ချုပ်ဆို လက်မှတ်ရေးထိုးခဲ့သည်။

၁၉၄၁ ခုနှစ် မေလ ၆ ရက်နေ့တွင် စတာလင်က ဝန်ကြီးချုပ်ရာထူးကို လက်ခံလိုက်သောအခါ မိုလိုတော့သည် ဒုတိယဝန်ကြီးချုပ်ရာထူးနှင့် နိုင်ငံခြားရေး ဝန်ကြီးရာထူးကို တွဲဖက်ကာ ဒုတိယကမ္ဘာစစ်အတွင်းနှင့် စစ်ပြီးသည့် နောက်အတန်ကြာအောင် ဆောင်ရွက်ခဲ့လေရာ မိုလိုတော့သည် စတာလင်၏ ညာလက်ရုံးသဖွယ် ဖြစ်ခဲ့ လေသည်။

ဂျာမန်တို့က စာချုပ်ကို ဖောက်ဖျက်၍ ရုရှကို တိုက်ခိုက်သောအခါ ၁၉၄၁ ခုနှစ်ဇူလိုင်လ ၁၅ ရက်နေ့တွင် မိုလိုတော့သည် ဗြိတိန်နှင့် အချင်းချင်းကူညီရေး စာချုပ်တရပ် ချုပ်ဆိုခဲ့သည်။ ၁၉၄၂ ခုနှစ်၌ ဂရိတ်ဗြိတိန်သို့ သွား၍ ဗြိတိသျှ



ရုရှနိုင်ငံခြားရေး ဝန်ကြီးဟောင်း ဗီ၊ အမ်၊ မိုလိုတော့

အစိုးရနှင့် အနှစ် ၂၀ မဟာမိတ် စာချုပ်တရပ်ကို ချုပ်ဆိုခဲ့ပြီးနောက် ဝါရှင်တန်မြို့သို့လည်း သွားရောက်ကာ ချေးငှါးရေးစာချုပ်ကို လက်မှတ်ရေးထိုးခဲ့သည်။ ၁၉၄၃ ခုနှစ် အောက်တိုဘာလအတွင်းက မော်စကိုတွင် ကျင်းပသော ဆိုဗီယက်ရုရှ၊ ဗြိတိန်နှင့် အမေရိကန် သုံးပြည်ထောင်နိုင်ငံခြားရေးဝန်ကြီးများ ညီလာခံကြီးတွင် ဥက္ကဋ္ဌအဖြစ် ဆောင်ရွက်ခဲ့ပြီးလျှင် တဟီရန်၊ ကရိုင်းမီးယားနှင့် ယော်လတာ ညီလာခံ များသို့လည်း စတာလင်နှင့်အတူ လိုက်ပါ သွားခဲ့ရလေသည်။ ၁၉၄၅ ခုနှစ် ဩဂုတ်လအတွင်း အမေရိကန် ပြည်ထောင်စု ဆန်ဖရန်စစ္စကိုမြို့၌ ကျင်းပခဲ့သော ကမ္ဘာ့ကုလသမဂ္ဂ ညီလာခံသို့ ဆိုဗီယက်ကိုယ်စားလှယ် အဖွဲ့ကို ခေါင်းဆောင်၍တက်ရောက်ခဲ့သည်။ ထိုနောက် ဘာလင်မြို့၌ ကျင်းပသော ရုရှ၊ အမေရိကန်နှင့် ဗြိတိသျှခေါင်းဆောင်ကြီးများ အစည်း အဝေးသို့လည်း တက်ရောက်ခဲ့လေသည်။ ၁၉၄၆ ခုနှစ်အတွင်း ကျင်းပခဲ့သော အရေးပါသည့် အပြည်ပြည်ဆိုင်ရာ ညီလာခံကြီး များတွင် အမြဲလိုလိုပင် ရုရှနိုင်ငံ၏ ကိုယ်စားလှယ်တော် အဖြစ် တက်ရောက် ခဲ့ရသည်။ ထိုသို့ တက်ရောက်သည့် အခါများတွင် မကြာခဏလိုလိုပင် အနောက်ပိုင်း နိုင်ငံများမှ ကိုယ်စားလှယ်တော်များနှင့် အတိုက်အခံ ဖြစ်ခဲ့ရလေသည်။ ကုလသမဂ္ဂ ညီလာခံ များတွင်၎င်း၊ နိုင်ငံခြားရေးဝန်ကြီးများညီလာခံများတွင်၎င်း မိုလိုတော့သည် ထင်ရှားသော ခေါင်းဆောင်တဦးဖြစ်လေသည်။

၁၉၄၉ ခုနှစ်၌ နိုင်ငံခြားရေးဝန်ကြီး ရာထူးတွင် အန်ဒရီး ဗီရှင်စကီကို ခန့်ထားလိုက်သောအခါ မိုလိုတော့သည် ဒုတိယ ဝန်ကြီးချုပ် အဖြစ်ဖြင့်သာ ဆက်လက် ဆောင်ရွက်နေလေသည်။ သူသည် ဆိုဗီယက်ပြည်ထောင်စုနိုင်ငံတွင် ဒုတိယ အာဏာအရှိဆုံး ပုဂ္ဂိုလ်ဖြစ်သည်ဟု ဆိုလေသည်။ စတာလင် အနိစ္စရောက်ပြီးသည့် နောက်ဘွင်မူ ဆိုဗီယက် ပြည်ထောင်စုနိုင်ငံတွင် မာလျင်ကော့၊ ဗားရီးယားနှင့် မိုလိုတော့တို့သည် အာဏာအရှိဆုံး ပုဂ္ဂိုလ် ၃ ဦး ဖြစ်ခဲ့လေသည်။

၁၉၅၆ ခုနှစ်မှ ၁၉၅၇ ခုနှစ်အထိ ပြည်သူပိုင်လုပ်ငန်းများ ကြီးကြပ်ရေးဝန်ကြီးအဖြစ် ဆောင်ရွက်သည်။ ၁၉၅၇ ခုနှစ်တွင် ရုရှခေါင်းဆောင်ကြီးများနှင့် သဘောကွဲလွဲသဖြင့် ဆိုဗီယက် ကွန်မြူနစ်ဗဟိုအဖွဲ့မှ ထုတ်ပယ်ခြင်းခံရသည်။ ထိုနှစ် ဩဂုတ်လမှစ၍ မွန်ဂိုလီယန် ပြည်သူ့သမတ နိုင်ငံသို့ ဆိုဗီယက် သံအမတ်အဖြစ် ခန့်အပ်ခြင်းခံရသည်။ ၁၉၆၀ ပြည့်နှစ် စက်တင်ဘာလတွင် ဗီယင်းနားမြို့ရှိ အပြည်ပြည်ဆိုင်ရာ အဏုမြူ စွမ်းအင် ကိုယ်စားလှယ်အဖွဲ့သို့ ဆိုဗီယက်သံအဖွဲ့ ခေါင်းဆောင်အဖြစ် သွားရောက် ထမ်းရွက်ခဲ့ရလေသည်။

**မိုး, ဆာတောမတ်** (ခရစ်၁၄၇၈–၁၅၃၅)။ ။လက်တင်ဘာသာဖြင့် ရေးထား၍ ကမ္ဘာ့စာပေဂန္ထဝင်တွင် ထင်ရှားသော "ယူတိုးပီးယား" ခေါ်သော စာအုပ်ကို ရေးသားပြုစုသူ ဆာတောမတ် မိုးသည် အင်္ဂလိပ်လူမျိုး နိုင်ငံပြု သုခမိန် အဖြစ်၎င်း၊ ဘာသာအယူဝါဒ အာဇာနည်အဖြစ်၎င်း ထင်ရှားကျော်ကြား၏။ အဋ္ဌမဟင်နရီဘုရင်၏ လက်ထက်တွင် အရေးပါသော ပုဂ္ဂိုလ်တဦးဖြစ်သည်။



ဗြိတိသျှသမိုင်းတွင် ထင်ရှားသည့် နိုင်ငံပြုသုခမိန် ဆာ တောမတ်မိုး

ဆာတောမတ်မိုးသည် လန်ဒန်မြို့၌ ၁၄၇၈ ခုနှစ် ဖေဖွာရီလ ၇ ရက်နေ့တွင်မွေးဖွား၍ ဖခင်မှာ ထင်ရှားသော ဝတ်လုံတော်ရတဦး ဖြစ်လေသည်။ ငယ်စဉ်က ကန်တာဗာရီ ဂိုဏ်းချုပ်ကြီး ကာဒင်နယ် မော်တန် ထံတွင် လက်ပါးစေအဖြစ် အမှုထမ်းခဲ့လေသည်။ အောက်စဖို့ဘက္ကသိုလ်၌ ပညာဆည်းပူးခဲ့ပြီးနောက် ဥပဒေပညာရပ်များကို ဆက်လက်သင်ယူခဲ့လေ၏။ ကျောင်းမှထွက်၍ ရှေ့နေအလုပ်ဖြင့် အသက်မွေးခဲ့ရာ များမကြာမီ ထင်ရှားကျော်ကြားလာခဲ့လေသည်။ သို့သော် မိုးမှာ ဘုရားတရား ကြည်ညိုသူဖြစ်ရကား ဘုရားဝတ်ပြုကာ ဥပုသ်သီတင်းစောင့်ကာ နေထိုင်ယင်းက သာသနာ့ ဘောင်တွင်းသို့ ဝင်ရန်ပင် ကြံရွယ်ခဲ့၏။ နောင်မှ ထိုအကြံကို ဖျက်လိုက်သော်လည်း၊ သူပြုမူလုပ်ကိုင်သမျှတွင် ဘာသာအယူဝါဒ ရည်ရွယ်ချက်များသာ လွှမ်းမိုးခဲ့ပေသည်။ ၁၅၀၄ ခုနှစ်တွင် ပါလီမန်အမတ်တဦး ဖြစ်လာလေသည်။ သို့သော်လည်း သတ္တမဟင်နရီက အခွန်တော်များ ကြီးလေးစွာ ကောက်ခံသည်ကို အတိုက်အခံ လုပ်သဖြင့် ဘုရင်အမျက်ရှခြင်းကို ခံရလေသည်။

အဋ္ဌမဟင်နရီ နန်းတက်သောအခါ၌ မိုးသည် ဆက်လက်၍ အမှုတော်ထမ်းသည်။ မင်းပျိုမင်းလွင်ဖြစ်သော အဋ္ဌမဟင်နရီ ဘုရင်သည် မိုး၏ အရည်အချင်း အစွမ်းအစကို သဘောကျသဖြင့် အရေးပါလှသည့် ရာထူးကြီးများကို ထမ်းရွက်စေ၏။ တိုင်းတပါးသို့ သံတမန်အဖြစ်နှင့် ၁၅၀၉ ခုနှစ်တွင် စေလွှတ်ခဲ့လေသည်။ ၁၅၁၈ ခုနှစ်တွင် ပရီဗီကောင်စီတွင် အဖွဲ့ဝင်တဦး အဖြစ်၎င်း၊ ၁၅၂၃ ခုနှစ်တွင် အောက်လွှတ်တော် ဥက္ကဋ္ဌအဖြစ်၎င်း ခန့်အပ်ခြင်း ခံရ၏။ ၁၅၂၁ ခုနှစ်တွင် ဆာဘွဲ့ဖြင့် ချီးမြှင့်ခြင်းခံရသည်။ ၁၅၂၉ ခုနှစ်တွင် ကာဒင်နယ် ဝုလဇီ၏ နေရာတွင် ချန်စယ်လာခေါ် တရားဌာန ဝန်ကြီးအဖြစ် ခန့်အပ်ခြင်း ခံခဲ့ရလေသည်။ ယခင်က ထိုရာထူးကို သာသနာရေးဖက်မှ ပုဂ္ဂိုလ်ကြီးများသာ ထမ်းရွက်ခဲ့ရလေရာ လူဝတ်ကြောင်ဖြင့် ပဌမဦးစွာ ထမ်းရွက်ရသူမှာ မိုးပင်ဖြစ်လေ၏။

လေးနှစ်မျှ ကြာသောအခါ မိုးမှာ ကျန်းမာရေး ချွတ်ယွင်းသည်ဟု အကြောင်းပြကာ ရာထူးမှ နုတ်ထွက် လိုက်လေသည်။ စင်စစ်မူကား အဋ္ဌမဟင်နရီဘုရင်သည် မိမိ၏ ကြင်ယာတော် အာရဂွန်မင်းသမီး ကက်သရင်းနှင့် ကွာရှင်းလိုမှုဖြင့် ဗရင်ဂျီဂိုဏ်းနှင့် အတိုက်အခံပြုခြင်းကို မလိုလားမနှစ်ခြိုက်သောကြောင့် ဆာ တောမတ်မိုး နုတ်ထွက်ခြင်း ဖြစ်၏။ မိုးကား ဗရင်ဂျီဂိုဏ်းဝင်စစ်စစ်ကြီး ဖြစ်လေသည်။ ထိုကြောင့် အင်္ဂလန်ပြည် သာသနာ့ဂိုဏ်း၏ အထွတ်အထိပ်

အဖြစ်ဖြင့် ဟင်နရီဘုရင် ခံယူသည့်အချက်ကို လက်ခံရန် ငြင်းပယ်ခဲ့လေသည်။ သို့ဖြစ်ရကား ဟင်နရီဘုရင်သည် မိုးနှင့် အပေါင်းပါ ဂိုဏ်းအုပ်ဖစ်ရှာတို့အား သစ္စာဖောက်မှုဖြင့် စွပ်စွဲဖမ်းဆီးပြီးသော် လန်ဒန်မြို့ရှိမျှော်စင်ကြီး၌ ချုပ်နှောင်ထားခဲ့၏။ မိုးမူကား သူ၏သဘောထားကိုပြောင်း၍ ဘုရင့်အလိုကျအောင် အလျှော့မပေးခဲ့ချေ။ သားမယားဆွေမျိုးမိတ်သင်္ဂဟ များက အတန်တန် တောင်းပန် သော်လည်း ခေါင်းမာမြဲ မာနေခဲ့လေသည်။ ထိုကြောင့် ၁၅၃၅ ခုနှစ် ဇူလိုင်လ ၆ ရက်နေ့တွင် ခေါင်းဖြတ် ကွပ်မျက်ခြင်း ခံရလေ၏။ အရည်အချင်းနှင့် ပြည့်စုံသလောက် သတ္တိလည်း ရှိသူဖြစ်လေရာ ဆာတောမတ်မိုးသည် ရဲရင့် တည်ကြည်စွာပင် အသတ်ခံလေသည်။ ဟင်နရီဘုရင်ကား မိုး၏ ပစ္စည်းဥစ္စာများကိုလည်း ဘဏ္ဍာတော်အဖြစ် သိမ်းယူလိုက်၏။ မိုးသည် "ယူတိုးပီးယား" စာအုပ်ကို ၁၅၁၆ ခုနှစ်တွင် ရေးသား၏။ ယင်းသည် စိတ်ကူးယဉ် ကျွန်းတကျွန်းအကြောင်း ဖြစ်၏။ ပေါင်းသင်းဆက်ဆံရာ၌ လူတို့သည် တတန်းတစားတည်း ထားသောသဘောကို သရုပ်ဖော်ထားလျက် ဖိနှိပ်စိုးမိုးခြင်းကင်း၍ တကိုယ်ကောင်းစိတ် မမွေးမြူဘဲ ကိုယ်စီကိုယ်ငှ မိမိတွင်ကျရောက်သည့် ဝေပုံကျအလုပ်ကို လုပ်ကိုင်ခြင်းဖြင့် သောကကင်းဝေး နေနိုင်ရေး လမ်းညွှန်ဖြစ်၏။ စင်စစ်မှာ အင်္ဂလန်ပြည်၌ ထိုစဉ်က အခြေအနေ ဆိုးသွမ်းနေသည်ကို စောင်းမြောင်းလျက် ပြုပြင်ရန်အလို့ငှါ ရည်ရွယ်၍ရေးထားသော နိုင်ငံပြုပြင်ရေး စာတမ်းဖြစ်၏။ မိုး၏အိမ်သည် သူ၏ စိတ်ကူးယဉ် ကျွန်းကဲ့သို့ပင် ငြိမ်းသာယာ ပျော်ရွှင်ဖွယ်ရှိသောဟူ၏။ မိုးသည် "အပြန်အလှန် စကားပြောဆိုခြင်း" နှင့် "တတိယ ရစ်ချတ်ဘုရင်၏ ရာဇဝင်" တို့ကိုလည်း ရေးသားခဲ့သေးသည်။

**မိုးကောင်းငှက်။** ။မိုးကောင်း ငှက်သည် ငှက်ခါးကဲ့သို့ပင် ကိုရာဆိုင်အီဒီး မျိုးရင်းတွင် ပါဝင်၍ ပါဏဗေဒအလိုအားဖြင့် ယူရစ်စတိုးမတ် အိုရီယင့်တားလစ် အိုရီယင့်တားလစ် ဟု ခေါ်သည်။ ငှက်ခါးနှင့် မျိုးတူ ဖြစ်သော်လည်း ငှက်ခါးလောက် လူသိမများချေ။ အလျား ၁၂ လက်မရှိသည်။ ပျံသန်းသည့်အခါ တောင်ပံတဖက်တချက်တွင် အဖြူကွက်ကြီး တခုစီကိုမြင်နိုင်သည်။ နားနေသည့်အခါတွင် မိုးကောင်းငှက်၏ မည်းခြောက်ခြောက် အရောင်နှင့် နီရဲသော နှုတ်သီးကို ထင်ရှားစွာမြင်နိုင်သည်။

မိုးကောင်းငှက်သည် ငှက်ခါးကဲ့သို့ သစ်ပင် ကျိုးတိုးကျဲတဲမျှရှိသည့် ကွင်းပြင်၌ ကျက်စားသော ငှက်မျိုးမဟုတ်ဘဲ၊ တောတွင်းငှက် စစ်စစ်ဖြစ်၍ ကျွန်းတောများတွင် အများဆုံးတွေ့ရသည်။ သစ်ပင်ခြောက် ထိပ်ဖျားပေါ်တွင် နားနေလေ့ရှိ၍ နေ့လယ်နေ့ခင်း ပူချိန်တွင် ဦးခေါင်းကို ရင်အုပ်နှင့်



အသံစူးရှသည့် မိုးကောင်းငှက်

ပခုံးရှိ အမွေးများကြားတွင် ဖုံးဝှက်ကာ မလှုပ်မယှက် နေတတ်သည်။ ငှက်ခါးကဲ့သို့ ပူပြင်းသော နေရောင်အောက်တွင် ကြာရှည်စွာနေနိုင်သည်။ သာမန်အားဖြင့် ပျင်းရိလေးကန်သော်လည်း စိတ်တက်ကြွလာသည့်အခါ လျင်မြန်ဖျတ်လတ်လေသည်။ ပျံနေသော ပိုးကောင်များကို လင်းမြီးဆွဲများနှင့်အတူ လိုက်လံဖမ်းစားတတ်သည်။ သစ်စားပိုး၊ ပုစဉ်းရင်ကွဲ၊ နံကောင် စသည်တို့သည် မိုးကောင်းငှက်၏ အစာများ ဖြစ်ကြသည်။

မိုးကောင်းငှက်သည် စူးရှသောအသံဖြင့် မကြာမကြာ အော်လေ့ရှိသည်။ ငှက်ခါးလောက် မဆူညံချေ။ သို့သော် သားပေါက်ချိန်တွင်ကား ငှက်ခါးကဲ့သို့ ဆူညံ၏။ မတ်လမှ မေလအထိ မိုးကောင်းငှက်များ သားပေါက်ကြသည်။ အသိုက်လုပ်လေ့ မရှိဘဲ မြင့်သောသစ်ပင် အခေါင်းထဲတွင် အုလေ့ ရှိသည်။ တမြုံလျှင် ၃ ဥမှ ၄ ဥအထိ ရှိသည်။

မိုးကောင်းငှက်ကို အိန္ဒိယနိုင်ငံနှင့် အရှေ့မြောက် အာရှတိုက်နိုင်ငံများမှ ဩစတြေးလီးယားကျွန်းအထိ၊ အနောက်ဖက်တွင် ဟိမဝန္တာတောင်တန်း အလယ်ပိုင်းအထိ တွေ့ရသည်။ မြန်မာနိုင်ငံ တောင်ခြေ သစ်တောများတွင် အနှံ့အပြားတွေ့ရသည်။ မြင့်မားသောတောင်များပေါ်၌ တွေ့ရ

ခဲသည်။ သို့သော် ပဲခူးရိုးမ အချို့နေရာများတွင်ကား မိုးကောင်းငှက်တို့ကို ထူးထူးခြားခြား တွေ့ရလေသည်။

**မိုးကောင်းမြို့။** ။မိုးကောင်းမြို့သည် မြန်မာနိုင်ငံအထက်ပိုင်း ကချင်ပြည်နယ်တွင် အကျုံးဝင်သော မြစ်ကြီးနားခရိုင်တွင် တည်ရှိ၍ နယ်ပိုင်ရုံးစိုက်မြို့ ဖြစ်သည်။ မိုးကောင်းမြို့သည် ရှေးတခေတ်က ရှမ်းစော်ဘွားများ ကြီးစိုးတန်ခိုးထွားခဲ့စဉ် ရှမ်းမြို့တော် ဖြစ်ခဲ့သောကြောင့် မြန်မာ့သမိုင်းတွင် မကြာခဏ ဖတ်ရှုရပေသည်။ ဤသို့ ရှေးသမိုင်းဝင်ခဲ့သော မိုးကောင်းမြို့သည် ယခုအခါ နိုင်ငံတွင်မထင်ရှားတော့သော်လည်း တရုပ်လူမျိုးတို့ နှစ်သက်သော ကျောက်စိမ်းရတနာကို အများဆုံး ရောင်းဝယ်ရာ ဌာနဖြစ်သောကြောင့် မိုးကောင်းဆိုလျှင် ကျောက်စိမ်းထွက်ရာ အရပ်အဖြစ် လူသိများပေသည်။

မိုးကောင်းမြို့သည် မိုးကောင်း ချောင်းငယ်၏ လကျ်ာဖက်ကမ်းပေါ်တွင် တည်ရှိသည်။ မန္တလေး – မြစ်ကြီးနား မီးရထားလမ်းသည် မိုးကောင်းမြို့ကို ဖြတ်သွားပေရာ မီးရထားလမ်းအားဖြင့် မန္တလေးမြို့မှ ၃၀၆ မိုင်ကွာဝေး၍ မြစ်ကြီးနားမြို့မှ ၁၇ မိုင် ကွာဝေးသည်။ မိုးကောင်းမြို့သည် မိုးကောင်းနယ်၏ ရုံးစိုက်မြို့ ဖြစ်သည်နှင့်အညီ အစိုးရရုံး၊ အထက်တန်းကျောင်း၊ ဈေး၊ တိုက်တာ အဆောက်အအုံတို့ဖြင့် အတန်ပင် စည်ကားသောမြို့ဖြစ်သည်။ နေထိုင်သူများမှာ တရုပ် – မြန်မာ ကပြားနှင့် ရှမ်းအဆက်အနွယ်များ ဖြစ်ကြ၏။လူဦးရေမှာ ၁၉၅၃ ခုနှစ် သန်ကောင် စာရင်းအရ ၂,၉၂၀ ယောက်ရှိသည်။ မိုးကောင်းနယ်၏ အကျယ်အဝန်းမှာ စတုရန်းမိုင် ၃၆၀ ရှိ၍၊ လူဦးရေ ၉၃,၄၄၇ ယောက် ရှိလေသည်။

မိုးကောင်းမြို့သည် ကျောက်စိမ်းထွက်ရာဒေသတွင် ရှိသည့်အလျောက် မြို့တွင်းနေထိုင်သူများသည် ကျောက်စိမ်းတူးဖော်ခြင်း၊ ကျောက်သွေးခြင်း၊ကျောက်ထည်များ ပြုလုပ်ခြင်း စသည်ဖြင့် ကျောက်စိမ်းလုပ်ငန်းကို ပြုလုပ်ကြသည်။ ကျောက်စိမ်းအပြင် ပယင်း ၂ မျိုးလည်းထွက်၏။ တောင်ယာလယ်လုပ်ခြင်းလည်း ပြုလုပ်သည်။ ဆန်စပါး၊ မြေပဲ၊ ငခြောက်စသည်တို့လည်းထွက်လေသည်။ မိုးကောင်းမြို့တွင် ဆန်စက်များရှိသည်။ သွားလမ်းလာလမ်းမှာ အဓိကအားဖြင့် မီးရထားလမ်းကို အသုံးပြုသည်။ ယခုအခါ မြစ်ကြီးနား၊ဗန်းမော်မြို့များသို့ ကားလမ်းပေါက်လေသည်။ မြစ်ကြီးနားသို့ ကားလမ်းအားဖြင့် မိုင် ၄၀ ခန့်သွားရသည်။

မိုးကောင်းမြို့ရှိ တန်ခိုးကြီးဘုရားမှာ ရွှေဘုရား ဖြစ်၍ နှစ်စဉ် ဘုရားပွဲတော်ကျင်းပသည်။ မိုးကောင်းနယ်တွင် အခြား ထင်ရှားသော ဘုရားများမှာ မိုးညှင်းမြို့ရှိ မြသိန်းတန်ဘုရားနှင့် ဘီလူးမြို့ရှိ ရွှေဘုံသာစေတီတို့ ဖြစ်သည်။

ပဌမဆုံး မိုးကောင်းစော်ဘွားမှာ စံလုံဖဖြစ်၍ သက္ကရာဇ် ၅၇၇(ခရစ် ၁၂၁၅) ခုနှစ်ခန့်တွင် စော်ဘွားအဖြစ်ကို ခံယူသည်။ စံလုံဖသည် နမ့်ကောင်းချောင်း (ယခု မိုးကောင်းချောင်း)ကို ယခုမိုးကောင်းမြို့၏ အထက် မလှမ်းမကမ်းတွင် ကူးဖြတ်သောအခါ ချောင်း၏အောက်ခင်းတွင် စည်သဏ္ဌာန်ရှိသော နီလာတခုကို တွေ့သည်ဆို၏။ ထိုအချင်းအရာကို





မိုးကောင်းမြို့တွင် ကျောက်စိမ်းများကိုတူးဖော်ရာ၌ကျင်းမှရေများကိုဦးစွာဝါးပြွတ်များဖြင့်စုတ်ယူပြီးနောက် (ဝဲ · ပုံ)တူးယူရသည်(ယာ·ပုံ)။

ကောင်းသောနိမိတ်ဟု ယူဆပြီးလျှင် ယင်းနေရာအနီး၌ မြို့တော်ကို တည်ရှိစေသည်။ ယင်းနီလာကို စော်ဘွားအဆက်ဆက် သိမ်းဆည်းထားခဲ့၏။ မြို့အမည်ကိုလည်း မိုင်းကောင်းဟု တွင်စေ၏။ မိုင်းသည် ရွာ၊ မြို့ဟု အဓိပ္ပါယ်ရပြီးလျှင် ကောင်းမှာ စည်ဟု အဓိပ္ပါယ်ရလေသည်။ ထိုအပြင် တရုပ်ဘုရင် ဥတည်ဘွားနှင့် ကိန္နရာဒေဝီ မိဖုရားတို့၏ မျက်မမြင်သမီးတော်မှာ ရှေးဘဝက ခင်ပွန်းဖြစ်ခဲ့သူ ကျားတကောင်နှင့် သင့်ရာမှ သား ၄ ယောက်ဖွားမြင်၏။ သားအကြီးဆုံးအား အဖိုးဖြစ်သူက မောင်းစည်တလုံးပေးလိုက်ရာ ယခုမိုးကောင်းအရပ်သို့ ရောက်သောအခါ ထိုမောင်းမှာ အလိုအလျောက် မြည်သဖြင့် ထိုအရပ်တွင် မြို့တည်သည်ဟုလည်း ဆိုကြသေးသည်။ ကောင်းသည် မောင်း၊ သို့မဟုတ် စည်ဟူ၍ အဓိပ္ပါယ်ရသည်။

မိုးကောင်းကို ရှမ်းစော်ဘွားများ အဆက်ဆက် အုပ်စိုးလာခဲ့ပြီးလျှင် အင်အားကောင်းသော စော်ဘွားများ လက်ထက်တွင် မြန်မာပြည်မကို ထိပါးသည့်အခါ ထိပါး၏။ သက္ကရာဇ် ၉၁၇ (ခရစ် ၁၅၅၆) ခုနှစ်တွင် ဟံသာဝတီဆင်ဖြူများရှင်မင်းတရား (ဘုရင့်နောင်) သည် အညာသို့ချီတက်တိုက်ခိုက်ရာ မိုးကောင်းကိုလည်း သိမ်းယူတော်မူသည်။ ရှမ်းပြည်တလွှား မိစ္ဆာဒိဋ္ဌိအယူ ယူကြသည်ကို ဗုဒ္ဓအယူဝါဒ၌ တည်စေ၏။ ကျမ်းတတ်သင်္ဃာတော်များအတွက် ကျောင်းများဆောက်လုပ်ပေးပြီးလျှင် သိတင်းသုံးရန်တောင်းပန်၍ ထားတော်မူ၏။ ပိဋကတ် သုံးပုံကိုလည်း ပို့ထား၏။ ထိုမှတပါး ပဲ၊ မူး၊ ကျပ်၊ ပိသာ စသောအလေးချိန်တို့နှင့် ပြည်၊ ခွဲ၊စိတ်၊ တင်းစသော အခြင်အတွယ်ဘို့ကို နေပြည်တော်နှင့်တချက်တည်း ထားတော်မူသည်။

နှစ်ပေါင်း ၂၀ ကျော်လွန်သောအခါ စဝ်တစ်ဖဆိုသူသည် မိုးကောင်းစော်ဘွားအဖြစ် ခံယူပြန်ကာ မြန်မာတို့က နောက်ဆုံးသိမ်းပိုက်သည့်အချိန်အထိ စဝ်တစ်ဖ၏ အဆက်အနွယ်များ အုပ်စိုးလျက် ရှိသည်။ မိုးကောင်းသည် ၁၄ ရာစုနှစ်အဆုံးလောက်မှစ၍ တရုပ်တို့၏ ဩဇာခံဖြစ်ခဲ့သေးသည်။ သို့သော် သက္ကရာဇ် ၁၁၁၅ (ခရစ် ၁၇၅၃) ခုနှစ် အလောင်းမင်းတရား လက်ထက်တွင် အလောင်းမင်းတရားသည် ဗန်းမော်၊ မိုးညှင်းတို့နှင့်အတူ မိုးကောင်းကို အလိုပြည့်လေသည်။ မြန်မာမင်းများလက်ထက်က မိုးကောင်းမြို့တွင် မြို့ဝန်ခန့်အပ်၍ အုပ်ချုပ်စေခဲ့သည်။

**မိုးကုတ်မြို့။** ။မိုးကုတ်မြို့သည် မြန်မာနိုင်ငံအထက်ပိုင်း၊ စစ်ကိုင်းတိုင်း၊ ရွှေဘိုခရိုင်တွင် ပါဝင်သော မိုးကုတ်နယ်၊ မိုးကုတ်မြို့နယ်တို့၏ ရုံးစိုက်မြို့ဖြစ်သည်။ ကမ္ဘာတွင် အကောင်းဆုံးပတ္တမြားသည် မိုးကုတ်မှထွက်သည်။ ထို့ကြောင့်ပတ္တမြား နီလာ စသော ကျောက်မျက်ရတနာ ထွက်ရာဒေသအဖြစ် မြန်မာနိုင်ငံတွင်သာမက ကမ္ဘာတွင် ထင်ရှားသည်။

ဗြိတိသျှတို့ သိမ်းပိုက်စက မိုးကုတ်မှာ ခရိုင်ဖြစ်၍ ပတ္တမြားတွင်း ခရိုင်ဟု တွင်သည်။ မြန်မာနိုင်ငံ၏ အဖိုးတန်မြေဖြစ်သည်။



ပတ္တမြားနယ်မြေအဖြစ် ထင်ပေါ်ကျော်ကြားသည်

မိုးကုတ်နယ်သည် ရွှေဘိုခရိုင်၏ အရှေ့ဖက်တွင် ကျရောက်၍ ရှမ်းပြည်နယ်များနှင့် ဆက်စပ်လျက်ရှိသည်။ မိုးကုတ်နယ်တွင် မိုးကုတ်မြို့နယ်နှင့် သပိတ်ကျင်းမြို့နယ်တို့ ပါဝင်သည်။ ၁၉၅၆ ခုနှစ်ဘွင် ခန့်မှန်းခြေအားဖြင့် လူဦးရေ ၂၆,၃၂၇ ယောက်ရှိသည်။

မိုးကုတ်နယ်သည်ကျောက်တောင်ထူထပ်၏။ ပေ ၇,၅၀၀ ကျော်မြင့်သော တောင်များရှိသည်။ တောင်များမှာ လျှို၊ မြောင်၊ ချောက်များဖြင့် ပြတ်လျက်ရှိသည်။ ဤကျောက်များကား လိပ်သည်းကျောက်၊ ပုံဆောင်ထုံးကျောက်တို့ဖြစ်၏။ ယင်းကျောက်များမှ ပတ္တမြား၊ နီလာ၊ကျောက်နီအပြင် ဥဿဘနီလာ၊ ဥဿဖယား၊ ဖရဲအူ၊ မျော၊ ပြောင်ခေါင်းစိမ်း၊ အညှိကျောက်၊ ရွှေတွင်းဝါ၊ နဂါးသွဲ့၊ မှတ်မီးစသည်တို့ထွက်သည်။ မိုးကုတ်နယ်တွင်းရှိ ကျပ်ပြင်မှာ ရှေးအခါက ပတ္တမြားကုမ္ပဏီ၏ ဌာနချုပ်တည်ရာ ဖြစ်သည်။

မိုးကုတ်မြို့သည် ဧရာဝတီမြစ်၏ အရှေ့ဖက် ၃၆ မိုင်ကွာလှမ်း၍ ရှမ်းကုန်းပြင်မြင့်၏ အနောက်ဖက်စွန်း ဒေသတွင် ပင်လယ်ပြင်အထက် ပေ ၄,၀၀၀ ခန့် မြင့်ရာအရပ်၌ တည်ရှိသည်။ မြို့၏အရှေ့ဖက်တွင် ပေ ၆,၃၃၃ မြင့်သော ကြေးနီတောင်၊ အနောက်ဖက်တွင်ပေ ၅,၃၄၅ မြင့်သော ပင့်ကူတောင်၊ တောင်ဖက်တွင် ပေ ၅,၆၀၆ မြင့်သော ထင်းရှူးတောင်နှင့် မြောက်ဖက်တွင် ပေ ၇,၅၄၄ မြင့်သောတောင်မည်းတောင်တို့တည်ရှိသည်။ ထိုတောင်များ၏ အကြားရှိ ချိုင့်ဝှမ်းတွင် ခပ်ခွက်ခွက် တည်ရှိပေသောကြောင့်မိုးကုတ်မြို့၏ပုံသဏ္ဍာန်သည် ဒယ်အိုးသဖွယ်ဖြစ်၏။ တောများဖုံးလွှမ်းလျက်ရှိသော တောင်များဖြင့် ဝန်းရံလျက်ရှိသောကြောင့် မိုးကုတ်မြို့ပတ်ဝန်းကျင်ရှုခင်းမှာ သာယာပေသည်။ တောင်ကုန်းမြင့်ပေါ်တွင် တည်ရှိသဖြင့် အခြား မြေပြန့်ဒေသများထက် အေးသော ဥတု ရှိသည်။ ဆောင်းရာသီတွင် ဖာရင်ဟိုက် ၃၇ ဒီဂရီအထိပင် ကျဆင်းတတ်သည်။ မိုးကုတ်မြို့၏ အနောက်မြောက်ဖက် ၁၀ မိုင်ကွာတွင်ရှိသော ဗားနဒ်မြို့မှာ ပို၍ မြင့်သောကြောင့် ပို၍ပင် အေးသေးသည်။

မိုးကုတ်နယ်နှင့် မိုးကုတ်မြို့တို့တွင် နေထိုင်သူ တို့သည် ကျောက်တွင်းများကို အမှီသဟဲပြု၍ နေသူများဖြစ်ရကား ကျောက်များ ထုးဖော်ခြင်း၊ ကျောက်သွေးခြင်း၊ ကျောက်များဖြင့် အထည် ပြုလုပ်ခြင်း၊ ကျောက် ရောင်းခြင်း၊ ကျောက်ပွဲစား လုပ်ခြင်းတို့မှာ အဓိကလုပ်ငန်း ဖြစ်၏။ ကျောက်တွင်းပိုင်တို့သည် ကံကောင်းထောက်မ၍ ကျောက်အောင်ပါက နေ့ခြင်း ညခြင်းဆိုသလိုပင် ငွေကြေးချမ်းသာနိုင်ပေသည်။ ကုန်းမြင့်ဒေသတွင် ဖြစ်သောကြောင့် တောင်ယာများကိုသာ စိုက်ပျိုးလုပ်ကိုင်သည်။ အစာ အသောက်များစွာ မထွက်ဘဲ အခြား နယ်များမှ တင်သွင်းရသည်။ မိုးကုတ်တွင် ၅ ရက်တဈေးရှိသည်။ မြို့ပေါ်ရှိ လူဦးရေမှာ ၇,၃၃၄ (၁၉၅၃) ဖြစ်၍၊ အိမ်ခြေပေါင်း ၁,၇၀၀ ခန့်ရှိလေသည်။

မိုးကုတ်နယ်တွင်း၌ မီးရထားလမ်း မရှိပေ။ မိုးကုတ်နယ်အပိုင် သပိတ်ကျင်းမြို့မှာမူ ဧရာဝတီမြစ်၏ လက်ဝဲဖက်ကမ်း

ကုတ်မြို့ကို ဤသို့သာယာကြည်နူးဖွယ်ရာ ရှုမြင်ရသည်။





မိုးကုတ် ကျောက်တွင်းလုပ်ငန်း၏ ရှုခင်းတစိတ်တဒေသ

ပေါ်တွင်တည်ရှိကာ မန္တလေး — ဗန်းမော်သွား သဘော်များ ဆိုက်ကပ်ရပ်နား၍ ကုန်တင်ကုန်ချများသော ဆိပ်ကမ်းတခု ဖြစ်သည်။ မိုးကုတ်သို့ ရောက်ရှိနိုင်ရန် သပိတ်ကျင်းမှသည် ကားလမ်းအတိုင်း ၆၁ မိုင်မျှ သွားရပေသည်။ လမ်းခရီးမှာ အထူး စိတ်ကြည်နူးဖွယ် ကောင်းသည်။ တောင်တက်လမ်း ပင်ဖြစ်သော်လည်း ကျောက်ခင်းလမ်း ဖြစ်သဖြင့် သွားလာရ သက်သာလွယ်ကူသည်။ ထိုလမ်းတွင် စရပ်ဖြူပေမြင့်စခန်းမှာ ပေ ၄,၇၁၁ အမြင့်ရှိ၍ ထိုနေရာတွင် သပိတ်ကျင်းနှင့် မိုးကုတ်မြို့နယ်တို့၏ နယ်နိမိတ်ကို ကျော်ဖြတ်သည်။ ထို တောင်ထိပ်မှ နေ၍ကြည့်လျှင် ဧရာဝတီမြစ်ကို မြင်ရပေသည်။ ပေ ၄,၅၀၀ အမြင့်တွင်ရှိသော ကျပ်ပြင်မှသည် မိုးကုတ်မြို့ရောက်သည်အထိ ပေ ၇၀၀ မျှ တောက်လျှောက် လျှော၍ ဆင်းသွားရပေသည်။ ယခုအခါ မိုးမိတ်လမ်းမှာ ဗန်းမော်သို့ပင် ပေါက်ပြီဖြစ်၍ ဗန်းမော်မှတဆင့် မြစ်ကြီးနားသို့ တိုင်အောင် မော်တော်ကားဖြင့် သွားနိုင်ပေပြီ။ မိုးကုတ်မှ ၇၆ မိုင်ကွာဝေးသော ကျောက်မဲမြို့သို့လည်း ကားလမ်း ပေါက်သည်။

မိုးကုတ်မြို့နယ်တွင် ရှမ်း အမျိုးသားများမှာ အများစု ဖြစ်၍ ဗုဒ္ဓဝါဒီများဖြစ်ကြပေသည်။ တရုပ်နှင့် အိန္ဒိယအမျိုးသား အနည်းအကျဉ်းလည်း ရှိပေသည်။ မြန်မာ၊ မြေလတ်မနု၊ လီရှော၊ ဟူမိုင်း ပလောင်နှင့် ရှမ်းတရုပ်များကိုလည်း တွေ့နိုင်ပေသည်။

မိုးကုတ်မြို့ပေါ်တွင် ရုံးများ၊ အထက်တန်းကျောင်းနှင့် အခြား စာသင်ကျောင်းများ၊ ထောင်၊ ဈေးနှင့် အိမ်ကြီးအိမ်ကောင်းများအပြင် ဘုန်းကြီးကျောင်းပေါင်း ၃၀ ကျော်ရှိ၏။ မြို့ပတ်ဝန်းကျင်နှင့် မြို့နယ်တွင်းရှိ တောင်တန်းများပေါ်၌လည်း ထယ်ဝါသော ဘုန်းတော်ကြီးကျောင်းများနှင့် စေတီ ဖြူဖြူဖွေးဖွေးများကို တွေ့နိုင်ပေသည်။ မိုးကုတ်မြို့တွင်ရှိသော ဘုရားများအနက် ထင်ရှားသည်ကား ပုဂံပြည် အလောင်းစည်သူမင်း တည်ခဲ့သော ဖောင်တော်ဦးဘုရား ရွှေဆင်းတုရုပ်ပွားတော်ကြီး ဖြစ်ပေသည်။

မိုးကုတ်မြို့ကို သက္ကရာဇ် ၅၇၉ ခုနှစ်တွင် တည်သည်ဟုဆို၏။ ထိုစဉ်က မိုးမိတ်စော်ဘွား၏ လက်အောက်ခံဖြစ်ခဲ့သည်။ ထို့နောက်တွင်ကား မြန်မာဘုရင်များက ပိုင်သည့်အခါပိုင်ခဲ့၍၊ မိုးမိတ်စော်ဘွားများ၏လက်တွင် တည်မြဲသည့်အခါ တည်မြဲခဲ့လေသည်။ သာလွန်မင်းလက်ထက်တွင် ရှမ်းတို့ မိုးကုတ်နယ်မြေကို လက်လွှတ်ရပြန်သည်။ မင်းတုန်းမင်းလက်ထက်တွင် မိုးကုတ်မှ ပတ္တမြားတို့ကိုတူးဖော်ပြီးလျှင်



မိုးကုတ်မြို့၏ အေးချမ်းသာယာလှသော ရှုခင်း

အနောက်နိုင်ငံသားများနှင့် အရောင်းအဝယ်ပြုသည်။ သီပေါမင်းလက်ထက်တွင် ပြင်သစ်တို့သည် မိုးကုတ်၌ ပတ္တမြားတူးဖော်လုပ်ကိုင်ခွင့် တောင်းဆိုရာ သဘောတူခွင့်ပြုချက်ရသည်တွင် အင်္ဂလိပ်တို့သည် ပြင်သစ်တို့ ခြယ်လှယ်မည်ကို အလွန်စိုးရိမ်ခဲ့သည်။ ထိုခွင့်ပြုချက်သည် မြန်မာနိုင်ငံအား အင်္ဂလိပ်တို့ အမြန်သိမ်းအောင် ဖန်တီးသော အကြောင်းတရပ်လည်း ဖြစ်ပေမည်။ ခရစ် ၁၈၈၆ ခုနှစ်တွင် အင်္ဂလိပ်တပ်များ မိုးကုတ်မြို့သို့ ချီတက်လာစဉ် မိုးကုတ်မြို့သား ဗိုလ်သာစီနှင့် ဗိုလ်ရွှတ်တို့ ဦးဆောင်ကာ ရှုပ်ရှုပ် ချွံချွံ ခုခံတိုက်ခိုက်ကြသေး၏။

အင်္ဂလိပ်တို့ မြန်မာနိုင်ငံကို သိမ်းပြီးသည့် နောက်တွင် ပတ္တမြားတွင်းခရိုင်ဟု ဖွဲ့စည်းခဲ့၍ မိုးကုတ်သည် ခရိုင်ရုံးစိုက်မြို့ဖြစ်ခဲ့၏။ ၁၉၂၀ ပြည့်နှစ်တွင် မိုးကုတ်ပတ္တမြားတွင်းခရိုင်ကို ဖျက်လိုက်၍ ကသာခရိုင်နှင့် ပေါင်းလိုက်သောအခါ နယ်မျှသာဖြစ်လာလျက်၊ မိုးကုတ်မြို့သည် နယ်ပိုင်ရုံးစိုက်မြို့ဖြစ်လာသည်။ စစ်ပြီးခေတ်ဖြစ်သော ၁၉၄၇ ခုနှစ်တွင် မိုးကုတ်နယ်ကို ရှမ်းပြည်နယ် တောင်တန်းဒေသနှင့် ပူးပေါင်းရန် ကြံစည်သေးသည်။ မအောင်မြင်ပေ။ ၁၉၄၇ ခုနှစ်မှစ၍ ရွှေဘိုခရိုင်တွင် နယ်တခုအဖြစ် ပါဝင်သွားလေသည်။

မိုးကုတ်ဟူသောအမည်သည် မြို့အေးဟု အဓိပ္ပါယ်ရသော ရှမ်းစကား မိုင်းကတ်မှ ရွေ့လျောလာသည်ဟူ၍၎င်း၊ မြို့ခမောက်၊ မြို့ဒယ်အိုးဟုအဓိပ္ပါယ်ရသော ရှမ်းစကား မိုင်းကွတ်မှ ရွေ့လျောလာသည်ဟူ၍၎င်း ယူဆကြသည်။

**မိုးစာငှက်။** ။မိုးစာငှက်သည် ပျံလွှား၊ ဇီဝဒိုးငှက်တို့နှင့် အတူ အပိုဒီဒီးမျိုးရင်းတွင် ပါဝင်၍ ပါဏဗေဒအမည်မှာ ဆစ်ပစီအာရတ် ပါးဗတ် အင်ဖူမေးတပ်ဖြစ်သည်။ အလျား ၅ လက်မရှိ၍ တကိုယ်လုံးတွင် ကျပ်ခိုးရောင် ထနေသည့် အညိုရောင် လွှမ်းနေသည်။ တင်ပါးတွင် ဖြူဖွေးခြင်း မရှိသဖြင့် အခြားပျံလွှားငှက်တို့မှ ခွဲခြားသိနိုင်သည်။ အမြီးမှာ သေးသွယ်သော နှစ်ခွမိုန်းကဲ့သို့ ဖြစ်သည်။ ပျံသန်းစဉ် ထိုအမြီးခွကို ထင်ရှားစွာ မြင်ရသည်။ ပုံပန်းသဏ္ဌာန်တွင် ငှက်မသည် ငှက်ဖိုနှင့်ကွဲပြားခြင်းမရှိချေ။

မိုးစာငှက်သည် ကွင်းပြင်များတွင်သာ ကျက်စားသော ငှက်ဖြစ်သဖြင့် ထန်းပင်ပေါများသော ရွာနီးချုပ်စပ်များ၌ အများအပြား တွေ့ရသည့်ပြင်၊ ဥယျာဉ်ပန်းခြံနှင့် မြို့ကြီးရွာကြီးတို့အလယ်ရှိ ဝင်းခြံများ၌လည်း မကြာခဏ လာရောက်ကျက်စားသည်။ ထန်းတောများ၌ ကျက်စားသည်ဟုဆိုရသော်လည်း ထန်းတောမရှိသည့် ဒေသတွင်လည်း ကျက်စားသည်ကို တွေ့ရသည်။ အများဆုံး စားသောက်သောအစာမှာ မှက် ယင်ရဲများဖြစ်၍ ပျံသန်းယင်း ဖမ်းယူစားတတ်သည်။ ပိုးဖလံနှင့် အခြားပိုးမွှားများကိုလည်း စားသေးသည်။ ကောင်ရေ ၁,၀၀၀ ခန့် ပါရှိသည့် မိုးစာငှက်အုပ်ကို ရေပြင်ပေါ်တွင် ပျံသန်းကျက်စားနေသည်ကို တွေ့ရတတ်ပေသည်။

မိုးစာငှက်၏ အော်သံမှာ အနည်းငယ် တုန်သံပါ၏။ သို့သော် အခြားသော ပျံလွှားငှက်မျိုး၏ အသံထက် သာယာလေသည်။

မိုးစာငှက်သည် မတ်လမှစ၍ မိုးရာသီတလျှောက်လုံး သားပေါက်သည်။ အသိုက်မှာ ကန့်လန့်ဖြတ် ၂ လက်မခန့်ရှိသည်။ ပန်းကန်ပြားငယ် ပုံသဏ္ဌာန်ဖြစ်သည်။ ထန်းလက်အောက်ဖက်တွင် အသိုက်ကို အမွေးအမျှင်နှင့် သစ်ရွက်မြက်ပင်တို့ဖြင့် ပြုလုပ်လေ့ရှိသည်။ အသိုက်၏အရွယ် သေးငယ်ခြင်းကြောင့်၎င်း၊ အသိုက်ပြုလုပ်ရာ၌ သိပ်သည်းမှုရှိခြင်းကြောင့်၎င်း မြေပေါ်မှကြည့်လျှင် အသိုက်ကို မြင်ရခဲသည်။ အစုအအုပ်နှင့် နေတတ်သော်လည်း သစ်ပင်တပင်တွင် အသိုက် ၂ ခု ၃ ခုထက် ပို၍တွေ့ရခဲသည်။ တမြုံလျှင် ဥ ၂ လုံးမှ ၃ လုံးအထိရှိသည်။ ဥများမှာ ရှည်မျောမျောဖြစ်၍ ဆွတ်ဆွတ်ဖြူသည်။ လွင်ပြင်များနှင့် ရှမ်းပြည်တို့၌ ထန်းလက်များတွင် အစုအအုပ်ဖြင့် သားပေါက်ကြသည်။ ထန်း



ပျံလွှားနှင့် ဆင်တူသည့် မိုးစာငှက်

ပင်ပါးရှားသည့် ကချင်တောင်တန်းနှင့် ချင်းတောင်တန်းများတွင် ရွာရှိအိမ်များ၏ သက်ငယ်အမိုးစွန်း၌ရှင်း၊ အမိုးတွင်ရှိသည့် လိုဏ်ခေါင်းအတွင်း၌ရှင်း မိုးစာငှက်များ သားပေါက်ကြသေးသည်။ သစ်တောများတွင် မိုးစာငှက်များ ပျံဝဲနေသည်ကို တွေ့ရလျှင် ရွာနှင့် နီးကပ်လာပြီဟု သိနိုင်ပေသည်။

မိုးစာငှက်ကို အာဖရိကတိုက်နှင့် အာရှတိုက် တောင်ပိုင်းတွင် အနှံ့အပြားတွေ့ရသည်။ မြန်မာနိုင်ငံ ကွင်းပြင်များတွင် အမြဲတမ်းနေ၍ ပေ ၅,၀၀၀ အမြင့်ရှိ ရွာများ၌လည်း တွေ့ရသည်။

**မိုးစောင့်ငှက်။** ။ခွေးခေါ်ရစ်ငှက် — ရှု။

**မိုးစွေငှက်။** ။မိုးစွေငှက်သည် မိုးစာငှက်နှင့်အသွင်အပြင်ချင်းတူသော်လည်း ကိုယ်အနေအထားတည်ဆောက်ထားပုံချင်းမှာ အလွန် ကွဲပြားသည့်ပြင် မျိုးစဉ်နှင့် မျိုးရင်းချင်းလည်းမတူကြချေ။ မိုးစွေငှက်သည် ပက်ဆာရီဖော်မီး မျိုးစဉ်နှင့် ဟီရန်ဒီဒီဒီး မျိုးရင်းတွင် ပါဝင်၍ ပါဏဗေဒ အမည်မှာ ဟီရန်ဒို ရတ်စတစ်ကား ဂရတ်တူရာလစ် ဖြစ်သည်။ မိုးစွေငှက်သည် ပျံသန်းနေစဉ် တောင်ပံကို တခါတခါ အနည်းငယ် ပိတ်၍ပိတ်၍ ပျံတတ်သော်လည်း မိုးစာငှက်ကား မည်သည့်အခါမျှ တောင်ပံကို မပိတ်ချေ။



မိုးစွေငှက်

မိုးစွေငှက်၏ အလျားမှာ အမြီးမွေးကို လိုက်၍ ၈ လက်မအထိရှိသည်။ အမြီးမွေးသည် အမှန်မရှိဘဲ ၂ ဒဿမ ၅ လက်မမှ ၅ လက်မအထိ ရှိတတ်သည်။ ပျံသန်းနေစဉ် နဖူး၊ မေးနှင့် လည်ချောင်းမွေးတို့၏ အရောင်သည် အနည်းငယ်မည်းသယောင်ယောင်ဖြစ်သည်။ ရင်ပတ်မွေးကား ပန်းရောင်ဖျော့ဖျော့ဖြစ်၏။ အမြီး၌ရှိသော အဖြူစက်များကို အစွမ်းကုန်ဖြန့်လိုက်သည့် အခါမှသာ မြင်ရသည်။

မိုးစွေငှက်သည် ပျံသန်းသည့်အခါတွင် ခပ်မှန်မှန် အော်တတ်၍ အသံနှစ်ဆင့်ထွက်ရာ ဒုတိယအသံက ပို၍ ကျယ်သည်။ ထိတ်လန့်သည့် အခါ၌ဖြစ်စေ၊ အနှောင့်အရှက်ပြုသည့် အခါ၌ဖြစ်စေ စူးစူးရှရှ အသံကုန်အော်တတ်သည်။

မိုးစွေငှက်သည် အစုအအုပ်နှင့် နေ၍ အမြဲတမ်း ပျံသန်းနေသည်ကို တွေ့ရသည်။ မြေပေါ်တွင် နားနေသည်ကို တွေ့ရခဲသည်။ လယ်ကွင်းများနှင့် ရေပြင်ပေါ်တွင် ပျံသန်းယင်း ပိုးမွှားများကို ဖမ်းယူစားတတ်သည်။ ရေပေါ်တွင် ကပ်၍ ပျံယင်း ရေပေါ်ရှိပိုးမွှားများကို ဖမ်းယူတတ်သည်။ ရေကိုလည်း စုတ်ယူတတ်၏။ တခါတရံ ကြေးနန်းကြိုး၊ အဆောက်အအုံ၊ တန်တားနှင့် သစ်ပင်များပေါ်တွင် နားနေလေ့ရှိသည်။ ပျံသန်းရာတွင် အခြားငှက်များထက် လျင်မြန်စွာ ဉာဏ်မှထိုမှ လူးလာ ပျံသန်းနိုင်သည်။ မြစ်ကြီးများ၏ သဲသောင်ပြင်များတွင် အစုအအုပ်နှင့် အိပ်တတ်ကြသည်။

မိုးစွေငှက်အမျိုးမျိုးရှိရာ အချို့သည် ဒေသပြောင်းရွှေ့တတ်သည်။ ရခိုင်တိုင်း၊ မြန်မာနိုင်ငံ အရှေ့မြောက်နှင့် အလယ်ပိုင်းဒေသများ၊ တောင်ပိုင်းရှိ ကွင်းများ၊ ရှမ်းပြည်မြောက်ပိုင်းနှင့် ကယားပြည်နယ်များတွင် မိုးစွေငှက်များကို အများအပြားတွေ့ရသည်။

**မိုးဇက်။** ။မိုးဇက်သည် ဟီဗြူ (ဟေဗြဲ) လူမျိုးဖြစ်၍ လောကီ လောကုတ္တရာနှင့် စပ်လျဉ်းသော တရားဓမ္မတို့ကို ပြဆောင်သူ၊ ထိုပြင် ဟီဗြူလူမျိုးတို့၏ လွတ်မြောက်ရေးကို ခေါင်းဆောင်လျက် တိုင်းနိုင်ငံတခု တည်ထောင်နိုင်စေရန် စည်းလုံးပေးသူ ဖြစ်၏။ သမ္မာကျမ်းတွင် မိုးဇက်ကို မောရှေဟု ခေါ်သည်။ မည်သည့်အချိန်က မိုးဇက်မွေးဖွားပေါ်ပေါက်ခဲ့သည်ကို အတိအကျ မသိရသော်လည်း ခရစ်တော်မပေါ်မီ နှစ်ပေါင်း ၁,၂၀၀ နှင့် ၁,၄၀၀ ကြားခန့်ကဟု ယူဆရလေသည်။

မိုးဇက်သည် အီဂျစ် (အဲဂုတ္တု) ပြည်တွင် မွေးဖွားသည်။ ထိုစဉ်အခါက အီဂျစ်ပြည်ကို အစိုးရသော ဖရိုး (ဖာရော) ဘုရင်သည် လွန်စွာ ရက်စက်ကြမ်းကြုတ်၏။ မိမိပြည်တွင် လာရောက်နေထိုင်ကြသော ဟီဗြူလူမျိုးတို့ကို ကျွန်များကဲ့သို့ထားရှိရုံမက ဟီဗြူလူမျိုးဦးရေ တိုးပွားလာမည်ကို စိုးရိမ်သဖြင့် ပြည်တွင်းရှိ ဟီဗြူလူမျိုးတို့တွင် မွေးဖွားသည့်သား



ကမ္ဘာကျော် ပန်းပုဆရာကြီး မိုက်ကယ် အန်ဂျလို ထုလုပ်ထားသည့် မိုးဇက်၏ရုပ်တု



ပညတ်တော် ၁၀ ပါးကို ဆိုင်းနိုင်းတောင်ပေါ်မှ မိုးဇက် ယူဆောင်လာစဉ်

ယောကျ်ားဟူသမျှကို သတ်ပစ်ရမည်ဟု အမိန့်ထုတ်ပြန်ထား၏။ ထိုကြောင့် မိုးဇက်ကို မွေးဖွားသောအခါ သူ၏မိခင်သည် သားငယ်ကို သတ်မပစ်ရက်သဖြင့် ၊ လ အနည်းငယ်မျှ ဝှက်ထားပြီးနောက် လုံခြုံသော ခြင်းကလေးတခုတွင် ထည့်ကာ ကမ်းစပ်အနီး ကျူပင်များအကြားတွင် ပစ်ထား၏။

သေကံမရောက် သက်မပျောက်ဟူသော စကားနှင့်အညီ ဖါရိုးဘုရင်၏ သမီးတော်သည် ကမ်းစပ်သို့ ရေချိုးဆင်းလာစဉ် မိုးဇက်သတို့သားငယ်ကို တွေ့ရှိ၍ ယူဆောင်သွားပြီးလျှင် မိမိ၏သားအရင်းသဖွယ် မွေးမြူခဲ့၏။ မိုးဇက်သည် ဖါရိုးဘုရင်၏ နန်းတော်ထဲတွင် ကြီးပြင်းလာ၏။ မိုးဇက်သည် နောင်သောအခါတွင် မိမိတို့လူမျိုး လွတ်မြောက်ရေးကို ကြိုးဆောင်ရမည့်သူဖြစ်သောကြောင့် ယင်းအမှုကို ရွက်ဆောင်နိုင်အောင် ဘုရားသခင်က စောင့်ရှောက်လျက် ရှိကြောင်း အဆိုရှိသည်။

မိုးဇက်သည် ပင်ကိုယ်အားဖြင့် နူးညံ့သိမ်မွေ့သူ ဖြစ်၏။ ထိုစဉ်အခါက အီဂျစ်လူမျိုးတို့သည် ဟီဗြူလူမျိုးတို့ကို ကျွန်သားပေါက်သဖွယ် သဘောထားလျက် ညှဉ်းပန်းနှိပ်စက်၏။ မိုးဇက်သည် အရွယ်ရောက်ပြီးသည်နောက် တနေ့သ၌ ဟီဗြူလူမျိုးတဦးကို အီဂျစ်လူမျိုးတဦးက ရိုက်ပုတ်ညှဉ်းဆဲနေသည်ကို မြင်လတ်သော် ထိုအီဂျစ်လူမျိုးကို သတ်ဖြတ်ပြီးလျှင် အာရေဗျပြည်သို့ ထွက်ပြေး တိမ်းရှောင် သွားရ၏။ အာရေဗျသို့ရောက်လျှင် မိဒျန်တွင် သိုးများ ဆိတ်များကို စောင့်ထိန်းယင်း နေထိုင်လေသည်။

တနေ့သောအခါတွင် မိုးဇက်သည် ချုံဖုတ်တခု မီးလောင်နေသည်ကို မြင်၏။ မီးလောင်သည်ဆိုသော်လည်း ချုံဖုတ်သည် မီးကျွမ်း၍ မသွားပေ။ ထိုကြောင့် မိုးဇက်သည် အနီးသို့ သွားရောက်သောအခါ အလွန် ထူးဆန်းသော အသံတခု ပေါ်လာ၏။ ယင်းမှာ မိုးဇက်အား အီဂျစ်ပြည်သို့ ပြန်လည်သွားရောက်ကာ မိမိ၏ လူမျိုးကို ကျွန်တွင်းမှ လွတ်ကင်းအောင် ခေါင်းဆောင်ရန် အမိန့်ဖြစ်၏။ ထိုကြောင့် မိုးဇက်သည် အီဂျစ်ပြည်သို့ ပြန်လည်သွားရောက်ကာ ဖါရိုးဘုရင်ကို ဟီဗြူလူမျိုးတို့အား အီဂျစ်ပြည်မှ ထွက်ခွာခွင့်ပြုရန် အကြိမ်ကြိမ် အဖန်ဖန် တောင်းပန်သော်လည်း မရဘဲ ရှိ၏။ ထိုကြောင့် အီဂျစ်လူမျိုးတို့ဒဏ် ၁၀ ပါးသင့်သည်ဆို၏။ နောက်ဆုံး၌ အီဂျစ်လူမျိုးတို့၏ သားဦးများ အသတ်ခံကြရသဖြင့် ဖါရိုးဘုရင်သည် ဟီဗြူတို့အား အီဂျစ်ပြည်မှ ထွက်ခွာခွင့်ပြုလေသည်။ သို့ရာတွင် ဟီဗြူတို့ ထွက်ခွာလာကြသောအခါ ဖါရိုးသည် မိမိစစ်တပ်ဖြင့် ဟီဗြူတို့နောက်သို့ လိုက်ပြန်၏။ ပင်လယ်နီကမ်းခြေသို့ရောက်လျှင် ပင်လယ်နီ၏ ရေပြင်သည် ဖြာထွက်သွားကာ ဟီဗြူများအတွက် လမ်းခင်းပေးလျက် အီဂျစ်တို့က ဟီဗြူတို့နောက် လိုက်သည်တွင် ရေသည် အီဂျစ်တို့အပေါ် လွှမ်းသဖြင့် အီဂျစ်လူမျိုးတို့ သေကြေကြရ၏။

မိုးဇက်သည် ဟီဗြူလူမျိုးတို့ကို ကေနန် (ခါနန်) သို့ ခေါ်ဆောင်သွားရန် ယေဟောဝါဘုရား၏ ညွှန်ကြားခံရသည့်အလျောက် ဟီဗြူတို့ကို စည်းရုံး၍ ခေါ်ဆောင်သွား၏။ ပင်လယ်နီ၏ ဟိုမှာဖက် သဲကန္တာရလွင်ပြင်ကြီးတွင် စုရုံးနေထိုင်ကြ၏။ တနေ့သော် မိုးဇက်သည် ဆိုင်းနိုင်းတောင် (သိနတောင်) သို့ ရောက်သောအခါ လျှပ်စစ်လျှပ်နွယ်တို့သည် တောင်တခုလုံးကို ပတ်သန်း၍ ပြိုးပြိုးပြက်ပြက် လက်နေလျက် ကမ္ဘာကို တုန်လှုပ်စေလောက်အောင် မိုးသံလည်း ထစ်ချုန်းလေ၏။ မြေလျှင်လည်း အသံကြီးမြည်ဟည်း၍ လှုပ်၏။ ဤသည်တို့ကြားမှ ဘုရားသခင်သည် ကိုယ်တော်ရောင်ထင်၍ ပြပြီးသကာလ မိုးဇက်အား တောင်ထိပ်သို့လာရန် မိန့်တော်မူလေ၏။ မိုးဇက်လည်း မိန့်တော်မူသည့် အတိုင်း သွားရောက် သည်တွင် ဘုရားသခင်က မိုးဇက်အား ကျောက်ပြားကြီးများကို ပေးတော်မူ၏။ ယင်းကျောက်ပြားများပေါ်၌ အက္ခရာတင်ထားသော ပညတ်တော် ၁၀ ပါး ပါရှိ၏။ ယင်းပညတ်တော် ၁၀ ပါးတို့သည် ဟီဗြူလူမျိုးတို့၏ လောကီလောကုတ္တရာကျင့်ထုံးများ၏ အခြေခံ တရားများဖြစ်၏။ ထိုပြင်တဝလည်း ကိုယ်ကျင့်တရား ကောင်းမွန်ရေး အခြေခံသဘောတရားများဖြစ်ကာ ဟီဗြူလူမျိုးတို့ အပေါ်သာ မဟုတ်ဘဲ၊ ကမ္ဘာပေါ်ရှိ တပါးသော မျိုးခြားတို့ကိုလည်း မကောင်းမြစ်ထား ကောင်းရာ ညွှန်လတ်သည့် လောကနီတိ လမ်းညွှန်သဖွယ်လည်း ဖြစ်၍ များစွာသော ကမ္ဘာသူ ကမ္ဘာသားတို့ကို ပြုပြင် ပြောင်းလဲစေရာ၌ အရေးပါခဲ့ပေသည်။

မိုးဇက်သည် ဟီဗြူလူမျိုးတို့ကို နှစ်ပေါင်း ၄၀ ပတ်လုံး လွင်ပြင်တလျှောက်တွင် တနေရာမှ တနေရာသို့ ရွှေ့ပြောင်း၍ နေထိုင်စေသည်။ သို့သော် ဘုရားသခင်က ပေးမည်ဟု ကတိပြုထားသော ဒေသတွင် သူ၏ယ်သား တပည့်များ ကောင်းစွာအခြေတည် နေထိုင်သည်ကို မိုးဇက် တွေ့မသွားရှာပေ။ အသက် ၁၂၀ အရွယ်တွင် နီဗိုခေါ် တောင်ထိပ်ပေါ်မှ ကတိရထားသည့် နယ်မြေဖြစ်သော ကေနန်တည်ရာကို ကြည့်ယင်းပင် သေဆုံးသွားလေသည်။ သူ၏ ခေါင်းဆောင်မှုကို လက်ခံ၍ သူ၏ ဩဝါဒများကို လိုက်နာခဲ့သော ယ်သားတို့သည် မိုးဇက် ကွယ်လွန်ပြီးသည့် နောက်ပိုင်းတွင်မှ တိုင်းနိုင်ငံတခု အဖြစ် ရောက်အောင် တည်ထောင်နိုင်ခဲ့၍ တရားဓမ္မအလင်းရောင်ကို ကမ္ဘာသို့ ထုတ်ဆောင် ပေးနိုင်ခဲ့ပေသည်။

မိုးဇက်သည် လက်ရုံးရည် နှလုံးရည်နှင့် နှစ်လီနှစ်ဝ ပြည့်စုံသဖြင့် သူ့အား စံပြုအပ်သော တမန်တော်အဖြစ် နောင်လာနောက်သားတို့ ကိုးကွယ်ကြည်ညိုကြပေသည်။ မိုးဇက်နှင့် စပ်လျဉ်း၍ အံ့ဖွယ်သူရဲ အခြင်းအရာတို့သည် သမ္မာကျမ်းတွင် ဖော်ပြပါရှိလေသည်။

**မိုးညိုမြို့။** ။မိုးညိုမြို့သည် မြန်မာနိုင်ငံအောက်ပိုင်း၊ ပဲခူးတိုင်း၊ သာယာဝတီခရိုင်၊ ဇီးကုန်းနယ်၊ မိုးညိုမြို့နယ်၏ ရုံးစိုက်မြို့ ဖြစ်သည်။ ရှေးအခါက ရေဝတီမြစ်ပေါ် တွင် တည်ရှိသော်လည်း ယခုအခါ အတန်ငယ် ကွာလှမ်းသောနေရာသို့ ရောက်ရှိ နေလေသည်။ သာယာဝတီ ခရိုင်အတွင်းရှိ မြို့ပိုင်ရုံးစိုက်ရာ မြို့များအနက် မိုးညိုမြို့သာလျှင် မီးရထားလမ်းပေါ် ဘွင် မတည်ရှိသော မြို့ဖြစ်သည်။

မိုးညိုမြို့နယ်သည် နယ်နိမိတ်အားဖြင့် မြောက်ဖက်တွင် ပြည်ခရိုင်၊ အရှေ့ဖက်တွင် နတ္တလင်း၊ ဇီးကုန်းနှင့် ကြို့ပင်ကောက် မြို့နယ်များ၊ တောင်ဖက်တွင် လက်ပံတန်းမြို့နယ်နှင့် အနောက်ဖက်တွင် ရေဝတီ မြစ်တို့ဖြင့် ပိုင်းခြား သတ်မှတ်လျက် ရှိသည်။ မိုးညိုမြို့နယ်သည် အကျယ်အဝန်းအားဖြင့် ၂၅၂ စတုရန်းမိုင်၊ ကျေးရွာပေါင်း ၄၁ ရွာနှင့် ၁၉၅၆ ခုနှစ်တွင် ခန့်မှန်းခြေအားဖြင့် လူဦးရေ ၅၇,၂၇၁ ယောက်ရှိသည်။

မိုးညိုမြို့နယ်၏ များသော အပိုင်းမှာ ရေလွှမ်းသော တောများ ဖြစ်၏။ အနောက်ဖက်မှာ နုံးတင်မြေနု အရပ်ဖြစ်၏။ ဆန်စပါး စိုက်ပျိုးသည့်အပြင် ရေလွှမ်းသောဒေသ အစွန်တွင်ရှိသောကွင်းများတွင် ဖရဲ၊ သခွါး၊ ရှောက်၊ ဆေး၊ ခရမ်းသီး၊ ခရမ်းချဉ်စသည့် ဟင်းသီးဟင်းရွက်များကိုလည်း စိုက်ပျိုးသည်။ မိုးညိုမြို့နယ်တွင် ငါးထွက်သော အင်းများလည်းရှိသည်။ သာယာဝတီခရိုင်တွင် အင်းလုပ်ငန်း၌ မိုးညိုမှာအကျယ်ပြန့်ဆုံးဖြစ်၏။ မိုးညိုမြို့ရှိဈေးသည် ရေဝတီမြစ်တွင်းမှ ဖမ်းမိသောငါးများ ရောင်းချရာ ဈေးကြီးဖြစ်၏။

မိုးညိုမြို့မှ မင်းလှမြို့သို့ လမ်းကြမ်းတခု ပေါက်သည်။ မိုးညိုမြို့တွင် ဆေးရုံ၊ ကျောင်းများ၊ အစိုးရရုံးများ ရှိသော်လည်း အခြားထင်ရှားသော အဆောက်အအုံများ၊ နေရာဒေသများဟူ၍ မရှိပေ။ မိုးညိုမြို့၏ လူဦးရေမှာ ၁၉၅၃ ခုနှစ် ခန့်မှန်း သန်ကောင်စာရင်းအရ ၅,၀၃၀ ဖြစ်လေသည်။

**မိုးညှင်းမင်းတရား** (မြန်မာ ၇၈၈ – ၈၁၁)။ ။မိုးညှင်းသတိုးဟူ၍လည်း တွင်သော မိုးညှင်းမင်းတရားသည် အင်းဝရွှေနန်းကို သက္ကရာဇ် ၇၈၈ ခုနှစ် မှ ၈၁၁ ခုနှစ်တိုင် စိုးစံသော မြန်မာမင်းဖြစ်သည်။ မိုးညှင်းမင်းတရားကြီးသည် ပုဂံနရပတိစည်သူ၏ မိဖုရားငယ်တွင်မြင်သည့် သမီးတော်နှင့် ခင်ပွန်း အနန္တသူရိယ အမတ်တို့၏ တီတော်သူ ပေါက်မြိုင်မင်းပုလဲနှင့် ငါးစီးရှင်သမီးတို့ စုံဖက်ရာတွင် မြင်သောသား မြေနံစောဒိကာ၏ သားဖြစ်သည်။ယ်မည်ကား မင်းနံစီဖြစ်၏။ နောင်သော် ဥဒိန်အမည်နှင့် အင်းဘဲကိုစားရသည်။ ပဌမမင်းခေါင်မင်းမဖြစ်မီ မင်းဆွေဘဝက မင်းဥဒိန်သည် မင်းဆွေအား အထိန်းတော် ငခင်ညို၊ ငခင်ဘားတို့နှင့်အတူ ပင်ပန်းငြိုငြင်စွာ ရှာဖွေ ကျွေးမွေးခဲ့သည်။ မင်းဥဒိန်သည် ငခင်ညို

ခေင်ဘားတို့လောက် အဆင်းရဲမခံနိုင်သဖြင့် မင်းဆွေနှင့်ရှင်သိဒ္ဓတ်တို့ထံမှခွါပြီးလျှင် ဦးရီးတော် တူရှင်းတိုင်စား မင်းစောကျိုင်း၏ထံသို့ ဝင်၍ အမှုတော်ထမ်းသည်။ မင်းခေါင်အထွတ်အထိပ်သို့ ရောက်သောအခါ ဆင်းရဲစဉ် ရောင်းရင်းဖက်ဖြစ်သော မင်းဥဒိန်အား သတိုးအမည်နှင့် မြို့လှကို စားစေသည်။ နောက် မိုးညှင်းကို စားစေသောကြောင့် မိုးညှင်းသတိုးတွင်သည်။

ပဋမမင်းခေါင်ဘုရင်၏နောက် သက္ကရာဇ် ၇၇၃ ခုနှစ်မှ ၇၇၇ ခုနှစ်အထိ မင်းခေါင်၏ သားတော် ဆင်ဖြူရှင် သီဟသူစိုးစံသည်။ အုန်းဘောင်စော်ဘွား တိုက်လာရာတွင် မြားသင့်၍ အနိစ္စရောက်သောကြောင့် သားတော် မင်းလှငယ်သည် ၃ လမျှ နန်းစံ၏။ မိဖုရားဘိုမယ် ဆေးဖြင့်ခတ်၍ အနိစ္စရောက်၏။ မိဖုရားဘိုမယ်၏ အကူအညီဖြင့်ပင် ကလေးကျေးတောင်ညို နန်းတက်သည်။ ကလေးကျေးတောင်ညိုကား မင်းကြီးစွာစော်ကဲ၏ သားတော်အကြီး တရဖျား၏ သားတော်တည်း။ ကလေးကျေးတောင်ညို ၇၇၇ ခုနှစ် နတ်တော်လတွင် နန်းတက်၍၊ တပေါင်းလတွင် မိုးညှင်းသတိုးလာရောက်တိုက်ခိုက်သည်။ ကလေးကျေးတောင်ညိုကို စစ်ကူပေးနေသော အုန်းဘောင်စော်ဘွားကိုလည်း လက်ဆောင် ကြီးစွာပေး၍ တပ်နုတ်ပြန်စေပြီးသော် အင်းဝကိုရံသည်။ ကလေးကျေးတောင်ညို ရခိုင်သို့သွားမည်ပြုရာ လမ်းတွင် လွန်သည်။ ဤသို့ဖြင့် မိုးညှင်းသတိုးသည် သက္ကရာဇ် ၇၇၇ ခုနှစ် နယုန်လဆန်းတွင် အင်းဝရွှေနန်းကို သိမ်းပိုက်သည်။ ထိုသောအခါ သက်တော် ၄၇ နှစ်ရှိလေပြီ။

မိုးညှင်းမင်းတရားကြီးသည် နန်းသက်တလျှောက်၌ ပုန်ကန်ခြားနား ထိပါးလာသော ရန်အသွယ်သွယ်ကို နှိမ်နင်းရလေသည်။ ဤမင်းလက်ထက် တောင်ငူ၊တောင်တွင်း၊ရမည်းသင်း၊ ပင်လယ်မြို့များက ခြားနားကြသည်။ ရပ်စောက်၊ နောင်မွန်၊ အုန်းဘောင် ရှမ်းတို့က မြန်မာနိုင်ငံအတွင်းရေးတွင် လာရောက် စွက်ဖက်သောကြောင့် မြန်မာဘုရင်က ထိုမြို့စားတို့ကို ပဏ္ဏာကာရအများနှင့် စေတော်မူ၍ မဟာမိတ်ပြုရသည်။ ဟံသာဝတီက ပြည်မြို့ကို လုပ်ကြံလာသည်နှင့် ဟံသာဝတီမင်း ဗညားရံကို တူမတော်နှင့် ဆောက်နှင်း၍ မိတ်ပြုရသည်။

ဆင်ဖြူရှင် သီဟသူ လက်ထက်မှစ၍ မိဖုရားဖြစ်ခဲ့သော မွန်ဘုရင် ရာဇာဓိရာဇ်၏သမီးတော်ရှင်စောပုကိုလည်းမိဖုရားမြှောက်ထားခဲ့ရာတွင် မိုးညှင်းမင်းတရား ချစ်ချစ်ခင်ခင် မရှိသောကြောင့် မွန်မိဖုရားသည် မွန်ရဟန်း ဓမ္မဓရ၊ ဓမ္မဉာဏတို့၏ အကူအညီဖြင့် ဟံသာဝတီသို့ ထွက်ပြေးသည်။ မိုးညှင်းမင်းတရားသည် ပဋမမင်းခေါင်၊သီဟသူ၊ မင်းလှငယ်၊ကလေးကျေးတောင်ညို၊ ဤမင်းလေးဆက်တွင် နန်းတင်သော မိဖုရားရှင်ဘိုမယ်ကိုပင် နန်းတင်လေသည်။

သက္ကရာဇ် ၇၈၈ ခုနှစ်တွင် အထက်နန်းတော် ပေါင်းနွမ်းသဖြင့် နန်းတော်သစ် တည်ဆောက်သည်။

သက္ကရာဇ် ၇၉၀ ပြည့်နှစ်တွင် သီဟိုဠ်ကျွန်းမှ မဟာထေရ်နှစ်ပါး သရီရဓာတ်တော်ငါးဆူကို ပင့်ဆောင်၍ရောက်ရှိလာသည်။ ထိုမထေရ်နှစ်ပါး သဘော်နှင့် ပုသိမ်ဆိပ်သို့ ရောက်ရှိကြရာတွင် ဗညားရံက ချုပ်သော်လည်း နေတော်မမူ သဖြင့် သာယာစွာသော ဖောင်နှင့် ပြည်သို့ ပို့လာရသည်။ မိုးညှင်းမင်းတရား ကြားတော်မူလျှင် လှော်ကားကြော့လှေ ၄၀ နှင့် ပြည်တိုင်အောင် ဆီးကြိုပင့်ဆောင်လေရာ ရွှာသစ်သို့ရောက်သော် မိဖုရားမောင်းမမိဿံ မှူးမတ်အပေါင်း ခြံရံလျက် ရွှေဖောင်တော်နှင့် ကြို၏။ ထိုအခါ မြေလျှင်လှုပ်၏။ သာသနာတော် မြင့်ရှည်စွာ ပွင့်လင်းထွန်းပစွာ ဖြစ်မည်ဟု နိမိတ်ဖတ်သည်။ သရီရဓာတ်တော် ငါးဆူကို ပင့်ဆောင်၍ စစ်ကိုင်းအနောက်ဖက် သာယာစွာသော မြေအပြင်၌ ရတနာစေတီဘုရားရှင်ကို တည်တော်မူသည်။

မြန်မာ သက္ကရာဇ် ၇၉၆ ခုနှစ် (ခရစ် ၁၄၃၅) ခန့်တွင် ဗင်းနစ်မြို့သား နိကိုလို ဒီ ကွန်တီ အမည်ရှိ ကုန်သည်တဦးသည် ပဋမတနင်္သာရီသို့ ရောက်လာ၍ ထိုနောက် ရခိုင်ပြည်သို့ ရောက်၏။ ရောဝတီမြစ်ကို ဆန်တက်ပြီးနောက် အင်းဝသို့ ရောက်၍ အင်းဝက စုန်ဆင်း၍ ပဲခူးသို့ရောက်၏။ မိမိတွေ့မြင်ခဲ့သည်တို့ကို မှတ်တမ်းတင် ရေးသားခဲ့လေသည်။

မိုးညှင်းမင်းတရားသည် သက္ကရာဇ် ၇၉၇ ခုနှစ်တွင် ပြည်ထဲရေးရာရှိသည်တို့ကို ပိဋကတ် ဗေဒင်တတ်သောဆရာတော်အပေါင်းတို့နှင့် တိုင်ပင်တော်မူလေသော်၊ စကြိုသူမြတ်၊ မင်းကျောင်းသူမြတ်တို့က သက္ကရာဇ် ဖြိုကိန်း ရောက်ကြောင်းအမိန့် ရှိကြလေသည်။ မိုးညှင်းမင်းတရားလည်း ခပ်သိမ်းသော သတ္တဝါအပေါင်း ချမ်းသာခြင်းသို့ ရောက်မည်ကို သိမြင်လျက် ငါသို့သော မင်းသည် သေဘေးကို ကြောက်၍ မဖြိုချေသော် ကမ္ဘာမကြေသရွေ့ ဥဒါန်းမော်ကွန်း ဖြစ်လေတော့မည်ဟူ၍ မိန့်တော်မူပြီးလျှင် ပိဋကတ် ဗေဒင်တတ်သော ပညာရှိ အပေါင်းတို့နှင့် တိုင်ပင်တော် မူပြီးနောက် အခမ်းအနားဖြင့် သက္ကရာဇ် ၈၀၀ ပြည့်တွင် ၇၉၈ ကို ဖြိုလျက် ၂ ခုတည်၍ ထားတော်မူသည်။ သို့ရာတွင် သက္ကရာဇ် မပြိုဘဲ ရှိလေသည်။

မိုးညှင်းမင်းတရားသည် သက္ကရာဇ် ၈၁၁ ခုနှစ်တွင် ကံတော်ကုန်သည်။

**မိုးညှင်းမြို့။** ။မိုးညှင်းမြို့သည် မြန်မာနိုင်ငံ အထက်ပိုင်း ကချင်ပြည်နယ်၊ မြစ်ကြီးနားခရိုင်၊ မိုးကောင်း နယ်တွင် ပါဝင်၍ မြို့ပိုင်ရုံးစိုက်မြို့ ဖြစ်သည်။ ယခင်က တိုက်နယ်ဖြစ်ခဲ့၍ ၁၉၅၇ ခုနှစ် ဇန်နဝါရီလ ၁ ရက်နေ့တွင် မိုးညှင်းမြို့နယ်ဖွဲ့စည်းသည်တွင် မြို့နယ်၏ ရုံးစိုက်မြို့ဖြစ်လာသည်။ မိုးညှင်းမြို့

သည် ယခုအခါ မြို့ကလေးသာ ဖြစ်သော်လည်း ရှေးအခါ ရှမ်းစော်ဘွားများ တန်ခိုးထွားစဉ်က မိုးကောင်းမြို့နှင့် တလှည့်စီ ဆိုသလို ရှမ်းမြို့တော်ဖြစ်ခဲ့သည်။ မိုးညှင်းမင်းတရား၊ မိုးညှင်းစလုံတို့၏ နယ်မြေဒေသဖြစ်သည့်အလျောက် သမိုင်းဝင်သော မြို့ဖြစ်ပေသည်။ မိုးညှင်းမြို့သည် မန္တလေးမြစ်ကြီးနား မီးရထားလမ်း ပေါ်တွင် တည်ရှိ၍ မြစ်ကြီးနားနှင့် ၆၉ မိုင်မျှ ကွာလှမ်းသည်။ မိုးညှင်းမြို့နယ်သည် အကျယ်အဝန်းအားဖြင့် ၁၉၆ စတုရန်းမိုင်၊ သူကြီးပိုင် ကျေးရွာအုပ်စု ၂၄ နှင့် လူဦး ရေ ၅၅,၇၁၉ ယောက်ခန့် ရှိသည်။

မိုးညှင်းမြို့သည် တဖက်တချက်တွင် ရှိသော တောင်တန်းများအကြားရှိ မြေပြန့်တွင် တည်ရှိသည်။ မြစ်ကြီးနား ခရိုင်၏ တောင်ဖက်အစွန်းလောက်တွင် ဂန့်ဂေါတောင်တန်းမှ ချောင်းဖျားခံကာ အရှေ့မြောက်ဖက်သို့ စီးဆင်းလာသော နမ့်ယင်းချောင်းသည် မိုးညှင်းမြို့တွင်းသို့ ဖြတ်သန်းစီးဆင်းလျက် မြို့ကို နှစ်ပိုင်းခြားလိုက်လေသည်။ မီးရထားလမ်းနှင့် စပါးစက်များမှာ ချောင်း၏ လက်ဝဲဖက်တွင် ရှိ၍၊ ရုံးများ၊ အထက်တန်း ကျောင်း၊ ဆေးရုံနှင့် ဘုရား စသည်တို့မှာ ချောင်း၏ လက်ျာဖက်ဖြစ်သော မိုးညှင်းမြို့မတွင် တည်ရှိသည်။ ကမ်းနှစ်ဖက်ကို ကြိုးတန်တားဖြင့် ဆက်သွယ်ထား၍ ထိုကြိုးတန်တားပေါ်၌ ဂျစ်ကားနှင့် ဝန်တင်လှည်းများ ဖြတ်သန်းသွားလာနိုင်သည်။ မြို့၏အစွန်း နောင်စွန်ရွာအနီးတွင်လည်း ရွာသူရွာသားများ ဦးစီးဆောက်လုပ် ထားသော သစ်သားတန်တားတခု ရှိသေးသည်။

မိုးညှင်းမြို့သည် မကြီးလှသော်လည်း စပါးထွက်ရာ ဒေသ၏ အချက်အခြာဖြစ်သည်။ နမ့်ယင်းချောင်း တဝိုက်တွင် မျိုးကောင်း စပါးထွက်သောကြောင့် မိုးညှင်းမြို့ပေါ်တွင် ဆန်စက်ကြီးငယ် ဂ လုံးရှိသည်။ ထို့ပြင် မိုးညှင်းမြို့နယ်သည် ကျွန်းသစ်နှင့် အခြား သစ်ဝါးများ ပေါသောကြောင့် ယခင် စတီးဘရားသား၏ သစ်အလုပ်ဌာနခွဲ ရှိသည်။ ယခုအခါ လွှစက်တခုရှိသည်။ ကြံပင်များကိုလည်းစိုက်ပျိုး၍ သကြားစက်သို့ တင်ပို့သည်။ မီးရထားလမ်းပေါ်တွင် တည်ရှိသည့် အလျောက် လမ်းပန်းဆက်သွယ်ရေးတွင် မီးရထားကို အားထားရသည်။

မိုးညှင်းမြို့တွင်နေသူ အများစုမှာ ရှမ်းကပြားများနှင့် တရုပ်ကပြားများ ဖြစ်သည်။ ဗုဒ္ဓဝါဒီများ ဖြစ်ကြသည်။ ကချင်တို့မူ ကချင်တောင်ပေါ်တွင် အနေများသည်။မြေပြန့်နေ ကချင်များတွင် ခရစ်ယန်အယူဝါဒီများသည်။ အိန္ဒိယအမျိုးသားများလည်း အနည်းအကျဉ်းရှိသည်။

မိုးညှင်းမြို့ပေါ်တွင် ထင်ရှားသော ဘုရားမှာ ဦးရာဇိန်ဆရာတော် ကမကထပြု၍ တည်သည့် မြသိန်းတန် ဘုရားကြီးဖြစ်၍ ကြေးဆင်းတု ရုပ်ပွားတော် ဖြစ်သည်။ နှစ်စဉ် တပေါင်းလတွင် ဘုရားပွဲတော်ကျင်းပသည်။ မိုးညှင်းမြို့ အပိုင်ဖြစ်၍ မိုးညှင်းမြို့နှင့် ၅ မိုင်ကွာလှမ်းသော ဘီလူးမြို့တွင် စောင်းတန်း ၄ သွယ်ရှိသော ရွှေဘုံသာ စေတီရှိသည်။ နှစ်စဉ် တပေါင်းလတွင် ဘုရားပွဲတော်ကျင်းပသည်။

မိုးညှင်းမြို့ကို သက္ကရာဇ် ၃၀၂ (ခရစ် ၉၄၀) ခန့်က တည်သည်ဆို၏။ တည်သူမှာ တရုပ် ဥတည်ဘွားနှင့် ကိန္နရာဒေဝီတို့၏ မျက်မမြင် သမီးတော် စောလုမှ ဖွားမြင်သော တတိယသားဖြစ်သည်။ သမီးတော် အရွယ်ရောက်ခါစတွင် ဖောင်နှင့်မျှောလိုက်ရာ ရှေးက ခင်ပွန်းဟောင်းဖြစ်ခဲ့သော ကျားတကောင်နှင့် တွေ့ရှိသည်တွင် ကျားနှင့် သင့်၍ သား ၄ ယောက် ဖွားမြင်၏။ သားတော်များ အရွယ်ရောက်သောအခါ အဖိုးဖြစ်သူ ဥတည်ဘွားထံ စေလွှတ်၏။ ဘိုးတော်က မြေးတော်အကြီးဆုံးအား မောင်းတလုံး၊ ဒုတိယမြေးတော်အား ဓားမြှောင်၊ တတိယမြေးတော်အား ဗျိုင်းတကောင်ပေး၍ တိုင်းပြည် တည်ထောင်ရန် မှာကြား၏။ မြေးတော်အငယ်ဆုံးကိုမူ အဖကျားထံသို့ပြန်စေ၏။ တတိယမြေးတော်မင်းသားသည် ဘိုးတော် မှာသည့်အတိုင်း တိုင်းပြည်ထူထောင် မင်းပြုရန်လာသည်တွင် ယခုမိုးညှင်းမြို့တည်ရာဒေသသို့ ရောက်ရှိသောအခါ ဗျိုင်းသည် ကျယ်လောင်စွာအော်၏။ ယင်းဒေသတွင် မြို့တည်ထောင်၍ မိုင်းယန်းဟု အမည်ပေးသည်။ ဗျိုင်းမြို့ဟု အဓိပ္ပါယ်ရ၏။ နောင်သော်မိုင်းယန်းမှ မိုးညှင်း ဖြစ်လာသည်ဟု ဆိုလေသည်။

**မိုးနဲမြို့။** ။မိုးနဲမြို့သည် ရှမ်းပြည်တောင်ပိုင်း၊ လွယ်လင်ခရိုင်၊ လွယ်လင် – မိုင်းပန်သွားလမ်း ၄၆ မိုင်တွင် တည်ရှိသည်။ ပင်လယ်မျက်နှာပြင်အထက် ၃,၁၇၉ ပေ မြင့်သည်။ မိုးနဲဟူသည်မှာရှမ်းဘာသာဖြင့်မိုင်းခင်း=“အဖွားမြို့”ဟူ၍ ဖြစ်၏။ မိုးနဲမြို့၏ အရှေ့ဖက်တွင် နောင်ကျော့ အင်းနှင့် နောင်ကျော့ချောင်း ရှိပြီးလျှင်၊ အနောက်တောင်ဖက်နှင့် မြောက်ဖက်တွင် မြို့ရိုးပျက်များရှိသည်။ မြို့၏အနောက်ဖက်တွင် တံခွန်တောင်၊ မြတောင်၊ ငွေတောင် စသည့် တောင်ကုန်းတောင်စွယ်များ ရှိ၏။ ထိုတောင်များပေါ်တွင် စေတီတဆူကျ တည်ထားလေသည်။

မိုးနဲမြို့တည်နေပုံမှာ ဆင်ခြေလျောဖြစ်ရာ၊ အနောက်ဖက်တွင်မြင့်ပြီးလျှင် အရှေ့ဖက်သို့နိမ့်ဆင်းသွားသည်။ မြို့၏ အလယ်ဗဟိုတွင် ယခင် နယ်ရှင် စော်ဘွားကြီး၏ ဟော်နန်းရှိသည်။ မြို့၏ အနောက်တောင်ထောင့်တွင် မြို့သူမြို့သားများ အမြဲသုံးစွဲနေသည့် နောင်မိုရေကန်ရှိသည်။

မိုးနဲမြို့သည် အရှေ့နှင့်အနောက် ၆၄ မိုင်ခန့်၊ တောင်နှင့် မြောက် ၆၄ မိုင်ခန့်ရှိ၏။ ခန့်မှန်းခြေအကျယ်အဝန်းမှာ စတုရန်းမိုင်တဝက်ခန့်ဖြစ်သည်။မိုးနဲမြို့တွင်အိမ်ခြေပေါင်း ၆၁၄ ခန့်ရှိပြီးလျှင် လူဦးရေ ၂,၄၇၂ ယောက်ခန့်ရှိ၏။ မိုးနဲမြို့နှင့် မြို့နယ်အတွင်း ရှမ်းလူမျိုးအများအပြား နေထိုင်ကြသည်။

မြို့ပေါ်တွင် မြန်မာ၊ ကုလားနှင့် တရုပ်လူမျိုး အနည်းအကျဉ်းရှိ၍၊ မြို့နယ်အတွင်း လီရှော၊ယင်းနက်၊ ယင်းကျားနှင့် ပလောင်လူမျိုးအနည်းအပါး နေထိုင်ကြလေသည်။ မိုးနဲမြို့နှင့် မြို့နယ်အတွင်း နေထိုင်ကြသူများသည် များသောအားဖြင့် ဗုဒ္ဓအယူဝါဒီများသာဖြစ်၏။ ထိုပြင် လယ်ယာခြံလုပ်ကိုင်စားသောက်ကြသူများသာ များလေသည်။ မိုးနဲမြို့၏ အဓိကထွက်ကုန်မှာ ဆန်စပါးဖြစ်၍၊ သစ္စေး၊ အင်တွဲ၊ ရှမ်းဆီ၊ ချိပ် စသည်တို့လည်း အများအပြား ထွက်သည်။

မိုးနဲမြို့ဘွင် ဗုဒ္ဓအယူဝါဒီ များပြားသည့်အလျောက် မြို့နှင့်မလိုက်အောင်ပင် ဘုန်းတော်ကြီးကျောင်း ၁၆ ကျောင်း ရှိသည်။ မိုးနဲမြို့နယ်တွင် စေတီပုထိုးများလည်း အလွန်များပြား၏။ မြန်မာမင်းများ လက်ထက်က ရှမ်းပြည်တွင် မိုးနဲမြို့ကို အချက်အခြာထား၍ အုပ်ချုပ်ခဲ့သည်။ မိုးနဲမြို့နယ်အတွင်း ထင်ရှားသော စေတီပုထိုးများမှာ နှစ်ကျိပ်ရှစ်ဆူစေတီ၊ ဦးရွှေအောင် စေတီနှင့် ဆင်တောင်စေတီတို့ဖြစ်သည်။

မိုးနဲမြို့သည် ရှမ်းပြည်တောင်ပိုင်းတိုင်း၊ လွယ်လင်ခရိုင်၊ မိုးနဲနယ်၏ရုံးစိုက်မြို့ဖြစ်သည့်အတိုင်း၊ နယ်ပိုင်ရုံး၊ မြို့ပိုင်ရုံး၊ လမ်းဝန်ထောက်ရုံး၊ အမျိုးသားမှတ်ပုံတင်ရုံး၊ ရဲဌာန၊ တိရစ္ဆာန်ဆေးကုဌာန စသည်ဖြင့် အစိုးရအဆောက်အအုံများရှိသည်။ အစိုးရအထက်တန်းကျောင်း ၁ ကျောင်းနှင့် မူလတန်းကျောင်းများလည်း ရှိသည်။

မိုးနဲမြို့သည် လွယ်လင်၊ မိုင်းပန်၊ မန္တလေး၊ ကျိုင်းတောင်၊ လင်းခေး စသည့် မြို့များနှင့် လမ်းပန်းအဆက်အသွယ်ရှိလေသည်။

**မိုးမခပင်။** ။မိုးမခပင်အမျိုးပေါင်း ၁၇ဝ မှ ၃ဝဝ အထိ ရှိတန်ရာသည်ဟု ခန့်မှန်းရသည်အလျောက် ချုံပင်မှစ၍ အပင်ကြီးအထိ အမျိုးမျိုးရှိလေသည်။ အချို့ မိုးမခပင်များသည် အမြင့်တလက်မလောက်သာရှိ၍ အချို့ကား ပေပေါင်းတရာကျော် မြင့်ကြသည်။ ကမ္ဘာ့အနွေးအပြား အေးသောဒေသနှင့် သမပိုင်းဒေသများတွင် စိုစွတ်သည့် မြေများ၌ ပေါက်ကြသည်။ အမြစ်များသည် အလွန်ခိုင်မာ၍ မြေဝင်လည်းနက်၏။ အပင်များသည် အလွန် အကြီးမြန်သောကြောင့် ရေတိုက်စားခြင်းမှ ကာကွယ်ရန် အထူးသဖြင့် မြစ်ဘေး ချောင်းဘေး စမ်းဘေး တာလမ်းဘေးတို့တွင် အမြောက်အမြား စိုက်ကြသည်။

မိုးမခပင်၏ ရုက္ခဗေဒအမည်မှာ ဆေးလစ် ဖြစ်၍ ဆေးလစ်ကေစီအီး မျိုးရင်းတွင် ပါဝင်သည်။ အမျိုးပေါင်းများပြားသဖြင့် ရုက္ခဗေဒဆရာများပင် အရေအတွက်နှင့် အမျိုးကို ခွဲခြားရာ၌ တဦးနှင့်တဦး အယူအဆချင်း မတူကြချေ။ ပင်စည်မှာ အပင်တမျိုးနှင့်တမျိုး မတူချေ။ အချို့ မိုးမခပင်၏ ပင်စည်မှာ တို၍ တုတ်ခိုင်၏။ အချို့မှာ ကရစ်ကက်ရိုက်သည့် ဗက်တံလုပ်သော မိုးမခပင်၏ ပင်စည်ကဲ့သို့ သေး၍ ဖြောင့်တန်း၏။ အရွက်များ၏ ပုံသဏ္ဌာန်မှာလည်း အမျိုးမျိုးရှိရာ အချို့အရွက်များသည် သေးသွယ်ရှည်လျား၍ တံစဉ်ပုံကဲ့သို့ ရှိ၏။ အချို့အရွက်မှာ တို၍ ဝိုင်း၏။ သို့သော် အားလုံးသော မိုးမခပင်၏ အခေါက်မှာ တပြင်တည်း မရှိဘဲ အက်ကွဲ၍ အကြောင်းများရှိသည်။

မိုးမခသားသည် ပျော့ပြီးလျှင် ပေါ့လည်း ပေါ့၏။ အရောင်မှာဖြူ၍ ရေတွင် အခြားသစ်သားများထက်ကြာရှည်ခံ၏။ ကရစ်ကက်ဗက်တံများ၊ အိမ်ဆောက်ရန် တိုင်လုံးများ၊ လယ်ယာစိုက်ပျိုးရေးကရိယာများ စသည်တို့ကို ပြုလုပ်ရာ၌ အသုံးပြုသည်။ မီးသွေးဖုတ်သည့်အခါ အလွန်ကောင်းသော မီးသွေးကို ရရှိသည်။ ရုက္ခဗေဒအမည်အားဖြင့် ဆေးလစ် အယ်လဗာ ဟု ခေါ်သော မိုးမခပင် အဖြူမျိုးနှင့် ဆေးလစ် ဖရာဂျိုင်းလစ် ဟုခေါ်သည့် ဆတ်သော မိုးမခပင်မျိုးမှ အလွန်အဖိုးတန်သော သစ်များရသည်။ စက္ကူကို မိုးမခပင် အဖြူမျိုးမှရသော သစ်ပျော့ဖတ်ဖြင့် လုပ်သည်။

တရုပ်နိုင်ငံသည် အကိုင်းများ တွဲလွဲကျနေတတ်သော မိုးမခပင်တမျိုး၏ မူလပေါက်ရာဒေသဖြစ်သည်။ ယင်းနိုင်ငံမှ ဥ



မြန်မာနိုင်ငံတွင် ပေါက်ရောက်သည့် မိုးမခပင်

ရှောပတိုက်၊ အမေရိကတိုက်များသို့ယူဆောင်စိုက်ကြသည်။ ယင်းသည် စီးပွားရေးအတွက် မည်သို့မျှ အသုံးမဝင်လှသော်လည်း အလှအပအတွက် များစွာစိုက်ပျိုးကြသည်။ ယင်း၏ ရုက္ခဗေဒအမည်မှာ ဆေးလစ် ဗက်ဗီလိုနီက ဖြစ်သောကြောင့် အချို့က ဗက်ဗီလုံး နိုင်ငံတွင် မူလပေါက်သည်ဟု ထင်ကြသည်။ အဝါနှင့် ငွေရောင် ကြောင်မြီးပုံ ပန်းခိုင်များ တွဲလွဲပွင့်သည့် မိုးမခပင်တမျိုးလည်း ရှိသေး၏။ ချုပင်ကဲ့သို့ ပေါက်သော အိုဇာ မိုးမခပင်များ၏ အသားသည် အလွန် ပျော့ပျောင်းသောကြောင့် တောင်းများ ယက်လုပ်ရာ၌၎င်း၊ အိမ်တွင် အသုံးအဆောင်များ ပြုလုပ်ရာ၌၎င်း များစွာ အသုံးပြုကြသည်။ အခေါက်ကို သားရေနယ်ရာ၌၎င်း၊ "ဆာလီဆင်"ခေါ် ဘယဆေးဖော်စပ်ရာ၌၎င်း အသုံးပြုကြသည်။

**မိုးမိတ်မြို့။** ။မိုးမိတ်မြို့သည် မိုးမိတ်နယ်၏ မြို့တော် ဖြစ်သည်။ မိုးမိတ်မြို့နှင့် မိုးမိတ်နယ်တို့သည် ရှမ်းပြည်နယ်တွင် အရေးပါပေသည်။ မိုးမိတ်သည် မြန်မာနိုင်ငံ သမိုင်းတွင် သာမက တရုပ်နိုင်ငံ သမိုင်းတွင်လည်း ဖော်ပြခြင်း ခံခဲ့ရလေသည်။

မိုးမိတ်နယ်သည် ရှမ်းပြည်နယ် အနောက်မြောက်ဖက်တွင် တည်ရှိသည်။ နယ်နိမိတ်အားဖြင့် မြောက်ဖက်တွင် ကချင်ပြည်နယ် ဗန်းမော်ခရိုင်၊ အရှေ့ဖက်တွင် သိန္နီနယ်နှင့် တောင်ပိုင်နယ်၊ တောင်ဖက်တွင် သီပေါနယ်၊ အနောက်ဖက်တွင် ရွှေဘိုခရိုင်တို့ဖြင့် ပတ်ရံလျက်ရှိသည်။ မိုးမိတ်နယ်၏ အကျယ်အဝန်းမှာ ၃,၇၃၃ စတုရန်းမိုင်၊ ကျေးရွာပေါင်း ၅၀၇ ရွာနှင့် ၁၉၅၆ ခုနှစ်တွင် ခန့်မှန်းခြေအားဖြင့် လူဦးရေ ၅၉,၇၆၅ ယောက်ရှိသည်။

မိုးမိတ်နယ်သည် မြေမျက်နှာပြင်အားဖြင့် တောင်ထူထပ်လေသည်။ နယ်၏ ၄ ပုံ ၃ ပုံမှာ တောင်များ ဖြစ်လျက် ကျန် ၁ ပုံမှာ အသင့်အတင့် ပြန့်ပြူးသည်။ ယင်းသည်ကား မိုးမိတ်မြို့နှင့် ရေဝတီမြစ် အကြားဖြစ်၏။ ရွှေဘိုခရိုင်နှင့် စပ်လျက်ရှိသောနေရာသည် တောင်ထူထပ်သည်။ ရွှေလီမြစ်နှင့် လက်တက်များဖြစ်သော နမ့်အဲ၊ နမ့်ခမ်းတို့၏ ရေဆင်းနယ်များလည်း တောင်ထူထပ်သည်။ ထိုတောင်များသည် ဗန်းမော်ခရိုင် ရွှေဂူမြို့တိုင်ရောက်သည်။ နယ်တွင်း စီးဆင်းသော အဓိကမြစ်မှာ ရွှေလီမြစ်ဖြစ်သည်။ ရွှေလီမြစ်သည် မိုးမိတ်နယ်တွင်းသို့ အရှေ့မြောက်ဖက်မှ အနောက်တောင်ဖက်သို့ စီးဆင်းပြီးလျှင် မြစ်ဆုံရွာသို့ ရောက်လျှင် အနောက်မြောက်ဖက်သို့ လှည့်၍ စီးဆင်းသည်။

မိုးမိတ်နယ်ရှိ စကားတောင်နှင့် ဗားနဒ်တောင်ခြေရင်းတွင် ပတ္တမြား၊ဂေါ်မုတ်၊ဥဿဖယား၊ နီလာ၊ ကြောင်စသည်တို့ထွက်သော်လည်း အရည်အသွေး မကောင်းလှချေ။ထို့ပြင် အညှိစား ကျောက်မီးသွေး အနည်းငယ်လည်း ထွက်သည်။ ရွှေလီမြစ်ပေါ်တွင် တည်ရှိသော မြစ်ဆုံရွာအနီးတွင် ရွှေကျင်၍ ရရှိသည်။

မိုးမိတ်နယ်မှ စိုက်ပျိုးရရှိသော ဆန်စပါးတို့မှာ နယ်တွင်း စားသုံးရန်အတွက် လုံလောက်ရုံမကဘဲ မိုးကုတ်၊ တောင်ပိုင်တို့သို့ပင် ရောင်းချနိုင်သည်။ လက်ဖက် အနည်းငယ် စိုက်ပျိုးသည်။ မိုးမိတ်တွင် သစ်ဝါးလည်း ပေါသည်။ မိုးကုတ်မှ ပေါက်လာသော ကားလမ်းသည် ယခုအခါ ဗန်းမော်အထိ ရောက်၍ ဗန်းမော်မှတဆင့် မြစ်ကြီးနားမြို့တိုင် ကားဖြင့် သွားနိုင်ပေပြီ။ မိုးမိတ်မြို့တွင် လေယာဉ်ပျံကွင်းလည်း ရှိလေသည်။

မိုးမိတ်နယ်တွင် နေထိုင်သူများမှာ ကချင်၊ပလောင်၊ ရှမ်း၊ မြန်မာတို့ဖြစ်ကြ၏။ ထိုသူတို့တွင် ၅၀ ရာခိုင်နှုန်းမှာ ကချင်၊ ရာခိုင်နှုန်း ၄၀ မှာ ပလောင်နှင့် ရှမ်း၊ ကျန် ၁၀ ရာခိုင်နှုန်းမှာ မြန်မာဖြစ်၏။ ရှမ်းပြည်နယ်ဟု ဆိုရသော်လည်း အများစုမှာ ကချင် ဖြစ်၏။

မိုးမိတ်မြို့သည် ပတ္တမြားထွက်ရာ မိုးကုတ်မြို့နှင့် ၂၈ မိုင်ကွာလှမ်းသည်။ မိုးကုတ်မြို့မှ မြောက်ဖက်ဆီသို့ တောင်စဉ်တောင်တန်းများကို ဖြတ်သန်း ကျော်တက်ပြီးနောက် တဖြည်းဖြည်း နိမ့်ဆင်းသွားလျှင် မိုးမိတ်သို့ ရောက်ပေမည်။ မိုးမိတ်မြို့သည် နမ့်မိတ်ချောင်းကမ်းဘေး ညီညာပြန့်ပြူးသော လွင်ပြင်၏ အလယ်တွင် တည်ရှိလျက် နိမ့်တုံ မြင့်တုံ ဖြစ်သော တောင် ၅ လုံးက ဝန်းရံထားသည်။ ထို့ကြောင့် အထူးပင် သာယာလှပေသည်။ မိုးမိတ်တဝိုက်ရှိ တောင်တန်းများတွင် ကျွန်းသစ်စသည်တို့ ပေါများသဖြင့် မိုးမိတ်တွင် သစ်တောခရိုင်ရုံးစိုက်သည်။

မိုးမိတ်မြို့တွင် ထင်ရှားကျော်ကြားသော စေတီတော်မှာ မြို့၏အရှေ့မြောက်ဖက် တမိုင်ခန့်ကွာဝေးသော တောင်တန်း ကလေးပေါ်တွင်တည်ရှိသော ရွှေမြင်ထင်စေတီတော်ပင်ဖြစ်ပေသည်။ ထိုစေတီတော်မှာ သက္ကရာဇ် ၉၄၉ ခုနှစ်တွင် အိပ်မက်အရ သိုဇန်ဘွားစော်ဘွား တည်ခဲ့သော စေတီ ဖြစ်၏။ နှစ်စဉ် ဘုရားပွဲပြုလုပ်သည်။

မိုးမိတ်မြို့ကို သက္ကရာဇ် ၆၀၀ ပြည့်နှစ် (ခရစ် ၁၂၃၈) တွင် ကျိုင်းတုံ စော်ဘွားရွှေနန်းရှင် တည်ထောင်ခဲ့သည်။ ရွှေနန်းရှင်လက်ထက်တွင် နယ်ကျယ်ဝန်းလာလေသည်။ သူ၏ သားကြီး သိုပိုင်သည် မိုးကောင်းစော်ဘွားဖြစ်၏။ ဒုတိယသား သိုကျင်မှာ မိုးဝန်းစော်ဘွားဖြစ်၏။ တတိယသား သိုပန်ကား မိုးညှင်းစော်ဘွားဖြစ်၍၊ ပဥ္စမသား သိုဟန်ခါးသည် မိုးလှိုင်စော်ဘွားဖြစ်၏။

ရွှေနန်းရှင်၏ စတုတ္ထသား သိုဟန်ဘွားသည် ပဌမဆုံး မိုးမိတ်စော်ဘွား ဖြစ်၏။ ရွှေနန်းရှင်သည် အသက် ၁၂၆ နှစ်တွင် သေဆုံးလေလျှင် သိုဟန်ဘွားသည် မိုးမိတ်မြို့ကို စောခဲဘွားအား လွှဲခဲ့၍ မိမိကမူ ကျိုင်းတုံသို့ သွားရောက်

၍ စော်ဘွားအဖြစ် ခံယူသည်။ မိုးမိတ်မြို့ကို တကယ်တည်သူ အဖြစ် ထင်ရှားသူကား စောခဲဘွားဖြစ်၏။

စောခဲဘွားသည် မိုးမိတ်မြို့ကို လုပ်သား ၁၀၀,၀၀၀ ဖြင့် တည်၏။ မိုးမိတ်ကို ဝန်းပတ်ထားသော အပြင်မြို့ရိုးမှာ မြောက်မှတောင်သို့ရင်း၊ အရှေ့မှ အနောက်သို့ရင်း၊ တာ ၅၀၀ (၅,၂၅၀ ပေ) ရှိ၏။ အမြင့်မှာ ၁၈ တောင်နှင့် ထု ၇ တောင်ရှိ၏။ တံခါးကြီး ၁၀ ခု၊ ပြအိုး ၁၅ ခု၊ တန်ဆောင်း ၁၅ ခုရှိသည်။ အပြင်မြို့ရိုးပတ်လည်တွင် ရှိသော ကျုံးတွင်လည်း တန်တား ၃ ခုရှိ၏။ ယင်းတို့မှတဆင့် အတွင်းမြို့ရိုးတံခါး ၃ ခု သို့ ရောက်ရှိသည်။ အတွင်းမြို့ရိုးကား အမြင့် ၁၀ တောင်၊ ထု ၇ တောင်၊ ပြအိုး ၄ ခု၊ တန်ဆောင်း ၄ ခုရှိ၏။ မြို့၏ အလယ် ဗဟိုတွင် တိုင် ၃ ခုရှိ၏။ အလျား ၅ ပေ ၁၀ လက်မနှင့် ပတ်လည် ၁ ပေရှိ၏။ တခုမှာ ရွှေတိုင်၊ တခုမှာငွေတိုင်၊ တခုမှာ သံတိုင် ဖြစ်၏။ ထိုစဉ်က မြို့တွင်း၌ အိမ်ခြေ ၅,၀၀၀၊ ဆင်ခြေဖုံး၌ ၁၅၆,၄၄၅ ရှိသည်ဆို၏။

ခရစ် ၁၇၃၇ ခုနှစ်တွင် မြန်မာမင်းဖြစ်သော ရွှေဘိုမင်းသည် မောင်အေးပု ဆိုသူအား စော်ဘွားခန့်အပ်လေသည်။ ထိုအချိန်မှစ၍ မိုးမိတ်တွင် အာဏာရရှိရေးအတွက် သူတပြန် ငါတလှည့် တိုက်ခိုက်သောကြောင့် မိုးမိတ်မြို့သည် ၄ ကြိမ်တိုင် မီးရှို့ခံရသဖြင့် ပျက်စီးရလေသည်။ ဗြိတိသျှ လက်ထက် ခရစ် ၁၈၈၂ ခုနှစ်တွင် အစိုးရက မိုးမိတ်ကို သိမ်းပိုက်ပြီးလျှင် ပတ္တမြားတွင်းခရိုင်တွင် သွတ်သွင်းလိုက်သည်။

မိုးမိတ်နယ်ကို ၁၉၂၀ ပြည့်နှစ် နိုဝင်ဘာလ ၁၈ ရက်နေ့မှအစပြု၍ မြောက်ပိုင်း ရှမ်းပြည်နယ်ခြား အရာရှိချုပ်လက်အောက်သို့ ရွှေပြောင်း ထားရှိ အုပ်ချုပ်စေခဲ့၏။ ၁၉၂၃ ခုနှစ်တွင် ရှမ်းပြည်နယ်များအစုသို့ အဖွဲ့ဝင်အဖြစ် ပါဝင်ခဲ့ရလေသည်။ ၁၉၅၉ ခုနှစ်တွင် စော်ဘွားများ အုပ်ချုပ်ရေးအာဏာ စွန့်လွှတ်ပြီးနောက် ရှမ်းပြည်တွင် တိုင်း၊ ခရိုင်၊နယ်၊ မြို့နယ် ဟူ၍ခွဲခြားအုပ်ချုပ်လာခဲ့ရာ၊ မိုးမိတ်နယ်မှာ နယ်ပိုင်အုပ်ချုပ်သည့်နယ် ဖြစ်လာ၍၊ ရှမ်းပြည်မြောက်ပိုင် တိုင်း၊ ကျောက်မဲခရိုင်တွင် ပါဝင်လာသည်။ မိုးမိတ်မြို့သည်လည်း မိုးမိတ်နယ်၏ ရုံးစိုက်မြို့ဖြစ်လာလေသည်။

# မိုးရွာအောင် ပြုလုပ် စီမံနိုင်ပါသလား

**မိုးရွာလျှင်ကောက်နှံများဖွံ့ဖြိုးကာ သီးထွက်ကောင်းမည်။ ထိုကြောင့်တောင်သူလယ်သမားတို့သည် မိုးကို တောင့်တ အားကိုးကြသည်။ သို့သော် မိုးကို လူတို့အစိုးရသည်မဟုတ်။ မိုးမရွာသော် မခက်ချေလော။ ထိုစိုးရိမ်ကြောင့်ကြမှုကို ပယ်လှန်အောင်မြင်ရန် မည်သို့ ကြိုးပမ်းဆောင်ရွက်နိုင်ပုံကို စိတ်ဝင်စားဖွယ်ရာ ဖတ်ရှုရပေလိမ့်မည်။**

**မိုးရွာခြင်း။** ။မိုးကို သယ်ဆောင်လာသည်ကား လေပင်ဖြစ်၏။ လေသည် ရေခိုးရေငွေ့ကို ပင်လယ်မှသယ်ယူလာခဲ့ရာ ရေခိုးရေငွေ့သည် အအေးဓာတ်နှင့် ထိတွေ့သောအခါ အရည်အဖြစ်သို့ ပြောင်းလဲ၍ မိုးအဖြစ်ဖြင့် ရွာသွန်းချလေသည်။

ကမ္ဘာမြေပြင်တခုလုံးကို ခြုံ၍ကြည့်သည်ရှိသော် မိုးများသောနေရာ၊ မိုးလွန်ကဲသောနေရာ၊ မိုးနည်းသောနေရာ၊ မိုးအခေါင်ဆုံးသောနေရာ၊ မိုးသင့်လျော်ရုံမျှသာ ရွာသွန်းသောနေရာ စသည်ဖြင့် အမျိုးမျိုးတွေ့ရ၏။ မိုးလွန်ကဲသောနေရာများ၌ အလွန်စိုစွတ်ထိုင်းမှိုင်း၍ သစ်တောထူထပ်ခြင်း၊ ပိုးကောင်မွှားကောင်ပေါများခြင်း၊ ငှက်ဖျားရောဂါ ထူပြောခြင်းစသည်တို့ကြောင့် လူများနေထိုင်ရန်ခက်ခဲ၏။ မိုးခေါင်လွန်းသောအရပ်များ၌မူကား သစ်ပင်ဟူ၍ မရှိသလောက်ရှားပါးခြင်း၊ သောက်ရေရှားပါးခြင်းစသည်တို့ကြောင့် လူမနေနိုင်ဘဲ အများအားဖြင့် ကန္တာရများသာဖြစ်လေသည်။ သို့ဖြစ်ရကား မိုးမနည်းမများ သင့်လျော်ရုံမျှ ရွာသွန်းသောနေရာများ၌သာ လူနှင့်တိရစ္ဆာန်များ နေနိုင်ကြ၏။ အထူးသဖြင့် အသီးအနှံ ဖွံ့ဖြိုးမှုမှာ မိုးရွာသွန်းခြင်းအပေါ်၌ အမှီပြုလျက်ရှိပေသည်။

တောင်တန်းများသည် ရေခိုးရေငွေ့ပါသော လေကို ဖမ်းယူသည့် လိုက်ကာကြီးများသဖွယ် ဖြစ်ရကား လေကိုထိတွေ့ခံယူသည့် ဖက်တွင် မိုးများ၍ အခြားဖက်၌မူ မိုးနည်းပါးတတ်လေသည်။ ရေခိုးရေငွေ့များပါသော လေသည် ကုန်းမြင့်အရပ်ဒေသများ၌ အထက်သို့တက်၍ အအေးဓာတ်နှင့်တွေ့သောအခါ မိုးရွာချ၏။ အိန္ဒိယနိုင်ငံ အနောက်ဖက် ပင်လယ်ကမ်းရိုးတန်းသည် အနောက်ဂတ်တောင်တန်းကို ဖြတ်ကျော် တိုက်ခတ်သော အနောက်တောင် မုတ်သုန်လေမှ မိုးများစွာရ၏။ မြန်မာနိုင်ငံ တနင်္သာရီကမ်းမြောင်ဒေသနှင့် ရခိုင် ကမ်းမြောင်ဒေသတို့သည်လည်း တောင်တန်းကြီးများနှင့် နီးကပ်နေသောကြောင့် အနောက်တောင် မုတ်သုန်လေမှ မိုးများစွာရလေသည်။

လေသည်ပူနွေးလာသောအခါ အထက်သို့တက်စမြဲဖြစ်၍ အထက်၌ အအေးဓာတ်နှင့် တွေ့သောအခါ ပါသွားသော ရေခိုးရေငွေ့ကို ဆက်လက် မသယ်ယူနိုင်တော့ဘဲ ရေအဖြစ်ဖြင့် ရွာချ၏။ အီကွေတာ တလျှောက်ရှိ အရပ်ဒေသများ၌ တနှစ်လုံးလိုလို နေပြင်းစွာပူ၍ ပင်လယ်မှ ရေခိုးရေငွေ့များသည် လေနှင့် အထက်သို့ တက်ပြီးလျှင် အအေးဓာတ်နှင့်တွေ့၍ မိုးရွာချ၏။ ထိုကြောင့် အီကွေတာဖြတ်သွား

သော အာဖရိကတိုက် အလယ်ပိုင်းနှင့် တောင်အမေရိက တိုက်မြောက်ပိုင်း၌ တနှစ်လုံး မိုးများစွာရွာသည်။

လေတိုက်ခတ်တိုင်းလည်း မိုးရွာသည်မဟုတ်။ လေသည် ပင်လယ်ကိုဖြတ်ကျော်လာမှ ရေခိုးရေငွေ့ပါလာ၍ မိုးရွာနိုင်မည်ဖြစ်သည်။ အာဖရိကတိုက် မြောက်ပိုင်း၌ ဆဟာရာ သဲကန္တာရကြီးဖြစ်နေခြင်းမှာ ထိုအရပ်၌ တိုက်ခတ်သော လေများသည် ကုန်းကို ဖြတ်ကျော်လာခဲ့၍ ရေခိုးရေငွေ့ ပါမလာခြင်းကြောင့်ဖြစ်သည်။မြန်မာနိုင်ငံ၌လည်းဆောင်း ရာသီတွင် အရှေ့မြောက်မှ လေတိုက်ခတ်၏။ သို့ရာတွင် ထို ရာသီလေမှာ အာရှတိုက်အလယ်ပိုင်းမှ တိုက်ခတ်လာသဖြင့် ရေခိုးရေငွေ့ကိုမယူဆောင်ခဲ့ချေ။ အင်္ဂလန်နိုင်ငံနှင့် ဥရောပ တိုက် အနောက်မြောက်ပိုင်းရှိ တိုင်းပြည်များသည်ကား အတ္တလန္တိတ် သမုဒ္ဒရာကို ဖြတ်လာသော အနောက်တောင် လေမှ မိုးရ၏။ ထို့ပြင် ထိုတိုင်းပြည်များ၌ ဆိုင်ကလုန်းများ ကျရောက်၍ မကြာခဏ မိုးရွာတတ်၏။

ကမ္ဘာပေါ်၌ မိုးများစွာရွာသွန်းသော အရပ်ဒေသများ မှာ အီကွေတာအနီးရှိ အရပ်ဒေသများ၊ မုတ်သုန်လေတိုက် ခတ်ရာ အရပ်ဒေသများနှင့် မြစ်ဝကျွန်းပေါ် အရပ်ဒေသ များဖြစ်၏။ မိုးသည် ကုန်းတွင်းဖက်၌နည်းတတ်၏။ရန်ကုန် မြို့၏ နှစ်စဉ် ပျမ်းမျှ မိုးရေချိန်မှာ ၁၀၅ လက်မခန့်ရှိ၍၊ မန္တ လေးမြို့မှာ မိုးရေချိန်လက်မ ၃၀ မျှသာရှိ၏။

ရွာသွန်းသော မိုးရေ၏ ပမာဏကို တိုင်းတာသော ကရိ ယာတခု ရှိ၏။ ထိုကရိယာမှာ အထူးပြုလုပ်ထားသော ခွက် ကလေးတခုဖြစ်၍ ထိုခွက်ထဲသို့ ကျလာသောမိုးရေကို တိုင်း တာယူရ၏။

လူတို့သည် ရာသီဥတုကို အစိုးမရသောကြောင့် စိုက်ပျိုး ရေးကိစ္စများတွင် ထင်သလောက် ခရီးမရောက်နိုင်ကြချေ။ သဘာဝအလျောက် ရွာသည့်မိုးကို ငံ့မျှော်နေမည့်အစား လူတို့စိမံကြံဆခြင်းဖြင့် မိုးကို အောင်မြင်စွာရွာသွန်းစေနိုင် လျှင် မိုးခေါင်၍ စပါးဆန်ရေပျက်စီးခြင်းကို တားဆီးနိုင်ကြ ပေမည်။ စိုက်ပျိုးခင်းများ၊ ယာခင်းများပေါ်တွင် သိပ္ပံ နည်းဖြင့် မိုးကိုအလိုရှိသည့်အခါ ရွာသွန်းစေခြင်းဖြင့် တနှစ် တသီးသာ စိုက်ပျိုးနိုင်သော လယ်ယာများတွင် တနှစ်နှစ် သီးကျ စိုက်ပျိုးနိုင်မည်ဖြစ်၍ အစာရေစာ ပိုမိုဝပြောကုံလုံ စေနိုင်ပေမည်။ မိုးတိမ်လိပ်ကြီးများကို အမြောက်များဖြင့် ပစ်ခွင်းလျှင် မိုးရွာနိုင်စရာ အကြောင်းရှိသည်ကို များစွာ ဆွေးနွေးပြောဆိုကြပေသည်။ ရုရှားနိုင်ငံတွင် မိုးကို လိုရာ အရပ်၌ ရွာချစေရန်အတွက် အောက်မှ အမြောက်ကြီးများ ပစ်ဖောက်ခြင်းဖြင့် တိမ်တိုက်ကို နေရာရွှေ့စေနိုင်သည်ဟုဆို သည်။ အချို့ကလည်း မိုးတိမ်များအပေါ်တွင် အလွန်အေး သော ကာဗွန်ဒိုင်အောက်ဆိုက် အတုံးကလေးများကို ကြဲချ ခြင်းအားဖြင့် မိုးအနည်းငယ်ရွာသွန်းစေခဲ့လေသည်။ တိမ် တိုက်တွင်ရှိသော ရေခိုးရေငွေ့များသည် အလွန်အေးသော ကာဗွန်ဒိုင်အောက်ဆိုက် အတုံးကလေးများနှင့် တွေ့ထိ သ ဖြင့် မိုးရေအဖြစ် ရွာချလေသည်။ သို့သော် သိပ္ပံနည်းဖြင့် ရွာစေသော မိုးသည် စိတ်တိုင်းကျ အောင်မြင်မှု မရှိသေး ချေ။ ဆက်လက်ကြိုးစားဆဲ ဖြစ်ပေသည်။

တခါတရံ မိုးကြိုးမုန်တိုင်း ကျရောက်နေစဉ်အတွင်း မိုး တိမ်များမှ ရေခဲတုံးကလေးများ အမြောက်အမြားကျဆင်း လာတတ်သည်။ ထိုသို့ကျဆင်းလာသော ရေခဲတုံးကလေး များကို မိုးသီးဟုခေါ်သည်။ မိုးသီးများသည် အရွယ်အစား စားရှိ၏။ အချို့ မိုးသီးများသည် ပဲလုံးခန့်လောက်သာရှိ၍ အချို့ကား ကြက်ဥအရွယ်ခန့်လောက် ရှိသည်။ တခါတရံ ရှောက်သီးလုံးလောက်ပင် ကြီးသည်။ ပုံသဏ္ဌာန်မှာလည်း အမျိုးမျိုးရှိရာ အချို့မှာ အလွန်လှပကြသည်။ မိုးသီး၏ အ လယ်ဗဟို၌ နှင်းလုံးကလေးရှိ၍ ထိုနှင်းလုံး၏ ပတ်ဝန်းကျင် တွင် ရေခဲလွှာများ အထပ်ထပ် ဖုံးအုပ်နေလေသည်။

ပူနွေးသော ရာသီဥတု၌သာ မိုးသီးကြွေတတ်၍ မိနစ် အ နည်းငယ်ခန့်သာကြာသည်။ ထိုသို့ ကြွေရာ၌လည်း မိုးကြိုး မုန်တိုင်းကျရောက်ရာ နေရာအနှံ့အပြား၌ မကြွေတတ်ဘဲ ကွက်၍ ကျဉ်းမြောင်းသော နေရာတလျှောက်၌သာ ကြွေ တတ်လေသည်။ မိုးသီးဖြစ်ပေါ်လာပုံမှာ ကမ္ဘာမြေကြီး အနီး၌ ရှိသောလေသည် အထက်ဖက်ရှိ လေအေးနှင့် စာ သော် အလွန်ပူသောကြောင့် ဖြစ်သည်။ ထိုအချိန်အခါမျိုး တွင် ရာသီဥတုသည် များသောအားဖြင့် ပူအိုက်လျက်ရှိပြီး လျှင် လေပူသည် အထက်သို့ရှင်း၊ လေအေးသည် အောက် သို့ရှင်း တည့်တည့်မတ်မတ် အထက်နှင့်အောက် လူးလာ ရွှေ့ရှားလျက် ရှိနေလေသည်။ မြေပြင်အနားရှိ လေပူသည် အလွန်အေးသော အထက်လေအေးရှိရာသို့ ရောက်ရှိသွား သောအခါ ရေခဲပွင့်ကလေးများ ဖြစ်လာသည်။ ရေခဲပွင့် ကလေးများဖြစ်ပြီးလျှင် အောက်လေပူရှိရာသို့ ကျလာပြန် သည်။ ပူနွေးသောလေကို ဖြတ်ဆင်းလာစဉ် ရေခဲတုံးက လေးများပေါ်တွင် ရေများ ဖွဲ့စည်းလာ၏။ တဖန် ရေခဲတုံး ကလေးများကို တည့်တည့်မတ်မတ်တက်နေသော လေပူက အထက် အလွန်အေးသော လေအေးရှိရာ အမြင့်ကြီးသို့ ယူ ဆောင်သွားပြန်သည်။ ထိုနေရာ၌ ရေခဲတုံးကလေးများ ပေါ်တွင်ရေခဲတထပ် ဖုံးအုပ်လိုက်ပြန်သည်။ ဤနည်းဖြင့် မိုးသီးများဖြစ်လာသော ရေခဲတုံးကလေးများသည် လေပူမှ လေအေး၊ လေအေးမှ လေပူသို့ အကြိမ်ပေါင်း များစွာ တက်ချည် ဆင်းချည်ဖြစ်နေယင်း မိုးသီးများပေါ်တွင် ရေခဲ အထပ်ပေါင်း များစွာ စုရုံးမိလေသည်။ မိုးသီး၏ အရွယ် သည် တဖြည်းဖြည်း ကြီးလာ၍ နောက်ဆုံး လေက ပင့် မထားနိုင် လောက်အောင် လေးလာသောအခါမှ မြေသို့ ကျဆင်းလာလေသည်။

# တောင်သူလယ်သမား အကျိုးပြုပညာရပ်

ယခုခေတ်တိုးတက်နေသော နိုင်ငံများတွင် တောင်သူလယ်သမား၊ လှေသမား၊ သင်္ဘောသား၊ လေယာဉ်ပျံမောင်းသမား၊ အင်ဂျင်နီယာအစရှိသော ပုဂ္ဂိုလ်တို့သည် မိုးလေဝသခန့်မှန်းရေးပညာကို အားထားရသည်။ ထိုနိုင်ငံများရှိ မိုးလေဝသဌာနများသည်လည်း အကြောင်း ကိစ္စအမျိုးမျိုးအတွက် ဆီလျော်ရာ မိုးလေဝသ ခန့်မှန်းချက်အမျိုးမျိုး ထုတ်ပေးရလေသည်။

**မိုးလေဝသပညာ။** ။ရှေးအထက်ကျော်ကာရီကပင် လူတို့သည် မိုးလေဝသ အခြေအနေ ခန့်မှန်းခြင်းကို လေ့လာခဲ့ကြသည်။ တောင်သူလယ်သမားတို့သည် မိမိတို့လုပ်ငန်းသို့ မဆင်းမီ ကောင်းကင်ကိုကြည့်၍ထိုနေ့အတွက်နေသာမသာ မိုးရွာမရွာကို ခန့်မှန်းပြီးမှ ထင်းခုတ်သင့်လျှင်ထင်းခုတ်သွားကြ၊ လယ်ထွန်သင့်လျှင် လယ်ထွန်သွားကြလေ့ရှိသည်။ ထို အတူ တံငါသည် လှေသမားတို့သည်လည်း အလုပ်မသွားမီ ဥတုရာသီအခြေအနေကို မှန်းဆ ကြည့်လေ့ရှိကြသည်။ ယခုခေတ် တိုးတက်နေသောနိုင်ငံများမှ တောင်သူ လယ်သမား၊ လှေသမား၊ သင်္ဘောသား၊ လေယာဉ်ပျံမောင်းသမား၊ အင်ဂျင်နီယာ အစရှိသော ပုဂ္ဂိုလ်တို့သည် မိုးလေဝသခန့်မှန်းရေး ပညာကို အားထား နိုင်ကြသည်။ မိုးလေဝသ ပညာသည် ခဲခက်နက်နဲသော ပညာရပ်တခု ဖြစ်သည်။

ယခုအခါ နိုင်ငံတိုင်းတွင် မိုးလေဝသဌာန တည်ထောင်ထားကြသည်။ မိုးလေဝသဌာနမှ မိုးလေဝသသတင်းများကို နေ့စဉ် ထုတ်ပြန်လျက်ရှိ၏။ ထိုသတင်းများတွင် လွန်ခဲ့သော ၂၄ နာရီအတွင်းက ဖြစ်ပျက်ခဲ့သော အခြေအနေနှင့် ရှေ့ ၂၄ နာရီအတွင်း ဖြစ်ပျက်မည့်ခန့်မှန်းချက်ကို ဖော်ပြလေ့ရှိသည်။ မိုးလေဝသသတင်းများကို သတင်းစာများ၌ ဖတ်ရှုနိုင်၍ ရုပ်ဖန်ရုပ်ခါ အသံလွှင့်ကျေညာချက်များကိုလည်း ကြားနာ နိုင်လေသည်။

## မိုးလေဝသမှတ်တမ်းဟောင်းများ အသုံးဝင်ပုံ

တိုင်းတာရေး စခန်းများမှ တိုင်းတာမှတ်သားထားသော မှတ်တမ်းများကို ဗဟိုရုံးကြီး၌ စုဆောင်း ထိန်းသိမ်းထား၍ နေ့စဉ်၊ သီတင်းစဉ်၊ လစဉ်၊ နှစ်စဉ် မှတ်စုများ ကောက်နုတ်ရေးသားပြုစုကြသည်။ နယ်တနယ်၏ ရာသီဥတု အခြေအနေသည် ထိုနယ်၏ စိုက်ပျိုးရေး၊ ကျန်းမာရေး၊ စီးပွားရေး စသည်တို့အပေါ်တွင် များစွာအကျိုး သက်ရောက်လေသည်။ စက်ရုံအလုပ်ရုံကြီးများ တည်ဆောက်ရာ၌ မိုးလေဝသ မှတ်တမ်းဟောင်းများမှ အရေးပါ အရာရောက်သော အထောက်အထားများ ရနိုင်လေသည်။ ဥဒါဟရုဏ်၊ ရေအားမှ လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရေး စီမံကိန်းအတွက် လွန်ခဲ့သော နှစ်များက မိုးရေချိန် မှတ်တမ်းဟောင်းများသည် အလွန် အသုံးဝင်သည်။ တဖန် ခြည်ထည်၊ စီးကရက်၊ ဆေးလိပ်၊ စက္ကူစသော စက်မှု လုပ်ငန်းများအဖို့ လေ၏ စိုထိုင်းမှုသည် အလွန်အရေးကြီးပေသည်။ ထို့ကြောင့် လုပ်ငန်း တခုခုကို လုပ်ကိုင်ရာ၌ သင့်တင့်လျော်ကပ်သော ဥတုရာသီ ရှိသည့် နေရာကို ရွေးချယ်နိုင်ရန် မှတ်တမ်းဟောင်းများမှ များစွာ အထောက်အပံ့ ယူရပေသည်။ အဆောက်အအုံ အင်ဂျင်နီယာတို့သည် တိုက်အိမ်အဆောက်အအုံ တည်ဆောက်ဖို့သင့်လျော်သော ပစ္စည်းရွေးချယ်နိုင်ရန် သာမန် ရာသီဥတုအခြေအနေနှင့် ရာသီဥတုဖောက်ပြန်တတ်သော အခြေအနေတို့ကို သိရှိရန် လိုပေသည်။ သိပ္ပံပညာနှင့် စက်မှုလက်မှုပညာ သုတေသန လုပ်ငန်းများတွင် သုတေသီပုဂ္ဂိုလ်တို့သည် မကြာခဏပင် မှတ်တမ်းဟောင်းများကို ကိုးကားမှီငြမ်းပြုကြရလေသည်။ တခါတရံ မိုးလေဝသပညာရှင်တို့သည် တရားရုံးများ၌ အမှုအခင်းဖြစ်ပွားသောနေ့က ဖြစ်ပျက်ခဲ့သော မိုးလေဝသ အခြေအနေကို သက်သေခံကြရသည်။ ထို အကြောင်းများကြောင့် စံနစ်တကျ စုဆောင်း ထိန်းသိမ်းထားသော မိုးလေဝသတိုင်းတာချက်မှတ်တမ်းဟောင်းများသည် အလွန် တန်ဖိုးရှိလေသည်။ အခြား အစိုးရဌာနများက ဖြစ်စေ၊ ကုန်သည်ကြီးယ်စသော မည်သည့်ပုဂ္ဂိုလ်ကပင် ဖြစ်စေ မှတ်တမ်းဟောင်းများ အလိုရှိ၍ တောင်းဆိုသောအခါ ပေးနိုင်ရန် မိုးလေဝသရုံး၌ အရေးတယူစုဆောင်းထိန်းသိမ်းထားရလေသည်။

## မိုးလေဝသ ခန့်မှန်းချက်

အကြောင်း ကိစ္စအမျိုးမျိုး အတွက် ဆီလျော်ရာ မိုးလေဝသခန့်မှန်းချက် အမျိုးမျိုး ထုတ်ရလေသည်။လေယာဉ်ပျံမောင်းသမားတို့အတွက် ခန့်မှန်းချက်၌ လေယာဉ်ပျံ ပျံသန်းမည့်လမ်းခရီး၌ မည်သည့်တိမ်မျိုးတွေ့ရမည်၊ မိုးရွာမည်၊ သို့မဟုတ် နေသာမည်၊ အမြင်တာ မည်မျှရှိမည်၊ လေစီးနှုန်းနှင့် လေတိုက်ခတ်မည့် အရပ်စသော အကြောင်းအချက်များကို ခန့်မှန်းပေးရသည်။ စိုက်ပျိုးရေးနှင့် ဆည်မြောင်း တာတမံ ဌာနများအတွက် ခန့်မှန်းချက်၌ကား မိုးကြီးရွာဖွယ်ရာ အကြောင်းရှိလျှင် မိုးရေချိန် မည်မျှရှိသော မိုးကြီးမျိုးရွာမည်ကို ခန့်မှန်းချက် ပေးရလေသည်။ ပင်လယ်ခရီးသွားသင်္ဘောများအတွက် ခန့်မှန်းချက်၌ ပင်လယ်ပြင် မည်သည့် နေရာ၌ ရာသီဥတုအခြေအနေ ဆိုးရွားဖောက်ပြန်နေသည်၊မည်သည့်

နေရာ၌ လေမုန်တိုင်းကျနေသည်။ ပင်လယ်ပြင်တွင် မည်သည့်အရပ်က မည်မျှ ပြင်းထန်သော လေ တိုက်ခတ်မည်။ လှိုင်းတံပိုး မည်မျှ ထကြွမည်စသည်တို့ကို ခန့်မှန်း ပြရလေသည်။ ပင်လယ်ဆိပ်ကမ်းဖက်ဆိုင်ရာ ဌာနအတွက်ကား လေမုန်တိုင်းကျရောက်၍ ဆိပ်ကမ်းကို လေပြင်းဘေးဒဏ် ထိခိုက်ဖွယ်ရာ အကြောင်းရှိလျှင် သက်ဆိုင်ရာ ပုဂ္ဂိုလ်တို့အား သင့်လျော်သော သတိပေးချက်များ ထုတ်ပြန်ပေးရလေသည်။ ပြည်သူလူထုအတွက်ကား တပြည်လုံးအတွက် အထွေထွေ မိုးလေဝသ အခြေအနေ ခန့်မှန်းချက်များ ထုတ်ပြန်ရလေသည်။ ထို့အပြင် စက်မှုလက်မှု လုပ်ငန်းများနှင့် စပ်လျဉ်း၍ ရံဖန်ရံခါအထူးခန့်မှန်းချက်များထုတ်ပြန်ရလေသည်။ အချို့နိုင်ငံများ၌ ရက်ပေါင်း များစွာက ကြိုတင် ခန့်မှန်းချက်များ ထုတ်ပြန်ပေးသော လုပ်ငန်းရှိ၍ အကြောင်း ကိစ္စနှင့် လျော်ညီစွာ သီတင်းတပတ် နှစ်ပတ်၊ သို့မဟုတ် လပေါင်းများစွာ ကြိုတင်၍ ခန့်မှန်း ချက်များ ထုတ်ပြန် နိုင်ကြလေသည်။



လေစီးနှုန်းတိုင်း ကရိယာ

## မိုးလေဝသ တိုင်းတာရေး စခန်းများ

မိုးလေဝသ တိုင်းတာရေးစခန်း အမျိုးမျိုးအစားစား ရှိကြသည်။ အစိုးရ မိုးလေဝသဌာနက ဖွင့်လှစ်ထားသော တိုင်းတာရေးစခန်းများ၌ အစိုးရလခစား၊ ကျွမ်းကျင်သော တိုင်းတာရေးမှူးများ ရှိကြသည်။ ယခုခေတ် ပဌမတန်း တိုင်းတာရေးစခန်းတခု၌ ရေဒါစက်၊ ရာဝင်းစက်၊ ရေဒီယို ဆောင်းခေါ် အထက်လေထု၏ ဖိအား၊ အပူချိန်၊ စိုထိုင်းမှုစသည်တို့ကို တိုင်းမှတ်အသံလွှင့်စက်၊ လျှောင် မှတ်စက်၊ မိုးလေဝသအခြေအနေစုံစမ်းကင်းထောက် ပျံသန်းရန် လေယာဉ်ပျံ အစရှိသော အထူးခေတ်မှီသည့် ကရိယာ တန်ဆာများပါ တပ်ဆင်ထားကြလေသည်။ ထိုစခန်းများ၌ တိုင်းတာချက်များကို နေ့ရောညဥ့်ပါ နာရီတိုင်း အဆက် မပြတ် တိုင်းတာမှတ်သားကြသည်။ တိုးတက်နေသော တိုင်းနိုင်ငံကြီးများ၌ စေတနာ့ဝန်ထမ်း တိုင်းတာရေးမှူးများ ရှိကြသည်။ ထိုပုဂ္ဂိုလ်တို့ကို မိုးလေဝသရုံးက ကရိယာ တန်ဆာပလာများ ထုတ်ပေးထား၍ တဖန် ထိုပုဂ္ဂိုလ်တို့က တိုင်းတာချက်များကို မိုးလေဝသရုံးသို့ အခကြေးငွေ မယူကြဘဲ ပေးပို့ကြသည်။ အောက်ဆုံးတန်း စေတနာ့ဝန်ထမ်း တိုင်းတာရေးစခန်းတခု၌ မိုးရေချိန်ခွက်တခုသာ တပ်ဆင်ထားတတ်၍ တိုင်းတာချက်ကို တနေ့တကြိမ်သာ မှတ်ယူ လေသည်။ အထက်ဖော်ပြပါ တိုင်းတာရေးစခန်း နှစ်မျိုးကြားတွင် တိုင်းတာရေး စခန်းအမျိုးမျိုး ရှိသေးသည်။ တပ်ဆင်ထားရှိသော ကရိယာအမျိုးအစားနှင့် တနေ့လျှင် တိုင်းတာမှတ်သားရသည့် အကြိမ်ပေါင်းကို လိုက်၍ တိုင်းတာရေးစခန်း၏ အဆင့်အတန်းကို သတ်မှတ်လေသည်။




မည်သည့်အရပ်မှလေတိုက်ခတ်သည်ကို ဤကရိယာဖြင့်ခန့်မှန်းရသည်။

## မိုးလေဝသခန့်မှန်းပုံ

မိုးလေဝသခန့်မှန်းရေး လုပ်ငန်းအတွက် ကျယ်ဝန်းသော နယ်အတွင်းရှိ တိုင်းတာရေးစခန်းများမှ တိုင်းတာချက်များ

ရရှိရန် လိုပေသည်။ မိုးလေဝသခန့်မှန်းရေးမှူးတို့သည် အထောက်အထား ပြုရန် တိုင်းတာချက် ရနိုင်သမျှ လိုချင်ပေသည်။ မြေပြင်စခန်းများမှ တိုင်းတာချက်များ အပြင် ပင်လယ်ခရီးသွား သင်္ဘောများမှ တိုင်းတာချက်များလည်း လိုပေသေးသည်။ တိုင်းတာချက်များကို တနေရာမှတနေရာသို့ ပေးပို့ရန် ဆက်သွယ်ရေးလမ်းကြောင်းများလည်း ရှိရသည်။ စခန်းများ၌ တိုင်းတာချက်များ မှတ်ယူပြီးလျှင် ပြီးချင်း ဗဟိုမိုးလေဝသရုံးသို့ ကြေးနန်းဖြင့် ဖြစ်စေ၊ စကားပြောကြေးနန်းဖြင့် ဖြစ်စေ၊ ကြိုးမဲ့ကြေးနန်းဖြင့် ဖြစ်စေ၊ အဝေးပို့စာရိုက်စက်ဖြင့်ဖြစ်စေ အမြန်ပေးပို့ကြရသည်။ ဗဟိုမိုးလေဝသရုံးသို့ ရောက်သောအခါ တိုင်းတာချက်များကို မိုးလေဝသမြေပုံပေါ်၌ သင်္ကေတအမှတ် လက္ခဏာများဖြင့် ရေးဆွဲကြရသည်။ မြေပုံများရေးဆွဲပြီးသောအခါ ခန့်မှန်းရေးမှူးတို့သည် အခြေအနေကို စိစစ်ဝေဖန်ပြီးမှ ခန့်မှန်းချက် အမျိုးမျိုး ထုတ်ပြန်နိုင်သည်။

စာမျက်နှာ ၁၆၅ ရှိ မြေပုံသည် ၁၉၅၁ ခုနှစ် ဇူလိုင်လ ၁၈ ရက်နေ့နံနက် မြန်မာစံတော်ချိန် ၉ နာရီခွဲအချိန်၌ ဖြစ်ပေါ်နေသော မိုးလေဝသအခြေအနေပြ မြေပုံဖြစ်သည်။ ထိုမြေပုံကို စိစစ်ဝေဖန်ပြီးလျှင် ရန်ကုန်မြို့ မိုးလေဝသရုံးမှ ထိုနေ့နံနက်က အောက်ပါ မိုးလေဝသခန့်မှန်းချက်များကို ထုတ်ပြန်ခဲ့လေသည်။

## "မိုးလေဝသ သတင်း"

### (၁၉၅၁ ခု၊ ဇူလိုင်လ ၁၈ ရက်နေ့)

### လွန်ခဲ့သော ၂၄ နာရီအတွင်းက ဖြစ်ပျက်ခဲ့သော အခြေအနေ အကျဉ်းချုပ်

ရခိုင်တိုင်း၊ တနင်္သာရီတိုင်းနှင့် မြစ်ဝကျွန်းပေါ် ဒေသတွင် မုတ်သုန်လေ အားကောင်းခဲ့၍ နေရာ အနှံ့အပြား မိုးရွာခဲ့ပါသည်။ ကျန်နယ်များတွင် မိုးနည်းနည်းသာ ရွာခဲ့ပါသည်။

#### ဗင်္ဂလားပင်လယ်အော် အခြေအနေ

ဗင်္ဂလား ပင်လယ်အော်တွင် မုတ်သုန်လေ အားကောင်းလျက်ရှိသည်။

#### ၁၉၅၁ ခု၊ ဇူလိုင်လ ၁၉ ရက်နေ့ ညနေအထိ ခန့်မှန်းချက်

မြန်မာပြည် ကမ်းရိုးတန်း နယ်များတွင် နေရာအနှံ့ အပြား မိုးဆက်လက် ရွာလိမ့်မည်။ ရခိုင်တိုင်း မြောက်ပိုင်းနှင့် တနင်္သာရီတိုင်း တောင်ပိုင်း အချို့နေရာတွင် မိုးကြီး နိုင်ပါသည်။ ကျန်နယ်များတွင် နေရာကျဲကျဲ မိုးထစ်ချုန်း ရွာဖွယ် ရှိပါသည်။

မြန်မာပြည်ကမ်းရိုးတလျှောက်နှင့် ပင်လယ်ပြင်တွင် လှိုင်းအသင့်အတင့် ကြီးမည်။

### နောက်နှစ်ရက် အဖို့

ကမ်းရိုးတန်း နယ်များတွင် မိုးအားပိုလာဖွယ် ရှိသည်။

#### ရန်ကုန်မြို့နှင့်အနီးတဝိုက် မိုးလေဝသအခြေအနေ

#### (၁၉၅၁ ခု၊ ဇူလိုင်လ ၁၈ ရက်)

ယနေ့နံနက် ၉ နာရီခွဲအထိ လွန်ခဲ့သော ၂၄ နာရီအတွင်းက အမြင့်ဆုံးအပူချိန် ၈၃ ဒီဂရီနှင့် အနိမ့်ဆုံး အပူချိန် ၇၅ ဒီဂရီ ဖြစ်သည်။ မိုးရေချိန် ၀.၅ လက်မရွာခဲ့သည်။

ယနေ့နံနက် ၉ နာရီခွဲအချိန်၌ လေထု၏ စိုထိုင်းမှု ရာခိုင်နှုန်းမှာ ၉၀ ဖြစ်သည်။

#### ၁၉၅၁ ခု၊ ဇူလိုင် ၁၉ ရက်နေ့ ညနေအထိ ခန့်မှန်းချက်

အများအားဖြင့် မိုးအုံ့နေ၍ ရံဖန်ရံခါ မိုးထစ်ချုန်း ရွာလိမ့်မည်။

## ဗရိုမီတာခေါ် လေဖိတိုင်း

၁၇ ရာစု အလယ်လောက်က ဂျာမနီနိုင်ငံ မက်ဒါဗတ်မြို့၏ မြို့တော်ဝန် အော့တို ဖွန် ဂေးရိကဲဆိုသူ ဂျာမန်သိပ္ပံပညာရှင်တဦး ရှိလေသည်။ ထိုသူသည် အမြဲ အကြံသစ်ဥာဏ်သစ်များဖြင့် ထူးဆန်းအံ့သြဖွယ်ကောင်းလောက်သော အလုပ်သစ်များကို တီထွင် စမ်းသပ်လုပ်ကိုင်လေ့ရှိသည်။ အခါတပါး၌ ထိုသူ၏ အိမ်နံရံပေါ်တွင် ပြွန်တချောင်း ထူးထူးဆန်းဆန်း ထောင်ထားရာ တွေ့မြင်ရသော အိမ်နီးချင်းများက အလွန်အံ့သြသွားကြလေသည်။

ထိုပြွန်သည် ၃၄ ပေကျော်သော ကြေးပြွန်တချောင်းဖြစ်သည်။ ထိပ်ဝ ပိတ်ထားသော ဖန်ချောင်းကို ကြေးပြွန် အပေါ်ပိုင်းနှင့် ဆက်ထားသည်။ အောက်ပိုင်းအဝကို ရေစလုံတခုထဲ စိုက်ထားရာ ပြွန်ချောင်း အတွင်း၏ ရေမျက်နှာပြင်သည် အမြင့်ပေ ၃၀ ခန့်တွင် ရပ်တည်လျက်ရှိသည်ကို ဖန်ပိုင်း၌ မြင်နိုင်လေသည်။ ပြွန်တွင်းရှိ ရေပေါ်တွင် သစ်သား လူပုရုပ်ကလေးတခု တပ်ထားသည်။ ထိုအရုပ်ကလေးသည် ရာသီဥတုသာယာသောအခါ အပေါ်သို့မြင့်တက်လာ၍ ရာသီဥတု ဆိုးရွားသောအခါ အောက်သို့နိမ့်ကျသွားသည်။ ထိုအခြင်းအရာကို မြင်ကြရသော လူတို့သည် ထိုအရုပ် ကလေးကို "ဖွန် ဂေးရိကဲ၏ ရာသီဥတုပြ လူကလေး" ဟု ခေါ်စမှတ်ပြုကြသည်။ အိမ်နီးချင်းတို့က ထိုအခြင်းအရာကို မျက်လှည့်တမျိုးဟု အထင်ရှိကြသည်။ စင်စစ်မှာကား ထိုပြွန်သည် လေဖိတိုင်းပင် ဖြစ်သည်။

စိတ်ဝင်စားဖွယ်ကောင်းသော အထက် ဖော်ပြပါ စမ်းသပ်ချက်ကို ဖွန်ဂေးရိကဲ မပြုလုပ်မီ နှစ်အနည်းငယ် စော၍ ထင်ရှားသော သိပ္ပံကျော် ဂယ်လီလေအို၏တပည့် ဣတာလျံကျောင်းသား တော်ရီချဲလီဆိုသူသည် ယခုအခါ မိုးလေဝသ တိုင်းတာရာတွင် အများအပြား အသုံးပြုလျက် ရှိသော

Met. W. 18

GOVERNMENT OF THE UNION OF BURMA.

METEOROLOGICAL DEPARTMENT.



ပြဒါးဖြင့် ပြုလုပ်သည့် လေဖိတိုင်းကို စတင် တီထွင်ပြုလုပ်ခဲ့လေသည်။ လေဖိတိုင်းသည် လေထု၏ဖိအားကို တိုင်းတာသော ကရိယာဖြစ်သည်။ လေဖိတိုင်းများတွင် ရေကိုအသုံးမပြုဘဲ ပြဒါးကို အသုံးပြုလေ့ ရှိသည်။ ပြဒါးသည် ရေထက်ပိုလေးသည်။ ထိုကြောင့် လေဖိတိုင်းပြုလုပ်ရန် ပေ ၃၀ ရှည်သော ပြွန်မလိုတော့ဘဲ ၃၆ လက်မ သို့မဟုတ် ၃ ပေသာရှည်သော ပြွန်နှင့်ပင် လုံလောက်ပေသည်။

ရိုးရိုး လေဖိတိုင်းတခု ပြုလုပ်ရန် ၃၆ လက်မရှည်သော တဖက်ပိတ်ပြွန်တချောင်းကိုယူ၍ ပြဒါးထည့်ပါ။ ပြဒါးထည့်ပြီးသောအခါ တဖက်က ပြွန်ပေါက်ကို လက်ဖြင့် ပိတ်ထားပြီးလျှင် ပြောင်းပြန်ထောင်ကိုင်ထားပါ။ ထို့နောက် လက်ဖြင့် ပိတ်ထားသော ပြွန်အစွန်းကို စလုံတွင်းရှိ ပြဒါးတွင် မြှုပ်၍ စိုက်ထူထားပါ။ ထို့နောက် အပေါက်ကို ပိတ်ထားသော လက်ချောင်းကို ဖယ်ရှားလိုက်သောအခါ ပြွန်ထဲမှ ပြဒါးအနည်းငယ် ထွက်လာသည်ကို တွေ့ရမည်။ စလုံထဲရှိ ပြဒါးပြင်ကို ဖိထားသော လေထု ဖိအားသည် ပြွန်တွင်းရှိ ပြဒါးတိုင်ကို အောက်မကျစေဘဲ ရပ်တည်နေအောင် တွန်းကန်ထားလေသည်။

ပြွန်အတွင်း ပြဒါးတိုင်အပေါ်ရှိ နေရာလွတ်သည် "ပလာနယ်" ဖြစ်သည်။ ထိုနေရာ၌ လေမရှိ။ ထိုကြောင့် ပြွန်တွင်း ပြဒါးပေါ်၌ ဖိအားမရှိချေ။ ပြွန်အတွင်း၌ ပြဒါးသည် လက်မ ၃၀ ခန့်မြင့်သည်။ ပြွန်ထိပ်ဝသည် စတုရန်း တလက်မရှိလျှင်၊ ထိုပြဒါး၏ထုထည်သည် ကုဗလက်မ ၃၀ ရှိပေမည်။ ထိုကြောင့် စတုရန်း တလက်မ ရေိယာရှိသော နေရာပေါ်၌ လေဖိအားသည် ၁၄.၇ ပေါင်ခန့် ရှိလေသည်။ လေထုဖိအားပြောင်းလဲသည့်အလျောက် ပြဒါးတိုင်သည်လည်း နိမ့်လိုက် မြင့်လိုက်ဖြစ်လာမည် ဖြစ်သောကြောင့် ပြွန်ပေါ်၌ မှတ်သားထားသော စကေးအမှတ်များအားဖြင့် လေထုဖိအားကို ချိန်မှတ်ယူနိုင်လေသည်။

လေထုဖိအားသည် တစိတ်တဒေသအားဖြင့် မိုးလေဝသအခြေအနေပေါ်တွင် တည်ပေသည်။ ထိုကြောင့် လေဖိတိုင်းသည် မိုးလေဝသခန့်မှန်းရေးတွင် များစွာ အရေးပါ အရာရောက်ပေသည်။ တဖန် ပြွန်တွင်းရှိ ပြဒါးတိုင် အမြင့်သည် နေရာဒေသ၏ အမြင့်ကိုလိုက်၍ ပြောင်းလဲပြန်သည်။ လေဖိတိုင်းကို မြင့်ရာအရပ်ဒေသသို့ ယူသွားလျှင် ပြဒါးတိုင် နိမ့်ကျလာသည်ကို တွေ့မြင်ရမည်။ အဘယ်ကြောင့် ဆိုသော် အထက်သို့ မြင့်လေ လေထုဖိအားနည်းလာလေ ဖြစ်သောကြောင့်တည်း။ ပင်လယ်ရေပြင်ညီ ဒေသရှိ လေဖိအားနှင့် အခြား ဒေသရှိ လေဖိအားတို့ကို သိရှိလျှင် ထိုဒေသသည် ပင်လယ်ရေပြင်ထက် မည်မျှ မြင့်သည်ကို လွယ်ကူစွာ တွက်ယူနိုင်လေသည်။

အင်ဂျင်နီယာများနှင့် ခရီးသည်များသည် အများအားဖြင့် လွယ်လင့်တကူ ဆောင်ယူသွားနိုင်သည့် အန္နာရွိုက်ဗရိုမီတာခေါ် ပြဒါးမပါသော လေဖိတိုင်းကို အသုံးပြုကြသည်။ လေယာဉ်ပျံများ၊မီးပုံးပျံများဖြင့် အမြင့်တိုင်းရာ၌လည်း ဤလေဖိတိုင်းကိုပင် သုံးစွဲကြသည်။ ဤလေဖိတိုင်းတွင် လေလုံသေတ္တာတခု ပါရှိသည်။ ထိုသေတ္တာအပေါ်ဖုံးကို ပျော့ပျောင်းကွေးညွတ်လွယ်သော သတ္တုပြားဖြင့် လုပ်ထား၍ သတ္တုလက်တံတခု တပ်ဆင်ထားသည်။ လေထု ဖိအား ပြောင်းလဲပုံကို ဤလက်တံက ညွှန်ပြလေသည်။



ရိုးရိုးလေထုဖိအားချိန်တံ

ဖာရင်ဟိုက်

စင်တီဂရိတ်စကေး

ရိုမားစကေး

### စိုထိုင်းမှု တိုင်းတံ

မိုးလေဝသ အခြေအနေခန့်မှန်းရာ၌ အရေးတယူစဉ်းစားရမည့် အချက်တခုသည် လေထုတွင်ပါဝင်သော ရေခိုးရေငွေ့အတိုင်းအဆပင် ဖြစ်သည်။ ထိုအချက်ကို လေထု၏ စိုထိုင်းမှုဟုခေါ်သည်။ လေထု၏စိုထိုင်းမှုကို ရာခိုင်နှုန်း မည်မျှရှိသည်ဟု ဖော်ပြရေးသားလေ့ ရှိသည်။ လေထုစိုထိုင်းမှုကို စိုထိုင်းမှု တိုင်းတံဖြင့် တိုင်းရလေသည်။ အလွယ်ကူဆုံး စိုထိုင်းမှု တိုင်းတံတခုမှာ "ရာသီအိမ်" ဟု ခေါ်သော ကစားစရာ အိမ်ပုံအရုပ်ကလေး ဖြစ်သည်။ မိုးရွာတော့မည် ဆိုလျှင် ထို "ရာသီအိမ်" တံခါးဝတွင် ယောကျ်ားရုပ်ကလေး ပေါ်လာ၍၊ နေသာမည်ဆိုလျှင် တံခါးဝတွင် မိန်းမရုပ် ကလေး ပေါ်လာသည်။ ထို "ရာသီအိမ်" ခေါ် စိုထိုင်းမှု တိုင်းတံကို ကြောင်အူကျစ်ကြိုးများဖြင့် စီမံပြုလုပ်ထားသည်။ မိုးရာသီတွင် လေထုပို၍ စိုထိုင်းလာသောအခါ ကြောင်အူကျစ်ကြိုးသည် တိုသွားသည်။ ခြောက်သွေ့ပူပြင်းသော ရာသီတွင် လေထုစိုထိုင်းမှု နည်းသောအခါ ကြောင်အူကျစ်ကြိုးသည် ရှည်လာလေသည်။ လေထုစိုထိုင်းမှု အခြေအနေကိုလိုက်၍ ကြောင်အူကျစ်ကြိုး ရှည်လိုက် တိုလိုက် ဖြစ်သောကြောင့် ကြိုးအရှည်ကိုလိုက်၍ ယောကျ်ားအရုပ် မိန်းမအရုပ်ကလေးများသည် ရှေ့တိုး နောက်ဆုတ် ပေါ်လိုက် ပျောက်လိုက်ဖြစ်ကြသည်။ လူတို့၏ ဆံခြည်မျှင်သည်လည်း စွတ်စို ထိုင်းမှိုင်းသောအချိန်၌ တိုသွားတတ်သည်။ လေထုစိုထိုင်းမှု အခြေအနေကိုလိုက်၍ လူတို့၏ ဆံခြည်မျှင်သည် တိုတတ်ရှည်တတ်သော သတ္တိရှိသောကြောင့် လူ၏ဆံခြည်မျှင်ဖြင့် စိုထိုင်းမှုတိုင်းစက် ပြုလုပ်ကြသည်။

လေထုစိုထိုင်းမှု တိုင်းရန် အများအားဖြင့် ဖန်သီးစိုသာမိုမီတာနှင့် ဖန်သီးခြောက်သာမိုမီတာခေါ် အပူချိန်တံ နှစ်ခုကို အသုံးပြုကြသည်။ လက်ဖြင့် လွှဲရမ်းကိုင်နိုင်သော လေဝှေ့ ရေငွေ့တိုင်းတံမျိုး၌ အပူချိန်တံနှစ်ခုကို ယှဉ်၍ သစ်သားဘောင် တခုတွင် မြဲမြံတွယ်ကပ်ထားသည်။ အပူချိန်တံတခု၏ ဖန်သီးကို အဝတ်စိုဖြင့် ဖုံးအုပ်ထားသည်။ လေထု၏စိုထိုင်းမှုကိုတိုင်းရန် လက်ကိုင်ဖြင့်အပူချိန်တံများကို လေထဲ၌ လွှဲရမ်းပေးရသည်၊ သို့မဟုတ် အပူချိန်တံများကို ယပ်ခပ်ပေးရသည်။ ဖန်သီးစိုကို ဖုံးထားသောအဝတ်စိုမှ ရေငွေ့ပျံသောကြောင့် အစိုတံမှ အပူချိန်ကျလာသည်ကို တွေ့ရလိမ့်မည်။ ခြောက်သွေ့ပူနွေးသော အချိန်၌ အပူချိန် အကျများ၍ စွတ်စိုထိုင်းမှိုင်းသောအချိန်၌ အပူချိန်အကျနည်းလေသည်။ အခြောက်တံ၏ အပူချိန်သည် လေထု၏အပူချိန်ပင်ဖြစ်သည်။ အခြောက်တံနှင့် အစိုတံ၏ အပူချိန် နှစ်ခုကို သိရှိရသောအခါ စိုထိုင်းမှုကိန်းဇယားများမှ လေထု၏ စိုထိုင်းမှုကို ရှာဖွေတွက်ယူနိုင်လေသည်။

ထို့ပြင် အရည်ခဲမှတ် အပူချိန်ကိုရှာ၍ တွက်ယူရသော စို



လေထုဖိအားကို သိနိုင်ရန် ပူဖောင်းများကို အထက်သို့ လွှတ်ကာ ခန့်မှန်းရသည်။

ထိုင်းမှုတိုင်းတံတမျိုးရှိလေသည်။ ဤတိုင်းတံသည် အထက်ကဖော်ပြခဲ့သော ဖန်သီးစို သာမိုမီတာနှင့် ဖန်သီးခြောက် သာမိုမီတာနှစ်ခုရှိသော စိုထိုင်းမှုတိုင်းတံမျိုးပင် ဖြစ်၍ အစိုတံတွင် ရေကိုမသုံးဘဲ အီသာခေါ် အရက်ပျံတမျိုးကို အသုံးပြုသည်။ အီသာအရည်ကို အစိုတံဖန်သီးပေါ်သို့ ချပေးလျှင် အလွန်လျင်မြန်စွာအငွေ့ပျံသောကြောင့် အစိုတံ အပူချိန်ချက်ခြင်းကျသွားလိမ့်မည်။ အပူချိန်ကျလာရာ နောက်ဆုံးအခြေအနေ၌ လေထဲပါသော ရေခိုးရေငွေ့များ ဖန်သီးပေါ်တွင် အရည်ခဲအဖြစ် စုခဲလာမည်။ ဤအခြေအနေ၌ မှတ်သားရရှိသော အစိုတံ အပူချိန်သည် အရည်ခဲမှတ်ဖြစ်သည်။ အခြောက်တံမှ လေ၏ သာမန်အပူချိန်ကို မှတ်သားရရှိနိုင်သည်။ ယင်းသို့ အရည်ခဲမှတ်နှင့် လေ၏ သာမန်အပူချိန်တို့ကို သိရှိရသောအခါ ယခင်ကကဲ့သို့ပင် လေထု၏ စိုထိုင်းမှုကို ရှာဖွေတွက်ယူ နိုင်လေသည်။

ရေခိုးရေငွေ့ကို စုတ်ယူတတ်သည့် သတ္တိ ရှိသော ဓာတ်ပစ္စည်းကို အသုံးပြု၍လည်း လေ၏ စိုထိုင်းမှုကို တိုင်းနိုင်လေသည်။ ဥဒါဟရဏ်-ထုထည် အရွယ်ပမာဏသိရှိသော လေထုထဲသို့ အလေးချိန် သိပြီးဖြစ်သော ကယ်လဆီယမ် ကလိုရိုက် (ထုံးကျောက်)၊ သို့မဟုတ် ဆာလဖျူရစ်အက်ဆစ် (ကန့်ရေမီး) ကို ထည့်ပါ။ ထုံးကျောက်၊ သို့မဟုတ် ကန့်ရေမီး

သည် လေထဲပါသော ရေခိုးရေငွေ့ကို စုတ်ယူလိမ့်မည်။ လုပ်ငန်းပြီးစီး၍ ပြန်ချိန်တွယ်ကြည့်သောအခါ ထုံးကျောက်၊ သို့မဟုတ် ကန့်ရေမီးအလေးချိန် တိုးလာသည်ကို တွေ့ရလိမ့်မည်။ တိုးလာသော အလေးချိန်သည် စုတ်ယူထားသော ရေခိုးရေငွေ့၏ အလေးချိန်ပင် ဖြစ်သည်။

ခေတ်မှီစာသင်ကျောင်းများနှင့် ရုံးများတွင် စိုထိုင်းမှု တိုင်းတံကို ထားရှိသုံးစွဲကြသည်။ စက္ကူစက်၊ စီးကရက်ဆေးလိပ်စက်၊ အထည်စက် အစရှိသော စက်မှုလုပ်ငန်းများ၌ လေ၏ စိုထိုင်းမှုကိုသိရန် အလွန် အရေးကြီးသောကြောင့် စိုထိုင်းမှု တိုင်းတံများ ထားရှိသုံးစွဲကြလေသည်။ စက်ရုံ အတွင်းရှိ လေ၏ စိုထိုင်းမှုအခြေအနေကို သိသောအခါ လုပ်ငန်းနှင့်သင့်လျော်မည့် အခြေအနေမျိုးဖြစ်အောင် ပြုပြင်ဖန်တီးယူ၍ အကောင်းဆုံးအခြေအနေတွင် လုပ်ငန်းကိုကောင်းမွန်တွင်ကျယ်စွာ လုပ်ကိုင်ဆောင်ရွက်သွား နိုင်ပေသည်။

အပူချိန်တံ

အပူချိန်ကို တိုင်းသော ပဌမဆုံးအပူချိန်တံကို ၁၆ ရာစု မကုန်ခင် ထင်ရှားကျော်စောသော ဣတာလျံနက္ခတ်ပညာရှင် ဂယ်လီလေအိုက စတင်ပြုလုပ်ခဲ့သည်။ ထိုအပူချိန်တံသည် ယခု သုံးစွဲနေကြသောအပူချိန်တံများနှင့် မတူချေ။ ယင်းသည် လေဖြင့်ပြုလုပ်စီမံထား၍ အပူချိန်ကို လွယ်လွယ်နှင့် အကြမ်းသာ တိုင်းချိန်နိုင်လေသည်။ နောက်နှစ် အနည်းငယ်ကြာသောအခါ ဂယ်လီလေအိုသည် လေအစား အရက်ပျံဖြင့် တိုးတက်ကောင်းမွန်သော အပူချိန်တံကို ပြုလုပ်ပြန်လေသည်။

ယခုခေတ် အပူချိန်တံများနှင့် ရှေးကအပူချိန်တံများ ပြုလုပ်ပုံ အခြေခံမူမှာ အတူတူပင်ဖြစ်သည်။ ထိုအခြေခံမူကား အရည်၊ သို့မဟုတ် အငွေ့သည် အပူတိုက်ပေးသောအခါ ဖန်ထက်ပို၍ ပြန့်ကားသွားသည်။ တဖန် အအေးခံသောအခါ ဖန်ထက် ပို၍ ကျုံ့သည်ဟူသော သဘောတရားပင် ဖြစ်သည်။ သေးငယ်သောဖန်ချောင်းတွင် အရက်ပျံကိုထည့်ပါ။ ပြီးလျှင် ဖန်သီးကို အပူတိုက် ပေးသောအခါ ဖန်ချောင်းအတွင်းရှိ အရက်ပျံ မြင့်တက်လာသည်ကို တွေ့ရလိမ့်မည်။ အပူကြောင့် အရက်ပျံ မြင့်တက်သည့် အတိုင်းအဆဖြင့် အပူချိန်ကို တိုင်းချိန်လေသည်။

အပူချိန်တံများတွင် အများအားဖြင့် ပြဒါးကို သုံးစွဲကြသည်။ အဘယ်ကြောင့်ဆိုသော် ပြဒါးသည် မြင့်သောရေဆူမှတ်နှင့် နိမ့်သောရေခဲမှတ်ရှိပြီးလျှင် အပူတိုက်ပေးသော အ



မိုးရေချိန်ကို ယူနေစဉ်



မိုးလေဝသ အခြေအနေပြ မြေပုံကို အစဉ်ဂရုစိုက်ကာ လေ့လာရသည်။

ခါ၌ ညီညာစွာ ပြန့်ကားခြင်းကြောင့်ပင် ဖြစ်သည်။ ပြဒါးသည် အပူချိန် ဖာရင်ဟိုက် ၆၇၅ ဒီဂရီ၌ ဆူ၍ အပူချိန် ဖာရင်ဟိုက် ၃၈ ဒီဂရီ၌ ခဲသည်။ ၃၈ ဒီဂရီ ဖာရင်ဟိုက်ထက် နည်းသောအပူချိန်ကို တိုင်းရန် အရက်ပျံနှင့်လုပ်သော အပူချိန်တံကို အသုံးပြုရသည်။ အဘယ်ကြောင့် ဆိုသော် လောက၌ မည်မျှပင်အေးသော ရာသီဥတုအခြေအနေပင် ဖြစ်စေကာမူ အရက်ပျံသည်မခဲချေ။ အရက်ပျံ၏ခဲမှတ်သည် လောကတွင် တွေ့ကြုံခံစားနိုင်သော အအေးဆုံး အပူချိန်ထက် နည်းလေသည်။ အလွန်ပြင်းသော အပူချိန်ကို တိုင်းချိန်ရန် ဓာတ်ငွေ့ သို့မဟုတ် လျှပ်စစ်အားဖြင့် ပြုလုပ်သော အပူချိန်တံဟူမျိုးကို သုံးစွဲလေ့ရှိကြသည်။

ရိုးရိုးအပူချိန်တံများကို သေးငယ်သော ပြွန်ရှိသည့် ဖန်ချောင်းတွင် ပြဒါး၊ သို့မဟုတ် အရက်ပျံထည့်၍ ပြုလုပ်ထားသည်။ ပြဒါးထည့်ထားသော ဖန်သီးနှင့် ဖန်ပြွန်ချောင်းကို အပူတိုက်ပေးပါ။ ထိုအခါ ပြဒါးသည် ဖန်ပြွန်ချောင်းမှ လျှံ၍ထွက်ကျလာလိမ့်မည်။ ထိုနောက်ဖန်ချောင်း ထိပ်ဝကို မီးမြှိုက်၍ အသေပိတ်ပါ။ ကြာ၍ အေးသွားသောအခါ ပြဒါးသည် ကျုံ့ကျဉ်း၍ ဖန်ချောင်းထဲတွင် နိမ့်ဆင်းသွားပြီးနောက် ဖန်ချောင်းအထက်ပိုင်း၌ လေဟာနယ် ဖြစ်နေလိမ့်မည်။ အပူတိုက်ခြင်း၊ အအေးခံခြင်း လုပ်ငန်းများ ပြီးစီးသွားသောအခါ အပူချိန်တံသည် နဂိုအခြေအနေတွင် ရှိနေမည်။ ထိုနောက် အပူချိန်ပြောင်းလဲပုံ တိုင်းချိန်ရန် ဖန်ချောင်းပေါ်၌ အမှတ်များရေးမှတ်ရလေသည်။

### အပူချိန်တံ၏ အမြင့်ဆုံးနှင့် အနိမ့်ဆုံးအမှတ်များ

လွယ်ကူစွာရှာနိုင်သော အပူချိန် အမှတ်နှစ်ခုမှာ ရေခဲသော အပူချိန်အမှတ်နှင့် ရေဆူသော အပူချိန် အမှတ်ပင် ဖြစ်သည်။ အပူချိန်တံတွင် ရေခဲမှတ်ကို မှတ်သားရန် အရည်ပျော်နေသော ရေခဲတွင် အပူချိန်တံကို ထည့်သွင်းထား၍ ဖန်ပြွန်ချောင်းအတွင်း ရပ်တည်နေသော ပြဒါးထိပ်စွန်းနေရာကို မှတ်သားရသည်။ တဖန် ရေဆူမှတ်ကို မှတ်သားရန် ဆူပွက်နေသော ရေမှ ပျံတက်လာသော ရေငွေ့အတွင်း၌ အပူချိန်တံကို တွဲလွဲဆွဲထား၍ ဖန်ချောင်းအတွင်း ရပ်တည်နေသော ပြဒါးထိပ်စွန်းနေရာကို မှတ်သားရသည်။ ရေခဲမှတ်နှင့် ရေဆူမှတ်များကို မှတ်သားပြီးသောအခါ ထိုအမှတ်နှစ်ခုကြားရှိ နေရာကို ညီမျှသော အစိတ်အပိုင်းများ စိတ်ပိုင်းမှတ်သားပြန်လေသည်။ ထိုအစိတ်အပိုင်းတခုကို "ဒီဂရီ" ဟုခေါ်ဆိုလေသည်။



လွန်စွာ သိမ်မွေ့တိကျလှသော မိုးလေဝသခန့်မှန်းသည့် ကရိယာကို မည်သို့အသုံးချပုံ ရှင်းလင်းပြနေစဉ်

သိပ္ပံပညာရပ်များတွင် သုံးစွဲလေ့ရှိသော ရာစိတ်မူ "စင်တီဂရိတ်" အပူချိန်စကေး၌ ရေခဲမှတ်ကို သုညဒီဂရီနှင့် ရေဆူမှတ်ကို ၁၀၀ ဒီဂရီ မှတ်သားထားသည်။ အင်္ဂလိပ်စကား ပြောဆိုကြသော နိုင်ငံများ၌ သာမန်အားဖြင့် သုံးလေ့ရှိသော "ဖာရင်ဟိုက်" အပူချိန်စကေး၌ ရေခဲမှတ်ကို ၃၂ ဒီဂရီနှင့် ရေဆူမှတ်ကို ၂၁၂ ဒီဂရီ မှတ်သားထားသည်။ "ဖာရင်ဟိုက်" အပူချိန်စကေးကို ၁၈ ရာစုနှစ်အစလောက်က ဂျာမန် သိပ္ပံပညာကျော် ဂေးဗရီးယယ်ဒန်းနယဲ ဖာရင်ဟိုက် ဆိုသူက စတင်တီထွင်ခဲ့သည်။ ထိုပုဂ္ဂိုလ်သည် ဆား၊ ရေနှင့် ရေခဲခါတ်ပစ္စည်းသုံးမျိုးပါသော ခါတ်ရောသည် ရေခဲမှတ် အပူချိန် ဖာရင်ဟိုက် ၃၂ ဒီဂရီထက် အေးသော အပူချိန်ရှိကြောင်းတွေ့လေသည်။ ထိုခါတ်ရော၏ အပူချိန် အမှတ်ကို သုညဒီဂရီအမှတ်ဟု ဒန်းနယဲ ဖာရင်ဟိုက်က မှတ်သားထားပြန်လေသည်။ ဂျာမနီ နိုင်ငံတွင်း သုံးစွဲလေ့ရှိသော "ရိုမာ" အပူချိန်စကေး၌ ရေခဲမှတ်ကိုသုညဒီဂရီနှင့် ရေဆူမှတ်ကို ၈၀ ဒီဂရီ မှတ်သားထားသည်။

အများအားဖြင့် အပူချိန်တံများတွင် စကေးတမျိုးတည်းသာ မှတ်သားထားလေ့ ရှိသည်။ ထိုကြောင့်"ဖာရင်ဟိုက်" စကေးအပူချိန်နှင့် "စင်တီဂရိတ်" စကေးအပူချိန်ကို နှိုင်းရှည့်တတ်ဖို့ လိုပေသည်။

စင်တီဂရိတ် စကေးအပူချိန်ကို ဖာရင်ဟိုက်စကေးအပူချိန်သို့ ပြောင်းလဲမှတ်ယူနိုင်ရန် ဦးစွာ အပူချိန်ဂဏန်းကို $\frac{၉}{၅}$ နှင့် မြှောက်၍ ၃၂ ပေါင်းထည့်ပါ။ ဥဒါဟရဏ်၊ ၂၀ ဒီဂရီစင်တီဂရိတ်သည် ဖာရင်ဟိုက် ဒီဂရီမည်မျှနှင့် တူညီသည်ကို ရှာလိုလျှင်

$$၂၀ \times \frac{၉}{၅} + ၃၂ = ၆၈$$

၂၀ ဒီဂရီ စင်တီဂရိတ်သည် ၆၈ ဒီဂရီ ဖာရင်ဟိုက်နှင့် ညီမျှလေသည်။

တဖန် ၆၈ ဒီဂရီဖာရင်ဟိုက်နှင့် ညီမျှသော စင်တီဂရိတ် ဒီဂရီကို ရှာလိုလျှင် ပဌမ ၃၂ နုတ်၍ ကျန်ကိန်းကို $\frac{၅}{၉}$ နှင့် မြှောက်ပါ။ ၂၀ ရပါလိမ့်မည်။ ဥဒါဟရဏ်၊

$$(၆၈-၃၂) \times \frac{၅}{၉} = ၂၀$$

ယခုခေတ်၌ အပူချိန်တံများသည် အလွန်အသုံးဝင်လေသည်။ ဆရာဝန်များ သုံးစွဲရန် သီးခြား အထူးအပူချိန်တံများလည်း ရှိသည်။ ဖျားနာသောအခါ ဖျားသွေး ရှိမရှိ သိရှိရန် လျှာအောက်တွင် အပူချိန်တံကို ထား၍ ကိုယ်ပူချိန်ကို ဆရာဝန်က တိုင်းချိန်ကြည့်သည်ကိုမြင်ဘူးကြပေမည်။ ဆရာဝန်သုံး အပူချိန်တံ၌ ဖန်သီးအထက်နားက ဖန်ပြွန်ချောင်းကို အနည်းငယ် ကျဉ်းထားသည်။ အဘယ်ကြောင့် ဆိုသော် အပူချိန်တံကို ပါးစပ်တွင်းမှ ပြန်ထုတ်ယူသောအခါ ပြဒါးမျဉ်းအောက်ပြန်ကျမသွားစေရန် ဖြစ်သည်။ သို့သော် ပြဒါးပြန့်ကားလာသောအခါ ဖန်ပြွန်ချောင်းတလျှောက်အတိုင်း

အထက်သို့ ပြဒါး မတက်နိုင်လောက်အောင်လည်း အလွန်အမင်း ကျဉ်းမထားချေ။ နေထိုင်ကောင်းနေသော သာမန်လူကိုယ်၏ အပူချိန်သည် ဖာရင်ဟိုက် ၉၈.၄ ဒီဂရီဖြစ်သည်။ ဆရာဝန်သုံးအပူချိန်တံတွင် ဖာရင်ဟိုက် ၉၃ ဒီဂရီမှ ဖာရင်ဟိုက် ၁၁၀ ဒီဂရီအထိ မှတ်သားထားလေသည်။

အပူချိန် ပြောင်းလဲပုံကို အမြဲမှတ်သား နိုင်သော အပူချိန်မှတ်ပုံတင်စက်များလည်း ရှိလေသည်။ အလွယ်ကူဆုံးပုံစံသည်ကား သတ္တုခွေတခုတွင် အပ်တချောင်း တွဲထား၍ အပူချိန် ပြောင်းလဲသောအခါ ထိုသတ္တုခွေသည် ကွေးချည် ဆန့်ချည် ဖြစ်နေသောကြောင့် တွဲထားသော အပ်က နာရီစက်ဖြင့် ပတ်ပတ်လည်နေသော စက်ကိုယ်ထည် ဇယားကွက်ပေါ်တွင် အပူချိန်ကို မှတ်ထားလေသည်။ အိမ်သုံး ခွက်ပုံအပူချိန်ခွက်များတွင်လည်း ဤစံနစ် မူကိုယူ၍ ပြုလုပ်ထားလေသည်။

## မိုး

ကမ္ဘာပေါ်တွင် မြေဩဇာ အကြွယ်ဝဆုံး လယ်ယာမြေဖြစ်လင့်ကစား မိုးရေ၊ သို့မဟုတ် ဆည်မြောင်းဖြင့် သွင်းပေးသော ရေမရလျှင် စိုက်ပျိုးရေးအတွက် အဖိုးတန်တော့မည် မဟုတ်ချေ။ လယ်ယာမြေတို့ကို ဆည်မြောင်းဖြင့် သွင်းပေးသော ရေသည်လည်း မူလက မိုးရေပင် ဖြစ်သည်။ ရေများများရသော လယ်ယာမြေသာလျှင် တန်ဖိုးရှိသည်။

မိုးမများလွန်း မနည်းလွန်းဘဲ၊ မိုးမျှတသော အရပ်ဒေသတို့၌ အများအားဖြင့် လူဦးရေ ပေါများစည်ကားသည့်အပြင် လူတို့အတွက် အလွန်အသုံးဝင်သော စိုက်ပျိုးပင်ကောက်ပင် သီးနှံများလည်းကြီးပွားဖြစ်ထွန်းကြလေသည်။ အာသံပြည်၊ ချာရာပွန်ဂျီမြို့၌ နှစ်စဉ် မိုးရေချိန် လက်မ ၄၅၀ အထိ မိုးရွာသွန်းလေ့ ရှိရာ၊ ဥတုရာသီ စိုစွတ်ထိုင်းမှိုင်းလွန်းသောကြောင့် လူတို့နေထိုင်မှု သာယာနှစ်သိမ့်စရာမရှိပေ။ တဖန် အာဖရိကတိုက်အနောက်တောင်ပိုင်း ဝဲလဗစ်ပင်လယ်ကွေ့ အရပ်၌ နှစ်စဉ် မိုးရေချိန် ဝ.၃ လက်မသာရွာသောကြောင့် ဥတုရာသီခြောက်သွေ့ပူပြင်းလွန်းသဖြင့် ထိုအရပ်ဒေသ၌လည်း လူတို့ နေထိုင်မှုသာယာနှစ်သိမ့်ဖွယ် မရှိပေ။ ဥတုရာသီမျှတသော အရပ်ဒေသတို့၌သာလျှင် လူတို့ နေထိုင်မှုသာယာနှစ်သိမ့်ဖွယ်ရာကောင်းသောကြောင့် လူဦးရေ ပေါများ စည်ကားလေသည်။

ကောက်ပဲသီးနှံ သဘာဝပေါက်ပင်တို့သည် မိုးကောင်းလျှင် ကောင်းသလို၊ မကောင်းလျှင် မကောင်းသလို မိုးနည်းများ အခြေအနေကို လိုက်၍ ပေါက်ရောက် ဖြစ်ထွန်းကြသည်။ ဆဟာရား သဲကန္တာရ၊ ဩစတြေးလီးယားပြည် အလယ်ပိုင်း၊ မြန်မာနိုင်ငံ အလယ်ပိုင်းကဲ့သို့ ခြောက်သွေ့သော ဒေသတို့၌ ကောက်ပဲသီးနှံ၊ သစ်ပင်မြက်ပင်များ အနည်းငယ်သာ ပေါက်ရောက်သည်။ အမေရိကန် ပြည်ထောင်စု အရှေ့ပိုင်းနယ်များ၊ ဥရောပနိုင်ငံများနှင့် မြန်မာနိုင်ငံ မြစ်ဝကျွန်းပေါ်နယ်များကဲ့သို့ မိုးမျှတသော ဒေသ၌ ကောက်ပဲသီးနှံများ ကောင်းစွာ ပေါက်ရောက်ဖြစ်ထွန်းသည်။ မြန်မာနိုင်ငံ ရခိုင်တိုင်းကဲ့သို့ အလွန်အမင်း မိုးအားကြီးသော ဒေသတို့၌ကား သီးနှံသစ်ပင်များ ပေါက်ရောက် လွန်း၍ တားဆီးမနိုင်အောင်ပင် ဖြစ်လေသည်။

ရေခိုးရေငွေ့ပါ၍ စိုထိုင်းသော လေသည် အထက်သို့ ပျံ့တက်သောအခါ လေထဲ၌ပါသော ရေခိုးရေငွေ့တို့သည် အေးလာ၍ ရေစက်ရေပေါက်အဖြစ် စုခဲသွားပြီးလျှင် မိုးအဖြစ်ရွာချလေသည်။ လေအထက်သို့ ပျံ့တက်သော အကြောင်းသုံးမျိုးရှိသည်။ ပဌမအကြောင်းကား နေပူရှိန်ကြောင့် သာမန်ရေငွေ့ပျံ့ခြင်း ဖြစ်သည်။ ဒုတိယအကြောင်းကား လေစီးကြောင်းတွင် ကာဆီးနေသော တောင်တန်းက လေကို အထက်သို့ မြင့်တက်စေခြင်းဖြစ်သည်။ တတိယ အကြောင်းကား လေထုနှစ်မျိုး တွေ့ဆုံရာမျက်နှာစာတွင် လေအေးထုက အောက်ခံ ပင့်တင်ပေး၍ စိုထိုင်းသော လေကြောင်း အထက်သို့ မြင့်တက်ခြင်း ဖြစ်သည်။

ကမ္ဘာ့သမပိုင်းရှိ တိုင်းနိုင်ငံတို့တွင် အများအားဖြင့် တတိယအကြောင်းကြောင့် မိုးရွာသွန်းလေသည်။ ထိုအကြောင်းအပြင် တောင်တန်းကုန်းမြင့် ဒေသတို့ကို ဖြတ်သန်းသွားရ




လေဆင်နှာမောင်း ပုံစံကို ဤသို့ ပြုလုပ်ပြသထားသည်။

သောအခါ ထိုအရပ်ဒေသတို့၌ မိုး ပိုမိုရွာသွန်းလေသည်။ ထိုသို့ မိုးရွာသွန်းရာ၌ တောင်တန်း၏ လေကြောဖက်တွင် မိုး အလွန်နည်းပါး၍ လေညာဖက်တွင် မိုး ပိုမိုများပြားလေသည်။ရေခိုးရေငွေ့ သယ်ဆောင်လာသောကြောင့် လေသည် မြင့်မားသော တောင်တန်းနှင့် တွေ့ဆုံသောအခါ တောင်တန်းကိုဖြတ်ကျော်နိုင်ရန်အထက်သို့မြင့်တက်ရ၍ လေထဲ၌ပါသော ရေခိုးရေငွေ့တို့ ရေစက်ရေပေါက်အဖြစ် ပြောင်းလဲပြီး လျှင် မိုးရွာသွန်းချလေသည်။ အနောက်တောင် မုတ်သုန်ရာသီလေတိုက်ခတ်ရာ မြန်မာနိုင်ငံနှင့် အိန္ဒိယနိုင်ငံတွင်၊ မြန်မာနိုင်ငံရခိုင်နှင့် တနင်္သာရီကမ်းမြောင်ဒေသများ၌ရခိုင်ရိုးမနှင့် တနင်္သာရီရိုးမ တောင်တန်းကြီးများကြောင့်၎င်း၊အိန္ဒိယနိုင်ငံ အနောက်ဖက် ကမ်းရိုးတန်းဒေသများတွင် အနောက်ဂတ်တောင်တန်းကြီးကြောင့်၎င်း အခြား ဒေသများထက် မိုး ပိုမိုရွာသွန်းသည်မှာ အထက်ပါ အချက်ကို ထောက်ခံသော ဥဒါဟရုဏ်ပင်ဖြစ်လေသည်။

ကမ္ဘာ့အပူပိုင်း နိုင်ငံများ၏ အလယ်ပိုင်းဒေသများသည် မိုးနည်းပါး၍ သဲကန္တာရအပိုင်းများ ဖြစ်ကြသည်။ ထိုဒေသများ၌ ပြောပလောက်အောင် မိုးရွာသွန်းသည်ကို မတွေ့ရချေ။ ဥရောပနိုင်ငံအများ၌ပင် နှစ်စဉ် မိုးရေချိန် လက်မ ၂၀ ကျော် မိုးရွာလေသည်။ အိန္ဒိယ၊ တိဗက်နှင့် တရုပ်နိုင်ငံတို့မှ တပါး ကျန်အာရှတိုက်ဒေသများ၌ များသောအားဖြင့် နှစ်စဉ်မိုးရေချိန် လက်မ ၂၀ ထက် နည်းပါးလေသည်။

အာရေဗျ နိုင်ငံ၊ မွန်ဂိုလီးယားပြည်၊ ဩစတြေးလီးယားတိုက် အလယ်ပိုင်း၊ အာဖရိကတိုက် အနောက်တောင်ပိုင်း စသော ဒေသများ၌ နှစ်စဉ် မိုးရေချိန် ၁၀ လက်မထက်ပင် နည်းသေးသည်။ မြန်မာနိုင်ငံ ကမ်းရိုးတန်းဒေသ၊ အိန္ဒိယနိုင်ငံအနောက်ကမ်းရိုးတန်း ဒေသ၊ အာသံပြည်နှင့် အီကွေတာနှင့် ၁၀ ဒီဂရီမြောက် လတ္တီတွဒ်ကြားရှိ အာဖရိကတိုက်အနောက်ကမ်းရိုးတန်း ဒေသများတွင် နှစ်စဉ် မိုးရေချိန် လက်မ ၁၀၀ ထက် ပို၍ မိုးကြီးလေသည်။

ကမ္ဘာပေါ်၌ မိုးအရွာဆုံး ဒေသသည် အာသံပြည်၊ ချာရာပွန်ဂျီမြို့ဖြစ်၍ နှစ်စဉ် ပျမ်းမျှမိုးရေချိန် ၄၂၈ လက်မ ရွာသွန်းလေသည်။

မြန်မာနိုင်ငံတွင် မိုးအရွာဆုံး ခရိုင်သည် ထားဝယ် ခရိုင်ဖြစ်၍ နှစ်စဉ် ပျမ်းမျှ မိုးရေချိန် ၂၁၁ လက်မခန့် ရွာသည်။ မိုးအနည်းဆုံး ခရိုင်သည် စစ်ကိုင်းခရိုင်ဖြစ်၍ နှစ်စဉ် ပျမ်းမျှ မိုးရေချိန် ၂၉ လက်မသာ ရွာလေသည်။

မြန်မာ နိုင်ငံတွင် မိုးအရွာဆုံးမြို့သည် သထုံမြို့ဖြစ်၍ နှစ်စဉ် ပျမ်းမျှ မိုးရေချိန် ၂၁၇ လက်မရွာသည်။ မိုးအနည်းဆုံးမြို့သည် ပခုက္ကူမြို့ဖြစ်၍ နှစ်စဉ် ပျမ်းမျှမိုးရေချိန် ၂၄ လက်မသာ ရွာလေသည်။ ရန်ကုန်မြို့၏ နှစ်စဉ် ပျမ်းမျှမိုးရေချိန်သည် ၁၀၅ လက်မဖြစ်သည်။

၂၄ နာရီအတွင်း အများဆုံး ရွာသော မိုးရေချိန်မှတ်တမ်းအချို့ကို အောက်တွင် ဖော်ပြထားသည်။

| မြို့ | ရက်စွဲ | မိုးရေချိန် (လက်မ) |
|---|---|---|
| ချာရာပွန်ဂျီ | ၁၈၇၆၊ ဇွန်လ ၁၄ ရက် | ၄၁.၄၀ |
| စစ်တွေ | ၁၉၁၆၊ နိုဝင်ဘာလ ၃ ရက် | ၁၈.၃၃ |
| သံတွဲ | ၁၉၃၆၊ မေလ ၃၁ ရက် | ၁၄.၈၅ |
| ကျောက်ဖြူ | ၁၉၁၄၊ ဇူလိုင်လ ၁၆ ရက် | ၁၄.၅၀ |
| ရန်ကုန် | ၁၉၃၄၊ ဧပြီလ ၂၀ ရက် | ၁၄.၂၂ |
| ထားဝယ် | ၁၉၀၀၊ စက်တင်ဘာလ ၁၂ ရက် | ၁၃.၁၀ |
| ပုသိမ် | ၁၈၉၇၊ ဇွန်လ ၃၀ ရက် | ၁၂.၃၅ |

ဒေါက်တာ ဦးဘိုးအေး

**မက္ကဆီကို နိုင်ငံ။** ။မက္ကဆီကိုနိုင်ငံသည် မြောက် အမေရိကတိုက် တောင်ဖက်အဖျားဘက်တည်ရှိ၍ လွတ်လပ်သော သမတ နိုင်ငံဖြစ်၏။မက္ကဆီကိုနိုင်ငံ၏မြောက်ဖက်တွင် အမေရိကန်ပြည်ထောင်စု နိုင်ငံ၊ အရှေ့ဖက်တွင် မက္ကဆီကို ပင်လယ်ကွေ့အရှေ့တောင်ဖက်တွင် ဂွါတီမားလနိုင်ငံနှင့် ဗြိတိသျှဟွန်ဒူးရပ်နယ်၊ အနောက်ဖက်နှင့် တောင်ဖက်တို့တွင် ပစိဖိတ်သမုဒ္ဒရာတို့ အသီးအသီးတည်ရှိသည်။ ကာလီဖိုးနီးယား ပင်လယ်ကွေ့အားဖြင့် ပြည်မနှင့် အဆက်ပြတ်နေသည့် ကာလီဖိုးနီးယား ကျွန်းဆွယ်တောင်ပိုင်းသည်လည်း မက္ကဆီကို နိုင်ငံတွင် အကျုံးဝင်လေသည်။ မက္ကဆီကို နိုင်ငံသည် အကျယ်အဝန်းအားဖြင့် စတုရန်းမိုင် ၇၆၄,၀၀၀ ရှိ၏။ မြို့တော်မှာ မက္ကဆီကိုမြို့တော်ဖြစ်သည်။ အခြား မြို့ကြီးများမှာ




မက္ကဆီကိုနိုင်ငံ တည်နေရာပြ မြေပုံ

ဗေရကရု၊ ဂွါသာလာဟားရား၊ တမ်ပီကို၊ ပွက်ဗလို၊ မွန်တေးရေး အစရှိသည်တို့ဖြစ်၏။ ရှေးသုံးဝေါဟာရအဖြစ် မက္ကဆီကိုနိုင်ငံကို ပညတ်ထားသောအမည်မှာ အေ့စတားသို့ ဦးနီသို့ မဟီကားနို ဖြစ်၏။ မက္ကဆီကို ကို စပိန်ဘာသာဖြင့် မဟီးကိုးဟုခေါ်သည်။

မက္ကဆီကိုနိုင်ငံ၏ များသော အပိုင်းမှာ တောင်တန်းကြီး ၂ ခုကြားတွင် တည်ရှိသည့် ကုန်းပြင်မြင့် ဖြစ်သည်။ အမေရိကန်ပြည်ထောင်စု နိုင်ငံမှ မက္ကဆီကို နိုင်ငံတွင်း ထိုးဆင်းလာသော တောင်တန်းနှစ်သွယ်တို့သည် တောင်ဖက်အဖျားတွင် ပေါင်းဆုံ မိလေသည်။ မက္ကဆီကိုနိုင်ငံ မြောက်ပိုင်းနှင့် အလယ်ပိုင်းတွင် ယင်းတောင်တန်းများနှင့် ကုန်းပြင်မြင့်တို့ချည်းလိုပင် တည်ရှိနေကာ၊ မက္ကဆီကို ပင်လယ်ကွေ့ ကမ်းရိုးတန်းတလျှောက်တွင်သာ မြေပြန့် လွင်ပြင်ရှိလေသည်။ အနောက်ဖက်ရှိ တောင်တန်းသည် ဆီယယ်ရာ မက်ဒရီ အော့ဆီဒင်တယ်ဟု တွင်လျက် အရှေ့ဖက်တွင်ရှိ တောင်တန်းမှာမူ ဆီယယ်ရာ မက်ဒရီ အိုရီယင်တယ်ဟုတွင်သည်။ ထိုတောင်တန်းများရှိ အချို့ တောင်ထိပ်များမှာ မီးတောင်ဟောင်းများ၏ တောင်ထိပ်များ ဖြစ်၏။ အမြင့်ဆုံး တောင်မှာ ၁၈,၆၉၆ ပေရှိသော အိုရီဇာဗာတောင်ဖြစ်၍ အခြားတောင်မြင့်များကား ၁၇,၈၈၃ ပေရှိသော ပိုပိုကက်တပက်တယ်တောင်နှင့် ၁၇,၃၄၃ ပေရှိသော ဣစတာဆီဝတယ်တောင်တို့ဖြစ်သည်။

မက္ကဆီကို နိုင်ငံတွင် သင်္ဘောများ ကူးသန်း သွားလာနိုင်သည့် မြစ်ဟူ၍ အနည်းငယ်မျှသာ ရှိသော်လည်း ရေအားဖြည့်စွမ်းပေးနိုင်၍ရေပေးသွင်းနိုင်သည့်မြစ်ချောင်းများစွာရှိလေသည်။အရေးပါအရာရောက်သောမြစ်တို့သည် မက္ကဆီကိုပင်လယ်ကွေ့တွင်းသို့ စီးဝင်၏။ ရီးအိုဂရန်ဒီမြစ်သည် အကြီးဆုံးဖြစ်၍ တစိတ်တဒေသအားဖြင့် မြောက်ဖက်နယ်နိမိတ် အဖြစ် တည်ရှိနေပေသည်။ မက္ကဆီကိုနိုင်ငံ၏ကမ်းရိုးတန်းသည် မိုင် ၆,၀၀၀ ကျော်ရှည်လျား၍ ဆိပ်ကမ်းကောင်းများလည်းရှိသည်။ အရေးပါ အရာရောက်သော ဆိပ်ကမ်းမြို့တို့မှာ အရှေ့ဖက်ကမ်းရိုးတန်းတွင် တည်ရှိသည့် ဗေရကရုနှင့် တမ်ပီကိုမြို့များဖြစ်သည်။

မြောက်ယဉ်စွန်းတန်းသည် မက္ကဆီကို နိုင်ငံကို အလယ်လောက်တွင် ဖြတ်သွားသည်။ သို့အားဖြင့် မက္ကဆီကိုနိုင်ငံတပိုင်းသည် အပူပိုင်းဇုန်တွင် တည်ရှိလျက် အခြားတပိုင်းသည် သမပိုင်းဇုန်တွင် တည်ရှိသည်။ ကမ်းရိုးတန်း တလျှောက်နှင့် အမြင့်ပေ ၃,၀၀၀ အထိ တည်ရှိနေသော ဒေသများသည် ပူပြင်းစိုထိုင်း၏။ ပေ ၃,၀၀၀ မှ ၆,၅၀၀ အထိ ဒေသများတွင် ရာသီဥတုမပြင်းထန်ဘဲမျှတသည်။ပေ၆,၅၀၀ ထက်မြင့်သော

ဒေသများတွင် နေ့အခါ နွေးသော်လည်း ညဥ့်အခါတွင် ချမ်းအေးသည်။ အလွန်မြင့်သောနေရာများတွင် ဆီနှင်းများကျဆင်းသည်။ မိုးရေချိန်မှာလည်း တနေရာနှင့်တနေရာ မတူညီပေ။ အချို့နေရာများတွင် မိုးနည်းပါးလျက် အချို့နေရာများ၌မူကား သည်းထန်စွာရွာသွန်းလေသည်။ အလယ်ပိုင်းကုန်းပြင်မြင့်တွင် တနှစ်အတွက်မိုးရေချိန်သည် ပြောင်းစိုက်ပျိုးနိုင်ရုံလောက်သာလျှင် ရွာသွန်း၏။ မြေဩဇာကောင်းသော မက္ကဆီကိုချိုင့်ဝှမ်းတွင်မူ တနှစ်လျှင် ၂၅ လက်မရွာသွန်းသည်။ တနိုင်ငံလုံးအတွက် နှစ်စဉ် မိုးရေချိန်မှာ လက်မ ၆၀ ခန့်ဖြစ်လေသည်။

မက္ကဆီကို နိုင်ငံသည် ကမ္ဘာပေါ်ရှိ တွင်းထွက် ဓာတ်သတ္တုများ အကြွယ်ဝဆုံးသော နိုင်ငံများတွင် ပါဝင်၏။



မက္ကဆီကိုနိုင်ငံ လုပျိုဖြူများ

မက္ကဆီကိုနိုင်ငံတွင် ရေနံတွင်းကောင်း များစွာရှိ၍ တမ်ပီကိုတဝိုက်ရှိ ရေနံတွင်းများသည် အရေးပါအရာရောက်ဆုံး ဖြစ်၏။ ထို့ပြင် ဘော်သတ္တု များစွာထွက်ရာ ဒေသလည်းဖြစ်၏။ သွပ်၊ ခဲ၊ ကြေးနီ၊ ရွှေနှင့် အခြား ဓာတ်သတ္တုများလည်း ထွက်သေးသည်။ ကျောက်မီးသွေးနှင့် သံတို့ကို အမြောက်အမြား တူးဖော်ရရှိနိုင်မည့် အလားအလာ ရှိသော်လည်း၊ တွင်တွင်ကျယ်ကျယ် တူးဖော် လုပ်ကိုင်ခြင်း မပြုရသေးပေ။ သို့တိုင်အောင် ဓာတ်သတ္တုများသည် မက္ကဆီကိုနိုင်ငံ၏ အဓိက ထုတ်ကုန်ဖြစ်သည်။ ဓာတ်သတ္တု တူးဖော်လုပ်ကိုင်ခြင်းသည်ပင်လျှင် မက္ကဆီကိုနိုင်ငံ၏ အတိုးတက် အထွန်းကားဆုံးသော လုပ်ငန်းတရပ် ဖြစ်နေပေသည်။

ကမ်းရိုးတန်း တလျှောက်တွင်ရှိသော သစ်တောများမှ ၎င်း၊ တောင်ပိုင်းရှိ သစ်တောများမှ၎င်း ထင်းရှူး၊ ဝက်သစ်ချ၊ မဟောဂနီ၊ မဂ္ဂနိုးလီယာ၊ အက်ဗနီနှင့် အခြား အဖိုးတန်သစ်များအပြင်၊ ပျားဖယောင်း၊ ရက်ဇင်းသစ်စေး၊ တာရပင်ဆီ အစရှိသော အသုံးဝင်ပစ္စည်းများလည်း ထွက်လေသည်။ မက္ကဆီကိုနိုင်ငံတွင်းရှိ မြစ်များ၊ အိုင်များနှင့် ပတ်ရံလျက်ရှိသော ပင်လယ်တို့မှ ငါးအမြောက်အမြား ဖမ်းဆီးရရှိသည်။ မက္ကဆီကိုနိုင်ငံသည် သဘာဝ ရှုခင်းသာယာမှုကြောင့်၎င်း၊ အလယ်ပိုင်း ကုန်းပြင်မြင့်သည် တနှစ်ပတ်လုံး သာယာကြည်နူးဖွယ် ရာသီဥတုရှိသောကြောင့်၎င်း နိုင်ငံတွင်းသို့ နိုင်ငံခြားသား အများအပြား လာရောက်လည်ပတ်ကြသဖြင့် ဧည့်ကြိုလုပ်ငန်းသည်လည်း မက္ကဆီကိုနိုင်ငံအဖို့ ငွေဝင်လမ်းတခု ဖြစ်လေသည်။

မက္ကဆီကို နိုင်ငံသည် များသောအားဖြင့် တောင်ကုန်းထူထပ်၍ စိုက်ပျိုး လုပ်ကိုင်၍ မဖြစ်အောင် ခြောက်သွေ့သော်လည်း လယ်ယာစိုက်ပျိုးရေးသည် အရေးပါသည်။ တိုင်းသူ ပြည်သားအားလုံးလိုလို၏ ပဓာနအစာဖြစ်သော ပဲနှင့် ပြောင်းတို့ကို အဓိကအားဖြင့် စိုက်ပျိုးလျက် အခြား အရေးပါသောစိုက်ပျိုးပင်တို့မှာ ဝါ၊ ကြံ၊ ကာဖီ၊ ကကေးအို၊ ဆန်စပါး၊ ဆေးပင်၊ ဂျုံ၊ မုယော၊ အယ်လဖားဖားတို့ဖြစ်၏။ တကမ္ဘာလုံးထွက် သဘော်နာ့နတ်လျှော် ထက်ဝက်ခန့်သည် မက္ကဆီကို နိုင်ငံတွင်းရှိ ယုကတန်ကျွန်းဆွယ်မှ ထွက်သည်။ ငှက်ပျောသီး၊ လိမ်မော်သီး၊ ပန်းသီး၊ မက်မုံသီး၊ စထရော်ဗယ်ရီ စသော အသီးအနှံများနှင့် ဟင်းသီးဟင်းရွက်များကိုလည်း အများအပြားစိုက်ပျိုးသည်။ ကျွဲ၊နွား၊ဝက်၊ဆိတ်၊ သိုး၊ မြင်းအစရှိသည်တို့ကိုလည်း မွေးမြူသည်။လယ်ယာစိုက်ပျိုးရာ၌ ယေဘုယျအားဖြင့် ရှေးသမရိုးကျ နည်းနိသျများကို အသုံးပြုနေကြသေးသော်လည်း ယခုအခါ ခေတ်မီ နည်းစံနစ်များကိုလည်း စတင်အသုံးပြုနေပြီ ဖြစ်သည့်အပြင်၊ ရေသွင်း စီမံကိန်းများ၊ တိုးတက်ကောင်းမွန်သည့် သယ်ယူပို့ဆောင်ရေး အစီအမံများစသည်ဖြင့် လယ်ယာစိုက်ပျိုးရေးကို ပိုမိုဖွံ့ဖြိုးအောင် ဆောင်ရွက်လျက်ရှိသည်။

မက္ကဆီကို နိုင်ငံသည် ၁၉၃၀ ပြည့်နှစ်မှစ၍ စက်မှု လက်မှုလုပ်ငန်းဖက်တွင် များစွာ တိုးတက်ခဲ့ပေသည်။ ရေနံတူးဖော်ခြင်း၊ ဓာတ်သတ္တုတူးဖော်ခြင်း၊ အစားအသောက် အဖျော်ယမကာ၊ အထည်အလိပ်၊ သားရေဖိနပ်၊ဆေးပြင်းလိပ်၊ စီးကရက်၊ ဆေးဝါး၊ သံ၊ သံမဏိ၊ ကြိုး၊ စက္ကူ၊ အိမ်ထောင်



တိုင်းရင်းသားဝတ်စုံဆင်ယင်ထားသည့် မက္ကဆီကိုအမျိုးသမီး

ပရိဘောဂ၊ ဆိုးဆေး၊ ဆပ်ပြာ၊ ဖယောင်းတိုင်၊ ဓာတ်မြေသြဇာ အစရှိသည့် ပစ္စည်းများ ထုတ်လုပ်ရေးလုပ်ငန်းများသည် အရေးပါသော လုပ်ငန်းများဖြစ်၏။

မက္ကဆီကို နိုင်ငံသည် လေကြောင်း လမ်းများနှင့် ပင်လယ်ရေကြောင်းလမ်းများအားဖြင့် ကမ္ဘာနှင့် ဆက်သွယ်လျက်ရှိ၏။ အဓိကဆိပ်ကမ်းမြို့များမှာ တမ်ပီကိုနှင့် ဗေရကရုတို့ဖြစ်၏။ အမေရိကန် ပြည်ထောင်စုနှင့်လည်း မီးရထားလမ်း၊ ကားလမ်းကြီးများဖြင့် ဆက်သွယ်ထားသည်။ ရှေးအခါက မက္ကဆီကို နိုင်ငံတွင် မြို့ကြီးပြကြီးများကိုသာလျှင် ခေတ်မီလမ်းကောင်းများဖြင့် ဆက်သွယ် ထားခဲ့ရာ၊ ယခုအခါတွင်မူ မြို့ကလေးများနှင့် တောရွာကလေးများသို့ပင် သပ်ရပ်ကောင်းမွန်သော လမ်းများဖြင့် ဆက်သွယ်ပေးထားပြီး ဖြစ်လေသည်။

မက္ကဆီကို နိုင်ငံသည် နှစ်ပရိစ္ဆေဒကြာမြင့်စွာပင် စစ်မြေတလင်း ဖြစ်ခဲ့ရပေသည်။ သမိုင်းမတင်မီ ရှေးခေတ်ကလည်း မက္ကဆီကို နိုင်ငံတွင် တိုင်းရင်းသား လူမျိုးစုတို့သည် တပြန်တလှည့် တိုက်ခိုက် ကြီးစိုးခဲ့ပေသည်။ ကောတက်က ခေါင်းဆောင်၍ စပိန်လူမျိုးတို့ ဝင်ရောက် တိုက်ခိုက်သိမ်းပိုက်ခဲ့စဉ်က မက္ကဆီကို နိုင်ငံကို အက်ဇတက်လူမျိုးတို့၏ ဘုရင် မွန်တီဇူးမားက အုပ်စိုးနေဆဲ ဖြစ်၏။ (ကောတက်, အိပ်။အက်ဇတက်လူမျိုး — လည်းရှု။)

စပိန်လူမျိုးတို့သည် မက္ကဆီကို နိုင်ငံကို နှစ်ပေါင်း ၃၀၀ မျှ အုပ်ချုပ်ခဲ့ရာ၌ တိုင်းရင်းသားတို့ကို နှိပ်စက်ကလူပြုခဲ့သည်။ ထိုကြောင့် ခရစ် ၁၈၁၀ ပြည့်နှစ်တွင် မီဂဲ အီသားလဂိုးအမည်ရှိ ဘုန်းကြီးတပါးက ခေါင်းဆောင်၍ သူပုန်ထလေရာ၊ ၁၈၁၁ ခုနှစ်တွင် ဖမ်းဆီး အသတ်ခံရသော်လည်း သူပုန် မီးကားငြိမ်းမသွားခဲ့ပေ။၁၈၂၂ ခုနှစ် မေလ ၂၂ ရက်နေ့တွင် အီတူးဗီးဒေအမည်ရှိသော စပိန်အမျိုးသားတဦးသည် လွတ်လပ်ရေးအတွက်ကြိုးပမ်းနေသော သူပုန်တို့ဖက်ကဝင်ပြီးသော် မိမိကိုယ် မိမိဧကရာဇ်မင်းအဖြစ်ခံယူလျက် စပိန်နိုင်ငံမှ ခွဲထွက်ကြောင်း ကြေညာခဲ့လေသည်။ သို့သော် ယင်းသည်နောက်တနှစ်တွင် နန်းချခြင်း ခံရ၏။ ၁၈၂၄ ခုနှစ်တွင် မက္ကဆီကိုသမတနိုင်ငံကို ထူထောင်ကြ၍ ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေသစ်ကို ရေးဆွဲခဲ့လေသည်။ ထိုအချိန်မှစ၍ မက္ကဆီကိုနိုင်ငံတွင် ပြည်တွင်းစစ်ပွဲများ၊ ပုန်ကန်ထကြွမှုများ မကြာခဏ ဖြစ်ပွားခဲ့သဖြင့် တိုင်းပြည်မငြိမ်မသက်ရှိခဲ့၏။ ၁၈၃၅ ခုနှစ်တွင် တက်ဆက်ပြည်နယ်သည် မက္ကဆီကိုနိုင်ငံမှ ခွဲထွက်လေသည်။ ထိုနောက် မက္ကဆီကိုနိုင်ငံသည် နယ်စပ်အရေးနှင့် စပ်လျဉ်း၍ အမေရိကန်ပြည်ထောင်စုနှင့် စစ်ဖြစ်သည်။ စစ်ရှုံးသော မက္ကဆီကိုနိုင်ငံသည် ယခုကာလီဖိုးနီးယား၊ အယ်ရီဇိုးနား၊ ယူးတားနှင့် နီဗားဒ ဟူ၍ တွင်နေသော နယ်မြေဒေသများနှင့် ကော်လိုရားဒိုး၊ ဝိုင်အိုးမင်းနှင့် နယူးမက္ကဆီကိုပြည်နယ်တို့တွင် တစိတ်တဒေသအားဖြင့် ပါဝင်နေသော နယ်မြေဒေသများကို အမေရိကန် ပြည်ထောင်စုသို့ ပေးအပ်လိုက်ရ၏။ ၁၈၆၂ — ၆၃ ခုနှစ်တွင် ပြင်သစ်တို့ လာရောက်တိုက်ခိုက် သိမ်းပိုက်သဖြင့် မက္ကဆီကိုသည် ပြင်သစ်တို့ လက်အောက်တွင် ၃ နှစ်မျှ ကျရောက်ခဲ့ရသည်။ ၁၈၆၇ ခုနှစ်တွင် မက္ကဆီကို သမတနိုင်ငံကို ပြန်လည် တည်ထောင်ကာ ဗင်နီတို ဟွားရေးကို သမတမြှောက်သည်။ ၁၈၇၆ ခုနှစ်တွင် ပေါ်ဖီရီယိုဒီးအတ်သည် သမတအဖြစ် ဆက်ခံသည်။ ဒီးအတ်သည် ၁၉၁၁ ခုနှစ်တွင်အာဏာရှင်အဖြစ် အုပ်ချုပ်ခဲ့သည်။ ဒီးအတ်၏ လက်ထက် ၁၈၈၄—၁၉၁၁ ခုနှစ် အတွင်းတွင် မက္ကဆီကို နိုင်ငံသည် သိသိသာသာ တိုးတက်ကြီးပွားလာလေသည်။ ၁၉၁၁ ခုနှစ်မှ ၁၉၃၄ ခုနှစ်အတွင်း သမတပေါင်း ၁၇ ယောက်ဆက် မနည်း လက်ပြောင်းခဲ့ပေသည်။ ထာဝစဉ်ဆိုသလိုပင် ပြည်တွင်းစစ် ဖြစ်ပွားနေသည့် ကြားကပင် မက္ကဆီကိုနိုင်ငံသည် ကြီးပွားတိုးတက်လာခဲ့ပေသည်။ ၁၉၃၄ ခုနှစ်တွင် လာဆေးရိုး ကာဒေးနတ် သမတအဖြစ် တင်မြှောက်ခံရသည်။ သူ သမတအဖြစ် ဆောင်ရွက်စဉ် ၆ နှစ်အတွင်း ပြည်တွင်းငြိမ်သက်မှု ပြန်လည် ရအောင်စီမံလျက် ပြုပြင်ပြောင်းလဲမှုများ ပြုလုပ်ခဲ့သဖြင့်၊ မက္ကဆီကိုသမတနိုင်ငံသည် ရှေးကထက် များစွာတိုးတက်လာသည်။ ၁၉၃၈ ခုနှစ်၌ မက္ကဆီကိုအစိုးရသည် နိုင်ငံခြားပိုင် ရေနံလုပ်ငန်းများကို သိမ်းယူလိုက်ရာ နှစ်ပေါင်းများစွာ ရေနံတွက်

ကုန်ပစ္စည်းများ ရောင်းချရေးနှင့်စပ်လျဉ်း၍ အခက်အခဲများ ကြုံတွေ့ခဲ့ရ၏။ သို့သော် ၁၉၄၂ ခုနှစ်တွင် လျော်ကြေးများ ပေးပြီးသည့် နောက်၌ ရေနံနှင့် ရေနံထွက် ပစ္စည်းများသည် နိုင်ငံ၏ အဓိကသုတ်ကုန် ဖြစ်လာပြန်၍ ရေနံထုတ်လုပ်ရေး လုပ်ငန်းသည်လည်း လျင်မြန်စွာ တိုးတက် ကြီးပွားလာလေ သည်။ ကာသေးနတ်ကို ဆက်ခံသော သမ္မတတို့သည် ကာ သေးနတ် အစပျိုးခဲ့သော ပြုပြင်မှုများကို ဆက်လက်၍ ဆောင်ရွက်ခဲ့သဖြင့် ပြဿနာပေါင်းများစွာ ပြေလည်သွား၍ တိုင်းပြည်သည် အဖက်ဖက်တွင် တိုးတက်စည်ကား လာပေ သည်။ ယခုအခါ မက္ကဆီကို နိုင်ငံသည် ခေတ်မှီ နိုင်ငံတခု ဖြစ်နေ၏။ အမေရိကန် ပြည်ထောင်စုနှင့်လည်း သင့်မြတ် လျက်ရှိကာ ဒုတိယ ကမ္ဘာစစ်အတွင်းက မဟာမိတ်တို့ကို ကူညီခဲ့လေသည်။ မက္ကဆီကို နိုင်ငံသည် ကုလသမဂ္ဂတွင် အဝင်အပါ နိုင်ငံတခု ဖြစ်လေသည်။

မက္ကဆီကိုနိုင်ငံသည် ပြည်နယ် ၂၉ ခု၊ နယ် ၁ နယ်နှင့် ဖက်ဒရယ်ဒိစတြိတ်ခေါ် ခရိုင်နယ်တခုတို့ဖြင့် ဖွဲ့စည်းထား လျက်ရှိကာ အမေရိကန် ပြည်ထောင်စုကဲ့သို့ ပြည်နယ်များ ကို စုပေါင်းဖွဲ့စည်းထားသည့် ပြည်ထောင်စု သမတနိုင်ငံ လည်း ဖြစ်၏။

မက္ကဆီကိုနိုင်ငံတွင် အခလွတ်မူလတန်းပညာကို မသင် မနေရ ပြုလုပ်ထား၏။ ကျောင်းများကို ပြည်ထောင်စု အစိုး ရနှင့် ပြည်နယ်အစိုးရတို့က ထောက်ပံ့ဖွင့်လှစ်ထားသည်။ အ သက်မွေးဝမ်းကျောင်းပညာသင်ကျောင်းများနှင့်တက္ကသိုလ် ကျောင်းများလည်းရှိရာ၊ ယင်းတို့အနက် အကြီးဆုံးမှာ မက္က ဆီကိုမြို့တော်ရှိ မက္ကဆီကို တက္ကသိုလ်ဖြစ်လေသည်။ မက္ကဆီ ကို နိုင်ငံ၏ လူဦးရေမှာ ၂၆,၀၀၀,၀၀၀ ခန့် ဖြစ်၏။

**မက္ကဆီကိုမြို့တော်။** ။မက္ကဆီကိုမြို့တော်သည် မက္ကဆီကို သမတနိုင်ငံ၏ မြို့တော်ဖြစ်၍ မက္ကဆီကို နိုင်ငံ၏ ဗဟိုတောင် ဖက်ယွန်းယွန်း အရပ်၌ မက္ကဆီကို တောင်ကြားရှိ ကုန်းပြင် မြင့်၏ အလယ်တွင် တည်ရှိသည်။ ထိုကုန်းပြင်မြင့်သည် ပင် လယ်ပြင်မှ ပေ ၇,၄၀၁ မြင့်သည်။ မက္ကဆီကိုနိုင်ငံတွင် အကြီး ဆုံး သဘော်ဆိပ်ကမ်းဖြစ်သော ဗေရာကရုမြို့မှ အနောက် တောင်ဖက်တွင် မိုင် ၂၀၀ ခန့်ကွာဝေးသည်။ မြောက် အ မေရိကတိုက်တွင်ရှိသော မြို့တော်များအနက် ရှေးအကျဆုံး ဖြစ်သည်။ မက္ကဆီကိုမြို့တော်ကို စပိန်ဘာသာဖြင့် မဟီးကိုး ဟူ၍ခေါ်သည်။ လူဦးရေခန့်မှန်းခြေ ၂,၂၃၃,၉၁၄ ယောက် ရှိသည်။

သဘာဝအားဖြင့် လှပသောရှုခင်းများအလယ်တွင် တည် ရှိသဖြင့် စိတ်ကြည်နူးဖွယ် အတိဖြစ်၏။ ဆီးနှင်းများ ဖုံးအုပ်



မက္ကဆီကိုမြို့တော်၏ ဈေးရှုခင်းတရပ်ဖြစ်သည်။ မက္ကဆီကိုနိုင်ငံသည် အပူပိုင်းဒေသ၌ တည်ရှိသဖြင့် ပြောင်း၊ နာနတ်နှင့်ငှက်ပျော အမြောက်အမြား စိုက်ပျိုးသည်။

လျက်ရှိ၍ ထင်ရှားသော ပိုပိုကက်တပက်တယ်နှင့် ဣစတာ ဆီဖတယ်ခေါ် မီးသေတောင် ၂ ခုသည် တောင်ဖက်တွင်ရှိသော တောင်စဉ်ကို အုပ်မိုးလျက် တည်ရှိ၏။ မက္ကဆီကိုမြို့တော်တွင် အသစ်နှင့်အဟောင်း သောင်းပြောင်း ရောထွေးနေသည်ကို တွေ့ရပေသည်။ မက္ကဆီကိုမြို့တော်တွင်းရှိ ဈေးထဲတွင်ရင်း၊ လမ်းဘေးတွင် ရင်း မိမိတို့၏ကုန်ပစ္စည်းများကို ရောင်းချနေသည့် တိုင်းရင်းသား အင်ဒီးယန်းလူမျိုးတို့ကို တွေ့ရတတ်ပေသည်။ မြို့တွင်း၌မူကား ခေတ်မှီ မော်တော်ယာဉ်များကိုရင်း၊ ခေတ်မှီ ဝတ်ကောင်းစားလှနှင့် မြို့သူမြို့သားများကိုရင်း တွေ့ရပေသည်။ ဟော်တယ်၊ ပျော်ပွဲစားရုံ၊ ဆိုင်ကြီးကန္နားကြီးများရှိရာ ရပ်ကွက်တွင် အလွန်ပင် စည်ကားပေသည်။

မက္ကဆီကို မြို့တော်တွင်းရှိ တိုက်တာ အဆောက်အအုံတို့မှာ မိုးထိ အဆောက်အအုံများမှ အစ ရှေးအက်ဇတက်တို့၏ ဘုရားကျောင်းများအထိ ရှေးဟောင်းနှင့်ခေတ်မှီအဆောက်အအုံ ဗိသုကာလက်ရာများကို ရောပြွမ်းလျက် တွေ့ရပေသည်။ မက္ကဆီကိုမြို့တော်ကို ရှေးအခါက စပိန်လူမျိုးတို့ကြီးစိုးသွားရကား စပိန်တို့၏ လက်ရာများကိုလည်း ယခုတိုင် တွေ့နိုင်ပေသည်။ စတုဂံကွက်လပ်များတလျှောက် ထင်ရှားသော အဆောက်အအုံကြီးများကို တွေ့နိုင်ပေသည်။ ရှေးအက်ဇတက်တို့၏ စတုဂံကွက်လပ်တခုဖြစ်သော ဇိုကာလိုခေါ် စတုဂံကွက်လပ်အနီးရှိ နေရှင်နယ် ကသီဒရယ် ဘုရားရှိခိုးကျောင်းသည် အနောက်ဖက် ကမ္ဘာလုံးခြမ်းတွင် အကောင်းဆုံးနှင့်အလှပဆုံး ဘုရားရှိခိုးကျောင်းဖြစ်၏။ ဇိုကာလို၏ အရှေ့ဖက်တွင် အမျိုးသားနန်းတော်တည်ရှိ၏။ ယင်းမှာ မွန်တီဇူးမား၏ ရှေးဟောင်းနန်းတော်နေရာ အုတ်မြစ်ကို အခြေခံကာ ဆောက်လုပ်ထားသည်ဖြစ်၍ ယခုအခါ သမ္မတ၏ အလုပ် အမှုဆောင်ရုံးများ တည်ရှိရာ အဆောက်အအုံကြီး ဖြစ်၏။ လွတ်လပ်ရေးခေါင်းလောင်းသည်လည်း ထိုအဆောက်အအုံ၏ အလယ်ဝင်ပေါက်တွင် ချိတ်ဆွဲလျက်ရှိ၏။ အမျိုးသားနန်းတော်အနီးတွင် ကမွည်းကျောက်စာ၊ ရှေးဟောင်း ပစ္စည်းစသည့် အဖိုးအနဂ္ဃတန်သော ပစ္စည်းများစုဝေးရာ အမျိုးသား ပြတိုက်ရှိ၏။ ထို့ပြင် အနုပညာနန်းတော်၊ အမျိုးသား စာကြည့်တိုက်၊ အမျိုးသား တက္ကသိုလ် စသည်တို့ သည်လည်း ထင်ရှား၍ စိတ်ဝင်စားဖွယ်ကောင်းလျက် ခန့်ညားသော အဆောက်အအုံများဖြစ်၏။ မြို့ကြီးဖြစ်သည့် အလျောက် ထယ်ဝါသော အစိုးရရုံးများ၊ ကျောင်းများ၊ ဘုရားရှိခိုး ကျောင်းများ၊ ဈေးဆိုင်ကန္နားကြီးများလည်း ရှိလေသည်။

ထိုသို့သော တိုက်တာ အဆောက်အအုံများအပြင် စတုဂံကွက်လပ်များ၊ အပန်းဖြေရိပ်သာများလည်း ရှိပေသည်။ မြို့လယ်ရှိ အယ်လမီးဒါးပန်းခြံသည် ၂၅ ဧကမျှ ကျယ်ဝန်း၏။ ချားမူးလေပက်ပန်းခြံသည် အကြီးဆုံး ပန်းခြံဖြစ်၍၊ မက္ကဆီကို နိုင်ငံသမတ၏ နွေရာသီ စံအိမ်တော်သည် ယင်းပန်းခြံထဲတွင်ရှိသည်။ မက္ကဆီကိုမြို့တော်၏ မြို့ပြင်ရပ်ကွက်တို့အနက် အချို့မှာ ခရစ် ၁၅၀၀ ပြည့်နှစ်ခန့်ကတည်းကပင် တည်ရှိခဲ့သော ရပ်ကွက်များဖြစ်၏။ ထိုရပ်ကွက်များတွင် ရှေးအင်ဒီးယန်းလူမျိုးတို့၏ ပီရမစ်အစရှိသည့် ရှေးဟောင်းလက်ရာများကို တွေ့နိုင်ပေသည်။



မက္ကဆီကန် လူမျိုးတို့သည် သဘော်ာနာနတ်မှရသော နာနတ်ရည်ကို အချဉ်ဖောက်ပြီးနောက်၊ သောက်သုံးလေ့ရှိကြသည်။

ယခုအခါတွင် မက္ကဆီကို မြို့တော်သည် စက်မှုလက်မှုလုပ်ငန်းများဖြင့် များစွာတိုးတက်လျက် ရှိသည်။ အထည် အလိပ်၊ အစားအသောက်၊ စက္ကူ၊ ဓာတ်သတ္တု၊ စီးကရက်၊ ဆပ်ပြာ၊ ရွှေထည်ငွေထည် စသည်ဘို့ကို ထုတ်လုပ်သော လုပ်ငန်းများမှာ ထင်ရှားသော လုပ်ငန်းများ ဖြစ်သည်။ မက္ကဆီကိုမြို့တော်သည် မက္ကဆီကို နိုင်ငံတွင် သယ်ယူ ပို့ဆောင်ရေးဆိုင်ရာ အချက်အခြာ ဌာနဖြစ်၏။ မီးရထားလမ်းကြီး ငါးသွယ်ဆုံရာလည်း ဖြစ်၏။ မက္ကဆီကိုမြို့တော်မှသည် နယူးယော့မြို့သို့ မီးရထားဖြင့် တောက်လျှောက်ပေါက်လျက်၊ ၄ ရက်မျှ သွားရပေသည်။ ဗေရကရုဇ်မြို့သို့မူ ၁၂ နာရီဖြင့်ရောက်နိုင်သည်။ မက္ကဆီကိုမြို့တော်တွင် ခေတ်မှီ လေယာဉ်ပျံကွင်းလည်းရှိ၍ ကမ္ဘာ့အရပ်ရပ်မှ မြို့ကြီးများနှင့် လေကြောင်း အဆက်အသွယ်ရှိသည်။ ကားလမ်း အဆက် အသွယ်များလည်း ရှိသည်။



မက္ကဆီကိုမြို့တော်၏ ကျက်သရေဆောင် စပိန်အနုပညာလက်ရာပြ ကသီဒရယ် ဘုရားရှိခိုးကျောင်းကြီး

မက္ကဆီကိုမြို့တော်သည် စပိန်လူမျိုးတို့မရောက်မီက အက်ဇတက်လူမျိုးတို့၏ မြို့တော် တေနော့တီတလန်း မြို့ဖြစ်ခဲ့၏။ အက်ဇတက်တို့သည် မက္ကဆီကို တောင်ကြား ချိုင့်ဝှမ်းသို့ ၁၃၂၅ ခုနှစ်က ဝင်ရောက်၍ မြို့ရွာတည်လေရာ အက်ဇတက်တို့လက်ထက်တွင် ယဉ်ကျေးမှုထွန်းကားသော ဒေသဖြစ်ခဲ့လေသည်။ စပိန်နယ်ချဲ့သမားများ ရောက်ရှိလာချိန်က တေနော့တီတလန်းသည် အိမ်ခြေပေါင်း ၆၀၀,၀၀၀ မျှရှိသော မြို့ပြကြီးတခု ဖြစ်နေခဲ့ပေပြီ။ ကောတက်သည် ၁၅၂၁ ခုနှစ်တွင် အက်ဇတက်တို့ကို တိုက်ခိုက်အောင်မြင်သဖြင့် မက္ကဆီကိုသည် စပိန်လက်အောက်ခံဖြစ်လာသည်။ ကောတက်တို့ တိုက်ခိုက်ခဲ့စဉ်က မြို့သည် အတော်ပင် ပျက်စီးခဲ့၏။ ယခု မက္ကဆီကို မြို့တော်သည် ရှေးမြို့ဟောင်းပျက်အကြားမှ တည်ထားသော မြို့ကြီးဖြစ်သည်။ ၁၈၂၁ ခုနှစ်တွင် ဗိုလ်ချုပ် အီတူးဗီးသေအမှူးပြုသော မက္ကဆီကန်တော်လှန်ရေးသမားတို့သည် မက္ကဆီကို မြို့တော်ကို စပိန်တို့လက်မှ ပြန်လည် သိမ်းပိုက်ခဲ့၏။ ၁၈၄၇ ခုနှစ်က အမေရိကန်ပြည်ထောင်စုနှင့် ဖြစ်သော မက္ကဆီကန်စစ်ပွဲတွင် အမေရိကန်တို့က အောင်မြင်၍ မက္ကဆီကိုမြို့တော်ကို ၁၈၄၇ ခုနှစ်မှ ၁၈၄၈ ခုနှစ်အထိ သိမ်းပိုက်ထား၏။ မက္ကဆီကိုမြို့တော်တွင် မကြာခဏ တိုက်ပွဲများ ဖြစ်ပွားခဲ့သည်။ သို့စဉ်လျက် မက္ကဆီကိုမြို့တော်သည် တိုးတက်လာပေသည်။ အထူးသဖြင့် ၁၈၇၆ ခုနှစ်မှ ၁၈၈၀ ပြည့်နှစ်အထိနှင့် ၁၈၈၄ ခုနှစ်မှ ၁၉၁၁ ခုနှစ်အထိ နှစ်များအတွင်း ပေါ်ဖိရီယို ဒီးအတ် သမ္မတဖြစ်ခဲ့စဉ်က မြို့တော်သည် များစွာကြီးပွားတိုးတက်ခဲ့လေသည်။

**မက္ကဒေါ်နယ်, ဂျိမ်းရမ္မဆေး(ခရစ် ၁၈၆၆–၁၉၃၇)။ ။** ဂျိမ်း ရမ္မဆေး မက္ကဒေါ်နယ်သည် ဗြိတိသျှလူမျိုး နိုင်ငံပြုသုခမိန်တဦး ဖြစ်၍၊ လေဘာပါတီ ခေါင်းဆောင်များအထည်းမှ ဗြိတိသျှနန်းရင်းဝန်ရာထူးတွင် ရှေးဦးစွာ ထမ်းရွက်ရသူ ဖြစ်လေသည်။

မက္ကဒေါ်နယ်သည် ၁၈၆၆ ခုနှစ် အောက်တိုဘာလ ၁၂ ရက်နေ့တွင် စကော့တလန်ကမ်းခြေရှိ လော့စီမောက်ရွာတွင် မွေးဖွားသည်။ တောင်သူလယ်သမားမျိုးရိုးမှ ဆင်းသက်လာ၍ စာပေကို ကောင်းမွန်ကျနစွာ သင်ယူခဲ့ရသည်မဟုတ်ဘဲ၊ မိမိ၏ စွမ်းရည်သတ္တိဖြင့် ကိုယ့်ဒူး ကိုယ်ချွန်ခဲ့ရသောကြောင့် ထိပ်တန်းသို့ ရောက်ရှိလာသူဖြစ်၏။ငယ်စဉ်က မူလတန်းကျောင်းတွင် ပညာသင်နေဆဲ အချိန်မှာပင် ကျောင်းမှထွက်၍ မိဖများကို ကူညီလုပ်ကိုင်ပေးရ၏။ အသက် ၁၉ နှစ်

အရွယ်တွင် လန်ဒန်မြို့သို့ သွားရောက်၍ အလုပ်တိုက် တခုတွင် တပတ်လျှင် ၁၂ သျှီလင် ၆ ပဲနိမျှသော အခကြေးငွေကလေးဖြင့် စတင် အလုပ်လုပ်ယင်းနှင့်ပင် မလောက်မင မဝသည့်ကြားက ဇွဲမလျှော့ဘဲ ညနေသင်တန်းများကို တက်ခဲ့သည်။ သိပ္ပံပညာနှင့် နိုင်ငံသမိုင်းတို့ကို အထူးတလည် လေ့လာဖတ်ရှုရုံမက၊ လူမှုရေးရာ ပြုပြင် ပြောင်းလဲမှု များတွင် စိတ်ဝင်စား၍၊ နိုင်ငံရေးအဖွဲ့များတွင်လည်း ပါဝင်ခဲ့၏။ လွတ်လပ်သော အလုပ်သမားအဖွဲ့ဟု အဓိပ္ပါယ်ရသော 'အင်ဒီပင်းဒင့် လေဘာပါတီ' တွင် ၁၈၉၄ ခုနှစ်၌ ဝင်ရောက်ဆောင်ရွက်ကာ၊ ပရိယေသနဝမ်းစာအတွက်ကိုမူ သတင်းစာတွင် ရေးခြင်းဖြင့် ရှာမှီးလေသည်။ ၁၉ဝဝ ပြည့်နှစ်တွင် လေဘာပါတီ၏ ပဌမဆုံးအတွင်းရေးမှူး အဖြစ် ဆောင်ရွက်ရလေသည်။

မက္ကဒေါ်နယ်သည် ၁၉ဝ၆ ခုနှစ်တွင် ပါလီမန် အမတ် အဖြစ် လိစတာနယ်မှ ရွေးကောက်တင်မြှောက်ခြင်း ခံရ၏။ ပါလီမန်တွင် ၁၉၁၁ ခုနှစ်မှစ၍ လေဘာပါတီခေါင်းဆောင်အဖြစ် ဆောင်ရွက်ခဲ့ရာ၊ ပဌမကမ္ဘာစစ်ကြီး ဖြစ်ပွားသည့်အခါတွင် လူတိုင်း စစ်မှုထမ်းရေးကို ဆန့်ကျင်သောကြောင့်၎င်း၊ ဂျာမနီနိုင်ငံသည် စစ်ရေးမနိမ့်သေးမီကပင် ထိုနိုင်ငံနှင့် စစ်ပြေငြိမ်းရန် ကြိုးပမ်းမှုများကြောင့်၎င်း လေဘာခေါင်းဆောင်ရာထူးမှ နုတ်ထွက်ရသည့်အပြင် ၁၉၁၈ ခုနှစ် ပါလီမန်ရွေးကောက်ပွဲတွင်လည်း အရေးနိမ့်ခဲ့ရလေသည်။ သို့သော် ၁၉၂၂ ခုနှစ်တွင် ပြန်လည်၍ ရွေးကောက် တင်မြှောက်ခြင်း ခံရကာ၊ လေဘာပါတီကို ပြန်လည် ခေါင်းဆောင်သောအခါ လေဘာပါတီသည် လစ်ဗရယ်ပါတီထက်ပင် ပို၍ ကြီးမားလျက် အင်အားတောင့်တင်းနေခဲ့ပြီ ဖြစ်၍၊ ၁၉၂၄ ခုနှစ်တွင်ကား လေဘာပါတီသည် ဒုတိယအင်အားကြီး ပါတီ ဖြစ်ခဲ့လေသည်။ ယင်းသည့်နှစ် ဇန္နဝါရီလတွင်ပင် လစ်ဗရယ်တို့၏ ထောက်ခံမှုကြောင့် မက္ကဒေါ်နယ်သည် နန်းရင်းဝန်အဖြစ် ခန့်အပ်ခြင်း ခံခဲ့ရ၏။ သို့သော် ၁ဝ လအကြာ အောက်တိုဘာလတွင် မက္ကဒေါ်နယ်၏ အစိုးရအဖွဲ့သည် ပြုတ်ကျခဲ့လေသည်။ထိုသို့ ပြုတ်ကျရသည်မှာလည်း ဆိုဗီယက်ပြည်ထောင်စုနှင့် ရင်းနှီးလွန်းသည်ဟု ယူဆခြင်း ခံရသောကြောင့် ဖြစ်လေသည်။သို့သော် မက္ကဒေါ်နယ်သည် ၁၉၂၉ ခုနှစ်တွင် နန်းရင်းဝန်အဖြစ် ဒုတိယအကြိမ် အစိုးရအဖွဲ့ကို ခေါင်းဆောင်ခဲ့ရပြန်၏။ ထိုအခါ သူ၏ အစိုးရအဖွဲ့သည် ဆိုဗီယက် ပြည်ထောင်စုကို အသိအမှတ် ပြုမည် ဖြစ်ကြောင်းနှင့် ကျေညာခဲ့သည်။ အမေရိကန် ပြည်ထောင်စုသို့လည်း သွားရောက်



ရမ့်ဆေးမက္ကဒေါ်နယ်အား ဗြိတိသျှနန်းရင်းဝန်အဖြစ် တွေ့ရစဉ်

လည်ပတ်ကာ ကမ္ဘာ့ငြိမ်းချမ်းရေး ရရာရကြောင်း နည်းလမ်းကောင်းများအတွက် ထိုစဉ်က အမေရိကန်သမတ ဟားဗတ်ဟူးဗားနှင့် ဆွေးနွေးခဲ့လေသည်။ ၁၉၃၀ ပြည့်နှစ်တွင် စီးပွားရေး အကျပ်အတည်းနှင့် ရင်ဆိုင်ရချိန်တွင် မက္ကဒေါ်နယ်သည် အခြားလေဘာပါတီ ခေါင်းဆောင်များနှင့် သဘောထား မညီမညွတ်သဖြင့် လေဘာပါတီကွဲကာ မက္ကဒေါ်နယ်လည်း အမျိုးမျိုး စွပ်စွဲခြင်းခံခဲ့ရ၏။ ၁၉၃၁ ခုနှစ်တွင် လေဘာအစိုးရ နုတ်ထွက်ခဲ့ရ၏။ သို့ငြားလည်း မက္ကဒေါ်နယ်သည် ကွန်ဆားဗတစ်၊ လစ်ဗရယ်နှင့် လေဘာပါတီတို့ ပါဝင်သော အမျိုးသားညွန့်ပေါင်း အစိုးရအဖွဲ့ကို နန်းရင်းဝန်အဖြစ် ခေါင်းဆောင် ဖွဲ့စည်းခဲ့ပြန်၏။ ၁၉၃၅ ခုနှစ်တွင် မက္ကဒေါ်နယ်သည် နန်းရင်းဝန်အဖြစ်မှ နုတ်ထွက်ခဲ့ရာ၊ သူ၏နေရာတွင် စတန်လေ ဗော်လဒွင်က နန်းရင်းဝန်အဖြစ် ထမ်းဆောင်၏။ နန်းရင်းဝန်အဖြစ်မှ နုတ်ထွက်ခဲ့သော်လည်း ပရီဗီကောင်စီ၏ ဥက္ကဋ္ဌအဖြစ် ဝန်ကြီးအဖွဲ့တွင် ဆက်လက်၍ ဆောင်ရွက်ခဲ့ရာ သူမကွယ်လွန်မီအချိန်ကလေးတွင်မှ နုတ်ထွက်ခဲ့၏။ မက္ကဒေါ်နယ်သည် ၁၉၃၇ ခုနှစ် နိုဝင်ဘာလ ၉ ရက်နေ့၌ တောင်အမေရိကတိုက်သို့ ခရီးထွက်စဉ် သင်္ဘောပေါ်၌ နှလုံးရောဂါဖြင့် ကွယ်လွန်သည်။ သူ၏ ရုပ်ကလာပ်ကို စစ်သင်္ဘောနှင့် ဆောင်ယူလာ၍ ဇာတိချက်ကြွေ လော့စီမောက်ရွာတွင်ပင် သင်္ဂြိုဟ်သည်။

မက္ကဒေါ်နယ်သည် 'ဆိုရှယ်လစ်ဝါဒနှင့် ပေါင်းသင်းဆက်ဆံရေးလောက' (၁၉၀၅)၊ 'ဆိုရှယ်လစ်ဝါဒ' (၁၉၀၇)၊ 'ဆိုရှယ်လစ်ဝါဒနှင့် အစိုးရ' (၁၉၀၉)၊ 'အိန္ဒိယပြည်နိုးကြားလာခြင်း' (၁၉၁၀) နှင့် အခြားစာအုပ်များကို ပြုစုရေးသားခဲ့သည်။

**မက္ကဒမ်,ဂျော အယ်** (ခရစ် ၁၇၅၆–၁၈၃၆)။ ။ ဂျွန်လူဒွန် မက္ကဒမ်သည် ခရစ် ၁၇၅၆ ခုနှစ် စက်တင်ဘာလ ၂၁ ရက်နေ့တွင် စကော့တလန်ပြည် အဲယားမြို့၌ ဖွားမြင်သည်။ ၁၇၇၀ ပြည့်နှစ်တွင် အမေရိကန်ပြည်ထောင်စု နယူးယော့မြို့ရှိ သူ၏ ဦးရီးတော်သူ ကုန်သည်ကြီးထံသွားရောက်၍ အလုပ် ကူညီလုပ်ကိုင်လေသည်။ နယူးယော့မြို့တွင် ၁၃ နှစ်ခန့် နေထိုင်ခဲ့ပြီးနောက် ကြေးငွေ အတော်အတန် စုဆောင်းမိသည်နှင့် စကော့တလန်ပြည်သို့ပြန်လာကာ အဲယားနယ်တွင် မြေကွက်များဝယ်၍ အခြေစိုက်လေသည်။

အဲယားနယ်တွင် မက္ကဒမ်သည် တရားသူကြီးနှင့် လမ်းဆက်သွယ်ရေးဆိုင်ရာ တာဝန်ခံ အဖွဲ့ဝင်တဦး ဖြစ်လာသည်။ ဗြိတိန် တနိုင်ငံလုံး၏ လမ်းများ အလွန်ညံ့ဖျင်း နေသည်ကို တွေ့သည့်အလျောက် ထိုလမ်းများကို ပြုပြင်ရန် စိတ်ကူးခဲ့လေသည်။ လမ်းပြင်ရန် ကောင်းသောအကြံဉာဏ်များကို ဆိုင်ရာတာဝန်ခံဘို့နှင့် တိုင်ပင်သောအခါ မည်သူမျှ သဘောမပေါက်ကြချေ။ ထိုကြောင့် မက္ကဒမ်သည် လမ်းတလမ်းကို



ကတ္တရာလမ်းခင်းနည်းသစ် ထွင်ခဲ့သူ ဂျော အယ် မက္ကဒမ်

သူ့စိတ်ကူးနှင့် သူ့စရိတ်သူ ထိန်းကာ ပြင်ဆင်စမ်းသပ်ကြည့်ရာ အောင်မြင်သည်ကို တွေ့ရသည်။ လမ်းကို ကျောက်ခဲများခင်း၍ မျက်နှာပြင် ချောမွတ်အောင် လုပ်ခြင်း၊ လမ်းပေါ်၌ ရေမတင်စေရန် စီမံခြင်း၊ လမ်းဘေးရေမြောင်းများ တူးခြင်းစသည်တို့ကို ပြုလုပ်လိုက်ရာ လမ်းများမှာ သွားလာရန် အထူးကောင်းမွန်လာသည်။ ထိုသို့ ရှေ့ဆောင်၍ တီထွင်လိုက်ရာ များမကြာမီ တိုင်းပြည်က အသိအမှတ် ပြုလာလေသည်။ ၁၈၁၅ ခုနှစ်တွင် သူသည် ဗရစ္စတိုလမ်းများအတွက် မြေတိုင်းမင်းကြီးအဖြစ် ခန့်ထားခြင်းခံရလေသည်။ သူသည် လမ်းပြုပြင်ရေးကို စိတ်ကူးနှင့်သာမဟုတ်၊ ၁၆ နှစ်လုံးလုံး (၁၇၉၈ မှ ၁၈၁၄ ခုနှစ်အတွင်း) အတိုင်းတိုင်း အပြည်ပြည်တွင် ကိုယ်တိုင်လှည့်လည် သွားလာ၍ လေ့လာကြံစည်သူဖြစ်သည့်အလျောက် သူ၏ လမ်းပြုပြင်ရေးလုပ်ငန်းသည် အထူးအောင်မြင်လေသည်။ လမ်းအသွားအလာချောမောအောင် ဆောင်ရွက်သူ ပုဂ္ဂိုလ်ကြီး ဖြစ်သဖြင့် စာဆိုတော် တွမ်မိုးက "ချောမွတ်သော မက္ကဒမ်" ဟုပင် မှည့်ခေါ် ဘူးလေသည်။ မက္ကဒမ်သည် လမ်းပြုပြင်ရေးနှင့် ဆိုင်သော စာအုပ်စာတမ်းများကို ရေးသားထုတ်ဝေသည်။ ၁၈၂၇ ခုနှစ်တွင် နေပြည်တော် လမ်းပန်းဆိုင်ရာ မင်းကြီးချုပ်အဖြစ် ခန့်အပ်ခြင်းခံရပြန်သည်။ ယခုအခါတွင် ကျွန်ုပ်တို့ တွေ့မြင်ကြရသော ကတ္တရာ လမ်းမကြီးများကား မက္ကဒမ်၏ ရှေ့ဆောင်တီထွင်

မှုမှ ရရှိသော အကျိုးကျေးဇူးများပင်တည်း။ တီထွင်သူ၏ အမည်နှဲ့ဖြင့် လိပ်ကျောက်ကုန်း ကတ္တရာ လမ်းခင်းခြင်းကို အင်္ဂလိပ်ဘာသာဖြင့် မက္ကဒမိုက်ဇင်းဟူ၍ ခေါ်ဆိုပေသည်။ ၁၈၁၈ ခုနှစ်တွင် အင်္ဂလိပ်အောက်လွှတ်တော်က သူ့အား ပေါင်တသောင်း ဂုဏ်ပြုဆုချခဲ့၏။ မက္ကဒမ်သည် ၁၈၃၆ ခုနှစ် နိုဝင်ဘာလ ၂၆ ရက်နေ့တွင် ဒမ်ဖရီးရှိုင်ယာနယ် မော့ဖတ်မြို့၌ ကွယ်လွန်အနိစ္စရောက်လေသည်။

**မက္ကာမြို့။** ။တမန်တော် မိုဟမ္မဒ်၏ ဇာတိချက်ကြွေ အရပ်ဖြစ်သောကြောင့် အစ္စလမ်အယူဝါဒီတို့ အထွတ်အမြတ်ထားရာ မက္ကာမြို့သည် အာရေဗျကျွန်းဆွယ်အတွင်းရှိ ဆအူဒီ အာရေဗျနိုင်ငံ ဟက်ဂျက်နယ်တွင် တည်ရှိသည်။ ယင်းနိုင်ငံ၏ မြို့တော်နှစ်ခုအနက် သာသနာရေးဆိုင်ရာ မြို့တော်ဖြစ်သည်။ ပင်လယ်နီ၏ ဆိပ်ကမ်းမြို့ဖြစ်သော ဂျစ်ဒါမြို့၏ အရှေ့ဖက် ၄၅ မိုင်ကွာတွင် ရှိသည်။ မက္ကာမြို့သည် ကျဉ်းမြောင်း၍ သဲထူထပ်သော ချိုင့်ဝှမ်းတွင် တည်ရှိလျက် အလျား ၂ မိုင်ခန့် အနံ ၃/၄ မိုင်ခန့်ရှိသည်။ မက္ကာမြို့တွင်းရှိ အိမ်များမှာ အုတ်တိုက်များဖြစ်၍ အများအားဖြင့် ၃ ထပ် ၄ ထပ် တက်ထားသည်။ လမ်းဘေးတွင် လူသွား သမံတလင်း စင်္ကြံမရှိပေ။ မက္ကာမြို့တွင် မိုးသည် တခါတခံမှသာ ရွာသွန်း၍ ရေရှားပါးသည်။ ယခုအခါတွင်မူ အရှေ့အရပ်သို့ တောင်ပေါ်မှ ရေကို ရေသွယ်မြောင်းဖြင့် သွယ်ယူထားပေပြီ။

မက္ကာမြို့သည် မိုဟမ္မဒ် မဖွားမီကပင် တည်ရှိသော ရှေးမြို့တမြို့ ဖြစ်၏။ ကုန်သွယ်ရေးလမ်းကြောင်းတွင် တည်၍ ကုန်သွယ်ရာ အချက်အခြာ ဌာနဖြစ်သည့်အပြင် ထိုစဉ်အခါက အာရေဗျတွင် ပြန့်ပွားလျက်ရှိသော ဘာသာအယူဝါဒ တခု၏ သာသနာဖြန့်ရာ အချက်အခြာဒေသလည်း ဖြစ်၏။ မက္ကာမြို့သည် ဟက်ဂျက်နယ်၏ အစိတ်အပိုင်းတခုဖြစ်သည့်အလျောက် တူရကီလူမျိုးတို့၏ လက်အောက်သို့ ရောက်ခဲ့ရသေးသည်။ ၁၉၁၄ – ၁၈ ခုနှစ်အတွင်း ဖြစ်ပွားသော ပဌမ ကမ္ဘာစစ်ကြီးအတွင်းကမှ ဟူစိန်အစ်ဗင်အလီ ခေါင်းဆောင်သော ပုန်ကန်မှု အောင်မြင်သောကြောင့် တူရကီ လက်အောက်မှ မက္ကာသည် ၁၉၁၆ ခုနှစ်တွင် လွတ်မြောက်ခဲ့သည်။ ၁၉၂၄ ခုနှစ်တွင် ဟူစိန်ဘုရင်အား နက်ဂျနိုင်ငံ စူလတန်ဘုရင် အစ်ဗင်ဆုအူးက အနိုင်ရသောကြောင့် မက္ကာသည် ဝဟာဗီတို့ လက်တွင်းသို့ ကျရောက်လေ၏။ ဟူစိန်ဘုရင် နန်းစွန့်၍ နန်းကိုဆက်ခံသော သားတော်အလီဘုရင်သည် ၁၉၂၅ ခုနှစ်တွင် ဝဟာဗီတို့၏ စူလတန်ဘုရင် အစ်ဗင်ဆုအူးအား လက်နက်ချသည်။ ၁၉၂၆ ခုနှစ်တွင် အစ်ဗင်ဆုအူးသည် မက္ကာမြို့၌ ဘုရင်အဖြစ်ကို ခံယူသည်။

မက္ကာမြို့သည် ငယ်ပင်ငယ်သော်လည်း ဤသို့အားဖြင့်



တမန်တော်မိုဟမ္မဒ်ဖွားမြင်ရာဖြစ်သော မက္ကာမြို့မှာ ဘုရားဖူးများဖြင့် အစဉ် စည်ကားလျက်ရှိသည်။




မက္ကာမြို့ရှိ ပလီနှင့် ကအ်ဗဟ်ကျောင်းတော်၊ ကျောက်တုံးနက်ကြီးတို့တည်ရာပြ ပုံစံဖြစ်သည်။ ပလ်သည် ပေါင်းကူးစကြံသဖွယ်ဖြစ်၍ အနံပေ ၆၀၀ နှင့် အလျားပေ ၇၀၀ ရှိသောကွက်လပ်ကို ဝန်းရံထားသည်။ ကအ်ဗဟ်မှာ အလယ်ဗဟိုတွင်ရှိ၍ ယင်း၏လက်ျာဖက်တွင်ကျောက်တုံးနက်ကြီးကို တွေ့မြင်နိုင်သည်။

မွတ်စလင်တို့ အထွတ်အမြတ်ထားရာ မြို့ဖြစ်သောကြောင့် ကမ္ဘာတွင် ထင်ရှားသည်။ မက္ကာမြို့သည် ကအ်ဗဟ်ကျောင်းတော်၊ ကျောက်တုံးနက်ကြီးနှင့် ပလီတို့တည်ရှိရာဒေသလည်း ဖြစ်သည်။ ပလီသည် ပေါင်းကူး စကြံသဖွယ်ဖြစ်၍ အနံပေ ၆၀၀ နှင့် အလျားပေ ၇၀၀ ရှိသော ကွက်လပ်ကိုဝန်းရံထားသည်။ ယင်းကွက်လပ်၏ အလယ်ဗဟိုတွင် ကအ်ဗဟ်တည်ရှိကာ ကအ်ဗဟ်၏ အရှေ့တောင်ဖက်ထောင့်တွင် ကျောက်တုံးနက်ကြီး တည်ရှိသည်။ လာရောက် ဖူးမြော်သူတို့သည် ကအ်ဗဟ်ကို ၇ ကြိမ် ပတ်ပြီးလျှင် ယင်းကျောက်တုံး နက်ကြီးကို နမ်းကြရသည်။

တမန်တော် မိုဟမ္မဒ်၏ မိန့်ကြားချက်အရ မွတ်စလင်မှန်လျှင် မက္ကာမြို့သို့ တသက်တွင် တခါသွားရမည် ဖြစ်၏။ သို့ဖြစ်သောကြောင့် ကမ္ဘာ့အရပ်ရပ်မှ မွတ်စလင်များသည် မက္ကာမြို့သို့ ရေကြောင်းဖြင့် တနည်း၊ ကြည်းကြောင်းဖြင့် တသွယ်၊ လေကြောင်းဖြင့်တဖုံ တကူးတကန့် သွားရောက်ကြ၍ ကျောက်တုံးနက်ကြီးကို ဖူးမြော်ဝတ်ပြုခြင်းဖြင့် အာပတ်ဖြေကြရကုန်၏။ဘုရားဖူးချိန်အခါရာသီမှာ အာရပ်ပြက္ခဒိန်အရ ၁၂ လမြောက်သော ကာလတွင်ဖြစ်၏။ ကမ္ဘာပေါ်ရှိ ဆင်းရဲချမ်းသာမရွေး လူတန်းစားအမျိုးမျိုးမှ မွတ်စလင်တို့ လာရောက်ကြသော ထိုအချိန်တွင် မက္ကာမြို့တွင် အလွန်စည်ကားပေ၏။ ထိုသို့ရောက်လာသူဘိုသည် မိမိတို့ ဝတ်ပြုဖွယ် အသွယ်သွယ်တို့ကို ပြီးမြောက်ကြသောအခါ ဟာဂျီဟူသောဘွဲ့ကို ရရှိကြ၏။

မက္ကာမြို့သည် လူဦးရေ ၂၅၀,၀၀၀ ခန့်ရှိ ဤမြို့ကလေးဖြစ်သော်လည်း ဘုရားဖူးများ လာရောက်ကြသောအခါ တည်းခိုနေထိုင်ကြရန် နေရာရှိပေသည်။ အချို့နှစ်များတွင် ဘုရားဖူး ၁၀၀,၀၀၀ ခန့်ပင် ရှိသည်။ ဘုရားဖူးတို့လိုအပ်သည့် ပစ္စည်းပစ္စယ စားဖွယ်သောက်ဖွယ်တို့ကို ရောင်းချပေးသွင်းခြင်းမှာ မြို့ခံများအတွက် စီးပွားရေး လုပ်ငန်းကြီးတခုဖြစ်၏။

မက္ကာမြို့တွင်းသို့ မွတ်စလင်များမှ လွဲလျှင် အခြားပုဂ္ဂိုလ်များကို ဝင်ခွင့်မပြုပေ။ သို့သော် မွတ်စလင်အသွင် ဆောင်၍ အတွင်းသို့ စွန့်စားဝင်ဘူးသော ဥရောပတိုက်သား တဦးတလေကား ရှိပေသည်။ မက္ကာမြို့သည် ဤသို့ဖြင့် အယူဝါဒခြားသူတို့ကို ဝင်ခွင့်မပြု၍ ပြင်ပလွှမ်းမိုးမှုကို မခံရသောကြောင့် နှစ်ပရိစ္ဆေဒ တလျှောက်လုံးပင် ရှေးထုံး စဉ်လာများကို ထိန်းသိမ်းနိုင်ခဲ့ပေသည်။

**မက္ကီအာဗဲလီ,အင်** (ခရစ် ၁၄၆၉ – ၁၅၂၇)။ ။ နီကိုလိုမက္ကီအာဗဲလီသည် ဣတာလျံလူမျိုး ထင်ရှားသော နိုင်ငံပြုသုခမိန်နှင့် စာရေးဆရာဖြစ်သည်။ နိုင်ငံရေးရာ၌ အလွန်လိမ်မာကျွမ်းကျင်၍ ပရိယာယ်ကြွယ်ဝသူဖြစ်၏။ မက္ကီအာဗဲလီသည် ၁၄၆၉ ခုနှစ် မေလ ၃ ရက်နေ့တွင် ဣတာလီပြည် ဖလော်ရင့်မြို့

၌ မွေးဖွားသည်။ သူသည် ကျကျနန ပညာဆည်းပူးသင်ယူရသည်မဟုတ်ဘဲ အလွတ်လေ့လာ သင်ယူခဲ့ရ၏။ မက္ကီအာဗဲလီ၏ ငယ်ရွယ်စဉ်ဘဝအကြောင်းကို အသေအချာမသိရပေ။ မက္ကီအာဗဲလီသည် မဲဒီချီတို့ ဖလောရင့်မြို့မှ နှင်ထုတ်ခံရပြီးနောက် ၄ နှစ်အကြာ ၁၄၉၈ ခုနှစ်မှစ၍ ထင်ရှားလာပေသည်။ သူသည် ဖလောရင့်သမတနိုင်ငံ ကောင်စီ အဖွဲ့၏ အတွင်းရေးမှူးအဖြစ် ၁၄ နှစ်ဘိုင်တိုင် အမှုထမ်းဆောင်ခဲ့သည်။ ဤသို့ ထမ်းဆောင်ခဲ့စဉ် နေရာအနှံ့အပြားသို့ သွားရောက်၍ ခက်ခဲနက်နဲသော နိုင်ငံရေးဆက်သွယ်မှု ကိစ္စများတွင် တာဝန်ယူခဲ့ရသည်။ ဤသို့အားဖြင့် မက္ကီအာဗဲလီသည် ထိုခေတ်က ဆိုးသွမ်းရာ၌ ကျော်ကြားသည့် ဆီဇာ ဗောဂျနှင့် ကြုံတွေ့အဆက်အသွယ် ပြုခဲ့ရပြီးလျှင် ကောင်းသောနည်းဖြင့် ပြုလုပ်သည်ဖြစ်စေ၊ မကောင်းသောနည်းဖြင့် ပြုလုပ်သည်ဖြစ်စေ မိမိရည်ရွယ်ရင်းအောင်မြင်ခြင်းသည်သာ ပဓာနဟူသော ဗောဂျ၏ဝါဒကို နှစ်သက် အားကျမိလေသည်။

၁၅၁၂ ခုနှစ်၌ မဲဒီချီဆွေမျိုးစု တန်ခိုးအာဏာ ပြန်လည်ရရှိသောအခါ မက္ကီအာဗဲလီသည် ရာထူးမှ နုတ်ပယ်ခြင်း ခံရရုံသာမကဘဲ ထောင်သွင်း အကျဉ်းချ ညှဉ်းပန်း နှိပ်စက်ခြင်းကိုပင် ခံရ၏။ သို့သော် ပုပ်ရဟန်းမင်း ဒဿမလီယိုက ခွင့်လွှတ်သဖြင့် လွတ်မြောက်ခဲ့ရလေသည်။ ယင်းသည့်နောက် မက္ကီအာဗဲလီသည် နိုင်ငံရေးတွင် စိတ်မဝင်စားတော့ဘဲ စာပေများကိုရေးသားခဲ့၏။ သမိုင်း၊ ကဗျာနှင့် ဟာသပြဇာတ်အများအပြား ရေးသားခဲ့သည်။ ဥာဏ်သစ်အရေးပုံခေတ် စာပေဖက်တွင် ထင်ရှားသူတဦး ဖြစ်လေသည်။



ဣတာလျံ နိုင်ငံပြုသုခမိန် မက္ကီအာဗဲလီသည် နာမည်ကျော် စာရေးဆရာလည်း ဖြစ်သည်။

မက္ကီအာဗဲလီသည် 'ဖလောရင့်သမိုင်း'၊ 'စစ်အတတ်'၊ 'လီဗီ၏ပဌမ ၁၀ အုပ်ကို ဆွေးနွေးခြင်း'၊ 'မင်းသား' အစရှိသည်တို့ကို ရေးသားခဲ့ရာ၊ 'မင်းသား' မည်သော စာအုပ်ဖြင့် ထင်ရှားခဲ့ပေသည်။ ထိုစာအုပ်တွင် တိုင်းပြည် အုပ်ချုပ်မင်းလုပ်သူသည် ရည်မှန်းချက်တခု ပြီးမြောက်အောင်မြင်ရန် ဆောင်ရွက်ရမည့် နည်းလမ်းများအတွက် စိုးရိမ်ကြောင့်ကြဖြစ်နေစရာမလို ဟူသော သဘောတရားကို လိမ်မာကျွမ်းကျင်စွာဖော်ပြထားလေသည်။ သူသည် ရန်သူတို့ကို နှိမ်နင်းရန်နှင့် မိမိ၏ဟိုင်းသူပြည်သားများက မိမိ၏အမိန့်ကို နာခံလာစေရန်အတွက် မည်မျှပင် ယုတ်မာသည့် နည်းလမ်းများဖြစ်စေကာမူ အသုံးပြုရမည်ဟုလည်းဆိုလေသည်။ အာဏာလက်ရှိ ပြုထားနိုင်ရေးအတွက် လိုက်နာရမည့်ကျင့်စဉ်များကိုလည်း ဖော်ပြထားသည်။ မက္ကီအာဗဲလီသည် ၁၅၂၇ ခုနှစ် ဇွန်လတွင် ကွယ်လွန်သည်။

**မက္ကင်းနစ်ပညာ။** ။ရှေးပဝေဏီက လူတို့သည် စက် အကြောင်းကို ဘာမျှ မသိနားမလည်ကြသေးသော်လည်း နေ့စဉ်နှင့်အမျှ လုပ်ကိုင်လျက်ရှိသော သူတို့၏လုပ်ငန်းဆောင်တာများသည် စက်သဘော သက်ရောက်လျက်ရှိခဲ့ပေသည်။ တုတ်တချောင်းဖြင့် အရာဝတ္ထုတခုကို ရွှေလိုက်သောအခါ၌၎င်း၊ ပစ္စည်းတခုကို အမြင့်သို့ တင်လိုက်သောအခါ၌၎င်း စက်သဘောသက်ဝင်သည်ကို သူတို့ မသိကြချေ။ သို့သော် အချိန်ကာလအားလျော်စွာ အသိပညာဥာဏ် တိုးတက်လာ၍ စက်သဘောကို တဖြည်းဖြည်း သိရှိလာကြသောအခါ လေးသောဝန်ကိုရွှေရာ၌ တုတ်များကို ကုတ်ကဲ့သို့ အသုံးပြုနိုင်ကြောင်း သဘောပေါက်လာကြသည်။ ထို့အတူ စောင်းပြင်ကို အသုံးပြုခြင်းအားဖြင့် သက်သက်သာသာနှင့် လေးသောဝန်ကို အမြင့်သို့တင်နိုင်ကြောင်းကိုလည်း သိလာခဲ့ကြသည်။ စက်ဟုဆိုလျှင် မောင်းတံ၊ မောင်းလက်၊ ဘီးစသည်တို့ဖြင့် ရှုပ်ထွေးစွာ တပ်ဆင်စီစဉ်ထားသော အဆောက်အအုံဟုသာ ထင်မှတ်တတ်ကြသည်။ စက်တိုင်းလည်း ထိုကဲ့သို့ အဆောက်အအုံများ မဟုတ်ကြပေ။ ဆိတ်ချိတူ၊ တူးရွင်း၊ မောင်းတက်၊ကွမ်းညှပ်စသောပစ္စည်းများသည် တနည်းအားဖြင့် စက်များပင် ဖြစ်ကြသည်။ ထိုစက်မျိုးကို အခြေခံစက်မျိုးဟု ခေါ်သည်။ ကျွန်ုပ်တို့သိရှိကြသော သင်္ဘောစက်၊ လှစက်၊ ဆန်စက်စသော ရှုပ်ထွေးစွာ တပ်ဆင်စီစဉ်၍ ခုတ်မောင်းနေကြသည့် စက်များကား ထိုအခြေခံစက်မျိုးများပေါ်တွင် အခြေပြု၍ တည်ဆောက်ထားသော စက်များသာ ဖြစ်ကြလေသည်။

အခြေခံစက်မျိုးများကို (၁) ကုတ်၊ (၂) ရစ်လုံးနှင့်ရစ်တံ၊ (၃) စက်သီး၊ (၄) စောင်းပြင်၊ (၅) သပ်၊ (၆) ဝက်အူ ဟူ၍ ၆ မျိုး ပိုင်းခြားထားသည်။ ရှုပ်ထွေးစွာ တပ်ဆင်ထားသော စက်များမှာ ထိုအခြေခံစက်မျိုးများကို တမျိုး၊ ၂ မျိုး၊ ၃ မျိုးစသည်ဖြင့် စပေါင်းဆက်စပ်၍ စီစဉ်ထားခြင်းပင်ဖြစ်သည်။ ထို့ကြောင့် ဤကမ္ဘာကြီးတွင် တိုးတက်လျက်ရှိသော စက်ကရိယာတို့၏ အခြေခံဖြစ်သော ဤစက် ၆ မျိုးကို ကျွန်ုပ်တို့ သိအပ်လှပေသည်။

ကုတ်ဟူသည်မှာ လည်ချက်ကို အကြောင်းပြု၍ အသုံးချရသော မာကျောသည့် တုတ်တံ တုတ်ချောင်းများပင် ဖြစ်သည်။ သံတူးရွင်း၊ မောင်းတက်၊ ဇာဂနာ၊ ချိန်ခွင်ပေါင် စသော အသုံးအဆောင်များသည်လည်း ကုတ်အမျိုး အစားတွင် ပါဝင်သည်။ ကုတ်၏ သဘောကို အောက်ပါပြယုဂ်ဖြင့် သိသာနိုင်၏။

မီတာတံတခုကိုအလည်တည့်တည့်၌ဖောက်၍ဆွဲထားပါ။ ထိုအခါ မီတာတံသည် ဆွဲထားရာအချက်၌ လည်နိုင်သောကြောင့် ထိုအချက်ကို လည်ချက်ဟုခေါ်သည်။ ဂရမ် ၅၀ အလေးကို လည်ချက်နှင့် ၃၀ စင်တီမီတာကွာသောနေရာ၌ ဆွဲထား၍ လည်ချက်၏အခြားတဖက်တွင် ဂရမ် ၁၀၀ အလေးကို ဆွဲပြီးလျှင် မီတာတံကို ရေပြင်ညီတန်းနေအောင် ညှိပေးပါ။ ထိုသို့ ညှိပေး၍ ရေပြင်ညီတန်းနေသောအခါ ဂရမ် ၁၀၀ အလေးသည် လည်ချက်နှင့် ၁၅ စင်တီမီတာအကွာ၌ ရှိသည်ကို တွေ့ရလိမ့်မည်။ အလေးကို အမျိုးမျိုး ပြောင်း၍ဖြစ်စေ၊ အကွာအဝေးကို အမျိုးမျိုးပြောင်း၍ဖြစ်စေ စမ်းသပ်ကြည့်ပါ။ မီတာတံသည် ရေပြင်ညီတန်းနေသည့်အခါတိုင်းတွင် လည်ချက်၏ တဖက်တချက်၌ ဆွဲချထားသော အလေးများနှင့် ထိုအလေးတို့၏လည်ချက်မှ အကွာအဝေးတို့၏ မြှောက်ရကိန်းချင်း တူညီနေသည်ကို တွေ့ရလိမ့်မည်။




အထက်ပါ မီတာတံ၌တွင် တွေ့ရသည့်အတိုင်း

၅၀ ဂရမ်×၃၀ စင်တီမီတာ = ၁၀၀ ဂရမ်×၁၅ စင်တီမီတာ

၁၅၀၀ = ၁၅၀၀

ဤအချက်တွင် ၅၀ ဂရမ်ကို စိုက်အား ဟုခေါ်နိုင်၍ ၁၀၀ ဂရမ်ကို ဝန်ဟုခေါ်နိုင်သည်။ လည်ချက်နှင့် စိုက်အား၏ အကွာအဝေးကို စိုက်အားမောင်းတံဟူ၍၎င်း၊ လည်ချက်နှင့် ဝန်အကွာအဝေးကို ဝန်မောင်းတံဟူ၍၎င်း ခေါ်သည်။




ထို့ကြောင့် ကုတ်၏သဘောမှာ စိုက်အားနှင့် စိုက်အားမောင်းတံ၏ မြှောက်ရကိန်းသည် ဝန်နှင့် ဝန်မောင်းတံတို့၏ မြှောက်ရကိန်းနှင့် တူညီခြင်းပင်ဖြစ်၏။ ဤမူအရစိုက်အားမောင်းတံကို ရှည်ရှည်ထား၍ဝန်မောင်းတံကို တိုတိုထားခြင်းအားဖြင့် စိုက်အားနည်းနည်းနှင့် အလွန်လေးသောဝန်ကို ပင့်နိုင် တွန်းရွှေ့နိုင်လေသည်။ ပုံပမာ၊ စိုက်အားမောင်းတံကို ပေ ၁၅၀ ထားပြီးသော် စိုက်အား ၁၀ ပိဿာလောက်နှင့် ဖိချမည်ဆိုလျှင် ဝန်မောင်းတံ ၁၅ ပေဘွင် ဝန်ပိဿာ ၁၀၀ ကို မနိုင်လေသည်။

၁၀ ပိဿာ× ပေ ၁၅၀ = ၁၀၀ ပိဿာ×ပေ ၁၅

၁၅၀၀ = ၁၅၀၀

လည်ချက်၏ တည်နေပုံ နေရာကို လိုက်၍ ကုတ်များကို သုံးမျိုးသုံးစား ခွဲခြားထားသည်။ ပဌမ အမျိုးမှာ ဝန်နှင့် စိုက်အားတို့သည် လည်ချက်၏ တဖက်တချက်တွင်ရှိ၍ ဝန်သည် လည်ချက်နှင့် သာ၍နီးသည်။ ထို့ကြောင့် သာမန် စိုက်အားဖြင့် အလွန်လေးလံသောဝန်ကို ဤကုတ်မျိုးနှင့် ကော်လျှင်ရနိုင်သည်။ ပြယုဂ်မှာ သံတူးရွင်း၊ ရေမောင်းတက် စသည်တို့ဖြစ်ကြ၏။ ဒုတိယအမျိုးမှာ စိုက်အားနှင့် လည်ချက်တို့သည် အစွန်းတဖက်စီ၌ရှိ၍ ဝန်သည် ထိုနှစ်ခု၏ အကြား၌ရှိသည်။ ပြယုဂ်မှာ ကွမ်းညှပ်ဖြစ်၏။ တတိယအမျိုးမှာ စိုက်အားသည် လည်ချက်နှင့် ဝန်တို့၏ အကြား၌ ရှိ၍၊ ပြယုဂ်မှာ မီးညှပ်၊ ဇာဂနာ စသည်တို့ဖြစ်လေသည်။




ထို့ကြောင့် အခြေခံ စက်တမျိုးဖြစ်သည့် ကုတ်၏ သဘောကို အသုံးချကာ စိုက်အားနည်းနည်းကို စိုက်အားမောင်းတံရှည်ရှည်ဖြင့်တွဲ၍ အသုံးပြုခြင်းအားဖြင့် စိုက်အားထက်လေးသည်ကို မ နိုင်ပေသည်။ မော်တော်ကားကို ဂျက်နှင့်ထောက်မပုံ၊ သစ်တုံးကို ကုတ်နှင့် ကော်ပုံဘို့မှာ ကုတ်သဘောကို အသုံးချထားပုံ သာဓကများပင် ဖြစ်လေသည်။

ရစ်လုံးနှင့် ရစ်တံ၏ သဘောမှာ စွန်လွှတ်ကစားရာ၌ အသုံးပြုသော ရစ်လုံး၏ သဘောပင်ဖြစ်သည်။ ဝင်ရိုးတံ တခုတည်းပေါ်တွင် ရစ်လုံးအကြီးတခုနှင့်အငယ်တခုကို တပ်ဆင်

ထားသည်ဆိုပါစို့။ ရစ်လုံးများကို ဘီးဟုခေါ်၍ ရစ်တံမှာ ဝင်ရိုးပင်ဖြစ်သည်။ ဘီးနှစ်ခုစလုံးပေါ်တွင် ကြိုးတချောင်းစီ တပ်ထားခဲ့သော်၊ ဘီးအကြီးရှိ ကြိုးတွင် စိုက်အားပေးခြင်း အားဖြင့်၊ ဘီးငယ်ရှိ ကြိုးမှ စိုက်အားထက် လေးသော ဝန်ကို မ နိုင်လေသည်။ သဘောမှာ ကုတ်သဘောအတိုင်း ဖြစ်၏။ ကျောက်ဆူးနုတ်စက်၊ တက်မကိုင်ဘီး၊ ကြံရည် ကြိတ်စက် စသည်တို့သည် ရစ်လုံးနှင့် ရစ်တံသဘောကို အသုံးချထား သည့် သာဓကများပင် ဖြစ်လေသည်။

အခြား အခြေခံ စက်တမျိုးမှာ စက်သီးဖြစ်၍ စက်သီး သေနှင့် စက်သီးရှင်ဟူ၍ နှစ်မျိုး နှစ်စား ရှိ၏။ စက်သီးသေ တွင် စိုက်ထုတ်ရသောအားသည် တိုးပွားခြင်းမရှိသော်လည်း စိုက်အား၏လားရာ လမ်းကြောင်းသည် ပြောင်းလဲ သွား သည်။ ဤစီစဉ်ပုံမျိုးတွင် ဝန်တခုကို တိုက်ရိုက် ဆွဲတင်ရ သည်ထက် စက်သီးဖြင့် ဆွဲတင်ရသည်က သက်သာသည်။ ရေငင်ရာတွင် ကြိုးကို အောက်သို့ ဆွဲချခြင်းအားဖြင့် ရေပါ လာသောပုံးသည် အပေါ်သို့ ရောက်လာသည်။ ဤတွင်စိုက် အား တပေရွေ့လျှင် ဝန်လည်း တပေသာ မြင့်တက်သည်။ သို့သော် စက်သီး၏ အကူအညီကြောင့် ရေပုံးကို တိုက်ရိုက် ဆွဲမတင်ရဘဲ ကြိုးကို ဆွဲချရုံနှင့် ရေပုံးတက်လာသည့် အ တွက် ရေငင်ရသူအဖို့ သက်သာသည်။ စက်သီးရှင်တွင်မူ စက်သီးကို ကြိုးနှစ်ပင်ဖြင့် ဆိုင်းထား၍ ဝန်ကို စက်သီးတွင် ချိန်ထားသည်။ ယင်းသို့ဖြင့် ဆိုင်းကြိုးတပင်သည် ဝန်၏ တဝက်ကို ထိန်းထားရသောကြောင့် စိုက်အားသည် ဝန်၏ တဝက်နှင့် ညီမျှလေသည်။ ထိုကြောင့် စက်သီးသေဖြင့် ဝန် တခုကို လူ ၆ ယောက် ဆွဲရလျှင် အထက်ပါ စက်သီးရှင်မျိုး ဖြင့် လူ ၃ ယောက်သာ ဆွဲရန်လိုပေသည်။

စက်သီးတလုံးကို အသေတပ်ထား၍ အခြား စက်သီး တ လုံးနှစ်လုံး စသည်တို့ကို အရှင်တပ်ထားသော အစီအစဉ်မျိုး ကိုလည်း ပြုလုပ်နိုင်သည်။ ဤအစီအစဉ်မျိုးဖြင့် အထက် ဖော်ပြပါ စက်သီးမျိုးမှာထက် ဝန်ကို ပို၍ ဆွဲတင်နိုင်၍ ဤ နည်းကို ကုန်တင်ကုန်ချ မောင်းတံများတွင် အသုံးပြုလေ့ရှိ ကြသည်။ (စက်သီး — လည်းရှု။)

အလေးချိန် စီးသော အရာဝတ္ထုတခုကို အမြင့်သို့ ဆွဲ တင်လိုသောအခါ တည့်တည့် မတ်မတ် ဆွဲတင်မည့် အစား စောင်းပြင်ဖြင့် ကုန်းဘောင်ထိုးပြီးနောက် လှိမ့်၍ သော်၎င်း၊ တွန်း၍သော်၎င်း သက်သက်သာသာ တင်နိုင်သည်။ ယင်း သို့ စောင်းပြင်ဖြင့် တွန်းတင်ခြင်းအားဖြင့် ပြီးမြောက်သော အလုပ်သည် တည့်တည့်မတ်မတ် ဆွဲတင်ရသောအခါ ပြီး မြောက်သော အလုပ်နှင့် အတူတူပင် ဖြစ်၏။ ရှေးခေတ် အီ ဂျစ်လူမျိုးတို့သည် ပိရမစ်ခေါ် အလွန်ကြီးမားသော ထုချွန် ပုံ အဆောက်အအုံကြီး များကို တည်ဆောက် ကြစဉ်က စောင်းပြင်များကို အသုံး ပြုခဲ့ကြသည်ဟု ဆိုလေသည်။

သပ်၏သဘောမှာ စောင်းပြင်နှစ်ခုစပ် သဘောပင်ဖြစ် သည်။ ပုဆိန်များ၊ ဓားများ၊ ဆောက်များသည် သပ်များ ပင် ဖြစ်ကြ၏။

ဝက်အူ၏ သဘောမှာလည်း စောင်းပြင်၏ သဘောပင် ဖြစ်သည်။ ဝက်အူတွင် ဝက်အူရစ်တခုနှင့် နောက်တခု၏ အ ကွာအဝေး၊ သို့မဟုတ် ဝက်အူရစ်၏ အထုအပါးသည် တည့် တည့်မတ်မတ် အမြင့်ဖြစ်သည်။ဝက်အူ၏အဝန်းသည်စောင်း ပြင်၏ အလျားဖြစ်သည်။ လက်သမားသုံး ဝက်အူများ အ ပြင် ဂျက်ကဲ့သို့ လက်ကိုင်တပ်၍ လှည့်ရသော ကရိယာများ သည်လည်း ဝက်အူရစ်ဖြင့်ပင် မြောက်ရသည်။ သာမန်အား ဖြင့် လက်ကိုင် တပတ်လည်လျှင် ဝက်အူတထစ်အဆင်းသော် ၎င်း၊ အတက်သော်၎င်း ရှိတတ်ပေသည်။

ဤကား မက္ကင်းနစ်ခေါ် ရူပဗေဒပညာရပ်ခွဲတွင် အရင်း ခံဖြစ်သည့် အခြေခံ စက် ၆ မျိုး၏ သဘောဖြစ်၍ ရှုပ်ထွေး လှသော လျှပ်စစ်ဒိုင်နမို၊ လျှပ်စစ်မိုတာတို့မှာ ဤအခြေခံ စက် ၆ မျိုးကို မူတည်ထားသည့် ပစ္စည်းများသာ ဖြစ်ကြ လေသည်။

တန်တားများကို ဖြတ်ကျော်သောအခါ "အများဆုံး ဝန် ၁၀ တန်" စသည်ဖြင့် ရေးမှတ် ထားသည်ကို တွေ့ရဘူးကြ ပေမည်။ ယင်းသို့ ရေးမှတ်ထားခြင်းမှာ ရမ်းဆ၍ ရေးထား ခြင်း မဟုတ်ချေ။ တန်တားမဆောက်လုပ်မီကပင် အင်ဂျင် နီယာသည် တန်တား၏ ပုံစံကို တိကျစွာ ရေးဆွဲပြီးနောက် တန်တားမည်မျှ အလေးစီးမည်၊ ဝန်အများဆုံး မည်မျှ ခံနိုင် မည် စသည်တို့ကို အသေအချာ တွက်ချက်ပြီးမှ ဤသို့ မှတ် သား ဖော်ပြထားခြင်း ဖြစ်ပေသည်။ တန်တား ဆောက် လုပ်ရာ၌ဖြစ်စေ၊ အဆောက်အအုံ ဆောက်လုပ်ရာ၌ ဖြစ်စေ ဖြစ်ပေါ်လာသော အားတို့သည် ရွေ့လျားခြင်း မရှိ၊ တည် ငြိမ် မြဲမြံစွာ ရှိကြ၏။ ယင်းသို့ တည်ငြိမ်လျက် ရှိသော အားအကြောင်းနှင့် စပ်လျဉ်း၍ ဖော်ပြသော စက်ပညာကို "စတက်တစ် ပညာ" ဟု ခေါ်သည်။ ထိုတည်ငြိမ်သောအား ကို မျှတသောအားဟုလည်း ခေါ်သည်။ အားများသည် မျှ တမှုရှိသောအခါ တည်ငြိမ်လျက်ရှိလေသည်။

အရာဝတ္ထု တခုပေါ်သို့ သက်ရောက်သော အားသည် မျှတမှု မရှိသောအခါ တည်ငြိမ်၍ မနေဘဲ လှုပ်ရှား ရွေ့ သွားလေသည်။ ရေနွေးငွေ့ဖြင့် မောင်းသော အင်ဂျင်စက် တွင် ပြွတ်တံခေါင်း( ပစ်စတန်) ပေါ်သို့ သက်ရောက်သော ရေနွေးငွေ့အားသည် တဖက်သတ်အားကြီးနေသောကြောင့် ပြန်ကြပ်လှုပ်ရှားရသည်။ ထိုလှုပ်ရှားမှုသည် ပြွတ်တံခေါင်းမှ မောင်းတံသို့၊ မောင်းတံမှ အခြားကရိယာ အစိတ်အပိုင်း များသို့ ရောက်သွားကာ စက်ကို လည်စေသည်။ မီးရထား တွင် ယင်းသို့ "မမျှတသောအား" သက်ရောက်မှုကြောင့် နောက်ဆုံး၌ မီးရထား တခုလုံး လှုပ်ရှား ရွေ့သွားရခြင်းဖြစ်

လေသည်။ ဤသို့ရွေ့သွားမှု ရှိသော စက်ပညာကို "ဒိုင်နမစ်ပညာ" ဟုခေါ်သည်။

မမျှတသောအား သက်ရောက်မှုကြောင့် ရွေ့သွားခြင်းဖြစ်ပေါ်လာပုံကို တစုံတရာ အထောက်အခံမရှိသည့် အရာဝတ္ထုတခုဖြင့် ပြသနိုင်သည်။ ထိုအရာဝတ္ထုတို့ မြေသို့ကျရခြင်းမှာ မြေ၏ ဆွဲအားကြောင့်ဖြစ်သည်။ မြေဆွဲအားသည် ကျလာသော အရာဝတ္ထုတို့တွင် တသမတ်တည်းသောတိုးရှိန်ကို ဖြစ်စေသည်။ ထိုတိုးရှိန်မှာ ပျမ်းမျှအားဖြင့် စက္ကန့်တိုင်းတွင် တစက္ကန့်လျှင် ၃၂ ပေနှုန်းနှင့် တိုးလာသည်။ အတိုကောက်အားဖြင့် ၃၂ ပေစက္ကန့် စက္ကန့်ဟုဆိုရ၏။ ငြိမ်သက်စွာ တည်နေရာမှ ကျဆင်းလာသော အရာဝတ္ထုတခုသည် တစက္ကန့်တွင် ၁၆ ပေ၊ နှစ်စက္ကန့်တွင် ၆၄ ပေ၊ သုံးစက္ကန့်တွင် ၁၄၄ ပေသို့ ကျဆင်းလာသည်။ ယင်းသို့ ကျဆင်းသည့် ခရီးအကွာအဝေးကို $s = ut + \frac{1}{2} ft^2$ ဟူသော ပုံသေနည်းဖြင့် တွက်ယူကြရသည်။ ထိုပုံသေ တွက်နည်းတွင် s သည် ခရီးအကွာအဝေး (ပေပေါင်း)၊ u သည် ပင်ကိုယ် အသွားနှုန်း၊ t သည် ကြာသော အချိန် (စက္ကန့်ပေါင်း)၊ f သည် တိုးရှိန် (၃၂ ပေ စက္ကန့် စက္ကန့်)တို့ ဖြစ်လေသည်။

ဤနည်းဖြင့် လေယာဉ်ပျံ တစင်းပေါ်မှ အရာဝတ္ထုတခုသည် အထက်နည်းအတိုင်း ကျဆင်းလာခဲ့လျှင် ၁၀ စက္ကန့်တွင် ပေပေါင်း မည်မျှကျမည်ကို တွက်ယူနိုင်သည်။ အထက်တွင် တိုးရှိန်မှာ ၃၂ ပေဖြစ်ရာ ပုံသေနည်း $s = ut + \frac{1}{2} ft^2$ အရ

$$S = 0\times10 + \frac{1}{2}\times32\times(10)^2$$
$$= 0 + \frac{1}{2}\times32\times100$$
$$= 1600 \text{ ပေပေါင်း}$$

တစုံတရာ အထောက်အခံမရှိလျှင် မည်သည့် အရာဝတ္ထုမဆို မြေသို့ကျရသည်။ ကျရသည်မှာ မြေကြီးက ဆွဲသောကြောင့်ပင် ဖြစ်သည်။ မြေဆွဲအားသည် ကျသော အရာဝတ္ထုတို့တွင် တသမတ်တည်းသော တိုးရှိန် ဖြစ်စေသည် ဟူသော တွက်နည်းကိန်းများကို ရှေးဦးစွာ စတင်ဖော်ပြသူမှာ ဂယ်လီလေအို အမည်ရှိသော သိပ္ပံပညာကျော်ပင် ဖြစ်သည်။ ဂယ်လီလေအို ခေတ်မတိုင်မီက လေးလံသော အရာဝတ္ထုသည် ပေါ့ပါးသော အရာဝတ္ထုထက် အကျမြန်သည်ဟု ယုံမှတ်ခဲ့ကြသည်။ ထိုယူဆချက် မှားယွင်းပုံကို ဂယ်လီလေအိုသည် ပီစာမြို့ရှိ ယိုင်နေသောမျှော်စင်ထက်မှ အမြောက်ဆံနှင့် သေနတ်ကျည်ဆံတို့ကို တပြိုင်တည်းချပြခြင်းအားဖြင့် ထင်ရှားစေခဲ့သည်။ ထိုနောက် နျူတန်အမည်ရှိသော သိပ္ပံပညာကျော်ခေတ်တွင် ကြေးပြားဝိုင်းနှင့် ငှက်တောင်ကို လေမရှိသော ပြောင်းလုံးအတွင်း၌ ပြိုင်တူချကြည့်ရာ ကျပုံချင်းတူသည်ကို သိရှိခဲ့ကြပြန်လေသည်။

တိုးတက်လျက် ရှိသော ယခုခေတ်သိပ္ပံပညာတွင် စက်အမျိုးမျိုးကို အသုံးပြုလျက် ရှိကြ၏။ ထိုပြင် ရွေ့သွားပုံကို အကြောင်းပြု၍ အလင်းလှိုင်းများ၊ အိပ်စရေးလှိုင်းများ၊ ဝိုင်ယာလက် စသည်တို့ကိုလည်း လေ့လာသင်ကြားလျက်ရှိကြရာ၊ အမျိုးမျိုးသော ရွေ့ရှားမှုတို့သည် နျူတန်၏ ရွေ့ရှားမှုစည်းများမှ ပေါက်ဖွားလာသော ဒိုင်နမစ်ပညာပေါ်တွင် အမှီပြုလျက် ရှိလေသည်။ နျူတန်၏ ရွေ့လျားမှုစည်းမှာ ၃ ခုရှိ၏။ ယင်းတို့မှာ (၁) ပြင်ပမှ အားတခုခု သက်ရောက်ခြင်း မရှိသမျှ ကာလပတ်လုံး အရာဝတ္ထုတိုင်းသည် တည်ငြိမ်၍ သော်၎င်း၊ တသမတ်တည်း ဖြောင့်ဖြောင့်ရွေ့၍သော်၎င်း နေသည်။ (၂) အဟုန်၏ ပြောင်းလဲပုံသည် သက်ရောက်သော အား၏ လားရာအတိုင်းပင် ဖြစ်သည်။ (၃) သက်ရောက်မှုတိုင်းတွင် တူညီ၍ ဆန့်ကျင်ဖက်ကျသော တုံ့ပြန်မှု အစဉ် ရှိသည်။

**မက္ခရာမင်းသားကြီး** (မြန်မာ ၁၁၅၃–၁၂၁၀)။ ။မက္ခရာမင်းသားကြီးသည် ဘကြီးတော် ဘုရား၏ဦးလေးလည်း ဖြစ်သည်။ ယောက္ခမလည်းဖြစ်သည်။ ကုန်းဘောင်ခေတ်မင်းညီ မင်းသားများအနက် ခေတ်မီ၍ ဉာဏ်အမြော်အမြင်ဖြင့် ပြည့်စုံကာ ထူးခြားသော ပုဂ္ဂိုလ် တဦးဖြစ်ကြောင်းဖြင့် ဘကြီးတော်ဘုရားလက်ထက် အရှေ့အိန္ဒိယ ကုမ္ပဏီ၏ ကိုယ်စားလှယ်အဖြစ် ရောက်ရှိလာသော ကက်ပတိန် (နောင်သော် မေဂျာ) ဗားနေး (မယ်စယ်ဘော်ရနီ) က မှတ်တမ်း တင်ခဲ့ပေသည်။ တဖန် ဘကြီးတော် ဘုရားလက်ထက်တွင် ရောက်ရှိလာသော အမေရိကန် သာသနာပြု ဂျပ်ဆန် (ဆရာ ယုဒသန်)ကလည်း မက္ခရာမင်းသားကြီးသည် ဗုဒ္ဓ အယူဝါဒကို ကောင်းစွာ တတ်မြောက် ကျွမ်းကျင်သည်ဟု မှတ်ချက်ချပေသည်။ ဤသို့ဖြင့် နိုင်ငံခြားသားတို့၏ လေးစားမှုကို ခံရသော ပုဂ္ဂိုလ်ကြီးဖြစ်၏။

မက္ခရာ မင်းသားကြီးကား အမရပူရ ပဌမမြို့တည် နန်းတည် ဗဒုံမင်းတရား (ဘိုးတော်ဘုရား) နှင့် ဒုတိယမြောက်နန်း မိဖုရား သိရိမဟာရတနာဒေဝီတို့မှ သက္ကရာဇ် ၁၁၅၃ ခုနှစ်တွင် ဖွားမြင်တော်မူသော သားတော်ဖြစ်၍ ငယ်မည်မှာ မောင်ပျိုး၊ ဘွဲ့တော် မင်းရဲကျော်စွာတည်း။ မက္ခရာ ဗန္ဓကျီတိုက်များကို ကံကျေးခံရသည်။ ခမည်းတော် ဗဒုံ မင်းတရား လက်ထက်ကပင် တိုင်းရေးပြည်မှု အစုစုတို့တွင် ပါဝင်ထမ်းရွက်သဖြင့် အဆင့်ဆင့် ချီးမြှင့်မြှောက်စားတော်မူခြင်း ခံရ၏။ တူတော်များဖြစ်သော ဘကြီးတော်နှင့် သာယာဝတီမင်း (ရွှေဘိုမင်း) တို့ လက်ထက်များတွင်လည်း ရာထူးဌာနန္တရနှင့် လေးစားခြင်းခံရသည်။ သို့သော် နန်းတွင်းရေး၌ ပါဝင်နိုင်သော်လည်း မပါဝင်ပေ။ နိုင်ငံရေး အာဏာလုမှု၌ စိတ်ဝင်စားခြင်း မရှိဘဲ ပြည်သူတို့ အကျိုးကို ရှေးရှုလျက် အနောက် နိုင်ငံများတွင် တိုးတက်ထွန်းကား နေကြောင်း

သိမြင်သည်နှင့်အညီ မြန်မာတို့လည်း ခေတ်မှီ တိုးတက်မျက်စိပွင့်လာအောင် နှလုံးရည်ဖြင့် စွမ်းဆောင်သူဖြစ်၏။

ဗားနေး၏ မှတ်တမ်းအရ မက္ခရာမင်းသားကြီးသည် မစ္စတာရောဂျာ ဟု အမည်ရှိသော ဗြိတိသျှလူမျိုး ကုန်သည်တဦးထံမှ အင်္ဂလိပ်စာကို သင်ယူတတ်မြောက်သည်။ မက္ခရာမင်းသားကြီးသည် သိပ္ပံ လောကဓာတ်ပညာကို လက်ခံယုံကြည်၍ စိတ်ဝင်စား၏။ စာပေအနုပညာကိုလည်း စိတ်ဝင်စား၏။ မက္ခရာမင်းသားကြီးသည် ရီး၏ စွယ်စုံကျမ်းတစုံကို မစ္စတာ လိန်း ဆိုသူထံမှ တဆင့် ကာလကတ္တားမြို့မှ ရရှိ၏။ ယင်းစွယ်စုံကျမ်းကို ဖတ်ရှုလေ့လာ၏။ ထို့ပြင် မူရင်းသမ္မာကျမ်း၊ ဆရာယုဒသန်ပြန်ဆိုထားသော သမ္မာကျမ်း၊ ဂျွန်ဆင်၏ အဘိဓာန်တို့ကိုလည်း ဆောင်ထား၍ လေ့လာ၏။ ရီး၏ စွယ်စုံကျမ်းမှ သိပ္ပံပညာဆိုင်ရာ အကြောင်းရပ်အချို့ကို မြန်မာဘာသာသို့ ပြန်ဆို၏။ နေကြတ်ခြင်း၊ လကြတ်ခြင်းတို့ကို တွက်ချက်နည်း အကြောင်းနှင့် မိုးသီးများ ဖြစ်လာပုံ အကြောင်းဖြစ်သော သိပ္ပံပညာ အကြောင်းရပ် ၂ ခုကို မြန်မာဘာသာသို့ ပြန်ဆိုပြီး၍ မစ္စတာလိန်းထံသို့ ပေးပို့၏။ အင်းဝမြို့နေပြည်တော်တွင် မစ္စတာလိန်း လာရောက်နေထိုင်ခိုက် မစ္စတာလိန်းနှင့် တွဲဖက်၍ အင်္ဂလိပ်မြန်မာ အဘိဓာန်ကျမ်းကို ၁၈၃၀ ပြည့်နှစ်မှ ၁၈၃၅ ခုနှစ်အထိ ၅ နှစ်တိုင် ကြိုးပမ်းပြုစုခဲ့သည်။ယင်းအဘိဓာန်သည် ရခိုင်တိုင်း၊ တနင်္သာရီတိုင်းတို့တွင် အုပ်ချုပ်နေသော ဗြိတိသျှ အရာရှိများနှင့်တကွ တိုင်းရင်းသားများအတွက်သာမက အင်္ဂလိပ်စာ သင်ကြား တတ်မြောက်လိုသော မြန်မာ့လက်အောက်ခံ တိုင်းရင်းသားများအတွက်လည်း အထူးအသုံးဝင် အဖိုးတန်ပေလိမ့်မည်ဟူ၍ ဗားနေးက ယင်းအဘိဓာန် ကျမ်းနှင့် စပ်လျဉ်း၍ ကာလကတ္တားအစိုးရထံသို့ ပေးပို့သော စာချွန်တော်တွင် မှတ်ချက်ချလေသည်။ ယင်းအဘိဓာန်ကို ခရစ် ၁၈၄၁ ခုနှစ်တွင် ကာလကတ္တားမြို့ရှိ သာသနာပြု စာပုံနှိပ်တိုက်၌ ပုံနှိပ် ထုတ်ဝေသည်။ အဘိဓာန်မှာ ဒီမိုင်းဆိုက်ကြီးဖြင့် ပုံနှိပ်ထုတ်ဝေ၍ စာမျက်နှာ ၁ မှ ၄၆၀ အထိ အတော်ပင် ကျယ်ဝန်းလေသည်။ မက္ခရာမင်းသားကြီး၏ လက်ရာစာအုပ်ကြီးကို ယခုတိုင် မျက်မြင်ထင်ရှား တွေ့ရပေသေးသည်။

မက္ခရာမင်းသားကြီးသည် တခါသော် ဗားနေးနှင့် စကားလက်ဆုံကျ၍ ဆွေးနွေးကြသည်တွင် တနာရီကျော်ကျော်အချိန်အတွင်း၌ ဗားနေအား မိမိသိလိုသော ပုစ္ဆာပေါင်းများစွာ မေး၏။ သို့တိုင်အောင် မက္ခရာမင်းသားကြီး သိလိုသမျှ၏ အပုံတရာလျှင် တပုံမျှပင် ရှိဟန်မတူ ဟူ၏။ မက္ခရာမင်းသားကြီး သိလိုသော အကြောင်းများကား လန်ဒန်မြို့၊ ကာလကတ္တားမြို့၊ အင်းဝမြို့၊ ဗန်ကောက်မြို့တို့ တည်ရှိရာ လတ္တီတွဒ်၊ လောင်တီတွဒ်များ၊ နောက်ဆုံး ပေါ်ခဲ့သော ကြယ်တံခွန်၊ ဗရိုမီတာ၊ သာမိုမီတာတို့၏ သတ္တိများ စသော တိကျသော သိပ္ပံပညာရပ်ဆိုင်ရာ အကြောင်းတို့ဖြစ်၏။ မက္ခရာမင်းသားကြီး၏အခန်းတွင်းရှိ စာတိုက်၌ ရီး၏စွယ်စုံကျမ်း၊ သမ္မာကျမ်း မူရင်း၊ ဂျွန်ဆင်၏အဘိဓာန်၊ ဆရာယုဒသန် ပြန်ဆိုထားသော သမ္မာကျမ်း စသည်တို့ကို ကောင်းမွန်စွာ သိမ်းဆည်းထား၍ အားလုံးကို သေချာစွာဖတ်ရှုပြီးဖြစ်ကြောင်း ပြောပြ၏။ သူ၏အခန်းတွင်း၌ ဗရိုမီတာနှင့်သာမိုမီတာတို့ကို ချိတ်ဆွဲထား၏။မက္ခရာမင်းသားကြီးသည် ခရစ် ၁၈၃၁ ခုနှစ်တွင် သင်္ချာပညာရပ် တမျိုးဖြစ်သော လော့ဂရစ်သမ်ကိုလည်း ဆည်းပူးသင်ယူခဲ့သည်။ အက္ခရာသင်္ချာကို တတ်လို၏။ အင်းဝနေပြည်တော်သို့ ကိုယ်စားလှယ်တော် ဗလန်ဒယ်ရောက်လာသောအခါ မက္ခရာမင်းသားကြီးအား အက္ခရာသင်္ချာ သင်ပေးမည်ဟု ဆိုသော်လည်း လွှတ်တော်နှင့် အခြား မှူးမတ်များအထင်လွဲမည်စိုး၍ မသင်ယူခဲ့ပေ။ ဗားနေးသည် မင်းသားကြီး၏ ကျယ်ဝန်းသော ဗဟုသုတကိုင်း၊ ပညာများကို ဇော်မပြေ သောက်သုံးလိုသော ဆန္ဒကိုင်း၊ ဉာဏ်ပညာထက်မြက်ပုံကိုင်း အံ့သြ၍ လေးစားကာ၊ မြန်မာနိုင်ငံတွင် မိမိတွေ့ဘူးသူများအနက် အထူးခြားဆုံးပုဂ္ဂိုလ်ဖြစ်ကြောင်း၊ ဗင်္ဂလားသို့ အလည်အပတ် မရောက်နိုင်သည်မှာ စိတ်မကောင်းဖွယ် ဖြစ်ကြောင်းတို့ကို မှတ်တမ်းတင်သွားပေသည်။

မက္ခရာမင်းသားကြီးသည် စာပေပရိယတ္တိတွင်သာမကဘဲ ပေါင်းသင်းဆက်ဆံရာ၌လည်း ပြေပြစ်၏။ အင်းဝနန်းတော်တွင်း၌ မငြိမ်မသက်ရှိ၍ သာယာဝတီမင်းသား ပုန်ကန်စဉ်အခါက ပြေငြိမ်းမှုအတွက် စေ့စပ်ရာ၌ ကုန်းဘောင် ရွှေဘိုမြို့တူတော် သာယာဝတီမင်းသားထံ မက္ခရာမင်းသားကြီးပင် အဖွဲ့ကို ခေါင်းဆောင်သွားပေသည်။ မက္ခရာမင်းသားကြီးသည်သာယာဝတီမင်းသားနှင့်သင့်မြတ်၏။ အင်းဝနန်းတွင်း၌ အရေးပါသော မင်းသားတပါးဖြစ်၏။ ဗြိတိသျှ ကိုယ်စားလှယ်တော်တို့နှင့်လည်းအဆင်ပြေစွာဆက်ဆံတတ်သူဖြစ်၏။ မက္ခရာမင်းသားကြီးသည် ထိုစဉ်အခါက နန်းတွင်းရေး အာဏာရမှုတွင် မပါဝင်သောကြောင့် အခြား မင်းညီမင်းသားများ တိမ်းပါး ပျက်စီးသော်လည်း မက္ခရာမင်းသားကြီးမှုကား ကံတော်ကုန်သည်အထိ မယိမ်း မယိုင် တည်ကြည် ခိုင်မာပေသည်။ မက္ခရာမင်းသားကြီးသည် သက္ကရာဇ် ၁၂၁၀ ပြည့်နှစ် သက်တော် ၅၇ နှစ်အရွယ်တွင် ကံတော်ကုန်သည်။

**မဂ္ဂနာကာတာ။** ။မဂ္ဂနာကာတာသည် လက်တင် ဝေါဟာရဖြစ်၍ စာချုပ်ကြီး၊ သို့မဟုတ် မဟာစာချုပ်ဟု အဓိပ္ပါယ်ရသည်။ ယင်းစာချုပ်ကို ၁၂၁၅ ခုနှစ် ဇွန်လ ၁၅ ရက်နေ့တွင် အင်္ဂလန်ပြည့်ရှင် ဂျွန်ဘုရင်သည် ဗဲရွှန်ခေါ် မှူးမတ်များ၏ အတင်းအကြပ် တောင်းဆိုချက်အရ အားမတန်မာန်လျှော့ကာ လက်မှတ်ရေးထိုးလိုက်ရသည်။ သို့အားဖြင့်

ဂျွန်ဘုရင်မှအစပြု၍ အင်္ဂလန်ပြည့်ရှင်ဘုရင်တို့သည် မိမိတို့သဘောအတိုင်း သက်ဦးဆံပိုင် အာဏာရှင်ဆန်ဆန် မစိုးမိုးနိုင်အောင် အာဏာများ ကန့်သတ်ဟန့်တားခြင်းကို လက်ခံရ ရောက်ခဲ့လေသည်။ ထိုပြင် ဥပဒေကို ပြည့်ရှင် ဘုရင်ကပင် လေးစားရမည်ဟူသော သဘောတရားကို ထင်ရှားစေသည့်အတွက် မဂ္ဂနာကာတာသည် အင်္ဂလိပ်သမိုင်းတွင်သာမက ဥပဒေသမိုင်းတွင်ပါ ထင်ရှားလှပေသည်။ မဂ္ဂနာကာတာသည် ဘုရင်၏ အာဏာကို ကန့်သတ်ရုံသာ မကဘဲ တချက်ခုတ် နှစ်ချက်ပြတ် ဆိုသလိုပင် အုပ်ချုပ်ခံ လူတန်းစားတို့အား အုပ်ချုပ်သူတို့၏ ဖိနှိပ် ချုပ်ချယ်ခြင်းမှ လွတ်ကင်းနိုင်အောင် ရှေ့ဆောင် ပေးခြင်းကြောင့် ပုဂ္ဂလိကလွတ်လပ်မှုကို တည်ဆောက်နိုင်စေခဲ့သည့် အုတ်မြစ်ပင် ဖြစ်တော့၏။ ယခုအခါ အင်္ဂလန်ပြည်၏ သာမန် စည်းမျဉ်းဥပဒေ အမြောက်အမြားသည် မဂ္ဂနာကာတာမှ ပေါက်ဖွား ဆင်းသက်လာခဲ့သည်။ အင်္ဂလိပ် စည်းမျဉ်းဥပဒေကို မှီး၍ ရေးဆွဲထားသော နိုင်ငံများ၏ အခြေခံ စည်းမျဉ်းတို့သည်လည်း မဂ္ဂနာကာတာတွင် ပါသော အချက်အလက်များနှင့် မကင်း ဟု ဆိုနိုင်လေသည်။

မဂ္ဂနာကာတာ စာချုပ်ဖြစ်ပေါ်လာရခြင်း၏အကြောင်းရင်းမှာ ဂျွန်ဘုရင် တရားမဲ့ ဖောက်ပြန် အုပ်စိုးမှုပင် ဖြစ်၏။ (ဂျွန်ဘုရင် [အင်္ဂလိပ်] — ရှု။) ထိုစဉ် အခါက အင်္ဂလန်ပြည်တွင် ကံကျေးချ စံနစ်တည်ဆဲ ဖြစ်၏။ ဂျွန်ဘုရင်သည် ရက်စက်ကြမ်းကြုတ်ခက်ထန်၍ သစ္စာမဲ့သည့်အလျောက် ကံကျေးချ စံနစ်ဆိုင်ရာ ဆက်ကြေးများကို ပိုမိုတောင်းခံခြင်း၊ အယူဝါဒဆိုင်ရာ အခွင့်အရေးများကို ထိပါးခြင်း၊ ထိုပြင်မိမိအလိုမကျသူတို့အားလည်း ဖိနှိပ် ချုပ်ချယ်ခြင်း အစရှိသည်ဖြင့် မတော်မမှန် ပြုလုပ်ခြင်းကြောင့် တနိုင်ငံလုံးရှိ လူတန်းစားအားလုံး မခံမရပ်နိုင်ရကား၊ ကန်တာဗာရီ ဂိုဏ်းချုပ်ကြီး လန်ဂတန်အကြံပေးသည့်အတိုင်း ဗဲရွန်မှူးမတ်တို့ ရှေ့ဆောင်၍ တရားမျှသော အုပ်ချုပ်မှုကို ရရှိရန် စီမံစိုင်းပြင်းကြလေသည်။ ဤသို့အားဖြင့် မဂ္ဂနာကာတာ စာချုပ်ဖြစ်ပေါ်လာခဲ့၏။ မှူးမတ်တို့ အင်အားကောင်းလှ၍ ဂျွန်ဘုရင်လည်း မည်သို့မျှ မတတ်နိုင်တော့ဘဲ၊ ၁၂၁၅ ခုနှစ် ဇွန်လ ၁၅ ရက်နေ့တွင် တင်းမြစ်ကမ်းပေါ်ရှိ ရန်းနိမိအရပ်တွင် မှူးမတ်များနှင့် တွေ့ဆုံကာ ယင်းတို့ တင်ပြသော မဂ္ဂနာကာတာစာချုပ်ကို တံဆိပ် ခတ်နှိပ်၍ အသိအမှတ် ပြုလိုက်ရလေတော့သည်။

မူလစာချုပ်ကြီးသည် လက်တင် ဘာသာဖြင့် ရေးဆွဲထား၍ အခန်းပေါင်း ၆၃ ခု ပါဝင်၏။ အယူဝါဒဆိုင်ရာ အခွင့်အရေးများကို ပြန်လည် အတည်ပြုရန်ဟု အစချီထားပြီးလျှင် များစွာသော တောင်းဆိုချက်တို့သည် ဗဲရွန်တို့၏ အကျိုးကိုသာ ရှေးရှုလျက် ကံကျေးချစံနစ်များကို ကာကွယ်သည့် အပိုဒ်အချို့ ပါဝင်သည်။ ပမာပြရသော် ဘုရင်သည် မြေပိုင်ရှင်ကြီးများ၏ သဘောတူညီချက်မရဘဲ ထုံးစံရှိသည်ထက် ပို၍ တောင်းခံခြင်း မပြုရဟု ပါရှိ၏။ ထိုပြင် အုပ်ချုပ်ရေးအကြီးအကဲများ၏ ညှဉ်းပန်းမှုများနှင့် တရားဥပဒေဖောက်လွှဲ ဖောက်ပြန် ကျင့်ကြံမှုတို့မှ ကာကွယ်ရန် အပိုဒ်များလည်း ပါဝင်၏။ လူလွတ်များကို ဖမ်းဆီးခြင်း၊ ထောင်တန်းချထားခြင်း၊ အပြစ်ပေးခြင်းတို့ကိုလည်း နိုင်ငံ၏ တရားဥပဒေများအရသာလျှင် ဆောင်ရွက်ရမည်၊ သို့မဟုတ် မှူးမတ်တို့၏ တရားဝင်စီရင်ဆုံးဖြတ်ချက် အရသာလျှင် ပြုလုပ်ရမည် ဖြစ်လေသည်။ ထိုပြင် လယ်မြေကို သိမ်းယူခြင်း၊ နယ်နှင်ခြင်း၊ နှောင့်ယှက်ခြင်းတို့ကိုလည်း မပြုလုပ်ရဟု ဖော်ပြထားလေသည်။

မဂ္ဂနာကာတာ စာချုပ်၏ မိတ္တူ ၄ ခုမှာ ယခုထက်တိုင်ရှိနေသေးသည်။ ယင်းတို့အနက် အပြည့်စုံဆုံးမှာ လင်ကွန်းကသီဒရယ် ဘုရားရှိခိုးကျောင်းတွင်ရှိသည့် မိတ္တူပင်ဖြစ်၏။ အခြားမိတ္တူ ၁ ခုသည် ဆော့စဗာရီ ကသီဒရယ်ဘုရား ရှိခိုးကျောင်းတွင် ရှိ၍ ကျန် ၂ ခုမှာကား ဗြိတိသျှပြတိုက်တွင်ရှိလေသည်။

**မက်ဂနီဇီယမ်။** ။မက်ဂနီဇီယမ်သည် ပေါ့ပါးသောသတ္တုတမျိုးဖြစ်၏။ မက်ဂနီဇီယမ်သန့်သန့်ကို တူးဖော် မရနိုင်ဘဲ၊ မက်ဂနီဇီယမ် ပါဝင်သည့် သဘာဝအလျောက် ဖြစ်ပေါ်နေသော အက်စဗက်စတော့ (ကျောက်ဂွမ်း) နှင့် မက်ဂနီဆိုက်တို့မှ ထုတ်ယူ နိုင်ပေသည်။ မက်ဂနီဇီယမ်ကို ၁၈၀၈ ခုနှစ်တွင် သိပ္ပံပညာရှင်ကြီး ဆာ ဟမ်ဖရီ ဒေဗီ ဆိုသူက ပဌမဆုံးတွေ့ရှိခဲ့သည်။ မက်ဂနီဇီယမ် ထုတ်ယူပုံမှာ များသောအားဖြင့် ကာနလိုက်ခေါ် မက်ဂနီဇီယမ် ပါသော သတ္တုရိုင်းကို ပဌမ အပူတိုက်ပေး၍ အရည်ပျော်စေပြီးနောက်၊ လျှပ်စစ်ဓာတ်စီးကို ထိုအရည်တွင် ဖြတ်သန်းသွားစေခြင်းဖြင့် ထုတ်ယူသည်။ ရရှိသော သတ္တုကို ထပ်မံ၍ ပေါင်းချေးခံယူသောအခါ မက်ဂနီဇီယမ် သန့်သန့်ကို ရရှိသည်။

မက်ဂနီဇီယမ်စစ်လျှင် ငွေရောင် အဆင်းရှိ၍ စိုထိုင်းသောလေ၌ ထားလျှင် တဖြည်းဖြည်း အရောင်မှေးမှိန်သွားသည်။ မက်ဂနီဇီယမ်သည် အထုအရိုက်ခံ၏၊ နန်းဆွဲခံ၏။ မီးရှို့လျှင် ဖြူဝင်းတောက်ပသော အလင်းရောင်ကို ဖြစ်စေသောကြောင့် ဓာတ်ပုံရိုက်ရန် အလင်းရောင်ပေးရာ၌ မက်ဂနီဇီယမ်ကို မီးရှို့ကာ အသုံးပြုကြသည်။ မက်ဂနီဇီယမ်၏သိပ်သည်းဆမှာ ၁.၇၄ ရှိ၍ အပူချိန်စင်တီဂရိတ် ၆၃၂.၇ ဒီဂရီ၌ အရည်ပျော်ပြီးလျှင် စင်တီဂရိတ် ၁,၁၀၀ ဒီဂရီ၌ ဆူပွက်သည်။ မက်ဂနီဇီယမ်ဖြင့် ပေါ့ပါးသော သတ္တုရောများ ပြုလုပ်နိုင်သည်။ မက်ဂနီဇီယမ် ဆာလဖိတ်မှာ ကျွန်ုပ်တို့ အများဆုံး အသုံးပြုကြသော ဆားခါးပင် ဖြစ်၍ ဝမ်းနုတ်ရန် ကောင်းသော ဆေး

ဖြစ်သည်။ အခြား မက်ဂနီဇီယမ် ဓာတ်ဆားများဖြစ်သော ကာဗွန်နိတ်၊ ဟိုက်ဒရောက်ဆိုက်နှင့် အောက်ဆိုက်တို့မှာ လည်း အစာအိမ်နှင့် သက်ဆိုင်သော ဆေးများဖော်ရာ၌ အသုံးဝင်ကြသည်။ မက်ဂနီဇီယမ်ကလိုရိုက်နှင့် မက်ဂနီဇီယမ် အောက်ဆိုက်တို့မှာ မီးခံအုတ်များ ပြုလုပ်ရာ၌ များစွာ အသုံး ဝင်လေသည်။

**မက်ဂျာလူမျိုး။** ။မက်ဂျာ လူမျိုးသည်ကား ဥရောပ တိုက်ရှိဟန်ဂေရီနိုင်ငံတွင်နေထိုင်သောဟန်ဂေးရီးယန်းလူမျိုး တွင် အများစုဖြစ်၏။ ဟန်ဂေးရီးယန်းတို့သည် မိမိတို့အား ဟန်ဂေးရီးယန်းလူမျိုးဟု ခေါ်ကြသည်ထက် မက်ဂျာလူမျိုး ဟုခေါ် သည်ကို ပို၍ နှစ်သက်ကြလေသည်။ မက်ဂျာ လူမျိုး တို့သည်ကား ဥရောပတိုက်ရှိ အခြားမည်သည့် လူမျိုးနှင့်မျှ မတူပေ။ မက်ဂျာလူမျိုးသည် မွန်ဂိုးလီးယားနှင့် ဆိုက်ဗီးရီး ယား အနောက်ပိုင်းရှိ အာလတိုင်းတောင်တန်း တလျှောက် တွင် နေထိုင်သော လူမျိုးစုများမှ ပေါက်ဖွားဆင်းသက်လာ သူများ ဖြစ်၍ တူရကီသွေး၊ မွန်ဂိုသွေး နှောလျက် ရှိ၏။ ဤသို့အားဖြင့် မက်ဂျာလူမျိုးတို့မှာ အိမ်ခြေယာခြေ မတည် ထောင်ဘဲ လှည့်လည် သွားလာနေသော လူမျိုးစုတို့မှ ဆင်း သက် ပေါက်ဖွားလာလျက် လွန်ခဲ့သည့် နှစ်ပေါင်း ၁,၀၀၀ ကျော်က ယခု ဟန်ဂေရီနိုင်ငံတည်ရာသို့ အရှေ့အရပ်ဆီမှ ဝင် ရောက်နေထိုင်ကြလေသည်။ ထိုသို့ ဥရောပတိုက်တွင်းသို့ ဝင် ရောက်လာခဲ့ရာ၌ ခရီးလမ်း တလျှောက်တွင် အခြားလူမျိုး အများအပြားကို အောင်မြင်နိုင်နင်းခဲ့သည်။ ဤသို့ဖြင့် ထို စဉ်က ဥရောပတိုက်အရှေ့တောင်ဖက် တခွင်ဝယ် ထိတ်လန့် ကြောက်ရွံ့ဖွယ်ရာ လူမျိုးဖြစ်ခဲ့လေသည်။ ယင်းတို့သည် မိမိ တို့၏ နိုင်နင်းတိုက်ခိုက်ခြင်းကို ခံခဲ့ရသည့် လူတမျိုးဖြစ်သော အူဂရီယန်တို့၏ ဘာသာစကားကို လက်ခံသုံးစွဲခဲ့ကြသည်။ မက်ဂျာတို့၏ ဘာသာစကားသည် ဖီနီ-အူဂရီဘာသာစကား စုတွင် အဝင်အပါ ဖြစ်၏။

ခရစ် ၉ ရာစုနှစ် အကုန်လောက်တွင် မက်ဂျာလူမျိုးတို့ သည် ဟန်ဂေရီ တည်ရာမြေပြန့်သို့ ရောက်ရှိလာပြီးလျှင် တာ တာသွေးနှောသော ရှိရင်းစွဲ လူမျိုးတို့နှင့် ပေါင်းသင်း၍ အိုး အိမ်တည်ကြသည်။ ၁၁ ရာစုနှစ်ခန့်တွင် ခရစ်ယန် အယူဝါဒီ များ ဖြစ်လာကြကာ အနောက်တိုင်းယဉ်ကျေးမှု အဝဝကို ခံယူခဲ့ကြသော်လည်း မိမိတို့ဘာသာစကားဖြစ်သော အူဂရီ ယန်ဘာသာကိုပင် ပြောဆိုခဲ့ကြလေသည်။

မက်ဂျာတို့သည် နှစ်ပေါင်းများစွာပင် ရှေးဩဇာကြီးမားနှင့် အင်ပိုင်ယာ၏ အုပ်ချုပ်ခြင်းကို ခံခဲ့ရ၏။ မက်ဂျာများသည် ဤသို့ အုပ်ချုပ်ခံရသည်ကို မကျေနပ်သဖြင့် ကိုယ်ပိုင် အုပ် ချုပ်ရေးကို ပြင်းပြင်းထန်ထန် တောင်းဆိုခဲ့ရာ [illegible] သည့်အတိုင်း ရရှိခဲ့ပေသည်။ ၁၈၆၇ ခုနှစ်တွင် [illegible]



ဟန်ဂေရီနိုင်ငံ မက်ဂျာလူမျိုး ဇနီးမောင်နှံတို့ကို အမျိုးသားဝတ်စုံဖြင့် တွေ့ရပုံ

သည် ဩစတြီး-ဟန်ဂေရီယန် နိုင်ငံကြီးအတွင်း စည်းမျဉ်းခံ နိုင်ငံတခုအဖြစ်သို့ ရောက်ရှိခဲ့လေသည်။ ၁၉၁၄ ခုနှစ်တွင် ဟန်ဂေရီတွင် မက်ဂျာလူမျိုး ၁၀ သန်းမျှရှိ၏။

ပဌမ ကမ္ဘာစစ်ကြီးအတွင်းက ဗဟိုနိုင်ငံများ ရှုံးနိမ့်သွား သောအခါ ဟန်ဂေရီသည်လည်း ထရီအာနွန် စာချုပ်ကို လက်မှတ် မရေးမထိုးလိုဘဲ ရေးထိုးလိုက်ရခြင်းဖြင့် မိမိပိုင် နယ်မြေ ၃ ပုံ ၂ ပုံနှင့် မက်ဂျာလူဦးရေ ၃ ပုံ ၁ ပုံ ဆုံးရှုံး သွားရလေသည်။

၁၉၃၈ ခုနှစ်နှင့် ၁၉၄၀ ပြည့်နှစ်များတွင်မူ ချက်ကိုဆလို ဗားကီးယားနှင့် ရုမေးနီးယားမှ နယ်မြေအများအပြား ကို ဟန်ဂေရီက ပြန်လည်ရရှိခဲ့သော်လည်း ၁၉၄၅ ခုနှစ်တွင် ပြန်လည်ပေးအပ်ခဲ့ရလေသည်။

မက်ဂျာလူမျိုးတို့၏ အသွင်အပြင်မှာ အရပ်မနိမ့်မမြင့်၊ ဦးခေါင်းလုံး၍ ကျယ်ပြန့်သော မျက်နှာရှိသည်။ [illegible] ရှိ၍ မျက်လုံးနှင့် ဆံပင် ညိုမည်းမည်းအရောင်ရှိသည်။ မက်ဂျာ [illegible] အများအားဖြင့် [illegible] လယ်ယာ [illegible] နေထိုင်သော [illegible] ရှိကြသည်။ [illegible] ဆင်ယင်ရာတွင်လည်း [illegible] တို့ မြန်မာလူမျိုးများကဲ့သို့

တောက်ပသော အရောင်အဆင်းများကို နှစ်သက်ကြသည်။

၁၉၁၀ ပြည့်နှစ်က မက်ဂျာလူမျိုး ဦးရေမှာ ၁၀,၀၅၀,၆၀၀ ဖြစ်၍ ဟန်ဂေရီပြည်ရှိ လူဦးရေ၏ ထက်ဝက် ဖြစ်၏။ ၁၉၄၁ ခုနှစ်တွင်ကား ၈,၆၅၇,၁၇၂ ယောက် ဖြစ်၍ ဟန်ဂေရီ နိုင်ငံရှိ လူဦးရေ၏ ၉၂.၈ ရာခိုင်နှုန်း ဖြစ်ပေသည်။

**မက်ဆချူးဆက်ပြည်နယ်။** ။မက်ဆချူးဆက် ပြည်နယ်သည် အမေရိကန် ပြည်ထောင်စုနိုင်ငံ၏ အရှေ့မြောက်ပိုင်းတွင်တည်ရှိသည်။ အမေရိကန် ပြည်ထောင်စု၏ မူရင်းပြည်နယ် ၁၃ နယ်တွင် အပါအဝင်ဖြစ်ကာ နယူးအင်္ဂလန်ပြည်နယ်စုတွင် ပါဝင်သောကြောင့် အမေရိကန်ပြည်ထောင်စုသမိုင်းတွင် အရေးပါ အရာရောက်သည်။ကိုးကွယ်မှု၌ လွတ်လပ်ရေးရရန်အတွက်၎င်း၊ အုပ်ချုပ်မှု၌ လွတ်လပ်ရေးရရန်အတွက်၎င်း ရှေးဦး ကိုလိုနီနယ်သားများ စတင်ကြိုးပမ်းရာဒေသလည်း ဖြစ်သည်။ ယခုအခါ အဖက်ဖက်တွင် တိုးတက်လျက်ရှိပေသည်။

မက်ဆချူးဆက် ပြည်နယ်သည် နယ်နိမိတ်အားဖြင့် မြောက်ဖက်တွင် ဗားမောင့်ပြည်နယ်နှင့် နယူးဟမ့်ရှိုင်းယားပြည်နယ်၊ အရှေ့ဖက်တွင် အတ္တလန္တိတ်သမုဒ္ဒရာ၊ တောင်ဖက်တွင် အတ္တလန္တိတ်သမုဒ္ဒရာ၊ ရုတ်ကျွန်း၊ ကွန်နက်တီကတ်ပြည်နယ်၊ အနောက်ဖက်တွင် နယူးယော့ပြည်နယ်တို့ဖြင့် ပတ်ရံလျက်ရှိသည်။ ပြည်နယ်၏ ပုံသဏ္ဌာန်မှာ ရိတဂံပုံဖြစ်၏။ သို့သော် အရှေ့ဖက်ကမ်းရိုးတန်းသည် အကွေ့အကောက်အစွန်းများ ရှိသောကြောင့် မဖြောင့်မတန်းဘဲ ရှိ၏။ အကျယ်အဝန်းအားဖြင့် ၈,၂၅၇ စတုရန်းမိုင်ဖြစ်၏။မက်ဆချူးဆက်ပြည်နယ်၏ မြို့တော်မှာ ဗော့စတန်မြို့ ဖြစ်၍ အခြားမြို့ကြီးများမှာ ဝုစတာ၊ စပရင်းဖီး၊ ဖော်ရီးဗား၊ကိမ်းဗရစ်၊နယူးဗက်ဒဖို့၊ ဆောမာဗီးမြို့များ ဖြစ်သည်။

မြေမျက်နှာပြင်အားဖြင့် အရှေ့ဖက်တွင် သဲထူသော မြေနိမ့်ပိုင်းရှိ၍ အနောက်ဖက်သို့ ရောက်လေလျှင် လှပသော တောင်တန်းများရှိသည်။မက်ဆချူးဆက်ပြည်နယ်ကို ကမ်းရိုးတန်းမြေနိမ့်ပိုင်း၊ ကုန်းပြင်မြင့်ဒေသ၊ကွန်နက်တီကတ်ချိုင့်ဝှမ်းနှင့် ဗတ်ရှိုင်ယာဒေသဟူ၍ သဘာဝအပိုင်းကြီး ၄ ပိုင်း ပိုင်းခြားနိုင်၏။

ကမ်းရိုးတန်း မြေနိမ့်ပိုင်းသည် အကွေ့အကောက် အဝင်အထွက်များသော အရှေ့ဖက် ကမ်းရိုးတန်း တလျှောက်တွင် ရှိ၍ ယင်းဒေသတွင် အန်အင့်၊ ကော့ဒအင့်တို့နှင့် ဗော့စတန်၊ ပလင်းမတ်၊ ကော့ဒအင့်နှင့် ဗတ်ဇတ်ပင်လယ်အော် ၄ ခုရှိသည်။ ထို့ပြင် ဗော့စတန်၊ ဂလောက်စတာ၊ နယူးဗက်ဒဖို့မည်သော ဆိပ်ကမ်းကောင်းကြီးများလည်း ရှိသည်။ ဗော့စတန်မှနယူးဟမ့်ရှိုင်းယားတလျှောက်ရှိ မြောက်ဖက်ကမ်းရိုးတန်းသည် ကျောက်ဆောင်ထူထပ်၍ ကြမ်းထမ်းသည်။ ကမ်းရိုးတန်း အလွန်တွင် ကျွန်းငယ်များစွာ ရှိသည်။ ကုန်းပြင်မြင့် ဒေသသည်ကား ရေမျက်နှာပြင်ထက် ပေ ၁,၀၀၀ ကျော်မြင့်သော ကုန်းပြင်မြင့် ဖြစ်၏။ တောင်နိမ့်ချိုင့်ဝှမ်းများတွင် ချောင်းမြောင်းများ ဖြတ်သန်း စီးဆင်းသည်။ ဤဒေသတွင် ရေအိုင်များနှင့် ရေစီးသန်သော ချောင်းမြောင်းများရှိသောကြောင့် ရေအားဖြင့် လျှပ်စစ်ဓာတ်အား ထုတ်ယူနိုင်သဖြင့် စက်မှုလုပ်ငန်းများကို တိုးတက် ဖွံ့ဖြိုးစေသည်။ ကွန်နက်တီကတ်ချိုင့်ဝှမ်းသည် ပြည်နယ်တွင် မြေဩဇာ အကောင်းဆုံးဒေသရှိရာ အပိုင်းဖြစ်၏။ ကွန်နက်တီကတ်မြစ်မှ ရေကို ရရှိသည်။ ထိုဒေသတွင် တောင်များသည် ခပ်ကျဲကျဲ တည်ရှိသည်။ မက်ဆချူးဆက် အနောက်ပိုင်းတွင်ရှိသော ဗတ်ရှိုင်ယာဒေသသည် အမေရိကန်ပြည်ထောင်စု၏ အလှပဆုံးသော ဒေသများတွင် အပါအဝင် ဖြစ်သည်။ ရှည်လျားသော တောင်တန်းများသည် တောင်ထိပ် အထိ သစ်ပင်များဖြင့် ဖုံးအုပ်လျက် ရှိသည်။ နက်ရှိုင်းသော ချိုင့်ဝှမ်းများလည်းရှိ၍ အချို့အချို့သော ချိုင့်ဝှမ်းများတွင် ကြည်လင် ပြာလဲ့သော အိုင်များရှိသည်။ ယင်းဒေသတွင် ဗတ်ရှိုင်ယာတောင်များသည် မြောက်မှ တောင်သို့ သွယ်တန်းလျက် ရှိသည်။ ဗတ်ရှိုင်ယာတောင်များကို 'အမေရိကန်ပြည်ထောင်စုမှ ဆွစ်ဇာလန်' ဟူ၍လည်း ခေါ်ဝေါ် သမုတ်၏။ အပန်းဖြေစခန်းအဖြစ် ထင်ရှားသည်။

မက်ဆချူးဆက်ပြည်နယ်တွင်ရှိ မြစ်ချောင်း အများအပြားမှာ ရေစီးသန်သောကြောင့် ရေအားဖြင့် လျှပ်စစ်ဓာတ်အား ထုတ်ယူရာ၌ အသုံးဝင် အဖိုးတန်ပေသည်။ အရေးပါအရာရောက်ဆုံးနှင့် အကြီးဆုံး မြစ်မှာ ကွန်နက်တီကတ် မြစ်ဖြစ်၍ မြောက်မှသည် တောင်သို့ ပြည်နယ်ကို ဖြတ်သန်း စီးဆင်း၏။ အခြားမြစ်များမှာ မယ်ရီမက်၊ တွန်တန်၊ ဟောက်စတိုးနစ်၊ ချား အစရှိသည်တို့ ဖြစ်၏။ ကော့ဒအင့် ပင်လယ်အော်နှင့် ဗတ်ဇတ်ပင်လယ်အော်တို့ကို ဆက်ထားသော ကော့ဒအင့်တူးမြောင်းသည် အရေးပါသော ရေလမ်းဖြစ်၏။ ပြည်နယ် တဝှန်းလုံးတွင် အင်း၊ အိုင်ကလေးများ အနှံ့အပြားရှိ၏။

မက်ဆချူးဆက်ပြည်နယ်၏ ရာသီဥတုမှာ ဆောင်းအခါ၌ အလွန် ချမ်းအေး၍ နွေအခါ၌ ပူသည့်အခါ အလွန် ပူသည်။ ရာသီဥတု ရုတ်ခြည်း ပြောင်းလဲတတ်၏။ ကမ်းရိုးတန်းဒေသတွင် ပင်လယ်ကြောင့် အတွင်းပိုင်းထက် ဆောင်းအခါတွင် အအေးပေါ့၍ နွေအခါတွင် အေးမြသည်။ နှစ်စဉ်မိုးရေချိန်မှာ ပျမ်းမျှလက်မ ၄၀ ဖြစ်၏။

မက်ဆချူးဆက်ပြည်နယ်၏ သယံဇာတ ပစ္စည်းတို့တွင် အထင်ရှားဆုံးမှာ နှမ်းဖတ်ကျောက် ဖြစ်သည်။ ကမ်းရိုးတန်းတလျှောက်တွင် ငါးဖမ်းခြင်းသည် အရေးပါသော လုပ်ငန်းကြီးတရပ်ဖြစ်၍ အမေရိကန် ပြည်ထောင်စုတွင် မက်ဆ

ချူးဆက်သည် ငါးနှင့် ငါးထွက်ပစ္စည်းများ ထုတ်လုပ်ရာ၌ ရှေ့တန်းမှ ပါဝင်သည်။ အမေရိကန်ပြည်ထောင်စု၌ ဗော့စတန်မြို့သည် ငါးစိမ်း၊ ငါးစိုရောင်းချရာ ဌာနကြီးဖြစ်၍၊ ဂလောက်စတာမြို့သည် ကော့ဒငါးလုပ်ငန်း၏ အချက်အခြာဌာနဖြစ်သည်။

မက်ဆချူးဆက်ပြည်နယ်တွင် လယ်ယာခြံ လုပ်ငန်းများကိုလည်း ရှေးကထက် တိုးတက်အောင် လုပ်ကိုင်လျက်ရှိ၏။ လယ်ယာလုပ်ငန်းထွက် ပစ္စည်းများမှာ ပြောင်း၊မြင်းစားဂျုံ၊ မေပယ်သကာရည်၊ ဆေးရွက်၊ ဟင်းသီး ဟင်းရွက်၊ ကြက်ဥ၊ကြက်နှင့် ကြက်ဥများ၊ နို့ထွက်ပစ္စည်းများနှင့် ပန်းသီး၊ ကရန်ဗယ်ရီ၊ စထရော်ဗယ်ရီ၊ စပျစ်စသည့်သစ်သီးများ စသည်တို့ဖြစ်လေသည်။

မက်ဆချူးဆက်ပြည်နယ်တွင် ဆိပ်ကမ်းကောင်းများ ရှိ၍ သယ်ယူပို့ဆောင်ရေး လွယ်ကူမှုကြောင့်၎င်း၊ လျှပ်စစ်ဓာတ်အား အလုံအလောက် ရရှိနိုင်သောကြောင့်၎င်း စက်မှုလုပ်ငန်း အထူးထွန်းကား၏။ စက်မှုလုပ်ငန်း အချက်အခြာဒေသများသည် ရေအားရရှိစေနိုင်သော မြစ်ကမ်းများပေါ်၌ တည်ရှိ၏။ စက်မှုလုပ်ငန်း ဒေသကြီးများမှာ ဗော့စတန် လောရင့်၊ ဗရော့တန်၊ ဟေဗာဟီး၊ လင်း၊ ဖောရီးဗား၊ လိုဝဲ၊ နယူးဗက်ဒဖို၊ ဝုစတာ၊ စပရင်းဖီးမြို့များဖြစ်၏။ လုပ်ငန်းကြီးများမှာ ဖိနပ်လုပ်ငန်း၊ သိုးမွေးနှင့် ခြည်ထည် လုပ်ငန်းများဖြစ်၍ အခြားအရေးပါသော လုပ်ငန်းများကား ပုံနှိပ်လုပ်ငန်း၊ ဆေးဆိုးလုပ်ငန်း၊ စက်ကရိယာလုပ်ငန်း၊လျှပ်စစ်ပစ္စည်းလုပ်ငန်း၊ နာရီလုပ်ငန်း၊ သားရေလုပ်ငန်း၊ စက္ကူနှင့် သစ်ပျော့ဖတ်လုပ်ငန်း၊ ပိုးထည်နှင့် အိမ်ထောင် ပရိဘောဂလုပ်ငန်း စသည်တို့ ဖြစ်၏။ ဤသို့ကုန်ပစ္စည်းများလည်း ထုတ်လုပ်နိုင်သည့်အပြင် ဆိပ်ကမ်းကောင်းများလည်း ရှိသောကြောင့် မက်ဆချူးဆက်ပြည်နယ်သည် နိုင်ငံခြားနှင့် ကုန်သွယ်မှု ကောင်းမွန်သည်။ ဗော့စတန်မြို့သည် နယူးအင်္ဂလန်၏ အဓိကဆိပ်ကမ်းလည်း ဖြစ်သည်။ ယင်းပြည်နယ်သည် စက်မှုကရိယာတန်ဆာပလာ၊ အမဲသားငါး၊ ခြည်ထည်နှင့် သိုးမွေးထည်များ၊ ကောက်နှံများကို နိုင်ငံခြားသို့ တင်ပို့သည်။ ပြည်တွင်းသို့မူ သားရေသိုးမွေး၊ လျှော်များကို တင်သွင်းသည်။ မက်ဆချူးဆက်ပြည်နယ်တွင် မီးရထားလမ်း စုစုပေါင်း မိုင် ၂,၀၀၀ ကျော်ရှိသည်။ အလွန်ကောင်းမွန်သော ကားလမ်းများလည်း ရှိသည်။

မက်ဆချူးဆက်ပြည်နယ်၏ လူဦးရေမှာ ၅,၁၄၇,၅၇၈ ယောက်(၁၉၆၀) ဖြစ်သည်။

မက်ဆချူးဆက်ပြည်နယ်သည် သေးငယ်ကျဉ်းမြောင်းသော်လည်း အမေရိကန် ပြည်ထောင်စု၌ ပညာရေး၊ ဥပဒေရေး၊ နိုင်ငံရေး၊ စာပေအနုပညာရပ်များတွင် ထူးကဲ ကျွမ်းကျင်သော လူရည်ချွန်များပေါ် ထွက်သည့် ပြည်နယ်ဖြစ်၏။ ဂျွန် အက်ဒမ်နှင့် ဂျွန် ကွင်စီ အက်ဒမ် မည်သော အမေရိကန် သမတ နှစ်ဦးတို့သည် မက်ဆချူးဆက်ပြည်နယ်သားများ ဖြစ်ကြ၏။

မက်ဆချူးဆက်ပြည်နယ်သည် ပညာရေးတွင် ထိပ်တန်းကျသော ပြည်နယ်ဖြစ်၏။ ပဌမဆုံးကျောင်းကို ၁၆၃၅ ခုနှစ်တွင် တည်ထောင်လျက်၊ နောက်တနှစ်တွင် ယခုအခါ ထင်ရှားသော ဟားဗဒ် တက္ကသိုလ်ကို တည်ထောင်ခဲ့သည်။ အစိုးရက ထောက်ပံ့သော အသက်မွေးဝမ်းကျောင်းရှိပညာသင်ကျောင်းများ၊ ဆရာဖြစ်သင်ကျောင်းများ၊ တက္ကသိုလ်များအပြင် ပုဂ္ဂလိကအားဖြင့် ထောက်ပံ့ဖွင့်လှစ် ထားသော ကျောင်းများ၊ တက္ကသိုလ်များလည်း ရှိသည်။ ယင်းတို့မှာ ဟားဗဒ်တက္ကသိုလ်၊ အမ္မဟတ် ကောလိပ်ကျောင်း၊ ဝီလျံ ကောလိပ်ကျောင်း၊ ကလတ်တက္ကသိုလ်၊ မက်ဆချူးဆက် စက်မှုပညာသင်သိပ္ပံ၊ ဟိုးလီးခရော့ကောလိပ်ကျောင်းနှင့် တပ်ဖကောလိပ်ကျောင်း အစရှိသည်တို့ ဖြစ်၏။ ဗော့စတန်မြို့ရှိ ပါကင်မျက်မမြင်ကျောင်းသည် ကမ္ဘာတွင် ထင်ရှားလှပေသည်။ မောင့်ဟောလယုတ်၊ ရက်ဒကလစ်၊ စမစ်၊ ဝက်စလီ၊ ဟွီတန်၊ဆင်မန် ကောလိပ်တို့သည် ထင်ရှားသော အမျိုးသမီးကောလိပ်ကျောင်းများ ဖြစ်၏။

မက်ဆချူးဆက်ပြည်နယ် ကမ်းခြေသို့ ခရစ်နှစ် ၁၀၀၀ ခန့်က နေ့သမန်လူမျိုးတို့ ရောက်လာကြသည်ဟု ဆိုသည်။ ၁၆၀၂ ခု နှစ်တွင် ဂေါစနော့သည်၎င်း၊ ၁၆၁၄ ခုနှစ်တွင် ဂျွန်စမစ်သည်၎င်း လာရောက်၍ နယ်သစ်ရှာဖွေကြသည်။ သို့သော် ပဌမဦးစွာ အိုးအိမ်တည်ထောင် အခြေစိုက်နေထိုင်သူတို့မှာ ခရစ် ၁၆၀၂ ခုနှစ်တွင် ပလင်းမတ်၌ ကိုလိုနီတည်ထောင်ကြသော ပီးလဂရင်း ဖားသားတို့ ဖြစ်၏။ (ပီးလဂရင်း ဖားသား — ရှု။) နောင်နှစ်များ မကြာမီ ဆလမ်တွင် ပျူရီတန် တခုတို့သည် ကိုလိုနီထူထောင်ကြ၏။ အခြားကိုလိုနီများလည်း တည်ထောင် ကြ၏။ နောင်သော် ယင်းတို့အားလုံးကို စုပေါင်းပြီးသကာလ မက်ဆချူးဆက်ဗေးကိုလိုနီဟု ခေါ်ခဲ့၏။ မက်ဆချူးဆက်ဟူသော အမည်မှာ ပီးလဂရင်းဖားသားတို့ မရောက်မီ ယင်းဒေသ၌ နေသော အင်ဒီးယန်းလူမျိုးစုကို အစွဲပြု၍ ခေါ်သောအမည် ဖြစ်၏။

မက်ဆချူးဆက်နယ်သည် တည်ထောင်စကတည်းကပင် တောင့်တင်းသော အစိုးရအဖွဲ့ ရှိ၍ သာသနာရေးဖက်က ဩဇာလွှမ်းမိုးခဲ့သည်။ အစိုးရနှင့် သာသနာရေးတို့သည် တစုတည်းကဲ့သို့ပင် ဖြစ်၏။ သာသနာရေးတွင် လွတ်လပ်မှု မရှိခဲ့ပေ။ ကိုလိုနီနယ်ခေါင်းဆောင်များနှင့်အတူ ဝါဒချင်း မတူသူတို့သည် နယ်နှင် ခံကြရ၏။ ထိုပြင် နယ်တွင်းရှိ စခန်းများကို အင်ဒီးယန်းတို့က မကြာခဏ တိုက်ခိုက်ကြသည်။ ၁၆၉၂ ခုနှစ်တွင် ပလင်းမတ်ကိုလိုနီနှင့် မိန်းနယ်တို့ကို မက်ဆချူးဆက်ဗေးကိုလိုနီနှင့် ပူးပေါင်းလိုက်သည်။

မက်ဆချူးဆက်နယ်သည် လျင်မြန်စွာကြီးပွား တိုးတက်လာသည်။ သို့သော် အင်ဒီးယန်းနှင့် ပြင်သစ်လူမျိုးများနှင့်မူ မကြာခဏ တိုက်ခိုက်ရပေသည်။ အင်္ဂလန်ပြည်တွင် ဖြစ်ပွားခဲ့သော စက်မှုလက်မှု အရေးပုံ၏ အရှိန်သည် မက်ဆချူးဆက်ကိုပင် ရိုက်ခတ်လာသဖြင့် ဖိနပ်၊ သံထည်၊ ဦးထုပ်၊ အထည်အလိပ် စသည်တို့ကို ထုတ်လုပ်ရေးအတွက် စက်ရုံများပေါ် ထွန်းလာသည်။ သို့သော် ၁၇၆၃ ခုနှစ် နောက်ပိုင်းတွင် အင်္ဂလန်ပြည်၏ ကိုလိုနီအုပ်ချုပ်ရေး ဝါဒသည် မက်ဆချူးဆက်ပြည်နယ်၏ စက်မှုလုပ်ငန်းနှင့် ကုန်သွယ်မှုဆိုင်ရာ တိုးတက်ရေးကို ဟန့်တားသောကြောင့် အမိနိုင်ငံမှ ခွဲထွက်ရန်အရေးကို ဤပြည်နယ်မှ စတင်ကြံစည်ခဲ့ကြသည်။ မက်ဆချူးဆက်ပြည်နယ်သည် အမေရိကန် တော်လှန်ရေးကြီး၏ ခေါင်းဆောင်ကြီးများကိုလည်း မွေးထုတ်ပေးခဲ့သည်။ တော်လှန်ရေးစစ်ပွဲကြီး၏ ထင်ရှားသော အဖြစ်အပျက်များ ဖြစ်သည့်ဗော့စတန်တီးပါတီ၊ ဗော့စတန် လူသတ်ပွဲ၊ လက်ဆင်တန်တိုက်ပွဲ၊ ကွန်ကော့တိုက်ပွဲနှင့် ဗန်ကာဟီး တိုက်ပွဲတို့သည် မက်ဆချူးဆက်နယ်တွင် ဖြစ်ပွားခဲ့သည်။

၁၇၈၀ ပြည့်နှစ်တွင် ပြည်နယ် ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေကို ရေးဆွဲအတည်ပြုခဲ့သည်။ ၁၇၈၆ ခုနှစ်တွင် တော်လှန်ရေးကြီး၏ နောက်ဆွယ်မှ လိုက်ပါလာသည့် စီးပွားရေးကျပ်တည်းမှုကြောင့် သူပုန်အရေးအခင်းတရပ် ဖြစ်ပွားခဲ့သည်။ သို့ရာတွင် စက်မှုလုပ်ငန်းများသည် ပြန်လည်၍ နာလန်ထူကာ ကြီးပွားလာပြီးလျှင် ပြည်နယ်သည် တိုးတက်လာခဲ့သည်။ မက်ဆချူးဆက်ပြည်နယ်သည် ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံ ဥပဒေရေးဆွဲ အတည်ပြုခဲ့စဉ်ကပင် ငွေဝယ်ကျွန်စံနစ်ကို လက်မခံခဲ့ချေ။ သို့ဖြင့် ပြည်တွင်းစစ်ဖြစ်ပွားစေသည့် အကြောင်းရင်းတခုဖြစ်သော ငွေဝယ်ကျွန်စံနစ် ဆန့်ကျင်ရေးလှုပ်ရှားမှု၏ ခေါင်းဆောင် ဖြစ်ခဲ့လေသည်။ ပြည်တွင်းစစ် ပြီးသည့် အချိန်မှစ၍ မက်ဆချူးဆက်သည် ပညာရေး၌၎င်း၊ စက်မှုလက်မှုလုပ်ငန်း၌၎င်း၊ ကုန်သွယ်ရေး၌၎င်း ဦးဆောင်သော ပြည်နယ်တခု ဖြစ်ခဲ့လေသည်။

**မက်ဆီဒိုးနီးယားနယ်။** ။မက်ဆီဒိုးနီးယားနယ်သည် ဥရောပတိုက် တောင်ဖက်ရှိ ဗော်လကန်ကျွန်းဆွယ်၏အလယ်ပိုင်းတွင်တည်၏။ ကျောက်တောင် ထူထပ်သည်။ဘီစီ ၄ ရာစုနှစ်ခန့်က မက်ဆီဒိုးနီးယားသည် အင်အား ကြီးသောနိုင်ငံဖြစ်ခဲ့ပြီးလျှင် ထိုစဉ်က ကမ္ဘာကို သိမ့်သိမ့်တုန်စေခဲ့သော်လည်း၊ ယခုအခါတွင်မူကား ထယ်ထယ် ဝါဝါ မဟုတ်တော့ပေ။ ဂရိ၊ ယူဂိုဆလားဗီးယားနှင့် ဗူလဂေးရီးယားနိုင်ငံ သုံးပွင့်ဆိုင် ဆုံရာ၊ ဗာဒါမြစ်ဝှမ်း အောက်ပိုင်းတွင် တည်ရှိလျက် ဂရိ၊ ယူဂိုဆလားဗီးယားနှင့် ဗူလဂေးရီးယားနိုင်ငံများတွင် ပါဝင်နေပေသည်။ အကျယ်အဝန်းမှာ စတုရန်းမိုင် ၂၅,၀၀၀ ခန့်ဖြစ်၏။ ဂရိပိုင် မက်ဆီဒိုးနီးယားသည် စတုရန်းမိုင် ၁၃၃၇၊ ၃၇၀ ကျယ်ဝန်း၍ လူဦးရေ ၁,၇၄၀,၀၀၀ မျှ ရှိသည်။ ထိုနယ်၏ ရုံးစိုက်မြို့မှာ ဆယ်လိုနီကာဖြစ်၏။ ယူဂိုဆလဗ်ပိုင် မက်ဆီဒိုးနီးယားသည် စတုရန်းမိုင် ၁၀,၂၃၀ ကျယ်ဝန်း၍ လူဦးရေ ၁,၁၅၂,၀၀၀ ရှိသည်။ ရုံးစိုက်မြို့မှာ စကုပ်လဲ့ဖြစ်၏။ ဗူလဂေးရီးယန်းပိုင် မက်ဆီဒိုးနီးယားမူကား စတုရန်းမိုင် ၁,၅၀၀ သာကျယ်ဝန်း၍ လူဦးရေ ၃၅၇,၀၀၀ ရှိပြီးလျှင် ထိုနယ်၏ ရုံးစိုက်မြို့မှာ ဗလက်ဂိုဗဂရက်ဖြစ်လေသည်။ မက်ဆီဒိုးနီးယားနယ်သည် လယ်ယာစိုက်ပျိုးရေး ထွန်းကားသောနယ်ဖြစ်၍ ဂျုံ၊ ပြောင်း၊ ရိုင်းဂျုံ၊ မြင်းစားဂျုံနှင့် ဆေးပင်တို့ကို စိုက်ပျိုးသည်။ သိုးဆိတ်များကိုလည်းမွေးမြူသည်။

မက်ဆီဒိုးနီးယားနယ်သို့ ဘီစီ ၂၀၀၀ ခန့်တွင် သရေးယန်လူမျိုးတို့ ရောက်ရှိနေထိုင်လာကြသည်။ ထိုနောက် နှစ်ပေါင်း ၉၀၀ မျှ ကြာသောအခါတွင် ဒိုရီယန်လူမျိုးများ ရောက်လာကြသည်။ ဘီစီ ၄၀၀ ခုနှစ် မတိုင်မီကလေးတွင် ပါးရှင်းလူမျိုးတို့က ထိုနယ်ကို သိမ်းပိုက်ထားခဲ့သော်လည်း တာမရှည်ခဲ့ပေ။ ဘီစီ ၄ ရာစုနှစ်တွင် မက်ဆီဒိုးနီးယားပြည့်ရှင် ဒုတိယမြောက် ဖိလစ်ဘုရင် (ဘီစီ ၃၈၂–၃၃၆)သည် နိုင်ငံကို ချဲ့ထွင် တည်ထောင်ခဲ့ရာ၊ မက်ဆီဒိုးနီးယား နိုင်ငံသည် တသမတ်တည်း တိုးတက်လာခဲ့ လေသည်။ သူ၏ သားတော် အယ်လက်ဇန္ဒာ-သ-ဂရိတ်သည် ဖခမည်းတော်ကဲ့သို့ပင် နိုင်ငံတော်ကိုချဲ့ထွင်ခဲ့ရာ၊ သူ၏ လက်ထက်တွင် မက်ဆီဒိုးနီးယားနိုင်ငံတော်သည်အထွတ်အထိပ်သို့ ရောက်၍ ကမ္ဘာ့သမိုင်းတွင် ယခုတိုင် ထင်ရှား၏။ (အယ်လက်ဇန္ဒာ-သ-ဂရိတ် — ရှု။) ထိုစဉ်က မက်ဆီဒိုးနီးယား နိုင်ငံတော်သည် ဂရိနိုင်ငံတဝှန်းလုံး၊ မြေထဲပင်လယ် အရှေ့ပိုင်း တခွင်နှင့် အာရှတိုက်အတွင်း အိန္ဒုမြစ်အထိ ကျယ်ပြန့်ခဲ့ပေသည်။ အယ်လက်ဇန္ဒာ-သ - ဂရိတ်ဘုရင် လွန်ပြီးနောက်တွင်ကား နိုင်ငံတော်သည်အကွဲကွဲအပြားပြား ဖြစ်သွားလေသည်။ ဘီစီ ၁၄၇ ခုနှစ်တွင် မက်ဆီဒိုးနီးယားသည် ရောမပြည်နယ်တခု ဖြစ်သွား၏။အေဒီ ၃၉၅ ခုနှစ်တွင်ရောမနိုင်ငံတော်ကို ခွဲခြမ်းစိတ်ဖြာခဲ့ရာတွင် မက်ဆီဒိုးနီးယားသည် ဗိုင်ဇင်းတိုင်းနိုင်ငံတော်အတွင်း ပါဝင်သွားလေသည်။ ခရစ် ၆၀၀ ပြည့်နှစ်လွန်နှစ်များတွင် ဆလဗလူမျိုးများ ရောက်ရှိလာ၏။ ထိုစဉ်က မက်ဆီဒိုးနီးယားသည် ဗူလဂေးရီးယန်း နိုင်ငံတော်၏ တစိတ်တဒေသ ဖြစ်နေခဲ့၍ ၁၃၀၀ ပြည့်နှစ်လွန်နှစ်များတွင်မူ ဆားဗီးယန်းနိုင်ငံတော်တွင် ပါဝင်နေခဲ့လေသည်။ ၁၄၀၀ ပြည့်နှစ်လွန် နှစ်များတွင် တူရကီတို့သည် ထိုဒေသကို သိမ်းယူပြီးလျှင်၊ ၁၉၁၂ ခုနှစ်အထိ သိမ်းပိုက် ထားခဲ့လေသည်။

၁၉ ရာစုနှစ်နောက်ပိုင်း လောက်တွင် မက်ဆီဒိုးနီးယားနယ်၌နေထိုင်ကြသော ဗူလဂေးရီးယန်း၊ဆားဗီးယန်း(နောင်သော် ယူဂိုဆလဗ်) နှင့် ဂရိလူမျိုးတို့သည် ထိုနယ်ကို သူပိုင်



မက်ဆီဒိုးနီးယားနယ်သည် ဂရိနိုင်ငံတွင် များစွာပါဝင်လျက် ရှိသော်လည်း အယ်လဗေးနီးယား၊ ယူဂိုစလားဗီးယားနှင့် ဗူလဂေးရီးယား နိုင်ငံတို့တွင်လည်း အနည်းငယ်စီ ပါဝင်လျက်ရှိသည့် ဗော်လကန်နယ်မြေတခု ဖြစ်သည်။ အထက်ပါပုံမှာ ယူဂိုစလားဗီးယားနိုင်ငံဖက် ပါဝင်သော စကုပ်လဲ့မြို့၏ ရှုခင်းတစိတ်တဒေသပုံ ဖြစ်သည်။

သင့် ငါပိုင်သင့် စသည်ဖြင့် အငြင်းပွားခဲ့ကြ၏။ တူရကီတို့၏ အုပ်စိုးမှုကို အကြိမ်ကြိမ် တော်လှန် ပုန်ကန်ခဲ့သော်လည်း နှိမ်နင်းခြင်း ခံခဲ့ရသည်ချည်း ဖြစ်၏။ ၁၉၁၂ ခုနှစ် ပဌမ ဗော်လကန်စစ်ပွဲတွင် တူရကီတို့ ရှုံးနိမ့်ခဲ့သောကြောင့် မက်ဆီဒိုးနီးယားနယ်ကို ဂရိ၊ ဆားဗီးယားနှင့် ဗူလဂေးရီးယား နိုင်ငံတို့ ခွဲဝေယူကြ၏။ ဗူလဂေးရီးယား နိုင်ငံသည် အသေးငယ်ဆုံး အစိတ်အပိုင်းကို ရသဖြင့် မကျေနပ်သောကြောင့် နောက်ထပ်နယ်မြေ ပိုမိုရရှိရေးအတွက် ၁၉၁၃ ခုနှစ်တွင် ဒုတိယ ဗော်လကန်စစ်ပွဲကို ဆင်နွှဲခဲ့၏။ သို့သော် ဗူလဂေးရီးယား သာလျှင် စစ်ရှုံးခဲ့၏။ ပဌမကမ္ဘာစစ်ကြီး ဖြစ်ပွားသောအခါ ဗူလဂေးရီးယားသည် မက်ဆီဒိုးနီးယားဒေသမှ နယ်မြေ ပိုမိုရရှိလိုသောကြောင့် ဗဟိုနိုင်ငံများနှင့် ပူးပေါင်းခဲ့၏။ မက်ဆီဒိုးနီးယားနယ်ကို ဗူလဂေးရီးယားက ခေတ္တမျှ သိမ်းပိုက်ထားနိုင်ခဲ့သော်လည်း စစ်ပြီးသောအခါတွင်မူ နယ်နိမိတ်ကို ရှေးအတိုင်းပင် ပြန်လည် သတ်မှတ်ခဲ့၏။ ဒုတိယကမ္ဘာစစ်ကြီးအတွင်းကလည်း ဗူလဂေးရီးယားသည် မက်ဆီဒိုးနီးယားကို သိမ်းပိုက်ထားနိုင်ခဲ့သော်လည်း ရှေးနည်းအတူ စစ်ကြီးပြီးသောအခါ ပြန်လည် လက်လွှတ်လိုက်ရပြန်၏။

မက်ဆီဒိုးနီးယားနယ်တွင် ယခုအခါ နေထိုင်သူတို့မှာ တူရကီ၊ ဗူလဂေးရီးယန်း၊ ဂရိ၊ အယ်လဗေးနီးယန်း၊ ယဟူဒီ အစရှိသည့်လူမျိုးတို့ဖြစ်၏။လူဦးရေမှာ ခုနယ်ပေါင်း၃,၂၅၀,၀၀၀ ခန့် ဖြစ်သည်။

**မက်ဆိုပိုတေးမီးယားနယ်။** ။မက်ဆိုပိုတေးမီးယားဟူသည် ဂရိဝေါဟာရဖြစ်၍ မြစ်နှစ်သွယ်ကြားမြေဟု အဓိပ္ပါယ်ရသည်။ ၁၉၁၉ ခုနှစ်မှစ၍ အီရက်ဟုခေါ်သော ဒေသတွင် မက်ဆိုပိုတေးမီးယားနယ် အကျုံးဝင်လေသည်။ မြစ်နှစ်သွယ်ကြားဟူသော အမည်နှင့်အညီ မက်ဆိုပိုတေးမီးယားနယ်၏ တည်နေရာမှာ ရှေးပါးရှားနှင့် အာရေဗျနိုင်ငံများ၏ စပ်ကြားရှိ တိုင်းဂရစ်မြစ်နှင့် ယူဖရေးတီးမြစ် ၂ သွယ်၏ အကြား၌ တည်ရှိလေသည်။ ယင်းဒေသသည် မြေဩဇာကောင်းမွန်၍ ကမ္ဘာ့ယဉ်ကျေးမှု ဦးစွာထွန်းကားရာ ဒေသလည်းဖြစ်၏။ အနောက်ဖက်တွင် မြေထဲပင်လယ်မှသည် အရှေ့ဖက်တွင် ပါးရှင်း ပင်လယ်ကွေ့အထိ ကျယ်ပြန့်လျက်၊ ရှေးယဉ်ကျေးမှုပေါ် ထွန်းရာ မြေဩဇာကောင်းသည့်လခြမ်းပုံသဏ္ဍာန်ရပ်ဝန်းကြီးတွင် တိုင်းဂရစ်မြစ်နှင့် ယူဖရေးတီးမြစ်တို့အကြားရှိ မက်ဆိုပိုတေးမီးယား တည်ရာဒေသသည် မြေဩဇာ အကောင်းဆုံးဖြစ်သည်။

ရှေးခေတ် မက်ဆိုပိုတေးမီးယားနယ်၏ အကျယ်အဝန်းသည် စတုရန်းမိုင် ၁၄၃,၀၀၀ မျှသာ ရှိသည်။ ဓမ္မဟောင်းကျမ်းတွင် ဤဒေသကို အရမ်နာဟာရိမ်ဟု ဖော်ပြပါရှိသည်။ ဓမ္မဟောင်း ကျမ်းတွင် ဖော်ပြပါရှိသော ရှေးသူဟောင်း အကြီးအကဲတို့ ပေါက်ဖွားနေထိုင်ရာ အရပ်ဖြစ်သည်ဟုလည်း ဆိုရိုးရှိပေသည်။

မက်ဆိုပိုတေးမီးယားနယ်၌ ရှေးခေတ်က ကောင်းစားကြီးကျယ်ခဲ့ပုံတို့ကို ရှေးဟောင်း နေရာများကို တူးဖော်ခြင်းဖြင့် သိရပေသည်။ ထိုသို့တူးဖော်ရာ၌ ဘီစီ ၄၀၀၀ ခန့်က ထိုအရပ်တွင် အခြေစိုက် နေထိုင်ကြသော ဆူမားရီးယန်းလူမျိုးတို့၏ ယဉ်ကျေးမှုကို အထောက်အထားပြသည့် ရှေးဟောင်းပစ္စည်းများကို တွေ့ရပေသည်။ သို့အားဖြင့် အစဉ်တစိုက် တွေ့ရှိရသည်မှာ ဆူမားရီးယန်းတို့ကို ဆီးမိုက်တို့ အနိုင်ရလျက် တိုင်းဂရစ်မြစ်ပေါ်ရှိ အက်ကတ်နယ်တွင် မင်းမှုကြီးစိုးခဲ့ကြပြန်သည်။

ရှေးဗက်ဗီလုံးနီးယားနိုင်ငံသည် မက်ဆိုပိုတေးမီးယား၏ တောင်ဖက်ပိုင်း ဖြစ်၏။ ဘီစီ ၁၃ ရာစုနှစ်တွင် အဆီးရီးယားသည် ဗက်ဗီလုံးနီးယားကို အနိုင်ရလေရာ အရှေ့ပိုင်း မက်ဆိုပိုတေးမီးယားတွင် အထွတ်အထိပ် ဖြစ်လာသည်။ တဖန် အဆီးရီးယန်းတို့အား မီဒလူမျိုးတို့က နှိမ်နင်းပြန်လေသည်။ မီဒတို့လက်မှ ထိုနယ်ကို ပါးရှင်းလူမျိုးတို့က ရယူပြီးသော် ပါးရှင်းလူမျိုးတို့ကို မက်ဆီဒိုးနီးယား ဘုရင်အယ်လက်ဇန္ဒာ-သ-ဂရိတ်က အောင်မြင်ခဲ့ပြန် လေသည်။ အေဒီ ၁၁၅ ခုနှစ်တွင် ရောမလူမျိုးတို့ ဝင်ရောက်တိုက်ခိုက်သော်လည်း ပါးရှင်းလူမျိုးတို့က တွန်းလှန်နှင်ထုတ်နိုင်ခဲ့၏။ အေဒီ ၆၃၇ ခုနှစ်တွင် အာရပ်တို့သည် ပါးရှင်းလူမျိုးများ အပေါ် အောင်မြင်ခဲ့၍၊ ထိုနယ်ကို နောက်တနှစ်တွင်သိမ်းယူပြီးသော် နှစ်ပေါင်း ၄၀၀ ကျော်အုပ်စိုးလျက် ဗဂ္ဂဒက်ကို မြို့တော်ပြုခဲ့ပေသည်။ ၁၁ ရာစုနှစ်တွင် မွန်ဂိုလူမျိုးတို့ စီးနင်းဝင်ရောက် တိုက်ခိုက်ကာ နှစ်ပေါင်း ၂၀၀ မျှ ထိပါးနှောင့်ယှက်ခဲ့သည်။ ၁၅၁၆ ခုနှစ်တွင် မက်ဆိုပိုတေးမီးယားသည် တူရကီတို့၏ လက်အောက်သို့ ရောက်ခဲ့လေရာ၊ ပဌမ ကမ္ဘာစစ်ကြီး ပြီးဆုံးသည်အထိပင် တူရကီတို့၏ လက်အောက်ခံဖြစ်နေခဲ့လေသည်။ ၁၉၁၉ ခုနှစ်တွင် အာရပ်တို့က နိုင်ငံထူထောင်သည်တွင် အီရက်ဟူ၍ တွင်လာပေသည်။ (အီရက်နိုင်ငံ — လည်းရှု။)

**မက်ထရစ်စံနစ်။** ။ခရစ် ၁၇၉၀ ပြည့်နှစ်က ပြင်သစ်နိုင်ငံမှ ၁၆ ဆက်မြောက် လူဝီဘုရင်သည် အလေးချိန်နှင့် တိုင်းတာနည်းကို တညီတညွတ်တည်းဖြစ်စေရန် အကြံတော်ရှိခဲ့သည်အတိုင်း သိပ္ပံပညာရှင်များပါဝင်သော သိပ္ပံပညာတံခွန်အသင်း တသင်းကို ပြင်သစ်နိုင်ငံ၌ ဖွဲ့စည်းစေခဲ့၏။ ထိုဘုရင်သည် အလေးချိန်နှင့် အတိုင်းအတာကို တကမ္ဘာလုံး၌ တညီတည်းဖြစ်စေရန် ရည်ရွယ်သဖြင့် အခြားတိုင်းနိုင်ငံများမှ သိပ္ပံပညာရှင်များကိုလည်း ဖိတ်ခေါ် စေခဲ့သည်။ သို့သော် ၅ နိုင်ငံမှ ကိုယ်စားလှယ်များသာ တက်ရောက်ခဲ့၍ အခြားနိုင်ငံများမှ မတက်ရောက်ခဲ့ကြချေ။

ကော်မီတီအဖွဲ့ဝင် သိပ္ပံဆရာကြီးတို့ ရင်ဆိုင် တိုးခဲ့ရသော ပြဿနာရပ်မှာ လွယ်ကူလှသည် မဟုတ်ပေ။ သူတို့ကြံဆကြရမည့် အတိုင်းအတာများသည်ကား ကမ္ဘာပေါ်တွင်ရှိသမျှ ပစ္စည်းတို့ကို တိုင်းတာနိုင်ကြရပေမည်။ ထိုစံနစ်သည် အခန်းတွင်းရှိသည့် အလျားအနံ စသည်တို့ကို တိုင်းတာနိုင်သကဲ့သို့ပင် တမြို့မှ တမြို့ အကွာအဝေးကို တိုင်းတာနိုင်ကြရပေမည်။ သေးငယ်သော ခြံမြေမှအစ တပြည်လုံးရှိ မြေဧရိယာကို တွက်နိုင်ကြရမည်။ တွယ်အပ်ချောင်းခန့် ပစ္စည်းများမှအစ နေလုံးကဲ့သို့ ကြီးမားသော ထုထည်ကြီးမားသည့် အရာဝတ္ထုများကို ချိန်စက်နိုင်ကြရပေမည်။ ဤသိပ္ပံကဝိကြီးများသည် ဦးခေါင်းတရာ ပညာတခု ဆိုသည့် စကားနှင့် လျော်ညီစွာ နောက်ဆုံး၌ မိမိတို့ အလိုနှင့် သင့်တော်သည့် စံနစ်တမျိုးကို တွေ့ရှိခဲ့ကြသည်။

ဦးစွာ၌ သူတို့သည် ပါရစ်မြို့ကို ဖြတ်သွားသည့် လောင်ဂျီတွဒ်ကိုယူ၍ တကုဋေပုံ တပုံကို မီတာဟု သတ်မှတ်ခဲ့သည်။ ထိုမီတာကို ၁၀ လီ၊ ၁၀၀ လီ၊ ၁၀၀၀ လီ စသည်ဖြင့် ဆယ်ဆစီ တိုး၍ မီတာထက်ကြီးသောအတိုင်းများကို ပြုလုပ်ယူပြီးလျှင် ဆယ်စိတ်၊ ရာစိတ်၊ ထောင်စိတ် စသည်ဖြင့်မီတာထက်ငယ်သော အတိုင်းများကို ခွဲစိတ်ယူသည်။ ထိုသို့ ပြုလုပ်ပြီးသုံးစွဲသော အတိုင်းများကို အောက်ပါ ဇယားတွင် ဖော်ပြထားပေသည်။

| | | | |
|---|---|---|---|
| ၁၀ | မီလီ မီတာ | = | ၁ စင်တီ မီတာ |
| ၁၀ | စင်တီ မီတာ | = | ၁ ဒက်စီ မီတာ |
| ၁၀ | ဒက်စီ မီတာ | = | ၁ မီတာ |
| ၁၀ | မီတာ | = | ၁ ဒက်ကာ မီတာ |
| ၁၀ | ဒက်ကာ မီတာ | = | ၁ ဟက်တို မီတာ |
| ၁၀ | ဟက်တို မီတာ | = | ၁ ကီလို မီတာ |

မီလီမီတာသည် $\frac{၁}{၂၅}$ လက်မခန့်နှင့်ရင်း၊ စင်တီ မီတာသည် $\frac{၂}{၅}$ လက်မခန့်နှင့်ရင်း၊ မီတာသည် ၃၉ $\frac{၂}{၅}$ လက်မခန့်နှင့်ရင်း၊ ကီလိုမီတာသည် $\frac{၅}{၈}$ မိုင်ခန့်နှင့်ရင်း အသီးအသီး ညီမျှသည်။ အလျားတိုင်းကို ရသောအခါ ဧရိယာနှင့် ထုထည်ကို လွယ်ကူစွာ တိုင်းတာနိုင်သည်။ စက္ကူတရွက်၏ ဧရိယာကို စတုရန်း မီလီမီတာ၊ သို့မဟုတ် စင်တီမီတာဖြင့်ရင်း၊ ပြည်တပြည်လုံး ဧရိယာကို စတုရန်း ကီလိုမီတာဖြင့်ရင်း ရေးသားဖော်ပြနိုင်သည်။ ထုထည်ကိုမူကား ကုဗစင်တီမီတာ၊ ကုဗဒက်စီမီတာ၊ ကုဗကီလိုမီတာ စသည်ဖြင့် အရွယ်ကိုလိုက်ပြီး သုံးစွဲကြသည်။

ထိုနောက် အရှည်ကို တိုင်းရန် ပိုင့်၊ ကွပ်စသည့် အတိုင်းများအစား အထက်ဖော်ပြပါ အတိုင်းအတာများဖြင့် စံနစ်တခုကို စီမံယူခဲ့ကြသည်။ သူတို့သည် အနား ၁၀ စင်တီမီတာစီရှိသော အန်စာပုံခွက်အရွယ်၊ သို့မဟုတ် ကုဗ ၁၀၀၀ စင်တီ မီတာရှိသော အရွယ်ကို တလီတာဟု သတ်မှတ်ခဲ့ကြသည်။ တလီတာသည် ၁ ၃/၄ ပိုင့်ခန့်နှင့် ညီမျှ၏။ ထိုနောက် အလျားတိုင်းတွင်ကဲ့သို့ ထုထည် အကြီးများကို တိုင်းရန် ၁၀ လီ၊ ၁၀၀ လီ၊ ၁၀၀၀လီ အသီးအသီး ပြုလုပ် ယူပြီးလျှင် ထုထည် အငယ်မျိုးကို တိုင်းရန် ဆယ်စိတ်၊ ရာစိတ်၊ ထောင်စိတ်စသည်ဖြင့် အောက်ပါဇယားအတိုင်း အသီးအသီးခွဲစိတ်ယူသည်။

| | | | | |
|---|---|---|---|---|
| ၁၀ | မီလီ လီတာ | = | ၁ | စင်တီလီတာ |
| ၁၀ | စင်တီ လီတာ | = | ၁ | ဒက်စီ လီတာ |
| ၁၀ | ဒက်စီ လီတာ | = | ၁ | လီတာ |
| ၁၀ | လီတာ | = | ၁ | ဒက်ကာလီတာ |
| ၁၀ | ဒက်ကာ လီတာ | = | ၁ | ဟက်တို လီတာ |
| ၁၀ | ဟက်တို လီတာ | = | ၁ | ကီလို လီတာ |

အလေးချိန်ကိုမူကား သူတို့သည် ရေမှ ရယူကြသည်။ စင်တီဂရိတ် ၄ ဒီဂရီအပူချိန်တွင် ရေသည် အလေးဆုံး ဖြစ်၍ ထိုရေ တကုဗစင်တီမီတာ၏ အလေးချိန်ကို တဂရမ်ဟု သတ်မှတ်ယူကြသည်။ (တဂရမ်သည် ၁/၃၀ အောင်စသာသာ ရှိသည်။)တဂရမ်ကို တဖန် အောက်ပါအတိုင်း ဆယ်လီ၊ ရာလီ၊ ထောင်လီသို့ရှင်း၊ ဆယ်စိတ်၊ ရာစိတ်၊ ထောင်စိတ်သို့ရှင်း သတ်မှတ်ယူကြပြန်သည်။

| | | | | |
|---|---|---|---|---|
| ၁၀ | မီလီ ဂရမ် | = | ၁ | စင်တီ ဂရမ် |
| ၁၀ | စင်တီ ဂရမ် | = | ၁ | ဒက်စီ ဂရမ် |
| ၁၀ | ဒက်စီ ဂရမ် | = | ၁ | ဂရမ် |
| ၁၀ | ဂရမ် | = | ၁ | ဒက်ကာ ဂရမ် |
| ၁၀ | ဒက်ကာ ဂရမ် | = | ၁ | ဟက်တို ဂရမ် |
| ၁၀ | ဟက်တို ဂရမ် | = | ၁ | ကီလို ဂရမ် |

ထိုသိပ္ပံဆရာကြီးများသည် အတိုင်းအတာများကို တီထွင်ခဲ့ရာ၌ လွယ်ကူစေရန် ထိုအတိုင်းအတာများကို ခွဲစိတ်ပြီး သတ်မှတ်သောအခါ လက်တင်အမည်များ ပေးခဲ့၍ အလီပြုလုပ်ပြီး သတ်မှတ်သောအခါ၌မူကား ဂရိအမည်များကို ပေးခဲ့ကြသည်။ ပုံပမာ မီလီမီတာသည် လက်တင်စကားဖြစ်၍ မီတာ၏ ထောင်စိတ်ဟု အဓိပ္ပါယ်ရပြီးလျှင် ကီလိုမီတာမှာ ဂရိစကားဖြစ်၍ မီတာတထောင်ဟု အဓိပ္ပါယ် ရသည်။

မက်ထရစ်စံနစ်ကို ကမ္ဘာ့အရပ်ရပ်၌ သိပ္ပံဆရာများ သုံးစွဲလျက် ရှိကြသည်။ ဤစံနစ်သည် ရှေးဟောင်းစံနစ်များထက် တွက်ချက်ရာ၌ ပိုမိုလွယ်ကူ၍ ပိုမိုတိကျသဖြင့် ကမ္ဘာ့အနှံ့အပြားမှာပင် အခြားကိစ္စများအတွက်လည်း တဖြည်းဖြည်း အသုံးများလာလျက် ရှိပေသည်။

**မက်တားလင့်** (ခရစ် ၁၈၆၂–၁၉၄၉)။ ။မောရစ် မက်တားလင့်သည် ဗဲလဂျီယန်လူမျိုးဖြစ်၍ ပြဇာတ်ရေးဆရာ၊ စာမွန်ဆရာ၊ ယထာဘူတပညာရှင်၊ သဘာဝပညာရှင် အဖြစ်ဖြင့် ထင်ရှား၏။ မက်တားလင့်သည် ခရစ် ၁၈၆၂ ခုနှစ် ဩဂုတ်လ ၂၉ ရက်နေ့တွင် ဂင့်မြို့၌ မွေးဖွားသည်။ ဂင့်မြို့ရှိ ဂျက်ဇူးအစ်ကျောင်းတကျောင်းတွင် ပညာဆည်းပူးသင်ကြားပြီးနောက် ဂင့်တက္ကသိုလ်သို့ ဆက်လက် တက်ရောက်သင်ယူလေသည်။ ခရစ် ၁၈၈၆ ခုနှစ်တွင် ဝတ်လုံဘွဲ့ကိုရသည်။ နောက်တနှစ်တွင် ပါရစ်မြို့သို့အလည်အပတ်သွားယင်း ဗီလစ်ဒီလျေးဒါလေလဒန်းနှင့် အခြား စာရေးဆရာတို့နှင့် ပေါင်းဆုံမိကာ ယင်းတို့ဆွဲဆောင်ရာသို့ ပါသွား၏။ အဆိုပါ စာရေးဆရာ တစုသည် အနုစာပေတွင် အစစ်ဝါဒကိုဆန့်ကျင်လျက် အဖြစ်မှန်ထက် သဘောမှန်ကို အသားပေးကာ လျှို့ဝှက်နက်နဲသောအကြောင်းများ၊ အနုမာန သဘောတရားများကို ပုံသဏ္ဌာန် သရုပ်ဖော်လျက် သညာဝါဒကို တီထွင်အားပေးကြသူများ ဖြစ်ကြ၏။ ယင်းစာရေးဆရာတစုနှင့် တွေ့ပြီးသည့်နောက် မက်တားလင့်သည် ဥပဒေပညာကို စွန့်လွှတ်၍ စာပေကိုလိုက်စားလေ၏။ ဖခင်သေဆုံးသောအခါ မက်တားလင့်သည် ဗဲလဂျီယမ်နိုင်ငံသို့ ပြန်၏။ ဖခင်ထံမှ အမွေအနှစ် အတော်အသင့် ရရှိသောကြောင့် ကောင်းမွန် ချမ်းသာစွာ နေထိုင်နိုင်၏။ စာပေများကို ရေးသားခြင်းဖြင့် အချိန် ကုန်လွန်စေ၏။

၁၈၉၆ ခုနှစ်တွင် ပါရစ်မြို့သို့ ပြန်လည်သွားရောက် နေထိုင်သော်လည်း ဗဲလဂျီယမ်နိုင်ငံသားအဖြစ်ကိုမူ မစွန့်လွှတ်ချေ။ ၁၉၁၁ ခုနှစ်၌ အနုစာပေအတွက် နိုဗဲဆုဖြင့် ချီးမြှင့်ခြင်းခံရ၏။ပဌမကမ္ဘာစစ်ပွဲကြီးအတွင်းက ပြင်သစ်နှင့် ဗဲလဂျီယမ်နိုင်ငံများအတွက် ကယ်ဆယ်ရေးလုပ်ငန်းများတွင် ပါဝင်လုပ်ကိုင်ထမ်းဆောင်သည်။ ၁၉၃၂ ခုနှစ် အသက် ၇၀ မြောက်မွေးနေ့တွင် ဗဲလဂျီယမ်ဘုရင်က မက်တားလင့်အား ကောင့်ဘွဲ့ဖြင့် ချီးမြှင့် မြှောက်စား၏။ မက်တားလင့်သည် အမေရိကန်ပြည်ထောင်စုသို့ ၁၉၁၉ ခုနှစ်က စာပေ ပို့ချရန်အတွက် တကြိမ်ရောက်၍ ဒုတိယကမ္ဘာစစ်အတွင်း ဖြစ်သော ၁၉၄၀ ပြည့်နှစ်၌ ပြင်သစ်တို့ လက်နက်ချသောအခါက ဒုတိယအကြိမ်ရောက်ကာ နယူးယော့မြို့တွင် သွားရောက်နေထိုင်သည်။ နှစ်အနည်းငယ်ကြာလျှင် ပြင်သစ်နိုင်ငံသို့ ပြန်၍ သေဆုံးသည့်တိုင် နေထိုင်လျက် မှတ်တမ်းများကို ရေးသားခဲ့သည်။

မက်တားလင့်သည် ဗဲလဂျီယန်လူမျိုးဖြစ်လင့်ကစား သူ ရေးသားခဲ့သော စာပေများမှာ ပြင်သစ် ဘာသာဖြင့် ဖြစ်၍ ပြင်သစ်တို့ကဲ့သို့ တွေ့ခေါ် ယူဆ၏။ ရေးသားသော စာပေများမှာ လစ်ရစ်ကဗျာများ၊ ပြဇာတ်များ၊ ယထာဘူတဆန်သော စာမွန်များဖြစ်၏။ သူ၏ စာပေများကို ဘာသာ



ဗဲလဂျီယန် ပြဇာတ်ရေးဆရာကြီး မက်တားလင့်

ခြားသို့ ပြန်ဆိုရေးသားထားရာတွင် လူကြိုက်များ၍ အပြည်ပြည်တွင် ကျော်ကြား၏။ သူ၏စာပေ အမြောက်အမြားကို အင်္ဂလိပ်ဘာသာဖြင့် ပြန်ဆိုထားပေသည်။ ဝိညာဉ်ဝါဒစွဲ စာဆိုဖြစ်သည်နှင့်အညီ သူရေးသားသော စာပေများမှာ တကယ့်လူ တကယ့်အဖြစ်အပျက်အကြောင်း မဟုတ်ဘဲ၊ အပေါ်လွှာ အောက်တွင် ဖုံးလွှမ်းလျက်ရှိသော သိမ်မွေ့နက်နဲသည့် စိတ်အာရုံခံစားမှု သဘောမှန်တို့ကို အသွင်သဏ္ဍာန်သရုပ်ဆောင်၍ ပြထား၏။ မက်တားလင့်သည် လူ့လောက၏ လျှို့ဝှက်နက်နဲသော သဘောတရားများကို အထူးအာရုံပြု၍ ဖွဲ့ဆို၏။ မက်တားလင့်၏ စာပေကဗျာများသည် လက်ဦးပိုင်းတွင် စိတ်ကူးယဉ်သော်လည်း နောက်ပိုင်းတွင်မူ အစစ်အမှန် ဝါဒဆန်လာပေသည်။ မည်သည့်စာတွင်မဆို ထွင်ဉာဏ်နှင့် အလှအပအာရုံကို ခံစားတတ်ကြောင်း ဖော်ပြပေသည်။ မက်တားလင့်သည် သူတပါးစိတ် စွဲအောင် ပြောင်မြောက်စွာ ဖွဲ့ဆိုနိုင်သော စာဆိုကျော်ဖြစ်ပေသည်။

သူရေးသားခဲ့သော စာပေများအနက် ထင်ရှားသော လက်ရာ အများအပြားပင် အင်္ဂလိပ်ဘာသာသို့ ပြန်ဆိုထားလျက်ရှိ၏။ ပြန်ဆိုထားသော ပြဇာတ်များမှာ 'မာလိန်းမင်းသမီး' (၁၈၉၂)၊ 'ပယ်လီယတ်နှင့် မယ်လေဇန်း' (၁၈၉၂)၊ 'အယ်လာဒင်းနှင့် ပယ်လိုမီဒီး' (၁၈၉၈)၊ 'အက်ဂလာမိန်းနှင့် ဆယ်လီဆက်တီ' (၁၈၉၉)၊ 'ငှက်ပြာ' (၁၉၀၉)၊ 'စေ့စပ်ကြောင်းလမ်းမင်္ဂလာ' (၁၉၁၂)၊ 'မုန်တိုင်းဒဏ်' (၁၉၁၆)၊ အစရှိသည်တို့ ဖြစ်၏။ စာမွန်နှင့် ယထာဘူတ စာပေများအနက် အင်္ဂလိပ်ဘာသာသို့ ပြန်ဆိုထားလျက် ရှိသည်တို့ကား 'ဉာဏ်ပညာနှင့် ကံကြမ္မာ' (၁၈၉၈)၊ 'နှစ်ခြုံပိုင်' (၁၉၀၄)၊ 'ဆန်းကြယ်ထွေလာ ကြယ်တာရာ' (၁၉၉၀) အစရှိသည်တို့ ဖြစ်ကြ၏။

မက်တားလင့်သည် သဘာဝပညာရှင်ဖြစ်သည်နှင့် အညီ သဘာဝပညာနှင့် စပ်လျဉ်းသော စာပေများကိုသည်း ရေးသားပေသည်။ အင်္ဂလိပ်ဘာသာသို့ ပြန်ဆိုထားရှိသော အချို့စာများမှာ 'ပျား၏ဘဝ' (၁၉၀၁)၊ 'ခြင်၏ဘဝ' (၁၉၂၆)၊ 'ပရွက်ဆိတ်၏ ဘဝ' (၁၉၃၁)၊ 'ခိုများနှင့် ပင့်ကူများ' (၁၉၃၆) အစရှိသည်တို့ပင်တည်း။

မက်တားလင့်အား နိုဗဲဆုကို 'ငှက်ပြာ' ပြဇာတ်ကို အကြောင်းပြု၍ ချီးမြှင့်လေသည်။ ယင်းနှင့် 'မွန်နာဗန်နာ'၊ 'ပယ်လီယတ်နှင့် မယ်လေဇန်း' အစရှိသော ပြဇာတ်များကို အထူးသဖြင့် ဥရောပတိုက်၊ ဂရိတ်ဗြိတိန်နှင့် အမေရိကန်ပြည်ထောင်စု ပွဲကြည့်ပရိသတ်များ သဘောကျ စွဲလမ်းသဖြင့် ကျော်ကြားပေ၏။

မက်တားလင့်သည် ၁၉၄၉ ခုနှစ် မေလ ၆ ရက်နေ့တွင် ပြင်သစ်နိုင်ငံ နီးစမြို့အနီးရှိ သူ၏နေအိမ်တွင် ကွယ်လွန်အနိစ္စရောက်လေသည်။

**မက်ဒါဂက်စကာကျွန်း။** ။မက်ဒါဂက်စကာကျွန်းသည် ပြင်သစ် အုပ်ထိန်းခံဖြစ်ခဲ့၍ ယခုအခါတွင်မူ မာလာဂေဆီ သမတနိုင်ငံဟူ၍ ၁၉၆၀ ပြည့်နှစ်မှအစပြုကာ လွတ်လပ်သောအချုပ်အချာ အာဏာပိုင်နိုင်ငံတခု ဖြစ်လာခဲ့သည်။ ထိုကျွန်းသည် အာဖရိကတိုက်၏ အရှေ့တောင်ဖက် မိုင် ၂၅၀ အကွာတွင် အိန္ဒိယသမုဒ္ဒရာ အနောက်ပိုင်း၌ တည်ရှိလျက် ကမ္ဘာပေါ်တွင် စတုတ္ထသိုက်သော ကျွန်းကြီးဖြစ်၏။ အာဖရိကတိုက် ကုန်းမနှင့် မိုဇမ်ဗစ် ရေလက်ကြားကြီးသာ ခြားနေပေသည်။ အလျားမိုင် ၉၈၀ ရှိ၍ အကျယ်ဆုံးနေရာတွင် အနံမိုင် ၃၆၀ ရှိသည်။ မက်ဒါဂက်စကာ ကျွန်းမသည် အကျယ်အဝန်းအားဖြင့် စတုရန်းမိုင် ၂၂၇,၇၆၀ရှိပြီးလျှင်၊ အပေါင်းပါ ကျွန်းများနှင့်ဆိုသော် စုစုပေါင်း အကျယ်အဝန်းမှာ စတုရန်းမိုင် ၁၅၅,၃၀၀ ပိုလာမည် ဖြစ်၏။ မြို့တော်မှာ တာနာနာရစ်မြို့ဖြစ်ကာ၊ အခြားမြို့ကြီးများမှာ အန္တဆီရားပေနှင့် ဆိပ်ကမ်းမြို့များဖြစ်သော တားမားတော့၊ မာဂျန်ဂါ၊ အန်းဆီးနားရေး (ဒယေးဂိုဆွားရေး)တို့ ဖြစ်၏။

မက်ဒါဂက်စကာကျွန်းသည် ကုန်းပြင်မြင့် ဖြစ်၍ အမြင့်ဆုံးအပိုင်းသည် ကျွန်း၏အရှေ့ဖက်တွင် ရှိပြီးလျှင် ရေမျက်

နှာပြင်ထက် ပေ ၆၀၀ ကျော်မြင့်သည်။ အရှေ့ဖက်ကမ်းရိုးတန်းသည် ဖြောင့်တန်း၍ သန္တာကျောက်တန်းများရှိသည်။ အစဉ်သဖြင့် လေပြင်း တိုက်ခတ်လျက် ရှိသောကြောင့် သင်္ဘောများ သွားလာခုတ်မောင်းရာ၌ အန္တရာယ်များလေသည်။ သို့သော် ကမ်းရိုးတန်း တလျှောက် သန္တာကျောက်တန်းများ၏ အနောက်ဖက်ရှိ ပင်လယ်ထုံးများသည် ဆက်နေသဖြင့် လှေများ သွားလာနိုင်ပေသည်။

ကျွန်း၏ အလယ်ပိုင်းကုန်းပြင်မြင့်တွင် မီးတောင်များရှိလျက်၊ ယင်းတို့ဝယ် ရွှေ၊ လချေး၊ မဟူရာ၊ ဂရက်ဖိုက်နှင့် အခြား သယံဇာတ ပစ္စည်းအချို့ ရှိသည်။ သို့သော် ဂရုတစိုက် တူးဖော်လုပ်ကိုင်ခြင်းမရှိသေးပေ။ အရှေ့ဖက် ကမ်းရိုးတန်းသည် အပူပိုင်းသစ်တောများဖြင့် ထူထပ်စွာ ဖုံးအုပ်လျက် ရှိသော်လည်း အလယ်ပိုင်းကုန်းပြင်မြင့်တွင် သစ်ပင်များ ခပ်ကျဲကျဲသာ ပေါက်သည်။ မက်ဒါဂက်စကာကျွန်း၏ ရာသီဥတုမှာ အပူပိုင်းဒေသ ရာသီဥတုမျိုးဖြစ်၏။ ထူးခြားသော အချက်တခုမှာ မက်ဒါဂက်စကာကျွန်းသည် အာဖရိကတိုက်နှင့် နီးကပ်စွာ တည်ရှိသော်လည်း၊ မက်ဒါဂက်စကာကျွန်းရှိ တိရစ္ဆာန်တို့မှာ အာဖရိကတိုက်တွင် တွေ့ရသော တိရစ္ဆာန်မျိုးနှင့် မတူဘဲ ဝေးလံသော မလ္လာယုကျွန်းစုမှ တိရစ္ဆာန်များနှင့်သာ တူခြင်းဖြစ်ပေသည်။ မက်ဒါဂက်စကာကျွန်းတွင် လီမာမျောက်မှ လွဲ၍ အခြားသားရဲတိရစ္ဆာန်ကြီးများသော်ငြား၊ အဆိပ်ပြင်းသော မြွေများသော်ငြား မရှိပေ။

မက်ဒါဂက်စကာကျွန်းတွင် နေထိုင်သူ တိုင်းရင်းသားတို့မှာ မာလာဂေဆီဟု ခေါ်တွင်သည်။ ယင်းတို့သည် အာဖရိကန်၊ သို့မဟုတ် နီးဂရိုး အဆက်အနွယ်များမဟုတ်ဘဲ အာရှတိုက်နှင့် အိုရှီယန်နီးယား (ပစိဖိတ် သမုဒ္ဒရာတွင်းရှိ ကျွန်းများ)တွင် နေထိုင်သူများနှင့် နီးစပ်ပေသည်။ ဘာသာ စကား၊ ယဉ်ကျေးမှုအစရှိသည်တို့မှာလည်း ပေါ်လီနီးရှင်းနှင့် ပသျှူးတို့နှင့် ခပ်ဆင်ဆင်တူသည်။

မက်ဒါဂက်စကာ ကျွန်းတွင် အဓိကလုပ်ငန်းမှာ လယ်ယာစိုက်ပျိုးခြင်း ဖြစ်၏။ စိုက်ပျိုးသော အပင်တို့မှာ အထူးသဖြင့် ဆန်စပါး၊ အာလူး၊ ကြံပင်၊ ပီလောပီနံဥ၊ ပြောင်း၊ ကာဖီပင်တို့ ဖြစ်၏။ ကျွဲ နွားများကိုလည်း မွေးမြူသည်။ မက်ဒါဂက်စကာကျွန်း၏ အဓိကထုတ်ကုန်မှာ ကာဖီဖြစ်ပြီး လျှင်၊ ကိုကိုး၊ လေးညှင်း၊ ငရုတ်ကောင်း၊ သစ်ကြံပိုး၊ ကိုပရာ၊ ဆေးရွက်၊ သကြား၊ ဗနီလာတို့ကိုလည်း တင်ပို့ရောင်းချ၏။ တွင်းထွက်ပစ္စည်း ထွက်ကုန်များတွင် ဂရက်ဖိုက်သည် အရေးပါ အရာရောက်ဆုံး ဖြစ်ပြီးလျှင် လချေး၊ ဖော့စဖိတ်၊ ရွှေနှင့် ကျောက်မျက်များလည်း ထွက်သည်။ မက်ဒါဂက်စကာကျွန်း၏ အရေးပါသော လုပ်ငန်းတို့မှာ ခြည်ထည်နှင့် ပိုးထည် လုပ်ငန်းများနှင့် မြက်ဦးထုပ်လုပ်ငန်းတို့ဖြစ်၏။ မက်ဒါဂက်စကာကျွန်းတွင် သယ်ယူ ပို့ဆောင်မှု မလွယ်ကူလှချေ။ ကားလမ်းများရှိသော်လည်း မကောင်းပေ။ ကမ်းရိုးတန်းတလျှောက်တွင် သင်္ဘောကြီးများ ခရီးရှည်မသွားနိုင်ပေ။ ကုန်းပြင်မြင့်၏ အလယ်ဗဟိုအနီးတွင် တည်ရှိသော မြို့တော် တာနာနာရစ်နှင့် ဆိပ်ကမ်းမြို့ဖြစ်သော တာမာတေ့တို့ကို ဆက်သွယ် ထားသော မီးရထားလမ်းမိုင် ၁၀၀ မျှ ရှိလေသည်။

မက်ဒါဂက်စကာကျွန်းကို ရှေးအခါကာလက အာရပ်လူ



မက်ဒါဂက်စကာကျွန်း၏မြို့တော် တာနာနာရစ်မြို့၏ ရှုခင်းတရပ်

မျိုးတို့ လာရောက်၍ နယ်သစ်စိုက်ထူကြသည်။ ထို့နောက် ၁၅၀၀ ပြည့် နှစ်ခန့်က ပေါ်တူဂီ လူမျိုးတို့ ရောက်လာကြသည်။ ၁၇ ရာစုနှစ်တွင် ပြင်သစ်တို့ လာရောက်၍ စခန်းများ ဖွင့်ကြသည်။ သို့သော် ကြာမရှည်ပေ။ ၁၈ ရာစုနှစ်တွင် ပြန်လည် ဖွင့်လှစ်ပြန်သည်။ ၁၈၁၀ ပြည့်နှစ်မှ ၁၈၁၁ ခုနှစ် အထိ ပြင်သစ်စခန်းများကို ဗြိတိသျှတို့က သိမ်းပိုက်ထားခဲ့၏။ ထိုအတောအတွင်း ခရစ်ယန် အယူဝါဒီဖြစ်သော တိုင်းရင်းသား အကြီးအကဲတဦးသည် ပဌမရှိဒါမာဘုရင်အဖြစ် နန်းတက်အုပ်စိုးသည်။ ယင်းဘုရင် လွန်ပြီးနောက် အချင်းချင်း မသင့်မတင့် ဖြစ်ကြပြန်လေရာ ပြင်သစ်တို့က ဥရောပတိုက်ရှိ လက်နက်နိုင်ငံများအား ငြိမ်ဝပ် ပိပြားအောင် ဆောင်ရွက်ပေးရန် တောင်းပန်ခဲ့ကြသည်။ ၁၈၉၀ ပြည့်နှစ်တွင် အင်္ဂလန်ပြည်က မက်ဒါဂက်စကာတွင် ပြင်သစ်တို့ အုပ်ထိန်းခြင်းကို အသိအမှတ် ပြုခဲ့သော်လည်း မာလာဂေဆီတို့က လက်မခံခဲ့ပေ။ ထို့ကြောင့် မက်ဒါဂက်စကာသို့ စစ်တပ်များ စေလွှတ်ကာ ထိုစဉ်က အုပ်စိုးနေသော ဘုရင်မအား ပြင်သစ်တို့ အုပ်ထိန်းခြင်းကို လက်ခံအောင် အတင်းအကြပ်ပြုခဲ့သည်။ ၁၈၉၆ ခုနှစ်တွင် မက်ဒါဂက်စကာကျွန်းသည် ပြင်သစ်တို့၏ ကိုလိုနီနယ် ဖြစ်လာသည်။ ဒုတိယကမ္ဘာစစ် အတွင်းက ၁၉၄၂ ခုနှစ်တွင် မက်ဒါဂက်စကာကျွန်းကို ဗြိတိသျှတို့ သိမ်းပိုက် ထားခဲ့သည်။ ဤသို့ပြုရခြင်းမှာ အိန္ဒိယသမုဒ္ဒရာအတွင်းရှိ မဟာမိတ်သင်္ဘောများကို တိုက်ခိုက်နိုင်ရန် အလို့ငှါ မက်ဒါဂက်စကာကျွန်းကို ဝင်ရိုးတန်းနိုင်ငံများက အသုံးပြုခြင်းမှ ကာကွယ်ရန်အတွက် ဖြစ်၏။ သို့သော် နောင်အခါ ဗြိတိသျှတို့သည် မိမိတို့ဖက်သား ပြင်သစ်တို့အား ပေးအပ်ခဲ့သည်။ စစ်ပြီးကာလတွင် မက်ဒါဂက်စကာကျွန်းသည် ပြင်သစ်သမဂ္ဂတွင် အဝင်အပါဖြစ်သော ပင်လယ်ရပ်ခြား ပြင်သစ်ပိုင်နယ် ဖြစ်လာခဲ့၏။ ၁၉၄၇ ခုနှစ်တွင် တိုင်းရင်းသားများ လက်နက်ကိုင်၍ ပုန်ကန်ထကြွသော်လည်း ပြင်သစ်တို့က မကြာမီ နှိမ်နင်းလိုက်လေသည်။ ၁၉၅၇ ခုနှစ် စက်တင်ဘာလတွင် ကျင်းပခဲ့သော ပြည်သူ့ဆန္ဒ မေးပွဲကြီး၌ မက်ဒါဂက်စကာကျွန်းသည် ပြင်သစ်ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေသစ်ကို တကျွန်းလုံးလိုလို ထောက်ခံခဲ့၍ ပြင်သစ်ပြည်ထောင်စုတွင် အဝင်အပါ သမတနိုင်ငံတခု ဖြစ်လာခဲ့သည်။ မာလာဂေဆီ သမတနိုင်ငံ ဟူ၍လည်း အမည်ပြောင်းလိုက်လေသည်။ ၁၉၆၀ ပြည့်နှစ်တွင် အချုပ်အချာ အာဏာပိုင် လွတ်လပ်သော သမတနိုင်ငံ ဖြစ်လာခဲ့လေသည်။

မက်ဒါဂက်စကာကျွန်းနှင့် အပေါင်းပါ ကျွန်းများတွင် နေထိုင်လျက်ရှိသော လူဦးရေမှာ ခန့်မှန်းခြေ ၄,၅၄၀,၀၀၀ ဖြစ်လျက်၊ ဥရောပတိုက်သား အထူးသဖြင့် ပြင်သစ်လူမျိုး ၅,၀၀၀ ခန့် ပါဝင်လေသည်။

**မက်ပါကရင်နှင့် ပယ်လျူဒရင်။** ။ငှက်ဖျား ရောဂါသည် လူများကို သေကြေပျက်စီးစေသော ရောဂါဆိုးကြီး ဖြစ်သဖြင့် များစွာ ကြောက်မက်ဖွယ် ကောင်းပေသည်။ ကွီနိုင်ဆေးကို လိုသလောက် မရနိုင်ခဲ့လျှင် ငှက်ဖျားရောဂါကို မည်သို့မျှ မကာကွယ်နိုင်ပေ။ ကွီနိုင်အစား အသုံးပြုနိုင်မည့် အခြားဆေးဖက်ဘာမျိုးကို ကြံဆကြရာတွင် "မက်ပါကရင်" ခေါ်သော ဆေးကို ခရစ် ၁၉၄၂ ခုနှစ်လောက်က တွေ့ရှိကြလေသည်။ မက်ပါကရင်သည် ငှက်ဖျားရောဂါကို တိုက်ဖျက်ရာ၌ ကွီနိုင်ထက် ၃ ဆမျှပို၍ တန်ခိုးအာနိသင် ရှိပေသည်။

မက်ပါကရင်နှင့် ကွီနိုင်တို့မှာ ငှက်ဖျား ရောဂါကို အမြစ်ပြတ်အောင် မဖြတ်နိုင်ကြသောကြောင့် မက်ပါကရင်ထက် တန်ခိုးအာနိသင် ထူးကဲသော ဆေးတမျိုးကို တဖန် စီမံ ကြံဆောင်ကြပြန်လေသည်။ ၁၉၄၆ ခုနှစ် ဖေဖွာရီလဆန်းလောက်တွင် ဗြိတိသျှ ဓာတ်ခွဲရုံတခုမှ "ပယ်လျူဒရင်" ခေါ် ဆေးတမျိုးကို တွေ့ရှိကြောင်း ကျေညာလေသည်။ ပဌမဦးစွာ ဖော်စပ်သူများမှာ ဒေါက်တာအက်ဖ၊ အိပ်ချ၊ အက်စ၊ ကတ်၊ ဒေါက်တာ ဒီ၊ ဂျီ၊ ဒေဗီနှင့် မစ္စတာ အက်ဖ၊ ရို့ ဆိုသူ သိပ္ပံကဝိကြီးများ ဖြစ်ကြသည်။ ပယ်လျူဒရင်ဆေးတွင် ငှက်ဖျားရောဂါအတွက် ကောင်းသော အချက် ၃ ချက်ရှိသည်။ ပဌမအချက်မှာ ရောဂါပိုးပါရှိသည့် ခြင်ကောင်ကိုက်ခြင်းခံရသည့်တိုင်အောင် ရောဂါ မဖြစ်စေရန် ကြိုတင် ကာကွယ်နိုင်ခြင်း၊ ဒုတိယအချက်မှာ ငှက်ဖျားရောဂါ ဖြစ်မည့် အရိပ်အရောင် လက္ခဏာများ ပေါ်ပေါက်လာသည့် တိုင်အောင် ရောဂါကို ထိရောက်စွာ တိုက်ဖျက်နိုင်ခြင်း၊ တတိယအချက်မှာ ငုပ်နေပြီးမှ ပြန်ပေါ်တတ်သော ငှက်ဖျား ရောဂါကို အောင်မြင်စွာ ကာကွယ်နိုင်ခြင်းတို့ ဖြစ်သည်။

ပယ်လျူဒရင်ကို ရှာဖွေတွေ့ရှိသည်နှင့် တပြိုင်နက် ကမ္ဘာသို့ ထုတ်ဖော် ကျေညာခြင်း မပြုသေးဘဲ လပေါင်း အတော်ကြာကြာ လျှို့ဝှက်ထားသေးသည်။ ဤသို့ လျှို့ဝှက်ထားခြင်းမှာ ဓာတုဗေဒဖက်ဆိုင်ရာ အခွင့်အရေးများ၊ သုတေသန လုပ်ငန်းပြုရာ၌ ကုန်ကျသောငွေကြေးအခြေအနေ စသည်တို့ကြောင့် ဖြစ်သည်။ သို့ရာတွင် နောက်ဆုံး၌ ဗြိတိသျှ သိပ္ပံကဝိများသည် တကမ္ဘာလုံး၏ အကျိုးကို ထောက်ရှုကာ ထုတ်ဖော် အသိပေးလိုက်ကြသည်။ ယခုအခါ ကမ္ဘာပေါ်ရှိ ဓာတ်ခွဲရုံအသီးအသီး၌ ပယ်လျူဒရင်ကို ကြိုက်နှစ်သက်သလို ဖော်စပ်ယူနိုင်ကြပေပြီ။

**မက်မန်းသီး။** ။မက်မန်းသီးသည် အစေ့မာတစေ့တည်းရှိသည့် အသီးမျိုးဖြစ်၍ ချယ်ရီသီးကလေးများအရွယ်မှ ကြက်ဥအရွယ်ထိအောင် အရွယ်အမျိုးမျိုးနှင့် ပုံသဏ္ဌာန် အမျိုးမျိုးရှိသည်။ အချို့သည်သုံး၍ အချို့မှာ ကြက်ဥပုံသဏ္ဌာန်ရှိပြီးလျှင် အချို့ကား ရှည်မျောမျော ရှိသည်။ အခွံသည် ပါး

၍ အစိမ်း၊ အဝါ၊ အနီ၊ အပြာ၊ ခရမ်းရောင် စသည်ဖြင့် အရောင်လည်း အမျိုးမျိုးရှိသည်။ မက်မန်းသီးသည် အသားများ၍ အရည်ရွှမ်းသည်။ အလယ်ခေါင်တွင် ပြား၍ မာသော အစေ့ကြီးတစေ့ရှိရာ ထိုအစေ့ထဲတွင်မှ မျိုးစေ့ရှိသည်။

မက်မန်းပင်သည် မက်မွန်ပင်၊ တရုပ်ဆီးသီးပင်၊ ချယ်ရီပင်များနှင့်အတူ ရိုဇေးစီအီး မျိုးရင်းတွင် ပရူးနပ် မျိုးစု၌ ပါဝင်သည်။ ယင်း၏ ရုက္ခဗေဒအမည်မှာ ပရူးနပ် ကွမ်မျူနစ် ဖြစ်သည်။ ယင်း၏ မူလပေါက်ရာ ဒေသမှာ ဥရောပတိုက်တောင်ပိုင်းနှင့် အာရှတိုက် အနောက်ပိုင်းတို့ ဖြစ်ရာ ထိုမှ တဆင့်အမေရိကတိုက်၊ အာရှတိုက်နှင့်ဥရောပအနောက်ပိုင်းတို့သို့ ပျံ့နှံ့သွားကြသည်။ မြန်မာနိုင်ငံတွင် ပေ၃,၀၀၀ နှင့် ယင်းအထက်မြင့်သော ရှမ်းကုန်းပြင်မြင့်များ၌သာ ပေါက်ရောက်သည်။ ထို့ကြောင့် မေမြို့၊ ကလောမြို့နှင့် တောင်ကြီးမြို့များ အနီးအနားတွင် မက်မန်းပင်များကို တွေ့ရသည်။

မက်မန်းပင်သည် ချုံငယ်မျိုး၊သို့မဟုတ် အပင်ငယ်မျိုးဖြစ်၍ အကိုင်းအခက်အလက် အမြောက်အမြားထိုးထွက်သည်။ ပန်းပွင့်များသည် အဖြူနှင့် စိမ်းနုနု အရောင်များဖြစ်၍ နွမ်းသွားသည့်အခါ ပန်းရောင်နှင့် အနီရောင်သို့ ပြောင်းသွားတတ်သည်။ များသောအားဖြင့် ပန်းပွင့်များသည် အရွက်များမထွက်မီ ထွက်လာကြသည်။ မက်မန်းပင်အမျိုးပေါင်း မြောက်မြားစွာရှိသည်။

မက်မန်းသီးသည် အလွန်အသုံးဝင်သောအသီးဖြစ်သည်။ ယင်းနှင့် အမျိုးတူ အသီးသုံးမျိုးတို့တွင် အာဟာရဓာတ် အများဆုံးပါသော အသီးဖြစ်သည်။ အခြား အသီးများထက် သကြားရာခိုင်နှုန်း ၂၀.၁ ပို၍ပါကြောင်း တွေ့ရသည်။ မက်မန်းသီးများကို အများအားဖြင့် အစိမ်းစားကြသည်။ အချို့ကို မသိုးစာ၊ ထောပတ်၊ ယိုများ ပြုလုပ်ရာ၌ အသုံးပြုကြသည်။ အချို့ကို အခြောက်ပြုလုပ်၍ စည်သွတ်ကြသည်။

မက်မန်းပင်များကို အဖူးကူးခြင်းဖြင့် အမြောက်အမြား ပွားယူကြသည်။ ပဌမတွင် မက်မန်းသီး အစေ့များကို ပျိုးခင်းတွင် အမြောက်အမြားပျိုး၍ ကြီးလာသောအခါ တနေရာရာတွင် ပြောင်း၍စိုက်ကြသည်။ ထို့နောက် အသီးသီးသော မက်မန်းပင်များမှ အဖူးများကိုယူ၍ ထိုပျိုးပင်များ၏ ပင်လုံးတွင် ကူးပေးပြီးလျှင် စည်းထားလိုက်ရသည်။ အဖူးများသည် ပင်လုံးထဲတွင် ပေါက်၍ အညှောက်များ ထွက်လာသည့်အခါ မူလပျိုးပင်များ၏ အညွန့်များကို ဖြတ်ပေးလိုက်ရသည်။ ကူးသောအဖူးများမှ ထွက်လာသော အကိုင်းအခက်သစ်များသည် အပင်သစ်၏ အညွန့်အတက်များပင် ဖြစ်သည်။ မက်မန်းပင်များကို တပင်နှင့်တပင် ၁၆ ပေမှ ပေ ၂၀ ထိ ခွာ၍ စိုက်ကြသည်။ စ၍ စိုက်ပျိုးသည်မှ ၃ နှစ်နှင့် ၆ နှစ်အတွင်း အသီးသီး၏။ ဤသို့ အဖူးကူး၍ မျိုးပွားယူခြင်းမှ သီးသော အသီးများသည် မူလမိခင်ပင်မှ သီးသောအသီးများလောက်ပင်ကြီးသည်။အဖူးကူးခြင်း မပဟုတ်ဘဲ အစေ့မှ တိုက်ရိုက်ကြီးပြင်းလာသော အပင်များမှ အသီးများကား မူလ မိခင်ပင်မှ သီးသည့်အသီးလောက် မကြီးချေ။ မက်မန်းပင်များသည် ရေမတင်သော နုံးမြေပွများ၌ ဖြစ်ထွန်းသည်။ မက်မန်းပင်များသည် အပင်ပိုးများ ကျရောက်တတ်သဖြင့် ဂရုတစိုက် စိုက်ပျိုးကြရပြီး ပိုးသတ်ဆေးနှင့် အပင်ရောဂါဆေးများကို မပြတ်ပက်ဖျန်းပေးရသည်။

**မက်မွန်သီး။** ။မက်မွန်သီးသည် အသားများ၍ အရည်ရွှမ်းပြီးလျှင် အနံ့အလွန်မွှေးကြိုင်သော အသီးမျိုးဖြစ်သည်။ ပုံသဏ္ဌာန်မှာ ခပ်လုံးလုံးဖြစ်၍ အသီး၏ အလယ်ခေါင်တွင် မာသော အစေ့တစေ့ မြုပ်လျက် ပါရှိသည်။ အရွယ်နှင့် အရောင်မှာ အသီးအမျိုးကို လိုက်၍ အမျိုးမျိုးရှိကြသည်။ မက်မွန်သီးပင်သည် ပင်လတ်မျိုးဖြစ်၍ အမြင့် ၁၀ ပေမှ ပေ ၂၀ ခန့်အထိ ရှိတတ်သည်။ ယင်းသည် မက်မန်းသီးပင်၊ တရုပ်ဆီးသီးပင်၊ ချယ်ရီပင်များနှင့်အတူ ရိုဇေးစီအီး မျိုးရင်းတွင် ပရူးနပ် မျိုးစု၌ပါဝင်သည်။ ယင်း၏ ရုက္ခဗေဒ အမည်မှာ ပရူးနပ်ပါစီကာဖြစ်၏။ အပင်၏ အနေအထားနှင့် တကွ အသွင်အပြင်ရော အလေ့အထပါ ဗာဒမ်ပင်နှင့် အလွန်တူသည့်ပြင် မျိုးချင်းလည်းတူကြသည်။

မက်မွန်ပင်သည် တရုပ်နိုင်ငံ၌ မူလပေါက်ရောက်၍ မြေ



မက်မွန် အသီးအပွင့်နှင့် အရွက်များ

ထဲပင်လယ်ဒေသနှင့် ကမ္ဘာ့အရပ်ရပ်ရှိ ပူနွေးသော သမပိုင်း ဒေသများသို့ ပျံ့နှံ့ ရောက်သွားလေသည်။ မက်မွန်ပင်များကို သမိုင်းမတင်မီ ခေတ်ကတည်းက ပြုပြင်စိုက်ပျိုးလာခဲ့ကြရာ ယခုအခါ အရိုင်းသက်သက် ပေါက်နေသည်ဟူ၍ မည်သည့်အရပ်တွင်မျှ မတွေ့ရပေ။ မက်မွန်သီးသည် ကမ္ဘာ့သစ်သီးဈေးကွက်တွင် ပန်းသီးနောက် ဒုတိယလိုက်လာသည်။

မက်မွန်ပင် စိုက်ပျိုးသော ခြံသမားများသည် အပင်ကို မြင့်မြင့် မထားဘဲ အကိုင်းအခက်များကို ချိုင်၍ ၁၂ ပေထိလောက်သာ ထားသည်။ သို့မှသာ အသီးခူးရာ၌၎င်း၊ ပိုးသတ်ဆေးဖျန်းရာ၌၎င်း သက်သာလွယ်ကူသည်။ အရွက်များသည် လှံစွပ်ပုံကဲ့သို့ သေးသွယ်၍ အဖျားချွန်သည်။ အရောင်မှာ စိမ်း၍တောက်၏။ နွေကူးရာသီသို့ ရောက်သည့်အခါ လှပ၍ နူးညံ့သော ပန်းရောင်အပွင့်ကလေးများဖြင့် ပင်လုံးကျွတ် ပွင့်ကြသည်။ အပွင့်များ ပွင့်ပြီးနောက်မှ အရွက်များထွက်သည်။ မက်မွန်သီးအမျိုးပေါင်း များစွာရှိရာ အားလုံးလောက်သည် နွေရာသီအလယ်လောက်မှ ဆောင်းကူးရာသီထိ မှည့်ကြသည်။ နွေကူးဦးရာသီလောက်တွင် စောစောပွင့်သော အပွင့်များကို နှင်းခါးရိုက်တတ်သဖြင့် အသီးမတင်ချေ။ ထို့ကြောင့် နှင်းခါးလွတ်သော နေရာများတွင်သာ အမြောက်အမြား စိုက်ကြသည်။

မက်မွန်သီးထဲတွင် မာသောအစေ့ တစေ့ရှိရာ ထိုအစေ့ထဲတွင် မျိုးစေ့ရှိ၏။ ထိုမျိုးစေ့မှ အပင်ပေါက်၏။ သို့သော် များသောအားဖြင့် မျိုးစေ့ကို စိုက်၍ပေါက်သော အပင်မှ အသီးသည် မူလမျိုးစေ့ရသောအပင်မှ သီးသည့် အသီးလောက် မကြီးချေ။ ညံ့သွားတတ်သည်။ ထို့ကြောင့် ခြံသမား၊ ဥယျာဉ်သမားများသည် အပင်သစ်များကို အဖူးကူးခြင်းဖြင့် စိုက်ပျိုးကြသည်။ မက်မွန်စေ့ အမြောက်အမြားကို ပျိုးခင်းတွင်ပျိုး၍ ကြီးလာသောအခါ တနေရာသို့ပြောင်း၍ စိုက်ကြသည်။ ထို့နောက် အခြား အပင်ကြီးများမှ အဖူးကိုယူ၍ ထိုပျိုးပင်များ၏ ပင်လုံးတွင် ကူးပေးလိုက်လေသည်။ အဖူးများသည် ပင်လုံးထဲတွင်ပေါက်၍ အညှောက်များထွက်လာသည့်အခါ မူလပျိုးပင်များ၏ အညွန့်များကို ဖြတ်လိုက်တော့၏။ ကူးသော အဖူးများမှ ထွက်လာသော အကိုင်းအခက်သစ်များသည် အပင်သစ်၏ အညွန့်အတက်များဖြစ်လာသည်။ ထိုအပင်သစ်မှ သီးသော အသီးများသည် အဖူးများယူသော မူလအပင် အသီးများကဲ့သို့ တထေရာတည်းတူကြသည်။

ခြံများ ဥယျာဉ်များတွင် မက်မွန်ပင်များကို အတန်းလိုက် စိုက်၍ တတန်းနှင့်တတန်းသည် များသောအားဖြင့် ပေ ၂၀ ကွာသည်။ တပင်နှင့် တပင်လည်း ပေ ၂၀ ခွာ၍ စိုက်ကြသည်။ မက်မွန်ပင်သည် ရေမတင်သော နုံးမြေပွများ၌ အဖြစ်ထွန်းဆုံး ဖြစ်သည်။ စ၍ စိုက်ပျိုးသည်မှ ၃ နှစ်ခန့် အတွင်း အသီးသီး၏။ မက်မွန်ပင်များသည် အပင်ပိုးများ ကျရောက်တတ်သဖြင့် သက်တမ်းတိုသည်။ ထို့ကြောင့် ဂရုပြုစိုက်ပျိုးကြရသည်။ ပိုးသတ်ဆေးနှင့် အပင်ရောဂါဆေးများကို မပြတ်ဖျန်းပေးရသည်။

မက်မွန်ပင် အမျိုးပေါင်းနှစ်ရာခန့်ရှိရာ အစေ့ကျွတ်၊ အစေ့ကပ်၊ အသားဖြူနှင့် အသားဝါဟူ၍ ခွဲခြား ထားလေသည်။ အချို့ မက်မွန်သီးမှ အစေ့များသည် အသားနှင့် ကပ်မနေဘဲ လွယ်ကူစွာ ထုတ်ယူနိုင်သောကြောင့် အစေ့ကျွတ်မျိုး ဟုခေါ်သည်။ အချို့အသီးမှ အစေ့များကား အသားတွင် ကပ်နေ၍ လွယ်ကူစွာ ထုတ်မယူနိုင်သောကြောင့် အစေ့ကပ်မျိုး ဟုခေါ်သည်။ အချို့ အသီး၏ အသားရောင်မှာ ဖြူ၍ အချို့ကား ဝါ၏။

မက်မွန်သီး အမှည့်များသည် ရက်အနည်းငယ် အတွင်း ပုပ်၍ ပျက်စီးတတ်သဖြင့် ရပ်ဝေးရှိ ဈေးများသို့ တင်ပို့ရာ၌ အခက်အခဲနှင့် ကြုံရလေသည်။ အသီးများကို မှည့်လျှင် မှည့်ခြင်း ဆွတ်ခူးရသည်။ သို့ရာတွင် ယခုခေတ်တွင် စည်သွတ်လုပ်ငန်း စက်ရုံကြီးများ ပေါ်ပေါက်လာပြီဖြစ်ရာ ဈေး အမှီ မတင်ပို့နိုင်သော အသီးမှည့်များကို ထိုစက်ရုံများသို့ အလွယ်တကူ တင်ပို့နိုင်ကြသည်။ အမေရိကန် ပြည်ထောင်စု၊ ကာလီဖိုးနီးယားပြည်နယ်တွင် မက်မွန်ပင်များကို အကြီးအကျယ် စိုက်ပျိုး၍ အသီးများကို စည်သွတ်ကာ အရပ်ရပ်သို့ တင်ပို့ရောင်းချကြသည်။ အင်္ဂလန်နိုင်ငံ၌ မက်မွန်ပင်များကို မှန်အိမ်များ ဆောက်၍ စိုက်ပျိုးကြသည်။ မြန်မာနိုင်ငံ၊ ရှမ်းကုန်းပြင်မြင့်၌ ပေပေါင်း ၃,၀၀၀ ကျော် အမြင့်ရှိသော အရပ်များတွင် မက်မွန်ပင်များ ဖြစ်ထွန်းနိုင်သည်။ ထို့ကြောင့် မေမြို့၊ ကလောနှင့်တောင်ကြီးမြို့များ အနီးအနားတွင် မက်မွန်ခြံကလေးများကို တွေ့မြင်နိုင်သည်။

**မက်လင်ပင်။** ။မက်လင်ပင်သည် ဗုံဗကေး စီအီး မျိုးရင်းတွင်ပါဝင်၍ ယင်းကို ရုက္ခဗေဒအလိုအားဖြင့် အက်ဒန်ဆိုးနီးယား ဒစ်ဂျီတေးတား ခေါ်သည်။ မက်လင်ပင်၏ မူလပေါက်ရာအရပ်မှာ အာဖရိကတိုက် အလယ်ပိုင်းရှိ ခြောက်သွေ့သော ဒေသများဖြစ်၍ အသက်အလွန်ရှည်ပြီးလျှင် သစ်ပင်လုံးပတ် အလွန်ကြီးသောကြောင့် ထင်ရှားကျော်ကြားသည်။ ကမ္ဘာပေါ်တွင် အသက်အရှည်ဆုံးသစ်ပင်မျိုးထဲတွင် မက်လင်ပင်လည်း တမျိုးအပါအဝင်ဖြစ်သည်။ ပင်လုံး အချင်းမှာ ပေ ၃၀ ခန့်အထိပင် ရှိနိုင်သည်။ ပင်လုံးအလွန် ကြီးသလောက် အပင်မှာပု၍ လက်ဝါးပုံအရွက်များဖြင့် ဝေဝေဆာဆာ ပြန့်ကာ ပေါက်လျက်ရှိသည်။

မက်လင်ပင်များသည် မူလပေါက်ရာအရပ် ဖြစ်သော သဲကန္တာရများ၌ အလေ့ကျပေါက်လျက်ရှိသည်။ အသက်ကြီးလာသောပင်လုံးသည် အနည်းငယ်ဆွေးမြည့်လာပြီးလျှင် အ

လည်တွင် အခေါင်းကြီးသည် တခါတရံ ရေဂါလ်ပေါင်း ၂၅၀ မျှ ဝင်ဆံ့သည်။ မက်လင်ပင်၏ အသားသည် ပျော့၍ပွ၏။ အတွင်း အခေါက်များမှ အမျှင်များ ရသည်။ ဗူးသီး ပုံသဏ္ဍာန်ကဲ့သို့ ရှိသော မက်လင်သီးများသည် အလျား ၈ လက်မမှ ၁၀ လက်မထိ ရှည်ပြီးလျှင် အသားပွ၍ ချဉ်သည်။

မက်လင်ပင်များကို သီဟိုဠ်နိုင်ငံအထက်ပိုင်း ခြောက်သွေ့သောဒေသ၊ အိန္ဒိယနိုင်ငံ အချို့ဒေသနှင့် မြန်မာနိုင်ငံ အထက်ပိုင်းတွင် ပေါက်ရောက်လျက်ရှိသည်ကို တွေ့ရသည်။ မြန်မာနိုင်ငံတွင် မက်လင်သီးကို လျက်ဆားဖော်စပ်ရာ၌ အသုံးပြု၍ ထိုလျက်ဆားကို မက်လင်ချဉ်လျက်ဆား အဖြစ်ဖြင့် လူသိများသည်။ အချို့ဒေသတွင် အချဉ်ဟင်းချက်ရာ၌ မက်လင်သီးကို အသုံးပြုကြသည်။

မြန်မာဆေးကျမ်း အလိုအရ မက်လင်သီးသည် အလွန်ချဉ်၏။ ဝမ်း၊ လေချုပ်သော အနာ၊ သလိပ်နာ၊ လေနာတို့ကို နိုင်၏။ ကြေလွယ်၏။ ဝမ်းမီးကို တောက်စေတတ်၏။ ကျင်ကြီး ကျင်ငယ်ကို ဖျက်၍ အောက်သို့ ထုတ်တတ်၏။ နှလုံးနှင့် ဆိုင်သောအနာ၊ ဘေးထိုးရင်ကျပ်နာ၊ ရင်ပတ်နာ၊ ဂူနာတို့ကို နိုင်၏။ အဆီမရှိ။ သည်းခြေကို ပျက်စေတတ်၏။ ကျင်ကြီး ကျင်ငယ်တို့၌ အပြစ်ဒေါသကို နိုင်၏။ မေဟိုက်ခြင်း၊ ချောင်းဆိုးနာ၊ ပန်းနာ၊ အစာမကြေသော အနာ၊ အော့အန်ခြင်းတို့ကိုနိုင်၏။

အိန္ဒိယ ဆေးကျမ်းအလိုအားဖြင့် မက်လင်သီး၏ အသားနှင့် အစေ့ကိုပါ အဖျော်ရည် ပြုလုပ်၍ အသုံးပြုရာ အေးမြ၍ အဖျားကို ကျစေသည်။ ညဥ့်ချွေးထွက်ခြင်းကို သက်သာစေ၍ ဝမ်းချုပ်ခြင်းကို နိုင်လေသည်။

**မက်အာသာ၊ ဒေါက်ဂလပ်**(ခရစ် ၁၈၈၀–၁၉၆၄)။ ။ ဒေါက်ဂလပ် မက်အာသာသည် ဒုတိယ ကမ္ဘာစစ်ကြီး အတွင်းက ကမ္ဘာ့အရှေ့ပိုင်း စစ်မျက်နှာတွင် အလွန်ထင်ရှားကျော်ကြားခဲ့သော အမေရိကန် ဗိုလ်ချုပ်မှူးဖြစ်သည်။ မက်အာသာသည် ၁၈၈၀ ပြည့်နှစ် ဇန္နဝါရီလ ၂၆ ရက်နေ့တွင် အမေရိကန် ပြည်ထောင်စုနိုင်ငံ အာကင်ဆောပြည်နယ်ရှိ လစ်တဲရော့မြို့ စစ်တန်းလျားတွင် မွေးဖွားသူဖြစ်သည်။ သူ၏ ဖခင်မှာ အမေရိကန် ပြည်တွင်းစစ်ပွဲ၊ စပိန်-အမေရိကန်စစ်ပွဲတို့တွင် ထင်ရှားခဲ့သော ဗိုလ်ချုပ်ကြီး အာသာ မက်အာသာ ဖြစ်၏။ ဒေါက်ဂလပ်မက်အာသာမှာ ငယ်စဉ်မှစ၍ စစ်သားများနှင့် လက်ပွန်းတတီး နေခဲ့ရသူဖြစ်သည်။ ဝက်စပွိုင့် စစ်တက္ကသိုလ်သို့ ဝင်ခွင့်ရပြီးနောက် ၁၉၀၃ ခုနှစ်တွင် ထူးချွန်စွာ ဘွဲ့ထူးဆွတ်ခူးခဲ့လေသည်။ စစ်တက္ကသိုလ်မှ ဘွဲ့ရပြီးနောက် ဖိလစ်ပိုင်ကျွန်းစုတွင် စစ်မှုထမ်းခဲ့သည်။ ၁၉၀၆ ခုနှစ်တွင် သမတကြီးသီယိုဒိုရူးဇဗဲ့၏ သက်တော်စောင့်အဖြစ် တနှစ်ခန့် ဆောင်ရွက်ခဲ့ရ၏။



အမေရိကန်ဗိုလ်ချုပ်မှူး ဒေါက်ဂလပ်မက်အာသာ

အမေရိကန် ပြည်ထောင်စုနိုင်ငံသည် ပဌမကမ္ဘာစစ်တွင် စတင် ပါဝင်လိုက်သောအချိန်၌ မက်အာသာမှာ ဗိုလ်မှူး ဖြစ်နေလေပြီ။ ၁၉၁၈ ခုနှစ်တွင် ပြင်သစ်စစ်မျက်နှာသို့ ချီတက်ခဲ့ရသော နာမည်ကျော် သက်တံတပ်မ ( အမှတ် ၄၄ တပ်မ ) တွင် စစ်ဦးစီးချုပ်အဖြစ် လိုက်ပါသွားခဲ့ရလေရာ သူ၏စွမ်းရည်နှင့် သူရသတ္တိများကို ဖော်ပြခွင့် ရခဲ့လေသည်။ တိုက်ပွဲများတွင် ၂ ကြိမ် ဒဏ်ရာရခဲ့၍ တကြိမ် အဆိပ်ငွေ့သင့်ခဲ့သည်။ သူရဲကောင်းတံဆိပ် အများအပြားနှင့် အထူးတလည် ဂုဏ်ပြုချီးကျူးခြင်း ခံရသည်။ ထိုနောက်တပ်မဟာကို အုပ်ချုပ်ရသော ဗိုလ်မှူးချုပ် အဖြစ် တိုးမြှင့်ခန့်ထားခြင်း ခံခဲ့ရ၏။ စစ်ပြီးသောအခါ အမေရိကန် ပြည်ထောင်စုသို့ ပြန်လာရပြီးနောက် ဝက်စပွိုင့် စစ်တက္ကသိုလ်တွင် ကျောင်းအုပ်အဖြစ် ဆောင်ရွက်ခဲ့ရသည်။ ၁၉၂၂ ခုနှစ် မှစ၍ ၃ နှစ်တိုင်တိုင် ဖိလစ်ပိုင်ကျွန်းစုတွင် ဖိလစ်ပိုင်တပ်မမှူး အဖြစ် ဆောင်ရွက်ခဲ့သည်။ ၁၉၂၅ ခုနှစ် ဇန္နဝါရီလတွင် ဗိုလ်ချုပ်အဖြစ် ခန့်ထားခြင်း ခံရခဲ့ရာ အမေရိကန် စစ်သမိုင်းတွင် အသက် အငယ်ဆုံးနှင့် ထိုရာထူးမျိုးကို ထမ်းရွက်ခဲ့ရသူ ဖြစ်ပေသည်။

၁၉၂၈ ခုနှစ်မှ ၁၉၃၀ ပြည့်နှစ်အထိ ဖိလစ်ပိုင်ကျွန်းရှိ အမေရိကန်တပ်များကို အုပ်ချုပ်ခဲ့ရသည်။ ၁၉၃၀ ပြည့်နှစ် နိုဝင်ဘာလ ၂၁ ရက်နေ့တွင် ဗိုလ်ချုပ်မှူးအဆင့်အတန်းဖြင့် အ

မေရိကန်စစ်ဦးစီးချုပ်အဖြစ် ခန့်အပ်ခြင်းခံရလေသည်။ ထိုရာထူးခန့်ထားခြင်း ခံရသောသူများတွင်လည်း မက်အာသာမှာ အသက်အငယ်ဆုံးပင် ဖြစ်ခဲ့၏။ အမေရိကန်တပ်မတော်စစ်ဦးစီးချုပ်အဖြစ် ထမ်းရွက်ခဲ့စဉ် နိုင်ငံကာကွယ်ရေး အတွက် အင်အားဖြည့်တင်းရန် ကွန်ဂရက်လွှတ်တော်ကို တိုက်တွန်း ပြောဆိုခဲ့၏။ အမေရိကန်တပ်မတော်ကိုလည်း လျင်မြန်နိုင်သမျှ လျင်မြန်စွာ ခေတ်မီလာအောင် ကြိုးပမ်းခဲ့လေသည်။ ၁၉၃၅ ခုနှစ် အောက်တိုဘာလတွင် စစ်ဦးစီးချုပ်ရာထူးမှ နုတ်ထွက်ခဲ့ပြီးနောက် ဖိလစ်ပိုင်သမတ၏ တောင်းဆိုချက်အရ ဖိလစ်ပိုင်အစိုးရ၏ စစ်မှုရေးရာ အကြံပေးအရာရှိအဖြစ် ဆောင်ရွက်ခဲ့သည်။ ၁၉၃၆ ခုနှစ် ဇွန်လ ၁၉ ရက်နေ့တွင် ဖိလစ်ပိုင်တပ်မတော်၏ စစ်သူကြီးအဖြစ် ခန့်ထားခြင်းခံရသည်။ မက်အာသာသည် ၁၉၃၇ ခုနှစ် ဒီဇင်ဘာလ ၃၁ ရက်နေ့၌ စစ်တပ်မှ အငြိမ်းစား ယူလိုက်သော်လည်း ဖိလစ်ပိုင် သမတက သူ့အား ဖိလစ်ပိုင်တပ်ပေါင်းစု၏ အကြီးအကဲအဖြစ် ဆက်လက်ထားရှိခဲ့၏။ ၁၉၄၁ ခုနှစ် ဇူလိုင်လ ၂၆ ရက်နေ့တွင် ဖိလစ်ပိုင် စစ်တပ်အားလုံးကို အမေရိကန် တပ်မတော်ထဲသို့ သွတ်သွင်းလိုက်သောအခါ၊ သမတ ဖရန်ကလင်ရူးဇဗဲ့က မက်အာသာအား ဗိုလ်ချုပ်ကြီး အဆင့်အတန်းဖြင့် အရှေ့ဖျားရှိ အမေရိကန်ပြည်ထောင်စု၏ စစ်တပ်များကို အုပ်ချုပ်ရန် တာဝန် လွှဲအပ်ခဲ့လေသည်။ ၁၉၄၁ ခုနှစ် ဒီဇင်ဘာလတွင် ဖိလစ်ပိုင် ကျွန်းစုကို ဂျပန်တို့က တိုက်ခိုက်သည့် အချိန်၌ မက်အာသာအား ဗိုလ်ချုပ်မှူးအဖြစ် သမတရူးဇဗဲ့က ပြန်လည် ခန့်အပ်လေသည်။ မက်အာသာသည် ဖိလစ်ပိုင်နှင့် အမေရိကန် တပ်ပေါင်းစုတို့ကို ပေါင်းကာ ဂျပန်တပ်များကို ခုခံတိုက်ခိုက်ခဲ့၏။ သို့သော် အင်အားချင်း မမျှသဖြင့် နောက်သို့ တဆုတ်တည်း ဆုတ်ခဲ့ရလေသည်။ ပဌမ၌ ဗာတန်းကျွန်းဆွယ်သို့ ဆုတ်ခဲ့ပြီးနောက် ကော်ရက်ဂျီဒေါ်ခံတပ်ကျွန်းသို့ဆုတ်ခဲ့ရ၏။ ထိုသို့ ဆုတ်ခဲ့ယင်း ၃ လကြာမျှ ဂျပန်တို့ မနီလာပင်လယ်အော်ကို အသုံးမပြုနိုင်အောင် စွမ်းဆောင်ပေးခဲ့သည်။ ထိုပြင် ထိုသို့ အောင်မြင်စွာ ဆုတ်ခွာနိုင်ခဲ့သဖြင့် မက်အာသာမှာ ကွန်ဂရက် ဂုဏ်ထူးဆောင် တံဆိပ် အပ်နှင်းခြင်းခံရ၏။ လူအမြောက်အမြား အဆုံးအရှုံးခံကာ အမေရိကန်တို့ကို ဖိလစ်ပိုင်ကျွန်းများမှ မောင်းထုတ်ရန် ကြိုးပမ်းခဲ့သော ဂျပန်ဗိုလ်ချုပ်မှာကား အကြံ မအောင်သဖြင့် ကိုယ့်ကို ကိုယ် သတ်သေခဲ့သည်ဟု ဆိုလေသည်။

၁၉၄၂ ခုနှစ် မတ်လ ၁ ရက်နေ့တွင် သမတ ရူးဇဗဲ့၏ အမိန့်အရ မက်အာသာသည် သူ၏ ဇနီးသည်နှင့် သားငယ်ကို ခေါ်ဆောင်ကာ ကော်ရက်ဂျီဒေါ်ကျွန်းမှ တိုပီဒိုသင်္ဘောဖြင့် တိတ်ဘဆိတ် ထွက်ခွာခဲ့ပြီးနောက် ဖိလစ်ပိုင်တောင်ပိုင်း တနေရာသို့ အရောက်တွင် လေယာဉ်ပျံဖြင့် ဩစတြေးလီးယားသို့ ထွက်ခွာခဲ့ရလေသည်။ မက်အာသာမှာ ပစိဖိတ်တောင်ပိုင်း မဟာမိတ်တပ်များ၏ သေနာပတိအဖြစ် ဆောင်ရွက်ရန် ထွက်ခွာခဲ့ရခြင်း ဖြစ်ပေသည်။ သို့သော် မက်အာသာသည် ဖိလစ်ပိုင်မှ မခွာလိုလှချေ။ သူ၏ လူများကို "ကျွန်ုပ်ပြန်လာခဲ့မည်"ဟု ကတိပြုထားခဲ့၏။ ထိုနောက် အစစအရာရာ အသင့်ဖြစ်အောင် ပြင်ဆင်ပြီးနောက် ၁၉၄၂ ခုနှစ်ကုန်ခါနီးမှစ၍ ဂျပန်တို့ကို စတင် ထိုးစစ်ဆင်ခဲ့လေသည်။ ထိုအခါ နယူးဂင်းနီဖက်မှ ဝင်လာသော ရန်သူများ တန့်သွားပြီးနောက် အမေရိကန်တပ်များသည် ဆော်လမွန် ကျွန်းပေါ်သို့ တက်ရောက်နိုင်ခဲ့ကြလေသည်။ ၁၉၄၃ ခုနှစ် အကုန်တွင် မက်အာသာ အုပ်ချုပ်သောတပ်များသည် နယူးဂင်းနီအရှေ့ပိုင်းကို ပြန်လည် သိမ်းပိုက်နိုင်ခဲ့သည့်ပြင် ဆော်လမွန်ကျွန်းများနှင့် နယူးဗြိတိန်ကျွန်းပေါ်ရှိ ဂျပန်တပ်များကိုလည်း အခြေယိုင်အောင် ပြုနိုင်ခဲ့လေသည်။ ၁၉၄၄ ခုနှစ်တွင်ကား မက်အာသာသည် ဂျပန်များကို ပစိဖိတ် သမုဒ္ဒရာအတွင်းရှိ ကျွန်းများမှ တဖြည်းဖြည်း ရှင်းလင်းပစ် ခဲ့လေသည်။ ထိုပြင် ဖိလစ်ပိုင်ကျွန်းစုဘွင် ယခင်က မက်အာသာ သင်ကြား လေ့ကျင့်ပေးခဲ့သော ဖိလစ်ပိုင်ကျွန်းသားများသည် ပြောက်ကျားစနစ်ဖြင့် ဂျပန်တို့ကို တော်လှန်ခဲ့လေရာ ထိုပြောက်ကျားတို့အား မက်အာသာက လက်နက်များ ပေး၍ ကူညီခဲ့သည်။ သို့ဖြင့် ထိုနှစ် အကုန်တွင် ဖိလစ်ပိုင်ကျွန်းစုသည် ဂျပန်တို့လက်အောက်မှ လွတ်မြောက်ခဲ့ရလေသည်။ ၁၉၄၅ ခုနှစ် နွေဦးပေါက်တွင် မက်အာသာသည် ဗိုလ်ချုပ်မှူး အဆင့်အတန်းဖြင့် ပစိဖိတ် အနောက်ပိုင်းရှိ အမေရိကန် တပ်ပေါင်းစု စစ်သေနာပတိအဖြစ် ခန့်ထားခြင်း ခံရလေသည်။ ထိုပြင် ဗိုလ်ချုပ်မှူးအဖြစ် သူဆောင်ရွက်ရမည့် တာဝန်မှာ ဂျပန်ကျွန်းစုကို တိုက်စစ်ဆင်ရန် ဖြစ်သည်။

ထိုသို့ တိုက်စစ်ဆင်ရန် အစီအစဉ်များ ပြုလုပ်နေဆဲတွင် သမတသစ် ထရူးမင်းက ဂျပန်တို့သည် မဟာမိတ်တို့၏လက်နက်ချရေး စည်းကမ်းများကို လက်ခံကြောင်းနှင့် မက်အာသာအား ဂျပန်တို့လက်နက်ချသည်ကို ခံယူရန်နှင့် ဂျပန်ပြည်ကို အုပ်ချုပ်ရန် မဟာမိတ်တပ်ပေါင်းစု စစ်သေနာပတိချုပ်အဖြစ်ခန့်ထားကြောင်း ကျေညာလိုက်လေသည်။ သို့ဖြစ်၍ ၁၉၄၅ခုနှစ် စက်တင်ဘာလ ၃ ရက်နေ့တွင် တိုကျိုပင်လယ်ကွေ့၌ ကျောက်ချနေသော မိဇူးရီ စစ်သင်္ဘောကြီးပေါ်တွင် ဗိုလ်ချုပ်မှူး မက်အာသာသည် ဂျပန်တို့ ချင်းချက်မရှိ လက်နက်ချသည်ကို ခံယူလေသည်။

ထိုနောက် တိုကျိုမြို့တွင် ဌာနချုပ်ထားရှိ၍ ဂျပန်နိုင်ငံစစ်အုပ်ချုပ်ရေးကို တာဝန်ခံကာ ကြီးကိုင်ခဲ့၏။ မက်အာသာသည် ဂျပန်စစ်အင်အားကို လျှော့ရန်နှင့် ဂျပန်နိုင်ငံသည် ဒီမိုကရေစီ နိုင်ငံဖြစ်လာစေရန် စတင်လုံးပန်းခဲ့လေသည်။ သူ၏ အမိန့်အရ အမျိုးသမီးများ မဲဆန္ဒပေးနိုင်ရေး၊ မြေပိုင်စနစ်ပြုပြင်ရေး စသည့် လူမှုရေးရာပြုပြင်မှုများကို ဂျပန်တို့

သည် လက်ခံခဲ့ရသည်။ မက်အာသာ၏ တည်ကြည်သော အမူအရာ၊ မျှတသော အပြုအမူတို့ကြောင့် ဂျပန်တို့သည် သူ့အား လေးစားကြည်ညိုသည်ဟု ဆိုလေသည်။

၁၉၄၇ ခုနှစ်လောက်တွင် မက်အာသာသည် အမေရိကန် ပြည်ထောင်စုနိုင်ငံတွင်လည်း ထင်ရှား ကျော်ကြားလာပြီး လျှင် သူ့အား သမတလောင်းတဦးအဖြစ် ရီပတ်ဗလစ်ကင် ပါတီမှ တင်မြှောက်ကြရန်ပင် စိုင်းပြင်းခဲ့လေသည်။ သို့ရာ တွင် မက်အာသာကမူ မိမိသည် မည်သည့်ရာထူးကိုမျှ မရည် ရွယ်ကြောင်း၊ သို့သော် တိုင်းပြည်က လိုလားသည် ဆိုလျှင် မည်သည့် တာဝန်ကိုမဆို ထမ်းဆောင်ရန် ငြင်းဆိုမည် မ ဟုတ်ကြောင်း ပြန်ကြားပြောဆို ခဲ့လေသည်။

၁၉၅၀ ပြည့်နှစ်တွင် စတင် ဖြစ်ပွားခဲ့သော ကိုရီးယား စစ်ရေးကိစ္စတွင် မက်အာသာ၏ အမည်သည် ထင်ရှားသည် ထက် ထင်ရှားလာသည်။ မက်အာသာသည် ကုလသမဂ္ဂ တပ်များ၏ စစ်သေနာပတိချုပ် အဖြစ် ခန့်ထားခြင်း ခံရလေ သည်။ သို့ရာတွင် ၁၉၅၁ ခုနှစ် နှစ်ဦးပိုင်းတွင် တရုပ်နီတို့ စစ် ထဲသို့ ဝင်လာသည့်အခါ မက်အာသာသည် စစ်ဆင်မှုနှင့်စပ် လျဉ်း၍ အမေရိကန်အစိုးရနှင့်၎င်း၊ ကုလသမဂ္ဂစစ်တပ်နှင့် ၎င်း သဘောမညီမညွတ်ဖြစ်လာသည်။ မက်အာသာ၏ဝါဒ မှာ တရုပ်ကွန်မြူနစ်တို့ကို ချေမှုန်းနိုင်ရန် တရုပ်နီပြည်မကို ဦးစွာ တိုက်ခိုက်ချေမှုန်းရမည်ဟူ၍တည်း။ ထိုကြောင့် တရုပ် နီပြည်မကို တိုက်ခိုက်ရန် စစ်မျက်နှာဖွင့်သင့်ကြောင်းကို ဖွင့် ဆိုကျေညာ၏။ အမေရိကန်အစိုးရကမူ တတိယကမ္ဘာစစ် ကြီး ဖြစ်ပေါ်ရေးကို အားပေးရာရောက်မည်ဟု ယူဆလျက် သဘောမတူဘဲရှိ၏။ သို့ဖြစ်၍ သမတထရူးမင်းက မက်အာ သာကို ပြည်ထောင်စု၏ဝါဒကို ဆန့်ကျင်သည်ဟု စွပ်စွဲကာ သေနာပတိချုပ်ရာထူးမှ ဖြုတ်ချပြီးလျှင် သူ၏နေရာတွင် ဗိုလ်ချုပ်မှူး ရစ်ဂျဝေးကို ခန့်ထားခဲ့သည်။ မက်အာသာမှာ မဟာမိတ်တပ်ပေါင်းစု စစ်သေနာပတိချုပ်၊ ကုလသမဂ္ဂ စစ် သေနာပတိချုပ်၊ အရှေ့ဖျားစစ်သေနာပတိချုပ်၊ အရှေ့ဖျား အမေရိကန် တပ်မှူးကြီးစသည့် ရာထူးများမှ ဖြုတ်ချခြင်းခံရ သော်လည်း ဗိုလ်ချုပ်မှူးအဆင့်အတန်းနှင့် လစာများကား တသက်ပန် ရမြဲ ရရှိခဲ့၏။ ထိုနောက် ဒေါက်ဂလပ် မက်အာ သာသည် နယူးယော့မြို့တွင် နေထိုင်ခဲ့ရာမှ နာမကျန်း ဖြစ် လာ၍ ၁၉၆၄ ခုနှစ် မတ်လ ၂ ရက်နေ့တွင် ဝေါလတာရီ ဆေးရုံသို့ တက်ရောက် ခွဲစိပ်ကုသခဲ့ရသည်။ သို့သော် သက် သာခွင့်မရဘဲ၊ ဧပြီလ ၅ ရက်နေ့တွင် ကွယ်လွန်သည်။

**မောက်တင်။** ။မောက်တင်သည် ဝမ်းဘဲ၊ ငန်းတို့နှင့်အတူ အင်ဆာရီဖောမီး မျိုးစဉ်တွင် အနက်တီဒီးမျိုးရင်း၌ပါဝင်၍ ပါဏဗေဒအသိုအားဖြင့် ဆာကီဒိုင်အောနစ် မယ်လာနိုတော့ ဟု ခေါ်သည်။ မြန်မာနိုင်ငံတွင် ဝမ်းဘဲနှင့်ငန်းအမျိုးပေါင်း ၃၄ မျိုးရှိသည်ဟု သိရသော်လည်း ၆ မျိုးသာလျှင် တိုင်း ရင်းငှက်များ ဖြစ်ကြသည်။ ကျန်အမျိုးများမှာ ဆောင်း ရာသီ ဧည့်သည်ငှက်များဖြစ်ကြ၍ စက်တင်ဘာလ၊ သို့မဟုတ် အောက်တိုဘာလလောက်တွင် ရောက်လာပြီးလျှင် မတ်လ တွင် တိဗက်ကုန်းပြင်မြင့်သို့ ဖြစ်စေ၊ သို့မဟုတ် ထိုထက် မြောက်ဖက်ကျသော ဒေသများသို့ဖြစ်စေ တဖန် ပြန်သွား ကြသည်။ ထိုနေရာများ၌သာ သားပေါက်သည်။ တိုင်းရင်း ငှက်မျိုးများတွင် မောက်တင်သည် တမျိုးအပါအဝင်ဖြစ်၍ စိတ်ဝင်စားဖွယ်လည်းကောင်းပေသည်။ ကျန် တိုင်းရင်းငှက် ၅ မျိုးမှာ တောဘဲ၊ ကလကတ်၊ စစ်စလီကြီး၊ စစ်စလီ ခေါင်းမဲနှင့် ဝမ်းဘဲတို့ ဖြစ်ကြသည်။

မောက်တင်အဖိုများသည် အလျားလက်မ ၃၀ ရှိ၍ အမ များမှာ ၂၃ လက်မသာ ရှိသည်။ မောက်တင် အဖို၏အပေါ် ပိုင်းသည် အနက်ရောင်တွင် အစိမ်းရောင်၊ ခရမ်းရောင်နှင့် ကြေးနီရောင်များ ရောယှက်၍ ချောမွတ်တောက်ပနေပေ သည်။ ထူးခြားချက်တရပ်မှာ အခြား ဝမ်းဘဲနှင့် မတူဘဲ နှုတ်သီးရင်းတွင် အသားအမောက်ရှိခြင်း ဖြစ်သည်။ ထို ကြောင့်ပင်လျှင် မောက်တင်ဟု အမည်တွင်သည်။ ထို အ မောက်သည် သားပေါက်ချိန်တွင် ပိုမိုထင်ရှားလာသည်။ မောက်တင်အမသည် အဖိုထက် သိသိသာသာ အရွယ်ငယ် ၍ မွဲခြောက်ခြောက် အရောင်ရှိပြီးလျှင် အမောက်လည်း မရှိချေ။ မောက်တင်တို့သည် ပျံသန်းရာတွင် သန်မာ၍ လျှင် မြန်စွာ ပျံသန်းနိုင်သည်။

မောက်တင်တို့သည် အများအားဖြင့် သစ်ပင်ထက်၌ နေ သည်။ ကိုင်းပင် သစ်ပင် အနည်းငယ်မျှဝိုင်းလျက်ရှိသော ရေ တိမ်အင်းအိုင်များ၌ ယင်းတို့ကို တကောင်တည်း ဖြစ်စေ၊ အ ဖိုအမတွဲလျက် ဖြစ်စေ၊ အအုပ်အသင်းကလေးဖွဲ့၍ ဖြစ်စေ တွေ့ရတတ်သည်။ ညဦးအချိန် ထိုအပင်၌ပင် အိပ်တန်းတက် ကြသည်။ သားပေါက်ချိန်မဟုတ်သည့် အချိန်၌ မြစ်ချောင်း များ၊ သဲသောင်ကမ်းခြေများ၌ နေသည်။ မောက်တင်များ သည် စပါးများကို အမြောက်အမြား စားသည်။ သို့သော် လည်း သစ်မြစ်၊ သစ်စေ့များ၊ ရေထဲ၌ ပေါက်သော ပင်ငယ် အမျိုးမျိုးတို့၏ အစိုများ၊ တီကောင်နှင့် ရေပိုးရေမွှားများ ကိုလည်း စားကြသည်။

မောက်တင်အဖို၏ ရိုးရိုးအော်သံမှာ မကျယ်လောင် မစူး ရှသော်လည်း အသိုက်အနီးအနားသို့ သွားရောက် နှောင့် ယှက်သည့်အခါ မကြောက်မရွံ့ ဆူညံစွာ အော်ဟစ် တတ် သည်။ မောက်ဘင်တို့သည် ဇွန်လမှ စက်တင်ဘာလအတွင်း သားပေါက်ကြသည်။ သာမန်အားဖြင့် အသိုက်ကို သစ်ပင် ထက်ရှိ အခေါင်းတွင်း၌ တုဘ်များ၊ မြက်များ၊ သစ်ရွက်များ နှင့် အမွေးအတောင်များဖြင့် ဖြစ်ကတတ်ဆန်း ပြုလုပ်သည်။ တမြုံလျှင် ၇ ဥမှ ၁၂ ဥအထိ ရှိသည်။ အသိုက်တခုတွင်ကား



နှုတ်သီးရင်း၌ အမောက်ပါသည့် မောက်တင်ငှက်

ဥပေါင်း ၄၇ ဥအထိရှိသည်ကို တွေ့ရဘူးသည်။ ဥများသည် ရှည်မျော့မျော့ရှိ၍ ပဌမတွင် ဖြူနေသော်လည်း ကြာလတ်သော် တဖြည်းဖြည်း ညိုလာသည်။ တခါတရံ ကလကတ်ငှက်၏ ဥများကို မောက်တင်အသိုက်တွင် တွေ့ရတတ်သည်။

မောက်တင်တို့ကို အာဖရိကတိုက်၊ အိန္ဒိယနိုင်ငံ၊ မြန်မာနိုင်ငံနှင့် သီဟိုဠ်နိုင်ငံများတွင် တွေ့ရသည်။ မြန်မာနိုင်ငံ မြောက်ပိုင်း၌ တွေ့ရခဲ၍ အလယ်ပိုင်းနှင့် တောင်ပိုင်းတွင်ကား အမြောက်အမြားတွေ့ရသည်။

**မောက်မယ်မြို့။** ။မောက်မယ်မြို့သည် ရှမ်းပြည်တောင်ပိုင်းတိုင်း လွယ်လင်ခရိုင်၊ မောက်မယ်နယ်၏ ရုံးစိုက်မြို့ဖြစ်သည်။ ပင်လယ်မျက်နှာပြင်အထက် ပေပေါင်း ၁,၆၃၀ မြင့်ပြီးလျှင်၊ တောင်များဝန်းရံလျက်ရှိ၏။ မြို့၏အရှေ့ဖက်တွင် မြောက်မှ တောင်သို့ နမ့်ယွန်းချောင်း စီးဆင်းလျက် ရှိသည်။ တောင်ဖက်တွင် နန်းဖတ်ခုံစေတီ၊ နှစ်ကျိပ်ရှစ်ဆူစေတီနှင့် ဆုတောင်းပြည့်စေတီများ တည်ရှိပြီးလျှင်၊ မြို့၏မြောက်ဖက် မြို့၏အဝင်ဝတွင် မြို့ဦး မဟာမုနိ ဘုရားကျောင်းတော် တည်ရှိသည်။ ထိုကျောင်းတော်၏ တောင်ဖက်တွင် ကပ်လျက် မြို့ဦးဂိုဏ်းချုပ် ဆရာတော်ကြီး၏ ကျောင်းကြီး တည်ရှိလေသည်။ မောက်မယ်မြို့ဟု တွင်သည်မှာ ရှမ်းဘာသာအခေါ် မောက်မိုင်၊ မြန်မာအခေါ် ခေါင်ရမ်းပန်းကို အစွဲပြု၍ တွင်ကြောင်းဆိုသည်။

မောက်မယ်မြို့နယ်၏ အကျယ်အဝန်းမှာ စတုရန်းမိုင် ၁,၂၀၀ ခန့်ရှိ၏။ နောက်ဆုံး သန်ကောင်စာရင်းအရ လူဦးရေမှာ ၁၉,၅၀၀ ခန့်ရှိ၏။ မောက်မယ်မြို့နယ်အတွင်း၌ ရှမ်း၊ ပအိုး၊ ကယားစသည့် လူမျိုးများနေထိုင်ကြသည်။ နတ်ကိုးကွယ်သော ကယားလူမျိုးများမှအပ၊ ရှမ်းနှင့် ပအိုးလူမျိုးတို့သည် ဗုဒ္ဓအယူဝါဒီများ ဖြစ်ကြလေသည်။

မြို့နယ်အတွင်း နေထိုင်သူတို့၏ အသုပ် အကိုင်များမှာ လယ်လုပ်ခြင်း၊ တောင်ယာခုတ်ခြင်းနှင့် ကုန်သန်း ရောင်းဝယ်ခြင်း စသည်တို့ဖြစ်၏။ မြို့နယ်၏ ထွက်ကုန်များမှာ အင်တွဲ၊ ချိပ်၊ သစ်စေး၊ ကွမ်းရွက်၊ ဆေးရွက်၊ ဆန်စပါး၊ နှမ်းဆီ၊ မြေပဲဆီ စသည်တို့ဖြစ်လေသည်။

ခရီးလမ်းပန်း ဆက်သွယ်ရေးတွင် မောက်မယ်မြို့သည် ကားလမ်းဆုံးဖြစ်ပြီးလျှင်၊ မောက်မယ်မှ တိုက်နယ်အတွင်းသို့ လှည်း၊ နွားဝန်တင်၊ အထမ်းအပိုးတို့ဖြင့်သာ ကုန်သန်းသွားလာကြသည်။ မောက်မယ်မှ တန့်ဟတ်သို့ သွားသော ကားလမ်းသည် နွေရာသီအတွင်း၌သာ အသုံးပြုနိုင်သည်။

မောက်မယ်မြို့တွင် ထင်ရှားသော အဆောက်အအုံမှာ ယခင် နယ်ရှင်စော်ဘွားကြီး၏ ဟော်ကြီးဖြစ်၏။ ထင်ရှားသော စေတီပုထိုးများမှာ နန်းဖတ်ခုံ စေတီတော်ကြီးနှင့် မြို့၏အရှေ့ဖက် တောထဲတွင် တည်ရှိသည့် မြို့နံစေတီ ဖြစ်သော နောင်အိုင်စေတီတို့ဖြစ်သည်။ နန်းဖတ်ခုံစေတီတော်ကြီး၏ ဘုရားပွဲတော်များကို နှစ်စဉ် တန်ဆောင်မုန်းလနှင့် တပေါင်းလများတွင် ကျင်းပလေ့ ရှိလေသည်။

**မိုက္ကရိုစကုပ်။** ။ကျွန်ုပ်တို့၏ ခြေလက်အင်္ဂါစသော ကိုယ်ခန္ဓာ အစိတ်အပိုင်းများတွင် ကုဋေပေါင်း များစွာသော သာမန် မျက်စိဖြင့်မမြင်နိုင်သော သက်ရှိသတ္တဝါကလေးများ တရွရွ လှုပ်ရှားလျက် ရှိကြသည်ဟုပြောလျှင် ယုံကြည်လိုသော်မှ ယုံကြည်ကြပေလိမ့်မည်။ သို့သော် စင်စစ် ထိုသက်ရှိသတ္တဝါကလေးများ အထင်အရှား ရှိနေကြောင်းကိုကား မိုက္ကရိုစကုပ် မှန်ဘီလူးကို တီထွင်နိုင်ပြီး ဖြစ်သဖြင့် သိနိုင်ကြပေပြီ။

ဂရိဘာသာဖြင့် "မိုက္ကရို"မှာ သေးနုပ်ခြင်း၊ "စကုပ်" မှာ မြင်တွေ့ခြင်း ဟူ၍ အဓိပ္ပါယ်ရသည်။ မိုက္ကရိုစကုပ်သည် အကြီးချဲ့ မှန်ဘီလူးများဖြင့် စီမံထားသော ကရိယာတခု ဖြစ်၏။ အကြီးချဲ့ မှန်ဘီလူးများကို အလွန်ရှေးကျသော ကာလကပင် လူများသိခဲ့ကြပြီးလျှင် ထိုမှန်ဘီလူးတို့၏ အကြီးချဲ့နိုင်သည့် သတ္တိကို အသုံးချခဲ့ကြလေသည်။ မှန်ဘီလူးများကို တခုတည်း မဟုတ်ဘဲ တခုပေါ် တခု ထပ်ဆင့်ခြင်းဖြင့် ပိုမိုကြီးမားစွာ မြင်နိုင်သော မိုက္ကရိုစကုပ်မှန်ဘီလူးကို ခရစ် ၁၅၉၀ နှင့် ၁၆၁၀ ပြည့်နှစ်အတွင်းတွင်မှ ကမ္ဘာကျော် နက္ခတ္တဗေဒကဝိကြီးဖြစ်သော ဂယ်လီလေအိုဆိုသူက ပဌမဆုံး စတင်တီထွင်အသုံးပြုခဲ့လေသည်။ တယ်လီစကုပ်အဝေးကြည့် မှန်ပြောင်း

ကိုလည်း ထိုပုဂ္ဂိုလ်ကြီးကပင် တီထွင်ခဲ့သည်။ တယ်လီစကုပ်ဖြင့် လူ၏ အသိဉာဏ် ဗဟုသုတကို များစွာ တိုးတက်စေခဲ့သည်မှာ မှန်၏။ သို့သော် မိုက္ကရိုစကုပ်ဖြင့်သာ ကျွန်ုပ်တို့၏ ကျန်းမာမှုတို့သည် များစွာ သက်ဆိုင်ရကား အရေးကြီးသော အသိဉာဏ် ဗဟုသုတမျိုးကို မိုက္ကရိုစကုပ်အားဖြင့် ရရှိခဲ့ခြင်း ဖြစ်ပေသည်။ ဂယ်လီလေအိုနောက် နှစ်ပေါင်း ၂၀၀ ခန့်အတွင်း မိုက္ကရိုစကုပ်ဖြင့် ဗိုင်ဩလိုဂျီနှင့် အနာတမီ ဆိုင်ရာ ဆန်းသစ်သော အချက်အလက်များကို သိပ္ပံပါကြီးများသည် စောကြော ရှာဖွေ တွေ့ရှိခဲ့ကြသည်။ မိုက္ကရိုစကုပ်သည်လည်း တဖြည်းဖြည်း တိုးတက်ပြောင်းလဲ လာခဲ့၏။ ဟော်လန်နိုင်ငံမှ မျက်မှန်လုပ်ကိုင်သူ ဂျန်ဆင်၏ မှန်ပြောင်းသည် နဂိုဝတ္ထုထက် သုံးဆမျှ ပို၍အကြီးချဲ့ပေးနိုင်သည်။ ခရစ် ၁၆၇၃ ခုနှစ်တွင် ဒပ်ချ လူမျိုး သိပ္ပံပါကြီး လေဗင်ဟွတ် ဆိုသူသည် မိုက္ကရိုစကုပ်များကို အများအပြား ပြုလုပ်ခဲ့သည့်ပြင် ယင်ကောင်၊ သန်း၊ အလှေးစသောပိုးမွှားတို့သည် ရေးကထင်သကဲ့သို့ သံသေဒဇ ဖြစ်ပေါ်လာကြခြင်း မဟုတ်ဘဲ ဥများမှ ပေါက်ဖွားခြင်း ဖြစ်ကြောင်းကို အခိုင်အမာဖော်ထုတ်ပြနိုင်ခဲ့လေသည်။ လေဗင်ဟွတ်ကို မိုက္ကရိုစကုပ် သိပ္ပံပညာ၏ ဖခင်ကြီး ဟူ၍ ခေါ်ဝေါ်ကြသည်။



**လွန်စွာသေးမှုန်သော အရာဝတ္ထုများကို အနုစိတ်လေ့လာရန်အတွက် အဆပေါင်းများစွာ ပုံကြီးချဲ့ ရှုမြင်နိုင်စွမ်းသည့် မိုက္ကရိုစကုပ်ခေါ် အဏုကြည့် မှန်ပြောင်းကို တပ်ဆင်နေစဉ်**

ရိုးရိုး မိုက္ကရိုစကုပ်တွင် တမျိုးတစားတည်းသော မှန်ဘီလူးတခု၊ သို့မဟုတ် တခုထက် ပိုမိုသော မှန်ဘီလူးများ ပါဝင်ပြီး ကြည့်ရှုလိုသောအရာဝတ္ထုကိုတိုက်ရိုက်ကြည့်ရှုနိုင်သည်။ ရိုးရိုးမိုက္ကရိုစကုပ်ထက် ပိုမိုကောင်းမွန်သော ကွန်ပေါင်းမိုက္ကရိုစကုပ်၏ မှန်ပြောင်းတွင် မှန်ဘီလူး နှစ်မျိုး ပါဝင်သည်။ ပဌမ အော့ဗဂျက်တစ် ခေါ် အောက်အဝနားရှိ ပုံဖမ်းမှန်ဘီလူးသည် အရာဝတ္ထု၏ ပြောင်းပြန် အရိပ်ကို အကြီးချဲ့ကာ ထင်လာစေသည်။ ဒုတိယ အော့ကျူလာခေါ် ကြည့်မှန်ဘီလူးမှာ အထက်အဝဖက်၌ရှိပြီးလျှင် ပုံဖမ်းမှန်ဘီလူးမှ နဂိုအတိုင်း ပြန်လည် ပြောင်းလဲ၍ ထွက်လာသော ပြောင်းပြန် အရိပ်ကို ထပ်မံ၍ အကြီးချဲ့ပေးသည်။ ကြည့်မှန် ဘီလူး၏ ဘေးဖက်ရှိ ခလုတ်ဘီးကလေးကို လှည့်ပေးခြင်းဖြင့် အရာဝတ္ထုကို အနေအထား အမျိုးမျိုးထား၍ ကြည့်ရှုရန်နှင့် အကွာအဝေး အမျိုးမျိုး၌ ကြည်လင် ပြတ်သားစွာ မြင်နိုင်ရန် ချိန်ပေးနိုင်သည်။ မှန်ပြောင်း၌ မိုက္ကရိုမီတာခေါ် အဏုစိတ်တိုင်းတာသည့် ကရိယာလည်း ပါဝင်၍ ထိုကရိယာဖြင့် ကြည့်ရှုသည့် ဝတ္ထု၏အတိုင်းအတာကို တိကျစွာ တိုင်းတာ နိုင်ပေသည်။

ရိုးရိုး မိုက္ကရိုစကုပ်သည် အရာဝတ္ထုကို အဆတရာလောက်သာ အကြီးချဲ့ပေးနိုင်သည်။ ကွန်ပေါင်း မိုက္ကရိုစကုပ်မှကား အဆပေါင်း ငါးထောင်အထိပင် အကြီးချဲ့ပေးနိုင်စွမ်း ရှိသည်။ မိုက္ကရိုစကုပ်၏ စွမ်းရည်ကောင်းသည်မှာ ပါဝင်သော မှန်ဘီလူး အစားစား၏ စွမ်းရည်ကြောင့်သာ မက ပုံဖမ်းမှန်ဘီလူးနှင့် ကြည့်မှန်ဘီလူးတို့၏ အကွာ အဝေးကြောင့်လည်း ဖြစ်နိုင်ပေသည်။

အရာဝတ္ထု တခုခုကို မိုက္ကရိုစကုပ်ဖြင့် ကြည့်ရှုလိုလျှင် အရာဝတ္ထုကို ဖန်ချပ်ငယ်နှစ်ခုအကြား၌ ညှပ်၍ မှန်ပြောင်း၏ ပြောင်းလုံး ပြွန်အောက်တည့်တည့်၌ ထားရသည်။ ထိုအပေါ်သို့ တောက်ပသော အလင်းရောင်ထိုးပေးထားရသည်။ ထိုနောက် အလင်းဆုံချက် အကွာအဝေး မှန်ကန်၍ ကြည်လင်ပြတ်သားစွာ မြင်နိုင်ရန် အထက် ဖော်ပြခဲ့သည့်အတိုင်း ပြုပြင်ပေးရသည်။ မိုက္ကရိုစကုပ်ဖြင့် ကြည့်ရှုသောအခါ၌ နောက်ကျိသော ရေအိုင်တခုမှ ရေတစက်မှာ ကန်ကြီး တခုသဖွယ် ဖြစ်နေလျက် ထိုရေစက်အထဲ၌ ဆန်းပြားလှသော အကောင်ငယ်ကလေးများ ကူးသန်း လှုပ်ရှားလျက် ရှိကြသည်ကို တွေ့နိုင်သည်။ ပျားငယ် တကောင်၏ ရှေ့ခြေထောက်မှ အမွေးအမှင်များကိုပင် တွေ့မြင် စစ်ဆေးနိုင်သည်။ ကျွန်ုပ်တို့၏ ကမ္ဘာကြီးအတွင်း သာမန် မျက်စိဖြင့် မမြင်နိုင်ဘဲ မိုက္ကရိုစကုပ်ဖြင့်သာ မြင်နိုင်သော ပိုးမွှားများမှာ အလွန်များပြားပေသည်။ လူတယောက်၏ ကိုယ်ခန္ဓာအတွင်းအပြင်၌ရှိသော ပိုးမွှားများ၏ အရေအတွက်သည် ကမ္ဘာပေါ်၌ ကမ္ဘာဦးမှစ၍ ယနေ့တိုင် နေထိုင်ခဲ့ကြသော လူဦးရေထက် ပို၍ များပြားလေသည်။

ထိုပိုးမွှားတို့၏ အကြောင်းကို သိရှိနားလည်ရန်မှာ လွန်စွာ အရေးကြီးပေသည်။ ယင်းတို့မရှိလျှင် ကျွန်ုပ်တို့ အသက်ရှင်လျက် နေနိုင်ကြမည် မဟုတ်ပေ။ အချို့ ပိုးမွှားများမှာ မကောင်းသော ပိုးမွှားဖြစ်၍ ကျွန်ုပ်တို့ကို ဖျားအောင်သော်၎င်း၊ သေအောင်သော်၎င်း ပြုလုပ်နိုင်ကြသည်။ အခြားပိုးမွှားတို့မှာ မကောင်းသောပိုးမွှားတို့ကို သတ်ပစ်ကြသဖြင့် ကျွန်ုပ်တို့၏ ကျေးဇူးရှင်များ ဖြစ်ကြသည်။ ထို့ကြောင့် ကျွန်ုပ်တို့သည် ဘေးဥပဒ် ဖြစ်စေသည့် မကောင်းသော ပိုးမွှားတို့အား နိုင်နင်းစေရန်နှင့် ကောင်းသော ပိုးမွှားတို့အား မည်သို့ ပြုစုဂရုစိုက်ရမည်ကို ရှာဖွေကြံဆနိုင်ခဲ့ကြသည်။ မိုက္ကရိုစကုပ်သာ မပေါ် ပေါက်ခဲ့လျှင် ဤသို့ ကြံစည်နိုင်ခဲ့ကြမည် မဟုတ်ပေ။ ယခုမူ မိုက္ကရိုစကုပ်မှ ရရှိသော ကျေးဇူး များကြောင့် များစွာသော ကြောက်မက်ဖွယ်ကောင်းသည့် ရောဂါဆိုးတို့ကိုပင် ပပျောက်ကင်းဝေးစေနိုင်ခဲ့ပြီ ဖြစ်သည်။ မိုက္ကရိုစကုပ်၏ အကျိုးကျေးဇူးများမှာ ဤမျှသာမကသေး၊ သန္ဓေလုပ်နေသော သတ္တု၏ အမှုန်ကလေးများတွင်ပင် မည်သို့ဖြစ်နေသည်ကို သိနိုင်လာသဖြင့် အလွန်ခိုင်ခံ့ အသုံးဝင်လှသော သံမဏိကို ဖြစ်ပေါ် စေနိုင်ခဲ့သည်။ စက္ကူလုပ်ငန်း၊ ဆေးဆိုး လုပ်ငန်းတို့နှင့် အစားအသောက်များ သန့်မသန့် စစ်ဆေးရန် စသောလုပ်ငန်း အများအပြားတွင်လည်း မိုက္ကရိုစကုပ်က ဆောင်ရွက်ပေးနိုင်ခဲ့သည်။

မိုက္ကရိုစကုပ်သည် ထိုမျှစွမ်းရည်သတ္တိ ရှိနေပြီး ဖြစ်သော်လည်း စကြဝဠာအတွင်းရှိ အရာဝတ္ထုဟူသမျှ အားလုံးကိုကား မမြင်နိုင်သေးပေ။ အရာဝတ္ထုတခုကို မြင်ရခြင်းမှာ အလင်းဆိုင်ရာ သိပ္ပံပညာအရ အရာဝတ္ထုမှ အလင်းလှိုင်း ပြန်လည် ရိုက်ဟပ်သည်ကို မြင်ရခြင်းဖြစ်သည်။ ပုံပမာ ကျောက်စရစ်ခဲငယ်ကလေးသည် ပင်လယ်ဒီလှိုင်း၌ မည်သို့မျှ အရာမထင်စေသကဲ့သို့ မော်လီကျူး၊ အက်တမ်၊ အီလက်ထရွန်တို့သည် အလင်းလှိုင်းအလျားထက် များစွာ သေးငယ် လှသဖြင့် အလင်းလှိုင်းများကို ပြန်လည် ရိုက်ဟပ်ခြင်း မပြုလုပ်နိုင်ကြချေ။ ထို့ကြောင့် မော်လီကျူး၊ အက်တမ်၊ အီလက်ထရွန်တို့ကို မိုက္ကရိုစကုပ်ဖြင့် မမြင်စွမ်းနိုင်သေးပေ။ သို့ရာတွင် ထိုမှုန်မှုန်တို့၏ ပုံသဏ္ဌာန်နှင့် အရွယ်တို့ကို တိကျစွာ မသိနိုင်သေးသော်လည်း ယင်းတို့၏ အရိပ်အရောင်ကိုမူ အာလထြာ မိုက္ကရိုစကုပ် ခေါ် နောက်ဆုံး ဆန်းသစ်တိုးတက်လာသော မိုက္ကရိုစကုပ်တမျိုးဖြင့် တွေ့နိုင်ပြီ ဖြစ်သည်။ ထိုမှုန်မှုန်တို့သည် အလင်းလှိုင်းအား ပြန်လည် မရိုက်ဟပ်နိုင်သည့်တိုင်အောင် ပတ်ဝန်းကျင်သို့ အလင်းလှိုင်းအား ကျဲဖြန့်သွားစေနိုင်သည်။ အနက်ရောင်နောက်ခံပေါ်၌ ထိုမှုန်မှုန်တို့မှ ကျဲပြန့်ထွက်လာသော အလင်းလှိုင်းကို တောက်ပသည့် အစက်ငယ်ကလေးသဖွယ် မြင်နိုင်ပေသည်။ အလွန်ကောင်းသော ရိုးရိုး မိုက္ကရိုစကုပ်ဖြင့် အချင်း မိုက်ကရွန် အနည်းငယ်မျှရှိသော အရာတို့ကို မြင်နိုင်၍ အာလထြာ မိုက္ကရိုစကုပ်ဖြင့် ဆိုလျှင် မိုက်ကရွန်၏ တထောင်ပုံ တပုံအောက်ထက် သေးငယ်သော အရာတို့ကို မြင်နိုင်ပေသည်။ မိုက်ကရွန် တခုသည် $\frac{၁}{၂၅၀၀၀}$ လက်မနှင့် ညီမျှ၏။

မိုက္ကရိုစကုပ်တွင်အသုံးပြုသောမှန်ဘီလူးများနှင့်စပ်လျဉ်း၍ ဖြစ်ပေါ်သော ချွတ်ယွင်းချက်များကို ယခုအခါ ပြင်ဆင်နိုင်ပြီဖြစ်၏။ မှန်ဘီလူးများကို ဖလင့်ဖန်ဖြင့် ပြုလုပ်သော မှန်ဘီလူးများနှင့် ကရောင်းဖန်ဖြင့် ပြုလုပ်သော မှန်ဘီလူးများကို ပေါင်းစပ်အသုံးပြုခြင်းဖြင့် ကောင်းမွန်စေခဲ့ပြီ ဖြစ်သည်။ ယခုအခါတွင် မိုက္ကရိုစကုပ်များဖြင့် ရုပ်သေဓာတ်ပုံများကိုသာမက ရုပ်ရှင်ဓာတ်ကားများပင် ရိုက်ကူး ပြသနိုင်ပြီ ဖြစ်သည်။

## အီလက်ထရွန် မိုက္ကရိုစကုပ်

အာလထြာ မိုက္ကရိုစကုပ်သည် ရိုးရိုးမိုက္ကရိုစကုပ်ထက် များစွာ အားကောင်းသဖြင့် ရိုးရိုးမိုက္ကရိုစကုပ်ဖြင့် မမြင်နိုင်သော အရာများကို မြင်နိုင်သည်။ သို့သော်လည်း အာလထြာ မိုက္ကရိုစကုပ်နှင့် ကြည့်၍ မမြင်နိုင်သော အရာများရှိနေပြန်သေးရာ အာလထြာ မိုက္ကရိုစကုပ်ထက် ပို၍အဏုစိတ်မြင်နိုင်သည့် အီလက်ထရွန် မိုက္ကရိုစကုပ်ကို စီမံ တီထွင်ရပြန်လေသည်။

မိုက္ကရိုစကုပ်နှင့် အီလက်ထရွန် မိုက္ကရိုစကုပ်တို့သည် အခြေခံသဘောအားဖြင့် တူကြသည်။ အလင်းရောင်၏ အကူအညီကိုယူကာ ရိုးရိုးမိုက္ကရိုစကုပ်က လိုရာပုံသဏ္ဌာန်ကို အကြီးချဲ့၍ မြင်စေနိုင်သည်။ ဤကဲ့သို့မြင်ရာ၌ ရိုးရိုး မိုက္ကရိုစကုပ်ဆိုလျှင် နဂိုဝတ္ထုကို အဆပေါင်း ၃,၀၀၀ ထက်ပို၍ အကြီးချဲ့ရန် မတတ်နိုင်ချေ။ အီလက်ထရွန် မိုက္ကရိုစကုပ် ဆောင်ရွက်ပုံသည် ရိုးရိုး မိုက္ကရိုစကုပ်ဆောင်ရွက်ပုံနှင့် များစွာမခြားနားပေ။ အီလက်ထရွန် မိုက္ကရိုစကုပ်တွင် အလင်းရောင် အစား အီလက်ထရွန်ကို အသုံးပြုခြင်းဖြင့် ဝတ္ထု၏ သဏ္ဌာန်ကို အဆပေါင်းများစွာ ချဲ့ပေးနိုင်သည်။ အီလက်ထရွန် မိုက္ကရိုစကုပ်၏ စွမ်းအားဖြင့် နဂိုဝတ္ထုကို အဆပေါင်း ၃၀၀,၀၀၀ အထိ ချဲ့ပေးနိုင်ခဲ့ပေပြီ။ နောင်တွင် ထိုထက် ပို၍ချဲ့ပေးနိုင်လာပေဦးမည်။ အီလက်ထရွန် မိုက္ကရိုစကုပ်မှာ ဈေးကြီးလွန်းလှသည် ဖြစ်ရာ ကမ္ဘာပေါ်တွင် အမြောက်အမြား မရှိပေ။

အီလက်ထရွန် မိုက္ကရိုစကုပ်သည် အမြင့် ၇ ပေခန့် ရှိ၍ ထိပ်ဖက်တွင် ဗို့အား ၆၀,၀၀၀ နှင့် အီလက်ထရွန်များကို လွှတ်နိုင်သော ကက်သုတ် (ဓာတ်မတိုင်) ရှိသည်။ အီလက် ထရွန် မိုက္ကရိုစကုပ်တွင်ရှိသော သံလိုက်သည် လျှပ်စစ်ဓာတ်စီးဝင်နေသောဝိုင်ယာကြိုးကို ဆွဲငင်ယူယင်း အီလက်ထရွန်များကို တသီတတန်းကြီး ဆွဲငင်ယူသည်။ စက်ဝိုင်းပုံရှိသော သံလိုက်သည် မျဉ်းပြိုင်တန်းလျက်ရှိသော အီလက်ထရွန်တို့ကို

မှန်ဘီလူးက အလင်းတန်းများ တနေရာ၌ စုဆုံကျရောက်စေသကဲ့သို့ စုဆုံကျရောက်စေသည်။ ထိုသံလိုက်မျိုး၏ ပုံကို လုပ်ရာ၌ မှန်ဘီလူး၏ ပုံကို လုပ်ရသည်ထက် စေ့စပ်သေချာရပေသည်။ အီလက်ထရွန်တန်းသည် သံလိုက် မှန်ဘီလူး ၃ ထပ်ကို တထပ်ပြီးတထပ် ထွင်းဖြတ်သွားပြီးနောက် ဓာတ်ပုံရိုက်ရန်ဖြစ်သော အရာဝတ္ထုကို ဖြတ်သွားသည်။ ထိုသံလိုက်မှန်ဘီလူး ၃ ခုမှာ ရိုးရိုး မိုက္ကရိုစကုပ်၌ရှိသော ကွန်ဒင်းဆား၊ အော့ဗဂျက်တစ်၊ အော့ကျူလာမှန်ဘီလူး ၃ ခုနှင့် ကိုက်ညီလေသည်။ ယင်းသို့ အီလက်ထရွန်များ ဖြတ်သွားနိုင်ရန် အီလက်ထရွန် မိုက္ကရိုစကုပ်တွင် ပလာနယ်ဖြစ်နိုင်သမျှဖြစ်ရန် အရေးကြီးပေသည်။ ဆီးနှင်းသည် အလင်းတန်းများကို တကွဲတပြားစီ ဖြစ်စေသကဲ့သို့ လေသည်လည်း အီလက်ထရွန်တန်းများကို တကွဲတပြားစီ ဖြစ်စေတတ်သည်။ ရိုးရိုး မိုက္ကရိုစကုပ်မှာကဲ့သို့ ရိုက်ကူးမည့်ပုံကို မှန်ပြားပေါ်တွင် တင်ထား၍ မရပေ။ အလွန်ပါးလွှာလှသော ဆဲလျူလိုပေါ်တွင် တင်ထားရသည်။

ယခုအခါ စက်မှုလက်မှုဆိုင်ရာ ဓာတုဗေဒပညာရပ် အတွက် ဤကရိယာကို ကောင်းစွာ အသုံးချနေကြလေပြီ။ ရိုးရိုး မိုက္ကရိုစကုပ်ဖြင့် ကြည့်လျှင် မထင်မရှား မှုန်မွှားမွှားမျှသာ တွေ့ရသော အပြောက်အစက်များကို အီလက်ထရွန်မိုက္ကရိုစကုပ်ဖြင့် ကြည့်လျှင် ထင်ရှားစွာ တွေ့နိုင်ပေသည်။ အလွန် အသေးစိတ်ကြည့်ရှုရန် လိုအပ်သော နက္ခတ္တဗေဒနှင့် လေကြောင်းဖက်ဆိုင်ရာ ဓာတ်ပုံများအတွက် အီလက်ထရွန်မိုက္ကရိုစကုပ်သည် များစွာ အသုံးဝင်ပေသည်။ အီလက်ထရွန် မိုက္ကရိုစကုပ်၏ အကူအညီဖြင့် စက်မှုလက်မှု ဆိုင်ရာ ဓာတုဗေဒပညာကျော်များသည်လည်း သတ္တုအမျိုးမျိုးကို သေချာစွာ လေ့လာနိုင်ကြပေပြီ။ ဤကရိယာ၏အကူအညီဖြင့် ပိုးနှင့် ရေယုန့်တို့ကို တုနိုင်သော နိုင်လွန်နှင့် ဗင်ယွန်မျှင်များကို အောင်မြင်စွာ လုပ်ယူနိုင်ပေပြီ။ ဓာတုဗေဒပညာတွင် စာတွေ့ဖြင့် သိရှိကျေနပ်နေခဲ့ရသည့် မော်လီကျူလာသီအိုရီကိုလည်း လက်တွေ့အားဖြင့် တကယ်မှန်ကန်ကြောင်း သိလာနိုင်သည်မှာ ဤကရိယာ၏ ကျေးဇူးကြောင့်ပင် ဖြစ်သည်။ အကြောင်းကား ပရိုတင်း၏မော်လီကျူးများကို အီလက်ထရွန် မိုက္ကရိုစကုပ်ဖြင့် ထင်ရှားစွာ ဓာတ်ပုံရိုက်ကူးနိုင်သောကြောင့်ပင် ဖြစ်သည်။ အလွန်သေးငယ်လှသော သတ္တဝါကလေးများ၏ လောကကို စစ်ဆေးကြည့်ရှုရာ၌ အီလက်ထရွန် မိုက္ကရိုစကုပ်၏ အကူအညီကို များစွာ ရပေသည်။ အမြင်အားဖြင့် ချော၍ နေသော ပစ္စည်းများကိုသည်း အီလက်ဆရွန် မိုက္ကရိုစကုပ်ဖြင့် ကြည့်လျှင် တကယ် အသားညီမညီ ကောင်းစွာ စမ်းသပ်သိရှိနိုင်ပေသည်။ နောင်တွင်လည်း စက်မှု အခက်အခဲများကြောင့် စမ်းသပ်ရန် မဖြစ်နိုင်သေးသည့် အရာဝတ္ထုအမျိုးမျိုး၏ မူလသဘာဝကို တိကျသေချာစွာ လေ့လာနိုင်ကြပေမည်။ အီလက်ထရွန် မိုက္ကရိုစကုပ်ဖြင့် အလွန့်အလွန်အသေးစိတ်မြင်နိုင်သည်မှန်သော်လည်း အသုံးပြုရာ၌ မကောင်းသော အချက်တချက် ရှိပေသည်။ ထိုအချက်မှာ ရိုးရိုး မိုက္ကရိုစကုပ်ကဲ့သို့ လွယ်လင့်တကူ အသုံးမပြုနိုင်ဘဲ ပလာနယ်တွင်သာ အသုံးပြုရသောကြောင့် ဖြစ်ပေသည်။ လေဝင်မည်ကို အထူးသတိ ပြုရသဖြင့် အီလက်ထရွန် မိုက္ကရိုစကုပ်ကို အသုံးပြုသည့်အခါတွင် အရည်များ၏သဘာဝကို လေ့လာရန် များစွာခဲယဉ်းလှပေသည်။

အီလက်ထရွန် မိုက္ကရိုစကုပ်ကို ယခုအချိန်တွင် သော်၎င်း၊ နောင်တွင်သော်၎င်း အများဆုံး အသုံးချရမည့် ပညာရပ်မှာ ဗိုင်းသြသိုဂျီပညာရပ် ဖြစ်သည်။ ရိုးရိုး မိုက္ကရိုစကုပ်ဖြင့် မြင်ရုံသာမြင်ရပြီးလျှင် ကိုယ်ခန္ဓာအစိတ်အပိုင်းကို ခွဲခြား မသိနိုင်သော ဗက်တီးရီးယားများကို အီလက်ဆရွန် မိုက္ကရိုစကုပ်ဖြင့် ကောင်းစွာ သိနိုင်ပြီ ဖြစ်သည်။ ဗိုင်းသြသိုဂျီ အတွက်သာ မကဘဲ ဆေးပညာဖက်ဆိုင်ရာတွင်လည်း အီလက်ထရွန် မိုက္ကရိုစကုပ်သည် အသုံးဝင်လှ၏။ သေးငယ်လှသော သတ္တဝါကလေးများကို တွေ့နိုင်ခြင်းအားဖြင့် (က) ထိုသတ္တဝါကလေးများအား ချေမှုန်းပစ်ရန်နှင့် (ခ) ကောင်းကျိုးပေးပါက မွေးမြူရန် နည်းလမ်းများကို ရှာဖွေ နိုင်ကြပေပြီ။

**မိုက္ကရိုစာအုပ်။** ။မိုက္ကရို စာအုပ်သည် စာအုပ်ကို အငယ်ဆုံး အရွယ်အထိ ဖန်တီးကာ ဖတ်ရှုနိုင်အောင် သိပ္ပံပညာဖြင့် စီစဉ်ထားခြင်းဖြစ်သည်။ ကမ္ဘာပေါ်တွင် ပုံနှိပ်အတတ် စတင် ပေါ်ပေါက် လာပြီးသည့်နောက် စာအုပ်သည် လူအတွက် မရှိမဖြစ်သော အသုံးအဆောင်တခု ဖြစ်လာခဲ့လေသည်။ တနေ့ထက်တနေ့ ပုံနှိပ်စာအုပ် အမြောက်အမြား ပေါ်ထွက်လာသော်လည်း မည်သူ တဦးတယောက်မျှ ကုန်စင်အောင် မဖတ်နိုင်ပေ။ ထွက်သမျှစာအုပ်ကို မဆိုထားဘိ၊ စာအုပ်ကောင်းများကိုချည်း ရွေးဖတ်ရန်ပင် အချိန် မလုံလောက်နိုင်ပေ။ အချိန် အခက်အခဲသာမက စာအုပ်များကို ထားသိုရန် နေရာအခက်အခဲကလည်း ရှိသေးသည်။ ပုံပမာ- အစဉ်မပြတ် မှီငြမ်းပြုနေရန်သင့်သည့် "အင်စိုင်ကလိုပီးဒီးယား ဗြိတန္နိကား" ခေါ် အင်္ဂလိပ် စွယ်စုံကျမ်းကြီးမျိုးမှာ တစုံလျှင် ၂၄ တွဲမျှ ရှိပြီးလျှင် ကြီးမားလေးလံလှသောကြောင့် အမြဲတမ်း ဆောင်ထားရန် မဖြစ်နိုင်ပေ။ ဤအခက်အခဲများကို သိပ္ပံကဝိကြီးများက အမျိုးမျိုး စီမံကြံဆောင်၍ ဖြေရှင်းလိုက် ကြလေပြီ။

သိပ္ပံပညာရှင်ကြီးတို့၏ တီထွင်ချက်မှာ အလိုရှိရာ စာအုပ်ကြီးတအုပ်လုံးကို ရုပ်ရှင်ရိုက်ကူးသကဲ့သို့ ကော်ပြားဖြင့် ရိုက်ကူးပြီးလျှင် လျှပ်စစ်ဓာတ်အလင်းဖြင့် ပိတ်ကားပေါ်တွင်ရုပ်ရှင်များပြသကဲ့သို့ တဖန် ပြန်လည်ပြသခြင်းဖြစ်သည်။ ယင်းသို့ ရိုက်ကူးရာ၌ ရိုးရိုးဓာတ်ပုံရိုက်သကဲ့သို့သော်၎င်း၊ ရုပ်ရှင်

ရိုက်သကဲ့သို့ သော်ငြား နှစ်သက်သည့် နည်းဖြင့် ရိုက်ကူးနိုင်ပေသည်။ မည်သည့် နည်းဖြင့် ရိုက်ကူးသည်ဖြစ်စေ ဖလင်ကော်ပြား၏ ပြက်မှာ ၁ လက်မထက်ပို၍ မကျယ်ပေ။ စာဖတ်စက်မှာ ကြီးကျယ်လှသော ကရိယာမဟုတ်ဘဲ အမြင့် ၂ ပေမျှသာရှိ၍ ရိုးရိုးစားပွဲပေါ်တွင် တင်ထားနိုင်သည်။ ယခုအခါ စာဖတ်စက်ကို ပြည်သူလူထုသို့ ထုတ်မရောင်းသေးသော်လည်း တန်ဖိုးမှာ ၁၅ ပေါင်ထက် မပိုကြောင်း သိရပေသည်။

ကမ္ဘာပေါ်ရှိ အကျော်ကြားဆုံး စာအုပ် အသီးအသီးကို မိုက္ကရို စာအုပ် ပြုကာ ဖတ်ရှုနိုင်ပေသည်။ ကျမ်းအတွဲပေါင်း ၂၄ တွဲရှိသော အင်္ဂလိပ် စွယ်စုံကျမ်းကြီးကို မိုက္ကရို စာအုပ် ပြုပြီး အိတ်ထဲတွင် ထည့်ကာ ဆောင်ယူသော် ဆောင်ယူနိုင်ပေသည်။ ဤကဲ့သို့ ကြီးမားလှသော စာအုပ်များကို လွယ်ကူသက်သာစွာဖတ်ရန် ယူဆောင် သွားနိုင်သောကြောင့် ပညာရေး အခက်အခဲများကို သာမန် လူတန်းစားများပင် ဖြေရှင်း နိုင်ဖွယ် ရှိပေသည်။ မိုက္ကရိုစာအုပ်၏ အကူအညီဖြင့် ကမ္ဘာပေါ်ရှိ ပညာရပ် အသီးအသီးကို လွယ်လင့်တကူ ရယူမှတ်သားနိုင်သောကြောင့် မည်သူမဆို မိမိသန်ရာ ပညာဖက်တွင် အစွမ်းကုန် ထူးချွန်အောင် ကြိုးစားလေ့လာ နိုင်သည်။ ယခုအခါတွင် စာဖတ်စက်များကို လန်ဒန်မြို့ သိပ္ပံဖက်ဆိုင်ရာ စာကြည့်တိုက်နှင့်တကွ အခြားသော နေရာများတွင်လည်း တွေ့နိုင်သည်။ မိုက္ကရိုဖလင်ကို လူသုံးများလာသည်နှင့်အမျှ အမေရိကန် သိပ္ပံပညာရှင် အချို့က နောင်သောအခါ ထုတ်ဝေသမျှ ဂျာနယ် မဂ္ဂဇင်းတို့ကို မိုက္ကရိုဖလင်ဖြင့် ထုတ်ဝေဖြန့်ချိရန် ကြံရွယ်နေကြသည်။ မိုက္ကရိုဖလင်ကို အသုံးပြုရာတွင် စာပုံနှိပ်ခြင်းထက် အဖိုးအခ များစွာသက်သာသည်ဟု အကြောင်း ပြကြသည်။ စာအုပ်များကို သိုမှီးရမည့် အစားမိုက္ကရိုဖလင်နှင့် မိုက္ကရိုစာအုပ်များကို သိုမှီးရခြင်းသည် ငွေအကုန်အကျ နည်းသည်သာမက နေရာ အယူလည်း နည်း၍ များစွာသက်သာလှပေသည်။ သို့ရာတွင် မိုက္ကရိုဖလင်သည် စက္ကူလောက် တာရှည်ခံမခံကိုကား သံသယဖြစ်ဖွယ်ရှိပေသည်။

မိုကက္ကရိုဖလင်သည် စက္ကူနေရာတွင်၎င်း၊ မိုက္ကရို စာအုပ်သည် စာအုပ်နေရာတွင်၎င်း အသီးအသီး အစားထိုးယူလိုက်ကြလျှင် ယခုလက်ရှိ စာအုပ်အစီအစဉ်နှင့်တကွ စာပေပါ တမျိုးတဖုံ ပြောင်းလဲ လာပေလိမ့်မည်။ စာကြည့်တိုက် ကလေးတတိုက်တွင် မိုက္ကရိုစာအုပ် ၁၀,၀၀၀ ခန့် ထားရန်မှာ များစွာ ခဲယဉ်း လှမည် မဟုတ်ပေ။ အဆိုပါ မိုက္ကရိုစာအုပ်များကို ဖတ်ရန် စာဖဘ်စက်မှာ ရေဒီယို တလုံး၏ တန်ဖိုးလောက်သာ ရှိပေသည်။ ထို့ကြောင့် နောင်အခါ လူထုပညာသင်ကြားရေးတွင် တိုးတက်မှု အများအပြား မြော်လင့် ဖွယ်ရာ ရှိသည်ဟု ဆိုနိုင်ပေသည်။

**မိုက္ကရိုဖလင်။** ။ပုံနှိပ်စာလုံးများနှင့် အခြားပစ္စည်းများအား ဓာတ်ပုံရိုက်ကူးထားသည့် သေးငယ်သော ဖလင်ကော်ပြားကို မိုက္ကရိုဖလင် ဟုခေါ်သည်။ စာအုပ် တအုပ်လုံး၏ စာသားများကို ပေအနည်းငယ်မျှသာ ရှည်၍ ပြက်နှစ်လက်မထက် မပိုသော ဖလင်ကော်ပြားကလေးပေါ်တွင် ဓာတ်ပုံ ရိုက်ကူးထားနိုင်ပေသည်။ ထိုနောက် ဖလင်ကော်ပြားကို အလိပ်ကလေးလိပ်၍ မူလစာအုပ်ထားသည့် နေရာ၌ပင် စာအုပ်လောက် နေရာကျယ်ကျယ် မယူရတော့ဘဲ နေရာအတော်ကျဉ်းကျဉ်းတွင် ထားနိုင်လေသည်။ ဓာတ်ပုံ ရိုက်ကူးပြီးသော ဖလင်ကို ရုပ်သေပြစက်ပေါ်တွင် တင်၍ ဆလိုက်မီး ထိုးလိုက်သည့်အခါ အလွန်သေးငယ်သော စာလုံးများ ကြီးလာသဖြင့် ကောင်းစွာ ဖတ်ရှုနိုင်သည်။

မိုက္ကရိုဖလင်သည် ပညာရေး၊ သိပ္ပံပညာဆိုင်ရာ လုပ်ငန်း၊ စက်မှုလက်မှုလုပ်ငန်း စသော လုပ်ငန်းများတွင် များစွာအသုံးဝင်၏။ စီးပွားရေး မှတ်တမ်းများကို ဖိုင်တွဲကြီးများနှင့် သိမ်းဆည်း မထားတော့ဘဲ မိုက္ကရိုဖလင်များနှင့် ဓာတ်ပုံရိုက်ကူးထားကြသည်။ ထိုအတူ နေရာအမြောက်အမြားယူ၍ ထားရှိရမည့် စာအုပ်များကို မိုက္ကရိုဖလင်များနှင့် ဓာတ်ပုံရိုက်ကာ သိမ်းဆည်းထားရာ၌ ဖလင်လိပ်အနည်းငယ်သာ ကုန်သည်။ အရေးကြီးသော စာချုပ် စာတမ်းများနှင့် ရှားပါးလှသော စာအုပ်များကိုလည်း မိုက္ကရိုဖလင်များနှင့် ဓာတ်ပုံရိုက်ယူထားကြသည်။ ဤသို့ဖြင့် ယင်းတို့ကို ထိန်းသိမ်းထားရာ၌ မပျက်စီးနိုင်သည့်ပြင် နေရာအတွက်လည်း တာဝန်အလွန်ကျဉ်းပေသည်။ ရိုက်ကူးပြီးသား မိုက္ကရိုဖလင်များကို အဖိုးအနည်းငယ်နှင့် ရရှိနိုင်သဖြင့် ယခုအခါ ခေတ်မှီ စာကြည့်တိုက်များနှင့် ကျောင်းများတွင် ထားရှိကြသည်။

မိုက္ကရိုဖလင်များသည် သိမှတ်လိုသော အကြောင်း အရာအချက်အလက်များကို မှတ်တမ်းတင်ရာ၌ အကောင်းဆုံးဖြစ်သည်။ ခရစ် ၁၉၃၉ ခုနှစ်၌ နယူးယော့မြို့တွင် ယခုခေတ်ယဉ်ကျေးမှု ဆိုင်ရာ အကြောင်းရပ်များကို နောင်လာ နောက်သားများအဖို့ အကျိုးရှိစေရန် မိုက္ကရိုဖလင်များနှင့်မှတ်တမ်းတင်၍ အခိုင်အခံ့ ဆောက်လုပ်ထားသော မြေအောက်လိုဏ်ခေါင်းတွင် မြှုပ်နှံထားကြသည်။ စာမျက်နှာပေါင်း ၃၀,၀၀၀ ကျော်မျှရှိသော ထိုယဉ်ကျေးမှုဆိုင်ရာ ဘာသာရပ်များကို မိုက္ကရိုဖလင်နှင့် ဓာတ်ပုံရိုက်ကူးရာ၌ ဖလင်လိပ် သုံးလိပ်နှင့် တဝက်မျှသာ ကုန်သည်။ ထိုမိုက္ကရို ဖလင်များကို နောင်နှစ်ပေါင်း ၅,၀၀၀ ကြာမှ ထုတ်ယူလေ့လာကြမည်ဟု ဆိုသည်။

မိုက္ကရိုဖလင်တွင် ဓာတ်ပုံရိုက်သည့် လုပ်ငန်းကို ဓာတ်ပုံပညာပေါ်ကတည်းက သိရှိလာခဲ့ကြသော်လည်း ၁၉၂၈ ခုနှစ် နောက်ပိုင်းကျမှ ခေတ်စားလာသည်။ ဒုတိယ ကမ္ဘာစစ်အတွင်း စောစောပိုင်းလောက်က အင်္ဂလန်နိုင်ငံမှ စာကြည့်တိုက်များသည် လေကြောင်းတိုက်ပွဲဒဏ်ကြောင့် များ

စွာ ပျက်စီးခဲ့ရသည်။ အလွန် အဖိုးတန်သည့် စာအုပ်များနှင့် စာချုပ်စာတမ်းများ အမြောက်အမြား ဆုံးရှုံးခဲ့ရသည်။ နောက်ထပ် မပျက်စီး မဆုံးရှုံးရအောင် အဖိုးတန်စာအုပ်များနှင့် စာမူများကို မိုက္ကရိုဖလင်များဖြင့် ဓာတ်ပုံရိုက်ကူး၍ သိမ်းဆည်းထားသဖြင့် သက်သာရာရရှိလေသည်။

ယခုခေတ်တွင် အများအသုံးပြုကြသော မိုက္ကရိုဖလင်၏ အရွယ်အစားမှာ ၃/၄ လက်မ၊ သို့မဟုတ် ၁ ၃/၄ လက်မအကျယ်ရှိသည်။ အချို့မှာ အပျော်တမ်း ဓာတ်ပုံရိုက် သမားများ အသုံးပြုသော ဖလင်ကော်ပြား အရွယ်လောက်ပင်ရှိသည်။

**မိုက္ကရိုဖုန်း။** ။ကြေးနန်းကြိုး တလျှောက်၌ဖြစ်စေ၊ ကြိုးမဲ့ကြေးနန်းမှာကဲ့သို့ လဟာပြင်အတွင်း၌ဖြစ်စေ သွဲ့သွဲ့မျှ ဖြစ်သော အသံလှိုင်းများအား လျှပ်စစ်သံလိုက်ဓာတ်အားဖြင့် ကျယ်ကျယ် ကြားအောင် အသံချဲ့ကာ ပြောင်းလဲပေးလိုက်သည့် လျှပ်စစ်ကရိယာကို မိုက္ကရိုဖုန်း ဟုခေါ်သည်။ ပဌမဦး မိုက္ကရိုဖုန်းကို သေးငယ်သော အသံများဖမ်းရာ၌ အသုံးပြုခဲ့ကြ၏။ ယခုသော် တယ်လီဖုန်းစကားပြောကြေးနန်းတွင်ရင်း၊ အသံချဲ့စက်ဖြင့် အသံလွှင့်ရာတွင်ရင်း၊ ရေဒီယိုအသံလွှင့်ရာတွင်ရင်း အနှံ့အပြား အသုံးပြုလျက်ရှိကြသည်။ မိုက္ကရိုဖုန်း ပြုလုပ်ထားပုံမှာ တယ်လီဖုန်းရှိ စကားပြောခွက်နှင့် သဘောချင်း အတူတူပင် ဖြစ်သည်။ မိုက်ကရိုဖုန်း ဆိုသည့် ဝေါဟာရမှာ ဂရိစကားမှ ဆင်းသက်လာ၍ သေးငယ်သောအသံဟု အဓိပ္ပါယ်ရသည်။

ကာဗွန် မိုက္ကရိုဖုန်း၊ ကွန်ဒင်းဆား မိုက္ကရိုဖုန်း၊ မှင်းကွိုင် မိုက္ကရိုဖုန်း၊ ရစ်ဗွန် မိုက္ကရိုဖုန်း၊ ခရစ္စတဲ မိုက္ကရိုဖုန်း စသည်ဖြင့် မိုက္ကရိုဖုန်း အမျိုးမျိုးရှိသည့်အနက် လူသိအများဆုံးကား ကာဗွန် မိုက္ကရိုဖုန်းပင် ဖြစ်သည်။ ဤမိုက္ကရိုဖုန်းမျိုးတွင် ဆာကစ်ရှိ ကြိုးတစကို ကာဗွန်တုံးနှင့် ဆက်ထား၍ ကျန်တစကို ပါးလွှာသည့် ကာဗွန် ဒိုင်အာဖရမ် အမြှေးပါးနှင့် ဆက်သွယ်ထားသည်။ ဒိုင်အာဖရမ်နှင့် ကာဗွန်တုံးအကြားတွင် သေးငယ်သော ကာဗွန်ခဲကလေးများကို ထည့်ထားသည်။ အသံလှိုင်းများကြောင့် ဒိုင်အာဖရမ်တုန်လှုပ်သောအခါ တုန်လှုပ်ပုံကိုလိုက်၍ ကာဗွန်ခဲကလေးများ လှုပ်ရှားကြ၏။ ထိုအခါ ကာဗွန်၏ ရီဇစ္စတန့် ခေါ် လျှပ်စစ်ခုခံအားလည်း လှုပ်ရှားပြောင်းလဲ၍ စီးဖြတ်သွားသောလျှပ်စစ်ဓာတ်ကို တိုးတလှည့် လျော့တခါဖြင့် လှုပ်ရှားစေသည်။ ဤလျှပ်စစ်လှုပ်ရှားမှုများကို အသံဖမ်းကရိယာဖြင့် ဖမ်းယူ၍ အသံလှိုင်းများ ဖြစ်အောင် ပြန်ဖော်သောအခါ မူလအသံများအတိုင်း ပြန်လည်ထွက်ပေါ်လာလေသည်။

ကွန်ဒင်းဆား မိုက္ကရိုဖုန်းတွင် ကွန်ဒင်းဆားသဘောကို



အသံလှိုင်းများကို လျှပ်စစ်လှိုင်းများအဖြစ် စွမ်းအင်ကို ပြောင်းလဲပေးသော မိုက္ကရိုဖုန်းကို အသံလွှင့်ရာတွင် အသုံးချရသည်။

အခြေပြုထားသည်။ ပြုလုပ်ထားပုံမှာ ပျော့ပျောင်းသော အလျူမီနီယမ် ဒိုင်အာဖရမ်ကို ကွန်ဒင်းဆား၏ ပလိတ်တခု အနေဖြင့် ပြုလုပ်ထား၍ ကျန်ပလိတ်ကို ခေတ်မလိုက်အောင် ပြုလုပ်ထားသည်။ ထိုပလိတ်နှစ်ခုကြားတွင် လေမှ လွဲ၍ အခြား ဘာမျှမရှိချေ။ အသံလှိုင်းများကြောင့် ဒိုင်အာဖရမ် တုန်လှုပ်သောအခါ အဆိုပါ ကြားနေရာသည်လည်း ကျဉ်းလိုက် ကျယ်လိုက်ဖြင့် လှုပ်ရှားနေ၏။ ထိုအခါ ကွန်ဒင်းဆား၏ ကပက်စီတီခေါ် ခေတ်ထိန်းစွမ်းရည်ကို လှုပ်ရှားပြောင်းလဲစေ၍ ယင်းက တဖန် စီးဖြတ်နေသော လျှပ်စစ်ခေတ်အားကို လှုပ်ရှားစေပြန်သည်။ အဓိပ္ပါယ်မှာ ကာဗွန်မိုက္ကရိုဖုန်းနည်းတူ အသံလှိုင်းများမှ လျှပ်စစ်လှုပ်ရှားမှုကို ဖြစ်ပေါ်စေခြင်းပင် ဖြစ်သည်။ ကွန်ဒင်းဆား မိုက္ကရိုဖုန်းသည် ကာဗွန်မိုက္ကရိုဖုန်းမျိုးထက် ပို၍ ကောင်းမွန်သည်ဟု သိရသည်။

မုဗင်းကွိုင် မိုက္ကရိုဖုန်းတွင် ဒိုင်နမိုမှာကဲ့သို့ လျှပ်စစ်သံလိုက်ခေတ်ညှိမှု သဘောကို အသုံးပြုထားသည်။ ဤမိုက္ကရိုဖုန်းတွင် ရှေ့နောက်လှုပ်ရှားနိုင်သော ဒိုင်အာဖရမ်၌ နန်းကြိုးခွေဖြစ်သော ကွိုင်ကလေးတခုကို တပ်ဆင်ထား၍ အနီးပတ်ဝန်းကျင်၌ အားကောင်းသော သံလိုက်ခေတ်ကို ဖန်တီးပေးထားသည်။ အသံလှိုင်းများကြောင့် ဒိုင်အာဖရမ်သည် ရှေ့တိုးနောက်ဆုတ် လှုပ်ရှားသောအခါ ကွိုင်ကလေးကလည်း ဒိုင်အာဖရမ်နှင့်အတူ လိုက်၍ လှုပ်ရှား၏။ သို့သော် ကွိုင်တခုသည် သံလိုက်နယ်အတွင်း၌ လှုပ်ရှားသောအခါ သံလိုက်ခေတ်က ကွိုင်တွင် လျှပ်စစ်ခေတ်ဖြစ်ပေါ်အောင် ညှိပေးသည့်အတိုင်း အသံလှိုင်းများ၏ အပြင်းအပျော့ကို လိုက်၍ ဆိုခဲ့သော ကွိုင်တွင် လျှပ်စစ်လှုပ်ရှားမှုများ ဖြစ်ပေါ်လာလေသည်။

ရစ်ဗွန် မိုက္ကရိုဖုန်းမှာ သဘောအားဖြင့် မုဗင်းကွိုင် မိုက္ကရိုဖုန်းမျိုးနှင့် အတူတူပင် ဖြစ်၏။ သို့သော် ကွိုင်အစား အလွန် ပါးလွှာသော သတ္တုကြိုးပြားကလေးကို အသုံးပြုထားသည်။ ဒိုင်အာဖရမ် လုံးဝမရှိခြင်းမှာလည်း အခြားအခြားသော မိုက္ကရိုဖုန်းမျိုးတို့နှင့် ခြားနားချက်တရပ် ဖြစ်သည်။

ခရစ္စတဲ ဟုခေါ်သော တွင်းထွက် ခေတ်သတ္တု၊ သို့မဟုတ် ခေတ်ဆားအပွင့်များအနက် အချို့တွင် ယင်းတို့ကိုဖိညှစ်ပေးသောအခါ အလွန်သေးငယ်သော ဗို့အားရှိသည့် လျှပ်စစ်ခေတ်ဖြစ်ပေါ်တတ်ခြင်း၊ သို့တည်းမဟုတ် ပြန်လှန်စီးသည့် လျှပ်စစ်ခေတ်အားကို အသုံးပြုသောအခါ တုန်ခါတတ်ခြင်းများရှိကြ၏။ ခရစ္စတဲ မိုက္ကရိုဖုန်းတွင် ဤသို့ ပြုမူတတ်သော ခရစ္စတဲမျိုးကို အသုံးပြုထား၍ ယင်းကို ဒိုင်အာဖရမ်နှင့် ထိစပ်ဆက်သွယ်ထားသည်။ အသံလှိုင်းများကြောင့် ဒိုင်အာဖရမ် တုန်လှုပ်သောအခါ ဒိုင်အာဖရမ်က ခရစ္စတဲကို ဖိညှစ်သည်။ ထိုအခါ အထက်တွင် ဖော်ပြခဲ့သည့်အတိုင်း ခရစ္စတဲမှ လျှပ်စစ်ခေတ် ဖြစ်ပေါ်လာသည်။

သို့ရာတွင် မည်သည့် မိုက္ကရိုဖုန်းမျိုးကို သုံးသည်ဖြစ်စေ မလိုလားသည့် အသံများ မဝင်ဘဲ လိုလားသည့် အသံများသာ ကောင်းစွာဝင်အောင် မိုက္ကရိုဖုန်းကို စီစဉ်တပ်ဆင်ရန် အရေးကြီးပေသည်။ နေရာ ကျယ်ကျယ်ယူထားသော တီးဝိုင်းများ ဇာတ်ခုံများမှာ တီးမှုတ် သီဆိုသံများကို အသံလွှင့်ရာ၌ မိုက္ကရိုဖုန်းတခုတည်းနှင့် မလုံလောက်ချေ။ ထိုကြောင့် အချို့ဌာနတွင် အသံတမျိုးစီကို မိုက္ကရိုဖုန်းတခုစီဖြင့် ပဌမ ဖမ်းယူပြီးနောက် ထိုအသံအားလုံးကို တဖန် ကရိယာတခုဖြင့် ပေါင်းစပ်ပြုပြင်ပြီးမှ တဆင့်အသံလွှင့်နည်းကို အသုံးပြုကြလေသည်။

**မိုက္ကရိုမီတာ။** ။မိုက္ကရိုမီတာဟူသော ဝေါဟာရသည် ဂရိစကားနှစ်ခွန်းမှ ဆင်းသက်လာ၍ အလွန်သေးငယ်သည့် ဝတ္ထုများကို တိုင်းတာသော ကရိယာဟု အဓိပ္ပါယ်ရသည်။ သိပ္ပံပညာ အထူးတိုးတက်နေသောယခုခေတ်တွင် စက်ရုံများ၌ ကုန်ပစ္စည်းများကို လက်ကားထုတ်လုပ်ရာတွင် ကုန်ပစ္စည်း အစိတ်အပိုင်းများအား တခုစီ ပြုလုပ်ပြီးမှ စုဝေး၍ တပ်ဆင်ရလေရာ၊ ထိုသို့တပ်ဆင်ရာ၌ အနေတော် အံကျဖြစ်စေရန်မှာ အရေးကြီးလှပေသည်။ မော်တော်ကား ဝယ်ယူသူတို့သည် မော်တော်ကား၏ အစိတ်အပိုင်းတခု ချွတ်ယွင်းသောအခါတွင် နောက်ထပ် အစားလိုက်ရန်အတွက် အပိုပစ္စည်းများကို မူလပစ္စည်းနှင့် အတိအကျတူညီစေရန် အထူးကြည့်ရှုကြရပေသည်။ သိပ္ပံပညာ၌ အသုံးပြုသော အချို့အလွန်သိမ်မွေ့လှသည့် ကရိယာများမှာ ၁/၁၀၀၀ လက်မမျှ မှားယွင်းရုံမျှနှင့် သုံး၍မရလောက်အောင် ဖြစ်သွားတတ်ကြသည်။ ထို့ကြောင့် လုပ်ငန်းရှင်များ၊ သိပ္ပံကဝိကြီးများ၊ အင်ဂျင်နီယာကြီးများသည် အသေးစိတ်အတိုင်းများ တိုင်းတာရန်အတွက် မိုက္ကရိုမီတာ ခေါ် အဏုတိုင်း(ကရိယာ)များကို အသုံးပြုကြလေသည်။

မိုက္ကရိုမီတာ အမျိုးမျိုးရှိရာ လူအသုံး အများဆုံး အမျိုးမှာ ဝက်အူရစ်နှင့် တိုင်းတာသည့် ကရိယာဖြစ်၏။ ထိုကရိယာ၏ ဝက်အူရစ်တရစ်၏အတိုင်းသည် အကယ်၍ ၁.၅ မီလီမီတာရှိ၍ ဝက်အူရစ်၏ ထိပ်ပိုင်ရှိ မျက်နှာပြင်ဝိုင်းပေါ်တွင် အပိုင်းငယ်ကလေးများ တထောင်စိတ်ထားလျှင် ၀.၀၀၁၅ မီလီမီတာမျှသော အတိုင်းအတာကို တိုင်းတာနိုင်ပေသည်။

အခြား မိုက္ကရိုမီတာ အမျိုးအစားများကို တယ်လီစကုပ်(အဝေးကြည့်မှန်ပြောင်း)များနှင့် မိုက္ကရိုစကုပ်(အဏုကြည့်မှန်ပြောင်း) များတွင် ယှဉ်တွဲကာ အသုံးပြုကြသည်။ ထိုမှန်ပြောင်းတို့တွင် ဖန်သားပေါ်၌ အလွန်ချွန်ထက်လှသော စိန်သွားဖြင့် တိကျစွာပြုလုပ်ထားသည့် ရှိုးရှိုးစကေးများ ပါဝင်သည်။ ထိုစကေးကိုထပ်မံ၍ မိုက္ကရိုမီတာစံနစ်ကို အသုံးပြုထားသော စက်ဖြင့် အသေးစိတ်ထားပြန်သည်။ ထိုစက်



သိပ္ပံဆိုင်ရာလုပ်ငန်းများတွင် တိကျမှန်ကန်မှုသည် အရေးကြီးဆုံးဖြစ်ရာ၊ မိုက္ကရိုမီတာခေါ် အဏုတိုင်းဖြင့် တိုင်းတာရသည်။

သည် တလက်မတွင် အစိတ်ပေါင်း ၁၂၀,၀၀၀ စိတ်ဖြာနိုင်သည်။ ထိုစကေးမျိုးရှိသည့် မိုက္ကရိုမီတာများ၌ သုံးစွဲသော ခုကိန်းကို မိုက္ကရွန် ဟုခေါ်၍ မိုက္ကရွန်မှာ ၀.၀၀၁ မီလီမီတာနှင့် ညီမျှ၏။

မိုက္ကရိုမီတာဖြင့်၎င်း၊ မိုက္ကရိုမီတာ၏ သဘောကို ယူ၍ စီမံထားသော အခြားကရိယာတို့ဖြင့်၎င်း အလွန်တိကျ မှန်ကန်သည့် အသေးစိတ်အတိုင်းအတာများကိုပြုလုပ်နိုင်ပေသည်။

**မိုက်ကယ် အန်ဂျလို ဗွိုနရိုးတိ (ခရစ် ၁၄၇၅–၁၅၆၄)** ။ ။မိုက်ကယ် အန်ဂျလိုဗွိုနရိုး ဘီကား ဣတာလျံ လူမျိုးဖြစ်၍ ပန်းချီ၊ ပန်းပု၊ ဗိသုကာ၊ ကဗျာတို့တွင် လက်ရာပြောင်မြောက်သဖြင့် ကမ္ဘာ့အနုပညာသမိုင်းတွင် ထိပ်တန်းစာရင်းဝင် အနုပညာရှင်တဦး ဖြစ်ပေသည်။ သူရေးဆွဲထုလုပ်ခဲ့သမျှသော ပန်းချီကားနှင့် ရုပ်တုရုပ်လုံးများသည် ကောင်းမွန်၍ အသက်ဝင်လှရကား သာမန်လူတယောက်မှာ ယင်းကို တကယ့်လူဟူ၍ ထင်ယောင်မှားလောက်ပေသည်။ သို့သော် သူသည် ပန်းပုပညာနှင့် ရုပ်လုံးထုအတတ်တွင် ပိုမိုကျွမ်းကျင်၏။ ဣတာလီနိုင်ငံမှ စတင်ထွန်းကားသော ဉာဏ်သစ် အရေးပုံခေတ်တွင် အထူးကျော်ကြားသူ ဖြစ်၏။ သုခုမပညာတွင် ကိုယ်ချွတ်ရုပ်လုံးများကို တကယ့်လူနှင့် တူအောင် ထုလုပ်ရသည့် အတတ်ကဲ့သို့ ခက်ခဲသိမ်မွေ့သော အတတ်ကား မရှိတော့ပြီ။ မိုက်ကယ်အန်ဂျလို၏ ကိုယ်ချွတ်ရုပ်လုံးကြီးများမှာမူကား အံ့သြဖွယ်ကောင်းအောင် တကယ့်လူနှင့် တူပေသည်။ ယခုခေတ်တိုင်အောင်ပင်သူ၏ရုပ်လုံးများထက်ကောင်းသော ရုပ်လုံးဟူ၍ မရှိသလောက်ပင် ဖြစ်တော့သည်။ ရုပ်လုံးများ ထုလုပ်ရာတွင်သရုပ်ပေါ် သည်ထက် ပေါ်စေရန် သူသည် လူသေအလောင်းများကိုပင် ဓားနှင့် ဖြတ်တောက်၍ လေ့လာခဲ့လေသည်။

ရောမမြို့တွင်ရှိသော စစ္စတင်းဘုရားကျောင်းကြီး၏ မျက်နှာကြက်ဆီသို့ မော့၍ ကြည့်သည် ရှိသော် ဆရာကြီးမိုက်ကယ်အန်ဂျလို၏ အကောင်းဆုံးသော ပန်းချီလက်ရာကို တွေ့ရပေမည်။ ထိုပန်းချီကားမှာ အင်္ဂတေ ဆေးကားဖြစ်၍စတုရန်းပေ ၁၀,၀၀၀ ခန့်ရှိသော အင်္ဂတေမျက်နှာပြင်ပေါ်တွင် ရေးဆွဲထားလေသည်။ ထိုကားထဲတွင် လူရုပ်ပေါင်း ၃၄၃ ရုပ် ပါရှိသည့်အနက် အရုပ် ၂၀၀ လောက်မှာ ၁၀ ပေမှ ၁၈ ပေအထိ အမြင့်ရှိလေသည်။ ဆရာကြီးသည် ထိုကမ္ဘာကျော် ပန်းချီကားချပ်ကြီးကို ၄ နှစ်တိတိ ရေးဆွဲခဲ့ရ၏။ ထိုသို့ ရေးဆွဲခဲ့ရာတွင် သူသည် ငြမ်းစင်တခုပေါ်တွင် ပက်လက်နေလျက် ရေးဆွဲ ခဲ့ရသည် က များလေသည်။

မိုက်ကယ်အန်ဂျလိုကို ဣတာလီပြည် တပ်စကန်နီမြို့၌ ၁၄၇၅ ခုနှစ်၊ မတ်လ ၆ ရက်နေ့တွင်ဖွားမြင်သည်။ သူ၏ဖခင်မှာ ထိုနယ်၏ ဘုရင်ခံ ဖြစ်သည်။ သူသည် ဖလော်ရင့်မြို့၌ ကြီးပြင်း

လာခဲ့၏။ ငယ်ရွယ်စဉ်ကတည်းကပင် ပုံဆွဲဝါသနာပါခဲ့ရာ သူနေသောအိမ်၏ နံရံများပေါ်တွင် မီးသွေးခဲဖြင့် အရုပ်များကို ရေးဆွဲခဲ့လေသည်။ သားငယ်၏ဝါသနာနှင့် ပညာအစွမ်းအစကို ရိပ်မိသိရှိသော ဖခင်ကြီးသည် မိုက်ကယ်အန်ဂျလိုအား ဂါလန်ဒါဂျိုအမည်ရှိသော ပန်းချီဆရာကြီးတဦးထံ၌ အပ်နှံကာ ပန်းချီဆေးရေးပညာကို လေ့လာ ဆည်းပူးစေလေသည်။ ထိုနောက် တနှစ်ခန့်ကြာသောအခါ မိုက်ကယ်အန်ဂျလိုသည် ရုပ်ထုပညာတွင် ပို၍ စိတ်ဝင်စားလာသဖြင့် ဗာတောလဒို၏ ရုပ်ထုအတတ်သင်ကျောင်းသို့ ပြောင်းရွှေ့ပြီးလျှင် ရုပ်လုံးထုခြင်းကို သင်ယူခဲ့လေသည်။ မျှားမကြာမီပင် အနုပညာဝါသနာပါသော မဲဒီချီအမည်ရှိ သူဌေးကြီးတဦး တည်ထောင်ထားသော သုခုမရိပ်သာသို့ ရောက်သွားလေသည်။ ထိုအချိန်ကစ၍ မိုက်ကယ်အန်ဂျလိုမှာ ဣတလီယဉ်ကျေးမှု ပြန်လည် ဆန်းသစ်သည့် ဉာဏ်သစ်အရေးပုံခေတ်တွင် ထင်ရှားသော အနုပညာသည်ကြီးတဦးအဖြစ် ထင်ရှား ကျော်ကြားလာခဲ့လေသည်။

အသက် ၂၄ နှစ်တွင် မိုက်ကယ်အန်ဂျလိုသည် မယ်တော်၏ ရင်ခွင်ထက်၌ သေဆုံးနေသော ခရစ်ဘုရား၏ ရုပ်လုံးကို ထုလုပ်ခဲ့သည်။ ထိုနောက်တွင် ဒေးဗစ်အမည်ရှိ ကျောက်ရုပ်ကြီးကို ထုလုပ်ခဲ့လေသည်။ ထိုကျောက်ရုပ်ကြီးမှာ အမြင့် ၁၈ ပေရှိ၍လေးလွန်းလှသဖြင့် ထိုကျောက်ရုပ်ကြီးကို အလုပ်ရုံမှ မြို့လယ်ရှိပန် ခြံသို့ ရောက်အောင် လူ ၄၀ က လှိမ့်၍ယူကြရလေသည်။

၁၅၀၅ ခုနှစ်တွင်ကား မိုက်ကယ်အန်ဂျလိုသည် ရောမမြို့သို့ ပြန်လည်ရောက်ရှိနေ၏။ သူ၏ကိစ္စမှာ ပုပ်ရဟန်းမင်း



ကမ္ဘာတွင် နာမည်အကျော်ကြားဆုံး ဣတာလျံ အနုပညာရှင်ကြီး မိုက်ကယ်အန်ဂျလို

ဒုတိယ ဂျူးလယပ်အတွက် သင်္ချိုင်းဂူကြီးကို ဆောက်လုပ်ရန်ဖြစ်၏။ သို့သော်လည်း နိုင်ငံရေး လှုပ်ရှားမှုများနှင့် အခြားသော အကြောင်းများကြောင့် အဆိုပါအဆောက်အအုံကြီးမှာ မူလက ရည်ရွယ်ခဲ့သလောက် မကြီးကျယ်တော့ချေ။

အသက် ၆၀ အရွယ်တွင် မိုက်ကယ်အန်ဂျလိုသည် စစ္စတင်း ဘုရားကျောင်း၏ အင်္ဂတေဆေးကားများကို ပုပ်ရဟန်းမင်း တတိယပေါ်လ်၏အမိန့်အရ အပြီးသတ်ရေးဆွဲခဲ့သည်။ ထိုမှတပါးလည်း ဆရာကြီးသည် အခြားသော ထင်ရှားသည့် ရုပ်တု၊ ရုပ်လုံးနှင့် ပန်းချီကားအမြောက်အမြားကိုလည်း အမွေ အနှစ်အဖြစ် ထားရှိခဲ့ပေသေးသည်။ အနိစ္စရောက်သည့်အချိန်တွင် ဆရာကြီးမှာ အသက် ၇၉ နှစ်ပင်ရှိပေပြီ။ သူသည် မကွယ်လွန်မီကလေးမှာပင် စိန်ပီတာဘုရားရှိခိုးကျောင်းကြီးကို ဆောက်လုပ်ခဲ့သေးသည်။ ဆရာကြီးသည် ထိုလုပ်ငန်းအတွက် အခကြေးငွေ တပြားတချပ်မျှပင် လက်မခံခဲ့ချေ။ ဆရာကြီး၏အလောင်းကို ဣတလီပြည် ဖလော်ရင့်မြို့ရှိ ဆန်တာကရိုးချေး ဘုရားရှိခိုးကျောင်းထဲ၌ မြှုပ်နှံလိုက်ကြသည်။

ဆရာကြီး မိုက်ကယ်အန်ဂျလို ကွယ်လွန်ခဲ့သည်မှာ အနှစ် ၄၀၀ နီးပါးခန့်ပင် ရှိပြီဖြစ်သော်လည်း ဆရာကြီး၏ နာမည်သည်ကား ကမ္ဘာတည်သမျှ တွင်ရစ်ပေတော့မည်။

**မင်။** ။ကမ္ဘာပေါ်တွင် စာရေးသားမှု ပေါ်လာချိန်မှစ၍ လူတို့သည် စာရေးသားရာ၌ လိုအပ်သောပစ္စည်းကို ကြံဆကြသည်။ တခါရေးထားလျှင် ကာလကြာမြင့်သော်လည်း ပျက်ပြယ်သွားခြင်း မရှိအောင် မည်သည့်ပစ္စည်းသုံးရမည်ကို စမ်းသပ် တီထွင်ကြသည်။ တရုပ်နိုင်ငံတွင် စက္ကူလုပ်ငန်း စတင်တီထွင်သည့်အချိန်နှင့် တခေတ်တည်းလိုပင် မင်များကို တီထွင်ဖော်စပ်ခဲ့ကြ၏။ မည်သည့်အချိန်က စတင်ပေါ်ပေါက်ခဲ့သည်ဟု အတိအကျ မပြောနိုင်သော်လည်း လွန်ခဲ့သည့် နှစ်ပေါင်း ၄,၀၀၀ ကျော်လောက်က မင်ဖြင့်ရေးသားခဲ့သော အီဂျစ်နိုင်ငံမှ လက်ရေးစာမူတခုကို ယခုတိုင် တွေ့ရှိရာ မင်သည် နှစ်ပေါင်း ၄,၀၀၀ ကျော်လောက်ကပင် စတင်ပေါ်ခဲ့သည်ဟု ယူဆရ၏။ ထိုမင်ကို မည်သို့စပ်၍ လုပ်ကိုင်ခဲ့ပုံ အတိအကျ မသိရသော်လည်း မီးသွေးမှုန့်နှင့်ကော် ရောစပ်ပြုလုပ်သည်ဟု ယူဆရသည်။ ခရစ်မပေါ်မီ နှစ်ပေါင်း ၁၂၀၀ ခန့်က တရုပ်နိုင်ငံ၌ တီထွင်ဖော်စပ်သော မင်တမျိုးကား ဆီမှိုင်းကို နွားသားရေ၊ မြည်းသားရေတို့မှရရှိသော ကော်နှင့်ရောစပ်ကာ ခပ်ပျစ်ပျစ်နယ်ပြီးလျှင် အခဲများ၊ အတောင့်များဖြစ်အောင် ပြုလုပ်ရသည်။ ထိုမင်မျိုးမှာ ယခုတိုင် ပန်းချီဆရာများသုံးသော ပုံဆွဲမင်နက်မျိုးဖြစ်သည်။ ယင်းမင်မျိုးအကောင်းစားကို ယခုဘိုင် တရုပ်နှင့် ဂျပန်နိုင်ငံတို့တွင်

ပြုလုပ်လျက်ရှိသည်။ ရှေးအခါက စာရေးသူများသည် မင်များကို မိမိတို့ ကိုယ်တိုင် တီထွင်ဖော်စပ်ရေးသားခဲ့၍ ထိုမင်စပ်နည်းများကို မိတ်ဆွေအချင်းချင်း နည်းပေးခဲ့ကြသည်။ သို့ရာတွင် ထိုမင်မျိုးကား ရေးသားရာတွင်သွက်လက်ခြင်း မရှိလှချေ။

နေထိသော်လည်း အရောင်မှိန်သွားခြင်း မရှိသော မင်တမျိုးမှာ သစ်ဖုများမှပြုလုပ်သော မင်ဖြစ်သည်။ ယင်းသစ်ဖုများမှ လုပ်သောမင်သည် အကောင်းဆုံးဖြစ်၍ ရှေးရာစုနှစ်ပေါင်းများစွာကပင် ပြုလုပ်ခဲ့ကြသည်။ အသုံးပြုသော သစ်ဖုများကား အာရှမိုင်းနားကျွန်းဆွယ်ကြီးတွင် တွေ့ရသော ဝက်သစ်ချပင်မျိုးမှရသော သစ်ဖုများဖြစ်သည်။ အရွယ်မှာ ပင်ပေါင်ဘော်လုံးငယ်ခန့်ရှိသည်။နကျယ်ကောင်ကဲ့သို့သော သစ်ဖုပိုးကောင်ကလေးသည် ပျော့သော သစ်ခက်များကို ဖောက်၍ ဥများအုနှင့်။ ထိုအပေါက်ပေါ်တွင် အပွေးတက်သကဲ့သို့ အဖုထွက်လာရာ တခါတရံ ထိုအဖုသည် အချင်းတလက်မခန့် ရှိလာသည်။ ဤအဖုများတွင် မင်လုပ်ရာ၌ အလွန်အဖိုးတန်သော အဖန်ဓာတ် အမြောက်အမြား ပါရှိသည်။

အကောင်းစား မင်နက် ဖော်စပ်နည်းမှာ သစ်ဖုမှုန့် တပေါင်၊ ရေဆူဆူတဂါလံ၊ ရေတွင် ဖျော်ထားသော ဒုတ္တာစိမ်း (သံဒုတ္တာ) ခေါ် ဖဲရတ်ဆာလဖိတ်ရည် ၅၃ အောင်စ၊ ထနောင်းစေးရည် ၃ အောင်စနှင့် ကာဗိုလစ်အက်ဆစ်ရည် အစက်အနည်းငယ်တို့ ဖြစ်သည်။ ပဌမတွင် သစ်ဖုမှုန့်များကို ရေဆူဆူတွင် နှစ်ဆယ့်လေးနာရီကြာမျှ စိမ်ထားရသည်။ ထိုမှရသည့် အရည်ကို စစ်ယူလိုက်၏။ ထိုနောက် သစ်ဖုရည်ထဲသို့ သံဒုတ္တာစိမ်း၊ ထနောင်းစေးနှင့် ကာဗိုလစ်အက်ဆစ်ရည် ရောထည့်လိုက်သည်။ ဤတွင် လိုအပ်သော မင်ကို ရရှိလေသည်။

တခါတရံ အနောက်အိန္ဒိယကျွန်းစုမှ လာသော လော့ဂ ဝုခေါ် သစ်တမျိုးကို သစ်ဖုများအစား အသုံးပြုကြသည်။ သို့သော် ထိုမှရသောမင်မှာ အနည်းငယ်ညံ့၏။ ဖန်ရည်ဓာတ်ပါသော အခြားဖန်ရည်များကို ဒုတ္တာစိမ်းနှင့် ရော၍လည်း မင်ဖော်စပ်ကြသည်။ ဤမင်များသည် ပဌမ၌ ကျေနပ်ဖွယ်ရာ ကောင်းသော်လည်း နှစ်အနည်းငယ် ကြာသောအခါ တဖြည်းဖြည်း မှိန်သွားလေသည်။ သစ်ဖုများနှင့် လုပ်သော မင်ဖြင့်ရေးသားထားသည့် အချို့ ရှေးစာချုပ် စာတမ်းများသည် ယခုခေတ် ရေးသားထားသည့် စာချုပ် စာတမ်းများကဲ့သို့ တောက်ပလျက်ရှိသည်ကို တွေ့ရသည်။

ဖောင်တိန်များတွင် ထည့်၍ အသုံးပြုသော မင်များကိုကား နိုက်ဂရိုဆိုင်း ခေါ် အင်နီလင်ဆိုးဆေးအနက်မှ ပြုလုပ်ကြသည်။ ဤမင်သည် မည်သည့်အခါမှ အနည်ထိုင်ခြင်း၊ ပျစ်ခဲခြင်း မရှိချေ။ သစ်ဖုများမှရသော မင်လောက် မစွဲသော်လည်း ဖောင်တိန်တွင် ထည့်၍ အသုံးပြုရန် အထူးသင့်လျော်ပေသည်။ မင်အရောင်အမျိုးမျိုးကို အင်နီလင်ဆိုးဆေးဖြင့် ပြုလုပ်နိုင်သည်။

မင်နီရအောင် ဖော်စပ်ပုံမှာလည်း အံ့ဩဖွယ် ကောင်းလှပေသည်။ မက္ကဆီကိုနှင့် ပီးရူးနိုင်ငံတို့၌ ပေါက်သော ရှားစောင်းပင်များတွင် တက်နေလေ့ရှိသော ရိုချီနီယမ်ခေါ် ပိုးကောင်အနီများကို ခြစ်ယူ၍ အမှုန့်ပြုပြီးလျှင် မင်နီ ပြုလုပ်ကြသည်။ အချို့ မင်နီများမှာ အမေရိကအလယ်ပိုင်းနှင့် တောင်အမေရိကတို့၌ ပေါက်သော ဗရာဇီးသစ်မှ အဆီထုတ်၍ ဖော်စပ်သည်က များသည်။ သို့သော် ပိုးကောင်များမှ လုပ်သော မင်နီလောက် မကောင်းချေ။ မှိန်လွယ်၍ အရောင်မှာလည်း ကြက်သွေးရောင် မကျဘဲရှိသည်။

စာရွက်ပေါ်၌ ရေးသော်လည်း စာသားကို မမြင်ရသော မင်တမျိုးရှိရာ ယင်းကို ရှေးက လျှို့ဝှက်သည့်ကိစ္စများ၌ အသုံးပြုသောကြောင့် လျှို့ဝှက်မင်ဟုလည်း ခေါ်သည်။ ဤနည်းဖြင့် ရေးသားထားသော အရေးကြီးသည့် စာရွက်စာတမ်းများသည် ရန်သူမျက်စိအောက်မှ လွတ်ခဲ့၍ လိုရာသို့ ချောမောစွာ ပို့နိုင်ခဲ့လေသည်။ လူသုံးများသည့် လျှို့ဝှက်မင်လုပ်နည်းတမျိုးမှာ လက်အက်ဆက်တိတ်အရည်ဖြင့် စာရွက်ပေါ်တွင် ရေးခြင်းဖြစ်သည်။ ထိုမင်နှင့် ရေးသည့်အခါ စာသားမထင်ဘဲ ဆာလဖျူရက်တက်ဟိုက်ဒြိုဂျင် (ဟိုက်ဒြိုဂျင် ဆာလဖိုက်) နှင့် တွေ့ထိသောအခါမှ မည်း၍ ပေါ်လာသည်။ ကိုဗော့နိုက်ထရိတ်ရည်နှင့် ရေးထားသော စာသည် အောက်ဇဲလစ်အက်ဆစ်ရည်နှင့် တွေ့ထိလိုက်သော အခါ အပြာရောင် ပေါ်လာသည်။ ကိုဗော့ကလိုရိုက်(ဒ)၊ သို့မဟုတ် နိုက်ထရိ ဂလိုရိုက်(ဒ)သည် အပူနှင့် တွေ့သောအခါ အစိမ်းရောင်ပေါ်လာ၏။ အိန္ဒိယတပ်တွင်း ပုန်ကန်မှုကြီးအတွင်းက အမိန့်စာများနှင့် ချောစာများကို တခါတရံ ဆန်ဆေးရည်နှင့် ရေး၍ အိုင်အိုဒင်းရည်နှင့် သုတ်၍ ဖတ်ရသည်။ လျှို့ဝှက်စာများကို စာသားမမြင်အောင် ရေးရာ၌ အသုံးပြုသော မင်တမျိုးကား ရှောက်ရည်ဖြစ်၏။ အသွားချွန်သော ကလောင်သွားဖြင့် ရှောက်ရည်ကိုတို့၍ စက္ကူပေါ်တွင် ရေးသည့်အခါ မမြင်ရသော်လည်း မီးကင်၍ ဖတ်လျှင် အညိုရောင်စာလုံးများ ပေါ်လာသည်။

မင်မျိုးထဲတွင် စိတ်ဝင်စားဖွယ် အကောင်းဆုံး မင်တမျိုးမှာ ကင်းမွန်မှရသော မင်ဖြစ်သည်။ ကင်းမွန်မျိုး ဟုခေါ်သော အရုပ်ဆိုးသည့် ပင်လယ်သတ္တဝါကောင်၏ ကိုယ်အောက်တွင် အညိုနက်ရောင် အရည်ပါသော အိတ်တခု ရှိသည်။ ဤသတ္တဝါသည် ရန်သူနှင့် တွေ့သည့်အခါ ဤအရည်နှင့် ပက်သည်။ ရှေးရောမလူမျိုးတို့သည် ဤအညိုနက်ရောင်အရည်ကို မင်လုပ်၍ ရေးကြသည်။

ပုံတူကူးမင်များသည် သာမန်မင်များဖြစ်သော်လည်း ရေ

နည်းနည်းထည့်၍ အရောင်ဆေးများများနှင့် ထနောင်းစေး၊ ဂလစ်ဆရင်း စသော ပစ္စည်းများများထည့်၍ ပြုလုပ်သော မင်ဖြစ်သည်။ အထည်အဝတ်မှတ်သော မင်တမျိုးရှိသေး၏။ ဤမင်ကို ဆီလဗာနိုက်ထရိတ်မှ သင့်အောင် စီမံ၍ ပြုလုပ်ထားသည်။ ကြာရှည်ခံသော်လည်း တဖြည်းဖြည်း မှိန်သွားတတ်သည်။

စာအုပ် မဂ္ဂဇင်း၊ သတင်းစာ စသည်တို့ကို ပုံနှိပ်ရာ၌ သုံးသော ပုံနှိပ်မင်တမျိုးလည်း ရှိသေးသည်။ ယင်းမင်သည် လေး၍ မည်းနက်၏။ အလွန်စေးကပ်၍ မွှေးသောအနံ့လည်း ရှိ၏။ ကောင်းသော ပုံနှိပ်မင်သည် ပုံနှိပ်စက် မင်လိမ့်တုံး (မင်လုံး) ပေါ်တွင် ညီညီပြန့်၍ ခဲစာလုံးများပေါ်တွင် ထင်ထင် ထိရမည်ဖြစ်သည်။ အကောင်းဆုံး ပုံနှိပ်မင် စပ်နည်းများမှာ ကာဗွန်မှိုင်း၊ သို့မဟုတ် ဓာတ်ငွေ့မှိုင်းကို ဘီသွာဆီဖြင့် ရောစပ်၍ ဖော်ကြသည်။ သစ်စေးဆီကိုလည်း အများအားဖြင့် အသုံးပြုကြသည်။ အိမ်သုံးဆပ်ပြာလည်း ထည့်၍ အသုံးပြုကြသည်။

# သုံးဆဲ့ရှစ်ဖြာ မင်္ဂလာ

**မြတ်စွာဘုရား သခင်သည် နတ်လူတို့၏ အကျိုးစီးပွားအလို့ငှါ သုံးဆဲ့ရှစ်ဖြာ မင်္ဂလာတရားတော်ကို ဟောကြားတော်မူသည်။ နတ်လူ ဟူသမျှတို့၏ ကြီးပွားကြောင်း အမြတ်ဆုံးသော မင်္ဂလာတရားများပေတည်း။**

**မင်္ဂလာ ၃၈ ပါး။** ။မြတ်စွာဘုရားသည် သာဝတ္ထိပြည် ဇေတဝန်ကျောင်းတော်၌ သီတင်းသုံးနေတော်မူစဉ် လူနတ်တို့၏ အကျိုးစီးပွားအလို့ငှါ တညသော သန် ကောင်အခါ၌ မထင်ရှားသော နတ်သားတပါး တောင်းပန်လျှောက်ထားသဖြင့် သုံးဆဲ့ရှစ်ပါး အပြားရှိသော ဤမင်္ဂလာ တရားတော်ကို ဂါထာဆယ်ပုဒ်ဖြင့် ဟောကြားတော် မူခဲ့သည်။

သုံးဆဲ့ ရှစ်ပါး အပြားရှိသော မင်္ဂလာတရား တို့ကား

**“အသေဝနာစ ဗာလာနံ” ဟူသော ပုဒ်၌ ၃ ပါး။**

(၁) သူမိုက်တို့ကို မမှီဝဲ မဆည်းကပ်ခြင်းလည်း တပါး၊
(၂) ပညာရှိသောသူတို့ကို မှီဝဲ ဆည်းကပ်ခြင်းလည်းတပါး၊
(၃) ပူဇော်ထိုက်သော သူတို့ကို ပူဇော်ခြင်းလည်း တပါး။

**“ပတိရူပ ဒေသဝါသောစ” ဟူသော ပုဒ်၌ ၃ ပါး။**

(၁) တင့်အပ် လျောက်ပတ်သော အရပ်၌ နေခြင်းလည်း တပါး၊
(၂) ရှေးဘဝက ပြုခဲ့ဘူးသောကောင်းမှု ရှိသောသူ၏ အဖြစ်လည်း တပါး၊
(၃) မိမိ ကိုယ်ကို ကောင်းစွာ ဆောက်တည်ခြင်းလည်း တပါး။

**“ဗာဟု သစ္စဉ္စ သိပ္ပဉ္စ” ဟူသောပုဒ်၌ ၄ ပါး။**

(၁) အကြားအမြင်များသော သူ၏ အဖြစ်လည်း တပါး၊
(၂) အပြစ် မရှိသောအတတ်ကို တတ်ခြင်းလည်း တပါး၊
(၃) ကောင်းစွာသင်အပ်သော အကျင့်ဝိနည်းလည်းတပါး၊
(၄) ကောင်းသော စကားကို ကောင်းစွာ ပြောဆိုခြင်းလည်း တပါး။

**“မာတာပိတု ဥပဋ္ဌာန” ဟူသော ပုဒ်၌ ၃ ပါး။**

(၁) အမိအဖကို လုပ်ကျွေးမွေးမြူခြင်းလည်း တပါး၊
(၂) သားမယားအား သင်္ဂြိုဟ်ထောက်ပံ့ခြင်းလည်း တပါး၊
(၃) အနှောင့်အရှက် မရှိသော အမှုအလုပ်တို့ကို ပြုလုပ်ခြင်းလည်း တပါး။

**“ဒါနဉ္စ ဓမ္မစရိယာစ” ဟူသော ပုဒ်၌ ၄ ပါး။**

(၁) အလှူပေးခြင်းလည်း တပါး၊
(၂) တရားတော်နှင့်အညီ မြတ်သောအကျင့်ကို ကျင့်ခြင်းလည်း တပါး၊
(၃) အဆွေအမျိုး တို့အား ချီးမြှောက် ထောက်ပံ့ခြင်းလည်း တပါး၊
(၄) အပြစ်မရှိသော အမှုတို့ကို ပြုလုပ်ခြင်းလည်း တပါး။

**“အာရတိ ဝိရတိပါပါ” ဟူသော ပုဒ်၌ ၄ ပါး။**

(၁) မကောင်းမှုတို့မှ ဝေးစွာရှောင်ကြဉ်ခြင်းလည်း တပါး၊
(၂) မကောင်းမှုတို့မှ ကိုယ်နှုတ် တို့ဖြင့် အထူး ရှောင်ကြဉ်ခြင်းလည်း တပါး၊
(၃) သေရည် သေရက် သောက်စားခြင်းမှ ကောင်းစွာစောင့်စည်းခြင်းလည်း တပါး၊
(၄) ကောင်းမှု ကုသိုလ် တရားတို့၌ မမေ့မလျော့ခြင်းလည်း တပါး။

**“ဂါရဝေါစ နိဝါတောစ”ဟူသောပုဒ်၌ ၅ ပါး။**

(၁) ရိုသေထိုက်သော သူကို ရိုသေခြင်းလည်း တပါး၊
(၂) မိမိကိုယ်ကို နှိမ့်ချခြင်းလည်း တပါး၊
(၃) ရောင့်ရဲတင်းတိမ် လွယ်ခြင်းလည်း တပါး၊
(၄) သူ့ကျေးဇူးကို သိခြင်းလည်း တပါး၊

(၅) သင့်တင့်လျောက်ပတ်သောအခါ၌ တရားတော်ကို နာခြင်းလည်း တပါး။

"ခန္တီစ သောဝစဿတာ" ဟူသော ပုဒ်၌ ၄ ပါး။

(၁) သည်းခံခြင်းလည်း တပါး၊
(၂) သူတော်ကောင်းတို့ ဆုံးမအပ်သော တရားကို လိုက်နာလွယ်ခြင်းလည်း တပါး၊
(၃) ရဟန်းကောင်းရဟန်းမြတ်တို့အား ဖူးမျှော်ခြင်းလည်း တပါး၊
(၄) သင့်တင့် လျောက်ပတ်သောအခါ၌ တရားစကားကို ဆွေးနွေး မေးမြန်းခြင်းလည်း တပါး။

"တပေါစ ဗြဟ္မစရိယဥ္စ" ဟူသော ပုဒ်၌ ၄ ပါး။

(၁) မြိုးခြံစွာကျင့်ခြင်းလည်း တပါး၊
(၂) မြတ်သော အကျင့်ကို ကျင့်ခြင်းလည်း တပါး၊
(၃) အရိယသစ္စာတရားတို့ကို သိမြင်ခြင်းလည်း တပါး၊
(၄) အရဟတ္တဖိုလ်ကို မျက်မှောက် ပြုခြင်းလည်း တပါး။

"ဖုဋ္ဌဿ လောကဓမ္မေဟိ" ဟူသော ပုဒ်၌ ၄ ပါး။

(၁) လောကဓံတရား ရှစ်ပါးနှင့် တွေ့ကြုံငြားသော်လည်း စိတ်သည် တုန်လှုပ်ခြင်း မရှိသည်လည်း တပါး၊
(၂) စိုးရိမ်ခြင်း မရှိသည်လည်း တပါး၊
(၃) ရမ္မက်ဟူသော မြူအညစ်အကြေး ကင်းခြင်းလည်း တပါး၊
(၄) ဘေးမရှိခြင်းလည်း တပါး။

ဤသို့ပြအပ်ခဲ့ပြီးသော ၃၈ ပါးမင်္ဂလာတရားတို့ကို ပြုကျင့်အားထုတ်သော သူတို့သည် မည်သည့်အရပ်၌မဆို ရန်သူတို့ မအောင်နိုင်သဖြင့် အရာခပ်သိမ်း၌ ချမ်းသာကြရကုန်၏။ ထိုမင်္ဂလာ တရား ၃၈ ပါးသည် နတ်လူဟူသမျှတို့၏ ကြီးပွားချမ်းသာကြောင်း အမြတ်ဆုံးသော မင်္ဂလာတရားများ ဖြစ်ကြပေသတည်း။

**မင်ဒလင်။** ။မင်ဒလင်သည် ကြိုးတပ် တူရိယာ တမျိုးဖြစ်သည်။ လျှခေါ် အင်္ဂလိပ် ဗျပ်စောင်းမျိုးတွင် ပါဝင်၍ မြန်မာဗျပ်စောင်းနှင့် ခပ်ဆင်ဆင် တူသည်။ မင်ဒလင်အိုးသည် ဗူးသီးခြမ်းသဖွယ် ဖြစ်၏။ လည်တံတို၍ ကန့်လန့်ဖြတ်တုံးကလေးများစွာရှိသည်။ ထိပ်ကား၍ ပြားပြီးလျှင် ယင်းတွင် ကြိုးများကို သော့ ဟုခေါ်သော ရစ်တံဝက်အူများဖြင့် ထိန်းထားသည်။ မင်ဒလင်တွင် သာမန်အားဖြင့် ကြိုး ၄ စုံ တပ်သည်။ မင်ဒလင်တီးရာတွင် လက်ဝဲလက်ဖြင့် လည်တံကို ကိုင်ကာ ဆိုင်ရာကြိုးကိုနှိပ်၍ လက်ျာလက်ဖြင့် လက်ချောင်း၊



စောင်းသံကို တုနိုင်သော မင်ဒလင်

သို့မဟုတ် လက်ခတ်သံပြား ကော်ပြားတခုဖြင့် ကြိုးကိုခတ်ရသည်။ ကြိုးမှာ သံမဏိကြိုးများဖြစ်၏။ ကြိုးကို ခပ်မြန်မြန်ခတ်လျှင် အသံတုန်များကို ရရှိသည်။

မင်ဒလင်သည် ဣတာလျံ လူမျိုးတို့ စတင်တီးခတ်သော တူရိယာဖြစ်၏။ မင်ဒလင်နှစ်မျိုး နှစ်စားရှိပေရာ နှစ်မျိုးလုံးပင် ဣတာလျံတို့မှ စတင်ပေါက်ဖွားလာသည်။ တမျိုးမှာ နီယပေါ် လီတန် ဟုခေါ်၍ လူသိပိုများသည်။ အလျား နှစ်ပေရှိ၍ ညီညာသောကြိုး ၄ စုံတပ်သည်။ ကျန်တမျိုးမှာ မိလနီဟုခေါ်၍ အနည်းငယ်ပို၍ ကြီးပြီးလျှင် ညီညာသော ကြိုး ၅ စုံ သို့မဟုတ် ၆ စုံ တပ်သည်။

မင်ဒလင်သည် သံစုံတီးဝိုင်းများတွင် အသုံးပြုသော တူရိယာကြီးမျိုး မဟုတ်ပေ။ သို့ရာတွင် မိုဇတ်နှင့် ဗေးထိုးဗင်အစရှိသော ဂီတစာဆိုကြီးများသည် မိမိတို့ စပ်သော အခြားသီချင်းများနှင့် လိုက်ဖက်၍ တီးစေကာ ယင်းအတွက် တီးလုံးများ ရေးပေးလေသည်။ မင်ဒလင်သည် ပေါ့ပေါ့ပါးပါး ယူဆောင်သွားနိုင်သောကြောင့် အပျော်တမ်း တီးခတ်သူများတွင် ခေတ်စားသည်။

**မင်ဒီလေးယက်, ဒီ၊ အိုင်** (ခရစ် ၁၇၃၄ – ၁၉၀၇)။ ။ဒိမိထရီ အိုင်ဗင်နိုဗစ် မင်ဒီလေးယက်သည် ရုရှလူမျိုး ဓာတုဗေဒပါရဂူတဦးဖြစ်၍ ခရစ် ၁၇၃၄ ခုနှစ် ဖေဖွာရီလ ၇ ရက်နေ့တွင် ဆိုက်ဗီးရီးယားနယ်၊တိုဗော့မြို့၌ ဖွားမြင်သည်။သားချင်း ၁၇ ယောက်ရှိသည့်အနက် အငယ်ဆုံး သားဖြစ်သည်။ ငယ်စဉ်က မိမိ၏ ဇာတိချက်မြှုပ်မြို့ရှိ ကျောင်းတကျောင်း၌ ပညာရင်နို့ သောက်စို့ပြီးသည်နောက် မင်ဒီလေးယက်သည်



ရုရှလူမျိုး ဓာတုဗေဒ ပညာကျော် မင်ဒီလေးယက်

သိပ္ပံပညာရပ်များ ဆည်းပူးရန် ယခုလီနင်ဂရက်ခေါ် စိန့်ပီတာစဗတ်မြို့သို့ ထွက်ခွာလာလေသည်။ ၁၈၅၆ ခုနှစ်တွင် ဝိဇ္ဇာဘွဲ့ကို ထိုစိန့်ပီတာစဗတ်တက္ကသိုလ်မှ ရရှိခဲ့သည်။နောက်များမကြာမီ ထိုတက္ကသိုလ်၌ပင် လစာမဲ့ ကထိကရာထူးကို ရရှိခဲ့သည်။ ၁၈၆၃ ခုနှစ်တွင် စိန့်ပီတာစဗတ် စက်မှုလက်မှုကျောင်းတကျောင်း၌ ဓာတုဗေဒပါမောက္ခရာထူးကို လက်ခံရရှိ၏။ ၃ နှစ်လုပ်ကိုင်ပြီးသည်နောက် မိမိပညာဆည်းပူးခဲ့သော တက္ကသိုလ်၌ ပါမောက္ခဖြစ်လာသည်။ မင်ဒီလေးယက်သည် ၁၈၉၀ ပြည့်နှစ်တွင် ထိုပါမောက္ခရာထူးမှ နုတ်ထွက်ပြီးနောက် ၁၈၉၃ ခုနှစ်တွင် အလေးချိန်နှင့် အတိုင်းအတာ ဌာန ညွှန်ကြားရေးဝန် ဖြစ်လာသည်။ ယင်းအလုပ်ကို ဆောင်ရွက်နေစဉ်မှာပင် မင်ဒီလေးယက်သည် ၁၉၀၇ ခုနှစ်၌ ကွယ်လွန်လေသည်။

အသက်ရှင်စဉ်အခါက မင်ဒီလေးယက်သည် အခြားသော ဓာတုဗေဒ ဆရာများ မတီထွင်ရသေးသော "အလှည့်မှန်ဇယား" ကို သိပ္ပံနည်းကျနစွာ စတင်တီထွင်နိုင်ခဲ့သောကြောင့် သိပ္ပံပညာလောကတွင် သူ့အား မသိသူ မရှိသလောက် ထင်ပေါ်ကျော်စောလာ၏။ ယင်း အလှည့်မှန်ဇယားတွင် သူသည် ဒြပ်စင်များကို အက်တမ်အလေးဆအလိုက် တိကျစွာ နေရာချ၍ ပြသထားလေသည်။ ဖော်ပြပါ အလှည့်မှန်ဇယားကို အသုံးပြုခြင်းအားဖြင့် မင်ဒီလေးယက်သည် အခြားသော ဓာတုဗေဒဆရာများ မသိရှိသေးသည့် ဒြပ်စင်အသစ် ၃ ခု ပေါ်လာလိမ့်ဦးမည်ဟု တပ်အပ်သေချာ ကြိုတင် ဟောကိန်း ထုတ်ခဲ့လေသည်။ တဆဲ့ငါးနှစ်အတွင်း သူကြိုတင်ဟောကိန်း ထုတ်ခဲ့သည့်အတိုင်း ဂဲလီယမ်ဒြပ်စင်ကို ၁၈၇၁ ခုနှစ်တွင်၎င်း၊ စကန်ဒီယမ် ဒြပ်စင်ကို ၁၈၇၉ ခုနှစ်တွင်၎င်း၊ ဂျာမေနီယမ်ဒြပ်စင်ကို ၁၈၈၆ ခုနှစ်တွင်၎င်း တွေ့ရှိခဲ့လေသည်။

မင်ဒီလေးယက်သည် ရေနံစိမ်း၏ အရင်းမူလနှင့် သဘာဝ အခြေအနေ အကြောင်းကိုလည်း ကျယ်ပြန့်စွာ လေ့လာခဲ့သည်။ သူထုတ်ဝေခဲ့သော စာအုပ်များအနက် အထင်ရှားဆုံးစာအုပ်မှာ "ဓာတုဗေဒစည်းမျဉ်း" ပင် ဖြစ်သည်။ အသက်ရှင်နေစဉ်က ပညာဖက်တွင် ထူးချွန်လှသဖြင့် ဆုတံဆိပ် ၂ ခုကို ဆွတ်ခူးရရှိခဲ့လေသည်။ မင်ဒီလေးယက်သည် စာအသင်အပြကောင်းသော ဆရာတယောက်လည်းဖြစ်ပေသည်။

**မင်ဒယ်၊ ဂရီဂေါ်** (ခရစ် ၁၈၂၂–၁၈၈၄)။ ။ဂရီဂေါ်ယိုဟန်းမင်ဒယ်သည် ဩစတြီးယား ပြည်သား ဆင်းရဲသားလယ်သမားတဦး၏သားဖြစ်၏။ ခရစ် ၁၈၂၂ ခုနှစ် ဇူလိုင်လ ၂၂ ရက်နေ့တွင် မွေးဖွား၍ ၁၈၈၄ ခုနှစ် ဇန္နဝါရီလ ၆ ရက်နေ့တွင် ကွယ်လွန်သည်။ လူလားမြောက်သည့်အချိန်တွင် ဗရွန်းမြို့၌ ရဟန်းဘောင်သို့ ဝင်၍၊ နောင်သော် ဂိုဏ်းအုပ်ဆရာတော်ကြီးဖြစ်လာပြီးလျှင် ရဟန်းဘဝနှင့်ပင် အရိုးထုတ်သွားလေသည်။ ဤသို့လျှင် မင်ဒယ်၏ အတ္ထုပ္ပတ္တိမှာ ထူးခြားလှသည်ဟု မဆိုသာချေ။ သို့သော်လည်း မင်ဒယ်ကွယ်လွန်၍ နှစ်ပေါင်း များစွာကြာပြီးနောက် ကမ္ဘာတွင် ကျော်ကြားလာသည့် ကိစ္စကြီးတခုကို သူသည် အသက်ရှင်နေစဉ် ကာလအတွင်း၌ အနှစ်နှစ် အလလ လေ့လာရာမှ တွေ့ရှိ ထုတ်ဖော်ခဲ့လေသည်။

မင်ဒယ်သည် ရဟန်းဘောင်၌ နေစဉ် ဗိုင်ဩလိုဂျီ (ဇီဝဗေဒ) ပညာကို သင်ကြားပို့ချ၍ သားစဉ်မြေးဆက် လိုက်တတ်သည့် မျိုးရိုးဇာတိအကြောင်းကို တဖက်တလမ်းမှအမြဲ လေ့လာကြံဆခဲ့သည်။ မျိုးမတူသော မိဖနှစ်ဦးကို ပေါင်းစပ်ပေးလျှင် မည်သို့သော သားသမီးမျိုး ပေါက်ဖွားလာမည်နည်း၊ မျိုးမတူသောအပင်နှစ်ပင်ကို မျိုးစပ်ပေးလျှင် ပေါက်လာမည့်အပင်သည် မည်သည့်အပင်နှင့် တူမည်နည်း။ မျိုးမတူသော တိရစ္ဆာန် အဖိုအမတို့ကို မျိုးစပ်ပေးလျှင် မည်သို့သော တိရစ္ဆာန်မျိုး ပေါက်ဖွားလာမည်နည်း။

မျိုးရိုးဇာတိ အကြောင်းကို သိနားလည်မည် ဆိုလျှင် ဂျုံ၊ စပါး၊ ပဲ၊ ပြောင်းမှစ၍ လူတို့စားသုံးသည့် အပင်များကို ကောင်းသည်ထက် ကောင်းအောင် ပြုပြင်ပေးနိုင်စရာ အကြောင်း ရှိသည်။ တိရစ္ဆာန်များကိုလည်း လိုသလို ပြုပြင်ပေးနိုင်ရမည်ဟု ယူဆနိုင်ပေလိမ့်မည်။ လူ၏ အမျိုးကိုပင်လည်း လိုသလို ပြုပြင်နိုင်ရမည် ဟု ယူဆနိုင်ပေသည်။ မျိုးရိုးဇာတိ အကြောင်းကို မင်ဒယ် ထုတ်ဖော် မရေးသားမီက

မည်သူတဦးတယောက်မျှ ထိုအကြောင်းကို မတွေးတောမစဉ်းစားမိခဲ့ချေ။

ပုံပမာ၊ ပူးဖြူနှင့် ပူးမည်းကို မျိုးစပ်ပေးသည် ဆိုပါစို့။ ထိုအခါ ပေါက်ဖွားလာမည့် ပူးငယ်များတွင် မည်သည့်အရောင်မျိုး ရှိမည်ထင်သနည်း၊ မွဲပြာရောင် ရှိရမည်ဟု ထင်ကောင်း ထင်ကြပေမည်။ သို့သော် ပေါက်ဖွားလာသောအခါ ပူးငယ်အားလုံးမှာ အမည်းချည်း ဖြစ်နေသည်ကို အံ့သြစွာ တွေ့ရလိမ့်မည်။ ပူးမည်းများသာ ပေါက်ဖွားလာခြင်းကြောင့် ထိုပူးမည်းများမှ နောက်တဆက် ပေါက်ဖွားလာမည့် ပူးအားလုံးသည်လည်း မည်းရမည်ဟု ထင်မှတ်ကြပြန်ပေမည်။

ထိုသို့ ထင်မှတ်လျှင် တက်တက်စင် လွဲပြန်၏။ ပူးမည်းများမှ ပေါက်ဖွားလာသော ပူးငယ်များတွင် အချို့မှာ မည်း၍ အချို့မှာ ဖြူလျက်ရှိသည်ကို တွေ့ရသည်။ အချိုးကျပြောရလျှင် ၄ ပုံ ၁ ပုံသောပူးတို့သည် ဖြူ၍ ၄ ပုံ ၃ ပုံသောပူးတို့သည် မည်းလေသည်။ ထိုအဆက်မှ ပူးဖြူအချင်းချင်းကို မျိုးစပ်ပေးသောအခါ ပူးဖြူများကိုသာ မွေး၏။ ပူးမည်းအချင်းချင်းကို မျိုးစပ်ပေးလျှင်ကား ယင်းတို့အနက် ၃ ပုံ ၁ ပုံမှ ပူးမည်းချည်းသာ မွေးပြီးနောက် ကျန် ၃ ပုံ ၂ ပုံ(သို့မဟုတ် ပူးမည်းနှစ်ရပ်ပေါင်း မျိုးဆက်တခုလုံး၏ တဝက်) မှ ပေါက်ဖွားလာသည့် ပူးငယ်များတွင် ၄ ပုံ ၁ ပုံမှာဖြူ၍၊ ၄ ပုံ ၃ ပုံက မည်းနေသည်ကို တွေ့ရလိမ့်မည်။ နောင်ပေါက်ဖွား



မျိုးရိုးဇာတိအကြောင်းကို လေ့လာဖော်ထုတ်ခဲ့သူ ဂရီဂေါ်မင်ဒယ်

မည့် သားစဉ်မြေးဆက်များလည်း ဤအချိုးများအတိုင်းပင် ဖြစ်ကြပေမည်။ အကြောင်းကို စူးစမ်းရှာဖွေပြီးနောက် မျိုးရိုးဇာတိ ဆိုင်ရာ နိယာမများကို သတ်မှတ် ပြဋ္ဌာန်းထားခဲ့ရာတွင် အထက်ပါ သားစဉ်မြေးဆက် ကွဲလွဲပုံ အချိုးအစားများကိုပါ ရှင်းလင်း ဖော်ပြခဲ့လေသည်။ မင်ဒယ်ကို ဂုဏ်ပြုသောအားဖြင့် အဆိုပါ နိယာမများကို မင်ဒယ်နိယာမများဟု ခေါ်တွင်ကြသည်။

မင်ဒယ်သည် မျိုးရိုးဇာတိ အကြောင်းကို လေ့လာရာ၌ ပူးများဖြင့်သာ မဟုတ်ဘဲ ပဲအမျိုးမျိုးဖြင့်လည်း စမ်းသပ်ကြည့်ခဲ့သည်။ သူသည် ကျောင်းနှင့် ဆက်လျက် ရှိသော ဥယျာဉ်အတွင်း၌ ပဲပင်များကိုစိုက်၍ နှစ်ပေါင်းများစွာလေ့လာခဲ့သည်။ ပဲသီးအရှည်နှင့် အပုမျိုးကို ဖြစ်စေ၊ ပဲဝါနှင့် ပဲစိမ်းမျိုးကိုဖြစ်စေ မျိုးကူးစိုက်ပျိုးပေး၍ စောင့်ကြည့် လေ့လာခဲ့ရာ ထိုပဲပင်များမှ အထက်ဖော်ပြပါ ပူးတို့၏ မျိုးစဉ်မျိုးဆက် အချိုးအစားများအတိုင်းပင် ပေါက်ပွားလာကြသည်ကို သူတွေ့ခဲ့ရလေသည်။

ခရစ် ၁၈၆၆ ခုနှစ်တွင် မင်ဒယ်သည် သူ၏ တွေ့ရှိချက်များကို ဗရွန်းမြို့ရှိ သိပ္ပံအဖွဲ့သို့ ရေးသားပေးပို့၍ အဖွဲ့၏ မှတ်တမ်းများမှတဆင့် ကမ္ဘာသို့ ပျံ့နှံ့ခဲ့၏။ သို့ရာတွင် ထိုတွေ့ရှိချက်များ၏ အရေးကြီးအသုံးဝင်ပုံကို ထိုစဉ်က လူများ မသိကြသေးသည့်အတွက် ၁၉၀၀ ပြည့်နှစ်တိုင်အောင် သူ၏ တွေ့ရှိချက်များသည် တိမ်မြုပ်နေခဲ့ရပေသည်။ ထို ၁၉၀၀ ပြည့်နှစ်သို့ရောက်မှ မင်ဒယ်၏တွေ့ရှိချက်များသည် သိပ္ပံ ပညာအတွက် အရေးကြီးစိတ်ဝင်စားဖွယ်ဖြစ်ရုံသာမက တိရစ္ဆာန်မွေးမြူသူများနှင့် လယ်ယာ စိုက်ပျိုးစားသောက် သူများအတွက်လည်း လက်တွေ့အကျိုးများစေမည့် တွေ့ရှိချက်များဖြစ်ကြောင်းကို ကမ္ဘာက သိလာကြသည်။ ချက်ခြင်းပင် ဆိုင်ရာ အဖွဲ့အစည်းများနှင့် အစိုးရများသည် မင်ဒယ်၏တွေ့ရှိချက်များကို အခြေပြု၍ လက်တွေ့စမ်းသပ်မှု အမြောက်အမြားကို တိုးချဲ့ပြုလုပ်ခဲ့ကြလေသည်။

မင်ဒယ်၏အဆိုအရ အပင်တွင်ဖြစ်စေ၊ တိရစ္ဆာန်တွင် ဖြစ်စေ မျိုးရိုးဇာတိမတူသော မိဖနှစ်ဦးမှ ပေါက်ပွားလာသော မျိုးဆက်များ၌ ယေဘုယျအားဖြင့် တမျိုးသည် လက္ခဏာကဲ ဖြစ်လာ၍ ကျန်တမျိုးသည် လက္ခဏာငုပ် ဖြစ်သွားတတ်လေသည်။ လက္ခဏာကဲ ဆိုသည်မှာ မျိုးစဉ်မျိုးဆက် တလျှောက်လုံးတွင် ကြီးစိုးလွှမ်းမိုးသည့် လက္ခဏာကို ခေါ်၍၊ လက္ခဏာငုပ်မှာ အားနည်းသည့် လက္ခဏာပင် ဖြစ်သည်။ ပုံပမာ ပြခဲ့သော ပူးများတွင် အမည်းမျိုးသည် လက္ခဏာကဲဖြစ်၍၊ အဖြူမျိုးသည် လက္ခဏာငုပ်ဖြစ်သည်။ ပဲများတွင်လည်း အရှည်မျိုးနှင့် အဝါမျိုးတို့မှာ လက္ခဏာကဲ ဖြစ်ကြ၍၊ အပုမျိုးနှင့် အစိမ်းမျိုးတို့သည် လက္ခဏာငုပ် ဖြစ်ကြလေသည်။

မင်ဒယ်၏ မျိုးရိုးဗီဇသီအိုရီနိယမများသည် အပင်တိုင်း၊သတ္တဝါတိုင်း အတွက် အတိအကျ မှန်ကန်ခြင်း မရှိပေ။ သို့သော် အပင်နှင့် သတ္တဝါအားလုံးအတွက် အခြေခံထားနိုင်လောက်အောင် လုံလောက်မှန်ကန်သည်ကို တွေ့ရပေသည်။ အထူးသဖြင့် လူတို့၏ မျိုးရိုးဗီဇနှင့် စပ်လျဉ်း၍ ကျွန်ုပ်တို့ မသိသေးသည့် အချက်အလက်ပေါင်း များစွာပင် ကျန်ရှိသေးရာ၊ ထိုအချက်အလက်များကို သိပ္ပံဆရာ အသီးအသီးက ဆက်လက်၍ လေ့လာစုံစမ်းဆဲဖြစ်လေသည်။

**မင်ဒယ်ဆုန်း, ဂျေ၊ အယ်၊ အက် (ဖ)** (ခရစ် ၁၈၀၉–၁၈၄၇)။ ။ဖေးလစ် မင်ဒယ်ဆုန်းသည် ဂျာမန်လူမျိုး ဂီတစာဆို စန္ဒရားဝိဇ္ဇာ၊ ဂီတမှူး ဖြစ်၏။ မင်ဒယ်ဆုန်း၏ နာမည်အပြည့်အစုံမှာ ယာကွပ် လုဒဗစ် ဖေးလစ် မင်ဒယ်ဆုန်း ဗာသိုလဒီဖြစ်၏။ ငယ်ရွယ်စဉ်က ခရစ်ယန်အယူဝါဒီအဖြစ် သွတ်သွင်းခံယူသည့် အချိန်မှစ၍ မင်ဒယ်ဆုန်းဟူသော ဆွေမျိုးစုအမည်တွင် ဗာသိုလဒီဟူသော အမည်ကို ထည့်ပေါင်းခြင်းဖြင့် ဆွေမျိုးစု အမည်မှာ မင်ဒယ်ဆုန်း ဗာသိုလဒီ ဟု ပြောင်းသွားပေသည်။

မင်ဒယ်ဆုန်းသည် ၁၈၀၉ ခုနှစ်တွင် ဟမ်းဗတ်မြို့တွင် ဖွားမြင်သည်။ သူ၏ ဖခင်မှာ အေဗရာဟမ် မင်ဒယ်ဆုန်း ဖြစ်၍ ယဟူဒီသူဌေးပါကာ ဘဏ်လုပ်ငန်းရှင် ဖြစ်သည်။ မင်ဒယ်ဆုန်းသည် သူ၏ ဘဝတလျှောက်တွင် ဆင်းရဲဒုက္ခကို အခြား ဂီတပညာရှင်များကဲ့သို့ ရင်မဆိုင်ရဘဲ သက်တောင့် သက်သာပင် မိမိပါရမီသန်ရာ ဖြစ်သော ဂီတကို ငြိမ်းစွာ ပြုစုပျိုးထောင်၍ ထင်ရှားကျော်စောမှုကို ရရှိ၏။

မင်ဒယ်ဆုန်းသည် အသက် ၄ နှစ်အရွယ်မှစ၍ အကောင်းဆုံးဆရာများဖြင့် အိမ်တွင်ပင် ပညာသင်ရလျက်၊ ဂီတပညာကို ဂရုတစိုက် သင်ယူရသဖြင့် ၅ နှစ်အရွယ်တွင် စန္ဒရားကောင်းစွာ တီးတတ်ခဲ့၏။ အသက် ၁၁ နှစ်အရွယ်မှ စ၍ ဂီတသီချင်းများကို အဆက်မပြတ် ရေးသားနိုင်ခဲ့သည်။ ၁၃ နှစ်သားတွင် ပြဇာတ်ကြီးတခုကို ရေးသားနိုင်ခဲ့၏။ ထိုမှတပါး အခြား ဇာတ်သီချင်းများကိုလည်း ရေးခဲ့သည်။

အသက် ၁၆ နှစ်အရွယ်တွင် သူ၏ဖခင်က သူ့အား ဂီတပညာသည်များ စုဝေးရာ ပါရစ်မြို့သို့ ခေါ်သွားရာ၊ ထိုခေတ်က နာမည်ကျော် တူရိယာပညာသည်များနှင့်တွေ့ဆုံခွင့် ရခဲ့လေသည်။ ဘာလင်မြို့သို့ ပြန်ရောက်သောအခါ သူ၏ မိဘများသည် ကျယ်ဝန်းသော ဥယျာဉ် ခြံမြေနှင့် အိမ်တဆောင်သို့ ပြောင်းရွှေ့နေထိုင်ခဲ့သဖြင့် သူ၏ ဂီတကို လူများစွာတို့ လာရောက် နားထောင်နိုင်ကြလေသည်။ ၁၈၂၇ ခုတွင် ရှိတ်စပီးယား၏ နွေလယ်ည အိပ်မက်ပြဇာတ်အတွက် တီးကွက်များ ရေးခဲ့ရာ အလွန်ပင် လူကြိုက်များလှသဖြင့် တမုဟုတ်ခြင်း နာမည်ကျော် လာလေသည်။ ထိုအခါ မင်ဒယ်ဆုန်းမှာ ၁၈ နှစ်မျှသာရှိသေးသည်။ ထိုအချိန်တွင်ပင် လွန်ခဲ့သော ၇၅ နှစ်ခန့်က နာမည်ကျော် ဂီတဆရာကြီး ဗာခ်၏ သီချင်းများကို တီးမှုတ်ကပြစေခဲ့ရာ ထိုဆရာကြီး၏ ခေတ်တိမ်နေသော သီချင်းများသည် ထိုခေတ်ကစ၍ တဖန် ပြန်လည်ဆန်းသစ်ကာ လူကြိုက် များလာခဲ့လေသည်။



ကမ္ဘာကျော် ဂျာမန်ဂီတစာဆို မင်ဒယ်ဆုန်းအား ဂုဏ်ပြုသောအားဖြင့် လိုက်ပဆစ်မြို့၌ ကျောက်ရုပ် စိုက်ထူထားသည်။

ထိုနောက် ဥရောပတခွင်သို့ လှည့်လည်၍ တီးမှုတ် ခဲ့ရာ မင်ဒယ်ဆုန်း၏နာမည်မှာ ထင်ရှားကျော်ကြားလာလေသည်။ မင်ဒယ်ဆုန်းသည် ၁၈၂၉ ခုနှစ်တွင် အင်္ဂလန်ပြည်သို့ ပဌမ အကြိမ် ရောက်ရှိသောအခါ ကောင်းမွန်စွာ ကြိုဆိုခြင်းခံရ၏။ စကော့တလန်ပြည်သို့လည်း သွားရောက်သည်ဘွင် “ဖင်ဂယ်၏ဂူ” အမည်ရှိသော ထင်ရှားသည့် သီချင်းကို ရေးခဲ့ပေသည်။ မင်ဒယ်ဆုန်းသည် အင်္ဂလန်ပြည်သို့ ၁၀ ကြိမ်ရောက်ဘူးပေသည်။ အသက် ၂၄ နှစ်အရွယ်ဘွင် ဒူဆယ်ဒေါ့မြို့၌ တူရိယာဂီတ ညွှန်ကြားသူအဖြစ် ခန့်ထားခြင်းခံရ၏။ ၂ နှစ်ကြာသော် လိုက်ပဆစ်မြို့ရှိဇာတ်အဖွဲ့တွင် ညွှန်ကြားသူအဖြစ် ခန့်ထားခြင်း ခံရပြန်သည်။ ဤရာထူးမှာ ဂျာမနီပြည်တွင် ဂီတပညာရှင်များအဖို့ အမြင့်ဆုံး ရာထူးဖြစ်၏။

၁၈၃၇ ခုနှစ်တွင် ပရိုတက်စတန့်ဂိုဏ်းဝင် ပြင်သစ်အမျိုးသမီးတဦးနှင့် လက်ထပ်လေရာ သူ၏ အိမ်ထောင်ရေးသည် ချမ်းမြေ့သာယာ၏။ ထိုနောက်ဘွင် ပရပ်ရှား ဘုရင်၏နန်းတွင်း ဂီတမှူးအဖြစ် ခန့်ထားခြင်း ခံရ၏။ သို့သော် လိုက်

ပဆစ်မြို့ ပြဇာတ် အဖွဲ့တွင် ညွှန်ကြားသူအဖြစ်လည်း ဆောင်ရွက်ခဲ့ ဆောင်ရွက်၏။ လိုက်ပဆစ်တွင် ဂီတဗိမာန် တည်ထောင်သူများတွင် တဦးအပါအဝင်ဖြစ်၏။

မင်ဒယ်ဇုန်သည် ၁၈၄၇ ခုနှစ် အသက် ၃၈ နှစ်အရွယ်တွင် ကွယ်လွန်သည်။ သူ၏ အစ်မအနိစ္စရောက်သည်ဟု သိရသည့်တွင် ဒုက္ခအခက်အခဲ သောကပရိဒေဝကို မတွေ့မကြုံဘူးသူ မင်ဒယ်ဇုန်သည် စိတ်ထိခိုက်သွား၏။ စိတ်ပန်းလူပန်းလည်း ဖြစ်နေရကား နာလန်မထူတော့ဘဲ အရွယ်ကောင်းတွင် လောကကို ကျောခိုင်းသွားရပေသည်။ မင်ဒယ်ဇုန်သည် သူ၏ခေတ်တွင် အထူးတလည် ထင်ပေါ်ကျော်ကြား၍ လူချစ် လူခင်များရကား သူကွယ်လွန်သောအခါ လိုက်ပဆစ်မြို့သူ မြို့သားများ ယူကျုံးမရဖြစ်ရလျက် လိုက်ပဆစ်မြို့တွင် ဘုရင်တပါး နတ်ရွာစံသကဲ့သို့ပင် ချောက်ချားသွားသောဟူ၏။ မြို့ကြီးများတွင်လည်း သူ့အား ရည်စူး၍ တရားစာများ ရွတ်ဖတ် သရဇ္ဈာယ်ကြ၏။ လိုက်ပဆစ်မြို့တွင် သူ့ကို ဂုဏ်ပြု၍ အထိမ်းအမှတ်ကျောက်ရုပ်တခု ထုလုပ်ထားသည်။

မင်ဒယ်ဇုန်၏ ထင်ရှားသော လက်ရာများမှာ 'စိန်ပေါ်'နှင့် 'အီလိုင်ဂျာ' တီးလုံးများ၊ 'ဂုဏ်ပြု ခြီးကျူးသောဓမ္မသီချင်း'၊ 'နွေလယ်ညအိပ်မက်ဇာတ်ကွက် တီးလုံး'၊ ထို့ပြင် 'အက္ခရာမဲ့ တေးများ'၊ 'နွေဦးရာသီ' သီချင်းစသည်တို့ ဖြစ်လေသည်။

**မင်နီဆိုတာပြည်နယ်။** ။မင်နီဆိုတာပြည်နယ်သည် အမေရိကန်ပြည်ထောင်စုတွင် ဖွဲ့စည်းပါဝင်သော ပြည်နယ်တခု ဖြစ်၍၊ အမေရိကန်ပြည်ထောင်စု၏ မြောက်ဖက်နယ်စပ် အလယ်ဗဟိုနှင့် မြောက်အမေရိကတိုက်၏ အလယ်ဗဟိုတွင် တည်ရှိသည်။ နယ်နိမိတ်အားဖြင့် မြောက်ဖက်တွင် ကနေဒါနိုင်ငံပိုင်ဖြစ်သော မနီတိုးဗားပြည်နယ်၊ အွန်တေးရီးယိုးပြည်နယ်တို့သည်၎င်း၊ အရှေ့ဖက်တွင် ဝစ္စကွန်ဆင်းပြည်နယ်နှင့် ဆူပီးရီးယားအိုင်တို့သည်၎င်း၊ တောင်ဖက်တွင် အိုင်အိုဝါ ပြည်နယ်သည်၎င်း၊ အနောက်ဖက်တွင် တောင်ဒကိုးတားနှင့် မြောက်ဒကိုးတားပြည်နယ်တို့သည်၎င်းဝန်းရံလျက်ရှိ၏။ မင်နီဆိုတာပြည်နယ်၏ အကျယ်အဝန်းမှာ ၈၄,၀၆၈ စတုရန်းမိုင် ဖြစ်၏။ မင်နီဆိုတာပြည်နယ်တွင် အိုင်ပေါင်း ၁၀,၀၀၀ ကျော်ရှိ၏။ မင်နီဆိုတာပြည်နယ်၏ မြို့တော်မှာ စိန်ပေါ်မြို့ ဖြစ်၍၊ အခြား မြို့ကြီးများကား ဒုလွတ်၊ မင်နီယာပိုလစ်၊ ရောချက်စတာ၊ စိန်ကလောက်တို့ ဖြစ်၏။

မင်နီဆိုတာပြည်နယ်သည် မြေမျက်နှာ သွင်ပြင်အားဖြင့် အရှေ့တောင်ဖက်နှင့် အနောက်တောင်ဖက်တို့တွင် တောင်တန်းများရှိသည်။ စိမ့်မြေနှင့် ညွန်အိုင်များလည်း ရှိသည်။ သဘာဝ အပိုင်းအခြားအားဖြင့် အရှေ့မြောက် ကုန်းမြင့်၊ အက်ဂဆီးအိုင် မြေပြန့်ဒေသနှင့် အလယ်ပိုင်းမြေပြန့်ဒေသဟူ၍ ပိုင်းခြားနိုင်သည်။ အရှေ့မြောက်ကုန်းမြင့်ဒေသသည် မြေမညီမညာတ်ဆုံးအရပ် ဖြစ်သည်။ ပြည်နယ်ရှိ အမြင့်ဆုံးအပိုင်းနှင့် အနိမ့်ဆုံးအပိုင်းတို့သည် ဤဒေသတွင် တည်ရှိသည်။ ဤဒေသတွင် မြေဆီလွှာသည်ပါး၍ ကျောက်ဆောင်များဖြင့် ပြီးသောကြောင့် လယ်ယာစိုက်ပျိုးရေး မဖြစ်ထွန်းပေ။ သို့သော် သံများစွာ ထွက်သည်။ သစ်ထုတ်သစ်ခွဲခြင်း၊ သတ္တုတူးဖော်ခြင်းလုပ်ငန်းများကိုပြုလုပ်ရာ မြို့ကလေးများကိုလည်း တွေ့နိုင်ပေသည်။ အက်ဂဆီးအိုင် မြေပြန့်ဒေသသည်ကား ပြည်နယ်၏ အနောက်မြောက်ဖက်ပိုင်းမှသည် တောင်ဖက်ပိုင်းတခွင်တွင် ရက်ဒ်ရီးဗားမြစ်ဝှမ်းတလျှောက် အနောက်ဖက် နယ်စပ်အထိကျယ်ပြန့်သောဒေသဖြစ်၏။ ရှေးအခါက ပရေရီမြက်ခင်းများဖြင့်ဖုံးလွှမ်းနေခဲ့သည့် ဤဒေသတွင် ယခုအခါ မုယော၊ ဂျုံ၊ အာလူး၊ သကြားမုန်လာ၊ ကလိုဗာပဲပင် စသည်ဘို့ကို စိုက်ပျိုးလုပ်ကိုင်သည်။ သစ်ဆွေးမီးသွေးနှင့် အဆောက်အအုံအဘွက် ကျောက်တုံးများလည်း ထွက်သည်။ အလယ်ပိုင်း မြေပြန့်၏ မြေမျက်နှာပြင်သည် ခပ်ပြေပြေလှိုင်းထသကဲ့သို့ဖြစ်နေသည်။ မြေသြဇာကောင်းမွန်၏။

မင်နီဆိုတာ ပြည်နယ်တွင် အရေးပါသော မြစ်များမှာ ရက်ဒ်ရီဗားမြစ်(မြစ်နီ)၊ရေနီမြစ်နှင့်မစ်စစ်စပီမြစ်တို့ဖြစ်သည်။ မင်နီဆိုတာ ပြည်နယ်တွင်းရှိ မြစ်ချောင်းများစွာဘို့သည် ရေစီး သန်သည့်ပြင် ရေတံခွန်များလည်း ရှိသောကြောင့် ရေအားကို အသုံးပြုကာ လျှပ်စစ်ဓာတ်အား ထုတ်ယူ ရရှိလေသည်။ ဆိုခဲ့ပြီးသည့်အတိုင်း မင်နီဆိုတာ ပြည်နယ်တွင် အိုင်ပေါင်း ၁၀,၀၀၀ ကျော် ရှိသည့်အနက် အိုင်ကြီးများမှာ ရက်၊ လိချ်၊ မီလက်တို့ ဖြစ်၏။

ရာသီဥတုမှာ အပူအအေး လွန်ကဲသည်။ သို့သော် အရှေ့မြောက်ဖက်ပိုင်းသည် ဆူပီးရီးယားအိုင်ကြောင့် ရာသီဥတု ဒဏ် မပြင်းထန်လှပေ။ များသောအားဖြင့် နွေရာသီတွင် နေ့အခါ အလွန်ပူပြင်းပြီးလျှင်၊ ညဥ့်အခါ အေးသည်။ ဆောင်းရာသီတွင်တခါတရံ ဖာရင်ဟိုက် သုညဒီဂရီအောက် ဒီဂရီ ၃၀ အထိပင် ကျရောက်တတ်သော်လည်း၊ ခြောက်သွေ့သောလေ တိုက်ခတ်၍ သက်တောင့်သက်သာရှိ၏။ ခြုံ၍ကြည့်ရလျှင် ကျန်းမာရေးနှင့် ညီညွတ်သော ရာသီဥတုရှိသည်ဟု ဆိုရပေမည်။ နေရာဘိုင်းတွင် လယ်ယာ စိုက်ပျိုးရေးအတွက် မိုးရေအချိန်မှီ အလုံအလောက် ရွာသွန်းသည်။

မင်နီဆိုတာပြည်နယ်၏ အဓိကတွင်းထွက် ပစ္စည်းမှာ သံရိုင်းဖြစ်၏။ အမေရိကန်ပြည်ထောင်စုမှ ထွက်သမျှ သံရိုင်း၏ ရာခိုင်နှုန်း ၆၀ ကို မင်နီဆိုတာမြောက်ပိုင်းရှိ မီဆာဗီ၊ ဗာမီလီယန်နှင့် ဆူယူတာတောင်တန်းများမှ ရရှိသည်။ အခြားတွင်းထွက်ပစ္စည်းတို့မှာ မြေစေးနှင့် ထုံးကျောက်တို့ဖြစ်သောကြောင့် အုတ်၊ အုတ်ကြွပ်နှင့် အင်္ဂတေလုပ်ငန်း ထွန်းကားသည်။ ပြည်နယ် အနှံ့အပြားတွင် နှမ်းဖတ်ကျောက်နှင့် သဲ

ကျောက်များကိုလည်း တူးဖော် ရရှိသည်။ ရှေးအခါက တောမီးများကြောင့်၎င်း၊သစ်ခုတ်လှဲရာတွင်စံနစ်မကျသော ကြောင့်၎င်း လျော့ပါးသွားသော သစ်တောများကို ထိန်းသိမ်း၍ ပြန်လည် စိုက်ပျိုးလျက် ရှိသောကြောင့် သစ်ပျော့ဖတ်နှင့် သစ်တောထွက် အခြားပစ္စည်းများလည်း ထွက်သည်။ မင်နီဆိုတာပြည်နယ်သည် လယ်ယာ စိုက်ပျိုးရေးတွင်လည်း ဖြစ်ထွန်း၍ ဂျုံ၊ မြင်းစားဂျုံ၊ မုယော၊ ရိုင်းစပါး၊ ဘီသွာစေ့၊ ဆိုယာပဲ (ပဲပိပ်မျိုး)၊ အာလူးအစရှိသော ကောက်သီးကောက်နှံများ ထွက်ပြီးလျှင် ဘဲ၊ ကြက်၊ ဝက်၊ နွားများကိုလည်း မွေးမြူသည်။ မင်နီဆိုတာ ပြည်နယ်ဘွင် ဖြစ်ထွန်းသော လုပ်ငန်းတို့မှာ သားငါး သစ်သီး စည်သွတ်လုပ်ငန်း၊ ထောပတ်၊ ဒိန်ခဲစသော နို့ထွက်ပစ္စည်းလုပ်ငန်းတို့အပြင်၊ အရက်၊ ဂျုံ၊ စက္ကူ၊ သစ်နှင့် သစ်တော ထွက်ပစ္စည်းများ၊ စက်ကရိယာနှင့် သံထည်ပစ္စည်းများ စသည် ထုတ်လုပ်သည့် လုပ်ငန်းများဖြစ်လေသည်။ ကမ္ဘာ့ ဂျုံစက်ကြီးများစာရင်းဝင်ဂျုံစက်များကို မင်နီဆိုတာပြည်နယ်ဘွင် တွေ့နိုင်ပေသည်။

မင်နီဆိုတာပြည်နယ်တွင် သယ်ယူပို့ဆောင်ရေး အတွက် ရေကြောင်းတွင် ဆူပီးရီးယားအိုင်နှင့် မစ်စစ်စပီမြစ်ဘို့ကို အထူးသဖြင့် အသုံးပြုရသည်။ ဆူပီးရီးယားအိုင် ပေါ်ရှိ ဒူလွတ်ဆိပ်ကမ်းသည် သံရိုင်းတင်ပို့ရေးနှင့် စပ်လျဉ်း၍ ထင်ရှားသည်။ မစ်စစ်စပီမြစ်ပေါ် တွင်မူ မြစ်တဖက်တချက်တွင် မျက်နှာချင်းဆိုင် တည်ရှိသော မင်နီယာပိုလစ်နှင့် စိန်ပေါ်မြို့တို့သည် အရေးပါသည်။ ယင်းတို့မှတဆင့် နယူးအော်လီယန်းမြို့သို့ ကုန်ပစ္စည်းများ သယ်ဆောင်ရသည်။ မင်နီဆိုတာပြည်နယ်ဘွင် မီးရထားလမ်းမိုင်ပေါင်း ၉,၀၀၀ ကျော် ရှိလေသည်။

မင်နီဆိုတာပြည်နယ်၏ လူဦးရေမှာ ၁၉၆၀ ပြည့်နှစ်သန်ကောင်စာရင်းအရ ၃,၄၁၃,၈၆၄ ဖြစ်သည်။

သမိုင်းအားဖြင့် သော်ကား မင်နီဆိုတာပြည်နယ်သို့ ဦးစွာ ရောက်ရှိလာသော လူဖြူတို့မှာ ပြင်သစ်လူမျိုးတို့ ဖြစ်၍ ၁၆၅၉ ခုနှစ်လောက်ကတည်းက အိုင်ကြီးများဖက်မှ ဝင်လာရောက်ရှိခဲ့ကြလေသည်။ ၁၆၇၉ ခုနှစ်တွင် တည်ထောင်ခဲ့၍ ပြင်သစ်လူမျိုးတဦးဖြစ်သော ဒူလွတ်ကိုစွဲ၍ ဒူလွတ် ဟုအမည်တွင်ခဲ့သော ခံတပ်မြို့သည် ပဌမဆုံး အတည်တကျ အခြေစိုက်ခဲ့သော စခန်းတခုဖြစ်၏။ ၁၆၈၀ ပြည့်နှစ်တွင် ဖာသာ ဟင်နီပင် ခေါ် ဘုန်းတော်ကြီးတပါးသည် စိန်အန်တိုနီရေတံခွန်ကိုတွေ့ရှိသဖြင့် ယင်းတဝိုက်ဘွင်အခြေစိုက်နေထိုင်ခဲ့ရာမှ နောင်သော် မင်နီယာပိုလစ်မြို့ကြီး ဖြစ်လာသည်။ ဂရိတ် ဗြိတိန်သည် အရှေ့ပိုင်းဒေသကို ၁၇၆၃ ခုနှစ်တွင် ရရှိခဲ့၍၊ စပိန်နိုင်ငံသည် အနောက်ပိုင်းဒေသကို ရရှိခဲ့၏။ သို့သော် စပိန်တို့က ပြင်သစ်တို့ကို ပေးလိုက်ရပေသည်။ အမေရိကန်



မင်နီဆိုတာပြည်နယ်၏မြို့ကြီးတမြို့ဖြစ်သော မင်နီယာပိုလစ်မြို့၏ရှုခင်း

ပြည်ထောင်စုသည် မင်နီဆိုတာပြည်နယ်အရှေ့ပိုင်းကို တော်လှန်ရေး ပြီးဆုံးသွားသည့် နောက်တွင် ရရှိခဲ့၍၊ အနောက်ပိုင်းကိုမူ ၁၈၀၃ ခုနှစ်တွင် လူဝီဇီယန္နားနယ်ကြီးကို ဝယ်ယူရာတွင်ရရှိခဲ့လေသည်။ မင်နီဆိုတာနှင့် မစ်စစ်စပီမြစ်၂ သွယ်ဆုံရာ၌ ၁၈၁၉ ခုနှစ်တွင် တည်ခဲ့သော ဖို့စနဲလင်းမှာ အမေရိကန်တို့ ပဌမဆုံးအခြေစိုက်ရာဌာနဖြစ်၏။ သို့သော် ၁၈၃၇ ခုနှစ်တွင် တိုင်းရင်းသား အင်ဒီးယန်း လူမျိုးတို့နှင့် စကားကမ်းလှမ်း ပြောဆိုပြီးမှသာလျှင် မြို့ရွာအများအပြား တည်ထောင်နိုင်ခဲ့လေသည်။ ၁၈၄၉ ခုနှစ်တွင် မင်နီဆိုတာကို နယ်အဖြစ် သတ်မှတ်ခဲ့သည်။ ၁၈၅၈ ခုနှစ်တွင် ပြည်နယ်ဖြစ်လာသည်။ ဆူး ခေါ် တိုင်းရင်းသား အင်ဒီယန်း လူမျိုးတို့သည် မိမိတို့၏ နယ်မြေများ ပေးအပ်လိုက်ရသည့်အတွက် မကျေမနပ် ဖြစ်ပြီးလျှင် လယ်ယာခြံမြေနှင့် အိမ်များကို မကြာခဏ ဝင်စီးတိုက်ခိုက်ခဲ့လေသည်။ လူဖြူ အများအပြားပင် သတ်ဖြတ်ခြင်းခံရသည်။ သို့သော် အင်ဒီးယန်းများကို မကြာမီ နှိမ်နင်းနိုင်ခဲ့ပေသည်။ ထိုနောက် မီးရထားလမ်းများကို ဖောက်လုပ်ပြီးစီးသည့် အချိန်မှစ၍ မင်နီဆိုတာပြည်နယ်သည် လျှင်မြန်စွာ တိုးတက်လာခဲ့ပေသည်။

**မင်း၊ ဦး၊ ဖိုးသူတော်။** ။ဖိုးသူတော် ဦးမင်းသည် ကုန်းဘောင်ခေတ် ဒုတိယပိုင်းတွင် ဘကြီးတော် ဘုရား လက်ထက်နှင့် ကုန်းဘောင်ရွှေဘိုမင်းလက်ထက်တွင် ပေါ်ပေါက်သော ကဗျာ စာဆိုတဦးဖြစ်သည်။ လေးချိုးကြီး၊ ရတု၊ သဖြန် အမျိုးမျိုး၊ တေးထပ်၊ တုံးချင်း၊ လွမ်းချင်းများကို ဖွဲ့ဆိုသည်။ သူနှင့် တခေတ်တည်း ပေါ်ပေါက်သော စာဆိုတော် လူဦးမင်းနှင့် ခွဲခြားနိုင်ရန် အလို့ငှါ ဖိုးသူတော် ဝတ်ဘူးသောကြောင့် ဖိုးသူတော် ဦးမင်းတွင်သည်။ ရှင်ဣန္ဒောဘာသဓဇ ဘွဲ့ကို ရသည်ဟုဆို၏။

ဖိုးသူတော် ဦးမင်းသည် ပင်းတလဲမြို့နယ် ရေဝေရွာဇာတိဖြစ်သည်။ စာမှန်ကြီးရွာ(အချို့က ဆမွန်ကြီးရွာ)ကို အသုံးကံကျေးခြိုးမြင့်ခြင်း ခံရသည်။ သက္ကရာဇ် ၁၁၉၉ ခုနှစ်၌ ကုန်းဘောင်မင်းတရားကြီး နန်းတက်၍ ဥကင်ဖွင့်မင်္ဂလာ ဆင်ယင်သည့်အခါ အမတ်ကြီး ဦးပေါ်ဦး၊ စာဆိုတော် ဦးမင်း၊ ဝက်မစွတ် မြို့စား စာဆိုတော် နဝဒေးတို့နှင့် ဘုန်းတော်ဘွဲ့ ရတုများကို အပိုင်ရေးသားဆက်သွင်းသည်။

ဖိုးသူတော် ဦးမင်းသည် ဆဲ့နှစ်ရာသီဖွဲ့များကို ဖွဲ့ဆိုလေ့ရှိသည်။ ဆိုခဲ့သော ဆဲ့နှစ်ရာသီဖွဲ့များကား ဟောင်းရွက်ညွှာခါလှစ်လို့ချီ သဖြန် လေးဆစ် ၁၂ ပုဒ်၊ ထပ်ထပ်သာစောတော့တယ်ချီ ဆဲ့နှစ်ရာသီလွမ်းချင်း ၁၂ ပုဒ်နှင့် နွှေ၊ မိုး၊ ဆောင်းဖွဲ့လေးချိုးကြီး ၃ ပုဒ်တို့ဖြစ်၏။ ဆဲ့နှစ်ရာသီဖွဲ့ကဗျာ စုအနက် လေးဆစ် သဖြန်များတွင် အကျယ်မချဲ့ဘဲ လိုရင်းကို ချုပ်၍ ရေးသားထားသည်။ ရာသီ ဖွဲ့တွင်ပါဝင်စေအပ်သော ပန်း၊ နက္ခတ်တာရာ၊ရာသီပွဲတော်များကိုသာ ပါဝင်စေလျက် ရာသီအခြေအနေကိုကား ပေါ်လွင်အောင် မဖွဲ့နွဲ့ချေ။

ပုံစံမှာ ကဆုန်လဖွဲ့ဘွင်

'စကားဝါငုံသင်းလို့၊ ကြယ်မင်းတဲ့ ဝိသာခါ၊
တိမ်ဗွေမှာ ရောင်ခြည်ရွှန်း၊ ထွန်းတဲ့ ချိန်ပါ။
စုံကန္တာ၊ ဟေမာမြိုင်ထဲ၊
ရွှေကျေးပျံသင်လို့ စံပျော်ရှင် သည်ဟိုကူးလို့ငယ်၊
မြူးကြစမြဲ။ ။'

ဟူ၍ တိုတိုတုတ်တုတ်နှင့် လိုရင်းကို ချုပ်၍ ဖွဲ့သည်။ နုတ်တက်အာဂုံဆောင်သူဘို့အဘွက် မှတ်မိလွယ်၏။

ဖိုးသူတော် ဦးမင်း၏ ဆဲ့နှစ်ရာသီဖွဲ့လွမ်းချင်းသည်အတော်အဆင့်အတန်းမြင့်သော ကဗျာ ဖြစ်သည်။ ဖိုးသူတော် ဦးမင်းသည် အများမဆိုခဲ့ဘူးသော အဖွဲ့အနွဲ့မျိုးဖြင့် အသစ်တမျိုး ကြံဆောင်၍ ဖွဲ့နွဲ့ခြင်းပင် ဖြစ်သည်။ ထပ်ထပ်သာစောတော့တယ်ချီ လွမ်းချင်းမှာ ဆဲ့နှစ်ရာသီဖွဲ့သဖြန်ထက်ပင် စုံလင်သည်။

'ထပ်ထပ်သာ စောတော့တယ်၊ မြကြောငယ်ရစ်သီ၊ ကိုက်ဖူးငယ် ချီသည်၊ ပွင့်သိဂီ ရွှေရင်ခတ်ကယ်ဘို့၊ ရစ်ရပ်ကယ်နယ်တခိုက၊ စိုလှတယ်လေး။ ။နွေခါမို့ငယ်၊ ရာသီမိဿ၊ဂိမှာနမို့၊စိတြကြယ်၊ တိမ်မိုးလယ်မှာ၊ စံပယ်ကွန့်ကာ၊ တိမ်ဗွေချာဝယ်၊ ဒေသစာလှမ်း၊ လည့်လည်ငယ်မြန်းလို့၊ နှစ်ဆန်းငယ်သကြန်၊သစ်သစ်သာ ဖန်တော့တယ်၊နိုင်ငံကြော့ပြည်သူမှာ၊ ပန်ဆုယူ တာရေသွန်းချိန်မို့၊ လွမ်းလှတယ်လေး။ ။

စသည်ဖြင့် အမရပူရ ရွှေမြို့တော်ကြီးတွင် နေရပါသော်လည်း အတာသကြန်အခါ၌ တောနယ်များကို လွမ်းဆွတ်ကြောင်း ပေါ်လွင်အောင် ဖွဲ့ဆိုလေသည်။

ဖိုးသူတော် ဦးမင်း စပ်ဆိုသော ဆောင်းဖွဲ့၊ နွေဖွဲ့၊ မိုးဖွဲ့၊ လေးချိုးကြီး ၃ ပုဒ်သည် အဖွဲ့အနွဲ့၊ လွန်စွာကောင်း၍ ပဌမတန်းလေးချိုးကြီးများဖြစ်၏။ အဓိပ္ပါယ်မှာလွန်စွာ နက်နဲ၍ ယခုအခါ ကဗျာဆရာတို့သည် ဦးမင်း၏ လေးချိုးများကို စံပြု၍ ထားကြရကုန်၏။

ရာသီဖွဲ့များအပြင် ဦးမင်းသည် တေးထပ် အများအပြားကိုလည်း စပ်ဆိုခဲ့၍၊မယ်ဖွဲ့မြောက်ပင့်တေးတပ်များသည်ထူးချွန်ကောင်းမွန်သည်။ ထိုပြင် ဦးမင်းသည် တုံးချင်းများ အဖွဲ့အနွဲ့လည်း ကောင်းကာ စာဆိုပြိုင်ဖက် ဖြစ်သော လူဦးမင်းနှင့် တဦးကိုတဦး အပြန်အလှန် မခံချင်အောင် တုံးချင်းများ ဖွဲ့ဆိုပုံမှာလည်း စိတ်ဝင်စားဖွယ်ကောင်း၏။ (မင်း၊ ဦး။ တုံးချင်း — လည်းရှု။)

ဖိုးသူတော် ဦးမင်းသည် ဂီတကဗျာများ ဖွဲ့ဆိုရာ၌လည်း ထူးချွန်ကောင်းမွန်သော ပုဂ္ဂိုလ်ဖြစ်သည်။ သို့သော် သီချင်းများမှအပ ပျို့၊ လင်္ကာဖွဲ့ဆိုမှုကို မတွေ့ရချေ။ လောကကြောင်း သက်သက်ကို ဖွဲ့ဆိုသည့်အလား ဓမ္မကြောင်း ဆိုင်

ရာ ပျို့ကဗျာများကို ဖွဲ့ဆိုခဲ့လျှင် ဖိုးသူတော် ဦးမင်း၏ နာမည်သည် ယခုထက် တိုးတက်ကျော်ကြားမည် ဖြစ်ပေသည်။

**မင်း၊ ဦး** (မြန်မာ ၁၁၃၆–၁၂၀၉)။ ။ဦးမင်းသည် ကုန်းဘောင်ခေတ် ဒုတိယပိုင်းတွင် ပေါ်ပေါက်သော ကဗျာ စာဆိုတော်တဦး ဖြစ်သည်။ ဦးမင်းနှင့် အမည်တူ ဖိုးသူတော်ဦးမင်းမှာ အပိုင် စာဆိုဖက် ဖြစ်သောကြောင့် ဖိုးသူတော်ဦးမင်းမှ ခွဲခြားနိုင်ရန် လူဦးမင်း၊ သို့မဟုတ် စာဆိုတော် ဦးမင်းဟု တွင်သည်။(မင်း၊ ဦး၊ ဖိုးသူတော် — လည်းရှု။)စာဆိုတော်လူဦးမင်းသည် ဘိုးတော်ဘုရား၊ ဘကြီးတော်၊ရွှေဘိုမင်းနှင့် ပုဂံမင်းတို့လက်ထက်များတွင် ခစားထမ်းရွက်သည်။ ဦးမင်းသည် များစွာသော ဆုလပ်တို့ကို ရရှိ၍ ဘုရင်၏ မြှောက်စားခြင်းခံရသည်ကို ထောက်သော် ကဗျာလင်္ကာဖွဲ့နွဲ့ရာတွင် ထူးချွန်သော ပုဂ္ဂိုလ်ဖြစ်တန်ရာသည်။ စာဆိုတော် ဦးမင်းသည် ကဗျာ အများအပြား ဖွဲ့စပ် သီကုံးခဲ့လေသည်။ ယင်းတို့အနက် ဘုန်းတော်ဖွဲ့များနှင့် ဆဲ့နှစ်ရာသီဖွဲ့ လေးချိုးကြီးတို့သည် ထူးခြားကောင်းမွန်၍ မြန်မာစာပေတွင် မှတ်တမ်းတင်ထိုက်သော စာများဖြစ်ကြသည်။ စာဆိုတော် ဦးမင်းသည် ဆဲ့နှစ်ရာသီဖွဲ့ လေးချိုးကြီးကို တရာသီလျှင် တပိုဒ်ကျစီ ခွဲ၍ ၁၂ ပိုဒ် ပြည့်အောင် စပ်ဆိုသည့်အပြင် နွေဖွဲ့၊ ဆောင်းဖွဲ့၊ မိုးဖွဲ့၊ ဘုန်းတော်ဖွဲ့ လေးချိုးကြီးတို့ကို အများအပြားပင် စပ်ဆိုလေသည်။

စာဆိုတော် လူဦးမင်းသည် ရွှေတောင်မြို့စီရင်စု နွားမရန်ရွာတွင် သက္ကရာဇ် ၁၁၃၆ ခုနှစ်၌ ဖွားမြင်သည်။ ထိုရွာတွင် ရှင်သာမဏေဘွဲ့ကာ တေးကဗျာ ဝါသနာထုံရင်း ရှိသည်ဖြစ်၍ လေ့လာရေးသားသည်။ ထိုနောက် လူထွက်၍ အမရပူရမြို့တည်နန်းတည် ဘိုးတော်မင်းတရားထံသို့ ဝင်ရောက် ခိုလှုံရာ သားတော် ပုသိမ်မင်းထံတွင် စာဆိုအရာနှင့် ထမ်းရွက်စေသည်။ ၁၁၇၅ ခုနှစ် အသက် ၃၉ နှစ်တွင် ပုသိမ်မြို့ဟိုင်းကြီးကျွန်း ဆားခွန်ကို စားရသည်။ ထိုနောက် စိန္တကျော်ထင်ဘွဲ့နှင့် ကန်ပြင်ရွာကို စားရပြန်သည်။ ထိုနောက် ဘကြီးတော်လက်ထက် စာဆိုတော် အရာနှင့် နေအိမ်ဆုလပ်များ သနားတော်မူခြင်း ခံရ၍ စာဆိုတော် မောင်ရေး၊ မောင်တလုပ်၊ မောင်အိ၊ မောင်ဖုန်းတို့နှင့်အတူ လေးချိုး၊ ရာသီဖွဲ့၊ မယ်ဖွဲ့၊ မောင်ဖွဲ့၊ ဘုန်းတော်ဖွဲ့များကို လစဉ် ရေးသားဆက်သွင်းရသည်။ ထိုနောက် ရွှေဘိုမင်းတရား လက်ထက် စစ်ကိုင်းမြို့စံနန်းတော်တွင် ဘုန်းတော်ဖွဲ့ကို ဆက်သရာ ငွေတော် ၃ ပိသာ သနားတော်မူသည်။ ထိုနောက် ကျောက်မြောင်းမြို့က ပြည်ကြီးမွန် ဖောင်တော်ဖြင့် အမရပူရမြို့သို့ ဝင်တော်မူရာ ဘုန်းတော်ဖွဲ့ကို ဆက်သပြန်သည်တွင် ငွေတော် ၃ ပိသာနှင့် လှေလှော်လောင်းတစင်း သနားတော်မူခြင်း ခံရသည်။ ထိုနောက် အမရပူရမြို့ ရွှေနန်းတော်ကြီးကို မသိမ်းမီ အဂ္ဂိရတ် အကြောင်းအရာ ဘက်မနှန်းသာဘူး ချီ ဘုန်းတော်ဖွဲ့လေးချိုးကို ဆက်သသည်တွင် မင်းထင် သက်ရှည်ဘွဲ့နှင့် ရွှေနန်းရိုး လမိုင်း လယ်တော် ပယ် ၅၀ ထွက်သင့်စပါး ၁,၀၀၀ ကို သနားတော်မြတ်ခံရသည်။ ထိုနောက် ဥက္ကလာပမြို့သို့ ရွှေစက်တော် ဖြန့်ချီရာတွင်ဘုန်းတော်ဖွဲ့ကို ဆက်သွင်းပြန်သဖြင့်လှေလှော်လောင်း တစင်းနှင့် ငွေတော်သုံးပိသာ သနားတော် မူခြင်းခံရပြန်သည်။ ဝင်တော်မူသည်တွင်လည်း ဘုန်းတော်ဖွဲ့ကိုဆက်သွင်းရာ သာယာဝတီမြို့တွင် ငွေသုံးပိသာ သနားတော်မူသည်။ ထိုနောက် ဒေးဝန်းစံနန်းတော် ရေသဘင်ပွဲတော်တွင် လှေဖွဲ့နှင့် ဘုန်းတော်ဖွဲ့များကို ဆက်သပြန်ရာ ဆုတော်ငွေသုံးပိသာထပ်မံရရှိပြန်သည်။ထိုနောက်သားတော်ပုဂံမင်းလက်ထက် သက္ကရာဇ် ၁၂၀၉ ခုနှစ်တွင် ကွယ်လွန်သည်။

စာဆိုတော် ဦးမင်း၏ ကဗျာလင်္ကာ အဖွဲ့အနွဲ့များကို အမည်တူ စာဆိုပြိုင်ဖက် ဖိုးသူတော် ဦးမင်း၏ ကဗျာလင်္ကာများနှင့် နှိုင်းရှည့်လေ့ ရှိပေသည်။ သို့နှိုင်းရှည့်ကြည့်ရာ၌ လေးချိုးကြီးများ အဖွဲ့အနွဲ့တွင် စာဆိုတော် ဦးမင်းနှင့် ဖိုးသူတော် ဦးမင်းတို့သည် တမျိုးတဖုံစီ ကောင်းကြပေသည်။ ဘုန်းတော်ဖွဲ့တွင် စာဆိုတော် လူဦးမင်းက ဖိုးသူတော် ဦးမင်းထက် သာဟန်ရှိသည်။ ထိုကြောင့်ပင် ဘုရင်မင်းမြတ်၏ မြှောက်စားခြင်းကို ခံရသည်။ ဖိုးသူတော် ဦးမင်းကဲ့သို့ သာမည အကြောင်းအရာများဖြင့်သာ ဘုန်းတော်ကို မဖွဲ့ဘဲ ခမ်းနားကြီးကျယ်သော အသိုင်းအဝိုင်း ဥပမာ ဥပမေယျတို့ဖြင့် တန်ဆာဆင်၍ ဖွဲ့တတ်သောကြောင့် ဖိုးသူတော် ဦးမင်းထက် ခမ်းနားနက်နဲသည်။ ထိုပြင် စာဆိုတော် ဦးမင်း၏ အဖွဲ့အနွဲ့များသည် ပို၍ တည်ကြည်ခမ်းနား၏။ ဩကာသလောကကြီးကိုလည်း စိတ်ဝင်စားကာ စိတ်ကူးထဲပေါ် ပေါက်လာသမျှသော အကြောင်းအရာတို့ဖြင့် တင်းမတိမ်သေးဘဲ ရှေးရှေးဆရာကြီးများ၏ အဖွဲ့အနွဲ့များမှလည်း ကောက်နုတ်အတုယူ၍ မိမိကဗျာများကို ခြယ်လှယ် တတ်၏။

'ကွန့်ကွန့်သာ လှိုင်းတော့တယ်၊ မြန်တိုင်းဒီပါမှာ၊ တည်သီလာနောင်ခြေမှ၊ အောင်ဘေရိန်ဆော်ရှုန်းပေတဲ့၊ မော်ကွန်းစိတည်မှာ၊ ဖန်တခြည်နေနှုန်းပေသည့်၊ ရွှေဘုန်းဂုဏ်။ ။ ရေနတ်ကယ်လှေရှိ၊ ဂင္ဂုန်ပံ့နှင့်၊ ဆဒ္ဒန်နာဂ၊ ပဏ္ဏာသလို့သူရစစ်အောင်၊စံစိုးထောင်လို့၊ မိုးခေါင်ညွန့်မြစ်၊ ကွမ်းကသစ်နှင့်၊ ခေတ္တသရေ၊ ဗျာဒိတ်ချွေသည်၊ ရွှေပြည်ဇေယျ၊ မွန်နက်သန်ကို၊ ခွန်ခံရေးပိုင်၊ ကံကျေးသာ ဆိုင်တော့တယ်၊ပွားလှိုင်ပျံ့ဇေယျာမှာ၊ ကေရာ ဖန်ကိုယ်ပွားပေမို့၊ ထွတ်ဖျား တိုင်အောင်မြင့်သော်လဲ့၊ ချီးခွင့် မကုန်။ ။မှုအခြည်ဝယ်၊ ရစ်လည်ရံဝိုက်၊ ခုနစ်တိုက်ထက်၊ မကိဋ္ဌကယ် ကိန်းပျော်၊ ဓာတ်ဆံတော်နှင့်၊ မမြော်နိုင်းရာ၊ နန္ဒဝါလဲ၊ မာလာဂနိုင်၊ သီးပွင့်ဆိုင်၍၊ ဖြိုးခိုင်စွာလှ၊ ဝါသဝဘို့၊ နာဂစက်လည်၊ အောင်ချက်ကယ်တည်ခဲ့တဲ့ ပြည်ရန်လုံကို၊ ရှစ်စုံနောင်စိုးမှ မှုဒွါဘိ'။

စသော ဘုန်းတော်ဖွဲ့၏ ပဌမသုံးချိုးသည် ဥပမာ ဥပမေယျတို့ဖြင့် ကောင်းစွာ ဖွဲ့နွဲ့ထားကြောင်း တွေ့ရပေသည်။ သို့သော် မြောက်ပင့်လွန်းအားကြီးသဖြင့် အတိဝုတ္တဒေါသ ပင် သင့်လုမတတ်ရှိ၏။

'ကေရာဖန်ကိုယ်ပွားပေမို့၊ ထွတ်ဖျားတိုင်အောင် မြင့်သော်လဲ့၊ ချီးခွင့်မကုန်' ဟူ၍စပ်ဆိုထားသောကြောင့် စာဆိုတော် လှူဦးမင်းသည် အမြောက်သမားကြီးပင်တည်းဟု အံ့သြတွေးဆဖွယ်ဖြစ်၏။

ရာသီဖွဲ့များတွင်လည်း စာဆိုတော် လှူဦးမင်း၏ အဖွဲ့အနွဲ့များသည် ပိုမို ပြောင်မြောက်လှ၍ စုံလင်ကာ လွမ်းစရာကောင်း၏။

'မိန်တြင်းပေမို့၊ တိမ်နှင်းပြန့်ဘုံဝယ်၊ ရဂုံမှာ အရွှေဖက်လို့၊ လေရွက်ကျင် ခွေလျက်ပေတဲ့၊ နွေရက်ဝယ်၊ ငှက်ကျေးငယ်သိုက်ဝင်၊ စရိုက်ကယ်ရှင်သည်၊ ပင်စည် ပုရစ်၊ ကျန်ရွက်ရော် သစ်ရင်လ၊ မြမြစ်ကယ် ရင်ဘောင်၊ ကြူငွေသောင်မှာ၊ ယခေါင်စဉ်ရှည်၊ သဲစေတီတည်မြဲမို့၊ ရှစ်မည်က မျှချီလျှင်၊ သရဖီ ရွှေလိုဝင်းလို့၊ အင်ကြင်းသန္တာညွန့်ဘို့ ဖူးညွန့်ကိုက်လှယ်။ ။ကိန္နရီငယ် သိင်္ဂီလှော်ခုတ်၊ တောင်လကျာချုပ်ပေတဲ့၊ နတ်ရုပ်ကယ်ဆင်းအင်၊ ကြင့်နှီးရှင်လဲ၊ နောင်တွင်စိတ်ဖန်၊ ဖြေပရန်ကို၊ ရွှေဥာဏ်ခွဲဝက်၊ ခြေရေးတော်ခက်ကယ်နှင့်၊ ကျောက်စက်ကယ်တမ်းခွန်၊ စိမ့်စမ်းသွန်လို့၊ အဝှန်ရောင်ညီး၊ ပလောင်မီးလဲ၊ တောင်ကြီးငယ်သုတ်သင်၊ လုပ်ငန်းယာပြင်ကြတယ်၊ သဘင်ကျယ်ကို၊ လွမ်းနယ်ပုံပိုင်းလို့တာမကျုံး ။ ။သံချိုငယ်မြည်ပြော၊ ကျော်ဥသြသည်း၊ ဖော်နှောငယ်မယ်မောင်၊ ငှက်ဖိုးခေါင်လဲ၊ နောင်တခြည်ခြည်၊ ဗျာတော်စည်အောင်၊ သံရှည်ရင့်ရှူ၊ မြိုင်မြင့်ငူက၊ လွမ်းကြူငြိမ့်ကြေ၊ လိမ့်ပစေသားနှင့်၊ ထွေတလာလာ၊တြင်းသံသာတော့တယ်၊ နွေအာဒိဂိမှာန်ကို၊ နိဗ္ဗာန်ပိုင် ရှင်တော်စေဘတွင်မှ၊ ဟောခဲ့သာဆုံး။'

ဟူ၍ ဖွဲ့ဆိုရာတွင် စာဆိုတော် ဦးမင်းသည် ရာသီ အခြေအနေကို သာမည ရိုးရိုးဖော်မပြဘဲ၊ ထိုအခြေအနေ၏ လွမ်းစရာကောင်းအောင် ဖန်တီးပုံတို့ကို ထင်ရှားအောင် ဖွဲ့ဆိုသည်။ ထိုကြောင့် စာဆိုကောင်းတယောက်ဟု ခြီးမွမ်းသင့်ပေသည်။ ဖိုးသူတော် ဦးမင်း၏ စာများသည် ဆေးတမျိုးတည်းဖြင့် ခြယ်လှယ်ထားသော တောတောင် အရုပ်ကားနှင့်တူလျက် ကွက်ကွက်ကွင်းကွင်းပေါ်၏။ စိတ်ဓာတ်ကို များစွာ မထိခိုက်လှပေ။ ဦးမင်း၏ စာများမှာမူကား ဆေးရောင်စုံတို့ဖြင့် ခြယ်လှယ်ထားအပ်သော တော၊ တောင် အရုပ်ကားနှင့် တူ၏။ ကွက်ကွက် ကွင်းကွင်းလည်း ပေါ်သည်။ စိမ်းစိုသော မြက်ခင်းနှင့် မှိုင်းညို့သော တိမ်တောင်တိမ်လိပ်များကို မြင်ရခြင်းဖြင့် စိတ်တွင် ထိခိုက်၍ ပိုမိုလွမ်းဆွတ်ဖွယ်ဖြစ်ပေသည်။

**မင်းကင်းမြို့**။ ။မင်းကင်းမြို့သည် အထက်ချင်းတွင်းခရိုင် ကလေးဝနယ်တွင် ပါဝင်သောမင်းကင်းမြို့နယ်၏ ရုံးစိုက်မြို့ဖြစ်သည်။ ချင်းတွင်းမြစ် လကျာဖက် ကမ်းပေါ်တွင် မောက်ကတော်ချောင်း၊ ပထိုးလုံးချောင်းတို့ ချင်းတွင်းမြစ်တွင်းသို့ စီးဝင်ပေါင်းဆုံရာအရပ်နှင့် မနီးမဝေးတွင် တည်ရှိ၍ ယခင်က ခရိုင်ရုံးစိုက်မြို့ ဖြစ်ခဲ့သော ကင်းတပ်မြို့ အောက်ဖက် မိုင် ၈၀ အကွာ၊ ကလေးဝမြို့၏အောက်ဖက် ၄၅ မိုင် အကွာတွင် တည်ရှိသည်။ မင်းကင်းမြို့တွင် မြို့ပိုင်ရုံး၊ လက်ထောက် မှတ်ပုံတင် အရာရှိရုံးစသည်တို့ရှိ၍ အထက်တန်းကျောင်းနှင့် ဆေးရုံလည်း ရှိသည်။

မင်းကင်းမြို့နယ်တွင် အဓိကအားဖြင့် လယ်ယာ စိုက်ပျိုးလုပ်ကိုင်၍ အထူးသဖြင့် စပါးစိုက်ပျိုးသည်။ ချင်းတွင်း မြစ်သည် မြို့နယ်ကို ဖြတ်၍ စီးဆင်းသောကြောင့် သွားလမ်းလာလမ်း မခက်ခဲပေ။

မင်းကင်းမြို့ရှိ ပတ္တမြားစေတီမှာ သီရိ ဓမ္မာ သောက မင်းကြီးတည်သော စေတီဖြစ်၍ မင်းကြီး တည်ခဲ့သောစေတီ ပေါင်း ၈၄,၀၀၀ အနက် တဆူ အပါအဝင် ဖြစ်သည်ဆို၏။

၁၉၅၃ ခုနှစ်၌ ခန့်မှန်းသန်ကောင်စာရင်းအရ မင်းကင်းမြို့တွင် လူဦးရေ ၁,၇၃၃ ယောက်ရှိသည်။

**မင်းကြီးစွာစော်ကဲ**(မြန်မာ ၇၂၈–၇၆၂)။ ။ မင်းကြီးစွာစော်ကဲသည် အင်းဝ ပဌမမင်းဆက်တွင် ဒုတိယ နန်းစံသောဘုရင်ဖြစ်သည်။ မယ်တော်မှာ ပုဂံ တရုပ်ပြေးမင်း၏ သားတော် သီဟသူနှင့် ရှမ်းညီနောင် ၃ ပါး၏ နှစ်မတော်တို့ သင့်ရာတွင် မြင်သည့်သမီးတော် ရှင်မြတ်လှဖြစ်၍ ခမည်းတော်မှာ နန်းကျ ကျော်စွာ၏ သားတော် သရက် မင်းရှင်စောဖြစ်သည်။

အင်းဝဘုရင်သတိုးမင်းဖျား၏ နှစ်မ ရှင်စောကြီးနှင့် ထိမ်းမြားသဖြင့် ဘုရင်၏ ယောက်ဖတော်ဖြစ်ရာ သတိုးမင်းဖျား နတ်ရွာစံသောအခါ ၇၂၈ ခုနှစ်တွင် ပြည်သူအများက ကြိုက်ညီ၍ မင်းမြှောက်သဖြင့် ထီးနန်းကိုရသည်။ မင်းမဖြစ်မီက စစ်ကိုင်း ဆင်ဖြူရှင်ထံ ခစားခဲ့ဘူး၍ တလုပ်မြို့၊ ရမည်းသင်းမြို့တို့ကို စားရသည်။ သတိုးမင်းဖျားလက်ထက်တွင် အမြင့်မြို့ကိုစားရသဖြင့် အမြင့်မင်းဟုလည်း တွင်သည်။ သတိုးမင်းဖျားက မင်းကြီးစွာစော်ကဲ၏ နှစ်မ စောဥမ္မာကို မိဖုရားမြှောက်သဖြင့်လည်း အပြန်အလှန် ယောက်ဖတော်စပ်သည်။

သတိုးမင်းဖျား နတ်ရွာစံသော် မရည်ရွယ်ဘဲ ထီးနန်းကို ရသဖြင့် "မရွယ်ဘဲနှင့် စော်ကဲမင်းဖြစ်သည်" ဟု ဆိုရိုးစကားတွင်သည်။ မင်းဖြစ်သော် စစ်ကိုင်း စိုးမင်းကိုယ်တော်ကြီး၏ သမီး စောဥမ္မာကို မိဖုရား မြှောက်သည်။ ထိုမိဖုရားမှ ဖွားသော သားတော်မှာ ဆင်ဖြူရှင် တရဖျားဖြစ်၍ အိမ်ရှေ့အရာရသည်။ ကန်စွန်းနိမ့်ရွာသူ မိဘေဇာကိုလည်း မိဖုရား

မြှောက်သဖြင့် သားတော် မင်းဆွေ၊ မင်းသိဒ္ဓတ်နှင့် သမီးတော် ရှင်မြတ်လှကို ဖွားသည်။ မင်းဆွေမှာ အင်းဝ ပဥ္စမ မင်းခေါင်အဖြစ် နန်းမွေ ဆက်ခံမည့်သူ ဖြစ်သည်။

မင်းကြီးစွာစော်ကဲသည် ကျောက်ဆည်ခရိုင် ဆီးတော ဆည်နှင့် မိတ္ထီလာကန်တို့ကို ပြုပြင်ဆည်ဖို့သည်။ ထိုမင်းလက်ထက်တွင် လက်စွဲတော် ရာဇာကြံဘွဲ့ခံ ငမောက်နှင့် ပညာရှိ အမတ် ဝန်စင်းရွာသား မင်းရာဇာတို့ ပေါ်ထွန်းသည်။ ထိုမင်းလက်ထက်တွင် မွန်ဘုံနှင့် ၃ ကြိမ် စစ်တိုက်ရသည်။ မွန်ဘုရင်ရာဇာဓိရာဇ်နှင့် နန်းပြိုင်ဖြစ်၍ ရာဇာဓိရာဇ်က ဘကြီးတော်ဟု ခေါ်ဆိုလေးမြတ်ခြင်း ပြုသည်။ ထိုမင်းလက်ထက် နိုင်ငံတော် စည်ပင်သည်။

၇၆၂ ခုနှစ် နန်းစံ ၃၃ နှစ်တွင် နတ်ရွာစံသော် သားတော် ဆင်ဖြူရှင် တရဖျားက ထီးနန်းဆက်ခံသည်။

**မင်းကြီးညို** (မြန်မာ ၈၄၇ – ၈၈၂)။ ။မင်းကြီးညိုသည် တောင်ငူမင်းဆက်ကို စတင်တည်ထောင်သော မင်းတပါးဖြစ်သည်။ သက္ကရာဇ် ၈၄၇ ခုနှစ်တွင် ဦးရီးတော်သူ အင်းဝလက်အောက်ခံ (စည်သူ ကျော်ထင်၏သား) မင်းစည်သူကို လုပ်ကြံ၍ နန်းတက်သည်။ နန်းတက်လျှင် မြရာဝတီ(ထိုနောက် ဒွါရာဝတီတွင်သည်) မြို့တော်ကို တည်သည်။ ဟံသာ ဝတီမင်း၊ ဇင်းမယ်မင်းတို့က သီးခြား ဂုဏ်ရည်တူ မင်းတပါး အဖြစ် အသိအမှတ် ပြုသည်။ အရှေ့ကရင်နီ (ကယား) နယ်ကလည်း လက်ဆောင် ဆက်ရသည်။ မွန်ဘုရင် ဗညားရံက တိုက်ခိုက်လာသည်ကို နှိမ်နင်းနိုင်၍ အင်းဝဘုရင် ဒုတိယ မင်းခေါင်ကပင်လျှင် မဟာသီရိဇေယျသူရ ဟူသော ဘွဲ့အမည်နှင့် မင်းမြှောက်တန်ဆာ ငါးပါးကို ပို့လှုတ်သည်။

မင်းကြီးညိုသည် ပုဂံနန်းကျ ကျော်စွာနှင့် မိုးညှင်းမင်း တရားတို့၏ အနွယ်ဖြစ်သည်။ ထိုကြောင့်လည်း ၈၆၄ ခုနှစ်တွင် အင်းဝရွှေနန်းကြော့ရှင် နရပတိက ဘထွေးတော်၏ သမီး မင်းလှထွတ်နှင့် မင်းကြီးညိုကို စုံဖက်သည်။ သို့ရာတွင် ထိုနှစ်မှာပင် မင်းကြီးညိုသည် ရေလွှဲငါးခရိုင်နှင့် ကျေးလက်များကို သိမ်းယူ၍ ရွှေနန်းကြော့ရှင်ကို ခြားနားသည်။

ညောင်ရမ်း၊ သင်းကြီး၊ ယင်းတော်၊ မိတ္ထီလာ၊ မြစ်ညောင်၊ သာဂရမြို့ကြီးများနှင့်တကွ မင်းတုံးတာ၊ မင်းပြည့်ဝတို့ ကျွန်တော်ခံလာသည်။ ကေတုမတီဘောင်ငူမြို့ကို သက္ကရာဇ် ၈၇၂ ခုနှစ်တွင် တည်ထောင်စံနေသည်။ သက္ကရာဇ် ၈၈၈ ခုနှစ် အင်းဝကို မိုးညှင်းစလုံကတိုက်၍ ပျက်စီးသဖြင့် မြန်မာမင်း မှူးမတ်ဘို့ အမြောက်အမြား ခိုဝင်လာကြသည်။ အင်အားပြည့်စုံသော ပင်းယမင်း၊ အင်းခန်းမင်း၊ မြစ်သားမင်း၊ လှိုင်းတက်မင်းတို့ကား အလုံးအရင်းနှင့်တကွ ခိုဝင်လာကြသည်။

မင်းကြီးညိုသည် ငနွယ်ဂုံသူကြီး သမီးကို မိဖုရားမြှောက်ရာ ၈၇၈ ခုနှစ်တွင် တပင်ရွှေထီးကို ဖွားမြင်သည်။

၈၈၂ ခုနှစ် နန်းစံ ၅၂ နှစ်တွင် နတ်ရွာစံ၍ သားတော် ၁၄ နှစ်အရွယ်ရှိ တပင်ရွှေထီးက ထီးနန်းဆက်ခံသည်။ (တပင်ရွှေထီး — လည်းရှု။)

**မင်းကွတ်ပင်**။ ။မင်းကွတ်ပင်သည် ဂုတ်တစ်ဖာရီးမျိုး ရင်းတွင် ပါဝင်၍ ယင်းကို ရုက္ခဗေဒအလိုအားဖြင့် ဂါစင်းနီးယား မန်ဂိုစတားနား ဟုခေါ်သည်။ မင်းကွတ်ပင်၏ မူလ ပေါက်ရာအရပ်မှာ မလ္လာယုကျွန်းဆွယ် ဖြစ်၍ မြန်မာနိုင်ငံတွင်းသို့ တဆင့် ယူဆောင် စိုက်ပျိုးသည့် အပင်လတ်မျိုးဖြစ်သည်။ မင်းကွတ်ပင်သည် ပုံ၍ ဝိုင်းသည့်ပြင် လှပ၏။ အချို့ မင်းကွတ်ပင်များမှာ ပေ ၃၀ အထိ မြင့်မားကြသည်။ အရွက်သည် စိမ်း၍ ထူပြီးလျှင် တောက်ပ၏။ အမွေးကလေးများလည်း ပါရှိ၏။ အချို့ မင်းကွတ်ရွက်များသည် ၈ လက်မ ခန့်အထိ ရှည်သည်။ မင်းကွတ်ပွင့်သည် ပန်းရောင်ဖြစ်၍ အချင်း ၂ လက်မခန့် ရှိသည်။

မင်းကွတ်သီးသည် လိမ်မော်သီး ပုံသဏ္ဌာန်ကဲ့သို့ ရှိသော်လည်း လိမ်မော်သီးထက် ငယ်သည်။ အရောင်မှာ သီးစဉ်စိမ်း၍ မှည့်လာသောအခါ နီညိုမှ မှောင်သောအရောင်ရှိသည်။ ကန့်လန့်ဖြတ် တိုင်းလျှင် ၂ လက်မခွဲခန့် ရှိသည်။ မင်းကွတ်သီး၏ အခွံမှာ ထူ၍ မာ၏။ အခွံအတွင်း၌ အဖြူရောင်အသားရှိသော အမြွာပေါင်း ၄ မြွာမှ ၈ မြွာထိပါလေ့ရှိသည်။ ထိုအသားမှာ ပျော့ညက်၍ ချိုပြီးလျှင် အေးသော အရသာရှိသည်။ အရည်ရွှမ်းသည်။ မြန်မာနိုင်ငံရှိ လူအများပင် ဒူးရင်းသီးကို စားသုံးကြပြီးနောက် မင်းကွတ်သီးကို စားသုံးလေ့ ရှိကြသည်။ ဒူးရင်းသီး၏ သဘာဝမှာ အပူများ၍ မင်းကွတ်သီးတွင် အေးသောသဘာဝဓာတ် ပါသဖြင့် အပူအအေး မျှတအောင် စားသည်ဟု ဆိုကြသည်။

မင်းကွတ်ပင်သည် ပူပြင်းစိုစွတ်သော ရာသီဥတုကို ကြိုက်နှစ်သက်သဖြင့် တနင်္သာရီတိုင်း၌ ထိုအပင်များ ကောင်းစွာ ဖြစ်ထွန်းကြသည်။ ထိုကြောင့် တနင်္သာရီတိုင်းတွင် မြေဩဇာထက်သန်သည့် ချိုင့်ဝှမ်းရပ်များနှင့် ပင်လယ် ကမ်းတလျှောက်ရှိ တောင်ခြေတို့၌ မင်းကွတ်ခြံကြီးများကို တွေ့မြင်ရသည်။

အပင်သစ် ပွားလာအောင် လက်ရှိ ပြုလုပ်နည်းမှာ အစေ့ကို စိုက်သည့်နည်းပင်ဖြစ်သည်။ ဤနည်းဖြင့် စိုက်ပျိုးလျှင် မင်းကွတ်ပင်များ အကြီးနှေး၍ အပင်သက် ၁၀ နှစ်ကျမှ အသီးသီးနိုင်သည်။ ထိုကြောင့် အသီး မြန်မြန်ရရှိရန်အတွက် အပင်ပေါက်စ အောက်ခံပင်များကို မျိုးကိုင်းများနှင့် အကိုင်းချင်း ဆက်နည်းဖြင့်၎င်း၊ မြေထုပ်ဆွဲခြင်း နည်းဖြင့်၎င်း စမ်းသပ် စိုက်ပျိုးလျက် ရှိကြသည်။ မင်းကွတ်ပင်များကို တပင်နှင့်တပင် ပေ ၂၀ စီခွာ၍ စိုက်ပျိုးကြသည်။

မင်းကွတ်ပင်သည် ဆောင်းရာသီ နိုဝင်ဘာလ လောက်မှ

စ၍ ဖေဖွာရီလကုန်၊ မတ်လဆန်းအထိ အပွင့်များ ပွင့်သည်။ မိုးဦးနှင့် မိုးလယ်လများဖြစ်သော မေလမှ ဩဂုတ်လအတွင်း အသီးများ မှည့်ကြသည်။ မင်းကွတ်သီးမှည့်သည် ချိုအေးသော အရသာနှင့် ပြည့်စုံသောကြောင့် ကမ္ဘာတွင် ကျော်ကြားသော သစ်သီးဖြစ်သည်။ ထိုကြောင့် နိုင်ငံတော်အစိုးရ စိုက်ပျိုးရေး ဌာနသည် မင်းကွတ်သီးများကို ဥရောပတိုက်နှင့် အာဖရိကတိုက် တောင်ပိုင်းသို့ နှစ်စဉ် တင်ပို့ ရောင်းချလေသည်။

မင်းကွတ်သီး အခွံ၊ အခေါက်နှင့် အရွက်နုများကို ဝမ်းကိုက် ရောဂါအတွက် ဆေးအဖြစ် အသုံးပြုကြသည်။ ထိုကြောင့် မင်းကွတ်သီးအခွံကို နေလှန်း၍ သိမ်းဆည်းထားတတ်ကြသည်။

**မင်းကွန်း။** ။မင်းကွန်းသည် စစ်ကိုင်းခရိုင် စစ်ကိုင်းနယ်တွင်တည်ရှိသော ရွာမျှသာဖြစ်သော်လည်း မင်းကွန်းတွင် ဘိုးတော်ဘုရား၏ လက်စ မသတ်သေးသော မင်းကွန်းပုထိုးတော်ကြီး၊ ကမ္ဘာတွင် ရုရှနိုင်ငံရှိ ခေါင်းလောင်းကြီး ၂ ခုနောက် တတိယလိုက်သော မင်းကွန်းခေါင်းလောင်း၊ ဘိုးတော်ဘုရား၏ အခြားကောင်းမှုတော်များ၊ ထိုပြင် ဒေါ်ဦးဋ္ဌန်း၏ လူအိုရုံတို့တည်ရှိရာ ဖြစ်သောကြောင့် မင်းကွန်းကို မြန်မာနိုင်ငံတွင် လူသိများပေသည်။

မင်းကွန်းသည် စစ်ကိုင်းမြို့၏ အရှေ့မြောက်ဖက် ၁၆ မိုင်ခန့်အကွာတွင် တည်ရှိသည်။ မန္တလေးမြို့၏ တဖက်ကမ်းဖြစ်၍ မြောက်ဖက် ၇ မိုင်ခန့် သမ္ဗန်ဖြင့် ဆန်တက်လျှင် မင်းကွန်းသို့ ရောက်ပေသည်။ မင်းကွန်းအထက်ရှိ တောင်သည် ရေပြင်ထက် ၁,၃၇၃ ပေမြင့်၍ ယင်းတောင်ထက်မှ ကြည့်လျှင် မန္တလေး၊ ကျောက်ဆည်၊ အင်းဝ၊ စစ်ကိုင်း၊ ရွှေဘိုနယ်များကို ကောင်းစွာရှုမျှော်နိုင်ပေသည်။ ယင်းတောင်ထိပ်မှ ကြည့်ရှုလတ်သော် မြင်းခြံနှ စကြာတောင်ကိုင်း၊ ပတ္တမြားကျောက်နီ တွင်းများကိုင်း ထင်ရှားစွာ မြင်နိုင်ပေသည်။

မင်းကွန်း ကမ်းသို့ တက်လေလျှင် ထုံးဖြူသုတ်ထားသော ပုံတော်ရာဘုရားကို ဖူးတွေ့နိုင်ပေသည်။ဥာဏ်တော်အားဖြင့် ၁၅ ပေသာရှိ၍ မင်းကွန်းပုထိုးတည်ရာ၌ ပုံနမူနာအဖြစ်တည်ထားခြင်း ဖြစ်သည်။ မင်းကွန်းပုထိုးသာ အပြီးတိုင်တည်ဆောက်ပြီးဖြစ်ပါက ပုံတော်ရာဘုရားအတိုင်းပင်ဖြစ်ပေမည်။ ဘိုးတော် ဘုရားသည် မင်းကွန်းဘွင် ယာယီစံနန်းတည်၍ မင်းကွန်းပုထိုးကို ၁၅ နှစ်မှ အနှစ် ၂၀ တိုင် ကိုယ်တော်တိုင် ကြပ်မ၍ တည်တော်မူသော ဟူ၏။ မင်းကွန်းပုထိုးတော်ကြီးကို ဘိုးတော်ဘုရား စ၍တည်သော်လည်း "ဘုရားလည်း ပြီး၊ ပြည်လည်းပျက်လတ္တံ့"ဟူသော တပေါင်ပေါ် သဖြင့် ပြီးဆုံးအောင် မတည်ခဲ့သောကြောင့် ယခုတိုင်တပိုင်းတစပင် ရှိချေသည်။ အကယ်၍သာ အပြီးသတ်ခဲ့သော် ဥာဏ်တော် ပေ ၅၀၀ မျှ ရှိမည်ဖြစ်၏။ ယခုအခါတွင် အပြီးမသတ်သော မင်းကွန်းပုထိုးသည် ပေ ၄၅၀ ပတ်လည်ရှိ၍ အမြင့် ၁၆၂ ပေရှိကာ ခရစ် ၁၈၃၈ ခုနှစ်က လျှောင်ဒဏ်ကြောင့် ယိုယွင်း



ဘိုးတော်ဘုရားလက်ထက်တွင် သွန်းလုပ်လှူဒါန်းခဲ့၍ ယခုတိုင် ကမ္ဘာတွင်ထင်ရှားလျက်ရှိသည့် မင်းကွန်းခေါင်းလောင်းကြီး။ နောက်ဖက်တွင် ပျက်စီးလျက်ရှိသော မင်းကွန်းပုထိုးတော် တစိတ်တဒေသကို ရှုမြင်နိုင်သည်။

ပျက်စီးလျက် ရှိနေပေသည်။ မင်းကွန်း ပုထိုးပျက်ကြီးကို ဧရာဝတီမြစ်မှ သင်္ဘောစီးလာလျှင် အဝေးမှ လှမ်း၍ မြင်နိုင်ပေသည်။ ပုထိုးတော်၏ ရှေ့တွင် ဧရာဝတီမြစ်ကို မျက်နှာမူလျက်ရှိသော နေရာ၌ ပျက်စီးနေသည့် ခြင်္သေ့ရုပ်ကြီးများကိုလည်း တွေ့နိုင်ပေသည်။ ပုထိုးတော်၏ မြောက်ဖက်တွင် ပုထိုးတော်အတွက် သွန်းလုပ်ထားသော မင်းကွန်း ခေါင်းလောင်းကြီးမှာ ယခုတိုင် မားမားမတ်မတ် တည်ရှိ ပေသည်။ (ခေါင်းလောင်းများ — လည်းရှု။)

မင်းကွန်းခေါင်းလောင်းကြီးနှင့် ကိုက် လေးငါးရာအကွာတွင် မြသိန်းတန်၊ သို့မဟုတ် ဆင်ဖြူမယ်ဟူ၍လည်းတွင်သော စေတီကို ဖူးတွေ့ရပေသည်။ ဘကြီးတော်ဘုရား နန်းမတက်မီ မြောက်သားတော် ဆင်ဖြူမယ် အနိစ္စရောက်သည်တွင် အထိမ်းအမှတ်အဖြစ် တည်သော စေတီဖြစ်၍ မြင့်မိုရ်တောင်ထိပ်ထက် တာဝတိံသာတွင် တည်ရှိသော စူဠာမဏိစေတီတော်အတိုင်း တည်ဆောက်သည် ဟူ၏။

ထိုပြင် မင်းကွန်း၌ ပုဂံမင်းတည်တော်မူသော စက်တော်ရာ ဘုရားကိုလည်း ဖူးတွေ့နိုင်ပေသည်။

ဤမည်သော စေတီပုထိုးတို့အပြင် မြစ်ကမ်းဘေး သစ်ပင်ကြီးများ၏ အာဝါသတွင် ဒေါ်ဦးဇွန်း၏ လူအိုရုံ (ယခုအခေါ် ဘိုးဘွားရိပ်သာ) လည်း တည်ရှိပေသည်။ မှီခိုအားထားရာမဲ့သော အိုမင်းမစွမ်းသည့်ဘိုးဘွားများ အေးငြိမ်းစွာနေခွင့်ရကြသော ထိုဘိုးဘွား ရိပ်သာတွင်း၌ အထူးသဖြင့် သနပ်ခါးပင်များကြောင့် သင်းပျံ့မွှေးကြိုင်လျက်ရှိပေသည်။

**မင်းကွန်းဆရာတော်** (မြန်မာ ၁၂၃၀ – ၁၃၁၆)။ ။မင်းကွန်းဆရာတော်သည် စစ်ကိုင်းမြို့မြောက်ဖက်၊ မြန်မာ တာ ၅ တိုင် (၁၀ မိုင်) မျှဝေးသော မင်းကွန်းအနောက်ရှိ ကန်ကြီးကုန်းရွာ၌ အဖ ဦးညို၊ အမိ ဒေါ်ပိုင်တို့မှ သက္ကရာဇ် ၁၂၃၀ ပြည့်နှစ် တပို့တွဲ လဆန်း ၅ ရက် စနေနေ့ ညနေ ၆ နာရီ အချိန်တွင် ဖွားမြင်သည်။ ငယ်မည် မောင်သာဗျော၊ဖြစ်၍ သားချင်း လေးယောက်အနက် တဦးတည်းသော ဒုတိယသားဖြစ်သည်။

အသက် ဂ နှစ် အရွယ်တွင် ကန်ကြီးကုန်းရွာ၊ စော်ကဲကျောင်း ဆရာဘုန်းကြီးထံ အပ်နှံ၍ ပညာသင်ကြားသည်။ ပညာဉာဏ် ထူးချွန်သည့်အလျောက် ကျောင်းသားဘဝ၌ပင် အခြေခံကျမ်းစာ အဖြာဖြာတို့ကို သင်ကြား တတ်မြောက်သည်။ ၁၄ နှစ်အရွယ်တွင် စော်ကဲကျောင်း ဆရာတော်ကို ဥပဇ္ဈာယ်ပြု၍ သာမဏေ ပြုသည်။ သာမဏေဘွဲ့ ရှင်နာရဒ ဖြစ်သည်။ သာမဏေဝါ ၄ ဝါ အရလောက်တွင် ဝိနည်း ၅ ကျမ်း ပြီးဆုံးအောင်မြင်သည်။ဤသို့ စာဝါများကို သင်ကြားနေစဉ် အဖ ဦးညို ကွယ်လွန်ခဲ့၏။ နောက် ၇ လခန့် အကွာတွင် အမိ ဒေါ်ပိုင်လည်း ကွယ်လွန်ခဲ့ပြန်၏။ ထို



ကျေးဇူးရှင် သထုံမြို့ မူလမင်းကွန်းဇေတဝန်ဆရာတော်ဘုရားကြီး

ကြောင့် ရှင်နာရဒသည် ၁၇ နှစ်အရွယ်တွင် လူထွက်၍ နှစ်မ၊ အစ်မများနှင့်အတူ လုပ်ကိုင် စားသောက်နေလေသည်။

အသက် ၂၀ ပြည့်တွင်မန်ကျည်းစု တောရကျောင်းဦးလက္ခဏကို ဥပဇ္ဈာယ်ပြု၍ ရဟန်းပြုသည်။ ရဟန်းဘွဲ့ ရှင်နာရဒပင် ဖြစ်သည်။ ဦးလက္ခဏထံ၌ ကျမ်းဂန် စာပေများကို အပြီးတိုင် လေ့လာ သင်ယူပြီးနောက် မင်းကွန်း တောင်ပေါ်ကြီးကျောင်းတိုက် ၃ ဂိုဏ်းချုပ် ဆရာတော် ဦးရာဇိန္ဒထံ၌၎င်း၊ မန္တလေးမြို့ မိုးကောင်းတိုက်၌၎င်း၊ ဒက္ခိဏဝန်ကျောင်းတိုက်၌၎င်း၊ မြတောင်ကျောင်းတိုက်၌၎င်း ပညာသင်ကြားသည်။ ထိုမှတဖန် ရွှေတောင်မြို့ ဝေဠုဝန်ကျောင်း ဆရာတော်ထံ၌ သိတင်းသုံးပြီးနောက် ဆရာတော် ဦးရာဇိန္ဒထံသို့ ပြန်လာနေထိုင်ကာ သာသနာ့အကျိုးကို ဆောင်ရွက်သည်။

ပဉ္စင်းငယ် ဘဝနှင့် ၆ ဝါ ရသောအခါ တဖန် လူဝတ်လဲကာ ရဟန်းဘဝမှ သက်ခဲ့ပြန်သည်။ လူဘဝ၌ တနှစ်ကျော်ကြာခဲ့ပြီးနောက် ဆရာတော် ဦးရာဇိန္ဒကိုပင် ဥပဇ္ဈာယ်ပြုကာ ရဟန်းပြန်တက်၍ စာပေ ပရိယတ္တိများကို သင်ကြားသည်။ ထို့နောက် လက်ပံတန်းမြို့သို့ ကြွ၍ စာဝါများ ပို့ချခဲ့ရာမှ တဝါမျှ အကြာတွင် မင်းကွန်းအလယ်တောရ ဆရာတော်ထံ ခိုဝင်ဆည်းကပ်ကာ ပဋိပတ်လမ်းစဉ်များကို နည်းခံ၍ နေထိုင်သည်။ သက်တော် ၃၇ နှစ်အရွယ်မှစ၍ ၃ နှစ်တိုင်တိုင် ပဋိပတ် လုပ်ငန်းများကို ပြင်းပြင်း ထန်ထန် ကြိုးစားခဲ့လေသည်။

သက်တော် ၄၀ တွင် မြို့လှသို့ ကြွ၍ ပဋိပတ် လုပ်ငန်းများ

တိုးတက်ရန် ဟောပြောဆုံးမတော်မူ၏။ ထိုမှ သထုံမြို့သို့ ကြွ၍ မင်းကွန်း ဇေတဝန်ကျောင်းကို တည်ထောင်ကာ သီတင်းသုံးတော်မူသည်။ သထုံမြို့တွင် ၁၀ နှစ်ကျော်မျှနေပြီးနောက် မူလ မင်းကွန်း ဂူလေးချောင်သို့ ပြန်ကြွတော် မူပြန်သည်။ တဖန် မူလမင်းကွန်းမှ သထုံမြို့သို့ တပည့်ရဟန်းတော်များ၏ ပင့်လျှောက်ချက်အရ ကြွရောက်လာပြီးလျှင် အသက်ထက်ဆုံး သီတင်းသုံးတော်မူကာ တရားဓမ္မ ဟောပြောတော်မူသည်။သက္ကရာဇ် ၁၃၁၆ ခုနှစ် တပေါင်းလဆုတ် ၁၀ ရက် သက်တော် ၈၆ နှစ်တွင် ပျံလွန်တော်မူသည်။

ပြုစုတော်မူခဲ့သော ကျမ်းများမှာ။ ၁။ ပေဋကောပဒေသအဋ္ဌကထာပါဌ်။ ၂။ ပေဋကောပဒေသ နိဿျ ပထမတွဲ၊ ဒုတိယတွဲ၊ တတိယတွဲ။ ၃။ သဒ္ဒေတ္ထာဝိမိဝိဿဇ္ဇနာ။ ၄။ အာရဗ္ဘာဝိမိဝိဿဇ္ဇနာ။ ၅။ ဝိသုဒ္ဓိမဂ်အဋ္ဌကထာ နိဿျ သစ်။ ၆။ တောလေးဆယ်ဖွင့်။ ၇။ မိလိန္ဒပဉှာ အဋ္ဌ ကထာပါဌ်။ ၈။ နိဗ္ဗာနကထာ (စကားပြေ)။ ၉။ နိဗ္ဗာန် လမ်းညွှန် ဒေသနာ။ ၁၀။ နိဗ္ဗာန် စာတမ်း။ ၁၁။ သတိပဋ္ဌာနစာတမ်း။ ၁၂။ သတိ ပစ္စယေခေါ် ဝိနိစ္ဆယသမူဟ။ ၁၃။ ကထိနဝိနိစ္ဆယ (စကားပြေ)။ ၁၄။ ကထိန်နိဿျ။ ၁၅။ ဖလ သမာပတ်။ ၁၆။ မဟာ သဠာယတနသုတ် နိဿျ။ ၁၇။ မူလ ပရိယာယသုတ် နိဿျ။ ၁၈။ ပါဒ်ပါဒ ရဟာဝိနိစ္ဆယ။ ၁၉။ ပဋိညာတ ကရဏ ဝိနိစ္ဆယ။ ၂၀။ သိမ်ခဏ်း။ ၂၁။ ဝိပဿနာ ဥာဏ်စဉ်ကျမ်းကြီး။ ၂၂။ အနုသယ ဆိုင်ရာ။ ၂၃။ အတိရိတ်ပြုပုံ အဆုံးအဖြတ်တို့ ဖြစ်သည်။

မင်းကွန်း ဆရာတော်ကို မြို့လှဘုန်းကြီးဟူ၍ငင်း၊ မူလမင်းကွန်းဇေတဝန် ဆရာတော်ဟူ၍ငင်း ခေါ်ဝေါ်၍ တပည့် တပန်းတို့က ရဟန္တာ အရှင်မြတ်ဟု သမုတ် ကြသည်။

**မင်းခေါင်ဘုရင်များ။** ။မြန်မာ နိုင်ငံသမိုင်းတွင် မင်းခေါင် အမည်ဖြင့် မင်းနှစ်ပါးပေါ် ထွန်းခဲ့၏။ နှစ်ပါးလုံးပင် အင်းဝထီးနန်းကို စိုးစံခဲ့ကြပေသည်။

**ပဌမမင်းခေါင်** (မြန်မာ ၇၆၃ – ၇၈၃)။ ။ပဌမ မင်းခေါင်ဟူ၍ငင်း၊ မင်းခေါင်ကြီးဟူ၍ငင်း ထင်ရှားသော ဤမင်းသည် အင်းဝရွှေနန်းကို သက္ကရာဇ် ၇၆၃ ခုနှစ် မှ ၇၈၃ ခုနှစ်အထိစိုးစံသည်။ မင်းကြီးစွာစော်ကဲ၏ သားတော်ဖြစ်၍ ပုဂံ နရသီဟပတေ့ တရုပ်ပြေးမင်း၏ တီတော် ဖြစ်သည်။ ခမည်းတော်မင်းကြီးစွာစော်ကဲသည် သားတော်ကြီး ဆင်ဖြူရှင် တရဖျားအား အိမ်ရှေ့အရာနှင်းသောအခါ၊ သားတော်ငယ်များဖြစ်သော မင်းဆွေနှင့် ရှင်သိဒ္ဓတ်တို့အား နောင်တော်အိမ်ရှေ့မင်းသား မင်းဖြစ်သောအခါ နှိပ်စက်ညှဉ်းပန်းမည်စိုး၍ ငယ်စဉ် မျက်ကွယ်ရာ၌ သေသည်က ကောင်းတော့သည်ဟု ယူဆကာ ထွန်းတုံးပူတက်၊ တောင်တွင်း ကျောက်စစ်၊ ပန်းထိမ်းမဘဲ အစရှိသော အရပ်ဘိုတွင် အထိန်းတော် ခေင်ညို၊ ခေင်ဘား၊ ထိုပြင် မင်းဥဒိန်ဘိုနှင့်ထား၏။ မင်းဆွေကား မင်းခေါင်၏ငယ်မည်ဖြစ်၏။ ထိုအခါ ခေင်ညိုကား ညှင်း၊ ခေင်ဘားကား စည်းဆုပ်ကို တီးမှုတ်၍နတ်ကရာတိုင်း ရသောလာဘ်သပ္ပကာတို့ဖြင့် မိမိတို့အဆင်းရဲခံကာ မင်းဆွေနှင့် ရှင်သိဒ္ဓတ်တို့အား လုပ်ကျွေးမွေးမြူကြ၏။ မင်းဥဒိန်မူကား ခေင်ညိုနှင့် ခေင်ဘားတို့လောက် အဆင်းရဲ မခံနိုင်သဖြင့် ဦးရိုးတော် တူရှင်းစား မင်းစောကျိုင်း၏ ထံသို့ ဝင်၍ အမှုထမ်းလေ၏။

မင်းဆွေအသက် ၉ နှစ်၊ ရှင်သိဒ္ဓတ်အသက် ၇ နှစ် ရှိသောအခါ၊ ခမည်းတော် မင်းကြီးစွာစော်ကဲသည် သားတော်နှစ်ပါး၏ ကံအတိုင်းပင်ဟု အောက်မေ့ပြန်ကာ ခြေတော်ရင်းသို့ခေါ် တော်မူပြီးလျှင်၊ ပင်လယ်ကျေးသဃ်ရာဇာ ဆရာတော်ထံတွင် အပ်နှံ၍ စာပေပညာများ သင်ကြားစေသည်။ ထိုသို့ ပညာသင်ယူဆဲ အသက် ၁၂ နှစ်အရွယ်ဘွင် မင်းဆွေသည် မိမိ၏ အူများထွက်၍ အင်းဝမြို့အလုံး ရစ်ပတ်သည်ဟု အိပ်မက်လေရာ၊ ဆရာတော်အား ညဉ့်သန်ကောင်ကျော်အချိန်တွင် နိုး၍ လျှောက်ထားလေလျှင်၊ ဆရာတော်က မင်းဆွေ မင်းဖြစ်မည်ဟု နိမိတ်ဖတ်၏။ နောက်များ မကြာမီပင် မင်းဆွေသည် မင်းသားဘိုု၏ အဆောင် အယောင်နှင့်တကွ ပြင်စည်မြို့ကို စားရသည်။ မင်းဆွေသည် မင်းသားတကာတို့ တတ်သင့် တတ်ထိုက်သော ဆင်၊ မြင်း၊ ကာ၊ လွှား၊ လေး၊ လုံ အတတ်၊ ရာဇဝင် ထုံးပုံနည်းနာ၊ ပြည်ထဲရေးရာ အဖြာဖြာ ခွဲဝေမှုဘိုကို တတ်မြောက်သည့်အပြင် ခမည်းတော်၏ ပညာရှိ စည်းတပြစ်အမတ်ကြီး(နောင်သော်ဘိုးရာဇာတွင်သည်)ထံတွင်လည်း ဆည်းကပ်၍ ဆုံးမသြဝါဒ ခံယူခဲ့ပေသည်။

သက္ကရာဇ် ၇၆၂ ခုနှစ်တွင် မင်းကြီးစွာစော်ကဲ လွန်လေသော် သားတော် ဆင်ဖြူရှင်တရဖျား ထီးနန်း ဆက်ခံ၏။ ထိုနောက် အထိန်းတော် ငနောက်ဆံ လုပ်ကြံ၍ တရဖျား လွန်လေသော်၊ မှူးတော်မတ်တော်တို့သည် နန်းကို သိမ်း၍ အခိုင်အလုံနေသော ငနောက်ဆံကို ညှိနှိုင်းတိုင်ပင် လုပ်ကြံပြီးလျှင် မင်းဆွေအား မင်းပြုပါမည့်အကြောင်း လျှောက်ထားကြ၏။ အစသော် မင်းဆွေသည် မိမိ၌ အင်အားအလုံးအရင်းမရှိသောကြောင့် ဦးရိုးတော် ရမည်းသင်းစား မဟာပြောက်အား မင်းပြုစေတော့ဟူ၍ နန်းကို လွှဲ၏။ ဤအကြောင်းကို ညီတော် ရှင်သိဒ္ဓတ်ကြားသော် မကျေမနပ်ဖြစ်လျက်၊ မင်းပြုရမည်ဟူ၍ အလုံးအရင်းနှင့်ချီလာကာ စကားအင်း တောင် ရန်အောင်မြင်အရပ်တွင်တပ်ချနေသောရမည်းသင်းစား မဟာပြောက်အား အမှတ်မဲ့နေခိုက် အလုံးအရင်းဖြင့် တိုက်လေရာ ရမည်းသင်းစားမဟာပြောက် ကြမ္မာကုန်၏။ ထိုအခါ မှူးမတ်တို့လည်း တဖန်စုရုံးတိုင်ပင်ကြပြီးလျှင်

၇၆၃ ခုနှစ်တွင် မင်းဆွေအား မင်းမြှောက်ကြ၏။ ထိုသို့ အထွတ်အထိပ်သို့ ရောက်တော်မူပြီးနောက်၊ ပုဂံ ရွှေစည်းခုံသို့ သွားရောက်ဖူးမျှော်တော်မူလေရာ ရွှေစည်းခုံဘုရား အရှေ့တောင်ထောင့်က ခြသေ့ရုပ်သည် နားပါးဦးလည်ထောင်၍ အမြီးကိုချီလျက် မူးစရုပ်ပြုသောဟူ၏။ ထိုညဥ့် စက်တော်ခေါ်သောအခါ မင်းခေါင်ဟူသော အမည်ကို ခံလေဟူ၍ အိပ်မက်ပေးသောကြောင့် မင်းခေါင်ဟူသော အမည်ကို ခံတော်မူသည်။

မင်းခေါင်သည် မင်းဖြစ်လာသောအခါ ဆင်းရဲစဉ် ရောင်းရင်းဘက်တို့ကို ပြစုချီးမြှင့်တော်မူသည်။ နန်းတက်ပြီး၍ မကြာမီပင် ရခိုင်တို့က ထိပါးလာသည်။ နောက်မွန်တို့က လည်း အင်းဝသို့ စစ်ချီလာသည်။ ထိုစဉ်က မွန်တို့ဘုရင်ကား ရာဇာဓိရာဇ်တည်း။ (ရာဇာဓိရာဇ် — ရှု။) မင်းခေါင်ဘုရင်၏ နန်းသက်တလျှောက်လုံးဆိုသလိုပင် မွန်နှင့် ရခိုင်၊ အထူးသဖြင့် မွန်တို့နှင့် စစ်တိုက်နေခဲ့ရပေသည်။ မင်းနှစ်ပါးလုံး ဘုန်းတန်ခိုးနှင့် ပြည့်စုံကာ၊ ၂ ဖက်လုံးတွင်လည်း သူရဲကောင်းများရှိ၏။ မွန်တို့ဖက်မှ လကွန်းအိမ်၊ သမိန် ဗိပ်ဖြူ၊ သမိန်ဖြတ်စ စသည့် သူရဲကောင်းများသည်၎င်း၊ မြန်မာတို့ဖက်မှ မိုးညှင်းသတိုး၊ သားတော် မင်းရဲကျော်စွာ၊ ဘယဂါမဏိ၊ ရာဇသင်္ကြံစသည်တို့သည်၎င်း များစွာအားကိုးရသော သူရဲကောင်းတို့ဖြစ်၏။ မင်းရဲကျော်စွာမှာ ရှေးဘဝက ရာဇာဓိရာဇ်၏ သားတော် ဗောလေဘကျန်းတော ဆုတောင်း အဓိဋ္ဌာန်ပြုချက်အရ မြန်မာမင်းတွင် လာရောက်ဝင်စားသောဟူ၏။ ဘုရင်မင်းခေါင်အား မင်းမှုရေးရာ အဖြာဖြာတွင် အကြံဉာဏ် ပေးသော အမတ်ပညာရှိမှာ အခြားသူမဟုတ် ဝန်စင်း ဘိုးရာဇာပင်ဖြစ်၏။ ( ဘိုးရာဇာ — ရှု။ ) ထိုပြင် ပင်းယ စကြိုသူမြတ်သည်လည်း ၇၆၆ ခုနှစ်တွင် မွန်ဘုရင် ရာဇာဓိရာဇ် အင်းဝသို့ချီတက်လာ၍ မြန်မာတို့အကြပ်တွေ့နေစဉ် နှစ်ဦးနှစ်ဖက်မှ ဓားမကျိုး၊ လှံမကျိုးစေရဘဲ နှုတ်ရေးဖြင့်သာ ပြေငြိမ်းမှုရအောင် ဆောင်ရွက် ပေးခဲ့လေသည်။ (စကြိုသူမြတ် — ရှု။)

သက္ကရာဇ် ၇၆၅ ခုနှစ်တွင် ရခိုင်ဘုရင် ထော်ရာကြီး ထိပါးလာ၍၊ သားတော် မင်းရဲကျော်စွာ ရခိုင်သို့ချီတက်တိုက်ခိုက်ပြီးလျှင် မင်းခေါင်ကြီး သမီးတော် စောပြည့်ချမ်းသာနှင့် စုံဖက်သော အနော်ရထာစောကို နန်းတင်ခဲ့သည်။

ယင်းနှစ်တွင်ပင် အနုန်ဘောင်စော်ဘွား သိုကြောင်ဘွားနှင့် ရဲမက်အများ ထွန်တုံးပူတက် အရပ်တို့ကို ထိပါးလာ၏။ ဘုရင်မင်းခေါင် သိတော်မူလျှင် မင်းရာဇာအစရှိသော ပညာရှိ မှူးမတ်တို့ကို ခေါ်တော်မူပြီးလျှင် တိုင်ပင်တော်မူလေရာ မင်းရာဇာ၏ လျှောက်ထားချက်အတိုင်း အနုန်ဘောင်စော်ဘွားကို အမြိုတ်အစွန်တော်နှင့် သူကောင်းပြုသောအားဖြင့် ရန်မီးငြိမ်းစေခဲ့သည်။

ခမည်းတော် မင်းကြီးစွာစော်ကဲလက်ထက်က စတင်ခဲ့သော မွန်တို့နှင့် ဖြစ်ပွားသည့် အရေးအခင်းသည် မင်းခေါင်လက်ထက်တွင်လည်း ဆက်လက် ဖြစ်ပွားခဲ့ပေသည်။ သက္ကရာဇ် ၇၆၆ ခုနှစ်တွင် ရာဇာဓိရာဇ်သည် လှေတပ်ကြီးစွာဖွဲ့၍ အင်းဝမြောက် ရွှေကြက်ယက်အထိ ဆန်တက်လာသည်။ မြန်မာတို့လှေတပ် အားမတူသဖြင့် ထွက်မတိုက်ဝံ့၍ မြို့ပြအလုံပိတ်၍သာ နေကြရသည်။ နောင် ပင်းယစကြိုသူမြတ်ဟောပြောဆုံးမ၍ ရာဇာဓိရာဇ် ဟံသာဝတီသို့ ပြန်သည်။ (စကြိုသူမြတ် — လည်းရှု။) သို့သော်ရန်မီးကား လုံးဝငြိမ်းအေးသွားသည်မရှိပေ။ မင်းခေါင်လက်ထက် ရာဇာဓိရာဇ်နှင့်တိုက်သောစစ်ပွဲများတွင် မင်းခေါင်သည် သားတော်မင်းရဲကျော်စွာကို များစွာ အားကိုးရပေသည်။ မင်းရဲကျော်စွာသည် ၇၇၈ ခုနှစ်တွင် သေစာသောက်ကြူးလျက် ဗိုလ်မှူးတပ်မှူးတို့၏ စကားကို နားမထောင်ဘဲ မွန်တို့ စစ်မြူရာသို့ လိုက်လံတိုက်ခိုက်ရာတွင် ကျဆုံးရ၏။ မင်းခေါင်သည်လည်း သားတော်ကျဆုံးသည်တွင် များစွာ စိတ်ထိခိုက်ခဲ့ရလေသည်။ (မင်းရဲကျော်စွာ — လည်းရှု။)

မင်းကြီးစွာစော်ကဲ လက်ထက်ဘင်၎င်း၊ မင်းခေါင်လက်ထက်တွင်၎င်း ရာဇာဓိရာဇ်နှင့်တိုက်ရသောစစ်ပွဲများတွင် မြန်မာတို့က ပဲခူးကိုရသည်ဟူ၍ မရှိသော်လည်း မွန်ပြည်တွင်း၌ တိုက်ခိုက်ခဲ့သည်သာ များသည်။ မြန်မာတို့က အနုန်ဘောင်၊ ညောင်ရွှေ၊ကလေး၊မိုးညှင်း၊ရှမ်းပြည်ဘို့ကို အစိုးရသဖြင့် ရှမ်းတပ်များပါဝင်သည်။ စစ်ချီရာလမ်းမှာ(၁)ရေဇာတီကြောင်းချီပြီးလျှင် ပြည်မြို့ကို စခန်းမကြီး ပြုလျက် လှိုင်မြစ်ကြောင်းဖြင့် ဒဂုံသို့ချီသော တလမ်း၊ (၂) စစ်တောင်းမြစ်ဝှမ်းကိုလျှောက်၍ တောင်ငူသို့ချီသော တလမ်း ဖြစ်လေသည်။

စစ်တိုက်ခိုက်ရာ၌ ခြေခင်းလက်ခင်း သာသည့်အခါ၌သာ တိုက်ခိုက်ကြသည်။ မိုးကျလျှင် ပြန်ကြပြန်သည်။ တိုက်ခိုက်ကြပုံမှာလည်း မြန်မာနှင့် ယိုးဒယား၊ မြန်မာနှင့် တရုပ်တို့ကဲ့သို့ စစ်မျက်နှာဖြန့်လျက် အကြီးအကျယ် ခင်းကျင်းတိုက်ခိုက်ခြင်းနည်းသည်။ တတပ်က မြို့တွင်းကခံ၊ တတပ်ကအပြင်ကတိုက်၊ သို့မဟုတ် တပ်ချီလာသည်ကို တတပ်က ပုန်းကွယ်၍ တိုက်၊ မင်းချင်း၊ ဗိုလ်မှူးချင်း၊ ဆင်စီးလျက် မြင်းစီးလျက် တိုက်၊ ဆင်ဦးလှည့်၍ ပြေးလျှင် စစ်ရှုံး၊ ဤသို့သာ များကြသည်။ စစ်ဖြစ်လွယ်သည်။ စစ်ပွဲအတွင်း တဖက်နှင့် တဖက် သွားလာကျေးမွေး ခေါ်ငင်ကြသည်လည်း ရှိသည်။

ထိုစစ်အတွင်း အရှင်၏သစ္စာကို မှန်ကန်စွာ စောင့်ထိန်း၍ အမှုထမ်းသော သူရဲကောင်းတို့လည်း ရှိသည်။ တဖက်မှတဖက်သို့ ဝင်စားကြသည်လည်း ရှိသည်။ သူရသတ္တိပြည့်စုံစွာ တိုက်ခိုက်ကြသည် ရှိသော်လည်း မင်းရဲကျော်စွာက လကွန်းအိမ်ကို လှည့်ဖြားသကဲ့သို့ ဥပါယ်တံမျဉ်ဖြင့် လှည့်ပတ်၍ တိုက်ခိုက်ကြသည်လည်း ရှိလေသည်။

၇၇၄ ခုနှစ်၌ သိန္နီစော်ဘွား ထိပါးလာ၏။ သို့သော် မင်းရဲကျော်စွာ တိုက်ခိုက်သဖြင့် မြန်မာတို့ အနိုင်ရသည်။ ၇၇၅ ခုနှစ်ကလည်း မြေဒူးမြို့ကို မော်တုံမော်ကယ်စား ရှမ်းညီနောင်တို့ ထိပါးလာသော်လည်း မင်းရဲကျော်စွာပင် တိုက်ခိုက်နှိမ်နင်းခဲ့သည်။ ၇၇၆ ခုနှစ်တွင် တရုပ်တို့ တပ်ကြီးချီလာရာ၊ မွန်သူရဲကောင်းသမိန်ဗရမ်း အင်းဝတွင်ရှိ၍၊ တရုပ် သူရဲကာဏကို သမိန်ဗရမ်း စီးချင်းတိုက်၍နိုင်သည်တွင် တရုပ်တို့ပြန်လေသည်။ (သမိန်ဗရမ်း — လည်းရှု။)

မင်းခေါင်ကြီးသည် ၇၈၃ ခုနှစ်တွင် အနိစ္စရောက်သည်။ မင်းခေါင်ကြီးသည် စစ်ပွဲများတွင် ကိုယ်တိုင် ဝင်ရောက်တိုက်ခိုက်လျက် လက်ရုံးရည်ဖြင့် ပြည့်ဝသကဲ့သို့ပင် နှလုံးရည် ပြည့်ဝသူလည်းဖြစ်၏။ "နန္ဒဝန်လျှင်၊ အသွန်စည်ပင်၊ ကျင်လည်ဇာတိ၊ မွေးကျိုးရှိ၍" ချီသော ကျေးစေရတုတပုဒ်ကိုကိုယ်တော်တိုင် စပ်ဆိုခဲ့သည်။ မြန်မာမှုကို များစွာအားပေးခဲ့သည်။

**ဒုတိယ မင်းခေါင် (မြန်မာ ၈၄၂ – ၈၆၃)။** ။ဒုတိယမင်းခေါင်သည် မင်းခေါင်ကြီး၏နောက် နှစ်ပေါင်း ၅၉ နှစ်အလွန်၊ ၈၄၂ ခုနှစ်တွင် အင်းဝထီးနန်းကို စံမြန်းသည်။ ဒုတိယမင်းခေါင်သည် မိုးညှင်းမင်းတရား၏ သားတော် အငယ်နရပတိ၏ သားတော် ပြည်စုံမင်းခေါ် သီဟသူ၏ သားတော်ဖြစ်၏။

ဒုတိယမင်းခေါင် လက်ထက်တွင် ညီတော် စလင်းမင်း၊ ရမည်းသင်းမင်း၊ ဘထွေးတော် ပြည်မင်းတို့ ခြားနားကြသည်။ မြောက်ဖက်၌ မြေဒူး၊ ရေနံကို ရှမ်းတို့ အထိအပါးများသည်။

သားတော်ကို သီဟသူအမည်နှင့် မင်းမြှောက်သည်။ နန်းတခုတည်းပေါ်တွင် မင်း ၂ ပါး ထီးဖြူဆောင်း၍ မင်းပြိုင်အုပ်စိုးသည်။ သီဟသူသည် သက္ကရာဇ် ၈၆၂ ခုနှစ်တွင် အနိစ္စရောက်သည်။

ဒုတိယမင်းခေါင်သည် တောင်ငူမင်းကြီးညိုအား မဟာသီရိဇေယျသူဘွဲ့နှင့် ထီးဖြူဆောင်းစေသည်။

ဒုတိယမင်းခေါင်သည် ပညာရှိတို့ကို မြတ်နိုး၍ချီးမြှောက်တော်မူသည်။ ဤမင်းလက်ထက်တွင် ရှင်မဟာ သီလဝံသ၊ ရှင်မဟာရဋ္ဌသာရ၊ ရှင်ဥတ္တမကျော်၊ ရှင်အဂ္ဂသမာဓိ စသောပုဂ္ဂိုလ်ကျော်များ ပေါ်ပေါက်ကာ ပျို့၊ လင်္ကာကဗျာများ အထူးတလည် စည်ပင်တိုးပွားသည်။ ဒုတိယ မင်းခေါင်သည် စာသဘင်များ ကျင်းပကာ ရှင်မဟာသီလဝံသနှင့် ရှင်မဟာရဋ္ဌသာရတို့၏ ပျို့၊ လင်္ကာများကို ယှဉ်ပြိုင်ကြားနာသည် ဟူ၏။ ဆရာတော်နှစ်ပါးကို များစွာကြည်ညိုလျက် မင်းဆရာအဖြစ် ချီးမြှောက် လေသည်။

ဒုတိယ မင်းခေါင်သည် မင်းသားတို့ တတ်အပ်သော အတတ်များကို ကောင်းစွာတတ်မြောက်ကာ အထူးသဖြင့် မြင်းစီးခြင်းအတတ်၊ လေးအတတ်တို့တွင် ကျွမ်းကျင်သည်ဆို၏။

ဒုတိယမင်းခေါင်သည် သက္ကရာဇ် ၈၆၃ ခုနှစ်တွင် လွန်တော်မူသည်။

**မင်းခေါင်နော်ရထာ။** ။မင်းခေါင်နော်ရထာသည်ကား ကုန်းဘောင်မင်းဆက် တည်ထောင်ဦးက အလောင်းမင်းတရား၏ ရဲဘက်တော် စစ်သူကြီး ဖြစ်၏။ စစ်မှုရေးရာတွင် လိမ်မာကျွမ်းကျင်၍ ရှုပ်ရှုပ်ချွံချွံ တိုက်စွမ်းရှိသောကြောင့် တပ်ဦးမှ ချီ၍ တိုက်ခဲ့ရသော သူရဲကောင်း တယောက်လည်း ဖြစ်သည်။ သို့သော် အလောင်းမင်းတရား ကံတော်ကုန်ပြီးသည့်နောက်တွင် မူကား မင်းခေါင်နော်ရထာသည် အလောင်းမင်းတရားကြီး၏ သားတော် မြေဒူးမင်း (နောင်သော် ဆင်ဖြူရှင်) နှင့် စိတ်ဝမ်းကွဲပြီးလျှင် မင်းကို ပုန်ကန်သောသူပုန်အဖြစ် သေနတ်ချက်ဖြင့် ဇာတ်သိမ်း ကျဆုံးရပေသည်။

မင်းခေါင် နော်ရထာ၏ အမည်ရင်းမှာ ဗိုလ်ဘွန် သို့မဟုတ် မုဆိုးချုံဗိုလ်တွန်ဖြစ်သည်။ မင်းခေါင် နော်ရထာသည် အလောင်းမင်းတရားကြီးနှင့် ပြည်ထောင်ဖက် ရဲဘော်ကြီးဖြစ်သည့်အတိုင်း ပွဲလမ်းရှိသမျှကို ရှုပ်ရှုပ်ချွံချွံ တိုက်ခိုက်၍ အောင်ပွဲရသည်ကား များ၏။ ကသည်းပြည်သို့ သွားရောက် တိုက်ခိုက်ခဲ့စဉ်က မင်းခေါင်နော်ရထာသည် သောင်သွပ်မှ ချီတက်ရသည်။ ယိုးဒယားသို့ ချီတက်တိုက်ခိုက်ရာတွင်လည်း ရှေ့ချီတာဝန်ခံ တိုက်ရသော ဗိုလ်မှူးကြီး ဖြစ်လေသည်။

ထိုသို့ ယိုးဒယားသို့ သွားရောက်တိုက်ခိုက်ခဲ့စဉ်က အလောင်းမင်းတရား၊ မြေဒူးမင်း၊ မင်းလှနော်ရထာတို့နှင့်အတူ ရှေ့တန်းက သွားရောက်တိုက်ခိုက်ရာ၌ အရေးပုံမလှသဖြင့် အလောင်းမင်းတရားကြီးတို့ တပ်တော်နုတ်၍ ဆုတ်ခွာရာတွင် အထူးယုံကြည်အားကိုးတော်မူသည့်အလျောက် အရေးအကြီးဆုံးဖြစ်သည့် နောက်ခံတပ်ကို ဦးစီးကွပ်ကဲရန် မင်းခေါင် နော်ရထာအား အပ်နှံတာဝန်ချထားခဲ့၏။ မင်းခေါင်နော်ရထာသည် အရှင်သခင်၏ ကျေးဇူးသစ္စာတော်ကို အထူး စောင့်ထိန်းသူဖြစ်၏။ တပ်များအားလုံး နောက်ဆုတ်၍ ခရီးတတိုင် ၂ တိုင်ခန့်ရောက်လေလျှင် ယိုးဒယားတို့မြို့က အလုံးအရင်းနှင့် ထွက်ရောက်တိုက်ခိုက်၏။ မင်းခေါင်နော်ရထာမူကား မြို့ရင်းတွင်ပင် တပ်နှင့် ကြံ့ကြံ့ခံနေ၏။ ယိုးဒယားတို့လည်း အထပ်ထပ် ဝန်းရံထားကြရာ တပ်မှူးများသည် ယိုးဒယားတို့၏ စစ်အင်အားကို မိမိတို့ ခံနိုင်မည်မဟုတ်ဘဲ၊ ကြာလျှင် ဆုတ်ခွာနိုင်ရန်ပင် ခဲယဉ်းမည်ကို စိုးရိမ်သောကြောင့် မြောက်ကဝန်းရံထားသော ရန်သူတပ်များကို ထိုးဖောက်၍ ထွက်မှ သင့်မည့်အကြောင်း ပြောဆိုသည်ကို မင်းခေါင်နော်

ရထာ လက်မခံခဲ့ပေ။ မင်းခေါင်နော်ရထာအားကား "မင်းတရားကြီးဆုတ်ခွာသွားသည်မှာ နှစ်စခန်းသုံးစခန်းမျှသာ ရှိသေးသည်။ ယခု ငါတို့ ထိုးဖောက်၍ထွက်လျှင် တိုက်ပွဲများ ဖြစ်မည်။ တိုက်ပွဲဖြစ်လျှင် ငါတို့အား ကူညီရသည်နှင့် စခန်းနှောင့်နှေးချေတော့မည်။ မကြောက်ကြနှင့်" ဆိုကာ မမာမကျန်းဖြစ်နေသော အလောင်း မင်းတရားကြီး အဆုတ်အခွာ ပျက်မည်ကို စိုး၍ အသက်ကို ပမာဏမထားဘဲ ယိုးဒယားတပ်များ၏ အဝိုင်းကိုသာခံ၍ နေလေသည်။ မြို့တွင်းမှ ထွက်၍ ရံသော တပ်များကိုမူကား မိမိကိုယ်တိုင် ခေါင်းဆောင်၍ တိုက်ရာ ယိုးဒယားတပ်များ ပျက်လေသည်။

မင်းခေါင်နော်ရထာ ထွက်၍ တိုက်သံကို ကြားလျှင် ဒုတိယ နောက်ခံတပ်ကို ကွပ်ကဲသော မင်းလှနော်ရထာလည်း မိမိတပ်များနှင့် အဆောတလျင် အကူအညီ လာ၏။ ဤအကြိမ်တွင်လည်း မင်းခေါင် နော်ရထာသည် အရှင်သခင်ကို ငဲ့ညှာကာ သွေးသောက်မှာ ဘဝရှင် မင်းတရားကြီးကိုသာ မှီအောင် လိုက်လေ၊ နောက်က အရေးအကြောင်းမှာ ငါ့တာဝန်ထားဟု ပြောသောကြောင့် မင်းလှ နော်ရထာသည် အလောင်း မင်းတရားကြီး နောက်တော်သို့သာ လိုက်ရလေသည်။

အလောင်း မင်းတရား နတ်ရွာစံကြောင်း သိသော အခါ မင်းခေါင်နော်ရထာသည် မြေဒူးမင်းနှင့် စိတ်ဝမ်းကွဲလျက်ရှိသည့် အလျောက် တပ်များကို မှီအောင် မလိုက်ဘဲ တောင်ငူကြောင်း ပြန်လေသည်။ မင်းခေါင်နော်ရထာသည် မြေဒူးမင်း၏ နောင်တော် (နောင်တော်ကြီး) ထံ လူလွှတ်၍ မြေဒူးမင်းသည် ဗိုလ်မှူးတပ်မှူးတို့ဖြင့် မုတ္တမ မြသိန်းတန်ဘုရားမှာ သွေးသစ္စာ စည်းကြပ်ကြောင်း၊ နောက်တပ်များကိုလည်း မျိုးရိက္ခာမပေးမပို့စေရ၊ စစ်တောင်းမြို့သူကြီး ခေါင်းအကြီးတို့ကို ဆင့်ဆိုကြောင်း၊ မားတော်ယိမ်းနွံပါးကိုလည်း သိမ်းယူကြောင်း၊ ထုတ်ချာဒေဝီနှင့်လည်း အပြောအဆိုရှိကြောင်းတို့ကို လျှောက်ထား၏။ တဖန် မြေဒူးမင်းကလည်း မင်းခေါင်နော်ရထာသည် တမင်ချန်ရစ်နေကြောင်း၊ လူလက်နက်သိမ်းသွင်းကြောင်း၊ အခေါ်လွှတ်သော်လည်း မလိုက်ဘဲ တောင်ငူသို့ ချီကြောင်း၊ ခမည်းတော် နတ်ပြည်စံတော်မူပြီ ကြားသည်ကစ၍ စိတ်နှလုံး မပျပ်မဝပ်ဟန် ရှိကြောင်းတို့ကို သံတော်ဦးတင်၏။

နောင်တော်ကြီးသည် မြေဒူးမင်းလျှောက်ထားသည်ကို ယုံကြည်တော် မမူသေး၊ ဝိုးဝါးပင် ထင်တော်မူ၏။ တောင်ငူကြောင်း ပြန်လာသည့် မင်းခေါင်နော်ရထာကို တောင်ငူသို့ ရောက်လျှင် တောင်ငူမင်းက ဖမ်းဆီးရန် ကြံသော်လည်း မင်းခေါင်နော်ရထာ ရိပ်မိ၍ မဖမ်းရလေ။ ဤတွင် မင်းခေါင်နော်ရထာ မင်းကေရာဇ်ကို အထင်မှား၍ ပုန်ကန်လေတော့သည်။ နောင်တော်ကြီးသည် အမှုထမ်းဖက် မင်းလှနော်ရထာကို စေလွှတ်၍ အသာအယာ အမိန့်တော်နှင့် ခေါ်စေသော်လည်း မင်းခေါင်နော်ရထာက "ငါသည် ကျေးဇူးရှင် အလောင်းမင်းတရားကြီးဘုရား မင်းအဖြစ်ကို ယူတော်မူမည် တိုင်ပင်ကြံရည်တော်မူသည့် ကာလကပင်၊ အသက်ကို သစ်ရွက်တချပ် ပန်းတပွင့်အနှိုင်း၊ မလေးမစား၊ ငါတို့ သခင်မင်းအဖြစ်သို့ မရောက်သမျှ လက်နက်မချဟု စိတ်နှလုံးပြဋ္ဌာန်း၍၊ အမှုတော်နှင့် စပ်သည်ကို၊ သူရန်သူ တထောင်စု နှစ်ထောင်စုကိုသော်လည်း တယောက်ချင်းထွက်၍ အရေးရအောင်သာ အမှုတော်ကို ထမ်းရွက်သည်။ ငါတို့ ကျေးဇူး သခင် ဘဝရှင် မင်းတရားကြီးဘုရား မရှိလျှင် ယုံယုံကြည်ကြည် ရှိတော်မမူကြ၊ စိတ်တော်နှလုံးတော် နှောင့်နှေးရှိကြ၍၊ ခရီးလမ်းတလျှောက် ငါတို့ တပ်သားများ အစားအစာမျိုးရိက္ခာ မထောက် မလှမ်းမိအောင် မြေဒူးမင်းသား ဖျက်ဆီးမြစ်တားသည်ဖြစ်၍ အသက် မသေဝံ့၊ ရရာရမိ မြို့ရွာများမှာသာ ဖွေရှာယူစားကြရသည်ကိုလည်း၊ ငါ မသင့်မတင့် ကြံလေသည်ဟု ညီတော်မြေဒူးမင်းသားက ကိုယ့်အပြစ်ငုပ်တိမ်လေအောင်၊ နောင်တော်ကို လျှောက်မည်မချွတ်၊ သို့လျှောက်လျှင်လည်း သူတို့မှာ ညီတော်နောင်တော်ဖြစ်ကြ၍ ညီတော်စကားကို နောင်တော်ယုံချိမ့်မည်မချွတ်၊ သို့လျှင် ကယ်ဆယ်မစမည့်သူ ငါတို့ကျေးဇူးရှင် အလောင်းမင်းတရားကြီးဘုရားလည်း ယခု မရှိပြီ။ သွေးသောက် စကားကို ယုံကြည်၍ လိုက်လေသော် ငါ့ကိုယ်နှင့်တကွ သားမယားဆွေမျိုးပေါက်ဖော်တစုတို့ ဆင်းရဲကြီးစွာ တွေ့ရချိမ့်မည် မချွတ်၊ ယင်းသို့ဖြစ်သောကြောင့် ယောကျ်ားတို့ မည်သည် ကိုယ့်အသက်ကို လုရေး၌ မထိတ်မလန့်သာပြီ၊ ဘုန်းကံအလိုက် တသက်တွင် တခါကို ဖြစ်လိုရာ ဖြစ်ပေစေတော့၊ ငါမလိုက်ပြီ၊ သွေးသောက် ပြန်လေတော့" ဟု ပြောလိုက်၏။ ဤသို့လျှင် စစ်ကိုင်း ဇေတဝန်ဆရာတော်နှင့် ကျော်ထင်နော်ရထာတို့ကို စေလွှတ်၍ အခေါ် ခိုင်းသော်လည်း မရချေ။

မင်းခေါင် နော်ရထာသည် တပ်မှူးတို့နှင့်တိုင်ပင်ပြီး အဆုံးတွင် အင်းဝမြို့ကို တိုက်၏။ အင်းဝမြို့တွင်းမှ မြို့စောင့်တပ်တို့က ခုခံကြသော်လည်း မင်းခေါင်နော်ရထာကို ကြောက်၍ပြီး ဖြစ်ကြသည်နှင့် ကြာရှည် မခံနိုင်ဘဲ အရှုံးပေးရ၏။ နောင်တော်ကြီးသည် မင်းလှနော်ရထာကို အင်းဝမြို့တွင်းသို့ လွှတ်၍ ထပ်မံအခေါ် ခိုင်းပြန်သော်လည်း အချည်းနှီးပင်။

နောင်တော်ကြီးသည် အင်းဝမြို့ကို ဝန်းရံပိတ်ဆို့ တိုက်ခိုက်စေသည်။ သို့သော် မင်းခေါင်နော်ရထာ အသက်မသေစေနှင့်ဟု မှာလိုက်၏။ ကိုယ်တိုင်လည်း စစ်ကိုင်းသို့ ချီတက်သည်။ မင်းခေါင်းနော်ရထာ အင်းဝတွင်ရှိစဉ် မြို့ပြင်၌ တပ်များဝန်းရံနေသောကြောင့် မြို့သူမြို့သားများ မထွက်ဝံ့ကြသဖြင့် အစာရေစာငတ်မွတ်ကြ၏။ ဤသည်ကိုမြင်လျှင် မင်းခေါင်နော်ရထာလည်း ကြာရှည် နေရန်မသင့်ဟု ဆင်ခြင်ပြီး

လျှင် အင်းဝမြို့ တောင်မျက်နှာတံခါးမှ ထွက်သွား၏။ မင်းခေါင်နော်ရထာ ထွက်သွားသည်ကို သိသောအခါ တပ်သားများ လိုက်၍တိုက်ခိုက်ကြရာ၊ ကျောက်ဆည် အရှေ့တောင်ခြေတွင် သေနတ်လုလင်တယောက် သေနတ်နှင့်ပစ်၍ ထိမှန်သော အနာသည်းသည်နှင့် မည်သို့မျှ မခုခံနိုင်သည့်အတွင်း ရဲမက်တော်တို့ ဝန်းရံ၍ ခေါင်းကိုဖြတ်သည်။ အလောင်းမင်းတရား၏ ရဲဘက်တော် မင်းခေါင်နော်ရထာ ဆုံးချေ၏။

**မင်းဧယျရန္တမိတ်** (မြန်မာ ၉၄၀ ပြည့်ဖွား)။ ။ မင်းဧယျရန္တမိတ်သည် မြန်မာစာပေ သမိုင်းတွင် တောင်ငူခေတ်၌ ထင်ရှားခဲ့သော စာဆိုတော်တဦး ဖြစ်သည်။ မင်းဧယျရန္တမိတ်မှာ စာဆိုတော် လှော်ကား သုံးထောင်မှူး၏ သားဖြစ်၍၊ ဖခင်၏ခြေရာကိုနင်းလျက် စာဆိုမှု၌ ကျွမ်းကျင်လိမ္မာသည်။ (လှော်ကား သုံးထောင်မှူး — လည်းရှု။) သက္ကရာဇ် ၉၄၀ ပြည့်နှစ်တွင် တောင်ငူမြို့၌ ဖွားမြင်သည်။

တောင်ငူမင်း မဟာဓမ္မရာဇာ လက်ထက် သက္ကရာဇ် ၉၄၆ – ၉၇၁ ခုနှစ်အတွင်း အမတ်အဖြစ်ခန့်ထားသူကောင်းပြုခြင်းခံရ၍ ကောင်းစစ်ဒိုင်းအစုကို မှူးရသည်။ ထိုကြောင့် ကောင်းစစ်ဒိုင်းမှူးဟုလည်း ခေါ်သည်။

ထိုသို့ အမှုထမ်းစဉ် တောင်ငူမင်း၏ မြေးဖြစ်သော မင်းရဲကျော်ထင်၏သားတော် မင်းရဲနရာချင်းကို စပ်ဆိုသည်။ ထိုနောက် တောင်ငူမင်း၏ သားတော် နတ်သျှင်နောင်လက်ထက် သက္ကရာဇ် ၉၇၂ ခုနှစ်တွင် ညောင်ရမ်းမင်း၏သားတော် အနောက်ဖက်လွန် မင်းသည် တောင်ငူမြို့ကို ချီတက်တိုက်ခိုက်အောင်မြင်တော်မူ၍ အင်းဝသို့ ပြန်ကြွသောအခါ မင်းဧယျရန္တမိတ်ကို ခေါ်ဆောင်သွားသည်။ မင်းဧယျရန္တမိတ်ဘွဲ့မှာ အနောက်ဖက်လွန်မင်းက ရတနာပူရ အင်းဝမြို့၌ ပေးအပ်သော ဘွဲ့ဖြစ်သည်။ တောင်ငူတွင် နေစဉ်က ရရှိသော ဘွဲ့မဟုတ်ဟု ဆိုလေသည်။

အင်းဝတွင် ဘုန်းတော်ဘွဲ့ ရတုများ၊ ဘုရားတိုင်ရတုများ၊ အင်းဝမြို့ဘွဲ့ ရတုများနှင့် စစ်ချီရတုများကို ရေးသည်။ ရတုရေးသားသူများတွင် မင်းဧယျရန္တမိတ်မှာ ထိပ်တန်းကပါဝင်သည်။ အင်းဝမြို့တွင် ဘုန်းထွန်းပ ဆင်တော်မော်ကွန်းကိုလည်း ဖွဲ့ဆိုသည်။

ထိုမှတပါး မင်းဧယျရန္တမိတ်သည် ချောင်းတွင် ဆဲ့နှစ်ရာသီ၏ သာယာပုံများကို တဆက်စီ ထည့်သွင်းစပ်ဆိုခဲ့ရာ၊ ဆဲ့နှစ်ရာသီဘွဲ့များ၏ ရှေ့ပြေး ပမာတမျှဖြစ်သည်။ ချောင်းတွင် ပျို့များကဲ့သို့ စကားလုံး အစုံအစုံဖြင့် "တဟုန် တဟုန်၊ လျှံမောင်း လျှံမောင်း၊ အုံ့မှိုင်း၊ အုံ့မှိုင်း၊ မှိုင်းပျ မှိုင်းပျ" ဟူ၍ ယမကချီနည်းကို အသုံးပြုလေသည်။

မြန်မာစာပေ သမိုင်းတွင် သာချင်းဟူသော အဖွဲ့ အနွဲ့ကို ရှေးဦးစွာတီထွင်သူမှာ မင်းဧယျရန္တမိတ် ဖြစ်သည်ဟု အချို့က ဆိုသည်။ သာချင်းများမှာ ဥတေနသာချင်း၊ စိဉ္စမာဏဝိကသာချင်းနှင့်ပဋ္ဌာစာရီသာချင်းတို့ဖြစ်သည်။ (သာချင်း — လည်းရှု။) သာချင်းဆရာဖြစ်သော ဧယျရန္တမိတ်က သူ့သာချင်းတွင် မြေတူးမြို့၌ မွေးဖွား၍ စာပေသင်ကြားသာမဏေ ပြုခဲ့သည်ကို၎င်း၊ မစိန်မြို့၌ နေဘူးသည်ကို၎င်း ဖော်ပြထားသဖြင့် တောင်ငူခေတ် မင်းဧယျရန္တမိတ်နှင့် သာချင်းဆရာ မင်းဧယျရန္တမိတ်တို့မှာ တယောက်တည်းလေလော၊ နာမည်တူ ပုဂ္ဂိုလ် နှစ်ယောက်ပင် ဖြစ်လေသလောဟူသည့် ကိစ္စကိုမူ အတည်တကျ မဆုံးဖြတ်နိုင်ကြသေးချေ။

# ပဉ္စမ သင်္ဂါယနာတင်မင်း

**မင်းတုန်းမင်းသည် မန္တလေး ရတနာပုံ ပဌမမြို့တည် နန်းတည် မင်းဟူ၍၎င်း၊ ပဉ္စမ သင်္ဂါယနာတင်မင်းဟူ၍၎င်း၊ ဆဒ္ဒါန်ဆင်မင်း သခင် ဘဝရှင်မင်းတရားဟူ၍၎င်း ထင်ရှားသည်။ နိုင်ငံချင်းချင်းဆက်ဆံရေး၊ နိုင်ငံတွင်း စီးပွားရေး၊ အုပ်ချုပ်မှုရေး၊ သာသနာရေး စသည်တို့၌ အမြော်အမြင်ကြီးစွာ ဆောင်ရွက်ခဲ့သည်။ ငြိမ်းချမ်းရေးကို အထူးမြတ်နိုးသော မင်းတရားကြီးဖြစ်သည်။**

**မင်းတုန်းမင်း** (မြန်မာ ၁၁၇၉ – ၁၂၄၀)။ ။ မင်းတုန်းမင်းသည် ကုန်းဘောင်ဆက် ဒုတိယ နောက်ဆုံးဘုရင်ဖြစ်၍ အင်္ဂလန်နိုင်ငံ ဝိတိုရိယ ဘုရင်မကြီးနှင့် နန်းပြိုင်ဖြစ်သည်။ မန္တလေး ရတနာပုံ နေပြည်တော်ကြီးကို တည်ထောင်တော်မူသဖြင့် မန္တလေး ရတနာပုံ ပဌမမြို့တည် နန်းတည်မင်းဟူ၍၎င်း၊ ပဉ္စမသင်္ဂါယနာတင်တော်မူသည်ကို စွဲ၍ ပဉ္စမသင်္ဂါယနာတင် မင်းဟူ၍၎င်း၊ စော်ဘွားများက ဆက်သသော ဆင်ဖြူတော်များကို ခံယူရသဖြင့် ဆဒ္ဒါန်ဆင်မင်း သခင် ဘဝရှင်မင်းတရား ဟူ၍၎င်း၊ ယင်စဉ်က မင်းတုန်းမြို့ကို စားရသဖြင့် မင်းတုန်းမင်းဟူ၍၎င်း ထင်ရှားသည်။ ငယ်မည်မှာ မောင်လွင်တည်း။

အမရပူရ ဒုတိယမြို့တည် နန်းတည် သာယာဝတီမင်းနှင့် တောင်ဆောင်တော် ကျောက်မော်မြို့စားမိဖုရား သီရိသုစန္ဒာမင်္ဂလာမဟေတို့မှ ဖွားမြင်သော သားတော် ၂ ပါးအနက်သားတော်ကြီးဖြစ်သည်။ ၁၁၇၉ ခုနှစ် ဝါဆိုလပြည့်ကျော် ၄ ရက်နေ့တွင် ဖွားမြင်တော်မူသည်။ ညီတော်မှာ သီရိပဝရမဟာဓမ္မရာဇာဘွဲ့ခံ အိမ်ရှေ့မင်းသားအရာ အပ်နှင်းခံရသော ကနောင်မင်းသားကြီးဖြစ်သည်။ (ကနောင်မင်းသား — ရှု။)

ခမည်းတော် သာယာဝတီမင်းနှင့် နောင်တော် ပုဂံမင်းတို့လက်ထက် မြို့ဝန်းတိုက် မင်းတုန်းမြို့များကို ကံကျွေးခံရသည်။ သီရိသုမဟာဓမ္မရာဇာဘွဲ့၊ သီရိမဟာသီဟသူရဘွဲ့များနှင့် မင်းသားကြီးတို့နေရာ အဆောင်အရွက် ပေးတော်မူ၍ လွတ်တက် စီရင်ရသည်။

နောင်တော် ပုဂံမင်း စီမံအုပ်ချုပ်မှု ညံ့ဖျင်းသောကြောင့် မင်းတုန်းမင်းသားသည် ညီတော် ကနောင်မင်းသားနှင့်အတူ လူသူစုရုံး၍ ထီးနန်းကို လုပ်ကြံကာ အမရပူရမြို့နှင့်တကွ ထီးနန်းကို ၁၂၁၄ ခုနှစ် တပေါင်းလဆန်း ၁၁ ရက်နေ့တွင် သိမ်းပိုက်တော်မူသည်။ ထိုနှစ် တပေါင်းလပြည့်ကျော် ၅ ရက်နေ့တွင် ထီးဆောင်းမင်္ဂလာ ဥကင်သ ဖွင့်တော်မူသည်။ ခမည်းတော် မင်းတရားကြီးနှင့် မိဖုရားခေါင်ကြီးတို့မှ မြင်သည့် သမီးတော်ကြီး၊ ပုဂံမင်း၏ နှမတော်အား သီရိပဝရမဟာရာဇိန္ဒာဒေပတိ ရတနာဒေဝီဘွဲ့ ပေးအပ်၍ မိဖုရားခေါင်ကြီး တင်မြှောက်တော်မူသည်။ မိဖုရားခေါင်ကြီးကား ပိဋကတ် ဗေဒင် ကျမ်းကျင် လိမ်မာတော်မူသဖြင့် ခမည်းတော်၊ မောင်တော် မင်းတရားကြီး ၂ ပါး၏ အတိုင်ပင်တော် အမြဲခံရရုံမက အပြစ်ကြီးစွာ သင့်သူတို့ကို နုတ်ယူနိုင်သော ဇီဝိတဒါနဆုကိုလည်း ရတော်မူသည်။ နောင်တော် ပုဂံမင်းတရားကြီးကိုမူ မင်းတုန်းမင်းတရားကြီးသည် ရွှေဘိုမြို့၌ တင့်တယ်လှပသော အိမ်တော်ဆောက်၍ မိဖုရား အခြွေအရံ အပြည့်အစုံနှင့် ထားတော်မူသည်။

မင်းတုန်းမင်းတရားကြီးသည် အမရပူရ မြို့တော်တွင် ၄ နှစ်ခန့် စံတော်မူပြီးနောက် အမရပူရ မြို့တော်သည် မြို့သူမြို့သား ကုန်သည် ဆင်းရဲသားများအတွက် အနေအထားကျဉ်းသည်ကို သိမြင်သဖြင့် ၁၂၁၈ ခုနှစ်တပို့တွဲလမှစ၍ ယခု မန္တလေးမြို့တည်ရာ အရပ်တွင် ရတနာပုံ မန္တလေး နေပြည်တော်ကို စတင် တည်ထောင်တော်မူသည်။ ၁၂၁၉ ခုနှစ် ဝါခေါင်လဆန်း ၁၂ ရက်နေ့တွင် နန်းမြို့တော်သို့ ဝင်တော်မူ၍ ၁၂၂၀ ပြည့်နှစ် ဒုတိယဝါဆိုလဆန်း ၆ ရက်နေ့တွင် ရွှေနန်းတော်ကြီးကို တက်သိမ်း စံပယ်တော်မူသည်။ ရွှေနန်းတော်ကို အုတ်မြို့ရိုးပတ်လျက် တည်သည်။ အုတ်မြို့ရိုးကို ပတ်လျက် ကျုံးတူးသည်။ အုတ်မြို့ရိုးအပြင် အရပ် လေးမျက်နှာ၌ မြို့သူမြို့သား ကုန်သည် ဆင်းရဲသားများအား အလုပ်အကိုင်နှင့် လူမျိုး၏ အမည်အလိုက် နေရာချပေးလေသည်။ ရွှေမျက်ပါးခတ်သူတို့ နေရာရပ်ကွက်ကို မျက်ပါးရပ်ဟု ခေါ်၍၊ ဗရင်ဂျီအများ နေထိုင်ရာကို ဗရင်ဂျီရပ်ဟု ခေါ်သည်။ မြို့ပတ်ဝန်းကျင်တွင်လည်း ဥယျာဉ် စိုက်ခြင်း၊ မြောင်းဖောက်ခြင်း၊ ကန်ဆည်ခြင်းတို့ ပြုထားရာ ရတနာပုံ မန္တလေးမြို့သည် သာယာလေသည်။ (မန္တလေးမြို့ — လည်းရှု။)

မင်းတုန်းမင်း လက်ထက်တွင် မြန်မာမင်းပိုင် မြန်မာနိုင်ငံသည် မြေထဲမြို့၊ တောင်ငူမြို့တို့၏ မြောက်ဖက် အထက်ပိုင်း ဒေသမျှသာ ဖြစ်၍ အလောင်းဘုရားလက်ထက် မြန်မာနိုင်ငံ၏ ထက်ဝက်မျှ ကျဉ်းသွားလေသည်။ (အလောင်းဘုရား — လည်းရှု။) ထို့ကြောင့် မင်းတုန်းမင်းသည် ပဲခူးတိုင်းကို ပြန်ရလိုသဖြင့် ၁၂၁၆ ခုနှစ်တွင် ကာလကတ္တားမြို့ရှိ အင်္ဂလိပ်ဘုရင်ခံချုပ် လော့ဒါလဟိုဇီထံ မြန်မာမှူးမတ်များ လွှတ်လေသည်။ (ဒါလဟိုဇီ၊ လော့ — လည်းရှု။) ဘကြီးတော်ဘုရားလက်ထက်က တနင်္သာရီတိုင်းကိုပင် ရရှိသော အကျိုးအမြတ်ထက် အကုန်အကျကပိုများသဖြင့် ကြေးငွေနှင့် အလဲအလှယ်ပြုရန် ပြောဆိုခဲ့ဘူးသော အင်္ဂလိပ်အစိုးရသည် မြန်မာနိုင်ငံကို ထက်ဝက်မျှ သိမ်းပိုက်မိသောအခါ အတိုင်းမသိ နယ်ချဲ့မာန်တက်ခဲ့ကြသည်။ နယ်မြေတောင်းရန်လာသော မြန်မာမှူးမတ်များအား လော့ဒါလဟိုဇီက "နေမင်းသည် မိုးကောင်းကင်၌ ရှိနေသမျှကာလပတ်လုံး အင်္ဂလိပ်မင်းအလံသည် အင်္ဂလိပ်မင်း တိုက်ခိုက် သိမ်းယူခဲ့သော နယ်မြေများပေါ်တွင် တလူလူ လွင့်ပျံလျက်နေမည်သာ ဖြစ်သည်။ သို့ရာတွင် အင်္ဂလိပ်မင်းသည် မြန်မာမင်းနှင့် ငြိမ်းချမ်းစွာ ဆက်ဆံပါမည်" ဟု အမိန့်ရှိလိုက်လေသည်။ မင်းတုန်းမင်းသည် လော့ဒါလဟိုဇီ၏ နယ်ချဲ့မာန် စကားကို ကြားသောအခါ စိတ်မသာမယာ ဖြစ်သော်လည်း လွတ်လပ် နေသေးသော အထက် မြန်မာနိုင်ငံ၏ အကျိုးကို ထောက်ထား၍ အမြော်အမြင် ကြီးစွာဖြင့် သည်းခံကာ အင်္ဂလိပ် အစိုးရနှင့် သင့်မြတ်အောင် ဆက်ဆံလေသည်။ ယင်းသို့ တောင်းဆိုခြင်း မပြုမီလည်း ဗြိတိသျှတို့ အကျိုးကို များစွာ လိုက်လျောခြင်းပြုခဲ့သည်။ အိန္ဒိယ နိုင်ငံတွင် စစ်သူပုန်ထ၍ မြန်မာနိုင်ငံမှ ဗြိတိသျှတပ်များကို ရုပ်သိမ်းကာ ဗြိတိသျှတို့ အိန္ဒိယ၌ အားသွန် တိုက်ခိုက်နေရစဉ် ဗြိတိသျှတို့အား နောက်ပိုင်းမှ အကြပ်ကိုင် တိုက်ခိုက်ဖို့ အချို့က တိုက်တွန်းသော်လည်း မင်းတုန်းမင်းသည် တိုက်ခိုက်ခြင်း မပြုရုံမက စစ်သူပုန်ကြောင့် ဒုက္ခရောက်ကြသူများအား ကယ်ဆယ်ရေးအတွက် အလှူငွေ ပေါင် ၁,၀၀၀ ထည့်ဝင်လှူဒါန်းခဲ့ဘူးသည်။ ထိုအချိန်အခါလောက်က အင်္ဂလိပ်၊ ပြင်သစ်၊ အမေရိကန်၊ ရုရှ စသော လက်နက်နိုင်ငံကြီးများသည် အရှေ့ဖက်တလွှား၌ အပြိုင်နယ်ချဲ့နေကြချိန် ဖြစ်သဖြင့် အဆင်အခြင်နှင့် ပြည့်စုံသော ဘုရင်ပီပီ အားမတန်မာန်လျှော့၍ သင့်မြတ်အောင် ဆက်ဆံခြင်း ဖြစ်သည်။ နိုင်ငံခြား တိုင်းပြည်များနှင့် ပိုမို သင့်မြတ်စေရန် ၁၂၃၄ ခုနှစ်တွင် မင်းတုန်းမင်းသည် ကင်းဝန်မင်းကြီးအား သံအကြီးခန့်၍ အင်္ဂလန်ပြည်သို့ စေလွှတ်လေသည်။ (ကင်းဝန်မင်းကြီး — လည်းရှု။) အင်္ဂလန်သို့အသွား မြန်မာသံအဖွဲ့သည် ပြင်သစ်၊ ဣတလီနိုင်ငံတို့သို့ပါ ဝင်၍ မဟာမိတ်ပြုသည်။ ထိုနှစ်တွင်ပင် ဣတလီ နိုင်ငံမှ သံများ မြန်မာနိုင်ငံ



ပဥ္စမသင်္ဂါယနာတင် ဘဝရှင်မင်းတရားဟု ထင်ရှားသည့် မင်းတုန်းမင်း

သို့ ရောက်လာကာ ကင်းဝန်မင်းကြီးနှင့် ညှိနှိုင်းရေးသားသော စာချုပ်ကို အတည်ပြု လက်မှတ် ရေးထိုးကြသည်။ နောက်တနှစ်တွင် ပြင်သစ် သံအဖွဲ့ ရောက်လာကြပြန်သည်။ သို့ရာတွင် မင်းတုန်းမင်းတရားကြီးသည် နေပြည်တော်သို့ ထွက်ဝင် လာရောက်ကြသော အင်္ဂလိပ် သံတို့အား အခြားအကြောင်းတို့ကိုသာ မေးမြန်းပြောဆိုတော်မူ၍ အင်္ဂလိပ်ပိုင် အောက်မြန်မာနိုင်ငံကို အသိအမှတ် ပြုရမည့် စာချုပ်နှင့် စပ်လျဉ်းသော စကားကိုမူ အမြွက်မျှ ပြောဆိုတော်မမူဘဲ ယဉ်ကျေး သိမ်မွေ့စွာ တိမ်းရှောင်တော်မူသည်။ ၁၂၃၇ ခုနှစ်တွင် အင်္ဂလိပ်မင်း၏ သားတော် ဥပရာဇာ

ဝေလမင်းသား အိန္ဒိယနိုင်ငံသို့ လာရောက်သောအခါ ကင်းဝန်မင်းကြီးအား မြန်မာ ကိုယ်စားလှယ်အဖြစ် စေလွှတ်၍ နှုတ်ခွန်းဆက်စေခဲ့ခြင်းဖြင့် မဟာမိတ် ဝတ်တရား ကျေအောင် ဆောင်ရွက်တော်မူခဲ့ကြောင်း ရတနာပုံ နေပြည်တော် သတင်းစာ ဒုတိယတွဲ ဂဏန်း ၃၃ တွင် ဖော်ပြထားလေသည်။

မင်းတုန်းမင်းသည် အင်္ဂလိပ်၊ ပြင်သစ်၊ ဣတလီနိုင်ငံတို့နှင့်သာ မဟုတ်၊ အမေရိကန် နိုင်ငံနှင့်လည်း ချစ်ကြည်ရေး ရာဇသံများ ပေးပို့ ဆက်သွယ်ခဲ့သည်။ ၁၂၁၈ ခုနှစ်တွင် မင်းတုန်းမင်းကြီးက အမေရိကန် သမတကြီး ဂျိမ်းဗတ်ကနန်ထံ သဝဏ်လွှာပေးပို့၍ အမေရိကန် သမတကြီးက ၁၂၁၉ ခုနှစ်တွင် ၂ ပြည့်တပြည် ချစ်ကြည်ရေး သဝဏ်လွှာ ပြန်လည်ပေးပို့ခဲ့သည်။ အမေရိကန် သံတော်များအားလည်း တခမ်းတနား ကြိုဆိုခဲ့လေသည်။ မင်းတရားကြီးကား နိုင်ငံခြား တိုင်းပြည်များနှင့် အသင့်အတင့် ကျင့်တော်မူသည် မှန်သော်လည်း အင်္ဂလိပ်တို့နှင့် မန္တလေးမြို့ရှိ အင်္ဂလိပ် ကိုယ်စားလှယ်တို့က မင်းတရားကြီး ရွှေတော်သို့ ဝင်သောအခါ ဖိနပ်စီး ဓားလွတ်စွဲလျက် ဝင်လိုကြောင်း တောင်းဆိုသည်နှင့် ထိုကစ၍ ထိုအင်္ဂလိပ်သံ အင်္ဂလိပ် ကိုယ်စားလှယ်တို့ကို ဖူးမြော်ခွင့် မပေးတော့ဘဲ မှူးမတ်တို့နှင့်သာ ဆက်ဆံစေလေသည်။ မြန်မာ့ဂုဏ်နှင့် ယဉ်ကျေးမှုကိုကား အနိမ့်အချမခံခဲ့ချေ။

ငြိမ်းချမ်းရေးပါဒကို နှစ်သက်တော်မူသော မင်းတုန်းမင်းတရားကြီးသည် နိုင်ငံခြား တိုင်းပြည်များနှင့် ဤသို့အသင့်အမြတ် ဆက်ဆံခဲ့ရုံမက ပြည်တွင်း၌လည်း မင်းညီမင်းသား မှူးမတ် စသည်တို့အားရင်း၊ စော်ဘွားများအားရင်း၊ ချင်း၊ ကချင်၊ ကရင်တောင်အုပ် တောင်ကဲများအားရင်း အမေ့အကျန်မရှိ အထိက်အလျောက် မစခြီးမြှင့်၍ နိုင်ငံတော်ကို ထိန်းသိမ်း အုပ်ချုပ်ခဲ့လေသည်။ ထိုကြောင့်လည်း မင်းတရားကြီး လက်ထက် တိုင်းနိုင်ငံငြိမ်းချမ်းခဲ့ခြင်း ဖြစ်လေသည်။

မင်းတုန်းမင်းတရားကြီးသည် ပြင်ပဘေးကို သံတမန်များ နည်းအရ ကြိုးစား ကာကွယ်တော်မူသကဲ့သို့ တဖက်၌လည်း နိုင်ငံတွင်း စီးပွားရေး၊ အုပ်ချုပ်ရေး၊ သာသနာရေး စသည်တို့ တွင်လည်း အမြော်အမြင်ကြီးစွာ ဆောင်ရွက်ခဲ့သည်။

မင်းတုန်းမင်းကြီးသည် သာသနာကို လေးစားသော မင်းဖြစ်သည် အားလျော်စွာ ၁၂၃၃ ခုနှစ်တွင် ပိဋကတ်သုံးပုံကို ပဉ္စမသင်္ဂါယနာတင်ပြီးနောက် ကျောက်ပြား ၇၂၉ ချပ်ပေါ်တွင် ကမ္မည်းအက္ခရာတင်၍ မဟာလောကမာရဇိန် ကုသိုလ်တော်ဘုရားတွင် စိုက်ထား ကိုးကွယ်သည်။ (သင်္ဂါယနာ — လည်းရှု။) မြန်မာနိုင်ငံအတွင်း ပဌမပြန် စာမေးပွဲများကိုလည်း မင်းတုန်း မင်းတရားကြီး လက်ထက်တွင် ကျင်းပပေးခဲ့သည်။ (ပဌမပြန်စာမေးပွဲ — လည်းရှု။) သာသနာရေးသာမက ပညာသင်ကြားရေးကိုလည်း မင်းတုန်းမင်းသည် အားပေးသည်။ မှူးသား မတ်သား၊ မင်းညီမင်းသားတို့ အင်္ဂလိပ်စာသင်ကြားစေရန် ခရစ်ယန်ဘုန်းကြီး ဆရာမတ်၊ ပြင်သစ်ဗရင်ဂျီဘုန်းကြီး ဘီဂန်းဒက်တို့အားလည်း မြေရာနှင့် ငွေကြေး ထောက်ပံ့သည်။ (မှတ်၊ ဆရာ။ ဘီဂန်းဒက် — လည်းရှု။) အနောက်နိုင်ငံများသို့လည်း ပညာတော်သင် ၉၀ ကျော်တို့ကို စေလွှတ်၍ စက်မှုလက်မှုအတတ်များကို သင်စေသည်။ ယင်းတို့တွင် ဒီပဲယင်း ဝန်ထောက် ဦးမြဲ၊ ညီ ဦးခဲ၊ ဖန်ချက်ဝန် ဦးဖန်၊ ကျောက်မြောင်း အတွင်းဝန် ဦးရွှေအိုး၊ မြင်းဝန်ဦးအောင်သူတို့ပါသည်။ စီးပွားရေး တိုးတက်ကောင်းမွန်စေရန် ပညာတော်သင်များ ပြန်လာသောအခါ စက်မှုလက်မှုလုပ်ငန်းရုံများကို ဖွင့်စေသည်။ နေပြည်တော်တွင် ဆန်၊ သကြား၊ ကျွန်းသစ်၊ ပိတ်ချောပိတ်ကောင်း ပိုမို ထုတ်လုပ်နိုင်စေရန် ဆန်စက်၊ သကြားစက်၊ သစ်စက်၊ ရက်ကန်းစက်တို့ကို ဥရောပတိုက်မှ ဝယ်ယူ တည်ထောင်သည်။ ယင်းစက်ရုံများ သာမက ဖန်ချက်စက်၊ စာပုံနှိပ်စက်၊ ဒင်္ဂါးစက်၊ လက်နက် ကရိယာစက် စသည်တို့ကို ဖွင့်လှစ်၍ သားတော် မက္ခရာ မင်းသားအား ကြီးကြပ် အုပ်ချုပ်စေသည်။ ရွှေနန်းတော်ကြီး အတွင်း ဆောက်လုပ်သော စာပုံနှိပ်တိုက်တော်မှ ပဌမဆုံး ပုံနှိပ်သော စာအုပ်မှာ ယောအတွင်းဝန် ဦးဘိုးလှိုင်စီရင်ရေးသားသော ကာယာနုပဿနာကျမ်း ဖြစ်သည်။ တိုင်းသူပြည်သားများ သက်သာချောင်ချိရေးအတွက် ငွေကြေးလွယ်ကူစွာ သုံးစွဲနိုင်စေရန် မင်းတုန်းမင်းတရားကြီးသည် ၁၂၂၉ ခုနှစ်မှစ၍ ဒေါင်းတံဆိပ်ဒင်္ဂါးများကို သွန်းလုပ်သုံးစွဲစေသည်။

နိုင်ငံတော်ဘွင် ပုဂံခေတ်ကစ၍ အမြစ် တွယ်ခဲ့သော ကံကျေးချပဒေသရာဇ်စံနစ်နှင့် အခွန်တော် ကောက်ခံစံနစ်တို့ကို ပြုပြင်ပြောင်းလဲ၍ ၁၂၂၉ ခုနှစ်က စတင်ကာ စံနစ်တကျ အခွန်တော် ခန့်ခဲ့သည်။ ရှေးက နယ်စားမြို့စားရွာစားများက အခွန်တော်ကို ကောက်ခံပြီးလျှင် မိမိတို့အတွက် ဝေပုံစုကို နုတ်ကာ ဘဏ္ဍာတော်တိုက်သို့ပေးပို့ရရာ ယင်းတို့က ပို၍ ကောက်ခံလျှင် ဆင်းရဲသားတို့ နစ်နာရသည်။ ထိုကြောင့် မင်းတုန်းမင်း၏ လက်ထက်တွင် နယ်စား ပယ်စားများဖြင့်ရင်း၊ မြို့စားရွာစားများဖြင့်ရင်း မင်းတိုင်းကြေး အခွန်တော်စသည် မကောက်ခံတော့ဘဲ ဝင်ငွေနှင့်အိမ်ထောင်စုအလိုက်သာ စည်းကြပ်သော သဿမေဓ အခွန်တော်ကို ကောက်ခံစေသည်။ အမှုထမ်းအရာထမ်းများကိုလည်း ရှေးကကဲ့သို့ မြို့စားရွာစား မပေးတော့ဘဲ သဿမေဓ အခွန်ကောက်ခံရငွေမှ လစာရိက္ခာတော်များ ပေးကမ်း ခြီးမြှင့်

လေသည်။ နေပြည်တော် အရပ်လေးမျက်နှာ၌ သက်ကြီး ရွယ်အိုတို့ မှီခိုနေထိုင်ရန် သူအိုရုံများ ထားသည်။ နာမကျန်း သူတို့အတွက်လည်း နေပြည်တော်တွင် သူနာရုံ ၁၀ ရုံ ထား၍ အတွင်းလူနာအပြင်လူနာအဖြစ် ကုသပေးသည်။ သမားတော် ၃ ယောက်စီ အလှည့်ကျ ကုသရသည်။

လယ်မြေ ပေါ်များသော မြန်မာနိုင်ငံ အောက်ပိုင်းကို အင်္ဂလိပ်တို့ သိမ်းယူထားသဖြင့် မင်းတုန်းမင်းသည် မိမိနိုင်ငံတော်ပိုင်နက်တွင် တောများကို ခုတ်ထွင်ရှင်းလင်း၍ လယ်လုပ်ငန်းကို အကြီးအကျယ် လုပ်ကိုင်စေသည်။ မိုးနည်းသဖြင့် စပါးစိုက်ပျိုးရန် မိုးရေ အလုံအလောက် မရသည်ကို မူးမြစ်ဒေသ၌၎င်း၊ လယ်တွင်းကိုးခရိုင် (ကျောက်ဆည်ခရိုင်)၌၎င်း ရှိသောဆည်ဟောင်း မြောင်းဟောင်းများကို ထပ်မံပြုပြင်သည်။ မိတ္ထီလာကန်မှစ၍ ကန်အမြောက်အများကိုလည်း ပြုပြင်သည်။ မန္တလေးမြို့ အရှေ့ဖက် နန္ဒာကန်ကို ပြုလုပ်၍ လယ်ပယ်တည်ကာ လယ်သမားများကို စရိတ်ကြေးငွေ ထောက်ပံ့သည်။ ကုန်စည်များကို ဘုရင်တဦးတည်းရောင်းဝယ်ခွင့်ကို ဖျက်သိမ်း၍ အင်္ဂလိပ်နယ်ထဲသို့ ကုန်စည်များ လွတ်လပ်စွာ ရောင်းခွင့်ပြုသည်။

နိုင်ငံသူ နိုင်ငံသားတို့ ထက်အောက် စုန်ဆန်ခရီးသွားလာမှု လွယ်ကူစေရန် ရေနန်းစကြာ၊ ရေနန်းယာဉ်သာ၊ မြနန်းစကြာ၊ စကြာယာဉ်မှန်၊ စကြာယာဉ်ပျံ၊ တုယာဉ်ပျံချီ၊ တုယာဉ်ပျံကျော်ဟူသော မီးသင်္ဘော ခုနစ်စင်းကိုလည်း ဝယ်ယူအသုံးပြုသည်။ အင်္ဂလိပ်မင်းပိုင် မြန်မာနိုင်ငံနှင့် မြန်မာမင်းပိုင် မြန်မာနိုင်ငံတို့သည် မင်းအချင်းချင်း ဆက်ဆံမှု ကောင်းသောကြောင့် တကြောင်း၊ ခရီးသွားလာမှု လွယ်ကူသဖြင့်တကြောင်း၊ မင်းတုန်းမင်းတရားကြီး လက်ထက်တော်၌ တနိုင်ငံတည်းကဲ့သို့ အကူးအသန်း အဆက်အဆံမပြတ် ရင်းနှီးမြဲ ရင်းနှီးကြသည်။ အထက်မြန်မာနိုင်ငံမှ ကင်းဝန်မင်းကြီး အစရှိသော မြန်မာမှူးမတ်များ အင်္ဂလိပ်မင်းပိုင် ရန်ကုန်မြို့သို့ရောက်သောအခါ မြို့သူမြို့သားများက အရေးတယူ ပြုစုခဲ့ကြသည့်နည်းတူ ရန်ကုန်မြို့ရှိ ရွှေတိဂုံ စေတီတော်၌ ရန်ကုန်မြို့သူမြို့သားများက ရွှေချ၍ ထီးတင်လိုသောအခါ မင်းတုန်းမင်းကြီးက ရတနာကိုးပါး စီခြယ်သော ထီးတော်ကို၎င်း၊ လုံးတော်ပြည့် ရွှေမျနိုင်အောင် ရွှေဆိုင်းများကို၎င်း ပေးပို့လှူဒါန်းခဲ့လေသည်။ မင်းတုန်းမင်းတရားကြီးသည် နိုင်ငံတော်အတွင်း ဆက်သွယ်ရေး ပိုမိုလွယ်ကူစေရန် ကြေးနန်းတိုင်များကိုလည်း စိုက်ထူ အသုံးပြုခဲ့သည်။ ထိုမျှသာမက ခေတ်နှင့်လျော်ညီစွာ နေ့စဉ် ဖြစ်ပျက်ပေါ် ပေါက်လျက်ရှိသော ကျိုးကြောင်းခြင်းတများ၊သတင်းများ၊ အကြံဥာဏ် ပေးချက်များနှင့် ဝေဖန်ချက်များကို တိုင်းသူပြည်သားတို့ ပွင့်လင်းစွာ ဖတ်ရှုရေးသားနိုင်ကြစေရန် မင်းတုန်းမင်းတရားကြီးသည် ၁၂၃၆ ခုနှစ်တွင် ရတနာပုံ နေပြည်တော် သတင်းစာကို ထုတ်ဝေစေခဲ့သည်။ စာတည်းမှာ ဖိုးဝဇီရဖြစ်သည်။ (ဝဇီရ၊ ဖိုး — ရှု။) လဆန်း ၇



မင်းတုန်းမင်းတရားကြီး စီးတော်မူသည့် ပြည်ကြီးမှန်ဖောင်တော်

ရက်၊ ၁၃ ရက်၊ လဆုတ် ၇ ရက်၊ ၁၃ ရက်နေ့များတွင် ထုတ်၍ တလ ၄ ကြိမ် ထွက်လေသည်။ မင်းတရားကြီးသည် သတင်းစာရေးသားမှုတွင် အချက် ၂၆ ချက်နှင့် လွတ်လပ်ခွင့်ပေးခဲ့သည်။ (မြန်မာနိုင်ငံ သတင်းစာများ —— လည်းရှု။)

မင်းတရားကြီးအား ယင်းသို့ ပြည်တွင်းလုံခြုံရေး၊ နိုင်ငံတွင်း စက်မှုလက်မှု ထွန်းကားရေး၊ နိုင်ငံတော် စည်ပင် သာယာရေးစသော နိုင်ငံအုပ်ချုပ်ရေး၌ အမြော်အမြင်ကြီး၍ ထက်မြက်သော ညီတော် ကနောင်မင်းသားက အမြဲတစေ ဂရုစိုက်၍ အကူအညီပေးခဲ့သဖြင့် အောင်မြင်ခဲ့သည်။ မင်းတရားကြီးမှုကား လောကီရေးရာများထက် လောကုတ္တရာရေးရာများတွင် အာရုံစိုက်သဖြင့် နိုင်ငံကာကွယ်ရေး၊ စစ်တပ်များ ခေတ်မှီရေး၊ လက်နက် တပ်ဆင်ရေးတို့တွင် လစ်ဟင်းခဲ့သည်။ မင်းတရားကြီးသည် သတ္တဝါတို့၏ အသက်အန္တရာယ် များစေသည်ဟု ယူဆကာ လက်နက်ဆန်းများ ထွင်ခြင်းကို ပိတ်ပင်ခဲ့လေသည်။

အမြော်အမြင်ကြီးစွာနှင့် ယင်းကဲ့သို့ မင်းတရားကြီးတို့ ညီနောင် ၂ ပါး ကြိုးပမ်းဆောင်ရွက်နေစဉ် ၁၂၂၈ ခုနှစ်တွင် စည်းလုံး ညီညွတ်မှုကို ပျက်ပြားစေသော နန်းတွင်း လုပ်ကြံမှုကြီး ပေါ်ပေါက်လာသဖြင့် လေ့လော်ရင်း တက်ကျိုးဖြစ်ခဲ့ရလေသည်။ ညီတော် ကနောင်မင်းသားအား မင်းတုန်းမင်းကြီးက အိမ်ရှေ့အရာ ပေးအပ်သည်ကို မကျေနပ်သော သားတော် မြင်ကွန်းနှင့် မြင်းခုန်တိုင်မင်းသားတို့ ပုန်ကန်သဖြင့် နိုင်ငံတော်ကို ခေတ်သစ် နိုင်ငံတော်ဖြစ်အောင် ထူထောင်ခဲ့သော ကနောင်မင်းသားကြီး တိမ်းပါးခဲ့လေသည်။ (မြင်ကွန်း မြင်းခုန်တိုင် မင်းသားများ —— ရှု။)မင်းတုန်းမင်းကြီးမှုကား မြို့တော်အတွင်း ဝင်နှင့်သဖြင့် သီသီကလေး လွတ်လေသည်။ တဖန် အိမ်ရှေ့ဘုရားလွန်လေသော် အိမ်ရှေ့မင်း သားတော် ပန်းထိမ်းမင်းသား ရွှေဘိုသို့ ထွက်၍ ပုန်ကန်သည်ကို ဖမ်းဆီးကွပ်မျက်ရသည်။ ထိုအချိန်မှစ၍ မင်းတရားကြီးသည် သားတော်များကို အိမ်ရှေ့မပေး၊ အခြေအရံ အမှုထမ်းတို့ကို ရုပ်သိမ်းထားသည်မှာ နတ်ရွာစံသည်အထိ ဖြစ်သည်။ ထို့ကြောင့်လည်း မင်းတရားကြီး နတ်ရွာစံသောအခါ ထီးမွေ နန်းမွေကိစ္စ ရှုပ်ထွေးခဲ့ရလေသည်။ ၁၂၄၀ ပြည့်နှစ် ဝါခေါင်လတွင် မင်းတရားကြီး ကျန်းမာတော်မမူ၍ တိုင်းရေးပြည်ရေးတို့ကို ဆွေးနွေးဆောင်ရွက်ခြင်း မပြုနိုင်သော အခြေအနေ ရောက်လေသော် ဆင်ဖြူမရှင် မိဖုရားကြီးနှင့် အလိုပါ မှူးတော်မတ်တော်တို့ တိုင်ပင်၍ သားတော် သီပေါမြို့စားအား တော်သလင်းလပြည့်ကျော် ၉ ရက်နေ့တွင် အိမ်ရှေ့ နှင်းလေသည်။ (သီပေါမင်း —— ရှု။)မင်းတရားကြီး၏ ရောဂါတော်သည် တိုးသည်ထက် တိုးလာကာ သက္ကရာဇ် ၁၂၄၀ ပြည့်နှစ် သီတင်းကျွတ်လဆန်း ၆ ရက်အင်္ဂါနေ့၌ သက်တော် ၆၃ နှစ်၊နန်းစံ ၂၆ နှစ်တွင် နတ်ရွာစံလွန်တော်မူသည်။ မင်းတုန်းမင်းကြီးတွင် ရတနာဒေဝီ မိဖုရားခေါင်ကြီး အပြင် အိမ်နိမ့်စံစဉ်က ကောက်ယူ



မင်းတုန်းမင်းတရားကြီးက အမေရိကန်သမ္မတကြီး ဂျိမ်းဗတ်ကနန်သို့ ချစ်ကြည်ရေးအတွက် ပေးပို့သော ရာဇသံ

တော်မူသော မြောက်နန်း မိဖုရား မယ်သဲ၊ ဘကြီးတော်နှင့် မိဖုရားခေါင်ကြီး မယ်နုမှမြင်သော အလယ်နန်း မိဖုရား ဆင်ဖြူမရှင်တို့ အပါအဝင် ထင်ရှားသော မိဖုရား ၄၅ ပါး ရှိ၍ သားတော် ၅၅ ပါး၊ သမီးတော် ၅၃ ပါး ပေါင်း ၁၀၈ ပါးရှိသည်။

မင်းတုန်းမင်း၏ အလောင်းတော်ကို မန္တလေးမြို့တွင် သင်္ဂြိုဟ်၍ အရိုးပြာသာဒ် တည်ထားလျက်ရှိသည်။ မင်းတရားကြီး နတ်ရွာစံရာ ရွှေနန်းဆောင်ကို သားတော် သီပေါမင်းလက်ထက် ဖျက်၍ အတုမရှိကျောင်းတော်ကြီး ဝင်းအတွင်း၌ ဖျက်သိမ်းသည့် ပန္နက်ပုံအတိုင်း ရွှေနန်းတော်ကျောင်း ဆောက်လုပ် လှူဒါန်းထားသည်၊

မင်းတရားကြီးကား သဘော ပြည့်ဝသည်။ အမြော်အမြင်နှင့် ပြည့်စုံသည်။ ပြည်သူ့အကျိုးကို ကြည့်သည်။ စစ်ကိုမလိုလား၊ သနားတတ်သူဖြစ်သည်။ ရတနာသုံးပါးကို အလွန်လေးစား ရှိသေသည်။

မင်းတရားကြီး၏ ကုသိုလ်တော်များကား မန္တလေးတောင်ပေါ်တွင် တည်ဆောက် ထားသော တန်ဆောင်းပြာသာဒ်တော်ကြီးနှင့်တကွ ဗျာဒိတ်ညွှန်း ရွှေရပ်တော်ကြီးဘုရား၊ တောင်ခြေရှိ မဟာသကျ မာရဇိန်ကျောက်တော်ကြီးဘုရား၊ စန္ဒမုနိဘုရားနှင့် မဟာလောက မာရဇိန်စေတီတော်၊ ထိုစေတီတော်အတွင်းရှိ ပိဋကတ်သုံးပုံ ကျောက်ချပ်နှင့် အုတ်ဂူ ၇၂၉ ခုစီ၊ ရန်ကင်းတောင်ခြေရှိ မဟာကျော်စေတီတော်၊ ရွှေတိဂုံစေတီ ထီးတော်နှင့် လုံးတော်ပြည့် ရွှေဆိုင်းတော်ချခြင်း၊ ဘုရားပွင့်တော်မူရာ မဟာဗောဓိပင်တော် အနောက်မြောက်ဖက်တွင် အုတ်စချပ်တော်ကြီး တဆောင်၊ အစ္စလမ်ကာသာဝင်တို့ အထွတ်အမြတ်ထားသည့် မက္ကာမြို့ဘုရားဝတ်ပြုသည့် ကျောင်းအနီး စတုဒီသာ စရပ်ကြီးတဆောင်နှင့် ပဌာန်းဟော သိမ်ကြီးတဆောင်၊ မဟာဗောဓိ ဒက္ခိဏသာခါ လင်္ကာတောင်ကိုင်းကို မြတ်စွာဘုရား အရပ်တော် ပမာဏအတိုင်း ရုပ်ပွားတော်မြတ် ထုလုပ်ကိုးကွယ်သည့်အပြင် အပွရာဇိတ ပလ္လင်မြေကို ဌပနာသွင်း၍ တမိုက်လေးသစ်ခန့် ရွှေချစေတီတော် ထုလုပ်ပြီးလျှင် မှန်အိမ်ထည့်သွင်းကာ ရှစ်သောင်း လေးထောင်သော ရဟန်းရှင်လူအပေါင်းတို့အား တဆူကျစီဝေငှပေးစေတော်မူသည်။ ရွှေမြို့တော် အရှေ့မြောက်ဖက်တွင် အတုလဝေယန် အုတ်ကျောင်းတော်ကြီး၊ အရှေ့ပြင်တွင် ကျောင်းရံ ၂၀ နှင့်တကွ မဟာ အတုလဘုံစံ ရွှေကျောင်းတော်ကြီး၊ အနောက်ဖက်တွင် ကျောင်းရံ ၂၀ နှင့်တကွ မဟာဇောတိကရာမတိုက် ရတနာဘုံစံ ကျောင်းတော်ကြီးတို့ကို ဆောက်လုပ် လှူဒါန်းလေသည်။ထိုမျှမက ရွှေမြို့တော်ဝန်းကျင်၌ အုတ်စရပ်တော်များ၊ ဓမ္မာရုံစရပ်များ၊ တရားတင်းကုတ်များ၊ ရေကန်များ စသည်တို့ကို မြောက်မြားစွာ လှူဒါန်းတော်မူသည်။ သာ



မင်းတုန်းမင်း မိဖုရားကြီး၏ စာတိုက်

သနာတော် စင်ကြယ်ရန် ဟူသော ရည်ရွယ်ချက်ဖြင့် မင်းတုန်းမင်းတရားကြီးသည် ၁၂၁၇ ခုနှစ်တွင် ဆရာတော်များနှင့် တိုင်ပင်၍ ဓမ္မဝိနယ အမိန့်တော် ပြန်တမ်းကို မင်းမိန့်နှင့် ထုတ်ပြန်သည်။ သို့ရာတွင် မင်းတရားကြီး ရည်ရွယ်တော်မူရင်းသို့ မရောက်ဘဲ ယင်းဓမ္မဝိနယ စာတမ်းကို အကြောင်းပြု၍ ဂိုဏ်းကွဲမှုစသော မလိုအပ်သည့် ဖြစ်ရပ်များ ပေါ်ပေါက်ခဲ့ရသည်။ မင်းတရားကြီးသည် ပြည်သူ ပြည်သားအပေါင်းတို့အားလည်း သီလနှင့် ကုသိုလ်တရား မမေ့မလျော့စေရန် လစဉ်လဆန်း ၅ ရက်နေ့ ရောက်တိုင်း ဂရုဓမ္မ အမိန့်တော် ပြန်တမ်းကြီးကို ပြည်တွင်းပြည်ပ လှည့်လည်ဖတ်ကြား စည်လည်စေသည်။ ယင်းသို့ဖြင့် သာသနာ နေရောင်လရောင်ပမာ ထွန်းပြောင်စေရန် မင်းတရားကြီး အားပေးချီးမြောက်တော်မူသည်။

မင်းတုန်းမင်းတရားကြီး လက်ထက် သာသနာရေးသာမက စာပေလည်း ထွန်းကားသည်။ ကဗျာ လင်္ကာဖက်၌ စာကောင်း ပေကောင်းကြီးများ ထွန်းကားခဲ့သည့် နည်းတူ စကားပြေဖက်၌လည်း ယခင်ခေတ်များကထက် ပိုမိုကောင်း

မွန်သော စာကြီး ပေကြီးများကို တွေ့နိုင်သည်။ မင်းတရားကြီးလက်ထက်တွင် ဘောလယ်ဟူသော ကဗျာသီချင်း တမျိုးနှင့် ညဉ့်ချင်းပြီး ပြဇာတ် အရေးအသားများပေါ် ပေါက်လာသည်။ ဘကြီးတော် လက်ထက်ရေးသားသော မှန်နန်းရာဇဝင်သည် ၁၁၇၃ ခုနှစ်အထိသာ ရောက်သဖြင့် မင်းတုန်းမင်းတရားကြီး လက်ထက် ဆက်လက်ရေးသားစေရာ ကုန်းဘောင်ဆက် မဟာရာဇဝင်ဟူ၍ ပေါ်ပေါက်လာသည်။ ထိုမင်း လက်ထက် ထင်ရှားသော စာဆိုတော်များကား ဦးဈေးခြည်၊ စလေဦးပုည၊ လှိုင်ထိပ်ခေါင်တင်၊ ယောအတွင်းဝန် ဦးဘိုးလှိုင်၊ ကင်းဝန်မင်းကြီး ဦးကောင်း၊ မန်လည်ဆရာတော် စသည်တို့ဖြစ်သည်။ (ပုည၊ ဦး၊ စလေ။ လှိုင်ထိပ်ခေါင်တင်။ ကင်းဝန်မင်းကြီး။ ဘိုးလှိုင်၊ ဦး၊ ယော အတွင်းဝန်။ မန်လည် ဆရာတော် — တို့လည်းရှု။)

**မင်းတုန်းမြို့**။ ။မင်းတုန်းမြို့သည် အထက် မြန်မာနိုင်ငံ မကွေးတိုင်း၊ သရက်ခရိုင်၊ သရက်နယ်တွင် ပါဝင်သော မင်းတုန်းမြို့နယ်၏ မြို့ပိုင်ရုံးစိုက်မြို့ ဖြစ်သည်။ မင်းတုန်းမြို့သည် ရခိုင်တောင်တန်းများနှင့် ၄ – ၅ မိုင်ခန့် အကွာ မင်းတုန်း (မထုံး) မြစ်၏ လက်ျာဖက်ကမ်း ကုန်းမြင့်ပေါ်တွင် တည်ရှိသည်။ ရှေးအခါက မင်းတုန်းမြို့တွင် နေကြသူတို့သည် မြေကောင်းသော မြစ်ဝကျွန်းပေါ်သို့ ပြောင်းရွှေ့ နေထိုင်ကြသဖြင့် မင်းတုန်းမြို့မှာ ယခုအခါ မစည်ကား လှတော့ပေ။ သို့သော် မင်းတုန်းမြစ်၏ ကုန်းမြင့်ပေါ်တွင် တည်ရှိသဖြင့် သာယာသော မြို့ကလေး ဖြစ်သည်။ သရက်မြို့နှင့် ၄၂ မိုင်ဝေး၍ မော်တော်ကားလမ်းဖြင့် ဆက်သွယ်လျက်ရှိသည်။

မြန်မာမင်းများ လက်ထက်က မင်းတုန်းကို မြို့ဝန် အုပ်ချုပ်၏ ၊ သက်ဦးဆံပိုင်သော မင်းတုန်းမြို့ဝန်သည် မင်းတပ်၊ တိုင်တား၊ မြို့သစ်၊ ပန်းတိမ်း၊ ငဖဲ၊ နန်းတော၊ မင်းတုန်းဟူသော တောင်စဉ် ခုနစ်ခရိုင်ကို စီရင်အုပ်ချုပ် ရလေသည်။

မင်းတုန်းမြို့ကို ခရစ် ၁၀၀ ပြည့်နှစ်ခန့်က သရေခေတ္တရာပြည်မှ ပြေးလွှားပုန်းအောင်းလာသော သမုဒ္ဒရာဇ် အမည်ရှိသော မင်းသားတပါးက ဘုမ္မဝတီဟူသော အမည်ဖြင့် တည်ထောင်ခဲ့သည်ဆို၏။ မင်းသားပုန်းအောင်းသည်ကို အစွဲပြု၍ မင်းပုန်းတွင်ရာမှ မင်းတုန်းဟု ရွှေ့လျောပြောင်းလဲလာသည် ဆို၏။

**မင်းတပ်မြို့**။ ။မင်းတပ်မြို့ သည် ချင်း ဝိသေသတိုင်း တောင်ပိုင်း ချင်းတောင်ခရိုင်၏ ရုံးစိုက်မြို့ဖြစ်သည်။ ၁၉၅၇ ခုနှစ်ကမှ ကန်ပက်လက်မြို့မှ မင်းတပ်မြို့သို့ ပြောင်းရွှေ့ကာ ခရိုင်ဝန် ရုံးစိုက်စေခဲ့သည်။ မင်းတပ်နယ်တွင် ရွာကြီး ၁၆၀ ကျော်ရှိ၍ တိုက်နယ်ပေါင်း ၁၂ နယ် ရှိပြီးလျှင် လူဦးရေ ၃၀,၀၀၀ ခန့်ရှိသည်။ မင်းတပ်မြို့သည် ပခုက္ကူခရိုင်၊ ဆောမြို့နယ်အတွင်းရှိ ကျောက်ထုလေယာဉ်ကွင်း၏ အနောက်မြောက်ဖက် ၁၈ မိုင် ၄ ဖာလုံ ကွာဝေး၍၊ အမြင့်ပေ ၄,၀၀၀ ခန့်ရှိ ကုန်းမြင့် လွင်ပြင်ပေါ်တွင် တည်ရှိသည်။ မြို့၏ အကျယ်အဝန်းမှာ ၂ စတုရန်းမိုင်ခန့်ရှိ၍ လူဦးရေ ၂,၀၀၀ ကျော်ခန့် နေထိုင်သည်။ မြို့တွင် နေထိုင်သူတို့မှာ ချင်းလူမျိုးနှင့် မြန်မာလူမျိုးသာ များ၍ အများအားဖြင့် ဗုဒ္ဓအယူဝါဒီများ ဖြစ်ကြသည်။ သို့သော် မြို့နေလူဦးရေ ၄ ပုံ ၁ ပုံခန့်သည် ခရစ်ယန် အယူဝါဒီများ ဖြစ်သည်။

မင်းတပ်မြို့သည် ယခုအခါ တောင်ပိုင်း ချင်းတောင်ခရိုင်၏ မြို့တော်ဖြစ်လာသည့် အလျောက် ခရိုင်ဝန်၊ ခရိုင်ရဲဝန်၊ ခရိုင်ဆရာဝန်၊ ခရိုင် ပညာဝန်၊ ခရိုင်အင်ဂျင်နီယာ စသည့် ဌာနအကြီးအကဲများ၏ ရုံးများရှိ၏။ ယခင် အင်္ဂလိပ်များ အုပ်စိုးစဉ်က မင်းတပ်နယ်တွင် မူလတန်းကျောင်း သုံးလေးကျောင်းမျှသာ ရှိခဲ့ရာ၊ ယခု အချိန်အခါတွင် မူလတန်းကျောင်း ၄၂ ကျောင်း၊ အလယ်တန်းကျောင်း သုံးကျောင်းနှင့် မင်းတပ်မြို့တွင် အထက်တန်းကျောင်းတကျောင်း တိုးချဲ့ဖွင့်လှစ်နိုင်ခဲ့လေသည်။ ပြည်တော်သာစီမံကိန်းအရ စာသင်ကျောင်း အများအပြားနှင့် တန်တား အများအပြားကိုလည်း ဆောက်လုပ်နိုင်ခဲ့သည့်အပြင်၊ မင်းတပ်မြို့၌ အိုးအိမ်ပြန်လည် ထူထောင်ရေးအဖွဲ့မှ စံပြတိုက် အလုံး ၅၀ ကိုလည်း ဆောက်လုပ်ထားရှိလေသည်။

မင်းတပ်မြို့သည် ရှမ်းကုန်းပြင်မြင့်ကဲ့သို့ ကုန်းမြေမြင့်တွင် တည်ရှိသဖြင့် ရာသီဥတုလည်း အလွန်ကောင်းမွန် သာယာလှပေသည်။ မင်းတပ်မြို့၏ တောင်ဖက် မိုင် ၃၀ ခန့်အကွာတွင် ပေ ၁၀,၀၀၀ ကျော် မြင့်မားသော ဝိတိုရိယခေါ် နတ်မတောင်ကြီးသည် မားမား မတ်မတ် တည်ရှိသည်။ ထို့ပြင် မင်းတပ်မြို့နှင့် မလှမ်းမကမ်း ဒေသများတွင်လည်း တောင်နှာမောင်း၊ တောင်တန်း၊ တောင်ထွတ်များ အစီအရီတည်ရှိနေသောကြောင့် တမျိုးပင် သာယာ၏။ ဆောင်းရာသီများ၌ တောင်စွယ် တောင်တန်းများမှ မြူခိုးများ လေပင့်ရာသို့ တလိမ့်လိမ့် လိုက်ပါနေသည်ကိုငင်း၊ ရာသီအလိုက် ပန်းဝတ်ရည်များကို သောက်သုံးနေကြသော ကျေးငှက်သာရကာတို့ဖြင့် သောသောညံလျက် ပင်လုံးညွတ်အောင် ဖူးပွင့်နေကြသော ချယ်ရီပင်များသည်ငင်း မြင်သူတို့အဖို့ ရှုမငြီးနိုင်စရာဖြစ်လေသည်။ မင်းတပ်မြို့မှ ချင်းဝိသေသတိုင်း အတွင်းရှိ မိုင်ပေါင်း ၇၀ ကျော်ကွာသော မတူပီမြို့သို့ ကားလမ်း တပိုင်းတစ ဖောက်ထားသည်မှအပ၊ မင်းတပ်နယ်အတွင်း ရှိရိုး ၆ ပေလမ်းခေါ် လူသွားလမ်းအပြင် အခြား ရေကြောင်းနှင့် လေကြောင်း ခရီးလမ်းဟူ၍ မရှိချေ။ သို့သော် ပြည်မနှင့် အနီးဆုံး ရွာဖြစ်သော ရေရှင်ရွာမှ ၇ မိုင်ဝေး၍၊ ကျောက်ထု လေယာဉ် ကွင်းသို့ မော်တော်ကားလမ်း ပေါက်သည်။ ဤသို့ လမ်းပန်း အဆက်အသွယ် ခက်ခဲမှုကြောင့်၊ ကူးသန်း

ရောင်းဝယ်မှုသည် မင်းတပ်မြို့မှလွဲ၍ အခြား နေရာများတွင် တိုးတက် နိုင်စွမ်း မရှိသေးချေ။ ချင်းလူထုမှာလည်း များသောအားဖြင့် မိရိုးဖလာအတိုင်း တောင်ယာ စပါးများနှင့် သစ်သီးသစ်ဥများ စိုက်ပျိုး စားသောက် နေထိုင်ကြသည်။ ထို့ကြောင့် မင်းတပ်နယ်မှ ထွက်ကုန်ဟူ၍ ပြောပလောက် အောင်မရှိချေ။ သို့သော် တစိတ်တဒေသအားဖြင့် တိုးတက်နေသည့်နေရာ အနည်းငယ်တို့တွင် ကာဖီပင်နှင့် လိမ်မော်ပင် အများအပြား စိုက်ပျိုးလျက် ရှိနေကြလေသည်။ နောင်နှစ် အနည်းငယ်အတွင်း ထွက်ကုန်အဖြစ် ပြည်မသို့ ပို့နိုင်ဖွယ်ရာ ရှိသည်။

မင်းတပ်မြို့တွင် မဟာဗောဓိကျောင်းတော်ကြီးနှင့် သကျမာရ်အောင်စေတီတော်တို့ ရှိသည်။ ပြည်မမှာကဲ့သို့ပင် အခါကြီးရက်ကြီးများတွင် ဗုဒ္ဓအယူဝါဒီတို့၏ ထုံးစံအတိုင်း ပွဲလမ်းသဘင်များ ခင်းကျင်းပူဇော်ကြသည်။ ချင်းဝိသေသတိုင်းရှိ ချင်းလူမျိုးတို့၏ ဓလေ့ထုံးစံအတိုင်း တောင်ယာများ ရိတ်သိမ်း၍ ပြီးသောအခါ၊ မင်းတပ်နယ်ရှိ ချင်းလူမျိုးများသည်လည်း ပွဲလမ်းသဘင်များကျင်းပ၍ ပျော်မြူးကြသည်။ ပွဲလမ်းသဘင်ကျင်းပသောအခါ မောင်းများနှင့် ဝါးပြွေများကို တီးမှုတ်၍ ဝိုင်းဖွဲ့ကာ တပျော်တပါး ကပွဲများ ဆင်ယင်ကျင်းပကြသည်။ ထို့ပြင် မင်းတပ်မြို့တွင် ဗရင်ဂျီဘုရားရှိခိုးကျောင်းလည်း ရှိသည်။

ယခုမင်းတပ်မြို့ တည်ရာနေရာတွင် ရှေးမြန်မာ မင်းများလက်ထက်ဝယ် လူနေအိမ်ခြေ မရှိခဲ့ချေ။ မင်းတုန်းမင်းနှင့် သီပေါမင်းတို့ လက်ထက်တွင်မူ နယ်စွန် နယ်ဖျား ငြိမ်ဝပ် ပိပြားသာယာစိမ့်သောငှါ သက်ဆိုင်ရာ ဘုရင့် မြို့ဝန်များနှင့် ချင်းခေါင်းဆောင်တို့ တွေ့ဆုံ ဆွေးနွေးရာနှင့် အခွန်ဘဏ္ဍာတော်များ ဆက်သရာ စခန်းမျှသာဖြစ်ခဲ့သည်။ သီပေါမင်းပါတော်မူပြီးနောက် တိုင်းပြည် မငြိမ်မသက် ဖြစ်နေစဉ် ချင်းလူမျိုးများသည် နယ်ချဲ့ အင်္ဂလိပ်တို့အား ပြည်မသို့ ဆင်း၍ တဖုံ၊ ချင်းတောင်အတွင်း၌တမျိုး၊ နည်းအမျိုးမျိုးတို့ဖြင့် အင်္ဂလိပ် တပ်များ သုံးကြိမ်တိုင်တိုင် ဆုတ်ခွာရသည်အထိ တိုက်ပွဲများ ဆင်နွှဲခဲ့ကြ၏။ သို့သော်လည်း နောက်ဆုံး ပြည်မကြီးတခုလုံးကို အင်္ဂလိပ်တို့ သိမ်းပိုက်သောအခါ အားမတန်၍ မာန်လျှော့ရသော ချင်းခေါင်းဆောင်များနှင့် အင်္ဂလိပ်တို့ စစ်ပြေငြိမ်းရာ ဒေသဖြစ်ခဲ့၏။ အင်္ဂလိပ်တို့ ချင်းတောင်ကို သိမ်းပိုက်ပြီးနောက် ယခု မင်းတပ်တည်ရာ နေရာတွင် အိမ်ခြေအနည်းငယ်ဖြင့် ရွာကလေးတည်ဟန် ရှိသည်။ အင်္ဂလိပ် ခေတ်တွင် မင်းတပ်သည် ပခုက္ကူတောင်တန်း ခရိုင်ဝန်လက်အောက်တွင် ရှိခဲ့သည်။ မင်းတပ်တွင် ရဲကင်းတပ်သာ ထားရှိ၍ ရဲသားများသာ နေထိုင်ခဲ့ကြသည်။ ဒုတိယ ကမ္ဘာစစ် အပြီးတွင် အင်္ဂလိပ်တို့ ပြန်ဝင်လာပြီးနောက် ကန်ပက်လက်၌ ချက်ခြင်း နယ်ပိုင်ရုံးမစိုက်သေးဘဲ မင်းတပ်မြို့၌ပင် နယ်ပိုင်ရုံးစိုက်ခဲ့သည်။ ဤသည်မှစ၍ မင်းတပ်မြို့သည် နယ်ပိုင်ရုံးစိုက်ရာ မြို့ဖြစ်ခဲ့သည်။ တဖန် မြန်မာနိုင်ငံ အချုပ်အချာ အာဏာပိုင်၍ လွတ်လပ်ရေး ရရှိပြီးနောက်လည်း ဆက်လက်၍ မင်းတပ်မြို့တွင် နယ်ပိုင်ရုံး စိုက်စေခဲ့သည်။ ထိုအခါမှစ၍ လူနေအိမ်ခြေနှင့်တကွ လူဦးရေပါ တိုးတက်လာခဲ့သည်။ ၁၉၅၇ ခုနှစ် ဩဂုတ်လအတွင်း တောင်ပိုင်း ချင်းတောင် ခရိုင်ဝန်ရုံးကို မင်းတပ်မြို့သို့ ရွှေ့ပြောင်းစေခဲ့သောကြောင့် ယခုအခါ မင်းတပ်မြို့သည် ခရိုင်ဝန်ရုံး စိုက်ရာ မြို့ဖြစ်နေပေပြီ။

မင်းတပ်ဟူသော အမည်၏ ဇာစ်မြစ်နှင့် စပ်လျဉ်း၍ ဝိဝါဒ ကွဲလျက်ရှိသည်။ အထက်တွင် ဖော်ပြခဲ့သည့်အတိုင်း မင်းတုန်းမင်းနှင့် သီပေါမင်းများလက်ထက်တွင် သက်ဆိုင်ရာ မြို့ဝန်များနှင့် ချင်းခေါင်းဆောင်များ တွေ့ဆုံ ဆွေးနွေးရာနှင့် အခွန်ဘဏ္ဍာတော်များ ဆက်ရာစခန်း အဖြစ် တည်ရှိခဲ့စဉ်က မြို့ဝန်များ ခေတ္တတည်းခိုရန် ဆောက်လုပ်ထားသော မင်းတဲကို အစွဲပြု၍ မင်းတဲစခန်းဟု ခေါ်ဝေါ်သည်။ ထို့ပြင် ဤစခန်းသို့ ဘုရင့်ကိုယ်စားလှယ်တော်ကြီးများ တက်လာသည်ကို အစွဲပြု၍ မင်းတက်စခန်းဟုလည်း ခေါ်သည်။ မြန်မာသံ 'တက်'ကို ယောသံ 'တပ်'ဟု အသံထွက်သောကြောင့် ယောသံသို့ လိုက်၍ 'မင်းတက်' မှ 'မင်းတပ်' ဖြစ်လာသည်ဟု ဆိုကြသည်။ တချို့ကလည်း အင်္ဂလိပ် စစ်တပ်များ ပဌမဆုံးတပ်စခန်းချ နေရာဖြစ်၍ "မင်းတပ်" ဟု ခေါ်သည်ဟုလည်း ဆိုကြသည်။

**မင်းဒေါင်းငှက်။** ။ဒေါင်းကုလား — ရှု။

**မင်းပြားမြို့။** ။မင်းပြားမြို့သည် မြန်မာနိုင်ငံဖြစ်သော ရခိုင်တိုင်း စစ်တွေ ခရိုင်တွင် ပါဝင်သော မင်းပြားနယ်၊ မင်းပြားမြို့နယ်တို့၏ ရုံးစိုက်မြို့ ဖြစ်သည်။ မင်းပြားမြို့သည် စစ်တွေမြို့၏ အရှေ့မြောက်ဖက် ၃၈ မိုင်အကွာတွင် လေးမြို့မြစ်ခွဲတခု၏ လကျာဖက်ကမ်း ဘေးတွင် တည်ရှိသည်။ မင်းပြားမြို့၏ လူဦးရေမှာ ၁၉၅၃ ခုနှစ် သန်ကောင် စာရင်းအရ ၅,၇၈၈ ယောက်ဖြစ်၏။

မင်းပြားနယ်သည် မင်းပြားမြို့နယ်နှင့် ပေါက်တောမြို့နယ်တို့ဖြင့် ဖွဲ့ထားသည်။ မင်းပြားမြို့နယ်၏ အကျယ်အဝန်းမှာ ၁,၆၂၃ စတုရန်းမိုင်ဖြစ်၍ မြို့နယ်တွင် ကျေးရွာပေါင်း ၁၃၆ ရွာ နှင့် ၁၉၅၆ ခုနှစ်တွင်လူဦးရေ ၁၀၄,၄၆၂ယောက်ရှိသည်။

မင်းပြားနယ်သည် မြေဩဇာကောင်းမွန်ထက်သန်သော ကျောထောက်နောက်ခံနယ်ရှိသည်။ လယ်ယာစိုက်ပျိုးရေးကို လုပ်ကိုင်သဖြင့် ဆန်စပါး ထွက်သည်။ ကူးသန်းသွားလာရေးတွင် ရေလမ်းကို အားကိုးအားထား ပြုရသည်။ စစ်တွေသို့ ရေကြောင်းဖြင့် သွားရသည်။ စစ်တွေ ကျောက်

ဖြူသွား သင်္ဘောများသည် မင်းပြားမြို့တွင် ဆိုက်ကပ်သည်။ မင်းပြားမြို့မှသည် မြောင်းဘွယ်မြို့၊ မြို့ဟောင်းမြို့၊ တိန်ညို၊ သရက်တပင်မြို့များကို ဖြတ်၍ ကျောက်တော်သို့ ပေါက်သော ကားလမ်းရှိသည်။

**မင်းဘူးခရိုင်။** ။မင်းဘူးခရိုင်သည် မြန်မာနိုင်ငံ အထက်ပိုင်း မကွေးတိုင်းတွင် ပါဝင်သော ခရိုင်တခုဖြစ်သည်။ တည်နေရာမှာ မြန်မာနိုင်ငံ၏ အလယ်နားဆီတွင် ရှိ၍ နယ်နိမိတ်အားဖြင့် မြောက်ဖက်၌ ပခုက္ကူခရိုင်၊ အရှေ့ဖက်၌ ဧရာဝတီမြစ်၊ တောင်ဖက်၌ သရက်ခရိုင်၊ အနောက်ဖက်၌ ရခိုင်ရိုးမတို့ဖြင့် ပိုင်းခြားလျက်ရှိသည်။ ရခိုင်ရိုးမတောင်ကို ကျော်လျှင် ကျောက်ဖြူနှင့် စစ်တွေ ခရိုင်များသို့ ရောက်နိုင်သည်။ မင်းဘူးခရိုင်သည် အကျယ်အဝန်းအားဖြင့် ၃,၅၉၄ စတုရန်းမိုင်ရှိ၍ သူကြီးပိုင်နယ် ၃၄၆ နယ် နှင့် လူဦးရေမှာ ၁၉၅၆ ခုနှစ်တွင် ခန့်မှန်းခြေ ၂၇၇,၇၇၆ ယောက်ရှိသည်။မင်းဘူးခရိုင်ကို မင်းဘူးနယ်၊ စလင်းနယ်ဟုနှစ်နယ်ခွဲထားရာ မင်းဘူးနယ်တွင် မင်းဘူးမြို့နယ်၊ စကုမြို့နယ်၊ ပွင့်ဖြူမြို့နယ်နှင့် ငဖဲမြို့နယ်တို့ ပါဝင်၍၊ စလင်းနယ်တွင် စလင်းမြို့နယ်နှင့် စေတုတ္တရာမြို့နယ်တို့ ပါဝင်သည်။ မင်းဘူး ခရိုင်၏ ရုံးစိုက်မြို့မှာ မင်းဘူးမြို့ဖြစ်၏။

မင်းဘူးခရိုင် တခုလုံးကို ခြုံ၍ ကြည့်သော် ခရိုင်၏ အရှေ့ပိုင်း ဧရာဝတီ မြစ်ဝှမ်းတလျှောက်တွင် ညီညာသော လွင်ပြင်များရှိ၍ အနောက်ဖက်တွင် ရခိုင်ရိုးမအထိ တဖြည်းဖြည်းမြင့်တက်သွားသော မြေပြင်ရှိ၏။ ရခိုင်ရိုးမနှင့် ဧရာဝတီမြစ်ဝှမ်းစပ်ကြားတွင် မြောက်ဖက်မှ တောင်ဖက်သို့ တောင်တန်းများ စီတန်းတည်ရှိသည်။ ထိုတောင်တန်းကြီးကို နွားမတောင်တန်းဟု ခေါ်လေသည်။

မင်းဘူး ခရိုင်အတွင်းရှိ အရေးကြီးသော မြစ်ချောင်းများမှာ ဧရာဝတီမြစ်၊ မုန်းမြစ်၊ မန်းချောင်းနှင့် စလင်းချောင်းတို့ဖြစ်သည်။ ဧရာဝတီမြစ်သည် မင်းဘူးမြို့အနီးတွင် ၃ မိုင်ခန့်ကျယ်ပြန့်၍ မြစ်ထဲတွင် ကျွန်းငယ်များနှင့် သဲသောင်ခုံများ ရှိလေသည်။ မုန်းမြစ်သည် မင်းဘူး ခရိုင်အတွင်းရှိ မြစ်ချောင်းများတွင် အကြီးဆုံး ဖြစ်၍ တနှစ်ပတ်လုံး စီးဆင်း၏။

မင်းဘူး ခရိုင်အတွင်းရှိ ထင်ရှားသော ကန်ကြီး နှစ်ခုမှာ စလင်းမြို့နယ်အတွင်းရှိ ဖောင်းလင်းအင်းနှင့် ဝက်ထီးကန်များ ဖြစ်၏။ ဖောင်းလင်းအင်းမှ ငါးအမြောက်အမြား ထွက်လေသည်။

မင်းဘူးခရိုင်၏ အဓိကလုပ်ငန်းမှာ လယ်ယာ စိုက်ပျိုးရေးဖြစ်၏။ မင်းဘူးခရိုင်သည် မိုးခေါင်ရေရှားရပ်ကွက်ထဲတွင် ပါဝင်သော်လည်း ဆန်စပါးကို ဆည်မြောင်းများ ဖောက်လုပ်ကာ ရေသွင်းစိုက်ပျိုးကြ၏။ ရေသွင်းတူးမြောင်းစုများ



မင်းဘူးမြို့ရှိ ရှင်ပင်စက္ကိန်းတဲ စေတီတော်မြတ်သည် မင်းဘူးခရိုင်တွင်း တန်ခိုးကြီးစေတီတော်တဆူဖြစ်သည်။

ကို သုံးစွဲထားသည်။ ယင်းတို့မှာ မြောက်ဖက်၌ စလင်းတူး မြောင်းစု၊ အလယ်၌ မန်းတူးမြောင်းစု၊ တောင်ဖက်၌ မန်းတူးမြောင်းစုများ ဖြစ်ကြ၏။ ဤတူးမြောင်းစု ၃ သွယ်ဖြင့် ၁၉၄၀ — ၄၁ ခုနှစ်တွင် မင်းဘူးခရိုင် အတွင်းရှိ ဆည်ရေသောက်လယ် ကေပေါင်းမှာ ၁၄၅,၇၆၂ ဖြစ်ပေသည်။

ဆန်စပါး အပြင် ခရိုင်အတွင်း စိုက်ပျိုးသော အခြား အသီးအနှံများမှာ နှမ်း၊ ပြောင်း၊ ပဲအမျိုးမျိုးနှင့် ဆေးတို့ဖြစ်ကြသည်။

မင်းဘူးခရိုင်မှ တွင်းထွက် ပစ္စည်းများလည်းရလေသည်။ မင်းဘူးမြို့အနီးနှင့် ရွာသာယာအနီးတွင် ရေနံတွင်း အနည်းငယ်ရှိ၏။ သို့ရာတွင် မင်းဘူးရေနံ လုပ်ငန်းမှာ ရေနံချောင်း၊ ချောက်စသောနယ်များရှိ ရေနံလုပ်ငန်းများလောက် မကြီးကျယ်လှပေ။ ဘီအိုစီ (၁၉၅၄) လီမီတက်မှ ရေနံများကို စမ်းသပ် တူးဖော်ရာတွင် မင်းဘူးမြို့တောင်ဖက် ၆ မိုင်ကွာရှိ ဖလန်ရိုတွင် ၁၉၆၁ ခုနှစ် ဇူလိုင်လ ၁၀ ရက်နေ့က ရေနံများ တွေ့ရှိပေသည်။ စစ်မဖြစ်မီက ဖလန်ရိုရေနံမြေ၌ ဘီအိုစီပိုင် ရေနံတွင်းပေါင်း ၃၀ ရှိခဲ့ရာ များသောအားဖြင့် တွင်းတိမ်များမှ ရေနံထွက်ခဲ့သည်။ ထိုအချိန်က တနေ့လျှင် ပီပါ ရာကျော်မျှသာ ထွက်ခဲ့သည်။ ထွက်သော ရေနံမှာလည်း အများအားဖြင့် ချက်လုပ်ရန် မသင့်တော်သောကြောင့် အိမ်သုတ်ရေနံချေး အဖြစ်ဖြင့်သာ ရောင်းချခဲ့ရသည်။ ဖလန်ရိုတွင် ဒုတိယ အစမ်းတွင်းတူးဖော်ရန် နေရာရွေးချယ် ပြင်ဆင်လျက် ရှိလေသည်။

မင်းဘူးခရိုင်အတွင်း အရေးကြီးသော သစ်တောများမှာ စေတုတ္တရာနှင့် ငဖဲမြို့နယ်များ၌ ရှိ၏။ ထိုသစ်တောများကို အစိုးရဌာနကအုပ်ချုပ်၍သစ်တောကြိုးဝိုင်းများကိုသတ်မှတ်ထားလေသည်။ ထိုသစ်တောများမှ ကျွန်း၊ အင်၊ အင်ကြင်း၊ ပျဉ်းကတိုး၊ ရှား စသောအဖိုးတန်သစ်များ ရရှိလေသည်။

မင်းဘူးခရိုင်သည် မြန်မာနိုင်ငံအလယ်ပိုင်း မိုးခေါင်ရေရှားရပ်ကွက်တွင် ပါဝင်သောကြောင့် လွန်စွာ ပူအိုက်သော ခရိုင်ဖြစ်၏။ နွေရာသီလများတွင် အပူချိန် ဖာရင်ဟိုက် ဒီဂရီ ၁၀၀ ကျော်အထိ တက်၍၊ ဆောင်းရာသီဖြစ်သော ဒီဇင်ဘာလတွင် ၄၉ ဒီဂရီအထိ ကျဆင်းတတ်လေသည်။ ဧရာဝတီ မြစ်ဝှမ်းနှင့်နီးသော မြေပြင်ပိုင်းတွင် မိုးအရွာနည်း၍ တောတောင် ထူထပ်သောအနောက်ပိုင်းတွင်မူ မိုးကောင်းသည်။

မင်းဘူးခရိုင်အတွင်း တမြို့နှင့်တမြို့ ဆက်သွယ်ထားသော လမ်းများမှာ သာမန်ကျောက်လမ်းများသာ ဖြစ်၏။ မီးရထားလမ်းမရှိချေ။ မင်းဘူး ငဖဲလမ်းမှာ ငဖဲနယ် ပဒန်ရွာအထိ ကျောက်လမ်းဖြစ်၍ ပဒန်းမှ ငဖဲအထိကား ပြုပြင်ထားသော မြေလမ်းဖြစ်၏။

မင်းဘူးခရိုင်နှင့် အခြား ခရိုင်များ ကူးသန်းဆက်သွယ်ရေးတွင်ကား များသောအားဖြင့် ဧရာဝတီ မြစ်ကြောင်းကိုသာ အားထားရလေသည်။ သို့သော် မင်းဘူးမြို့မှ ကျောက်ဖြူခရိုင်၊ အမ်းမြို့သို့ ပေါက်သောမင်းဘူး — အမ်းကားလမ်းကို ၁၉၆၄ ခုနှစ်တွင်ဖောက်လုပ်ခဲ့သည်။

မင်းဘူးခရိုင်သည် ရာဇဝင်တွင် မထင်ရှားသော်လည်း တန်ခိုးကြီး ဘုရားစေတီများ ပေါများ၏။ ထင်ရှားသော ဘုရားပုထိုးများမှာ စကုမြို့နယ်ရှိ ရွှေစက်တော်ဘုရား၊ လယ်ကိုင်းမြို့အနီး မုန်းမြစ်ဝှမ်းရှိ ကျောင်းတော်ရာစေတီနှင့် ဆင်ဖြူကျွန်းမြို့ အနောက်ဖက်ရှိ ဖောင်တော်ဦးစေတီများ ဖြစ်လေသည်။ ရွှေစက်တော်ဘုရား၌ တပေါင်းလအတွင်းကျင်းပသောပွဲတော်မှာ ထင်ရှားကျော်စောလှသဖြင့် ထိုပွဲတော်သို့ မြန်မာနိုင်ငံအရပ်ရပ်မှ ဈေးသည်များ ဘုရားဖူးခရီးသည်များ လာရောက်ကြလေသည်။ လယ်ကိုင်း ကျောင်းတော်ရာ ဘုရားပွဲတော်ကို နှစ်စဉ် တပေါင်းလတွင် ပြုလုပ်မြဲ ဖြစ်သည်။(စက်တော်ရာ။လယ်ကိုင်းကျောင်းဘော်ရာ — ရှု။)

**မင်းဘူးမြို့။** ။မင်းဘူးမြို့သည် မကွေးတိုင်း၊ မင်းဘူးခရိုင်၊ မင်းဘူးနယ်၊ မင်းဘူးမြို့နယ်တို့၏ ရုံးစိုက်မြို့ဖြစ်၍ ဧရာဝတီမြစ်၏ လက်ျာဖက်ကမ်းပေါ်တွင် တည်ရှိလေသည်။ မင်းဘူးမြို့သည် ဧရာဝတီမြစ်တဖက်ကမ်းရှိ မကွေးမြို့နှင့် ခေါ်လှမ်းခုတ်ဆိုသလို တည်ရှိသည်။ မြစ်ကြောင်းအားဖြင့် ရန်ကုန်မှ ၃၇၆ မိုင်ဝေးကွာသည်။ မင်းဘူးမြို့သည် ခရိုင်မြို့ကြီးဖြစ်သည်အားလျော်စွာ ရုံးများ၊ အထက်တန်းကျောင်း၊ ဆေးရုံ၊ ဈေးများနှင့် အကျဉ်းထောင်လည်း ရှိသည်။

မြို့၏ ပုံသဏ္ဌာန်မှာ မြောက်နှင့်တောင်တန်းလျက် တည်ရှိ၍ မြောက်ဖက်ပိုင်းတွင် မြေနိမ့်လျက် တောင်ဖက်သို့ တဖြည်းဖြည်း မြင့်တက်သွားသည်။ ခရိုင်ဝန်ရုံးနှင့် အခြား အစိုးရရုံးများကို မြို့၏ တောင်ဖက်ရှိ ကုန်းမြင့်ပေါ်၌ ဆောက်လုပ်ထားသည်။

မင်းဘူးမြို့သည် ဆိုခဲ့သည့်အတိုင်း ဧရာဝတီမြစ်ကမ်းပေါ်တွင်တည်ရှိသော်လည်း မိုးရာသီတွင်သာ သင်္ဘောများ ကမ်းသို့ကပ်နိုင်၍နွေရာသီတွင်သင်္ဘောများသည် မြို့၏တောင်ဖက် ၄ မိုင်ကွာအထိသာ အနီးဆုံး ဆိုက်ကပ်နိုင်လေသည်။ မင်းဘူးမြို့မှ ၄၁ မိုင်ဝေးကွာသော ငဖဲမြို့ သို့၎င်း၊ ၄၆ မိုင်ဝေးကွာသော ဆင်ဖြူကျွန်းသို့၎င်း မော်တော်ကားလမ်းများရှိသည်။

မင်းဘူးမြို့သည် ရာဇဝင်သမိုင်း အရ ထင်ရှားသော မြို့ မဟုတ်သော်လည်း၊ ဦးဩဘာသဆရာတော် သီတင်းသုံးရာမြို့ ဖြစ်သောကြောင့် စာပေသမိုင်းအားဖြင့် လူသိများပေသည်။ ထိုပြင်တဝ ရွှေစက်တော်ဘုရားကြောင့်လည်း မြန်မာနိုင်ငံ တဝှန်းလုံးတွင် ထင်ရှားပေသည်။ မင်းဘူးမြို့ရှိထင်ရှားသော စေတီပုထိုးများမှာ စက္ကိန်းတဲစေတီတော်၊ သက်န်းလိပ်တောင် ရုပ်ပွားတော်၊ စေတီတော်များနှင့် ခတ်တော်ပေါင်းစေတီတို့ဖြစ်သည်။



မင်းဘူးမြို့သည် ရေဝတီမြစ်၏ လက်ျာဖက်ကမ်းပေါ်တွင် တည်ရှိ၍၊ တဖက်ကမ်းရှိ မကွေးမြို့နှင့် ခါးလွယ်ခုတ် ဆိုသလို တည်ရှိသည်။ ပုံ၏ အထက်ဝဲဖက်တွင် ဖူးမြင်ရသော စေတီမှာ မကွေး မြသလွန်စေတီဖြစ်သည်။

သမိုင်းအားဖြင့် ဆိုလျှင် မင်းဘူးမြို့သည် ရှေးအခါက ရွာငယ်မျှသာဖြစ်၍ ခရစ် ၁၈၈၅ ခုနှစ်တွင်ပင် မင်းဘူးသည် သေးငယ်သော တံငါရွာကလေးမျှသာ ဖြစ်၏။ ခရစ် ၁၈၈၆ ခုနှစ် မတ်လတွင် ဗြိတိသျှတို့သိမ်းပိုက်သည့်နောက်ပိုင်းတွင်မှ တစတစ စည်ကားလာကာ မင်းဘူး တိုင်းမင်းကြီး ရုံးစိုက်မြို့ ဖြစ်လာ၏။ မကွေးတိုင်းအဖြစ် ပြောင်းလဲ၍ မကွေးသို့ တိုင်းမင်းကြီးရုံး ပြောင်းပြီးနောက် မင်းဘူးမြို့မှာ ခရိုင်ရုံးစိုက်မြို့ ဖြစ်လာသည်။ လူဦးရေမှာ ၁၉၆၂ ခုနှစ် ခန့်မှန်းသန်ကောင်စာရင်းအရ ၉,၈၈၂ ယောက် ရှိသည်။

မင်းဘူး ဟူသော အမည်၏ ဇာစ်မြစ်နှင့် စပ်လျဉ်း၍ ဝိဝါဒ ၃ မျိုးကွဲလျက်ရှိသည်။ တခုမှာ မုန်းဖူးမှ ဆင်းသက်သည်ဆို၏။ မုန်းချောင်း၏ ထိပ်ဖူးဖြစ်သည်ဟု ဆိုလို၏။ နောက်တမျိုးမှာ မင်းဖူးဟူသောစကားမှ ပျက်လာသည်ဆို၏။ ဤဝါဒနှင့်စပ်လျဉ်းသော ဆိုရိုးစကားမှာ မြန်မာသက္ကရာဇ် ၄၇၀ ပြည့်နှစ်တွင် ပုဂံပြည့်ရှင်အလောင်းစည်သူမင်းသည် ကရဝိတ်ဖောင်ဖြင့် ရေဝတီမြစ်တလျှောက် စုန်ဆင်းလာသည်တွင် မင်းဘူး ဆိပ်ကမ်းသို့ ရောက်လျှင် ရွာရှိစေတီမှ ရောင်တော်ကွန့်မြူးနေသည်ကို တွေ့သော် ဖောင်ဆိုက်ပြီးလျှင် စေတီကို ရှိခိုးပူဇော်သောဟူ၏။ ထိုအချိန်မှစ၍ မင်းဖူး တွင်သည်ဟု ပြောဆိုကြပေသည်။ တတိယအဆိုမှာ မန်းပူးမှ မင်းဘူးဖြစ်လာသည်ဟူ၏။ မင်းဘူးအထက် ၅ မိုင်ခန့်တွင် မန်းချောင်းသည် ရေဝတီမြစ်နှင့် ပေါင်းဆုံသည်ကို အကြောင်းပြု၍ မန်းပူးဟုတွင်ကာ ကာလရွေ့လျောသော် မင်းဘူးဖြစ်လာသည် ဆိုလေသည်။

**မင်းမြှောက်တန်ဆာငါးပါး**။ ။ရေမြေသေဉ္စနင်း ဘုရင်မင်းတို့ ဘိသိက်မင်္ဂလာအခါတော်၌ ဆင်ယင်ကိုင်စွဲရသော အဆောင်အယောင် ငါးပါးကို မင်းမြှောက်တန်ဆာငါးပါးဟု ခေါ်သည်။ မင်းမြှောက် တန်ဆာငါးပါးတွင် (၁) သန်လျက် (၂) ထီးဖြူ (၃) သင်းကျစ် (၄) ခြေနင်း (၅) သားမြီးယပ်တို့ ပါဝင်သည်။ ယင်းတို့သည် ပြည်ရှင်မင်းတို့၏ ရတနာအပေါင်းတို့ထက် ပြဋ္ဌာန်းသော ရတနာဖြစ်ခြင်းကြောင့် ပဓာန ရတနာမည်သည်။ မင်းအပေါင်းတို့သည် ထီးဖြူကို ဆောင်းမိုးလျက်၊ ရင်ခွင်ထက် သားမြီးယပ်ကို ပိုက်၍၊ နဖူးပြင်ဝယ် တင့်တယ်စွာ သင်းကျစ်ကို ဆင်ယင်ပြီးလျှင် ခြေ၌ ခြေနင်းစီးကာ သန်လျက်စွဲကိုင်၍ အဘိသိက်မင်္ဂလာခံယူကြသည်။ "ရဟန်းတွင် သိက္ခာ၊ မင်းတွင်ဘိသိက်"ဟု ဓညဝတီ အရေးတော်ပုံကျမ်း၌ ဆိုသောကြောင့် မင်းမြှောက်တန်ဆာ ငါးပါးတို့ကို ဆင်ယင် သုံးစွဲလျက် သုံးပါးသော ရာဇဘိသိက်ခံသော မင်းကိုသာ မင်းဟုသမုတ်အပ်ကြောင်းဖြင့် ရာဇဝင်တို့၌ ဆိုသည်။

**သန်လျက်**။ ။သန်လျက် ဟူသည်ကား လက်နက် အထူးတည်း။ သန်လျက် ၂ မျိုးရှိသည်။ တဖက်သာ အသွားရှိသော ကေတောခရ သန်လျက်နှင့် နှစ်ဖက်သွားရှိသော ဉဘတောခရ သန်လျက်ဟူ၍၎င်း၊ ဦးဖျားစဉ်းငယ် ညွတ်သော ဤသာဂ္ဂသန်လျက်နှင့် ဦးဖျား မညွတ်ဘဲ အစဉ်အတိုင်း ဦးဖျားသေးသော ဥဇုဂ္ဂသန်လျက်ဟူ၍၎င်း နှစ်မျိုးခွဲကြသည်။ သန်လျက်၏ အသွား အလျားပမာဏသည် သုံးဆဲ့သုံးသစ်၊ အချိန်ပမာဏသည် သုံးဆဲ့သုံးပိုလ်ဟူ၍ သေနကဇာတ်၊ ပဥ္စဝုဓဇာတ်တို့၌ လာသည်။

**ထီးဖြူ**။ ။ထီးဖြူကား ဘုရင်ကေရာဇ်တို့ စံပယ်ရာ၌ မပြတ် စိုက်တည်ထားသော မင်းမြှောက်တန်ဆာ တပါးဖြစ်သည်။ ထို့ကြောင့် "ထီးဖြူအောက်၌၊ တောက်သားမီးနှယ်၊ လျှပ်စစ်နွယ်သို့ စလွယ်သင်းကျစ်၊ ဦးရစ်ရွှေပေါင်း၊ နတ်ရုပ်ဆောင်းလျက်" ဟု ပညာရှိတို့ စပ်ဆိုကြခြင်း ဖြစ်သည်။ အင်းဝမင်း နရပတိကို အမှတ်မဲ့ လုပ်ကြံသည်တွင် ထီးရိုးကို မားချက်ကျ၍ မင်းနရပတိကို ထီးဖြူအုပ်မိသည်။ ငသောကြာနှင့် ရေနံ့သာစားတို့ ထွေးလုံးကြသည် ဆိုသည့်စကားကို ထောက်၍လည်း မင်းတို့သည် ထီးဖြူအောက်၌ မပြတ်စံပယ်ကြောင်း သိရသည်။ ထီးဖြူ ၄ ပါး အပြားရှိသည်။ ထီးရှက်ကိုးဆင့်၊ ထီးရိုးဆယ်တောင်ရှိသော နဝဒဏ္ဍထီး၊ ထီးရွက် အမှတ်မရှိ၊ ထီးရိုး ၆ တောင်ရှိသော မနောဟရထီး၊ ထီးရွက်အမှတ်မရှိ၊ ထီးရိုး ၅ တောင်ရှိသော အာတပတ္တထီး၊ ထီးရွက်အမှတ်မရှိ၊ ထီးရိုး ၄ တောင်ရှိသော ဗိဇယတြထီး ဟူ၍ဖြစ်သည်။ ထိုထီး ၄ မျိုးတွင် ပဌမ ၃ မျိုးသည် ရာဇပလ္လင်တွင် ဆောင်းသော ထီးဖြစ်၍ နောက်ဆုံးထီးမျိုးသည် သွားလေရာရာ ဆောင်းသော ထီးဖြစ်သည်။ ထီးကို စီရင်ရာ၌ ထီးရိုးကိုရွှေဖြင့် အလုံးစုံမွမ်းမံပြုလုပ်ရ၏။ ထီးခရိုင်ကို ၃ လွှန်းတင်၊ ၆ လွှန်းတင်၊ ၉ လွှန်းတင် ကျစ်အပ်သော ကြိုးဖြင့်ဖွဲ့ရသည်။ ထီးချက်ပမာဏကိုကား ၁၂ဂ လက်သစ်ပမာဏ အထူးကို ပြုစီရင်ရသည်။ ထီးထွတ် ငှက်မြတ်နား၌မူ မင်းတို့၏ ချမ်းသာကို ဆောင်တတ်သော ဟင်္သာငှက်ရုပ်ကို ဖြစ်စေ၊ နွားမြီးဆွဲရုပ်ကို ဖြစ်စေ၊ ကျေးငှက်ရုပ်ကိုဖြစ်စေ တခုခုကို စီရင် တပ်ဆင်ရသည်။ ထီး၏အချင်းသည် ၅ တောင်တမိုက်ဖြစ်သည်။ နဝဒဏ္ဍထီးမှာမူ အဆင့် ၉ ဆင့်ရှိသဖြင့် အောက်ဆင့်ကို အချင်း ၅ တောင်တမိုက်ထား၍ ထက်ဝန်းကျင်၌ ရွှေညောင်ရွက် ၁၀ဂ ခုကို၎င်း၊ ရွှေညောင်ရွက်တို့၏ အကြား၌ မြ၊ ပတ္တမြား၊ သန္တာစသော ပန်းပွား တို့ကို၎င်း စီရင်ချိတ်ဆွဲရသည်။ ကြွင်းသော ထီး ၃ မျိုး၌မူ အရေအတွက် ကန့်သတ်ချက်မရှိ လျောက်ပတ်တင့်တယ်အောင် လုပ်ဆောင်ရသည်။ လောကဗျူဟာကျမ်း၌ ထီး ၄ စင်း ဟူသည်မှာ ကနကဒဏ်ထီး ၂ စင်း၊ တမွတ်ထီး ၂ စင်း ပေါင်း ၄ စင်းဟုဆိုသည်။ ဒီသာ ဇေယစာတမ်း၌မူ ကမ္ဗုထီး၊ စန္ဒထီး၊ ပဒုမထီး၊ သမုဒ္ဒဇာထီး ဟူ၍ လကျာ ၄ စင်း၊ ကနကဒဏ်ထီး၊ သူရိယထီး၊ ဝိသုကမ္မထီး၊ သမုက္ခထီးဟူ၍ လက်ဝဲ ၄ စင်း၊ ပေါင်း ဂ စင်းရှိကြောင်းဖြင့် ဆိုပြန်သည်။ ရတနာပူရ စတုတ္ထ မြို့တည် နန်းတည် မင်းတရားကြီး အဘိသေက စာတမ်းတွင် ထီးဖြူတော်ကို မင်းတရားကြီးလက်တော်နှင့် အချင်း ၄ တောင် ၆ သစ်၊ အချင်းအဝန်း မုတ်ပေါင်း ၄၉ ခု၊ ယင်းကို ဂ ခုစား တခုကြွင်းရကား နေခြည်ကာသော ထီးဟူ၍ အကြောင်းကြံလျက် စွန်သုတ်နားထောင့် ၁၂ ပေါက်၊ ထီးတံ ၃၆ ခု၊ ကြာယပ် ၃ ဆင့်၊ ညောင်ရွက် ၁၀ဂ ခု၊ ပုလဲဆိုင်းသန္တာဆိုင်း ၁၀ဂ သွယ်၊ ထီးချက်အချင်း တတောင်၊ စောက်တတောင်တမိုက်၊ ထီးရိုးထီးဝန်းနှင့် အမျှ လုပ်ကြောင်းဆိုသည်။

**သင်းကျစ်**။ ။သင်းကျစ် ဟူသည်ကား လကျာ နားပန်မှ လက်ဝဲနားပန်တိုင်အောင် နဖူးပြင်ကို ပြည့်စေလျက် ဆင်ယင်ရသော မင်းတို့၏ အဆောင်အယောက် တပါး ဖြစ်သည်။ ရွှေစင်အတိပြီးသော ဟူ၏။ ဘုရားအလောင်းတို့အား လကျာနားပန်တိုင်အောင် နဖူးပြင်ကို ပြည့်စေလျက် အသားလွှာတက်သော ဥဏှိသလက္ခဏာကို အတုမူ၍ မင်းတို့အား ရွှေပြားသင်းကျစ် ထုံးစံဖြစ်ကြောင်းကို သုမင်္ဂလဝိလာသိနီ မည်သော ဒီဃနိကာယ် အဋ္ဌကထာ စသော ကျမ်းများ၌ ဆိုသည်။ သင်းကျစ် ၂ မျိုး ရှိလေသည်။ မကိုဋ်နှင့်ရွှေပန်းနှင့် တစပ်တည်း ပြုလုပ်အပ်သော မကုဋ္ဌာဗဒ္ဓိကသင်းကျစ်၊ မကိုဋ်ရွှေပန်းနှင့်မစပ် သက်သက် ပြုလုပ်အပ်သော သုဒ္ဓိက သင်းကျစ် ဟူ၍ ဖြစ်သည်။ တနည်းအားဖြင့် နဖူးသင်းကျစ်၊ ဘွဲ့သင်းကျစ် ဟူ၍ ရှိကြောင်းဖြင့်လည်း ဆိုကြသည်။ နဖူးသင်းကျစ်ကို ရည်၍ "သက်တင်စို့လား၊

နဖူးဖျားဝယ်၊ ရွှေသားသင်းကျစ်၊ ရွှေမွန်ဇာစ်ဖြင့်၊ လျှပ်စစ်ပြောင်ပြောင်၊ ညဥ့်မိုက်မှောင်၌၊ တိမ်တောင်လင်းလင်း၊ ဝင်းဘိသောနှယ်၊ ရှန်းရှန်းကယ်မျှ” ဟူ၍၎င်း၊ ဘွဲ့သင်းကျစ်ကို ရည်၍ “ဧတုမဟာရာဇ်၊ သင်းကျစ်နွှဲနွှဲ၊ ရွှေဘွဲ့ရေးရေး၊ အမည်ပေးသား၊ ကျော်သွေးနှံ့ချောက်၊ နတ်လေးယောက်” ဟူ၍၎င်း ပညာရှိတို့ စပ်ဆိုခဲ့ကြသည်။

ခြေနင်း။ ။ခြေနင်း ဟူသည်ကား ခြေဦးစွပ် ခြေနှောင့်စွပ်ရှိသော စီးနင်းသုံးဆောင်အပ်သည့် မင်းတို့ အဆောင်အယောင်တပါး ဖြစ်သည်။ မင်းမြှောက်တန်ဆာ ငါးပါးအနက် မင်း၏မကွေမကွာမပြတ်သုံးဆောင်အပ်သောဘဏ္ဍာဖြစ်သောကြောင့် မင်း၏ကိုယ်အစိတ်အဝက်နှင့် တူသည်။ ထို့ကြောင့် မန္ဓာတုဇာတ်၌ သားတော်ကြီး ရတနာသည် ခမည်းတော် မန္ဓာတ်မင်း တာဝတိံသာနတ်ပြည်၌ စံနေတော်မူစဉ်၊ ခမည်းတော်မန္ဓာတ်မင်း ခြေနင်းကို ရာဇပလ္လင်၌ တင်ထားပြီးလျှင် ခမည်းတော် အရာ၌ တည်စေ၍ တိုင်းပြည် မြေပြင်အလုံးကို ဆုံးမကြောင်း၊ ရာမဇာတ်၌လည်း ရာမမင်း တောအရပ်မှ မပြန်လည်မီ ရာမမင်း၏ ခြေနင်းကို ရာဇပလ္လင်၌ တင်ထားပြီးလျှင် မင်း၏အရာ တည်စေ၍ တိုင်းပြည် အလုံးကို ဆုံးမကြောင်း ဆိုသည်။ သုတ္တနိပါတ် အဋ္ဌကထာ၌ ဗုဒ္ဓမတညာဆရာတို့ မိန့်ဆိုတော်မူသည်နှင့်အညီ မုဒ္ဓာဘိသိက် ခံယူကုန်ပြီးသော ရေမြေသေဋ္ဌနင်း ပြည့်ရှင်မင်းတို့သည် တရားဆုံးဖြတ်ရာ ရွှေလွှတ်တော် သဘင်၌ အကြောင်း မညီညွတ်၍ မတက်ရောက်နိုင်သောအခါ တရား ကျမ်းဂန်ထုံးစံကို မပျက်စေမူ၍ ရွှေခြေနင်းကို ရာဇပလ္လင်၌ ထားသင့်သည်ဟု ဆိုသည်။

သားမြီးယပ်။ ။သားမြီးယပ် ဟူသည်ကား စာမရီ မည်သော သားကောင်၏ အမြီးကို ပတ္တမြားဖြင့် စီအပ်သော ရွှေရိုး၊ သို့မဟုတ် ရွှေစင် တခဲနက် ခတ်လုပ်အပ်သော အရိုးဖြင့် တပ်၍ ယပ်ကဲ့သို့ မင်းတို့ ကိုင်စွဲသုံးဆောင်သည့် မင်းအဆောင်အယောင်တပါး ဖြစ်သည်။ သာမန်သားကောင်၏ အမြီးဖြင့်လည်း ပြုလုပ်လေ့ရှိကြောင်းဖြင့် ဇာတ်နိပါတ်တို့၌ဆိုသည်။ သို့ရာတွင် စာမရီသားမြီးသည် မင်းဖွယ် စိုးထိုက်တင့်တယ်လျောက်ပတ်သဖြင့် ယင်းဖြင့်သာလုပ်ဆောင်ကြလေသည်။

# အသက်အငယ်ဆုံး စစ်ဘုရင်

**အင်းဝဘုရင် မင်းခေါင်ကြီး၏သားတော် မင်းရဲကျော်စွာသည် ၁၃ နှစ် အရွယ်ကပင် စစ်ဘုရင် ဖြစ်သည်။ ၂၆ နှစ်တွင် ကွယ်လွန်သည်အထိ ၆ နှစ်လုံးလုံး စစ်ကစားခဲ့သည်။ လက်ရုံးရည်တွင် စံပက်ရှားသူတဦး ဖြစ်လေသည်။**

**မင်းရဲကျော်စွာ (မြန်မာ ၇၅၂ – ၇၇၈)။** ။မင်းရဲကျော်စွာသည် အင်းဝဘုရင် ပဌမမင်းခေါင်နှင့် မိဖုရား ရှင်မိနောက်တို့တွင် မြင်သည့် သားတော်ဖြစ်၍ ၇၅၂ ခုနှစ်တွင် ဖွားမြင်သည်။ အသက် ၁၃ နှစ်က စစ်ဘုရင်ဖြစ်သည်။ ၇၆၂ ခုနှစ်မှ ၇၇၈ ခုနှစ် အသက် ၂၆ နှစ်တွင် လွန်သည်အထိ ၆ နှစ်လုံး စစ်မပြတ်တိုက်လေသည်။ အလွန်ရဲရင့်စွမ်းသန်၍ ကမ္ဘာတွင် အသက်အငယ်ဆုံးစစ်ဘုရင်ဟုဆိုလောက်၏။ မင်းခေါင်သားတော် မင်းရဲကျော်စွာကား ရာဇာဓိရာဇ်သားတော် ဗောလောကျန်းတော ဘဝမှ မင်းမျက်၍ သတ်မည်အပြုတွင် နောက်ဘဝ၌ မြန်မာတို့ဝမ်း၌ဖြစ်၍ မွန်တို့ပြည်ကို ညှဉ်းဆဲရသည် ဖြစ်စေသော်ဟု ဆုတောင်းသည့်အတိုင်း ဝင်စားလာသူ ဖြစ်သော ဟူ၏။

သက္ကရာဇ် ၇၆၅ ခုနှစ်တွင် ရခိုင်ဘုရင် ထောရာကြီးသည် မြန်မာပိုင် ယော၊ ဆော၊ လောင်းရှည်တို့ကို ထိပါးလာ၏။ ထိုအခါ ဘုရင်မင်းခေါင်သည် သားတော် မင်းရဲကျော်စွာကို ဗိုလ်မှူးခန့်၍ တပ် ၁၀ တပ်နှင့် ရခိုင်သို့ ချီစေ၏။ ထိုအခါ မင်းရဲကျော်စွာသည် သက်တော် ၁၃ နှစ်သို့ ဝင်ရုံသာ ရှိသေးသည်။ ငယ်စွာသဖြင့် တပ်ချလျှင် သူငယ်ဖော်များနှင့် ဂျင်၊ ကျည်းသား ကစား၍ နေတော်မူလေ့ရှိ၏။

ရခိုင်ဘုရင်လည်း စစ်သည်အများနှင့် နန္ဒင်းဟောင်ကကြို၍ ခံလာ၏။ မင်းရဲကျော်စွာကလည်း သူ့စစ်က အားကြီး၍ ငါတို့စစ်က အားမတန် ဖြစ်ချေသည်။ ထို့ကြောင့် ငါတို့စစ်ကို ၃ စုခွဲ၍တိုက်မှ သူပျက်လွယ်မည်ဟု မိန့်ဆို၍ လက်ဝဲ လက်ျာ ၃ တပ်စီ၊ အလယ် ၄ တပ်ကိုမင်းရဲကျော်စွာမှူး၍ ရဲမြတ်စွာ ဟူသောဆင်ကို စီးလျက် မြင်း ၃,၀၀၀ အလယ်ကိုထွင်း၍တိုက်၏။ မင်းရဲကျော်စွာတိုက်သည်ကိုမြင်လျှင် ဗိုလ်မှူးတပ်မှူးတို့မနေဝံ့၊ ရှပ်ရှပ်ချွံချွံ တိုက်လေသည်။

ဤသို့ မင်းရဲကျော်စွာ တိုက်၍ သူ့ဆင် ၄ စီး ၅ စီးလည်း ပြီးနောက်၊ ရခိုင်ဘုရင် ထောရာကြီး စီးသောဆင်ကို တိုက်မည်ဟု လွှတ်လေရာ၊ ရခိုင်ဘုရင်လည်း မခံနိုင်သဖြင့် ဆင်မှ မြင်းသို့ ဆင်း၍ မြင်းတပ်နှင့် ခံသည်ကို အင်းဝမြင်းသည်တို့ ဝိုင်း၍တိုက်သည်တွင် ရခိုင်ဘုရင် ကျလေ၏။ ထိုအခါ ရခိုင်စစ်သည်တို့ ပျက်၍ ပြေးကြရလေသည်။

ရခိုင်မြို့ကိုသိမ်း၍ မြို့စောင့်ထားပြီးလျှင် မင်းရဲကျော်စွာတို့ ပြန်ခဲ့၏။ မင်းခေါင်သည် ကလေးစား အနော်ရထာမင်းစောအား ရခိုင်မြို့ကို ပေးတော်မူ၍ နောက်တနှစ်တွင် သမီးတော် ရွှေပြည့်ချမ်းသာနှင့် ရခိုင်စား နော်ရထာကို စုံဖက်တော်မူ၏။

သက္ကရာဇ် ၇၆၇ ခုနှစ်တွင် ဘုရင်မင်းခေါင်သည် သားတော် မင်းရဲကျော်စွာကို ပုခန်း တရဖျားကြီး သမီး စောမင်းလှနှင့် စုံဖက်တော်မူ၍ အိမ်ရှေ့နန်းတော်မူသည်။ ဆင်ကောင်း မြင်းကောင်း အလုံးအရင်းများ ပေးတော်မူ၏။ ထိုအခါ ညီတော် မင်းသိဒ္ဓတ် အားကျ၍ ပုန်ကန်သည်။ နောင် မင်းခေါင်နှင့် တိုက်ရာတွင် ရှုံး၍ ရာဇာဓိရာဇ်ထံ ခိုဝင်လေသည်။

သက္ကရာဇ် ၇၇၂ ခုနှစ် သက်တော် ၂၀ တွင် မင်းရဲကျော်စွာသည် ဆင်မြင်းဗိုလ်ပါအများနှင့် မွန်တို့ပြည်သို့ ချီလေ၏။ မြောင်းမြတွင် လှေတပ်ချင်း တိုက်၏။ မြို့ကိုကား မရချေ။ ပုသိမ်ခဲပေါင်မြို့များကိုလည်း လုပ်ကြံသည်။ မရချေ။ ထိုအခါ မင်းရဲကျော်စွာသည် မှူးမတ်ကြီးများနှင့် တိုင်ပင်ကာ၊ မွန်တို့ပြည်ကိုမလုပ်ကြံသေးဘဲ၊ ပြန်၍ ဆန်တက်ကာ ရခိုင်သံတွဲကို တိုက်ခိုက် အောင်မြင်ခဲ့ပြီးမှ အင်းဝသို့ ပြန်ခဲ့သည်။ ခမည်းတော်က ဆုလာဘ် များစွာပေး၏။

ရခိုင်သံတွဲမြို့ကို မင်းရဲကျော်စွာ လုပ်ကြံ၍ ရလေသည်နှင့် ရခိုင်မင်း နရမိတ်လှ ထွက်ပြေးရကြောင်းကို ရာဇာဓိရာဇ် ကြားသော် ၇၇၃ ခုနှစ်တွင် သံတွဲမြို့ကို လာရောက်လုပ်ကြံ အောင်မြင်၍၊ သမိန်ဗြသအိုက်၊ သမိန်အဲဂေါင်းပိန်တို့ကို သံတွဲမြို့တွင် အခိုင်နေစေသည်။ ထိုအကြောင်းကို ဘုရင်မင်းခေါင် ကြားသော် သားတော် မင်းရဲကျော်စွာအား အလုံးအရင်းကြီးစွာနှင့် သံတွဲမြို့ကို ဝိုင်းထားစေ၏။ ဤသို့ ဝိုင်းထားသဖြင့် မြို့တွင်းသား မွန်တို့ တော်လှသောကြောင့် လွှား၊ မောက်တိုတို့ကိုသာ ချက်ပြုတ် စားသောက်ကြရကုန်၏။ ထိုအခါ သမိန်ဗြသအိုက်သည် ရာဇာဓိရာဇ် အလုံးအရင်းနှင့် စစ်ကူလာမည့်ဟန် ဥပါယ်တံမျဉ် ကြံသဖြင့် မင်းရဲကျော်စွာတို့ တပ်ခေါက်ပြီးလျှင် အင်းဝသို့ ပြန်လေသည်။ ထိုနောက် သမိန်ဗြသအိုက်၊ သမိန်အဲဂေါင်းပိန်တို့လည်း ရခိုင်သို့ ချီ၍ လုပ်ကြံအောင်မြင်သော် နရမိတ်လှကို နန်းတင်ပေးခဲ့လေသည်။

သက္ကရာဇ် ၇၇၄ ခုနှစ်တွင် သိန္နီစော်ဘွားသည် အလုံးအရင်းများစွာနှင့် အင်းဝသို့ ချီလာသည်ကို မင်းရဲကျော်စွာ ဗိုလ်မှူးပြု၍ ခုခံရ၏။ ရှေးဦးစွာ မြင်းတပ်ချင်း တိုက်ရာ စော်ဘွား၏ မြင်းတပ် ပျက်ပြီးနောက်၊ မင်းရဲကျော်စွာသည် ဆင်တော် ချေစ်ခိုင်ကို စီး၍ စော်ဘွားဆင်နှင့် အတန်ကြာ ချေပြီးနောက် စော်ဘွားမူးရစ်နေသည်ကို သိတော်မူသည်နှင့် စော်ဘွားဆင်ပေါ်သို့ ခုန်တက်ပြီးလျှင် စော်ဘွားနှင့်တကွ ကုန်းလယ် နောက်ပဲ့တို့ကိုပါ ခုတ်ချလိုက်လေသည်။ စော်ဘွားကျလျှင် ရှမ်းစစ်သည်တို့ ပျက်၍ ပြေးလေ၏။

စော်ဘွား၏ သားနှင့် သမက်များကလည်း ဗိုလ်ပါ စုရုံး၍ သိန္နီသို့ ပြန်လေသည်ကို မင်းရဲကျော်စွာသည် သိန္နီအထိ လိုက်ကာ မြို့ကို အကြိမ်ကြိမ် လုပ်ကြံသော်လည်း မရချေ။ ၅ လခန့်ကြာသော် ရှမ်းတို့သည် တရုပ်တို့ထံမှ အကူအညီ တောင်းလေ၍ တရုပ်တို့လာသည်ကို မင်းရဲကျော်စွာသည် တိုက်ဖျက်၍ လူသူဆင်မြင်းအများ ရလိုက်လေသည်။

မင်းရဲကျော်စွာ သိန္နီသို့ ချီသည်ကြားသော် ရာဇာဓိရာဇ်လည်း ပြည်မြို့ကို ဝန်းရံလုပ်ကြံလာသည်။ သို့ရာတွင် မြို့ကိုပေါက်အောင် မတတ်နိုင်ချေ။ တလခန့်ကြာသော် မုတ္တမကျေး ရေးမြို့ကို ယိုးဒယားတို့တိုက်လာကြောင်း ကြားရသားတော်အား ပြည်မြို့ကို ဝန်းရံစေ၍ ရာဇာဓိရာဇ်မှာ မုတ္တမသို့ ချီလေသည်။ ဘုရင် မင်းခေါင်လည်း သားတော် သိန္နီမှပြန်ရောက်လျှင် မင်းရဲကျော်စွာကား ကြည်းကြောင်း၊ မင်းခေါင်ကား ရေကြောင်း ချီရသည်။ ရာဇာဓိရာဇ်လည်း ပြည်မြို့သို့ အရောက် ချီလာပြန်သည်။ ဤစစ်တွင် မွန်တို့ အပျက်များသည်။ မွန်သူရဲကောင်း လဂွန်းအိမ်ကို မင်းရဲကျော်စွာ ဥပါယ်တံမျဉ်ဖြင့် သွေးခေါ်၍ တိုက်သည်ကိုလိုက်မှားသည်နှင့်လက်နက်ထိ၍လွန်သည်။ (လဂွန်းအိမ် — ရှု။) မြန်မာဖက်ကလည်း မွန်အမှုထမ်း သူရဲကောင်း ပြည်စားလကျ်ာပံချီလက်နက်ထိ၍ ကျဆုံးသည်။ ရာဇာဓိရာဇ်လည်း အားလျော့သောကြောင့် အပြင်းစုန်လေရာ မင်းရဲကျော်စွာက နောက်ထပ်လိုက်လေ၏။ မြန်မာတို့ သံလျင်ကိုရပြီးနောက် အနောက်ဖက်တလွှားဖြစ်သော ပုသိမ်၊ မြောင်းမြ၊ ခဲပေါင်မြို့များမှ သုံ့ပန်းတို့ကို အင်းဝသို့ချည်း ပို့လေ၏။ နောင်အင်းဝသို့ သိန္နီက စစ်ရောက်သည်ကြား၍ မြန်မာတပ်တို့ပြန်ကြသည်။

မော်တုံမော်ကယ်စား ရှမ်းတို့သည် နိုင်ငံတော် ဖြစ်သော မြေဒူးမြို့ကို ထိပါးလာသဖြင့် မင်းရဲကျော်စွာသည် သက္ကရာဇ် ၇၇၅ ခုနှစ်တွင် ချီတက် တိုက်ခိုက် အောင်မြင်ပြီးနောက် သက္ကရာဇ် ၇၇၆ ခုနှစ်တွင် မွန်တို့ ပြည်သို့ ချီပြန်၏။ ရောက်သော် ခဲပေါင်မြို့ကို တပ်သားများအား အသက်စွန့်ကာ တိုက်ခိုက်စေပြီးနောက် မြန်မာတို့မှာ ရိက္ခာ မလောက် ဖြစ်လေသည်။ ထိုနောက် မင်းရဲကျော်စွာသည် အင်းဝသို့ ရတ်တရက်ခေတ္တပြန်သွားပြီးနောက် တလအတွင်း ပြန်ရောက်လာ၏။ စစ်ဦးတွင် မွန်တို့အကြိမ်ကြိမ် ရှုံး၍ ရာဇာဓိရာဇ်လည်း ဇာတာတော် မသန့် ဟုဆိုကာ မုတ္တမဖက်သို့တိမ်းရှောင်နေရသည်။ အနောက်ဖက်တလွှား ပုသိမ်၊ မြောင်းမြ စသည်တို့လည်း မြန်မာများထံ ဝင်ကြလေသည်။ မင်းရဲကျော်စွာ မွန်သူရဲကောင်း သမိန်ဗရမ်းကိုရ၍ ခမည်းတော်ထံ ဆက်သသည်။ မြန်မာတို့လည်း စစ်တပ်တို့ကို အခွဲခွဲစီစဉ်လျက် အကြီးအကျယ် တိုက်ခိုက်ရန် ပြင်ဆင်လေသည်။ မင်းရဲကျော်စွာသည် ဒလတွင် တပ်ချ၍ အပြီးသတ် တိုက်ခိုက်ရန် ရာဇာဓိရာဇ်ထံ စာစေ၍ ရာဇာဓိရာဇ်လည်း ဒလသို့ စစ်သည်ဗိုလ်ပါများစွာနှင့် ချီလာလေသည်။

သက္ကရာဇ် ၇၇၈ ခုနှစ် တန်ခူးလဆန်း ၄ ရက်နေ့တွင်

ရာဇာဓိရာဇ်သည် ဆင်မြင်းဗိုလ်ပါမှူးမတ်များနှင့်ကြီးကျယ်စွာ စစ်အင်ကျင်းနေသည့်အခိုက် မင်းရဲကျော်စွာသည် ဗိုလ်မင်းတပ်မင်း စစ်ကဲများက တိုင်တိုင်ပင်ပင်နှင့် သတိဝီရိယကြီးစွာ ပြုအပ်ကြောင်း လျှောက်သည်ကို ကောင်းစွာ အရေးမယူဘဲ မှူးမတ်အချို့နှင့် သောက်စား မူးယစ်၍သာ နေလေသည်။

ရာဇာဓိရာဇ်သည် အမတ်ဒိန်အား မင်းရဲကျော်စွာကို အမျက်ဒေါသထွက်အောင်၊ တပ်က လိုက်၍ ထွက်အောင် မြှူချေဟု စေလိုက်၏။ အမတ်ဒိန်လည်း ဆင် ၅ စီး၊ လူ ၇၀၀၊ ၈၀၀ ခန့်နှင့် မင်းရဲကျော်စွာ တပ်အနီးသို့ လာရောက်၍ နေရာပြင်ဆင် အကွက်ချဟန် ပြုသည်ကို မင်းရဲကျော်စွာက မွန်တို့ကိုလုပ်ကြံရန် ငါတို့လာသည်။ ယခုသူတို့က ငါတို့တပ်ကို ရံမည်ပြုသည်။ အရံခံရမည်လော ဟူ၍ အမျက်ထွက်ကာ ထွက်၍ တိုက်တော့မည်ဟု မိန့်တော်မူသည်။ မှူးမတ်များကမှားကြောင်းသိသော်လည်း မလျှောက်ဝံ့တော့ချေ။

ဤသို့လျှင် မင်းရဲကျော်စွာသည် ဆင်တော်ချစ်ခိုင်ကို အရက်ပို့၍တိုက်၊ မိမိလည်း နေ့တိုင်းထက် လွန်၍ သောက်ကာ၊ တပ်မင်း စစ်ကဲတို့ကို ဆင်မြင်း အမြန်ပြင်ပြီးလျှင် လိုက်ခဲ့ ဟူ၍သာ မှာပြီးနောက် စိတ်နောက်ကိုယ်ပါ ဆင်တော်ကို စီး၍ ရှူးရှူးရှားရှား ထွက်ချီခဲ့၏။

လိုက်လတ္တံ့သော နောက်ပါတပ်များတွင်လည်း မြေဒူးစားသည် မွန်တို့ထံမှ ဖမ်းဆီးရမိထားသော ဗကမတ်ဆင်ကို စီးရာ ဆင်ခါ၍ကျချေ၏။ ဗကမတ်လည်း မြေဒူးစားကျလျှင် တပ်တွင်းရှိသော ဆင်မြင်းလူသူတို့ကို လိုက်လံ ဝှေ့သတ်သဖြင့် ပရမ်းပတာ ပြုံပြုံကွဲကွဲရှိချေသည်။ ထို့ကြောင့်လည်း ရဲမက်တော်တို့သည် မင်းရဲကျော်စွာကိုမမှီနိုင်၊ တန့်လျက်သာ ရှိနေခဲ့ရ၊ မင်းရဲကျော်စွာသည် ရှေ့သို့လွန်လာ၏။ ထိုအခါ ကလေးကျေးတောင်ညိုသည် မိမိတပ်သားများနှင့် အမှီလိုက်ရန် ကြိုးစားရာ၊ သူစီးသောဆင် မုန်ပြင်းနေ၍ နောက်က မြင်းကတောင်သံကို ကြားလျှင် နောက်ကို ပြန်၍ ဝှေ့လေသဖြင့် အထွေထွေရှိကြ၍ ခြေသည်မြင်းသည် ကွဲသောကြောင့် မင်းရဲကျော်စွာကို မမှီ တပ်တော်ပျက်လေသည်။

မင်းရဲကျော်စွာသည်ကား လောကြီးနေသဖြင့် မစည်းမရုံးဘဲ ပါတန်သမျှ နောက်ပါတို့နှင့်သာ တက်ပြီးလျှင် စည်တီး၍ ဆင်တော်ချစ်ခိုင်ကို ချွန်းဖွင့်ကာ အတင်းတိုက်သွား၏။ မွန်တို့တပ် ၆ တပ်အနက် ၄ တပ် နှင်နှင်အစဉ်အတိုင်း ပျက်လေသည်။ နောက်တတပ်ကို အတိုက်တွင် ဆင်တော်ပန်းသှုသည်နှင့် နောက်က ဆင်ကူလည်း မမှီလာသောကြောင့် ဆင်တော်ရပ်လေသည်။

ဤသို့ ဆင်တော် ကွဲ၍ ပန်းနေသည်ကိုမြင်သော်၊ ရာဇာဓိရာဇ်၏ သားတော် ၃ ပါးကြီးမှူး၍ ဆင်အစီး ၃၀ ခန့်နှင့် အုံညီ၍ တိုက်လေ၏။ ဆင်တော်ကို လှံချက်တရာလောက် ကျလျှင် နာကျင်လှသဖြင့် ဆင်တော် ခါသောကြောင့် ဆင်တော်ထက်က လျှောကျ၍ ပေါင်ကို ဆင်ထိချေ၏။ ရပ်တော်မမူနိုင်၊ တွားသွားလျက် ရေကန်နား ဥနဲ့ပင်အောက်သို့ ဝင်၍ နေရလေသည်။

ဖမ်း၍မိလျှင် ရာဇာဓိရာဇ်က မင်းသား သူငယ်ဖြစ်သသူကို ငါ စိတ်နှလုံးအထူးမရှိ။ မောင်သည် အစားအစာ ဆေးဝါးစားပါ။ ကျန်းမာလာလျှင် သည်တွင် နေလိုလည်း ငါ့သမီးတော်နှင့် စုံဖက်၍ အိမ်ရှေ့ ပေးပါမည်။ အင်းဝသို့ ပြန်လိုလျှင်လည်း ကောင်းစွာ ပို့ပေးမည်၊ ကျန်းမာအောင်သာ ဆေးဝါးကုသပါဟု မိန့်၍ ဆေးဝါးများ ပေးတော်မူ၏။

မင်းရဲကျော်စွာကား ငါသည် ဟံသာဝတီ မွန်ပြည်ကို မရဘဲ ငါမပြန်ဟု ဓိဋ္ဌာန်ရင်းရှိသည်။ ယခု ငါ သို့စင်ဖြစ်ပြီးမှ သူ့ကျွန်မခံပြီ။ ငါ့အသက် ရှင်သော်ထက် သေသော် မြတ်၏။ ငါဆေးဝါး မစားပြီ။ ငါ့ကို သတ်ရန်ကိုသာ စီရင်တော့ဟုဆိုလျှင် ရာဇာဓိရာဇ်လည်း မင်းရဲကျော်စွာကို သေခါနီးတိုင်အောင်မှ စိတ်ကို မလျှော့၊ နောင်သော် ငါ့ကိုပင် ကြံပြန်ချိမ့်မည် ဟူ၍ ထိုညဉ့်တွင်ပင် လုပ်ကြံ၍၊ မိုးသောက်လျှင် ဆင်ထိတော်မူသော အနာသည်း၍ အနိစ္စရောက်လေသည် အဟန် ကောင်းမွန်စွာ သင်္ဂြိုဟ်လေသည်။ ဤသို့လျှင် မင်းရဲကျော်စွာသည် သက္ကရာဇ် ၇၇၇ ခုနှစ် တန်ခူးလဆန်း ၄ ရက်နေ့ညဉ့်တွင် အနိစ္စရောက်သည်။ ဘုရင်မင်းခေါင်သည် ဒလသို့ စုန်လာ၍ သားတော်၏ အရိုးတို့ကို မွန်တို့ မြှုပ်ထားရာမှ ဖော်ယူပြီးလျှင်ရွှေအိုးတွင်ထည့်ကာ မထီးအဝ (ယခု ပသိမ်) တွင် ချလေသည်။

မင်းရွှာဆရာတော်။ ။သာသနာပိုင်များ — ရှ။

**မင်းလှမြို့ (သရက်ခရိုင်)။** ။မင်းလှမြို့သည် မကွေးတိုင်း သရက်ခရိုင်၊ သရက်နယ်တွင် ပါဝင်သော မင်းလှမြို့နယ်၏ ရုံးစိုက်မြို့ဖြစ်သည်။ သာယာဝတီ ခရိုင်တွင်လည်း မင်းလှမြို့ ဟူ၍ အမည်တူ မြို့တမြို့ ရှိပေရာ၊ ကွဲပြားစိမ့်သောငှါ သရက်ခရိုင်တွင်းရှိ မင်းလှမြို့ကို အထက် မင်းလှ ဟူ၍ ခေါ်လေ့ရှိသည်။ မင်းလှမြို့သည် ဧရာဝတီမြစ်၏ အနောက်၊ သို့မဟုတ် လက်ျာဖက်ကမ်းပေါ်တွင် တည်ရှိလျက် မင်းဘူးခရိုင် နယ်စပ် အနီးတွင် ရှိသည်။ ၁၉၅၃ ခုနှစ် သန်ကောင်စာရင်းအရ လူဦးရေ ၄,၇၂၁ ယောက် ရှိသည်။

မင်းလှမြို့မှ ထွက်ကုန်ဟူ၍ ပြောပလောက်အောင် မရှိလှ၊ သို့သော် မင်းလှအိုးစည်မှာ နာမည်ကြီးပေသည်။ ဧရာဝတီ မြစ်ပေါ်တွင် တည်ရှိသည့်အလျောက် သင်္ဘောများ ဝင်ရောက် ဆိုက်ကပ်ရာ ဆိပ်ကမ်း ဖြစ်သဖြင့် ရေလမ်းကို ပို၍ အားထားရသည်။ မင်းလှမှ တာကိုင်းသို့ ကတ္တရာလမ်း ၁၂ မိုင် ရှိသည်။



အထက် မင်းလှမြို့ရှိ မင်းလှခံတပ်

မင်းလှမြို့နယ်တွင် ထင်ရှားသော စေတီ ပုထိုးများမှာ ဒက္ခဘုရား၊ မင်းလှ ရွှေစက်တော်နှင့် မဟာပိန္နဲစေတီတို့ ဖြစ်၏။ ဒက္ခစေတီမှာ မင်းလှမြို့၏ တောင်ဖက် ၂၇ မိုင်၊ ရေနံမရှာ၏ အနောက် မြောက်ဖက် ၂ မိုင် အကွာတွင် တည်ရှိ၍ ပုဂံနရပတိစည်သူက မိမိတန်နှားသည်ကို အစွဲပြုကာ တည်ထားခဲ့၍ တန့်နှားစေတီဟု ခေါ်သည်ဆို၏။ တပေါင်းလတွင် ဘုရားပွဲတော် ကျင်းပသည်။ ရွှေစက်တော်ဘုရားသည် မင်းလှမြို့၏ မြောက်ဖက် ၃ မိုင်ကွာတွင်တည်ရှိ၍ မန်းစက်တော်ရာ၏ ပုံတူဖြစ်ကာ နှစ်စဉ်ပင် ဘုရားပွဲတော် ကျင်းပသည်။ မင်းလှမြို့၏ အောက်ဖက် ၁၀ မိုင်အကွာ ဧရာဝတီမြစ်၏ အနောက်ဖက်ကမ်းရှိ လက်ပံရွာမှ မဟာပိန္နဲ ဘုရားပွဲတော်ကို နှစ်စဉ် တန်ဆောင်မုန်းလတွင် ကျင်းပလေ့ရှိလေသည်။

မင်းလှမြို့သည် မြန်မာမင်း လက်ထက်က ရွာငယ်ကလေး ဖြစ်ကာ မလွန်အောက်တွင် ကျရောက်သော်လည်း မင်းလှရွာတွင် မြို့ဝန်နှင့် နားခံတော်တို့ နေထိုင်ပြီးလျှင် မြစ်စဉ်ဝန်က အုပ်ချုပ်၏။ အင်္ဂလိပ်တို့ အထက် မြန်မာပြည်ကို သိမ်းပိုက်ပြီးချိန် ၁၈၈၆ ခုနှစ်တွင် မင်းလှကို မြန်မာပြည်အောက်ပိုင်း သရက်ခရိုင်အတွင်း သွတ်သွင်းခဲ့ပြီးလျှင် ၁၈၉၆ ခုနှစ်တွင် သရက်ခရိုင် တခုလုံးကို အထက် မြန်မာပြည် မင်းဘူးတိုင်း (နောက် – မကွေးတိုင်းဟု တွင်သည်) တွင် သွတ်သွင်းခဲ့သည်။

မင်းလှမြို့တည်ရာသည် ရှေးအခါက ကျွန်းဖြစ်ခဲ့၏။ ထိုကျွန်းပေါ်တွင် ရွှေဝနှင့် မမင်းလှမည်သော တင်္ဂါ လင်မယားနေထိုင်ခဲ့ရာ အနီးတဝိုက်တွင် နေထိုင်သူများက မမင်းလှတို့ နေသော ကျွန်းဖြစ်၍၊ မမင်းလှကျွန်းဟု ခေါ်စမှတ်ပြုခဲ့သည်။ မမင်းလှကျွန်းဟူသော အမည်မှ စကားရွှေ့၍ မင်းလှ ဖြစ်လာသည်ဟု ဆိုလေသည်။ ထိုနောက်တွင် ဧရာဝတီမြစ်သည် အရှေ့ဖက်သို့ လမ်းကြောင်းပြောင်းကာ စီးဆင်းသဖြင့် အနောက်ဖက် မြစ်ကြောင်းမှာလည်း ခန်းခြောက်သွားရာ မလွန်အင်း အဖြစ်ဖြင့်သာ ကြွင်းကျန်နေလေတော့သည်။

ယခု မင်းလှမြို့ကို ဒုတိယ အင်္ဂလိပ် – မြန်မာ စစ်အပြီး အင်္ဂလိပ်တို့ အောက်မြန်မာပြည်ကို သိမ်းပိုက်ပြီး၍ နောက်တနှစ်ဖြစ်သော ၁၈၅၄ ခုနှစ်တွင် အာမီးနီးယန်း လူမျိုးမက္ကတစ် ဆိုသူက တည်ခဲ့သည်ဟု ဆို၏။ မက္ကတစ်သည် အင်္ဂလိပ်တို့ လက်အောက်တွင် မနေနိုင်သဖြင့် မျိုးချစ် မြန်မာတစုကို ခေါင်းဆောင်ပြီးလျှင် စွန့်ထားသော ရွာဟောင်းနေရာတွင် မြို့တည်ခဲ့၏။ မက္ကတစ်သည် မြို့ဝန်ပင် ဖြစ်လာကာ မင်းလှမြို့မှာလည်း အတော် အရေးပါလာသည် ဆို၏။

မင်းလှမြို့သည် မင်းလှခံတပ်ကြောင့်လည်း သမိုင်းတွင်ပေသည်။ မင်းလှခံတပ်သည် မင်းလှမြို့ ဧရာဝတီမြစ်ကမ်းထိပ်တွင် တည်ရှိပြီးလျှင် လေးထောင့် စတုရန်း သဏ္ဌာန်ဆင်ဆင်ရှိသည်။ မင်းလှခံတပ်မှာ မြေကြီးပေါ်တွင် တည်ဆောက်ထားသော ခံတပ်ဖြစ်၍၊ မြစ်တဖက်ကမ်းတွင်ရှိသော ဂွေးချောင်း ခံတပ်မှာ မြေတွင်းခံတပ် ဖြစ်လေသည်။ ဤခံတပ် ၂ ခုစလုံးကို သက္ကရာဇ် ၁၂၂၂ – ၂၃ ခုနှစ်တွင် စတင်တည်၍ ၁၂၂၅ ခုနှစ်တွင် ပြီးစီးခဲ့၏။ ထိုသို့ တည်ဆောက်ရာ၌ ပြင်သစ် အင်ဂျင်နီယာတဦးနှင့် ဣတာလျံ အင်ဂျင်နီယာတဦးပေါင်း ၂ ဦးတို့က မြန်မာစစ်ဖက် အင်ဂျင်နီယာများနှင့် ပူးပေါင်း တည်ဆောက်ကြလေသည်။ မင်းလှခံတပ် တည်ဆောက်ရာ၌ လိုသော အုတ်များကို မင်းလှမြို့ တောင်ဖက် အင်းဖျား ဆိုသော နေရာနှင့် မင်းလှမြို့ အနောက်တောင်ဖက် ကပ်၍ တည်ရှိသော လက်လန်ဆိုသော ရွာကလေး အနီးရှိ နေရာများတွင် အုတ်ဖုတ်လုပ်ရာ ယခုတိုင် အင်းကြီးသဖွယ် ဖြစ်နေပြီးလျှင် ရှေးအုတ်ချပ် အချို့ကို တွေ့ရသေး၏။ အင်္ဂတေခင်းရန် သဲကို မင်းလှအထက်ရှိ မြင်းကျတောင် ကမ်းပါးမှ သယ်ယူပေးကြရကြောင်း၊ မင်းလှခံတပ်ဆောက်ရာ၌ ဖော်စပ်သော အင်္ဂတေတွင် ထုံး၊ သဲ၊ ရေ၊ ထန်းလျက်၊ အုံတုံ၊ ကျွဲကော်များ ရောစပ်၍ မောင်းစင်တွင် ထည့်ထောင်းရာ စေးချွဲမှ ယူပြီးလျှင် နံရံတွင် ပစ်ကြည့်ကြောင်း၊ ပစ်၍ ကွာမကျဘဲ ကပ်နေမှ အင်္ဂတေအဖြစ် အသုံးပြုကြောင်း ဆိုလေသည်။

မင်းလှခံတပ်၏ အလျားမှာ (အပြင်မှ) ၁၇၃ ပေ ၇ လက်မ၊ ခံတပ်၏ အပြင်အနံမှာ ၁၃၁ ပေ ၄ လက်မ ဖြစ်သည်။ ခံတပ်၏ အတွင်း အလျားမှာ ၁၀၀ ပေ ၀ လက်မ၊ အတွင်းအနံမှာ ၈၈ ပေ ၄ လက်မဖြစ်၏။ ခံတပ်အတွင်း တောင်ဖက်နှင့် မြောက်ဖက် နံရံများမှ ခံတပ်အပေါ် စကြံသို့ တက်သော အုတ်လှေကား ၂ စင်းရှိသည်။ အပေါ်ထပ် စကြံလမ်း အကျယ် ၂၁ ပေ ၆ လက်မဖြစ်၍၊ စကြံလမ်းမှ အပြင် အုတ်ရိုး၏ အမြင့် ၄ ပေ ၅ လက်မ ဖြစ်သည်။ မြောက်ဖက် မျက်နှာတွင် ထူးထူးခြားခြား ပဉ္စမ နံရံအုတ်ရိုးကို အပြင်မှ အတန်ခွာ၍ အုတ်ရိုးတထပ်ထပ်၍ ကာရံထား၏။ ခံတပ်မြောက်ဖက် မျက်နှာ အုတ်ရိုး ၂ ထပ်စလုံး၏ နံရံထုမှာ ၁၇ ပေ ၃ လက်မ၊ အုတ်ရိုး ၂ ခုကြားရှိ မြေဖို့ထားသည့် မြေသားထုမှာ ၉ ပေ ၁၀ လက်မ ရှိ၏။ အရှေ့ဖက် မျက်နှာတွင် နံရံမှာ အတော်ပင် ပြိုကျ ပျက်စီးနေ၍ လူသွားစကြံမျှသာ ကျန်ရှိတော့သည်။ ခံတပ် အပေါ်ထပ် စကြံမှ စကြံအုတ်ရိုးပေါ်သို့ တက်ရာ လှေကားကလေးများ ထောင့်တိုင်းတွင် ရှိသည်။ ထိုအုတ်ရိုးပေါ်တွင် ကင်းစောင့်စစ်သား၏ နေရာနှင့် အလံတိုင် ရှိသည်။ ခံတပ်ပြီးစီးသည်နှင့် ကနောင်မင်းသားနှင့် ပြင်သစ် စစ်ဖက်အရာရှိတို့ ကြီးကြပ် သင်ကြားပေးသည့် တပ်မတော်မှ တပ်ခွဲ အချို့သည် နယ်ခြား ကင်းတပ်ခွဲများအဖြစ် ခံတပ်သို့ ရောက်ရှိ တာ

ဝန်ယူခဲ့လေသည်။ မင်းလှ ခံတပ်တွင် အဝေးပစ် အမြောက်များ ထားရှိ၏။ ခံတပ် ၂ ခုစလုံးကို တည်ဆောက်သည့် အတွက် ဒေါင်းဒင်္ဂါး ကျပ်ပြားရေငွေတော် ၇ သိန်းကျော် ကုန်ကျသည်ဟု ဆိုလေသည်။

၁၂၄၇ ခုနှစ် တန်ဆောင်မုန်းလဆန်း ၈ ရက်နေ့တွင် ဗိုလ်ချုပ် ပရင်ဒါဂတ် ကြီးမှူးသော အင်္ဂလိပ်တပ်များသည် စစ်သင်္ဘောများဖြင့် ဆင်ပေါင်ဝဲမြို့ အောက်ဖက် ၁၂ မိုင်ကွာရှိ အင်္ဂလိပ် – မြန်မာ နယ်ခြားဖြစ်သော ဒဂုံမော် ကျောက်တိုင်ကို ဖြတ်ကျော်ဝင်ရောက်လာသည်။ မြန်မာတို့က အခြား နေရာများတွင် ပြေပလောက်အောင် အင်္ဂလိပ်တို့အား မခုခံခဲ့သော်လည်း မင်းလှခံတပ်တွင် မြန်မာတို့က အတော် ပြင်းပြင်းထန်ထန်ပင် ခုခံတိုက်ခိုက်လေသည်။ မင်းလှခံတပ်နှင့် ခါးလွယ်ခုတ် မြစ်တဖက်ကမ်းရှိ ဂွေးချောင်းခံတပ်မှလည်း ခုခံတိုက်ခိုက်သည်။ လွှတ်တော်မှ အင်္ဂလိပ်ကို ခုခံလျှင် သူပုန် ဟူသော အမိန့်တော်ကိုပင် ဂရုမမူဘဲ ပြင်းပြင်းထန်ထန် ဆက်လက် တိုက်ခဲ့သူများမှာ မြစ်စဉ်ဝန် ဗိုလ်ချုပ် မင်းကြီး မဟာသမိန်ဘရမ်း (မင်းလက်ဝဲကြီး)၊ မင်းလှခံတပ် ဦးစီး လက်ရွေးကြီး လေ့သင်းဗိုလ် မင်းထင် မင်းလှရဲခေါင် သူရိန်နှင့် ဂွေးချောင်းခံတပ် ဦးစီး ပြည်လုံးအုံ့ လေ့သင်းဗိုလ် မင်းကျော် သိဒ္ဓိရန်အောင်တို့ ဖြစ်၏။ အင်္ဂလိပ်တို့ဖက်မှ ကျဆုံးသော စစ်ဗိုလ်၏ ဂူ ယခုတိုင် မင်းလှတွင် ရှိသေးသည်။ မင်းလှခံတပ်ကို အင်္ဂလိပ်တို့က ၁၉၀၄ ခုနှစ်တွင် ဈေးအဖြစ် အသုံးပြုခဲ့သည်။ ၁၉၀၄ ခုနှစ်တွင် ခံတပ် အပြင်ဖက်နားတွင်ပင် ဈေးရုံတခု ဆောက်လုပ်ခဲ့သည်။

**မင်းလှမြို့ (သာယာဝတီခရိုင်)**။ ။မင်းလှမြို့သည် မြန်မာနိုင်ငံအောက်ပိုင်း၊ ပဲခူးတိုင်းတွင် အကျုံးဝင်သော သာယာဝတီခရိုင်၊ သာယာဝတီနယ်တွင် ပါဝင်သည့် မင်းလှမြို့နယ်၏ ရုံးစိုက်မြို့ဖြစ်သည်။ သရက်ခရိုင်တွင် ရှိသော မင်းလှကို အထက်မင်းလှ ဟု ခေါ်၍ သာယာဝတီခရိုင်ရှိ မင်းလှမြို့ကို အောက်မင်းလှ ဟု ခေါ်သည်။

မင်းလှမြို့သည် ရန်ကုန်–ပြည် မီးရထားလမ်းပေါ်တွင် တည်ရှိသည်။ မင်းလှမြို့ ဘူတာရုံကို ခရစ် ၁၈၇၇ ခုနှစ်ကဖွင့်လှစ်ခဲ့၍ ပဌမဆုံးဖွင့်သောဘူတာရုံများအနက် တခု အပါအဝင် ဖြစ်သည်။ မင်းလှမြို့သည် ရန်ကုန်မြို့၏ မြောက်ဖက် ၉၁ မိုင်နှင့် သာယာဝတီမြို့၏ မြောက်ဖက် ၂၃ မိုင်အကွာတွင် တည်ရှိသည်။ ပြည်မြို့မှ တောင်ဖက် ရထားလမ်းအတိုင်းမိုင် ၇၀ ကွာဝေးသည်။ ရန်ကုန် – ပြည်မီးရထားလမ်းသာလျှင် မင်းလှမြို့ကို ဖြတ်သန်းသွားသည်။ ရန်ကုန် – ပြည်ကားလမ်းမှုကား မြို့နှင့် ၂ မိုင်ကွာရှိ ရှမ်းတောကို ဖြတ်သန်းသွားသည်။ ရှမ်းတောသို့ မော်တော်ကားလမ်းတိုဖြင့် ဆက်ထားသည်။ မင်းလှမှ လက်ပံတန်းသို့ မော်တော်ကားလမ်း တလမ်း ရှိသည်။ မီးရထားလမ်း၏ လက်ဝဲဖက်က ဖြစ်သည်။ ရန်ကုန် – ပြည်ကားလမ်းသည် မီးရထားလမ်း၏ လကျာဖက်ကဖြစ်သည်။ မင်းလှမြို့မှ မိုးညိုသို့ မော်တော်ကားလမ်း ပေါက်သည်။

မင်းလှမြို့သည် ဆန်စပါးရောင်းဝယ်ရာတွင် ကြီးကျယ်ထင်ရှား၍ မြို့တွင် ဆန်စက်များရှိသည်။ ကြီးကျယ်သော အခြားလုပ်ငန်း မရှိသော်လည်း ကုန်စည်ရောင်းဝယ် ဖောက်ကားမှုမှာ မြို့နှင့် လိုက်အောင် အသင့်အတင့်ဖွံ့ဖြိုးလေသည်။ လူဦးရေမှာ ၁၉၆၂ ခုနှစ် သန်းကောင်စာရင်းအရ ၇,၁၉၆ ယောက်ရှိသည်။

**မင်းအိုဆရာတော်**။ ။သာသနာပိုင်များ — ရှု။

**မောင့်ဖက်တင်, လူဝီ (ခရစ် ၁၉၀၀ ဖွား)**။ ။အားမောင့်ဖက်တင်အော့(ဖ)ဗားမားဟူ၍ ဒုတိယကမ္ဘာစစ်ကြီးပြီးစ ကာလက ကမ္ဘာ့အရှေ့တောင်ပိုင်းတွင် ထင်ရှားခဲ့ပြီးလျှင် လွတ်လပ်သော မြန်မာနိုင်ငံမှ အမြင့်ဆုံး သင်္ဂဟဘွဲ့ဖြစ်သော အဂ္ဂမဟာသီရိသုဓမ္မဘွဲ့ကို ခံယူရရှိသော ဗြိတိသျှ ရေကြောင်း ဗိုလ်ချုပ်ကြီးသည်ကား အင်္ဂလန်ပြည့်ရှင် ဝိတိုရိယ ဘုရင်မကြီး၏ မြစ်တော်ဖြစ်ပေသည်။ သူ၏မိခင် ဝိတိုရိယမင်းသမီးမှာ ဝိတိုရိယဘုရင်မကြီး၏ မြေးဖြစ်၍ ဖခင်မှာ ဗက်တင်ဗတ် မင်းသား လူဝီ အယ်လက်ဇန္ဒာဖြစ်၏။ ခရစ် ၁၉၁၇ ခုနှစ်တွင် လူဝီ အယ်လက်ဇန္ဒာသည် ဗက်တင်ဗတ်မင်းသား အဖြစ်ကို စွန့်လွှတ်လျက် မောင့်ဖက်တင်ဟူသော အင်္ဂလိပ် ဆွေမျိုးအမည်ကို ခံယူသည်။ မားကွစ်ဘွဲ့ခံ မီးလဖိုဟေဗင်စား အဖြစ် သူကောင်းပြုခြင်း ခံရသည်။

မောင့်ဖက်တင်သည် ၁၉၀၀ ပြည့်နှစ် ဇွန်လ ၂၅ ရက်နေ့တွင် ဗြိတိန်နိုင်ငံ ဝင်ဆာမြို့ ဖရော့ဂမိုးအိမ်တော်တွင်မွေးဖွားသည်။ သူ၏ နာမည်အပြည့်အစုံမှာ လူဝီ ဖရန်းစစ် အဲလဗတ်ဗစ်တာ နစ်ကလတ် မောင့်ဖက်တင်ဖြစ်၏။ ခရစ် ၁၉၁၇ ခုနှစ်မတိုင်မီကမူ မောင့်ဖက်တင်ဟူသော အမည်ကို ဖခင်ဖြစ်သူက မခံယူသေးသဖြင့် ဗက်တင်ဗတ်မင်းသား လူဝီဖရန်းစစ် ဟူ၍ တွင်ခဲ့လေသည်။

ငယ်စဉ်က အော့စဗွန်းရေကြောင်းအတတ်သင်ကျောင်း၊ ဒါ့တမတ် ရေကြောင်းအတတ်သင်ကျောင်းနှင့် ခရိုက်ကောလိပ်ကျောင်းများတွင် ပညာသင်ကြားခဲ့ပြီးလျှင်၊ ၁၉၁၃ ခုနှစ်တွင် ရေတပ်မတော်သို့ ဝင်ခဲ့သည်။ ပဌမကမ္ဘာစစ်ကြီးအတွင်းက လိုင်းယွန်း စစ်သင်္ဘောနှင့် ကွင်းအယ်လစ်ဇဗက် စစ်သင်္ဘောတို့တွင် အမှုထမ်းခဲ့သည်။ ၁၉၁၈ ခုနှစ်တွင် ရေတပ်ဗိုလ် အဆင့်အတန်းသို့ တိုးတက်ခန့်ထားခြင်း ခံရသည်။ ၁၉၂၀ ပြည့်နှစ်တွင် ရေတပ်ဗိုလ်ကြီး အဆင့်အတန်းကို ရရှိ



ဒုတိယ ကမ္ဘာစစ် အတွင်းက အာရှအရှေ့တောင်ပိုင်း မဟာမိတ်စစ်သေနာပတိချုပ် တာဝန်ကို ထမ်းဆောင်ခဲ့သူ လော့မောင့်ဗက်တင်

ခဲ့ပြီးနောက် ရေတပ်ဆိုင်ရာ တက္ကသိုလ်ကျောင်းများတွင် ပညာဆက်လက် သင်ကြားခဲ့သည်။ ထိုနောက် ရေတပ်တွင် ရာထူးအမျိုးမျိုး၌ အမှုထမ်းခဲ့ ရပြီးလျှင် ၁၉၃၇ ခုနှစ်တွင် ရေတပ်ဗိုလ်မှူးကြီး အဆင့်အတန်းသို့ တိုးမြှင့် ခန့်ထားခြင်း ခံရလေသည်။

ဒုတိယကမ္ဘာစစ်ကြီး စတင်ဖြစ်ပွားသော အချိန်တွင် လူဝီမောင့်ဗက်တင်သည် အမှတ် ၅ ဖျက်သင်္ဘောတပ်ကို အုပ်ချုပ်လျက်ရှိသည်။ သူ၏သင်္ဘော ကယ်လီမှာ နှစ်ကြိမ်တိုင်တိုင် တိုပီဒိုထိခဲ့၍ ကရိကျွန်းအနီး တိုက်ပွဲတွင် ဒုတိယအကြိမ်ထိသောအခါ နစ်မြုပ်သွားလေရာ မောင့်ဗက်တင်ကို ပင်လယ်ထဲမှ ဆယ်တင် ကယ်ယူ ခဲ့ရလေသည်။ ၁၉၄၁ ခုနှစ်၌ စစ်သင်္ဘော အစ်လတ်စတြီးယတ် ၏ ကပ္ပတိန် အဖြစ် ခန့်ထားခြင်း ခံရလေသည်။ မောင့်ဗက်တင်သည် ကရိကျွန်းအနီး တိုက်ပွဲများတွင် ရဲဝံ့စွာ တိုက်ခိုက်ခဲ့သောကြောင့် ထူးချွန်သော အမှုထမ်းကောင်း ဘွဲ့တံဆိပ်ကို ရရှိခဲ့သည်။၁၉၄၂ ခုနှစ်တွင် ကြည်း၊ လေ၊ ရေတပ်ပေါင်းစု စစ်ဆင်ရေးဆိုင်ရာ အကြီးအကဲအဖြစ် ခန့်ထားခြင်းခံရသည်။ ထိုအချိန်၌မောင့်ဗက်တင်၏ ယာယီ ရာထူးအဆင့်အတန်းများမှာ၊ကြည်းတပ်တွင် ဗိုလ်ချုပ်ကြီး၊ ရေတပ်တွင် ရေတပ်ဗိုလ်ချုပ်ကြီးနှင့် လေတပ်တွင် လေတပ်ဗိုလ်ချုပ်ကြီးဖြစ်သည်။ သူသည် ဂျာမန်တို့ သိမ်းပိုက်ထားသော ဥရောပတိုက်ကမ်းခြေသို့ လက်ရွေးစဉ် ကွန်မန်ဒိုတပ်များ စေလွှတ်တိုက်ခိုက်စေခဲ့သည်။ အာဖရိကတိုက်မြောက်ပိုင်းတွင် မဟာမိတ်တို့ တက်ရောက်နိုင်ရန် ဗြိတိသျှတို့၏ အစီအစဉ်များကို ကျနအောင် ပြုလုပ်ပေးခဲ့၏။ ၁၉၄၃ ခုနှစ် ဩဂုတ်လ ၂၃ ရက်နေ့တွင် အာရှ အရှေ့တောင်ပိုင်းမဟာမိတ်တပ်ပေါင်းစု စစ်သေနာပတိချုပ်အဖြစ် ခန့်ထားခြင်း ခံရလေသည်။ သူ၏ စွမ်းဆောင် မှုကြောင့် မြန်မာနိုင်ငံအတွင်းရှိ ဂျပန်များကို အောင်မြင်စွာ တိုက်ခိုက်နှင်ထုတ် နိုင်ခဲ့ပြီးလျှင်၊ မြန်မာနိုင်ငံကို ပြန်လည်သိမ်းပိုက်နိုင်ခဲ့သည်။

ထိုနောက် ၁၉၄၅ ခုနှစ် စက်တင်ဘာလ ၁၂ ရက်နေ့တွင် အာရှ အရှေ့တောင်ပိုင်းရှိ ဂျပန်တပ်များ လက်နက်ချအပ်သည်ကို စင်္ကာပူမြို့တွင် မောင့်ဗက်တင်က ခံယူခဲ့လေသည်။ ၁၉၄၆ ခုနှစ်တွင် မြေထဲပင်လယ်ရေတပ်မှ အမှတ် ၂ ကရူဇာသင်္ဘောတပ်ကို အုပ်ချုပ်ရသည့် ရေတပ် ဗိုလ်ချုပ်အဖြစ် ခန့်အပ်ခြင်း ခံရသည်။

ထိုနှစ်တွင်ပင် စစ်ကြီးအတွင်း ထူးချွန်စွာ အမှုထမ်းခဲ့သောကြောင့် ဗိုင်းကောင့်ဘွဲ့ဖြင့် ချီးမြှင့်သူကောင်း ပြုခြင်း ခံရပေသည်။ ဗိုင်းကောင့်မောင့်ဗက်တင် အော့(ဖ) ဗားမားဟူသော ဘွဲ့ကို ခံယူရရှိလေသည်။ ၁၉၄၇ ခုနှစ် ဖေဖွာရီလ ၁၀ ရက်နေ့တွင်ဗိုင်းကောင့်ဝေဗယ်၏နေရာတွင် အိန္ဒိယဘုရင်ခံချုပ်အဖြစ် ခန့်အပ်ခြင်း ခံရသည်။ မောင့်ဗက်တင်သည် အိန္ဒိယနိုင်ငံ၏ နောက်ဆုံး ဘုရင်ခံချုပ်အဖြစ် အမှုထမ်းခဲ့၍ အိန္ဒိယနိုင်ငံရေးပါတီကြီးများနှင့် နောင်ရေးအတွက် အဆင်ပြေအောင် စေ့စပ် ဆောင်ရွက်ခဲ့လေသည်။ ၁၉၄၇ ခုနှစ် ဩဂုတ်လ ၁၅ ရက်နေ့တွင် အိန္ဒိယနှင့် ပါကစ္စတန်တို့အား ဒိုမီနီယန် နိုင်ငံများအဖြစ် အာဏာများ အသီးအသီး လွှဲပြောင်းပေးပြီးသောအခါတွင် လူဝီမောင့်ဗက်တင်သည် အိန္ဒိယ ဒိုမီနီယန်နိုင်ငံသစ်၏ ပဌမဆုံးဘုရင်ခံချုပ်အဖြစ် ဆက်လက်ဆောင်ရွက်ခဲ့ရလေသည်။ ထိုအချိန်တွင်ပင် ဆဋ္ဌဂျော့ဘုရင်က မောင့်ဗက်တင်အား ဘုရင်ခံချုပ်အဖြစ် အမှုထမ်းကောင်းခဲ့သည့်အတွက် အား အဆင့်အတန်းဖြင့် သူကောင်းပြုခဲ့လေသည်။

၁၉၄၈ ခုနှစ် မေလ ၃ ရက်နေ့တွင် ဆဋ္ဌဂျော့ဘုရင်က အိန္ဒိယကွန်ဂရက် ပါတီခေါင်းဆောင်ကြီး ရာဂျာ ဂိုပါလာချာရီ အား အိန္ဒိယ ဘုရင်ခံချုပ်အဖြစ် ခန့်ထားသဖြင့် ဇွန်လ ၂၁ ရက်နေ့တွင် တာဝန်ဝတ္တရားများ လွှဲပြောင်းပေးအပ်ခဲ့ပြီးလျှင် မောင့်ဗက်တင်လည်း ဗြိတိန်သို့ ပြန်ခဲ့လေသည်။ ဇူလိုင်လ ၈ ရက်နေ့တွင် မောင့်ဗက်တင်သည် မြေထဲပင်လယ် တပ်ဖွဲ့တွင် ပဌမကရူဇာ (တိုက်သင်္ဘော) တပ်ကို အုပ်ချုပ်ရန် ခန့်ထားခြင်း ခံရလေသည်။

၁၉၅၀ ပြည့်နှစ်တွင် ဗြိတိသျှရေတပ်မတော်တွင် စတုတ္ထ နာယကအဖြစ်၎င်း၊ ရိက္ခာထောက်ပံ့ရေးနှင့် သယ်ယူပို့ဆောင်ရေးဆိုင်ရာ ဦးစီးချုပ်အဖြစ်၎င်း ဆောင်ရွက်ခဲ့ရသည်။ ထိုနောက် ၁၉၅၂ ခုနှစ်၌ မြေထဲပင်လယ်ဖက်တွင် စစ်သေနာပတိအဖြစ်၎င်း၊ ၁၉၅၃ ခုနှစ်တွင် မြေထဲပင်လယ်တွင်းရှိ မဟာမိတ် တပ်ပေါင်းစု၏ စစ်သေနာပတိအဖြစ်၎င်း ဆောင်ရွက်ခဲ့ရ၍ ၁၉၅၅ ခုနှစ်တွင် ပဌမနာယကနှင့် ရေတပ်မတော် ဦးစီးချုပ်အဖြစ် တိုးမြှင့်ခန့်ထားခြင်း ခံရသည်။ ထိုမှတဆင့် ၁၉၅၈ ခုနှစ် ဇိဇင်ဘာလ ၃၀ ရက်နေ့မှစ၍ ကာကွယ်ရေး ဦးစီးချုပ်အဖြစ် ခန့်အပ်ခြင်း ခံရလေသည်။

မောင့်ဗက်တင်သည် အမေရိကန်ပြည်ထောင်စု၊ ပြင်သစ်နိုင်ငံ၊ နယ်သာလန်နိုင်ငံ စသော နိုင်ငံများမှ ဘွဲ့တံဆိပ် ဂုဏ်ထူးများအပြင် များစွာသော တက္ကသိုလ်များမှ ဂုဏ်ထူးဆောင်ဘွဲ့များကို လက်ခံရရှိသူဖြစ်၏။ ပြည်ထောင်စု မြန်မာနိုင်ငံကလည်း ၁၉၅၆ ခုနှစ် ဇန္နဝါရီလ ၄ ရက်နေ့၌ လွတ်လပ်ရေးနှစ်ပတ်လည် ဂုဏ်ထူးဘွဲ့ထူးများ ချီးမြှင့်ရာတွင် မြန်မာနိုင်ငံသို့ ရောက်ရှိလာသော အား မောင့်ဗက်တင်ကို အမြင့်ဆုံး သင်္ဂဟဘွဲ့ဖြစ်သော အဂ္ဂမဟာသီရိသုဓမ္မဘွဲ့ဖြင့် ချီးမြှင့်ဂုဏ်ပြုလေသည်။

**မောင်ကြီး၊ ဆာ ဂျေအေ**(မြန်မာ ၁၂၃၃ – ၁၃၁၆)။ ။ ဆာ ဂျေ အေ မောင်ကြီးကို မော်လမြိုင်မြို့၌ အဖ ဦးခင်၊ အမိ ဒေါ်ရင်တို့မှ သက္ကရာဇ် ၁၂၃၃ ခုနှစ် ပြာသိုလဆန်း ၂ ရက်(ခရစ် ၁၈၇၁ ခု နှစ် ဒီဇင်ဘာလ ၁၂ ရက်)နေ့တွင် ဖွားမြင်၍ တဦးတည်းသော သားဖြစ်သည်။ ဂျေ အေ မောင်ကြီး ဟူသောစကားမှာ ဂျိုးဇက် အော်ဂပ်စတပ် မောင်ကြီးဖြစ်သည်။ ယင်းသို့ခေါ်တွင်ရခြင်းမှာ ငယ်စဉ်က ရန်ကုန်မြို့ စိန်ပေါကျောင်းတွင် ပညာသင်ယူရာ၌ ထိုခေတ်က ခရစ်ယန်ကျောင်းများ စံနစ်အတိုင်း အင်္ဂလိပ်နာမည်ကို ယူခြင်းမျှသာ ဖြစ်သည်။ သူ၏ ဖခင် ဦးခင်မှာ ရန်ကုန်မြို့ ဗူးလော့ ဘရားသား ကုမ္ပဏီတွင် အလုပ်လုပ်ရာ အင်္ဂလိပ်ကုန်သည် လောကတွင်ထင်ရှား၍ ဩဇာရှိသောပုဂ္ဂိုလ်တဦးဖြစ်သည်။

ဂျိုးဇက်သည် ခရစ် ၁၈၈၆ ခုနှစ်တွင် အင်္ဂလန် နိုင်ငံသို့ သွားရောက်၍ လန်ဒန် မက်ထရစ်စာမေးပွဲကို သင်ကြားအောင်မြင်ပြီးလျှင် ဝတ်လုံအတတ်ကို ဆက်လက်သင်ယူရာ ဂရေးအင်းမှ ဝတ်လုံစာမေးပွဲကို အောင်မြင်ခဲ့သည်။ ထိုအတောအတွင်း အိုင်စီအက် စာမေးပွဲကို အင်္ဂလိပ်လူမျိုးတို့နှင့် ယှဉ်ပြိုင်ဖြေဆိုရာ စာမေးပွဲခန်းတွင် အားပြတ်ကာ မူးမေ့ လဲကျသွားသဖြင့် ထိုစာမေးပွဲပြီးဆုံးအောင် မဖြေဆိုခဲ့ရချေ။

ခရစ် ၁၈၉၁ ခုနှစ်တွင် မြန်မာနိုင်ငံသို့ ပြန်လာပြီးသော် နောက်တနှစ်တွင် ယိုးဒယားနိုင်ငံသို့ သွား၍ အမှုတခုတွင် ရှေ့နေလိုက်ခဲ့သည်။ ထိုနောက် ယိုးဒယားနိုင်ငံရှိ ဗြိတိသျှ သစ်ကုန်သည်ကုမ္ပဏီတခုတွင် ဥပဒေအကြံပေးဝတ်လုံတော်ရ အဖြစ်ဖြင့် ထမ်းရွက်ခဲ့သည်။ ယိုးဒယားတွင် နေထိုင်ယင်း ယိုးဒယားနိုင်ငံဖွား ဒေါ်မေနှင့် အိမ်ထောင်ပြုခဲ့ရာ သမီးတယောက် ထွန်းကားခဲ့သည်။

၁၉၁၄ ခုနှစ်တွင် မြန်မာ နိုင်ငံသို့ ပြန်လာသည်။ ၁၉၁၇ ခုနှစ်လောက်တွင် ဘုရင်ခံ၏ အတိုင်ပင်ခံ အမတ်ဖြစ်ခဲ့ရာ၊ မြန်မာနိုင်ငံရေးသို့ တစတစ ဝင်ရောက်လာပြီးလျှင် ဦးဘိုးချောင်း အစရှိသော ပုဂ္ဂိုလ်တို့နှင့်အတူ မိမိ၏နေရပ် "ရွှေတောင်ကြား" ကို အစွဲပြု၍ "ရွှေတောင်ကြား ပါတီ" ဟူသော နိုင်ငံရေးအဖွဲ့တဖွဲ့ကို ဖွဲ့စည်းခဲ့သည်။ ၁၉၂၁ ခုနှစ်တွင် ဒိုင်အာခီအုပ်ချုပ်ရေးနှင့် စပ်လျဉ်း၍ "ဝှိုက်ကော်မတီ" ခေါ် မြန်မာနိုင်ငံအုပ်ချုပ်ရေး စုံစမ်းရေးကော်မရှင်တွင် အစစ်အဆေးခံခဲ့သည်။ ဒိုင်အာခီ အုပ်ချုပ်ရေး၌ ၁၉၂၃ ခုနှစ်တွင် သစ်တောရေးဝန်ကြီး ဖြစ်လာသည်။ ၁၉၂၄ ခုနှစ်မှ ၁၉၂၆ ခုနှစ်အထိ ဟိုက်ကုတ်တရားဝန်ကြီးတဦး ဖြစ်ခဲ့သည်။ တရားဝန်ကြီးအဖြစ် အမှုထမ်းစဉ် ၁၉၂၆ ခုနှစ်၌ ပြည်ထဲရေး ဝန်ကြီး ဦးမေအောင် ကွယ်လွန်အနိစ္စရောက်သောကြောင့် ဂျေအေမောင်ကြီးသည် ပြည်ထဲရေးဝန်ကြီး ဖြစ်လာသည်။ ၁၉၂၇ ခုနှစ်တွင် ကေ၊ စီ၊ အိုင်၊ အီး ခေါ် ဆာဘွဲ့ဖြင့် သူကောင်းပြု ချီးမြှင့်ခြင်း ခံခဲ့ရသည်။

၁၉၃၀ ပြည့်နှစ် ဩဂုတ်လမှ ၁၉၃၁ ခုနှစ် ဇန္နဝါရီလ အထိ ခွင့်ယူသွားသူ မြန်မာပြည် ဘုရင်ခံ ဆာ ချားအင်းနစ်၏ နေရာတွင် ခေတ္တဘုရင်ခံဖြစ်လာသည်။ ခေတ္တဘုရင်ခံ ဖြစ်စဉ် ဆရာစံ၏တော်လှန်ရေးပေါ် ပေါက်လာသည်။ ထိုနောက် ၉၁ ဌာနအုပ်ချုပ်ရေးခေတ်ရောက်သည်အထိ သစ်တောရေး ဝန်ကြီးအဖြစ်အမှုထမ်းခဲ့သည်။ သို့သော် ၁၉၃၆ ခုနှစ်တွင် အထွေထွေရွေးကောက်ပွဲ၌ ရှုံးနိမ့်သဖြင့် ဥပဒေပြုအောက်လွှတ်တော်သို့ မပါဝင်ခဲ့ရလေ။ ဥပဒေပြုအထက်လွှတ်တော် အမတ်အဖြစ်ဖြင့် အစိုးရ၏ရွေးချယ်ခန့်ထားခြင်းကို ခံရလေသည်။ ၁၉၃၇ မှ ၃၉ ခုနှစ်အထိ အထက်လွှတ်တော် အမတ်အဖြစ် ဆောင်ရွက်နေဆဲတွင် အမ် အေ ဦးမောင်ကြီးသည် ဘုရင်ခံ၏ကာကွယ်ရေး အတိုင်ပင်ခံ ဝန်ကြီးဖြစ်လာသဖြင့် အမ် အေ ဦးမောင်ကြီး၏ နေရာ အထက်လွှတ်တော် ဥက္ကဋ္ဌရာထူးကို ၁၉၄၀ ပြည့်နှစ်၌ ဆက်ခံခဲ့လေသည်။ ဂျပန်ခေတ်၌ ဆာ ဂျေ အေ မောင်ကြီးသည် တွံတေးမြို့၌ ခိုအောင်းနေပြီးနောက် အထက်မြန်မာပြည်၌ သမီးသားမက်တို့နှင့် လိုက်လံနေထိုင်ခဲ့သည်။

ရန်ကုန်တက္ကသိုလ် တည်ဆောက်စကကျောင်းအဆောက်အဦ ရန်ပုံငွေအတွက် စုဆောင်းရာ၌ ဆာ ဂျေ အေ မောင်ကြီးသည် စိတ်ပါလက်ပါ ဆောင်ရွက် ဆော်ဩပေးခဲ့သည်။ သူ၏ အစိုးရအဖွဲ့ အာဏာရစဉ်က သံဃဝိနိစ္ဆယအက်ဥပဒေကြမ်းကို တင်သွင်းရန် ကြိုးစားခဲ့သည်။ ဥပဒေ အရာ၌



မြန်မာလူမျိုးထဲမှ ပဌမဆုံး ဘုရင်ခံဖြစ်ခဲ့သည့် ဆာဂျေအေမောင်ကြီး

အမြော်အမြင်နှင့် ကြိုးပမ်းခဲ့သော်လည်း အတိုက်အခံတို့က ပုဂ္ဂလဓိဋ္ဌာန်အားဖြင့် ကန့်ကွက်ကြသောကြောင့် ထိုဥပဒေကြမ်းမှာ မအောင်မြင်ခဲ့ချေ။ သို့သော် လွတ်လပ်သော ပြည်ထောင်စုခေတ်၌ကား ဆာ ဂျေ အေ မျှော်မှန်းခဲ့သော အာသီသအတိုင်း သံဃဝိနိစ္ဆယ အက်ဥပဒေ ပေါ်ပေါက် ခဲ့လေသည်။

ဆာ ဂျေ အေ သည် ပန်(ချ)ခေါ် အင်္ဂလိပ် မဂ္ဂဇင်းတွင် ဆောင်းပါးများ၊ ကဗျာများ ရေးသား ခဲ့ဘူးသည်။ ဒေါက်တာ စတူးဝပ်နှင့် အတူ မြန်မာ ဇာတ်သဘင် အကြောင်းကို သုတေသန ပြုခဲ့သည်။

သံဃဝိနိစ္ဆယ ဥပဒေကြမ်းကို ဥပဒေပြုလွှတ်တော်၌ တင်စဉ်က မလိုသူတို့က ဆာ ဂျေ အေ ကို ခရစ်ယန်ဟု စွပ်စွဲကြသော်လည်း စင်စစ် ဆာဂျေအေမှာ ငယ်စဉ်က သေသည့်တိုင်အောင် ဗုဒ္ဓအယူဝါဒကို အလွန်ရိုသေကိုင်းရှိုင်းသူဖြစ်သည်။ နိုင်ငံရေးမှ အနားယူသည့်အခါ ဗုဒ္ဓ အယူဝါဒကို အထူးလေးစားလျက် မိမိအိမ်၏ အိမ်ဦးခန်းကို ဘုရားရှိခိုးခန်းပြုကာ နေ့စဉ် ဝတ်ပြုသည်။ မကွယ်လွန်မီ တလလောက်က စ၍ မူးမေ့လဲရာ၌ ဆရာဝန်ကြီးများနှင့် ကုသပါသော်လည်း အသက်အရွယ် ကြီးရင့် လာပြီ ဖြစ်၍ သက်သာရာ မရဘဲ ၁၃၁၆ ခုနှစ် တပေါင်းလပြည့်ကျော် ၁ ရက် (၁၉၅၅ ခုနှစ် မတ်လ ၉ ရက်) အသက် ၈၃ နှစ်တွင် ရွှေတောင်ကြားလမ်း နေအိမ်၌ ကွယ်လွန် အနိစ္စရောက်ခဲ့လေသည်။

**မောင်ကြီး၊ ဦး၊ လယ်တီပဏ္ဍိတ** (မြန်မာ ၁၂၄၀ – ၁၃၀၁)။ ။လယ်တီပဏ္ဍိတ ဦးမောင်ကြီးသည် အထက်မြန်မာနိုင်ငံ မုံရွာမြို့တောင်ဖက်၊ ခုနစ်မိုင်ကွာ ညောင်ဖြူပင်ရွာကြီး၌ မြန်မာသက္ကရာဇ် ၁၂၄၀ ပြည့်နှစ် တပို့တွဲလဆန်း ၉ ရက်နေ့တွင် အဖဦးရောက်၊ အမိဒေါ်ထယ်တို့မှ ဖွားမြင်သည့် တဦးတည်းသော သားဖြစ်သည်။ ငယ်မည်မှာ မောင်သန့်စင် ဖြစ်သည်။

မောင်သန့်စင် အသက် ၇ နှစ်အရွယ်တွင် ညောင်ဖြူပင်ရွာ မရန်းပင်ကျောင်း ဘုန်းတော်ကြီးထံ အပ်နှံ ပညာသင်ကြား၍ ၉ နှစ်အရွယ်တွင် ရှင်သာမဏေ အဖြစ်သို့ ရောက်ခဲ့လေသည်။ သာမဏေဘွဲ့မှာ ရှင်ပဏ္ဍိစ္စ ဖြစ်သည်။ မျှားမကြာမီ မိခင်ဒေါ်ထယ် ကွယ်လွန်အနိစ္စရောက်သဖြင့် လူဝတ်လဲကာ ဖခင်အိုကြီးနှင့် အတူ နေထိုင်ခဲ့လေသည်။ သို့သော်လည်း မရန်းပင်ကျောင်း ဘုန်းတော်ကြီးထံ၌ပင် စာပေများကို ဆက်လက် သင်ကြားလျက် နေသည်။ အသက် ၁၃ နှစ်သားအရွယ်တွင် တဖန် ဖခင်ကြီး ကွယ်လွန်ပြန်သဖြင့် လောကကြီးအလယ်တွင် ညှိုးငယ်စွာ ကျန်ရစ်ခဲ့လေသည်။

မောင်သန့်စင်သည် လောကဓံ လှိုင်းလုံးထဲ၌ အတည်တကျမရှိဘဲ သာမဏေဝတ်လိုက်၊ လူထွက်လိုက်နှင့် ပြောင်းလဲနေခဲ့ရာ အသက် ၁၈ နှစ်အရွယ်သို့ ရောက်သောအခါ စတုတ္ထအကြိမ်မြောက် သာမဏေဝတ်ပြီးလျှင် ၁၂၅၈ ခုနှစ်တပေါင်းလဆန်း ၈ ရက်နေ့တွင် မုံရွာမြို့ လယ်တီဆရာတော်ဘုရားကြီးထံသို့ရောက်ရှိသွားလေသည်။ လယ်တီဆရာတော်ဘုရားကြီးက ရှင်ပဏ္ဍိစ္စအား ရှင်ပဏ္ဍိတဟူသော ဘွဲ့ဖြင့် ပြင်ဆင်မှည့်ခေါ်၏။ ရှင်ပဏ္ဍိတသည် လယ်တီဆရာတော်ဘုရားကြီးထံ၌ ပိဋကတ်အခြေခံ ကျမ်းဂန်များကို သင်ကြားရာ ဆရာတော်ဘုရားကိုယ်တိုင် ထုတ်ဖော်ချီးကျူးရလောက်အောင် ထူးချွန်ခဲ့လေသည်။ အသက် ၂၀ ပြည့်သောအခါ ၁၂၆၀ ပြည့်နှစ် တပေါင်းလပြည့်ကျော် ၈ ရက်နေ့၌ ရဟန်း အဖြစ်သို့ ရောက်ရှိခဲ့လေသည်။

ရဟန်းဘဝတွင် ပိဋကတ် သုံးပုံကို အလုံးစုံသင်ကြားတတ်မြောက်သည့်ပြင် ရာဇဝင်၊ မဟာဝင်၊ ဒီပဝင်စသော လောကီလောကုတ္တရာ ဗဟုသုတတို့ဖြင့် ပြည့်စုံသော ရဟန်းကျော်ဖြစ်လာသဖြင့် မကြာမီပင် လယ်တီတိုက်ကြီး၌ စာချပုဂ္ဂိုလ်ဖြစ်ခဲ့လေသည်။ ငယ်စဉ်ကပင် လောကနီတိချိုး၊ဓမ္မနီတိချိုးများကို သင်ကြားခဲ့ရသဖြင့် ကဗျာအရာ၌ ကျော်စောခဲ့လေသည်။ တရားဟောကောင်း ရဟန်းတော် အဖြစ်ဖြင့်လည်း ကျော်ကြားလေသည်။

ဦးပဏ္ဍိတသည် ရဟန်း ၃ ဝါရသောအခါ မန္တလေးမြို့ မဟာဝိသုဒ္ဓါရာမဆရာတော်ကြီးထံသို့ သွား၍ သသ်ကရိုက်ဘာသာသင်ကြားသည်။ ထိုစဉ်က ဝိသုဒ္ဓါရုံဆရာတော်ကြီးက ဦးပဏ္ဍိတအား လယ်တီတိုက်မှ လာသူဖြစ်သောကြောင့်

ၛင်း၊ လယ်တီ ဆရာတော်ကြီး၏ တပည့်ရင်း ဖြစ်သော ကြောင့်ရင်း လယ်တီပဏ္ဍိတဟူ၍ ခေါ် လေသည်။ ထိုအခါမှ စ၍ လယ်တီပဏ္ဍိတဟု တွင်လေသည်။

လယ်တီပဏ္ဍိတသည် ရဟန်း ၅ ဝါ အရတွင် ပါဠိပိဋကတ် ဆိုင်ရာ၌ရင်း၊ သင်္ကရိုက် ဘာသာဆိုင်ရာ၌ရင်း ပညာရှိ တဦးဟု ခြီးကျူးရလောက်အောင် စုံလင်စွာ သင်ကြား တတ်မြောက်ခဲ့ပြီးဖြစ်ရာ ပစ္စယမဥ္ဇူရီ၊ ဝိထိမဥ္ဇူရီ၊ ပရမတ္ထသံ ခိပ်ဋီကာ၊ ပါဠိအဘိဓာန် စသော ကျမ်းများကို ရေးသား ပြုစုခဲ့လေသည်။

လယ်တီပဏ္ဍိတသည် အသက် ၃၀ အရွယ်၊ ရဟန်း ၉ ဝါအ ရတွင် သာသနာ့ဘောင်မှ သက်ခဲ့၍ လူအဖြစ်တွင် ငယ်မည် မောင်သန့်စင် မဟုတ်တော့ဘဲ ဦးမောင်ကြီးဟူ၍ရင်း၊ လယ် တီပဏ္ဍိတ ဦးမောင်ကြီးဟူ၍ရင်း ထင်ရှားပြီးလျှင် လူအများ ၏ကြည်ညိုလေးစားမှုကို ခံလာရလေသည်။ ထိုနောက် ပျဉ်း မနားမြို့ ဦးအောင်ဒွန်း၊ ဒေါ်ညိမ်းတို့၏သမီး မမကြီးနှင့် ထိမ်းမြားလက်ထပ်ခဲ့သည်။

လယ်တီပဏ္ဍိတ ဦးမောင်ကြီးသည် ပျဉ်းမနားမြို့တွင် ၃ နှစ်ခန့်၊ မန္တလေးမြို့တွင် တနှစ်ခန့်နေပြီးလျှင် ခရစ် ၁၉၁၁ ခု နှစ်တွင် ရန်ကုန်မြို့သို့ ရောက်လာပြီးနောက် ပဌမဆုံး မြန်မာ့ အလင်းမဂ္ဂဇင်းတွင် အယ်ဒီတာလုပ်သည်။ ထိုအချိန်အခါ ကပင် မြန်မာ့အလင်း မဂ္ဂဇင်းတွင် မောင်သောကဝတ္ထု၊ သကုဏ္တလဝတ္ထု၊ ခင်မြင့်ကြီး ဝတ္ထုတို့ကို ရေးသည်။ မောင် သောကဝတ္ထုမှာ ဦးမောင်ကြီး၏ ပဌမဆုံး ဝတ္ထုဖြစ်ဟန် တူသည်။ ထို့ပြင် ရှိတ်စပီးယား ဝတ္ထုများကိုလည်း ဆီလျော် အောင် ဝေဝေဆာဆာ ရေးသား ခဲ့သည်။ ဦးရွှေကြူးက အင်္ဂလိပ်မှ ဘာသာပြန်၍ ဖတ်ပြသည်ကို ဦးမောင်ကြီးက ရေးသည်ဟု သိရသည်။

မြန်မာ့အလင်း မဂ္ဂဇင်း ပျက်သွားသောအခါ လယ်တီ ပဏ္ဍိတဦးမောင်ကြီးသည် ပညာ့အလင်း မဂ္ဂဇင်းသို့ ရောက်ခဲ့ ပြန်သည်။ ပညာ့အလင်း မဂ္ဂဇင်းတွင် သန်းသန်းဝတ္ထုနှင့် တကွ အခြား ဝတ္ထုတိုကလေးများကိုလည်း ရေးသည်။ ပညာ့အလင်း ရောက်ပြီးနောက်၊ စိတ်ပျက်သဖြင့် အထက် မုံရွာမြို့သို့ ပြန်သွားသည်။ ခရစ် ၁၉၂၃ ခုနှစ်တွင် ဒဂုန် မဂ္ဂဇင်းမှ ခေါ် ယူပြန်သဖြင့် ထိုနှစ်မှစ၍ ဒဂုန်မဂ္ဂဇင်းတိုက် တွင် အယ်ဒီတာ လုပ်သည်။ ဆယ်နှစ်ခန့် ဦးမောင်ကြီး ဦးစီး အုပ်ချုပ် ရေးသားခဲ့သော ဒဂုန်မဂ္ဂဇင်းကြီးမှာ ယနေ့တိုင် အောင်ပင် မြန်မာစာပေလောကတွင် ထင်ရှားကျော်ကြား လျက် ရှိပေသေးသည်။

လယ်တီပဏ္ဍိတ ဦးမောင်ကြီးသည် ပါဠိမြန်မာ စွယ်စုံ တတ်မြောက်သော ကျမ်းပြုပုဂ္ဂိုလ်ကြီး တဦးဖြစ်သည့် အား လျော်စွာ စာအုပ်ပေါင်းများစွာ ရေးသားပြုစုခဲ့သည်။ ယ မိုက်အဖြေကျမ်းကြီး၊ ပရမတ္ထသံခိပ်ဋီကာကျမ်းကြီး၊ ပါဠိ



မြန်မာစာပေလောကတွင် ထင်ရှားသည့် စာရေးဆရာကြီး လယ်တီ ပဏ္ဍိတ ဦးမောင်ကြီး

အဘိဓာန်၊ ဝိထိမဥ္ဇူရီ၊ ပစ္စယမဥ္ဇူရီ၊သဒ္ဒမဥ္ဇူရီစသော ပိဋကတ် ဆိုင်ရာ ကျမ်းဂန်များ၊ နီတိမာလာ၊ နီတိမဥ္ဇူရီ၊ သူရဿတီ နီတိ၊ စာဏကျနီတိ စသော နီတိကျမ်းများ၊ ဝေဿန္တရာ ဂီတိ၊ ကုသဂီတိ၊ ဘဂဝါဂီတိစသော ပါဠိကဗျာ ဂီတိကျမ်း များ၊ သောတမာလာ၊ ဒေသနာ မဥ္ဇူရီ၊ သာဓုသုန္ဒရီစသော တရားစာအုပ်များ၊ ခင်မြင့်ကြီး၊ တင်တင်မြ၊ သန်းသန်း၊ ရွှေပြည်ကြီးစသော ဝတ္ထုများ၊ နတ်သျှင်နောင်ဝတ္ထု၊ဗညား န္တဲ ဝတ္ထု၊ တပင်ရွှေထီး ဝတ္ထုစသော ရာဇဝင် ဝတ္ထုကြီးများ၊ ဓမ္မစကြာ အမေးအဖြေ၊ ပဋ္ဌာန်းအမေး အဖြေ၊ အနတ္တလက္ခ ဏသုတ် အမေးအဖြေ စသောစာအုပ်များ၊ ထေရဘာသာ ပြန်၊ ထေရီဘာသာပြန်စသောပါဠိဘာသာပြန် စာအုပ်များ စသည်ဖြင့် စာအုပ်ပေါင်း ၄၀၀ နီးပါးခန့် ပြုစု ရေးသား ခဲ့သည်။ ထို့ကြောင့် ခရစ် ၁၉၃၄ ခုနှစ်တွင် ရန်ကုန် တက္ကသိုလ်မှ မဟာဝိဇ္ဇာဘွဲ့ဖြင့် ဦးမောင်ကြီးအား ချီးမြှင့် ခဲ့လေသည်။

လယ်တီပဏ္ဍိတ ဦးမောင်ကြီးသည် စာအရေးသားနိုင်ဆုံး သော ပုဂ္ဂိုလ်များတွင် တယောက် အပါ အဝင် ဖြစ်သည် သာ မက၊ ကဗျာ အဖွဲ့နိုင်ဆုံးသော စာဆိုတော်ကြီး တ ယောက်လည်း ဖြစ်သည်။ ကဗျာဖွဲ့ဆိုရာ၌ စကားလုံး အယဉ် အနုတို့ကို သိမ်မွေ့စွာသီကုံးလေ့ ရှိသည်။ ထို့ကြောင့်ပင်

သူ့အား ထီးသုံးနန်းသုံး စကားလုံးအယဉ်အနေတို့ဖြင့် ထီးသံနန်းသံ ကြွင်းသံပါအောင် သိမ်မွေ့စွာ အရေးနိုင်ဆုံးသော စာဆိုတော်ကြီးဟု အသိအမှတ် ပြုကြသည်။

စာပေအရေးအသားတွင်သာမက တိုဗမာ အစည်းအရုံး နာယက သခင်ကိုယ်တော်မှိုင်းနှင့်အတူ သခင် လူငယ်များအား ထိရောက်စွာကူညီခဲ့၏။ မကွယ်လွန်မီကလေးတွင် မျိုးချစ်စိတ် ထက်သန်သည့်အလျောက် "သခင်" ဦးမောင်ကြီးအဖြစ် တိုဗမာအစည်းအရုံးဝင်တယောက် ဖြစ်ခဲ့သည်။

ဦးမောင်ကြီးသည် ကျမ်းပေါင်း များစွာကို ပြုစုခဲ့ပြီးနောက် သက္ကရာဇ် ၁၃၀၁ ခုနှစ် ကဆုန်လဆန်း ၄ ရက်နေ့ အသက် ၆၁ နှစ်တွင် မုံရွာမြို့၌ ကွယ်လွန် အနိစ္စရောက်လေသည်။

လယ်တီပဏ္ဍိတ ဦးမောင်ကြီးရေးသားခဲ့သော ဝတ္ထုများအနက် တပင်ရွှေထီးဝတ္ထုတော်ကြီးမှာ ထိုခေတ်ထိုအခါက လူကြိုက်အလွန်များ၍ ရေပန်းစားခဲ့သည်။ အချိန်ကား လူမျိုးခြားနယ်ချဲ့သမားတို့၏ လက်အောက်တွင် ပြားပြားဝပ်နေရမှ မြန်မာတမျိုးသားလုံး စည်းလုံး၍လွတ်လပ်ရေးရအောင် ရုံးကန်နေကြရသော အချိန်ဖြစ်သည်။ ခေတ်နှင့်လျော်အောင် ထွက်ပေါ်လာသော တပင်ရွှေထီးဝတ္ထုကြီးသည် မြန်မာတမျိုးသားလုံးတို့၏ ဇာတိသွေး ဇာတိမာန်ကို တဖွားဖွား တက်ကြွအောင် လှုံ့ဆော်ပေးသည့် ရာဇဝင်ဝတ္ထုတော်ကြီး ဖြစ်ရကား များစွာအထောက်အကူ ဖြစ်ခဲ့ပေသည်။

တပင်ရွှေထီး ဝတ္ထုသည် သက္ကရာဇ် ၈၉၂ ခုနှစ်မှ ၉၁၂ ခုနှစ် အထိ တောင်ငူထီးနန်းကိုစိုးစံအုပ်ချုပ်ခဲ့သော တပင်ရွှေထီးဘုရင်၏အကြောင်းကို စိတ်ဝင်စားဖွယ်၊ ဖတ်ရှုချင်ဖွယ်၊ ဇာတိမာန် တက်ကြွဖွယ်ကောင်းအောင် ဖွဲ့နွဲ့ ရေးသားထားသော ရာဇဝင်ဝတ္ထုကြီးဖြစ်သည်။ဝတ္ထု၏ ဇာတ်ကြောင်းကို စာရေးသူ ဦးမောင်ကြီး၏ စကားအတိုင်း ဖော်ပြရသော် တပင်ရွှေထီး ဘုရင် "ဘွားမြင်တော်မမူမီကစ၍၊ အခြေ အမြစ်နှင့်တကွ ချဲ့ချဲ့ထွင်ထွင်၊ စုံစုံလင်လင် ရာဇဝင်အတိုင်း ရေးသားခဲ့ရာ နတ်ပြည်စံတော်မူခန်းတွင် အဆုံးသတ်လိုက်ပေသည်။ သို့ရာတွင် ဘုရင်တပင်ရွှေထီးနတ်ပြည်စံတော်မူပြီးနောက် အာဇာနည်ပုဂ္ဂိုလ်ကြီး အစစ်ဖြစ်ပေသော သျှင်ရဲထွတ်၏ ယောကျ်ားပီသစွာ ကြိုးစား ကြံစည်ပုံများနှင့်တကွ မြန်မာလူမျိုးတို့၏ ဂုဏ်သရေ ဆောင်ရွက်ပုံများကို သိစေခြင်းငှါ တောင်ငူသို့ ချီတက်သော အခန်းသို့ ကျ အောင်" ဖွဲ့နွဲ့ရေးသား ခဲ့ပေသည်။ ဝတ္ထုထဲတွင် မင်းညီမင်းသားတို့၏ ချစ်ရေးဆိုကြသော သဘာဝကို ကြည်နူးဖွယ်ရာ ထည့်သွင်းရေးသားထား၏။ သို့သော် ဦးမောင်ကြီးသည် ချစ်ရေးထက် စစ်ရေးကို ပိုမိုအသားပေးကာ မျိုးရိုး ဇာတိမာန်ပွားလေအောင် ရေးသားခဲ့သည်။ ဝတ္ထု၏အဓိကများဖြစ်ကြသော တပင်ရွှေထီးနှင့် သျှင်ရဲထွတ်တို့သည် ပင်လျှင် မြန်မာရာဇဝင်၌ မြန်မာနိုင်ငံတော်ကြီးကို စည်းလုံးညီညွတ်အောင် ကြိုးပမ်းခဲ့သော ဘုရင်များဖြစ်ခဲ့ကြပေသည်။

သို့သော် ဤတပင်ရွှေထီးဝတ္ထု၏ ရေးသားဟန်မှာကား ကာလပေါ် ဝတ္ထုခေတ်တွင် ရေးသားခဲ့သော ဝတ္ထုပင် ဖြစ်လင့်ကစား၊ ဝတ္ထု၏အကြောင်းရင်းခံမှာ သမိုင်းကြောင်းခံခဲ့ခြင်းကြောင့် ကာလဟန်၊ ကာလသံမပါ၊ ထီးနန်းဟန်၊ ထီးနန်းသံသာ ပါခဲ့လေသည်။ တပင်ရွှေထီးဝတ္ထု၏ ရေးသားဟန်မှာ ဝိဇယကာရီ၊ ဣန္ဒာဝံသ အစရှိသော နန်းတွင်းဝတ္ထုကြီးများ၏ ရေးသားဟန်အတိုင်း ကဗျာလင်္ကာများ ထည့်သွင်းရေးသားထား၏။ အထူးသဖြင့် စကားပြောဆိုသည့် အခန်းများတွင် ကာရန်ဟပ် နဘေထပ်များဖြင့် ရေးသားထားလေသည်။

ဤတပင်ရွှေထီး ဝတ္ထုသည် ပဌမတွဲ၊ ဒုတိယတွဲ၊ တတိယတွဲ၊ စတုတ္ထတွဲဟူ၍ အတွဲပေါင်း ၄ တွဲတိတိရှိခဲ့၏။ဇာတ်လမ်းအခန်းပေါင်း ၄၉ ခန်းမျှ ရှိ၍ စာမျက်နှာအားဖြင့်လည်း တထောင်ကျော် ရှိသည်။ ပဌမတွဲ၊ ဒုတိယတွဲနှင့် တတိယတွဲများကို ဒဂုန်ပုံနှိပ်တိုက်ကရင်း၊ စတုတ္ထတွဲကို ဝိဇယပုံနှိပ်တိုက်ကရင်း ရိုက်နှိပ် ထုတ်ဝေခဲ့သည်။

ဤတပင်ရွှေထီး ဝတ္ထုကို ရေးသားရခြင်း အကြောင်းရင်းနှင့် စပ်လျဉ်း၍ စာရေးသူ ဦးမောင်ကြီးက "ရာဇဝင် ဝတ္ထုတို့ကို ရေးသားခြင်းဆိုသည်မှာ အမျိုးကို မမေ့မလျော့စေခြင်း၊ ကိုယ့်အမျိုး ကိုယ့်နိုင်ငံနှင့်ဆိုင်သော ရှေးဟောင်းဗဟုသုတတို့ကို တိုးပွားစေခြင်း၊ ဤသို့စသော အကျိုးတို့ကို ဖြစ်ပွားနိုင်ပေသည်" ဟု ရေးသားဖော်ပြခဲ့ပေသည်။ ယင်းအချက်တွင် စာရေးသူ ဦးမောင်ကြီးသည် တပင်ရွှေထီးဘုရင်နှင့် သျှင်ရဲထွတ်တို့၏ စွမ်းရည်ကြောင့် ပေါ်ပေါက်ခဲ့ရသော တောင်ငူနိုင်ငံတော်ကြီးနှင့် ယင်းတောင်ငူ နိုင်ငံတော်ကြီး၏ ကြီးကျယ် စည်ကားပုံများကို မမေ့မလျော့စေခြင်း၊ သိရှိဗဟုသုတ ပွားများစေခြင်းငှါ ရည်ရွယ်ဆိုလိုဟန် တူပေသည်။

တဖန် ဝတ္ထု၏ အဆုံးသတ်၌ စာရေးသူဦးမောင်ကြီးသည် သူ၏အာဘော်ကို "သူတော်ကောင်း အပေါင်းတို့ မနှစ်ခြိုက်အပ်သော သေရည်သေရက် သောက်စားမှုကို မပြုကြပါလင့်။ သူတော်မဟုတ်သော ပညာမဲ့များကို မပေါင်းသင်းပါလင့်။ ပညာရှိ သူတော်ကောင်းတို့နှင့်သာ အမြဲပေါင်းသင်းဆက်ဆံပါ။ ကျေးဇူးသစ္စာကို ခိုင်မြဲစွာ သိရှိစောင့်ရှောက်ခြင်းတည်းဟူသော ကတညုတတရားကို ပွားများပါ။ ကျေးဇူး သစ္စာမဲ့ခြင်းတည်းဟူသော မိတ္တဒုဗ္ဘိသဘောမျိုးကို လက်မခံပါလင့်။ သျှင်ရဲထွတ်ကဲ့သို့ အမျိုးကျက်သရေရှိအောင် ရွက်ဆောင် ကြိုးစားခြင်းတည်းဟူသော ဝံသာနုရက္ခိတတရားကို အမြဲလက်ကိုင်ထားပါ" ဟုရင်း၊ "နေမီးအသွင်၊ တန်

ခိုးရှင်ဟု၊ တပင်ထီးရွှေ၊ ထွတ်သောင်ကေမူ၊ ရေမြေတုံနိမ့်၊ လျှောင်လှိမ့်မျှ၊ သိမ့်သိမ့်ကြေငြာ၊ ဘုန်းတေဇာဖြင့်၊ ဇေယျာထွတ်ထား၊ အောင်ဖန်များက၊ တက်ကြွားရာဇ၊ မာန်မာနဖြင့်၊ လောကတခွင်၊ မြေအပြင်ဝယ်၊ ငါပြင်မရှိ၊ ထင်မှားဘိ၍၊ အဓိကလွန်၊ မာန်စွယ်ချွန်လျက်၊ တံခွန်မောက်မောက်၊ စွင့်စွင့်ဆောက်သော်၊ မှောက်မှောက်မှားမှား၊ သေသောက်စား၍၊ တရားမဲ့ခိုက်၊ မိတ်ဆွေမိုက်နှင့်၊ နှစ်ခြိုက်ခင်မင်၊ အကျွမ်းဝင်ပြီး၊ အမြင်ဖောက်ပြား၊ ကျင့်ကြံမှား၍၊တရားယွင်းပျက်၊ ထိုအချက်ကြောင့်၊ အသက်ဆုံးလေ၊ ဖြစ်ရချေရှင့်၊ သက်သေထင်ရှား၊ ဝတ္ထုသွားကို၊ ဉာဏ်အား စက္ခု၊ ထင်စွာရှု၍၊ နယုပဒေ၊ လိုက်သောထွေဖြင့်၊သေရည်ယစ်မူး၊သောက်စားကြူးနှင့်၊ ယှဉ်ပူးမိတ်ဆိုး၊ ထိုနှစ်မျိုးကို၊ ကြိုးကြိုးစားစား၊ ကြည်ဖယ် ထား၍၊ တရားမယွင်း၊ ကျင့်ဖြောင့်စင်းသည်၊ မောင်ကွင်းပြောင်ပ စေတကား။”ဟု ၎င်း ဖော်ထုတ်ညွှန်ပြခဲ့ပေသည်။

**မောင်ဂိုမာရီ, ဗားနတ် လော၊ လော့** (ခရစ် ၁၈၈၇ ဖွား)။ ။ပဌမဗိုင်းကောင့်မောင်ဂိုမာရီဘွဲ့ခံ ဗြိတိသျှ စစ်သူကြီး လော့ဗားနတ်လော မောင်ဂိုမာရီသည် ဒုတိယကမ္ဘာစစ်အတွင်းက ထင်ရှားခဲ့သူများတွင် ထိပ်တန်းမှနေခဲ့သူဖြစ်၍ အထူးသဖြင့် ဥရောပတိုက်နှင့်အာဖရိကတိုက်မြောက်ပိုင်းတွင် အောင်ပွဲအများဆုံး ဆွတ်ခူးခဲ့သူအဖြစ်လည်း ကျော်ကြားလေသည်။ မောင်ဂိုမာရီသည် ၁၈၈၇ ခုနှစ် နိုဝင်ဘာလ ၁၇ ရက်နေ့တွင် အိုင်ယာလန်ပြည် ဒိုနီဂယ်ခရိုင် မိုဗေးမြို့၌ ဖွားမြင်လေသည်။ သူ၏ ဖခင်မှာ ရေဖျန်းဂိုဏ်းဝင် ဂိုဏ်းအုပ်ဘုန်းကြီးဖြစ်၏။ ငယ်စဉ်က လန်ဒန်မြို့ရှိ စိန်ပေါ အထက်တန်းကျောင်းတွင် ပညာသင်ကြားခဲ့ပြီးနောက် ဆင်းဒဟတ် စစ်တက္ကသိုလ်သို့ တက်ရောက်၍ စစ်အတတ်သင်ကြားခဲ့ရလေသည်။ ၁၉၀၈ ခုနှစ်တွင် ဘုရင့် ဝါဝစ်ရှိုင်းယားတပ်၌ ဒုတိယဗိုလ် အဆင့်အတန်းကို ရရှိခဲ့၍ ပဌမကမ္ဘာစစ် ဖြစ်ပွားသောအခါ ပြင်သစ်စစ်မျက်နှာတွင် သွားရောက် အမှုထမ်းခဲ့ရလေသည်။ စစ်ကြီးစတင်သည့် ၁၉၁၄ ခုနှစ်မှာပင် သူ၏ရဲစွမ်းသတ္တိကြောင့် ထူးချွန်သည့် အမှုထမ်းဘွဲ့ကိုရရှိခဲ့သည်။ စစ်ကြီးအတွင်း နှစ်ကြိမ် ဒဏ်ရာရခဲ့၏။ ထိုပြင် ရာထူး အဆင့်ဆင့် တိုးတက်ခဲ့ရာ ယာယီအားဖြင့် ဒုတိယဗိုလ်မှူးကြီးအဆင့်အတန်းသို့ပင် တိုးမြှင့်ခန့်ထားခြင်း ခံရသည်။ ထိုနောက်တွင် ရိုင်း နယ်မြေ၌၎င်း၊ အိုင်ယာလန်ပြည်၌၎င်း၊ အိန္ဒိယပြည်၌၎င်း စစ်ဦးစီးအရာရှိအဖြစ် အမှုထမ်းရွက်ခဲ့လေသည်။

၁၉၃၇ ခုနှစ်တွင် ဗိုလ်မှူးချုပ်အဆင့်အတန်းသို့ တိုးမြှင့်ခန့်ထားခြင်း ခံခဲ့ရပြီး နောက်တနှစ်တွင် ဗိုလ်ချုပ် ဖြစ်သွား၍ ပယ်လက်စတိုင်နှင့် ဂျော်ဒန်ပြည်များတွင် အမှုထမ်းခဲ့ရလေသည်။ ၁၉၃၉ ခုနှစ် စက်တင်ဘာလတွင် ဒုတိယကမ္ဘာစစ် ဖြစ်ပွားသောအခါ ဗိုလ်ချုပ် မောင်ဂိုမာရီသည် အမှတ် ၃ တပ်မတော်ကို အုပ်ချုပ်လျက် ရှိနေ၍၊ ဗဲလဂျီယမ်နှင့်ပြင်သစ်စစ်မြေပြင်တို့တွင် တိုက်ခိုက်ခဲ့ရသည်။ ဒန်းကတ် အရေးအပြီးတွင် အင်္ဂလန်ပြည် အရှေ့တောင်စစ်မျက်နှာကာကွယ်ရေးကို ကွပ်ကဲခဲ့ရလေသည်။


ဒုတိယကမ္ဘာစစ်အတွင်းက နာမည်အထူးကျော်ကြားခဲ့သော ဗြိတိသျှ စစ်ဗိုလ်ချုပ်ကြီး လော့မောင်ဂိုမာရီ

၁၉၄၂ ခုနှစ် ဩဂုတ်လတွင် အီဂျစ်အနောက်ပိုင်း သဲကန္တာရအတွင်းရှိ အမှတ် ၈ တပ်မတော်အား ဦးစီးရေးတာဝန်ကို လွှဲပြောင်း၍ ယူခဲ့လေသည်။ ပဌမတွင် ဂျာမန်နှင့် ဣတာလျံတပ်များ၏ အဖိခံခဲ့ရသော်လည်း အားလမိန်းအရပ်မှနေ၍ ခုခံတွန်းလှန်ခဲ့ပြီးနောက် ထိုးစစ်ဆင်ကာ ဂျာမန်နှင့် ဣတာလျံတို့အား သဲကန္တာရကိုဖြတ်၍ တိုက်ခိုက်မောင်းထုတ်ခဲ့လေရာ ရက်သတ္တ ၁၃ ပတ်အကြာတွင် လုံးဝအောင်မြင်ခဲ့လေသည်။ ထိုတိုက်ပွဲကား စစ်ပြီးသည်အထိ သေနာပတိ မောင်ဂိုမာရီ ခံယူခဲ့ရသော အောင်ပွဲတို့၏ အစပင်တည်း။ သူ၏ အောင်မြင်မှုမှာ ဂျာမန်တပ်ကို ပဌမဆုံးအကြိမ် အပြတ်အသတ် အောင်နိုင်ခဲ့ခြင်း ဖြစ်လေရာ ထိုနှစ်အတွင်းမှာပင် ဆဋ္ဌဂျော့ဘုရင်က သူ့အား သူရဲကောင်းဘွဲ့နှင့် သူကောင်းပြုပြီးလျှင် ဗိုလ်ချုပ်မှူးအဖြစ် ခန့်ထားခဲ့လေသည်။

ဂျာမန် ဗ္ဗတာလျံတို့အား အီဂျစ်ပြည်မှ အပြင်းတိုက်၍ မောင်းထုတ်ခဲ့ယင်း တျူနစ်ဇီးယားသို့ ရောက်သောအခါ ဗိုလ်ချုပ်မှူးအိုင်ဆင်ဟောင်းဝါး၏ တပ်များနှင့် ပူးပေါင်း၍ ဆက်လက်တိုက်ခိုက်ရာ ၁၉၄၃ ခုနှစ် မေလတွင် အာဖရိက မြောက်ပိုင်း တိုက်ပွဲများ အောင်မြင်စွာ ပြီးဆုံးသွားလေသည်။ ထိုနှစ် ဇူလိုင်လတွင် အမှတ် ၈ တပ်မတော်ကို ဦးစီး၍ စစ္စလီ ကျွန်းပေါ် သို့တက်၍ သိမ်းပိုက်ခဲ့ပြီးနောက် နှစ်လအကြာတွင် ဗ္ဗတလီနိုင်ငံတွင်းသို့ ချဉ်းနင်းဝင်ရောက်တိုက်ခိုက်ခဲ့သည်။ ၁၉၄၄ ခုနှစ် ဇန္နဝါရီလအထိ ဗ္ဗတလီနိုင်ငံတွင် အမှုထမ်းခဲ့ပြီးသော် အင်္ဂလန်ပြည်သို့ ပြန်ကာ ဗိုလ်ချုပ်မှူး အိုင်ဆင်ဟောင်းဝါး လက်အောက်ရှိ ကုန်းတပ်များကို အုပ်ချုပ်ပြီးလျှင် ပြင်သစ်နိုင်ငံ ကမ်းခြေ တက်ရောက် တိုက်ခိုက်ရေးအတွက် စီမံခဲ့ရလေသည်။

၁၉၄၄ ခုနှစ် ဇွန်လ ၆ ရက်နေ့တွင် ဗိုလ်ချုပ်မှူး မောင်ဂိုမာရီ၏ တပ်များသည် နော်မန်ဒီကမ်းခြေသို့ အောင်မြင်စွာတက်ရောက်နိုင်ခဲ့သည်။ ဩဂုတ်လတွင် အမေရိကန်ကုန်းတပ်များ ထပ်မံရောက်လာသဖြင့် တပ်ဖွဲ့များအုပ်ချုပ်ရေးကို ပြင်ဆင်လိုက်သောအခါ မောင်ဂိုမာရီသည် အမှတ် ၂၁ တပ်မကြီးကို အုပ်ချုပ်ရလေသည်။ စက်တင်ဘာလ ၁ ရက်နေ့တွင် ဗြိတိသျှ စစ်တပ်၌ အမြင့်ဆုံးဖြစ်သော စစ်သူကြီးအဆင့် အတန်းကို ရရှိခဲ့လေသည်။ ဒီဇင်ဘာလတွင် မြောက်ဖက် စစ်မျက်နှာ၌ အင်္ဂလိပ်အမေရိကန်တပ်များ၏သေနာပတိအဖြစ် ယာယီအားဖြင့် ဆောင်ရွက်ခဲ့ရလေသည်။ နစ်ဂျမီဂျင်နှင့် အာနင်မြို့များကို လေထီးတပ်များဖြင့် တိုက်ခိုက်ရေးကို ဦးစီးကြိုးကိုင်ခဲ့၍ အာဒင်နစ်တွင် ဂျာမန်တို့၏ တန်ပြန် ထိုးစစ်ဆင်မှုကို တွန်းလှန်ရာတွင် ပါဝင်တိုက်ခိုက်ခဲ့၏။ ရိုင်းမြစ်ကို ဖြတ်ကျော်ခဲ့ပြီးနောက်တွင် မဟာမိတ်တို့သည် ခုခံမှုမရှိဘဲ ချီတက်နိုင်ခဲ့ရာ လက်ဝဲဖက် စစ်ကြောင်းမှ မောင်ဂိုမာရီ၏ တပ်များသည် ဟော်လန်ကို ကယ်တင် ခဲ့ပြီးနောက်၊ ဗရီမင်း၊ဟန်နိုဗာနှင့်ဟမ်းဗတ်တို့ကို ဆက်လက်သိမ်းပိုက်နိုင်ခဲ့ပြီးလျှင် အဲလဗကမ်းခြေသို့ ရောက်ခဲ့လေသည်။ ၁၉၄၅ ခုနှစ် မေလ ၄ ရက်နေ့တွင် ဂျာမနီအနောက်မြောက်ပိုင်းနှင့် နယ်သာလန်နိုင်ငံရှိ ဂျာမန်စစ်သား ၅၀၀,၀၀၀ ၏ လက်နက်ချအပ်ခြင်းကို ခံယူလေသည်။ ထိုနောက်တွင် ဂျာမနီပြည် ဗြိတိသျှ စစ်တပ်များ၏ စစ်သေနာပတိချုပ်အဖြစ် ခန့်အပ်ခြင်းခံရပြီးလျှင် မဟာမိတ် အုပ်ထိန်းရေး ကော်မရှင်တွင် ဗြိတိသျှ ကိုယ်စားလှယ်ကြီးအဖြစ် ပါဝင်ခဲ့ရလေသည်။

၁၉၄၆ ခုနှစ်တွင် ဗိုင်းကောင့်ဘွဲ့ဖြင့် သူကောင်းပြုခြီးမြှင့်ခြင်းခံရပြီးလျှင် စစ်ဦးစီးချုပ် လော့အယ်လင်ဗရု၏ နေရာတွင် ခန့်ထားခြင်း ခံရသည်။ ၁၉၄၇ ခုနှစ်တွင် ဆိုဗီယက်ပြည်ထောင်စု နိုင်ငံနှင့် ပယ်လက်စတိုင်၊ အိန္ဒိယ၊ သီဟိုဠ်၊ စင်္ကာပူ စသောအရပ်ဒေသများသို့ သွားရောက် လည်ပတ်ခဲ့သည်။ ၁၉၄၈ ခုနှစ် မေလတွင် အနောက်ပိုင်း နိုင်ငံများမှ စစ်ဦးစီးချုပ်များနှင့် ကာကွယ်ရေးဝန်ကြီးများ၏ ညီလာခံသို့ တက်ရောက်၍ ကျူးကျော် ရန်စလာသူကို ပူးပေါင်းတိုက်ခိုက်ရန် အမြဲတမ်း စစ်ကော်မီတီ ဖွဲ့စည်းထားရှိရေးကို ဆွေးနွေးခဲ့သည်။အောက်တိုဘာလတွင် အနောက်ပိုင်း နိုင်ငံများ ကာကွယ်ရေးကောင်စီတွင် စစ်သေနာပတိ ကော်မီတီအဖွဲ့၏ ဥက္ကဋ္ဌအဖြစ်တင်မြှောက်ခြင်းခံရလေသည်။ ထိုအခါတွင် ဗြိတိသျှ စစ်ဦးစီးချုပ် ရာထူးကို စွန့်လွှတ်လိုက်ရလေသည်။ မျှားမကြာမီပင် ဥရောပတိုက်ရှိ မဟာမိတ်တို့၏ ဌာနချုပ်၏ဒုတိယအကြီးအကဲအဖြစ် ခန့်ထားခြင်းခံရလေသည်။

**မောင်တာနေ၁၀တ္ထု။** ။မောင်တာနေ၁ ဝတ္ထုသည် မြန်မာနိုင်ငံ၏ဝတ္ထုခေတ်ဦးတွင် ထင်ရှားခဲ့သော ဝတ္ထုတပုဒ် ဖြစ်၍၊ ၁၂၆၈ ခုနှစ် ဝါဆိုလလောက်တွင် ပေါ်ပေါက်ခဲ့သည်။ ထိုဝတ္ထုကိုရေးသူမှာ မောင်ဘသင်ဆိုသူ ဖြစ်သည်။ ထိုဝတ္ထုသည် ပဌမတွဲ၊ ဒုတိယတွဲ နှစ်တွဲရှိ၍ ဝတ္ထုနှစ်တွဲလုံးတွင် မျက်နှာဖုံး၌ ရွေးဆန်သောမြန်မာရုပ်ပုံများကို ပန်းချီဆရာနှင့် ဘလောက်ဆရာ မောင်စံလှက သစ်လှီး ဆောက်ထွင်းဘလောက်မျိုးဖြင့် စီစဉ်ပေးသည်။ ထိုဘလောက်များကို မင်တရောင်တည်းဖြင့် စက္ကူ ရောင်စုံပေါ်တွင် ရိုက်နှိပ်သည်။ ပဌမတွဲမှာ စာမျက်နှာ ၁၄၀ ရှိ၍ ဒုတိယတွဲမှာ ၁၉၆ မျက်နှာရှိသည်။

ထိုဝတ္ထုကိုရေးသားခြင်း၏ ရည်ရွယ်ချက်မှာ ဗုဒ္ဓဘာသာလောကုတ္တရာစာပေများနှင့် မြန်မာဘာသာရေးသားပြောဆိုမှုကို လေ့လာတတ်ကျွမ်းစေရန် ရည်ရွယ်ရင်းရှိကြောင်းဖြင့် နိဒါန်းတွင်ဖော်ပြထားသည်။ ဝတ္ထုဇာတ်လမ်းမှာ အမရပူရမြို့တည် နန်းတည် ဘိုးတော်မင်းတရားကြီးလက်ထက် နားခံတော် မောင်တာနေ၁နှင့် ဇနီး မမင်းဘော်တို့ အကြောင်းကို မူတည်၍ မှတ်သားစရာ ဗဟုသုတများကို ကြားညှပ်ထည့်သွင်းရေးသားထားသည်။

နားခံတော် မောင်တာနေ၁သည် မူလက မမင်းဘော်၏ ဖခင် ဝန်မင်းဦးရွှေဝအိမ်တွင်နေထိုင်ခဲ့သူဖြစ်၏။မမင်းဘော်အား စုံမက်ချစ်ခင်ကြောင်း ပြောကြားမိသည့်အတွက် အိမ်ထက်မှ နှင်ချခံရ၍ ဟင်းသီးဟင်းရွက်ကလေးများကို ဆွတ်ခူး ရောင်းချ အသက် မွေးနေရလေသည်။ ထိုအချိန်တွင် မမင်းဘော်နှင့်အိမ်ထောင်ဖက်မိသူ နားခံမင်းဦးသာလှသည် ရောဂါရ၍ အနိစ္စရောက်ခဲ့၏။ နားခံမင်း ဦးသာလှက သေလွန်ခါနီးတွင် မှာထားချက်အရ၊ နားခံမင်း၏ အခံစာချိုးကို ယှဉ်ပြိုင်သူများထဲတွင် မောင်တာနေ၁ကသာ ကောင်းစွာဖြည့်စွက် စပ်ဆိုနိုင်သဖြင့်၊ မမင်းဘော်အား မောင်တာနေ၁နှင့် ခုံသမာဓိ လူကြီးများက ပေး ထိမ်းမြားလေသည်။ ဘိုးတော် မင်းတရားသည် ထိုသတင်းစကားကို ကြားလျှင်

မောင်တာနေအား ရွှေတော်သို့ ဝင်စေလျက်၊ ဉာဏ်ပညာ
ကို ဆန်းစစ်ကာ သင့်မြတ်လှသဖြင့် နားခံရာထူးဖြင့် ချီး
မြှောက်လေသည်။

ထိုဝတ္ထုတွင် အင်းဝမြို့တည်ထောင်သည်က အစပြု၍ ရာဇ
ဝင် ဗဟုသုတများ၊ မိန်းမတို့သိရှိအပ်သောမှတ်စုများ၊ လော
ကီမင်္ဂလာ ဆင်ယင်ကျင်းပပုံများ၊ ဗေဒင် ဆေးကျမ်းဗဟုသု
တများ၊ ဒုမင်္ဂလာကိစ္စစီမံဆောင်ရွက်ပုံများ၊ ကဗျာလင်္ကာ
စပ်ဆိုနည်းများနှင့် ကဗျာများကိုလည်း ထည့်သွင်း ဖော်ပြ
ထားသည်။ ထိုဝတ္ထုတွင် ရှေးကာလ လူပျို၊အပျိုတို့ ဆက်ဆံ
ပြောဆိုပုံများနှင့် လူအချင်းချင်းပေါင်းသင်းဆက်ဆံပုံများ
ကို စကားပြောခန်းများနှင့် တကွ သရုပ်ပေါ်အောင် စီကုံး
ရေးသားထားသည်။ ပဌမတွဲကို လူကြိုက်များလှသဖြင့်
ဒုတိယတွဲကို ဆက်လက်ရေးသားရာတွင် နားခံတော်ဦးသာ
လှသေဆုံးပြီးမှ တဖန် မောင်ဇဝနဟူသော အမည်သစ်ဖြင့်
လူဝင်စားဖြစ်ပုံကို ဆက်လက်ကာ ဇာတ်လမ်း ဖော်၍ ရေး
သားရသည်။

ဒုတိယတွဲ၏ ဇာတ်လမ်း အကျဉ်းချုပ်မှာ ပဌမ နားခံ
တော် ဦးသာလှသည် မန်လည်မြို့ သူကြီး ဦးပြောင်၏ ဇနီး
ဒေါ်နိုးထံတွင် လူဝင်စားဖြစ်လာ၏။ထိုသူငယ်သည် ငယ်စဉ်
ကပင် ဉာဏ်ပညာထက်မြက်၍ မိမိ၏ ဘဝဟောင်းက အဖြစ်
အပျက်များကို ပြောပြလေ့ရှိသည်။ ရှင်ပြုမင်္ဂလာ ပြုလုပ်
သော အခါတွင်လည်း ဖိတ်ကြားစာကို သူငယ်ကိုယ်တိုင်
ကောင်းမွန်စွာ စီကုံးရေးသား၏။ ရှင်ဖြစ်သောအခါတွင်
ဉာဏ်ပညာ အကောင်းဆုံး ဖြစ်သဖြင့် ရှင်ဇဝနဟု ဘွဲ့မည်
ရသည်။ ရှင်သာမဏေဘဝနှင့် ၅ ဝါရသောအခါ၌ ရှေးဘဝ
က ဇနီးဟောင်းမမင်းဘော်အား အစဉ်သတိရပြီးလျှင် တမ်း
တ လွမ်းဆွတ်သောစိတ်တို့ ပေါ်ပေါက်ကာ မဖျောက်မဖျက်
နိုင်ရှိခဲ့၏။ ဆရာသမား မိဖတို့က နည်းပြကာ အမျိုးမျိုး
ဆုံးမသော်လည်း မရနိုင်ဘဲ၊ လူဝတ်လဲကာ မမင်းဘော်နှင့်
တွေ့ရရေးကို ကြံစည် နေမိသည်။ ထိုအခါ မိဖများက
မောင်ဇဝန၏ စိတ်ပြောင်းရန် ဦးပြောင်၏မိတ်ဆွေပွဲစားကြီး
ဦးသာကတိုး၏ တဦးတည်းသော သမီး မယ်မှိုကြီးနှင့် နှီး
စပ်ရန်ကြံဖန်ကြ၏။ မိဖများ၏အကြံအစည်အရ မောင်ဇဝန
သည် မယ်မှိုကြီးနှင့် မေတ္တာသက်ဝင် ချစ်ခင်ခဲ့သော်လည်း၊
မမင်းဘော်အား မမေ့မပျောက်နိုင်ချေ။ ထို့ကြောင့် မမင်း
ဘော် မျက်နှာကို မြင်ရရုံမြင်ရစေဟု အကြံပြုလျက် နားခံ
တော် ဦးတာနေနှင့် ဉာဏ်ပညာချင်း ပြိုင်ရန် ချိန်းဆို၏။
ထိုပညာပြိုင်ပွဲတွင် မောင်ဇဝနကရှုံးခဲ့သော် ငွေတထောင်နှင့်
အတူ မောင်ဇဝနက ကျွန်ခံရန်၊ မောင်ဇဝနကနိုင်ခဲ့သော်
နားခံကတော် မမင်းဘော်ကို မောင်ဇဝနအား ပေးအပ်ရန်
နှစ်ဦးသဘော တူညီကြသည်။ ထို ပညာပြိုင်ပွဲအတွက်
အပေါင်းအဖော် ခြွေရံများနှင့် အမရပူရမြို့သို့ ဆိုက်ရောက်
လာခဲ့ပြီးနောက် မြို့ကို လှည့်လည်ကြည့်ရှုနေစဉ် ဦးတာနေ
နှင့် မောင်ဇဝနတို့တွေ့ကြ၍ တဦးနှင့် တဦး မေးဖြေကြပုံကို
အင်းဝဆရာတော်ထံ လျှောက်ထားခန်းတွင်ပင် ဒုတိယတွဲကို
အဆုံးသတ်ထားလေသည်။ ဤအတွဲတွင် ဇာတ်နိပါတ်ဝတ္ထု
များ ပဋိသန္ဓေ တည်ခြင်းနှင့် ကိုယ်ဝန်ဆောင် မိန်းမများ
အကြောင်း၊ စာစီစာကုံး ရေးနည်းများ၊ ချက်ပြုတ်စီမံနည်း
များ၊ မေတ္တာစာများ၊ အိမ်ဆောက်ပုံ၊ မြို့တည်ပုံများ၊ တရား
ဒေသနာများ စသည်တို့ကိုလည်း ဖြည့်သွင်း ရေးသား
ပြန်သည်။

ထိုဝတ္ထုများတွင် ကာလပေါ် ဝတ္ထုသွားတွင် နှုတ်ပြော
စကားအတိုင်း ကာလဆန်ဆန် ထိနန်းဟန်မဖက်ဘဲ ရေး
သားထားခြင်း၊ ကဗျာလင်္ကာများနှင့် ဆုံးမစာသင်္ချိုးစာ
များ ပါရှိခြင်းကြောင့် လူအများပင် နှစ်သက်ဖတ်ရှုကြ
သည်။ ဝတ္ထု၏ နိဂုံးတွင် စာရေးသူသည် အင်္ဂလိပ်စာတတ်
ကုမ္ပဏီစာရေးတဦးဖြစ်ကြောင်းများနှင့် ထိုခေတ်တွင်မောင်
ရင်မောင် မမယ်မဝတ္ထု၊ချဉ်ပေါင်ရွက်သည် မောင်မှိုင်း ဝတ္ထု၊
မမြကလေး ဝတ္ထု၊ စိန်ကလေး ဝတ္ထု၊ မောင်ဖေရှင် မမေတင်
ဝတ္ထု၊ စကားတောင်စား ဝတ္ထု၊ မသင်းကြေ၊ ခင်ခင်ညွန့်ဝတ္ထု
များနှင့် တခေတ်တည်း ပြုစုရေးသားကြောင်း များကိုပါ
ဖော်ပြထားသည်။

ထိုဝတ္ထုကို ဖတ်ခြင်းဖြင့် လောကီလောကုတ္တရာ ရာဇဝင်
ကျမ်းဂန်နှင့် လူမှုရေးရာမှအစ စုံလင်စွာ ဗဟုသုတရစေနိုင်
သဖြင့် ထူးခြားသော ဝတ္ထုဖြစ်သည်။ အမှန်အားဖြင့် ဗဟု
သုတညွန့်ပေါင်းကျမ်းဖြစ်၍ ဖတ်ရှုသူ စိတ်ဝင်စားစေရန်
ဝတ္ထုဇာတ်လမ်းကို ဖွဲ့နွဲ့ထည့်သွင်း ထားခြင်းဖြစ်သည်။
ထိုဝတ္ထုမှ အတိတ်ခေတ်၏ လူမှုရေး အခြေအနေများကို
ထုတ်နုတ်မှတ်သားဆင်ခြင် နိုင်ပေသည်။

## မောင်မောင်ကြီး၊ ဒေဝဣန္ဒာ(မြန်မာ ၁၂၁၆–၁၂၈၁)

။ ။သီချင်းကြီး၊ သီချင်းခံ၊ ပတ်ပျိုး၊ ယိုးဒယား၊ ကြိုး၊ ဘွဲ့
စသောဂီတအနုပညာတွင် ကျွမ်းကျင်၍ မြန်မာဘုရင်များ
ထင်ရှားရှိစဉ်က ရွှေတော်၌ အမှုထမ်းခဲ့ရသော ဂီတပညာ
သည်တို့၏ ဆရာတဆူဖြစ်သည့် ဒေဝဣန္ဒာဘွဲ့ရ မောင်မောင်
ကြီးကို အမရပူရမြို့၌ မြန်မာသက္ကရာဇ် ၁၂၁၆ ခုနှစ်တွင် ဖွား
မြင်သည်။ ငယ်မည် မောင်ဖုန်းဖြစ်သည်။ ဖခင်သည် အမ
ရပူရနေပြည်တော် မင်းတုန်းမင်းကြီးထံတွင် လွှတ်တော်စာ
ရေးကြီးအဖြစ် အမှုတော်ထမ်းရွက်ရသူ ဖြစ်သည်။ မိခင်
ဖခင်တို့၏ အမည်ကို မသိရပေ။ သားသမီး ၅ ယောက်ထွန်း
ကားသည့်အနက် မောင်ဖုန်းသည် အလတ်ဖြစ်သည်။

မင်းတုန်းမင်းတရားကြီးသည် မန္တလေးရတနာပုံ နေပြည်
တော်ကို တည်၍ အမရပူရမြို့မှ ပြောင်းရွှေ့တော်မူသော
အခါ၊ မောင်ဖုန်းသည် အဖလွှတ်တော်စာရေးကြီးနှင့် အတူ



မင်းတုန်းမင်း တရားကြီးထံမှ ဒေဝဣန္ဒာဘွဲ့ဖြင့် ခြီးမြှင့်ခြင်းခံခဲ့ရ၍ စောင်းဘုရင်ဟု ခေါ်ဆိုလောက်သော ဦးမောင်မောင်ကြီး

ပြောင်းရွှေ့လိုက်လာသည်။ နန်းတွင်း နန်းဦးကျောင်းဆရာတော်ကြီးထံပါး၌ စာပေသင်ကြားနေစဉ်၊ မြင်ကွန်းအရေးတော်ပုံ ပေါ်ပေါက် လာသောကြောင့် ဘုန်းကြီးကျောင်းသားအဖြစ်ဖြင့် စာပုလွေထမ်းကာ ရှောင်ရှားခဲ့ရလေသည်။ မောင်ဖုန်းသည် ၅ နှစ်သား အရွယ်မှစ၍ ပဉ္စသီငါးပါးကို သေသည်အထိ မြဲမြံစွာ စောင့်ထိန်းသည်။ ပညာဓိကဘုရားဆုကိုလည်း ပန်သည်။ ထိုအချိန်အခါက ဣန္ဒာဒေဝ အမည်ရှိသော ပုဂ္ဂိုလ်သည် ဂီတပညာတွင် ပုဂံမင်းလက်ထက်မှစ၍ အထူး ကျော်ကြားထင်ရှားသော ပုဂ္ဂိုလ် ဖြစ်လေသည်။ ယင်း ဣန္ဒာဒေဝ ဆရာကြီးထံပါး၌ မောင်ဖုန်းသည် သီချင်းကြီး၊ သီချင်းခံ၊ ပတ်ပျိုး၊ ယိုးဒယား၊ ကြိုး၊ ဘွဲ့အမျိုးမျိုးကို သင်ကြားလေသည်။

အသက် ၁၃ နှစ်သားအရွယ်တွင် မင်းတုန်းမင်းတရားကြီးက ရွှေတော်သို့ ခေါ်တော်မူ၍၊ မိကျောင်းတီးဆက်ရသည်။ မင်းတုန်းမင်းတရားကြီးနှင့်တကွ မင်းပရိသတ်များပါ ခြီးကျူးကြ၍ ဒေဝဣန္ဒာ ဘွဲ့ကို ခြီးမြှင့်ခြင်းခံရသည်။ထိုနောက် ရွှေတော်ပြေးမူးကြီးထံ၌ ဆက်လက်၍ စောင်းအတတ်ပညာကို သင်ကြားလေသည်။ စောင်းအတတ် သင်ကြားနေစဉ်တွင် နီးစပ်ကြသောကြောင့် ဒေဝဣန္ဒာ မောင်မောင်ကြီး၏ နှစ်မဖြစ်သူ ခင်ပုံနှင့် ရွှေတော်ပြေးမူးတို့ အကြောင်းပါကြလေသည်။

သားတော် သီပေါမင်းတရား လက်ထက်တွင် မောင်ဖုန်းသည် ရွှေတော်၌ လူပျိုတော်အဖြစ်ဖြင့် ခစားရသည်။ ထိုနောက် ကွမ်းရေတော်အဖြစ် ခစားရပြန်သည်။ ယောက်ဖဖြစ်သူ ရွှေတော်ပြေးမူး နေမျိုးသင်္ခယာသည် ဗန်းမော်မြို့နှင့် ရွှေကူမြို့၊ မိုးထား (၂မြို့)ဝန်အဖြစ် အမှုတော်ထမ်းရွက်ရန် သွားရသောအခါ မိမိကိုယ်စား ဒေဝဣန္ဒာ မောင်မောင်ကြီးအား သီပေါမင်းတရားကို စောင်းအတတ်ဖြင့် အမှုတော်ထမ်းရွက်ရန် ထားခဲ့လေသည်။ ဒေဝဣန္ဒာသည် သီပေါမင်းတရားအား စောင်းအတတ် သင်ကြားပေးရလေသည်။

ဒေဝဣန္ဒာ မောင်မောင်ကြီးသည် အစိမ်းရောင်ကိုအထူးနှစ်သက်၍ ရွှေကြင်ခတ်ခေါင်းပေါင်းစိမ်း၊ကြိုးပုဆိုးအစိမ်းတို့ကို အမြဲ ဝတ်ဆင်တတ်သည်။ မောင်မောင်ကြီး၏အဆင်းမှာ လှပတင့်တယ်သည်။ အယပ် မနိမ့်မမြင့် အသားလပ်၊ မျက်ခုံးမျက်လုံး ကောင်းသည်။ နှာရွက်ကျယ်ပြန့်၍ မေးရိုးခန့်ညားပြီးလျှင် ဆံပင်မှာ လူတယပ်ခန့်ရှည်သည်။

ထိုသို့ အမှုတော်ကို ထမ်းရွက်နေစဉ် အသက် ၂၀ ကျော်သို့ ရောက်သောအခါ တရားသံဝေဂ ရသဖြင့် မင်းတရားကြီး၏ အမိန့်တော်မရဘဲ မိဖများမသိအောင် မိမိ၏ စောင်းကို မဟာမြတ်မုနိ ဘုရားကြီးမှာ လှူခဲ့၍ စစ်ကိုင်းဖက်သို့ တိတ် တဆိတ် ထွက်ခွာသွားသည်။ စစ်ကိုင်းဖက်သို့ ရောက်သောအခါ ထွင့်ခေါင်ဆရာတော်က ခြီးမြှင့်တော်မူသဖြင့် ရဟန်းဘောင်သို့ တက်ခဲ့လေသည်။ မောင်မောင်ကြီး၏ ရဟန်းဘွဲ့အမည်မှာ ဦးပညာ ဖြစ်သည်။ သုသာနဓုတင်ကို သုသာန်၌ ဆောင်းဥတုအခါ အမြဲသွားရောက်၍ အုတ်ဂူကို ကျောမှီကာ တည၌ပတ်လုံး တရားအားထုတ်နေသည်ကို နံနက် ဝေလီဝေလင်းခရီးသွားများ တွေ့မြင်ရလေသည်။

ထိုကဲ့သို့ ရဟန်းဝတ်နှင့်ရှိနေသည်ကို သီပေါမင်း တရားကြားတော်မူသောအခါ ဘုရင့်အမိန့်တော်ဖြင့် လူဝတ်လဲစေသဖြင့် ဦးပညာမှာဒေဝဣန္ဒာအဖြစ်သို့ပြန်လည်ရောက်ရှိခဲ့ပြီးလျှင် အမှုတော်ကိုဆက်လက်ထမ်းရွက်ရပြန်လေသည်။ထိုအချိန်ကစ၍ သီပေါမင်းထံပါးတွင် စောင်းသင်ပေးနေရသည်။ အင်္ဂလိပ်မင်း ဝင်လာသောအခါ မောင်မောင်ကြီးသည် မြစ်ကျွေးမြို့အုပ် ဦးစံရီထံသို့ ထွက်ပြေးရလေသည်။ ထိုအခါ မြို့အုပ်ဦးစံရီ၏ နှစ်မတဝမ်းကွဲတော်စပ်သူ မခနှင့်အကြောင်းဆက်၍ သားနှစ်ယောက် (၁) မောင်လေးခင်၊ (၂) မောင်လေးရင်တို့ကို မွေးဖွားပြီးနောက် များမကြာမီ ဇနီးဖြစ်သူ မခမှာ မြစ်ကျွေးမှာပင် အနိစ္စရောက်သဖြင့် သားနှစ်ယောက်နှင့် မန္တလေးသို့ပြောင်းရွှေ့ နေထိုင်ပြန်ရာ၌ သားငယ်မောင်လေးရင်သည် ငယ်ရွယ်စဉ်ကပင် တဖန် အနိစ္စရောက်ခဲ့ ပြန်လေသည်။

ဒေဝဣန္ဒာသည် အရှင်နှစ်ပါးမရှိသည့်နောက် သီပေါစော်

ဘုရားနှင့် မိုးနဲစေတီဘုရားတို့ထံပါးတွင် အမှုတော်ထမ်းရွက်ခဲ့ရပြန်သည်။ မန္တလေးသို့နေစဉ်တွင် အင်္ဂလိပ်လက်သို့ ပါတော်မူသွားသော သီပေါအရှင်နှစ်ပါးက မဒရပ်မြို့မှ နေ၍ သမီးတော် ၃ ပါး နားသမင်္ဂလာအခမ်းအနားအတွက် ခေါ်တော်မူသဖြင့် သာသနာပိုင် ဆရာတော်ဘုရားနှင့်တကွ ရှေးအမှုတော်ထမ်းဟောင်းများ နှင့် အတူ လိုက်ပါ သွားရသည်။ ထိုအခမ်းအနားတွင် ဒေဝဣန္ဒာ မောင်မောင်ကြီးသည် စောင်းတော်ကို တီးရသည်။ ထိုနောက် မကြာမီ အရှင်နှစ်ပါး ရတနာဂီရိသို့ ပြောင်းရွှေ့စံနေတော်မူသောအခါ၌လည်း တိုက်တက် မင်္ဂလာ အခမ်းအနားသို့ တဖန် ဒေဝဣန္ဒာ မောင်မောင်ကြီးတို့ကို ခေါ်တော်မူပြန်၍ သွားရောက်ကြရသည်။

သားအကြီးဖြစ်သူ မောင်လေးခင်မှာ အသက် ၂၅ နှစ် အရွယ်လောက်တွင် အနိစ္စရောက်ပြန်သည်။

မန္တလေးမြို့တွင်နေစဉ် ဒေဝဣန္ဒာ မောင်မောင်ကြီးသည် စောင်းပညာ၊ တူရိယာပညာ၊ ဂီတပညာတို့ကို ဖြန့်ဖြူးသင်ကြားပေးသည်။ ဒေဝဣန္ဒာမောင်မောင်ကြီးထံတွင် မောင်မောင်လတ်၊ ဆရာစိန့်၊ ဗေဒါဦးမောင်ကလေး၊ ဦးချစ်ဘွယ်၊ ဒေါ်စိန်သုံး၊ ရန်ကုန်ဆရာငြိမ်း၊ တူဦးကျော်လှ၊ ဦးထင်၊ ရှုံပိုင်ကြီး ဦးစံဝင်း၊ စောင်းဆရာကြီး ဦးညိမ်းတို့သင်ကြားနည်းယူကြသည်။

ဒေဝဣန္ဒာသည် စောင်းကို မိမိကိုယ်တိုင် ပြုလုပ်၍ တီးသည်။ အစိမ်းရောင် ကြိုက်တတ်သူဖြစ်၍ စောင်းကြိုးကို ပိုးစိမ်းဖြင့် ကျစ်သည်။ စောင်းများကိုလည်းကိုယ်တိုင်သစ်စေးများသုတ်ခြင်း၊ ရွှေချခြင်း၊ မှန်စီခြင်းများကို ပြုလုပ်လေ့ရှိသည်။ ပရိဘောဂပစ္စည်းမျိုးစုံကိုလည်း အလှအပသဘောဖြင့် မှန်စီရွှေချခြင်းတို့ကို ပြုတတ်သော ဝါသနာရှိသည်။

မောင်မောင်ကြီးမှာ စောင်းသာလျှင် ကျွမ်းကျင်တတ်မြောက်သည်မဟုတ်၊ မိကျောင်း၊ စန္ဒရား၊ ပတ္တလား၊ မင်ဒလင် စသောကြိုးတပ် တူရိယာများကိုလည်း တတ်မြောက်သည်။ တပည့်များအား သင်ကြားပြသသောအခါ၌ ဆိုပုံဆိုနည်းကိုပါ သင်ကြားပေးသည်။ အကတွင်လည်း ယိုးဒယားအက အထူးကျွမ်းကျင်၍ ဘုရင်၏ အခမ်းအနားများတွင် အမြဲကပြရသည်။ မင်းသမီးကြီးများ ဖြစ်သော ကျွမ်းစိန်၊ လွမ်းစိန်တို့ အားလည်း အကပညာ သင်ကြားပေးရသည်။ သင်ကြား ပြသသောအခါ မောင်မောင်ကြီးသည် စိတ်တိုတတ်သည့်အလျောက် ငေါက်၍အော်၍ သင်ကြားပေးတတ်သည်။ ဗေဒါဦးမောင်ကလေး (စိန်ဗေဒါ) တို့မှာ ဆောင်းတွင်းအခါတွင် ပညာသင်ကြားရာ၌ အအော် အငေါက် ခံရ၍ ကြောက်ရွံ့ပြီးလျှင် ချွေးဒီးဒီးကျကာ လက်ကိုင်ပုဝါများပင်စိုရွှဲသွားသည့်တိုင်အောင် ဖြစ်ရလေသည်။

ထိုနောက်ဒေဝဣန္ဒာမောင်မောင်ကြီးသည် အနိစ္စရောက်သွားရှာသော သားအကြီး မောင်လေးခင်အား သတိရလွမ်းဆွတ်တမ်းတမိကာ၊ တရားသံဝေဂများ တဖန် ရပြန်၍ စစ်ကိုင်းဖက် မင်းကျောင်းဆရာတော်ထံပါးသို့ သွားရောက်သက်န်းဝတ်နေပြန်သည်။ ကျောင်းတွင် တရားအားထုတ်နေစဉ် တူဖြစ်သူ ဦးကျော်လှ-ဒေါ်သိန်းခင်၊ တူမဖြစ်သူ ဝန်ထောက်ကတော် ဒေါ်မမကြီးစသော ဆွေမျိုးများနှင့် တပည့်သားမြေးအပေါင်းတို့က ဆွမ်းကွမ်းများထောက်ပံ့ လှူဒါန်းကြသည်။ သက်န်းဝတ်နေစဉ် မြန်မာတပြည်လုံးရှိ တပည့်သားမြေးအပေါင်းတို့က မရှင်းလင်းနားမလည်သော သီချင်းများ တီးကွက်များကို လာရောက်လျှောက်ကြားသဖြင့် ဦးပဉ္ဇင်းသည် မင်းကျောင်း ဆရာတော်ဘုရားကြီးကို သက်န်းဝတ်နှင့် ဂီတပညာကို သင်ပေးထိုက် မပေးထိုက် လျှောက်ကြားရာ ဆရာတော်ဘုရားက ပညာပါရမီအတွက် သင်ကြားပေးထိုက်ကြောင်းကို ဆုံးဖြတ်တော်မူသဖြင့် ဂီတပညာအရပ်ရပ်ကို တပည့်တို့အား သင်ကြားပေးခဲ့သည်။ ညဉ့်သန်ကောင်ယံ၌ ဣတိပိသော၊ ဟေတုပစ္စယော၊ ယံဒုန္နိမိတ္တံစသည်တို့ကို စောင်းဖြင့် သာယာနာပျော်ဘွယ်တီးလေ့တီးထရှိသည်။

သက္ကရာဇ် ၁၂၉၁ ခုနှစ်တွင် ဒေဝဣန္ဒာမောင်မောင်ကြီး၊ ရဟန်းဘွဲ့ဦးပညာသည် ဦးပဉ္ဇင်းဘဝဖြင့် သက်တော် ၇၅ နှစ်လောက်တွင် ပျံလွန်တော်မူရာ၊ မန္တလေးမြို့ရှိ ဆွေမျိုးများနှင့် တပည့်ရင်းဖြစ်သော ဗေဒါဦးမောင်ကလေး၊ မတိုးလေး၊ (ဆရာစိန့်၏ဇနီး၊) စန္ဒရားမမကြီးတို့ပါ လာရောက်အေးဆေးစွာ သင်္ဂြိုဟ်လိုက်ကြသည်။

**မောင်မှိုင်း ဝတ္ထု၊ ချဉ်ပေါင်ရွက်သည်။** ။ချဉ်ပေါင်ရွက်သည် မောင်မှိုင်း ဝတ္ထုသည် မြန်မာ ကာလပေါ် ဝတ္ထုများအနက် ဒုတိယ ထွက်ပေါ်လာသော ဝတ္ထုဖြစ်၏။ ပဌမဆုံး မြန်မာကာလပေါ် ဝတ္ထုဖြစ်သည့် မောင်ရင်မောင်မမယ်မဝတ္ထုနှင့် တနှစ်တည်းမှာပင် လအနည်းငယ်ခြားပြီးနောက် ထွက်ပေါ်လာသည်။ (မောင်ရင်မောင် မမယ်မဝတ္ထု — ရှု။) ထိုဝတ္ထုကို ရေးသားသူမှာ သီပေါမင်းတရားလက်ထက် ရာဇဝတ်ရေး ဌာနနှင့် အမြောက် ဆင် မြင်း ဝင်း ဒိုင်း ခနစ်စိုးဆိုင်ရာ ကုန်းကြောင်းစစ်သည် ဌာနချုပ်တာဝန်ခံ တိုင်တားမင်းကြီး၏ ဝန်စာရေး ဦးကြီး ဖြစ်၏။

မောင်ရင်မောင် မမယ်မဝတ္ထု ထွက်ပေါ်လာပြီးသည့်နောက်ပိုင်းတွင် စာဖတ်ပရိသတ်သည် အာသာမပြေဘဲ အလားတူ ကာလပေါ် ဝတ္ထုများကို တောင့်တလျက်ရှိကြောင်း ဟံသာဝတီတိုက်ရှင်က သိမြင်သောကြောင့် ဦးကြီးအား ပန်ကြားသည်တွင် ဦးကြီးက မိမိ ရေးသားပေးပါမည်ဟု အာမခံပြီးလျှင် ချဉ်ပေါင်ရွက်သည်မောင်မှိုင်းဝတ္ထုကို ခေတ်အကြိုက်လိုက်လျောအောင် ရေးသားခဲ့၏။ ချဉ်ပေါင်ရွက်

သည် မောင်မှိုင်းဝတ္ထုကို မြန်မာသက္ကရာဇ် ၁၂၆၆ ခုနှစ် တနှစ်တည်းမှာပင် ပဌမနှင့် ဒုတိယတွဲ ဟူ၍ ၂ တွဲ ခွဲခြားကာ ဟံသာဝတီ ပုံနှိပ်တိုက်မှ ဦးစွာ ရိုက်နှိပ် ထုတ်ဝေခဲ့ရာ၊ အများနှစ်သက် စွဲလမ်းသဖြင့် တတိယတွဲကို ဆက်လက်ရေးသားခဲ့၏။ စတုတ္ထတွဲ ဆက်လက်ရေးသားရန် မူလက ရည်ရွယ်ခဲ့သော်လည်း မရေးဖြစ်ခဲ့ချေ။ ထိုနောက် ၁၂၇၃ ခုနှစ်တွင် တကြိမ်၊ ၁၃၀၂ ခုနှစ်တွင် တကြိမ်နှင့် ၁၃၂၂ ခုနှစ်တွင် စတုတ္ထအကြိမ် ထိုဟံသာဝတီပုံနှိပ်တိုက်မှပင် ပုံနှိပ်ထုတ်ဝေခဲ့လေသည်။ မူလက ၃ အုပ်ခွဲ၍ ရိုက်နှိပ်ခဲ့သော်လည်း စတုတ္ထအကြိမ်တွင်မူ ၂ အုပ်နှင့် ပြီးအောင်စီမံထုတ်ဝေခဲ့၏။

ဝန်စာရေးဦးကြီးကား ရှေးအထက်ကျော်ကာလက အိပ်ဖန် အလှည့်ကျ အဖော်အသင်းတို့အား တညဉ့်လုံး မအိပ်ချင်အောင် ဖွဲ့ဆင်ပုံခင်း ပြောဆိုခဲ့ဘူးသူ ဖြစ်သည်လည်းတစ၊ ကဗျာလင်္ကာလောကီရေးရာကို ဖွေရှာစပ်စု ဗဟုသုတကြွယ်ဝသူ ဖြစ်သည်လည်း တကြောင်းတို့ကြောင့် မောင်မှိုင်းဝတ္ထုကို ရေးရာတွင် စကားပြေသက်သက်ချည်း မဟုတ်ဘဲ ကာရန် နဘေ ရောစွက်ကာ ဖတ်ရှု၍ ပြေပြစ်အောင်ရေးသားထားသည်။ ဤသို့ ရေးရာတွင် အခန်းကဏ္ဍများခွဲထားခြင်း မရှိဘဲ တောက်လျှောက် တဆက်တည်း ရေးသားထား၏။ မောင်မှိုင်းဝတ္ထုမှာ ရှေးမြန်မာမင်း လက်ထက်ကို နောက်ခံပြုထားသည်ဖြစ်၍ ယင်းကို ဖတ်ရှုခြင်းအားဖြင့် ရှေးခေတ်၏ ဖြစ်ပျက် ဆက်ဆံလေ့ရှိသော ကာလဒေသ သဘာဝ ပတ်ဝန်းကျင်ကိုရင်း၊ ခေတ်ကာလ အလျောက် စီကုံးဖွဲ့နွဲ့ ရေးသားပုံကိုရင်း၊ လောကဓမ္မ သံဝေဂတို့ကိုရင်း ကြေးမုံပြင်သဖွယ် ထင်ထင်ရှားရှား မှတ်သားတွေ့မြင်ကြရမည် ဖြစ်လေသည်။

ချဉ်ပေါင်ရွက်သည် မောင်မှိုင်းဝတ္ထုတွင် ဦးကြီးသည် ဇာတ်ကောင်တဦးကို မူလထား၍ ဖွဲ့နွဲ့ ရေးသားထားသည်။ ထိုအဓိက ဇာတ်ကောင်ကို မောင်မှိုင်းဟူ၍ ရွေးချယ်သည်မှာ အကြောင်းမဲ့ မဟုတ်ဟု ဆိုနိုင်သည်။ ဘိုးတော်ဘုရားလက်ထက်တွင် ပညာရှိ ပိဋကတ်တော်အုပ် ဦးပညာ၏ သား မောင်မှိုင်း ဆိုသူသည် ဖခင်၏ ဂုဏ်ကျေးဇူးကြောင့် ဖခင် ကွယ်လွန်သောအခါ ဘိုးတော်ဘုရား၏ သူကောင်းပြုခြင်းကို ခံရသည်။ ဘုရင်၏ မြှောက်စားခံရမှုကို အခွင့်ကောင်းယူ၍ ပရမ်းပတာ ပြုမူပြောဆို လိမ်လည်ပွေနောက်ခဲ့ဘူးသည်။ မည်သူမျှ အရေးမယူဝံ့ဘဲ သည်းခံမျိုသိပ်နေခဲ့ကြရသည်။ ထိုမောင်မှိုင်း အကြောင်းများကို ရှေးအခါကပင် ချဲ့ထွင် ပြောဆိုခဲ့ကြသဖြင့် မောင်မှိုင်းမှာ လူရှုပ်လူပွေ တဦးအဖြစ်ဖြင့် ထီးလဲနန်းလဲတွင် စကားစဉ် ရှိခဲ့ဘူးသည်။ ထိုကြောင့်လည်း ဦးကြီးသည် မိမိ၏ ဝတ္ထုတွင် အဓိက ဇာတ်ကောင်ဖြစ်သူအား သဘာဝနှင့် လျော်ကန်အောင် မောင်မှိုင်းဟု အမည်ပေးလိုက်ခြင်း ဖြစ်ဖွယ်ရှိသည်။

ချဉ်ပေါင်ရွက်သည် မောင်မှိုင်းဝတ္ထု ပေါ်ထွက်လာသော အခါ ဇာတ်လိုက်ဖြစ်သူ မောင်မှိုင်းကို စာဖတ်သူတို့က စက်ဆုပ် ရွံမုန်းကြ၏။ မောင်မှိုင်း ဟူသော အမည်သည် သူတပါး သားပျို သမီးပျိုများကို လိမ်လည်လှည့်ဖျားကာ ဖျက်ဆီးလေ့ရှိသော သူယုတ်မာ ကြာသမားတယောက်၏ အမည်ဖြစ်ကြောင်း သိရှိ အမှတ်အသား ပြုထားကြ၏။ ထိုခေတ်က မောင်မှိုင်းဟု တင်စားခေါ်ဝေါ်ခံရသူသည် လွန်စွာ နာကျည်းသော ဟူ၏။

ချဉ်ပေါင်ရွက်သည် မောင်မှိုင်းသည် ချဉ်ပေါင်ရွက် ရောင်းနေရာမှ ကျောက်ပန်းတောင်းစား မောင်မောင်ကြီး အသွင်တမျိုး၊ ကျောက်ကုန်သည် မောင်ကလေးအသွင်တဖုံ၊ ဘုရင့်အငယ်တော် ခင်မောင်ကြီး အသွင်တနည်း ဇနီးမယားအများအပြားယူလျက် ဥာဏ်ရှိသလောက် ပြုသမျှ အောင်မြင်၍ ဘုရင်မင်းမြတ် အထူးမြှောက်စားခြင်းကို ခံရကာ အတွင်းဝန် မြစ်စဉ်ဝန် ပုဂံမြို့စား မင်းကြီး မင်းလှဇေယျမင်္ဂလာ ဟူသော ဘွဲ့ကို ရရှိပြီးလျှင် မယားအပေါင်းလည်း မြို့စား ရွာစား အဖြစ် အသီးအသီး ချီးမြှောက်ခြင်း ခံရလေသည်။

အခါတပါး၌ ဝတ္ထု၏ ဇာတ်ကောင်ဖြစ်သော အတွင်းဝန် မောင်မှိုင်း စဉ်းစားသုံးသပ်သည်ကို ကောက်နုတ် ဖော်ပြခြင်းဖြင့် မောင်မှိုင်း အကြောင်း တစိတ်တဒေသနှင့်တကွ ဦးကြီး ရေးသားသော စာဟန်ကိုပါ ခန့်မှန်းနိုင်ပေမည်။

"ထိုအခါ ပုဂံအတွင်းဝန်မင်း စိတ်က အောက်မေ့သည်မှာ အောင်မှိုင်း ငမှိုင်း လှုပြည်တိုင်းမှာ သမိုင်းတစောင် ရာဇဝင်မှာ စာတင်ဘို့ ပြောင်လောက်ပြီ၊ ချဉ်ပေါင်ရွက်က အရင်းထူတော့ သင်းမူလ ပဌမယ်ရည်း ခင်လေးကြီးက ဦးစီး ဘူတ ပုဆိုးနှင့်ငွေ စိန်နှင့်ရွှေကို အခြေစစ်၍ မသည်ကနောက်၊ အပုံကြီးဟန်ပြီးလျှင် ကြံတိုင်းကို ပေါက်ပေသည်။ အောက်မင်းလှနယ် မကြွေယ်ကို ဆွယ်၍အပြီး မမကြီးကို တက်ကစီးယူ ပရိယာယ်နှင့် ဥစ္စာကို ချူသောခါ စိတ်တူမြေ ပေးရှာကြသည်ကို နေရာတကျ တဖက်လှဲ့ ငတေနှင့် ကဲ့ပြီးမှ တကယ့်အဟုတ် ကျောက်ကုန်သည်လုပ်ပြီးလျှင် ကျောက်ထုပ်နှင့်လည် ဒေါ်ပြောင်းကစပ်သွယ်၍ မယ်ဝန်ကို ထုတ်ချောက်အပြောကလေး ဟန်သောကြောင့် အကြံကြီးမြောက်ခဲ့သည်၊ အောက်မြို့ရန်ကုန် စုန်ပြန်ကြရာ ခါလာဖော့တို့က နှစ်ကြော့လောက် ညာပေး၍ ဘာဘူကြီးသမက် ဘိဘိနှင့် လက်ထပ်၍ သုံးထပ်ပေါ်တက်ပြီးလျှင် တချက်ထဲနော် သုံးသိန်းလောက် ကော်ဒါနဲ့ ရွှေဖဝါးတော်သို့ အမြန်တခါတည်း ဆန်ပြီးလျှင် ဥာဏ်ရှိသလောက် သူများနှင့် .လက်ထပ်ဘို့ မဏ္ဍပ်တွေ ဆောက်ပြီးမှ ကြားဖောက်၍ကူ ခင်လေးကြီး ငယ်ရည်းစားကို အားစိုက်၍ယူပြီးလျှင် မှူမူရင်ရင် မြင်မြင် သမျှ လှလှနုနု ပုပုပြတ်ပြတ် ဆံပတ်အုပ်လုံး ဆံထုံးမောက်

မောက် ဆံထောက် မမှိ့တမှိ စည်းကြိုးနီနှင့် ကုမ္ပာရီ ပျို အလှတို့ကို လိုသမျှ တမျိုးတမျိုး ခွဲပြီးလျှင် ကိုးလှည်း လောက် မယားဖြူဖြူတို့ကို တခြားသူမသိအောင် ကြိတ်လို့မို့ တိတ်တိတ်ကလေး ယူခဲ့လှလေပြီ၊ ကာမရိပ်ငြိမ် အတွင်းဝန် ဘဝ ထင်သလိုရသော်လည်း တဆိတ်ကမှပင် တင်းမတိမ်ဘဲ လူတို့၏ စည်းစိမ်ကို အရှိန်မပျက်နိုင်အောင် မက်မော တွယ် တာ၍ တဏှာကို အလိုမျှားပြီး တရားကို မေ့လျော့တတ် ချေသည်။ ဟယ် ကာမာသဝ ဘုံဘဝတွင် လောဘတွယ်တာ ကိလေသာကြောင့် တဏှာထွေးရစ် ဖြစ်ချင်တိုင်း ဖြစ်ပြီး လျှင် နှစ်တုံပေါ်တုံ ရှုပါရှုံကြောင့် ကာမဂုဏ်ပွား ဥပါဒါန် မပြတ်သမျှ ဒုက္ခတွေမျှားစေဖို့ မယားကစနက် ကိလေသာ ဆိုတဲ့ စက်ကို မီးစက်၍လောင် သံသရာက မထွက်နိုင်ဖို့ကို ကြက်ငှက်ကို လှောင်ဘိသကဲ့သို့ နှောင်အိမ်က မလွတ် ဘယ်တော့မှ မကျွတ်နိုင်ဘဲ ဝဋ္ဋနှိပ်စက်ရာ ခံရတာကို လွန် စွာ နှစ်သက် ရွှာသူတို့ ဝက်ကဲ့သို့ စုံမက်မိမှား အဝိဇ္ဇာတရား ကို လားလားမှုမမြင် ငါစည်းစိမ်ရှင်ကဘဲဟု ဂုဏ်ထင်တဲ့မာန မာနစွယ်ကို ပြပြီးလျှင် ဒေါသနှင့်နှောက် မင်းသံနှင့်ချောက် လိုက်ပြီးလျှင် အောက်လူအများ ကြောက်တာနှင့် ပြားရ လေသည်။ သူမယား မျက်ရည်ယိုမှ ကိုယ့်မယား ချမ်း သာသည် ဆိုသော ဥပမာကဲ့သို့ ယခုအခါ ကုသိုလ်ကြသော် လည်း ဥဒါဟိုပ မလျော်တာကို မမိုက်မှားရအောင် နှုပျိအ လှ အမော်ကညာကြိုက်တဲ့ မယားတွေနှင့် အမှုပိုစပြီး အ လော်မာကို မလိုက်စားဘဲ သည်မယားရှစ်ယောက်နှင့်ပင် တင်းတိမ်ရတော့မည်ဟုစိတ်ကိုချုပ်၍အောက်မေ့မိလေ၏။"

သို့သော် ဤသည်တွင် မဆုံးသေးဘဲ ဝင်းမှူးသမီး ခင်ခင်၊ တံငါသည်သမီး ဖဲညွန့် အပြင်၊ မိတ္ထီလာ၊ ရမည်းသင်း၊ ယင်း တော်၊ လှိုင်းတက်၊ သာဂရမြို့များသို့ ဝတ်တရားဖြင့်သွား ရောက်စဉ် မိကောင်းဖခင် သမီးပျိုကလေးများကို မိဖတို့ သဘောတူသောကြောင့် ဥစ္စာပစ္စည်း ပေးကမ်း ခြီးမြှောက် လျက်၊ တမြို့တယောက် ကောက်ယူခဲ့လေသေးသည်။

# ပဌမဆုံး မြန်မာကာလပေါ် ဝတ္ထု

**မြန်မာစာပေ ဂန္ထဝင်၌ ထင်ရှား၍ ဂျိမ်းလှကျော်ရေးသည့် ''မောင်ရင်မောင် မမယ်မဝတ္ထု''သည် သက်ဆိုင်ရာ ခေတ်ကာလ မြန်မာစာပေ၏ အဆင့်အတန်းကို ဖော်ပြသော စာပေမှတ်တိုင်တခု ဖြစ်သည့်အပြင်၊ ထိုခေတ်ကာလ၏ လူနေမှုကို ဖော်ထုတ် ပြသော ခေတ်ပြကြေးမုံ တချပ်လည်း ဖြစ်၏။**

**မောင်ရင်မောင် မမယ်မ ဝတ္ထု။** ။ မောင်ရင်မောင် မမယ်မ ဝတ္ထုသည် မြန်မာ့ စာပေဂန္ထဝင်၌ ပဌမဆုံး ပေါ် ခဲ့သည့် မြန်မာ ကာလပေါ် ဝတ္ထုအဖြစ် ထင်ရှားသည်။ မောင်ရင်မောင် မမယ်မဝတ္ထုသည် ပြင်သစ်စာရေးဆရာကြီး အယ်လက်ဇန္ဒာဒျူးမား ရေးသားသော 'ကောင့်အော့မွန် တီ ကရစ္စတို' (မွန်တီကရစ္စတိုမြို့စားကြီး) ဝတ္ထုကို မှီငြမ်း ပြု၍ မြန်မာတို့၏ အခြေ မြန်မာတို့၏အမြင်နှင့် ဆီလျော် အောင် ပြုပြင် ရေးသားထားသော ဝတ္ထုဖြစ်၏။ (ဒျူးမား၊ အယ်လက်ဇန္ဒာ — လည်းရှု။) ရေးသား ပြုစုသူမှာ ဂျိမ်း လှကျော်ဖြစ်၍ သက္ကရာဇ် ၁၂၆၆ ခုနှစ် (ခရစ် ၁၉ဝ၄) တွင် ပဌမအကြိမ် ထုတ်ဝေခဲ့သည်။ ထိုခေတ်က မောင်ရင် မောင် မမယ်မဝတ္ထုသည် အတော်လူကြိုက်များ၍ ခေတ် စားခဲ့သောကြောင့် ချဉ်ပေါင်ရွက်သည် မောင်မှိုင်း အစ ရှိသည့် အခြားဝတ္ထုများလည်း အလျှိုလျှို ထွက်ပေါ်လာ ခဲ့သည်ဟု ဆိုလေသည်။ သို့သော် မောင်ရင်မောင် မမယ်မ ဝတ္ထုကို ပြန်လည် ရိုက်နှိပ်ခဲ့ခြင်း မရှိသောကြောင့် ယင်းကို ပဌမဆုံး မြန်မာကာလပေါ် ဝတ္ထုအဖြစ် ကြားရုံကြားဘူး ကြ၍ မဖတ်ဘူးကြသူ များပေသည်။ များမကြာသေးမီ ကာလဖြစ်သော ၁၉၅၉ ခုနှစ်တွင် မန်းရာပြည့် အထိမ်း အမှတ်အဖြစ် ဂျိမ်း လှကျော်၏ မြေးဖြစ်သူ ခင်ထားဦး၏ ဆန္ဒဖြင့် ဒုတိယအကြိမ် ရိုက်နှိပ် ထုတ်ဝေခဲ့လေသည်။ (လှ ကျော်၊ ဂျိမ်း — လည်းရှု။)

ဂျိမ်းလှကျော်၏ မြန်မာစာ စီကုံး ထုံးဖွဲ့မှုသည် ရိုးသား သည်။ ရှင်းသည်။ အပိုအလိုမရှိ တိကျသည်။ ပြတ်သားစွာ ဆိုသည်။ လိုရင်းကိုသာ ကွက်ကွက်ကွင်းကွင်း ဖော်ထုတ် ထားသည်။ သို့သော် မောင်ရင်မောင် မမယ်မဝတ္ထုသည် ဝါကျရှည်ကြီးများ ရေးလေ့ရှိသော ကုန်းဘောင်ခေတ် ဒုတိ ယပိုင်း၏ အရေးအသားမူကို ခံယူခဲ့သောခေတ်၌ ပေါ်သော စာ ဖြစ်သည်မှာ ထင်ရှား၏။ ကုန်းဘောင်ခေတ်ကုန်ဆုံး၍ အနှစ်နှစ်ဆယ်မျှပင် မရှိသေးသည့်အခိုက်၌ ဤဝတ္ထုကိုရေး လေသောကြောင့် ကုန်းဘောင်ခေတ် စာပေ၌ပင် အကျုံး ဝင်သည်ဟု ဆိုနိုင်လေသည်။

မောင်ရင်မောင် မမယ်မဝတ္ထုသည် ထိုခေတ် ထိုကာလက မြန်မာစာပေ၏ အဆင့်အတန်းကို ဖော်ပြလျက်ရှိသော စာ ပေ မှတ်တိုင်ကြီး တခုသာ မဟုတ်ဘဲ၊ ယင်းခေတ်ကာလ၏ လူနေမှုကို ဖော်ထုတ်ပြသော ခေတ်ပြကြေးမုံ တချပ် လည်း ဖြစ်ပေသည်။

ပဌမအကြိမ် ထုတ်ဝေခဲ့သော စာအုပ်မှာ ယခုခေတ် စာ

အုပ်များထက် ကျနသပ်ရပ်သည်ဟု ဆိုနိုင်၏။ ပုံနှိပ်စက္ကူ ချောဖြင့်ဂရိတ်စာလုံးစီကာရိုက်ထားပေသည်။ အတွင်း ရုပ်ပုံများမှာယခုခေတ်၌အသုံးပြုသော ပန်းချီရုပ်ပုံများ မဟုတ်ဘဲ၊ အင်္ဂလိပ် အမေရိကန် မဂ္ဂဇင်းများတွင် ပါရှိသည့်နည်းတူ လူစင်စစ်ကို ဇာတ်ကွက် ဇာတ်လမ်းအတိုင်း သရုပ်ဆောင်စေကာ ရိုက်ကူးထားသော ဓာတ်ပုံများ ဖြစ်၍ ထိုဓာတ်ပုံမျိုး ၁၂ ပုံတိတိဖြင့် သရုပ်ဖော်ထားလေသည်။

ဂျိမ်းလှကျော်၏ 'မောင်ရင်မောင် မမယ်မ' ဝတ္ထုကို မြန်မာနိုင်ငံ သုတေသန ဂျာနယ်မှ ဤသို့ဝေဖန်ခဲ့၏။

"ဝတ္ထု ဟူသော အရာကို ခေတ်သစ် အဓိပ္ပါယ်အတိုင်း မြန်မာတို့က နားမလည်နိုင်ကြသေးသည့် အလျောက်၊ စာရေးသူ (ဂျိမ်းလှကျော်) က မောင်ရင်မောင် ထားခဲ့သော စာရွက်စာတမ်းများမှ ကောက်ယူ စီရင်ရေးသားသည်ဟု ဆိုလျှင် သင့်လျော်မည်ဟု ယူဆပုံရသည်။ ဝတ္ထုဟုသာ ဆိုသည် ဝတ္ထုနှင့်မတူဘဲ၊ အကြောင်းအရာများ ဖော်ပြသော စာတမ်းနှင့် တူနေချေသည်။ ယင်းသို့ ဆိုရငြားလည်း ဤဝတ္ထုမှာ ပဌမ မြန်မာဝတ္ထု ဖြစ်သောကြောင့် ရှေးဆောင်သူတို့ ရအပ်သော အခွင့်အရေး ရထိုက်သည်ဟု ဆိုရပေမည်။"

မောင်ရင်မောင် မမယ်မဝတ္ထု၏ ဇာတ်လမ်း ချုပ်မှာ ထိုဝတ္ထု၏ ပဌမဝါကျတွင်—

"ဆိုလတ္တံ့သော ဝတ္ထု၌ ပါရှိသော အကြောင်းအရာ အဖြစ်အပျက်များသည် ကျွန်ုပ်တို့ မြန်မာဘုရင် သာယာဝတီ ကုန်းဘောင် ဟံသာဝတီ ၃ ဘွဲ့ခံ မင်းတရားကြီးဘုရား ရှေ့လက်ထက်တော်ကစ၍ ပုဂံမင်း လက်ထက်တော်တိုင် မင်းနှစ်ဆက်မြောက် ထီးနန်း စိုးစံတော်မူသည့် အတွင်း အမှန်မုချ ဖြစ်ပွားသော အကြောင်းအရာများချည်း ဖြစ်သည့်အပြင်၊ ကျွန်ုပ်တို့ ဘုရားအလောင်းတော် ဇနကမင်း၏နည်း၊ အတိဒုက္ခကြုံကြိုက်ရသည့်အခါတွင် လုံ့လ ဝီရိယကို မလျော့သော ယောကျ်ား အင်္ဂါနှင့်ညီညွတ်စွာ ဆောင်ရွက်သည့် အကျိုးအားဖြင့် သေမည့်ဘေးမှ လွတ်ထွက်ပြီးလျှင် အချိန်သင့်တိုင် ရောက်ကာလ သူဌေးသူကြွယ်၏ ဘဝကို ရရှိရုံမျှမက ငယ်ရွယ်စဉ်အခါက ချစ်ခင်စုံမက်ကြပြီးနောက် နှစ်ပေါင်းများစွာ ကွဲကွာနေရသူ မိန်းမနှင့်ပြန်၍ပေါင်းသင်းရသည်များကို ဗဟုသုတအရာ လိုလားသူ အမျိုးကောင်းသားသမီးတို့ သိမှတ်အပ်သည့်အတိုင်း ဖြစ်ပျက်သည့် အကြောင်းအရာ အစီအစဉ်အလျောက် အရှည် ပြဆိုပေကုန်အံ့" ဟု ဖော်ပြပါရှိသည့်အတိုင်း အဓိကဇာတ်ကောင် နှစ်ဦးဖြစ်သော မောင်ရင်မောင်နှင့် မမယ်မတို့သည် ငယ်ရွယ်စဉ်က ချစ်ခင်စုံမက်၊ နှစ်ဖက်မိဘများ သဘောတူ လက်ထပ်မင်္ဂလာပွဲ ဆင်နွှဲပြီး၍ မကြာမတင်ပင် ကွဲကွာသွားကြပြီးလျှင် နှစ်ဦးစလုံး အတိဒုက္ခရောက်ကြပြီးနောက်တွင် မောင်ရင်မောင်သည် သူဌေးသူကြွယ်ဘဝ ရရှိ၍၊ နှစ်ပေါင်း များစွာ ကွဲကွာနေခဲ့ရသော ငယ်ချစ် မမယ်မနှင့်ပြန်ပေါင်းရသည့် အကြောင်းပင် ဖြစ်လေသည်။

ဆရာကြီး ဂျိမ်းလှကျော်သည် ဤ "မောင်ရင်မောင် မမယ်မဝတ္ထု" ကို "ဤသူနှစ်ဦး (ကိုရင်မောင်နှင့် မမယ်မ) သည် ၆ နှစ်ကျော် ၇ နှစ်ခန့် ဒုက္ခဆင်းရဲကြီး ရောက်လျက် ကွဲ၍နေပြီးမှ တဖန်ပြန်၍ ပေါင်းမိလျှင်" ဟု အဆုံးသတ်ထားပြီးနောက် ဒုတိယပိုင်းဖြစ်သော ငယ်ချစ်နှစ်ဦး ပြန်လည် ဆုံစည်းပြီးမှ မျိုမတတ် ချစ်မဝဖြစ်လျက် အမွေအနှစ်များဖြင့် ချမ်းသာစွာ နေထိုင်ကြပုံများကို အစွမ်းကုန် ရေးသားရန် စီစဉ်ပြီးလုဆဲဆဲတွင် ကွယ်လွန်သွားလေသည်။

**မောင်းတောမြို့**။ ။မောင်းတော မြို့သည် မြန်မာနိုင်ငံ အနောက်ဖက်အစွန် ရခိုင်တိုင်းတွင် တည်ရှိသော မြို့ဖြစ်၍ မြန်မာနိုင်ငံနှင့် အရှေ့ပါကစ္စတန်ပြည် နယ်စပ်တွင်ဖြစ်သည်။ လူဝင်လူထွက် စစ်ဆေးရာတွင် အရေးပါ အရာရောက်သော ဆိပ်ကမ်း ဖြစ်၏။ ဒုတိယ ကမ္ဘာစစ်အတွင်းက အရေးပါသော စခန်းတခု ဖြစ်ခဲ့သည်။

မောင်းတောမြို့သည် ရှေးအခါက ရခိုင်တိုင်း စစ်တွေခရိုင် မောင်းတောနယ်၏ ရုံးစိုက်မြို့ ဖြစ်ခဲ့၍ ထိုစဉ်က မောင်းတောနယ်မှာ မောင်းတောမြို့နယ်နှင့် ပုဏ္ဏားကျွန်းမြို့နယ်တို့ဖြင့် ဖွဲ့ထားခဲ့သော်လည်း ၁၉၆၁ ခုနှစ် မေလမှစ၍ မေယုနယ်ခြား ခရိုင်သစ်၏ ဌာနချုပ် ဖြစ်လာသည်။ သို့သော် ၁၉၆၄ ခုနှစ် ဖေဖွာရီလ ၁ ရက်နေ့မှစ၍ မေယုနယ်ခြားခရိုင်ကို စစ်တွေခရိုင်အတွင်း ပြန်လည်သွတ်သွင်းခဲ့သည်။ (မေယုနယ်ခြားခရိုင် — လည်းရှု။)

မောင်းတောမြို့နယ်သည် ဗင်္ဂလားအော် ကမ်းရိုးရှိ ကမ်းမြောင်ဒေသ ဖြစ်သည်။ မောင်းတောမြို့သည် နတ်မြစ်ဝ၏ အရှေ့ဖက်တွင် တည်ရှိသည်။ နတ်မြစ်သည် မြန်မာနိုင်ငံကို အရှေ့ပါကစ္စတန်ပြည်မှ ပိုင်းခြား သတ်မှတ်လိုက်ပေသည်။ မောင်းတောမြို့နယ်၏ အကျယ်အဝန်းမှာ ၅၂၆ စတုရန်းမိုင်၊ ကျေးရွာပေါင်း ၁၂၄ နှင့် ၁၉၅၆ ခုနှစ်တွင် ခန့်မှန်းခြေအားဖြင့် လူဦးရေ ၁၃၉,၀၇၇ ယောက် ရှိသည်။ မောင်းတောမြို့နယ်တွင် မွတ်စလင် များစွာ နေထိုင်သည်။ လူဦးရေ၏ ၄ ပုံ ၃ ပုံမှာ မွတ်စလင်များ ဖြစ်၏။ မောင်းတောမြို့၏ လူဦးရေမှာ ၁၉၅၃ ခုနှစ် ခန့်မှန်းခြေအရ ၃,၇၇၂ ယောက်ဖြစ်သည်။

မောင်းတောမြို့နယ်သည် တနှစ်လျှင် မိုးရေချိန် ၁၇၃ လက်မခန့် ရွာသည်။ ကမ်းနှင့် ဝေးသော ဒေသမှာ တောင်ထူထပ်၏။ ကမ်းတဝိုက်ရှိ မြေပြန့်ပိုင်းတွင် စိုက်ပျိုးရေး ဖြစ်ထွန်းသည်။ မောင်းတောမြို့နယ်တွင် ဆန်စပါး စိုက်သည့် အပြင် ခြံများကိုလည်း ပြုလုပ်သည်။ မှန်ညင်းကို

အများအပြား စိုက်ပျိုးသည်။ ကြိုးကျစ်ရန် ဘီသွာလျှော်ကို အနည်းအကျဉ်း စိုက်ပျိုးသည်။ လမ်းပန်း ဆက်သွယ်ရေးအားဖြင့် မောင်းတောမှသည် မယူမြစ်ပေါ်ရှိ ဘူးသီးတောင်မြို့သို့ ၁၅ မိုင် ရှည်သော ကျောက်ခင်းလမ်း ရှိသည်။ လမ်းကြမ်းဖြင့် ဆက်လက် သွားလျှင် ရသေ့တောင်မြို့သို့ ရောက်နိုင်သည်။ ကမ်းရိုးတလျှောက်တွင်လည်း မန်ကျည်းချောင်းသို့ လမ်းကြမ်း တကြောင်း ပေါက်သည်။ နတ်မြစ်ကိုကျော်လျှင် တဖက်ကမ်းရှိ တက်ခနတ်မြို့မှ စစ်တကောင်းမြို့သို့ ကားလမ်းပေါက်သည်။

**မောင်းထောင် ဆရာတော်များ။** ။မောင်းထောင်ဆရာတော် အမည်ဖြင့် ဆရာတော် ၃ ပါး ပေါ်ထွန်းခဲ့ကြောင်းသိရှိရသည်။ ထိုဆရာတော်တို့မှာ (၁)ပဌမမောင်းထောင် (သာသနာပိုင်) ဆရာတော် ရှင်ဉာဏာဘိဝံသ။ (၂) ဒုတိယ မောင်းထောင် (သာသနာပိုင်) ဆရာတော် ရှင်ဧယျ။ (၃) တတိယမောင်းထောင် ဆရာတော် ရှင်ပညာသာမိတို့ ဖြစ်ကြသည်။

**ပဌမ မောင်းထောင် (သာသနာပိုင်) ဆရာတော် (မြန်မာ ၁၁၁၅ – ၁၁၉၄)။** ။ပဌမ မောင်းထောင် ဆရာတော်သည် အလုံမြို့ကျေး၊ မောင်းထောင်ရွာ၌ အဖ နတ်ရှင်ရိက္ခာ ဘွဲ့ခံ ဦးစံအူး၊ အမိရှင်ခွေးတို့မှ သက္ကရာဇ် ၁၁၁၅ ခုနှစ်တွင် ဖွားမြင်သည်။ နံအင်္ဂါသား၊ ငယ်မည် ဦးမြတ်နေဖြစ်သည်။ ၁၀ နှစ်သားအရွယ် ကျောင်းနေ၍ ၁၃ နှစ်သား အရွယ်တွင် သာမဏေ ပြုသည်။ သာမဏေဘွဲ့ ရှင်ဉာဏ ဖြစ်သည်။ သာမဏေ ၇ ဝါရ၊ သက်တော်ပြည့်တွင် ရဟန်းပြုသည်။ ရဟန်းဘွဲ့ ရှင်ဉာဏာဘိဝံသ ဖြစ်သည်။ ရဟန်းဝါ ၆ ဝါအလွန် ၇ ဝါအဝင် သက္ကရာဇ် ၁၁၄၃ ခုနှစ်၊ တန်ခူးလပြည့်ကျော် ၈ ရက်နေ့တွင် ဘိုးတော်မင်းတရားကြီး ပင့်ချက်အရ နောက်ပါ စာသင်ရဟန်း ရှစ်ဆဲ့ငါးပါးနှင့်တကွ မောင်းထောင်ရွာမှ ရတနာပူရအင်းဝမြို့သို့ကြွရောက်တော်မူသည်။ "ဉာဏာဘိဝံသ သာသနဓဇ မဟာဓမ္မရာဇာဂုရု" ဟူသော တံဆိပ်တော်ကိုလည်း အလှူခံရသည်။ သက္ကရာဇ် ၁၁၄၈ ခုနှစ်တွင် ဘိုးတော် မင်းတရားကြီးက သာသနာပြု ဆရာတော်ကြီး လေးပါးအပြင် သာသနာပြုဆရာတော်ငယ် ရှစ်ပါး ထပ်မံ ခန့်ထားတော်မူရာတွင် တပါးအပါအဝင်ဖြစ်၍ သာသနာတော်ကို သုတ်သင် ပြုစုတော်မူရသည်။

သက်တော် ၃၅၊ ဝါတော် ၁၅ ဝါအရ သက္ကရာဇ် ၁၁၅၀ ပြည့်နှစ်တွင် သာသနာပိုင်ဖြစ်တော်မူသည်။ "ဉာဏာဘိဝံသ ဓမ္မသေနာပတိ မဟာဓမ္မ ရာဇာဓိရာဇဂုရု" ဟူသော တံဆိပ်တော်ကို အလှူခံတော်မူရသည်။ မောင်းထောင်ဆရာတော်ဘုရားသည် သာသနာပိုင် ဖြစ်သောနေ့၌ပင် သံဃာတော်များအလယ်တွင် ကျောင်းဦးဘုရားရှေ့၌ အောက်ပါအတိုင်း အဓိဋ္ဌာန်ပြုတော်မူသည်။

"သာသနာရေး သာသနာမှုနှင့်စပ်သမျှကို ဆန္ဒာဒေါသာ ဘယာမောဟာ အဂတိလေးပါး မလားဘဲ တရားရှိရာ ရွက်ဆောင်မည်။ အသက်ကိုသော်လည်း စွန့်မည်။ တရားကို မစွန့်ပြီ။ သာသနဒါယကာ တရားမင်းမြတ်က အမိန့်တော် အထူးပြန်သော်လည်း မှန်ရာကိုသာ လိုက်မည်။ တရားကိုစွန့်၍ မလိုက်ပြီ။ မနာခံသော် ခပ်မဆိတ်သာ နေမည်။"

သာသနာပိုင် ဖြစ်ပြီးနောက် မဟာမုနိ ဘုရားကြီး၏ တောင်ဖက်ရှိ အသောကာရာမတိုက် ရတနာဘုံကျော် ကျောင်းတော်ကို ဘိုးတော် မင်းတရားကြီး ကိုယ်တိုင်ရေစက်သွန်းချ၍ မောင်းထောင် ဆရာတော်အား တင်လှူတော်မူသည်။ သာသနာပိုင် မောင်းထောင် ဆရာတော်သည် သက်တော် ၇၉ နှစ်အရွယ် သက္ကရာဇ် ၁၁၇၄ ခုနှစ်တွင် လူထွက်သည်။ လူဖြစ်သောအခါ မဟာဓမ္မသင်္ကြံ ဟူသော ဘွဲ့ဖြင့် မင်းတိုင်ပင်အမတ်ကြီး ခန့်ခြင်းကို ခံရသည်။ ချည်ပါ တောင်ရွာ မြောက်ရွာကိုလည်းစားရသည်။ ဘကြီးတော် မင်းတရားကြီး လက်ထက် သက္ကရာဇ် ၁၁၉၄ ခုနှစ် ပြာသိုလပြည့်ကျော် ၄ ရက်နေ့ အသက် ၇၉ နှစ်အရွယ်တွင် အနိစ္စရောက်သည်။

မောင်းထောင် သာသနာပိုင် ဆရာတော်ကား ပဋ္ဌာန်းငယ် အရွယ်ကပင် စာပေကျမ်းဂန် တတ်ကျွမ်းတော်မူသည်။ ဂန္ထန္တရ နှံ့စပ်လှသည်။ သက္ကတဘာသာလည်း တတ်ကျွမ်းတော်မူသည်။

ပြုစုသော ကျမ်းများမှာ။ ၁၊ ကာမရတန ဆေးကျမ်း။ ၂၊ ဆဒ္ဒန်ဆင်မင်းဝတ္ထု။ ၃၊ ဇောတိသုဇာတကနိသျ။ ၄၊ တိဂုမ္ဗထောမနာ။ ၅၊ တေသကုဏဇာတ်ဝတ္ထု။ ၆၊ ဒြဗျဂုဏပြကာသဆေးကျမ်း။ ၇၊ ဓာတုကထာဂဏ္ဌိ။ ၈၊ ဓာတုပြသံသနိသျ။ ၉၊ ဓမ္မောပဒေသဝတ္ထု။ ၁၀၊ နာနတ္ထဓမ္မနိသျ။ ၁၁၊ ပကိဏ္ဏကနိပါတ်ဇာတ်အဋ္ဌကထာနိသျ။ ၁၂၊ ပေဋကာလင်္ကာရမည်သော နေတ္တိမဟာဋီကာ။ ၁၃၊ဗာလပ္ပဗောဓနနိသျ။ ၁၄၊ ဗြိုဟဇ်နိသျ။၁၅၊ဘာသုတိကိန်းဆန်။ ၁၆၊ ဘာသုတိစကားပြေ။ ၁၇၊ ဘာသုတိဗေဒင်ကျမ်းနိသျ။ ၁၈၊ မဟာသကျသီဟသမိုင်းပါဠိအနက်။ ၁၉၊ မာတိကာဂဏ္ဌိ။ ၂၀၊ ရာဇာဘိသေကကျမ်းနိသျ။ ၂၁၊ ရာဇမတ္တဏ်ဗေဒင်ကျမ်း။ ၂၂၊ ရာဇောဝါဒဝဏ္ဏနာ။ ၂၃၊ ရာဇိန္ဒရာဇသုဓမ္မစာရဒီပနီ။ ၂၄၊ လဃုသံဂြဟနိသျ။ ၂၅၊ လက္ခဏာကျမ်းနိသျ။ ၂၆၊ ဝုတ္တောဒယစာကိုယ်နိသျ။ ၂၇၊ သရဒ္ဓေဗေဒင်ကျမ်း။ ၂၈၊ သရရတုကထနနိသျ။ ၂၉၊ သရသွတိဗျာကရုဏ်း နိသျ။ ၃၀၊ သာမဏေကျော် လေးပါးဝတ္ထု။ ၃၁၊ သာသနဝံသစာတမ်း။ ၃၂၊ သာသနာလင်္ကာရစာ

တမ်း။ ၃၃၊ သာရကောမုဒီဆေးကျမ်းနိသျ။ ၃၄၊ သာရကောမုဒီ ဆေးကျမ်းအဖွင့်ဋီကာ။ ၃၅၊ သီလက္ခန်ဋီကာသစ်။ ၃၆၊ သုပိနာဈာယ ဗေဒင်ကျမ်းနိသျ။ ၃၇၊ သူရိယသိဒ္ဓန္တစာကိုယ်ဗေဒင်။ ၃၈၊ အမရကောသ အဘိဓာန်စာကိုယ်နိသျ။ ၃၉၊ အမေးတော်အဖြေ။ ၄၀၊ အရိယဝံသာလင်္ကာရကျမ်း။ ၄၁၊ ကေက္ခရကောသစာကိုယ်နိသျ။ ၄၂၊ ဩသဓရတနာကရဆေးကျမ်းတို့ ဖြစ်သည်။

**ဒုတိယ မောင်းထောင် (သာသနာပိုင်) ဆရာတော်** (မြန်မာ ၁၁၆၁ – ၁၂၂၇)။ ။ဒုတိယမောင်းထောင် ဆရာတော်သည် ကန္နီမြို့ကျေး၊ နတ်ရဲတောင်ရွာ၌ ဦးထွန်းဝါ၊ ဒေါ်ယာတို့မှ သက္ကရာဇ် ၁၁၆၁ ခုနှစ် ပဌမဝါဆိုလဆန်း ၁၀ ရက် အင်္ဂါနေ့တွင် ဖွားမြင်သည်။ ငယ်မည် ဦးသံမှို ဖြစ်သည်။ ၁၀ နှစ်သား အရွယ်တွင် မိဘများက ဦးရီးတော်ဖြစ်သော ရှင်ကလျာဏဝံသ၊ ရှင်ပုညသီ၊ ရှင်သာရဇေသီတို့ထံ အပ်နှံ၍ ပညာသင်စေသည်။ ၁၁၇၆ ခုနှစ်၊ အသက် ၁၆ နှစ်သားအရွယ်တွင် သာမဏေဖြစ်သည်။ ဘွဲ့ ရှင်ဥေယျ ဖြစ်သည်။ သာမဏေ ၅ ဝါ၊ အသက်စေ့သောအခါ ၁၁၈၀ ပြည့်နှစ် ဒုတိယဝါဆိုလဆန်း ၁၄ ရက် နံနက် တချက်တီးအချိန်တွင် ကန္နီမြို့ အနောက် တောင်ယွန်း တောင်ထိပ်ရှိ ရေးမင်းတို့ ကောင်းမှု သိမ်၌ တောင်ပေါ်ကျောင်း ဆရာတော်ကို ဥပဇ္ဈာယ်ပြု၍ ရဟန်းဖြစ်သည်။ ရဟန်းဘွဲ့ ရှင်ဥေယျ ဖြစ်သည်။

၁၁၈၂ ခုနှစ်တွင် အမရပူရမြို့သို့ ရောက်၍ မဟာမုနိဘုရားရှင် အနောက် ရွှေရေးဆောင် ကျောင်းတိုက်၌ ဆရာတော်တို့ထံ ပါဠိ အဋ္ဌကထာ ဋီကာ စာပေသင်ကြား ပို့ချနေသည်။ ၁၁၈၄ ခုနှစ်တွင် ဆင်တဲကျောင်းတိုက်၌ ဆင်တဲဆရာတော်ထံ စာပေသင်ကြားနေသည်။ ထိုနှစ်ပင် သံအင်း ဆရာတော်ဘုရားထံ ဆည်းကပ်၍ ရတနာပူရအင်းဝမြို့၊ သံအင်းကျောင်းတိုက်၌ စာပေ သင်ကြားနေသည်။

သာယာဝတီမင်း လက်ထက် သက္ကရာဇ် ၁၁၉၉ ခုနှစ် နယုန်လတွင် "ဥေယျဓမ္မာလင်္ကာရ မဟာဓမ္မရာဇာဓိရာဇဂုရု" ဟူသော တံဆိပ်တော်ကို အလှူခံရသည်။ ထို့နောက် အမရပူရမြို့သို့ ကြွ၍ မင်းအိုတိုက် အောင်မြေဘုံကျော်ကျောင်းတော်အတွင်း သာသနာပိုင် သံအင်း ဆရာတော်ဘုရားကြီးထံတွင် စာပေသင်ကြားသည်။

ဒုတိယ မောင်းထောင် ဆရာတော်သည် သက္ကရာဇ် ၁၂၀၁ ခုနှစ် တန်ဆောင်မုန်း လဆန်း ၁၅ ရက်နေ့တွင် "ဥေယျဓမ္မာဘိဝံသ သိရိပဝရာလင်္ကာရဓမ္မသေနာပတိ မဟာဓမ္မရာဇာဓိ ရာဇဂုရု" ဟူသော တံဆိပ်တော်ကိုရ၍ သာသနာပိုင် ဖြစ်တော်မူသည်။ အမရပူရမြို့၊ အရှေ့မြောက်ယွန်းရှိ မဟာတုလုတ်ဘုံကျော် ကျောင်းတော်ကြီးကိုလည်း မင်းကရာဇ် ကိုယ်တိုင် တင်လှူခြင်းကို ခံတော်မူရသည်။

ပဉ္စမသင်္ဂါယနာတင် မင်းတုန်းမင်းတရားကြီး လက်ထက် ရောက်သောအခါ၌လည်း သက္ကရာဇ် ၁၂၁၅ ခုနှစ် ကဆုန်လတွင် "ဥေယျဓမ္မာဘိ မုနိဝရ ဉာဏကိတ္တိ သိရိဓဇ ဓမ္မသေနပတိ မဟာဓမ္မရာဇာဓိရာဇဂုရု" ဟူသော တံဆိပ်တော်ကိုရ၍ ဒုတိယအကြိမ် သာသနာပိုင် ဖြစ်တော်မူသည်။ သာသနာပိုင် ဖြစ်သောအခါ သံဃာတော်များ အလယ်တွင် ဘုရားရှေ့၌ အဂတိသို့ မလိုက်ဘဲ တရားသဖြင့်သာ ဆောင်ရွက်မည့် အကြောင်း အဓိဋ္ဌာန် ပြုတော်မူသည်။

မန္တလေးမြို့ အရှေ့ပြင် မဟာဝိသုတာရာမတိုက် မဟာတုလုတ်ဘုံစံ ရွှေကျောင်းတော်ကြီး တင်လှူခြင်းကို ခံရသည်။ ယင်းကျောင်းတိုက်၌ပင် သက္ကရာဇ် ၁၂၂၇ ခုနှစ် တပို့တွဲလဆန်း ၁၂ ရက်၊ သက်တော် ၆၆ နှစ်၊ ဝါတော် ၄၆ ဝါတွင် ပျံလွန်တော်မူသည်။

ပြုစုသောကျမ်းများမှာ။ ၁၊ စိတ္တနိဂ္ဂဟကျမ်း။ ၂၊ ဆောမြို့စား လျှောက်ထုံးအဖြေ။ ၃၊ ဇမ္ဗုဒီပသဃ်ရာဇသန္ဒေသကထာပါဌ်။ ၄၊ ဓုရာရမ္ဘပဋိပဒါကျမ်း။ ၅၊ ပဋိသမ္ဘိဒါမဂ်အဋ္ဌကထာနိသျ။ ၆၊ မဟာနိဒ္ဒေသ စူဠနိဒ္ဒေသ အဋ္ဌကထာနိသျ။ ၇၊ မဂ္ဂပဋိပဒါကျမ်း။ ၈၊ မဇ္ဈိမပဏ္ဏာသပါဠိတော်နိသျ။ ၉၊ မဇ္ဈိမပဏ္ဏာသအဋ္ဌကထာနိသျ။ ၁၀၊ ဝိဝိဓဝိနိစ္ဆယကျမ်း။ ၁၁၊ သီမာသန္ဒေသကထာပါဌ်။ ၁၂၊ သုရာဇမဂ္ဂဒီပနီကျမ်း။ ၁၃၊ သဗ္ဗာသဝအဋ္ဌကထာစုဒ်စောဒနာစာစပ်ဝိဂ္ဂြိုဟ်ကျမ်း။ ၁၄၊ ဥပရိပဏ္ဏာသပါဠိတော်နိသျ။ ၁၅၊ ဥပရိပဏ္ဏာသအဋ္ဌကထာနိသျ။ ၁၆၊ အတ္တသာတကဝိနိစ္ဆယကျမ်းတို့ ဖြစ်သည်။

**တတိယ မောင်းထောင်ဆရာတော်** (မြန်မာ ၁၁၇၇ – ၁၂၃၀)။ ။တတိယမောင်းထောင် ဆရာတော်သည် အလုံမြို့၊ မောင်းထောင်ကြီးရွာ၌ သက္ကရာဇ် ၁၁၇၇ ခုနှစ် ဝါဆိုလဆန်း ၈ ရက်၊ ကြာသပတေးနေ့တွင် ဖွားမြင်သည်။ ငယ်မည်ဦးသော်၊ ဘွဲ့ ရှင်ပညာသာမိ ဖြစ်သည်။ ဒုတိယမောင်းထောင်သာသနာပိုင် ဆရာတော်၏တပည့်ဖြစ်သည်။ မင်းတုန်းမင်းလက်ထက် သက္ကရာဇ် ၁၂၁၇ ခုနှစ်တွင် "ပညာသာမိသိရိကဝိဇ မဟာဓမ္မ ရာဇာဓိရာဇဂုရု" တံဆိပ်တော်ရသည်။ မန္တလေးမြို့ အရှေ့ပြင် မင်္ဂလာရာမ ခေါ်သော မောင်းထောင်တိုက်၌ သက်တော် ၅၃ နှစ် သက္ကရာဇ် ၁၂၃၀ ပြည့်နှစ် တပို့တွဲလတွင် ပျံလွန်တော်မူသည်။

ပြုစုသော ကျမ်းများမှာ။ ၁၊ ကုသဇာတ်စကားပြေ (သာမဏေ ဘဝက ရေးသည် ဟူသတတ်)။ ၂၊ ကံ ဒွါရ အဆုံးအဖြတ်။ ၃၊ ဇာတ်ဋီကာသစ်ပါဌ်။ ၄၊ ဒေါသကထာကျမ်း။ ၅၊ နဝဗုဒ္ဓုပ္ပဇနကျမ်း။ ၆၊ နာဂရာဇုပ္ပတ္တိကထာပါဌ်။ ၇၊ နိရယကထာ ဒီပကကျမ်း။ ၈၊ ပေါရာဏကထာ ၆၂ ဂါထာပါဌ်နိသျ။ ၉၊ မောင်းထောင်ဆရာတော် ဖြတ်ထုံး။ ၁၀၊ ရာဇသေဝကဒီပနီကျမ်း။ ၁၁၊ သာသနဝံသပ္ပ

ဒီပိကာပါဌ်။ ၁၂၊ သီလကထာကျမ်း။ ၁၃၊ သဒ္ဒနီတိဋီကာ သစ်ပါဌ်။ ၁၄၊ သဒ္ဒတ္ထဘေဒစိန္တာဂဏ္ဌိကျမ်း။ ၁၅၊ အဘိဓာန်ဋီကာ နိသျသစ်။ ၁၆၊ အာပတ္တိ ဝိနိစ္ဆယ။ ၁၇၊ ဥပါယကထာကျမ်း။ ၁၈၊ ဥပေါသထဝိနိစ္ဆယကျမ်း။ ၁၉၊ အက္ခရဝိသောဓနီကျမ်းတို့ ဖြစ်သည်။

(ဤမောင်းထောင် ဆရာတော်များ အကြောင်းကို ရေးသားရာ၌ (၁) ၁၁၉၃ ခုနှစ်၊ မင်းတိုင်ပင်အမတ် မဟာဓမ္မသင်္ကြံ ပြုစုသော သာသနာလင်္ကာရ စာတမ်း၊ (၂) ၁၂၁၃ ခုနှစ်၊ မင်းလှသီရိသီဟသူ ပြုစုသော ဆရာတော်များ ဦးရေစာရင်း၊ (၃) ၁၂၄၈ ခုနှစ်၊ မိုင်းခိုင်းမြို့စား အတွင်းဝန် ပိဋကတ်တော်အုပ် ဦးရန် ပြုစုသော ပိဋကတ်သမိုင်း စာတမ်းတို့ကို အရင်းခံ မှီငြမ်းပြု၍ ရေးသားပါသည်။ ကုန်းဘောင်ဆက် မဟာ ရာဇဝင်တော်ကြီး၊ ဟင်္သာတမြို့ မြစ်ကွေးဆရာတော် ဦးပညာဝံသ၏ မှတ်စုများ၊ ဟင်္သာတမြို့ သပြေပင် ဆရာတော် ပြုစုသော သာသနဝံသ ဒီပနီတို့နှင့်လည်း ညှိနှိုင်းတိုက်ဆိုင်ပါသည်။)

ဦးထွန်းမြင့်

**မောင်းထောင်းကောင်။** ။မောင်းထောင်း ကောင်သည် အင်းဆက်ပိုးမျိုး ဖြစ်၍ ပါဏဗေဒအလိုအရ ဩသိုပတ်ရား မျိုးစဉ်တွင် မင်တီဒီး မျိုးရင်း၌ ပါဝင်သည်။ ပိုးဟပ်၊ ပုရစ်၊ နှံကောင်တို့နှင့် အမျိုးချင်း နီးစပ်သည်။ မောင်းထောင်းကောင်၏ ကိုယ်အရှေ့ပိုင်းသည် ရှည်လျားသေးသွယ်သည်။ ဦးခေါင်းသည် တူကဲ့သို့ ရှိပြီးလျှင် မျက်နှာမှာ သုံးထောင့် ပုံသဏ္ဌာန် ရှိသည်။ နောက်ခြေထောက်များသည် သေးသွယ် ရှည်လျားသည်နှင့် အမျှ ရှေ့ခြေထောက်များမှာ ကြီးမား တုတ်ခိုင်သည်။ မောင်းထောင်းကောင်သည် ထိုရှေ့ခြေထောက်များကို လမ်းသွားသည့်အခါတွင်ဖြစ်စေ၊ ထိုင်နေသည့်အခါတွင်ဖြစ်စေ အပေါ်ဖက်သို့ ခေါက်တင်ထားလေ့ရှိသည်။ အရွယ်ရောက် မောင်းထောင်းကောင်ကြီးများသည် အလျား ၂ လက်မမှ ၅ လက်မထိ ရှိသည်။

ကြီးမားသော ရှေ့ခြေနှစ်ချောင်းကို အပေါ်ဖက်သို့ ခေါက်တင်ထားပုံမှာ မိန်းမကြီး တယောက် ရှိခိုး ဝတ်ပြုနေပုံနှင့် တူသောကြောင့် ယင်းကို ရှိခိုးကောင်ဟုလည်း ခေါ်ကြသည်။ ဘာသာတရားကို ရိုသေ ကိုင်းရှိုင်းပုံ ရှိ



ရှိခိုးကောင်ဟူ၍ နာမည်တွင်သည့် မောင်းထောင်းကောင်ကို လက်ျာဖက် အစွန်ဆုံး၌ တွေ့မြင်နိုင်သည်။ အပေါ်ပုံမှာ ယင်းနှင့် မျိုးတူနှံကောင်ဖြစ်၍ လက်ဝဲဖက်ပုံများမှာမူ ပုရစ်များ ဖြစ်ကြသည်။

သောကြောင့် အမြင်အားဖြင့် ကြင်နာသနားစိတ် ရှိသည်ဟု ထင်ရသော်လည်း စင်စစ် မောင်းထောင်းကောင်သည် အင်းဆက်ပိုးမျိုးတွင် အရက်စက်ဆုံး၊ လောဘအကြီးဆုံး ပိုးမျိုးတွင် ပါဝင်သည်။ အပေါ်ဖက်သို့ ခေါက်တင်ထားသော ရှေ့ခြေ ၂ ချောင်းတွင် ပိုးကောင်ကလေးများကို ဖမ်းရန် ကြောက်မက်ဖွယ် ကောင်းသော ဆူးများ ပါရှိသည်။ ပြူးထွက်နေသော မျက်လုံးများရှိသည့် ဦးခေါင်းသည် အငြိမ်မနေဘဲ ထိုမှဤမှ အဆက်မပြတ် လှည့်၍ သားကောင်ကိုသာ ရှာဖွေလျက် ရှိ၏။ ထိုနောက် အနီးသို့ ရောက်လာသော ပိုးကောင်များကို ရုတ်ခြည်း ခုန်အုပ်၍ ဖမ်းကာ အရှင်လတ်လတ် ကိုက်စားလိုက်လေသည်။ တဖန် မူလအနေအထားအတိုင်း ပြန်နေကာ သားကောင်ကို စောင့်နေပြန်သည်။ အခြား ပိုးကောင်များကို ရက်စက်စွာ သတ်ဖြတ် စားရုံသာမက၊ မိမိတို့ အချင်းချင်းလည်း အသေအကြေ တိုက်ခိုက်ကြ၍ ရှုံးသော အကောင်ကို နိုင်သော အကောင်က စားတတ်ကြသည်။ မောင်းထောင်းကောင် အမသည် ဆာလောင် မွတ်သိပ်သည့်အခါ မိမိနှင့် မိတ်လိုက်သော မောင်းထောင်းကောင် အဖိုကိုပင် မညှာမတာ ကိုက်စားတတ်သည်။

မောင်းထောင်းကောင်သည် မိမိနေသော အပင်၏ အကိုင်းအခက်၊ အရွက်အလက်များနှင့် အရောင်ချင်း တူသောကြောင့် ရုတ်တရက် မမြင်နိုင်ချေ။ အမများသည် ဥများကို အစုလိုက် အုရ၍ မိမိတို့ကိုယ်မှ ထွက်သော အစေးဖြင့် သစ်ပင် အကိုင်းအခက်များတွင် ကပ်ထားကြသည်။ ဥမှ ပေါက်ခါစ မောင်းထောင်းကောင်ကလေးများပင် ပိုးကောင်များကို သတ်ဖြတ် စားတတ်ကြသည်။ ယင်းတို့၏ ဘဝဖြစ်စဉ်သည် ပုရစ်၊ နှံကောင်တို့ကဲ့သို့ပင် အသွင်ပြောင်းခြင်း မရှိချေ။

**မိုင်ဆိုပြည်နယ်။** ။မိုင်ဆိုပြည်နယ်သည် အိန္ဒိယ ပြည်ထောင်စုတွင် ပါဝင်သော ပြည်နယ်တခု ဖြစ်၏။ တိုင်းရင်းပဒေသရာဇ်နယ်အဖြစ် မဟာရာဇာများ အုပ်စိုးခဲ့စဉ်က ချမ်းသာ ကြွယ်ဝ ခေတ်မှီသောနယ်ဖြစ်သောကြောင့် ထင်ရှားခဲ့ပေသည်။ ယခုသော်မူကား မဟာရာဇာသည် ရှေးကကဲ့သို့ သြဇာမလွှမ်းတော့ချေ။

မိုင်ဆိုပြည်နယ်သည် အိန္ဒိယ ကျွန်းဆွယ်၏ အနောက်တောင်ဖက်တွင် ဒက္ကန်ကုန်းမြင့်ပေါ်၌ တည်ရှိ၏။ နယ်နိမိတ်အားဖြင့် အရှေ့ဖက်တွင် အန္ဒရဒေသ ပြည်နယ်၊ အရှေ့တောင်ဖက်တွင် မဒရပ်ပြည်နယ်၊ အနောက်တောင်ဖက်တွင် ကေရာလပြည်နယ်၊ မြောက်ဖက်တွင် ဘုံဘိုင်ပြည်နယ်နှင့် အနောက်ဖက်တွင် အာရေဗျ ပင်လယ်တို့ ဝန်းရံလျက် ရှိ၏။ အိန္ဒိယ နိုင်ငံရှိ ပြည်နယ်များကို ပြန်လည်



မိုင်ဆိုပြည်နယ်ရှိ ပေ ၈၀၀ ကျော်မြင့်သော သိဝသမုဒြမ်ရေတံခွန်ကြီး

သတ်မှတ်ပြီးဖြစ်၍ ယခုအခါ မိုင်ဆိုပြည်နယ်၏ အကျယ်အဝန်းမှာ ၇၄,၁၂၂ စတုရန်းမိုင် ဖြစ်၏။ မိုင်ဆိုပြည်နယ်၏ ရုံးစိုက် မြို့တော်သည် မိုင်ဆိုမြို့ ဖြစ်၍ အုပ်ချုပ်ရေး၏ ဗဟိုဌာန မြို့ကြီးမှာ ဘန်ဂလိုမြို့ ဖြစ်သည်။ အခြား မြို့ကြီးများကား ကိုလာရွှေတွင်းမြို့၊ ဗယ်လာရီမြို့၊ ဒါးဗန်းဂယ်ရီမြို့တို့ ဖြစ်၏။

မိုင်ဆိုပြည်နယ်သည် ဒက္ကန် ကုန်းပြင်မြင့်၏ တောင်ပိုင်းတွင် တည်ရှိသည်။ အနောက်ဖက်တွင် တောင်များသွယ်တန်း တည်ရှိကာ အမြင့်ဆုံး တောင်ထွတ်သည် ပေ ၆,၃၀၀ ကျော်မြင့်သည်။ မိုင်ဆိုပြည်နယ်တွင်းသို့ ကစ္စနာ၊ ပင်နာနှင့် ကောဗာရီ မြစ်များမှ လက်တက်များ ဖြတ်သန်းစီးဝင်သည်။ ယင်းမြစ်လက်တက်များမှ ရေများကို တူးမြောင်းဖြင့် ဆက်သွယ်၍ လယ်ယာ စိုက်ပျိုးနိုင်သည့် အပြင် ရေအားဖြင့် လျှပ်စစ်ဓာတ်အား ပေးနိုင်သည်။ မိုင်ဆိုပြည်နယ်တွင် ရာသီဥတု သာယာ၍ ကျန်းမာရေးနှင့်ညီညွတ်သည်။ တောင်တန်းဒေသဖက်တွင် မိုးကြီးသည်။

မိုင်ဆိုပြည်နယ်သည် သဘာဝပစ္စည်း ကြွယ်ဝ၍ ခေတ်မှီစက်မှုလက်မှု လုပ်ငန်းများအတွက် လိုအပ်သော အခြေခံကုန်ရိုင်း ပစ္စည်းများ ပေါများသည်။ ထိုကြောင့် စက်မှုလုပ်ငန်းကြီးများ ဖြစ်သည့် သံ၊ သံမဏိ၊ ဗိလတ်မြေ၊ စက္ကူ၊ သကြား၊ ခြည်ထည်၊ ပိုးထည်၊ ဓာတ်သတ္တု၊ ဆပ်ပြာ၊ မြေ



မိုင်ဆိုပြည်နယ် မဟာရာဇာ၏ နန်းရင်ပြင်မှ ရှုခင်းတရပ်

ဩဇာ၊ နံ့သာ အစရှိသည့် လုပ်ငန်းများ ထွန်းကားသည်။ တခုတည်းသော လေယာဉ်လုပ် စက်ရုံသည် ဘန်ဂလိုမြို့တွင် တည်ရှိသည်။ ထိုပြင်တဝ မိုင်ဆိုပြည်နယ်သည် အိန္ဒိယနိုင်ငံတွင် ရွှေထွက်ရာ အဓိက ဒေသဖြစ်၏။ အိန္ဒိယ နိုင်ငံတွင် ရေအားလျှပ်စစ်ဓာတ်ကို ဖွံ့ဖြိုးအောင် ဦးစွာ ရှေ့ဆောင်သော ပြည်နယ်အဖြစ် အသိအမှတ် ပြုခြင်းကို ခံရ၏။ မိုင်ဆိုပြည်နယ်သည် ကမ္ဘာ့သုံး နံ့သာဆီ အများဆုံးထွက်သည်။ ကျေးလက်နှင့် အိမ်တွင်း လက်မှု လုပ်ငန်းများကိုလည်း အစိုးရက အားပေးသည်။ လယ်ယာ စိုက်ပျိုးခြင်းအားဖြင့် အဓိက စိုက်ပျိုးသော အပင်တို့မှာ နှံစားပြောင်းပင်၊ သစ်သီးပင်၊ လက်ဖက်ပင်၊ ကာဖီပင်နှင့် ဆန်စပါးတို့ဖြစ်၏။ လမ်းပန်းဆက်သွယ်ရေး အားဖြင့်လည်း မိုင်ဆိုပြည်နယ်သည် လွယ်ကူမှု ရှိပေသည်။ မော်တော်ကားလမ်းများအပြင် မီးရထားလမ်းကျယ်ရော လမ်းကျဉ်းများပါ ရှိသည်။ လေကြောင်းအားဖြင့် အချက်အခြာလေဆိပ်သည် ဘန်ဂလိုမြို့တွင်တည်ရှိပေသည်။

မိုင်ဆိုပြည်နယ်ရှိ လူဦးရေမှာ ၁၉၅၉ ခုနှစ် ခန့်မှန်းခြေအရ ၁၉,၄၀၁,၁၉၃ ယောက် ဖြစ်၏။ ဟိန္ဒူအသူဝါဒီများ၏။ အများသုံး ဘာသာစကားမှာ ကန်နဒါ ဖြစ်၏။

မိုင်ဆိုပြည်ကို ၁၃၉၉ ခုနှစ်က လက်ရှိ မဟာရာဇာ၏ ဘိုးဘေးတို့က တည်ထောင်ခဲ့ကြ၏။ ၁၈ ရာစုနှစ် နှောင်းပိုင်းလောက်က မွတ်စလင်တဦးဖြစ်သူ ဟိုက်ဒါအလီသည် မိုင်ဆိုပြည်ကို တိုက်ခိုက်၍ သိမ်းပိုက်ခဲ့၏။ သူ့အား သား ဖြစ်သူ တစ်ပူးက ဆက်ခံသည်။ ၁၇၉၉ ခုနှစ်တွင် ဗြိတိသျှတို့က တစ်ပူးကို နှိမ်နင်းလိုက်၏။ ၁၇၉၉ ခုနှစ်မှ ၁၈၃၁ ခုနှစ်တိုင် ကရစ်ရှနရာဇာ အရွယ် မရောက်သေးသဖြင့် ပူရနေယျက ရင်ခွင်ပိုက်အဖြစ် အုပ်ချုပ်သည်။ အရွယ် ရောက်လတ်သော် ကရစ်ရှနရာဇာ နန်းတက်ကာ ၁၈၃၁ ခုနှစ်တိုင် အုပ်ချုပ်သည်။ ပြည်တွင် အကြွေးများ တင်ရှိနေသောကြောင့် ၁၈၃၁ ခုနှစ်မှ ၁၈၈၁ ခုနှစ်တိုင်အောင် ဗြိတိသျှတို့က အုပ်ချုပ်သည်။ ယင်းနှစ်တွင်ပင် ဗြိတိသျှတို့က ရှေးမင်း အဆက်အနွယ်များသို့ ပြည်ကို ပြန်အပ်လေသည်။ မိုင်ဆိုပြည်နယ်ကို အစိုးရသော မဟာရာဇာတို့သည် မိုင်ဆိုကို ခေတ်မှီ တိုးတက်စေအောင် များစွာ အားပေးပြုလုပ်ခဲ့ပေသည်။ ၁၉၄၇ ခုနှစ်၌ အိန္ဒိယနိုင်ငံသည် ဗြိတိသျှတို့လက်မှ လွတ်မြောက်၍ လွတ်လပ်ရေး ရရှိသောအခါ မိုင်ဆိုပြည်နယ်သည် အိန္ဒိယ ပြည်ထောင်စုတွင် ပြည်နယ်တခု ဖြစ်လာသည်။ လွတ်လပ်ရေး ရပြီး၍ မရှေးမနှောင်းတွင်ပင် ရှေးကဘုန်းတန်ခိုး အတန်ပင် ကြီးခဲ့သော မဟာရာဇာတို့သည် ရိက္ခာတော်များကိုသာ ရရှိ၏။ ရာဇာပရမုခဟူသော ဘွဲ့ဖြင့် ပြည်နယ်တွင် အကြီးအမှူးဖြစ်သော်လည်း တကယ့်အာဏာသည် ပြည်နယ် ဝန်ကြီးချုပ် လက်ထဲတွင် ရှိလေသည်။

မိုင်ဆို ပြည်နယ်တွင် သီးခြား ဝန်ကြီးအဖွဲ့နှင့် သီးခြား လွှတ်တော် နှစ်ရပ်ရှိ၏။ အိန္ဒိယ ပြည်ထောင်စု၏ အထက် လွှတ်တော်ဖြစ်သော ပြည်နယ်ကောင်စီ အဖွဲ့သို့ ကိုယ်စား လှယ် ၁၂ ယောက်နှင့် အောက်လွှတ်တော်ဖြစ်သော ပြည် သူ့လွှတ်တော်သို့ ကိုယ်စားလှယ် ၂၆ ယောက် စေလွှတ် ရပေသည်။

**မိုင်ဆိုမြို့။** ။မိုင်ဆိုမြို့သည် အိန္ဒိယ ပြည်ထောင်စု နိုင်ငံတွင် ပါဝင်သော မိုင်ဆိုပြည်နယ်၏ ရှေးမင်း မဟာရာဇာတို့ အဆက်ဆက်မှ စ၍ ယခုတိုင် မြို့တော် ဖြစ်ခဲ့သည်။ မိုင်ဆို မြို့သည် မဒရပ်မြို့၏ အနောက်တောင်ဖက် မိုင် ၂၅၀ အကွာ တွင်၎င်း၊ ဘန်ဂလိုမြို့၏ အနောက် တောင်ဖက် မိုင် ၁၀၀ အကွာတွင်၎င်း ကောဗာရီမြစ်၏အနီး ရေမျက်နှာပြင်ထက် ပေ ၂,၄၅၀ မြင့်သော တောင်ကြားချိုင့်ဝှမ်းတွင် တည်ရှိ သည်။ မိုင်ဆိုမြို့၏ အရှေ့တောင်ဖက်တွင် ချာမွန်ဒီ တောင် တန်းရှိ၏။ ယင်းတောင်တန်းမှ တောင်ထွတ်သည် မိုင်ဆို မြို့ထက် ပေ ၁,ဝ၄၀ (ရေ မျက်နှာပြင်မှဆိုလျှင် ပေ၃,၄၉၀) မြင့်၏။ တောင်ထိပ်ဖျားတွင် နန္ဒီ နွားမြတ်၏ ရုပ်တုကြီး ရှိသည့် ဘုရားကျောင်းတည်ရှိသည်။ မိုင်ဆိုမြို့သည် မိုင်ဆို ပြည်နယ် မီးရထားလမ်းကြောင်းပေါ်တွင် တည်ရှိသည်။

မိုင်ဆိုမြို့တွင် ခေတ်မှီ အဆောက်အအုံ များစွာရှိ၏။ ဝိတိုရိယဂျူဗလီ အထိမ်းအမှတ် ဗိမာန်နှင့် မဟာရာဇာ၏ နန်းတော်တို့မှာ ထင်ရှားပေသည်။ မြို့တွင်းရှိ လမ်းမများ သည် ကျယ်၍ ညီညီ ညာညာ ရှိသည်။ ဥရောပဆန်ဆန် ဆောက်လုပ်ထားသော ခံတပ်သည် လူသွားစင်္ကြံအားဖြင့် မြို့နှင့်ခြားလျက် ရှိသည်။ ယင်းခံတပ်အတွင်းဝယ် မဟာ ရာဇာ၏ နန်းတော်နှင့် အရာရှိကြီးများ၏ နေအိမ်များရှိ သည်။ လူဦးရေမှာ ၂၄၄,၃၂၃ ယောက်ဖြစ်၏။

မိုင်ဆိုမြို့သည် ရှေးအထက်ကျော် ကာရီမှစ၍ ၁၆၀၀ ပြည့်နှစ်တိုင်အောင် မြို့တော် ဖြစ်ခဲ့ပေသည်။ ၁၆၁၀ ပြည့် နှစ်မှ ၁၇၉၉ ခုနှစ်အထိ မိုင်ဆိုပြည်နယ်၏ မြို့တော်ကို ဆီရင် ဂပတမ်မြို့သို့ ပြောင်းရွှေ့ခဲ့ပြီးလျှင် ၁၇၉၉ ခုနှစ်မှ ယခုတိုင် မြို့တော်မှာ မိုင်ဆိုမြို့ပင် ဖြစ်လေသည်။

**မိုင်းကိုင်နယ်။** ။မိုင်းကိုင်နယ်သည် တောင်ပိုင်းရှမ်းပြည် နယ်တွင် ပါဝင်သော ပဌမတန်း စော်ဘွားနယ်တနယ် ဖြစ် ခဲ့သည်။ နယ်နိမိတ်အားဖြင့် အရှေ့မြောက်ဖက်တွင် ကျေး သီးမံစံနယ်၊ အရှေ့ဖက်တွင် မိုင်းနောင်နယ်၊ အရှေ့တောင် ဖက်တွင်လဲချားနယ်၊ အနောက်တောင်ဖက်တွင် ရပ်စောက် နယ်၊ မြောက်ဖက်တွင် သီပေါနယ်တို့ဖြင့် ဝန်းပတ်လျက်ရှိ သည်။ အကျယ်အဝန်းအားဖြင့် ၁,၅၉၉ စတုရန်းမိုင်၊ ကျေး ရွာပေါင်း ၄၄၃ ရွာနှင့် လူဦးရေမှာ ၁၉၅၆ ခုနှစ်တွင် ခန့်မှန်း ခြေအားဖြင့် ၃၇,၂၀၈ ယောက်ခန့် ရှိသည်။ မိုင်းကိုင်နယ် တွင် နေသူအများစုမှာ ရှမ်းလူမျိုးများ ဖြစ်သည်။ တောင် သူ၊ ပလောင်၊ ယင်းလူမျိုးများလည်း ရှိသည်။

မိုင်းကိုင်နယ်၏ အရှေ့ဖက်နှင့် အလယ်ပိုင်းတို့သည် နမ့် တန်မြစ်၏ ရေသောက်နယ် ဖြစ်သည်။ မိုင်းကိုင်နယ်၏ မြို့ တော်ဖြစ်သော မိုင်းကိုင်မြို့တဝိုက်သည် နယ်၏အလယ်ပိုင်း လောက်တွင်ဖြစ်၍ မြေမျက်နှာပြင် ပြန့်ပြူးသောကြောင့် ထိုဒေသတွင် လယ်ယာ စိုက်ပျိုး လုပ်ကိုင်ကြသည်။ ရွာ များ ခပ်စိပ်စိပ် တည်ရှိကာ လူနေထူထပ်သည်။ နယ်၏ အနောက်ဖက်သည် နမ့်လန်မြစ်၏ ရေသောက်နယ် ဖြစ် သည်။ ဤနယ်များမှလွဲလျှင် နယ်၏ကျန်ဒေသမှာ ဝက်သစ် ချ၊ ထင်းရှူးပင်များဖြင့်ဖုံးလွှမ်းလျက်ရှိသည်။ မိုင်းကိုင်နယ် သည် မြေသြဇာကောင်း၍ စပါးထွက်သည်။ ချိုင့်ဝှမ်း တဝိုက်တွင် ချောင်းရှိလျှင် ဆည်မြောင်းများဖြင့် ရေကို သွယ်ယူ စိုက်ပျိုးသည်။ ဆန်စပါးစိုက်ပျိုးခြင်းမှာ အဓိက လုပ်ငန်းဖြစ်၏။ မိုင်းကိုင်နယ်မှ လက်ဖက်၊ သနပ်ဖက်နှင့် လိမ်မော်သီးများလည်း ထွက်၏။ မိုင်းကိုင်မြို့၏ မြောက် ဖက် ၅ မိုင်ကွာ ဖြစ်သော ဟိုနားနှင့် ကုန်းကန်ရွာများတွင် လက်ရာကောင်းသော မြေအိုးမြေခွက် မြေပန်းကန်များ ပြုလုပ်သည်။

မိုင်းကိုင်မြေပန်းကန်၊ မြေအိုး၊ မြေခွက်၊ ပန်းအိုး၊ ရွှတ် ဆုံမှစ၍ အိမ်သုံးပရိဘောဂများ၊ ကလေးကစားစရာ ကြက် ရုပ်၊ ငှက်ရုပ်၊ ကျွဲနွားရုပ်များကို ရှမ်းပြည်နယ် တဝှန်းလုံးရှိ သည့် ကျေးလက်တောရွာများနှင့် အချို့သော မြို့များပါ အများအားဖြင့် အသုံးပြုကြပေသည်။ မိုင်းကိုင်နယ် ကွန် နားရွာ၊ ကွန်ကျိုင်းရွာများတွင် မိုင်းကိုင်စက္ကူ လုပ်ငန်းကို အများဆုံး လုပ်ကိုင်သည်။ မိုင်းကိုင်နယ်မှ မိုင်းကိုင်စက္ကူ တလလျှင် ချပ်ရေ တသိန်းအထိ ထွက်သည်။

မိုင်းကိုင်နယ်ကိုတီထွင်၍ စတင်အုပ်ချုပ်သူမှာ တုံလော ဟိန်ကူးနု ဖြစ်သည်ဟု ဆို၏။ ဟိန်ကူးနုသည် မိုင်းကိုင် နယ်ကို ဟိန်အဖြစ်ဖြင့်၎င်း၊ လဲချား စော်ဘွား၏ လက် အောက်ခံအရာရှိတဦးအနေဖြင့်၎င်း နှစ်ပရိစ္ဆေဒ ကြာမြင့် စွာ အုပ်ချုပ်လာခဲ့ရာ၊ လဲချားစော်ဘွားမျိုးဆက်ဖြစ်သော ကျမိုင်းခွန်လုံးအား မြန်မာဘုရင် မင်းတုန်းမင်းက လဲချား စော်ဘွားအဖြစ် ခန့်အပ်သည့် ၁၂၂၅ ခုနှစ်တွင် မိုင်းကိုင် နယ်ကို လဲချားနယ်မှ ခွဲထုတ်၍ တသီးပုဂ္ဂလနယ်တနယ် အ နေဖြင့်အသိအမှတ်ပြုခဲ့သည်။ ဟိန်ကူးနုအားလည်း ဇေယျ ရာဇာဘွဲ့ကိုပေးသနား၍ဆက်လက်အုပ်ချုပ်စေခဲ့၏။ ၁၂၂၈ ခုနှစ်တွင် မြို့စားရာထူးနှင့်တကွ မဟာသီရိဇေယျ သိုယုံဖ ဘွဲ့များကို ထပ်လောင်း ချီးမြှင့်ခြင်းခံရလေသည်။ ဤတွင် မိုင်းကိုင်နယ်သည် တသီးပုဂ္ဂလနယ်ရှင်တဦးပိုင် နယ်တနယ် အဖြစ်သို့ရောက်ခဲ့၏။ ဤသို့အားဖြင့် ဟိန်ကူးနုမှ ဆင်းသက်

လာသော မြို့စားအဆက်ဆက်တို့ အုပ်ချုပ်လာခဲ့၍ ၁၈၂၄ ခုနှစ် မြို့စား ခွန်မှုံ၏ လက်ထက်တွင် စော်ဘွားရာထူးသို့ တိုးတက် ခန့်ထားခြင်းခံရသဖြင့် စော်ဘွားနယ် ဖြစ်လာလေသည်။ သို့သော် ၁၉၅၉ ခုနှစ်တွင် စော်ဘွားများအုပ်ချုပ်ရေး အာဏာစွန့်လွှတ်လိုက်သောအခါ၊ မိုင်းကိုင်နယ်သည် ရှမ်းပြည်တောင်ပိုင်းတိုင်း၊ လွယ်လင်ခရိုင်တွင် ပါဝင်သော နယ်ပိုင်အုပ်ချုပ်သည့် နယ်တခုဖြစ်လာသည်။ မိုင်းကိုင်မြို့မှာလည်း မိုင်းကိုင်နယ်၏ ရုံးစိုက်မြို့ ဖြစ်လာလေသည်။

**မိုင်းကိုင်စက္ကူ။** ။မိုင်းကိုင်စက္ကူ၊ သို့မဟုတ် ရှမ်းစက္ကူသည် စက္ကူ အကြမ်းစားမျိုး ဖြစ်၍ ရှမ်းပြည် နယ်တွင် ခဲဖြင့် စာရေးရန်သော်၎င်း၊ ခမောက် လွယ်အိတ် စသော ပစ္စည်းများ ထုပ်ပိုးရန်နှင့် ကုန်ပစ္စည်းများထုပ်ရန်သော်၎င်း များစွာ အသုံးဝင်သော စက္ကူဖြစ်သည်။ အချို့သော ရှမ်းရွာဒေသတွင် အိပ်ရာခင်းထိ ထူအောင်လုပ်၍၊ အချို့မှာ သစ်စေးသုတ်၍ မိုးကာအဖြစ် အသုံးပြုကြသည်။ ဤစက္ကူမျိုးကို ရှမ်းပြည်နယ်တွင် အမျိုးသမီးများ အိမ်တွင်းလက်မှုလုပ်ငန်းအနေဖြင့် အနှံ့အပြား လုပ်ကိုင်ကြသည်။ အထူးသဖြင့် မိုင်းကိုင်နယ် ကွန်နားရွာ၊ ကွန်ကျိုင်းရွာ၊ တောင်ပိုင်းဝနယ်၏ မြို့တော်ဖြစ်သော မိုင်းကာအိုမြို့နှင့် သီပေါနယ်တို့တွင် ပိုမိုလုပ်ကိုင်ကြသည်။

မိုင်းကိုင်စက္ကူ လုပ်ငန်း၏ အဓိက အရေးအကြီးဆုံး ပစ္စည်းတခုကား သာလဲပင်(တာလဲပင်)ဖြစ်သည်။ သာလဲပင်ကို ရှမ်းဘာသာဖြင့် မဲ့ဆာ ဟုလည်း ခေါ်သည်။ (သာလဲပင် — လည်းရှု။) ယင်းသာလဲပင်သည် ရှမ်းပြည်နယ်အတွင်းနှင့် တောင်ပိုင်း ဝနယ် အပါအဝင် ဒေသများတွင် အလေ့ကျ ပေါက်လျက် ရှိကြသည်။ ထိုအပင်၏ အခေါက်များမှ ရှမ်းပြည်နယ်နှင့် မြန်မာနိုင်ငံသုံး မိုင်းကိုင်စက္ကူများ ဖြစ်လာလေသည်။ သို့ဖြစ်ရကား သာလဲပင်သည် ရှမ်းပြည်နယ်အတွက် မြေကြီးမှရွှေသီးသော အပင်ဖြစ်ပေသည်။

သာလဲပင်မှ အခေါက်များကို ဦးစွာ ပဌမ ခွာယူပြီးလျှင် သံပုံးတွင် ထည့်၍ မီးဖိုမှ နေ့စဉ် ရရှိသော ပြာများနှင့် ရောလိုက်ရ၏။ ထိုနောက် သံပုံးတွင် ရေဆည့်၍ မီးတွင် သာလဲခေါက်များ နူးမ်း၍နူးလာသည်တိုင်အောင် ကျိုပေးရသည်။ သာလဲခေါက်များ အတော်နူးလာသောအခါ သံပုံးမှ ဆယ်ယူပြီးလျှင် ပြာရည်ကုန်အောင် ရေနှင့် ဆေးကြောပေးရသည်။ အမှိုက်အညစ်အကြေးများကိုမူ လက်ဖြင့် ကောက်ယူပစ်ရ၏။ ရေဆေးပြီးသော ပြုတ်ပြီးသား သာလဲခေါက်များကို သစ်သားတုံး၊ သို့မဟုတ် ကျောက်ပြား ပေါ်တွင် တင်၍ သစ်သားတူနှစ်လက်ဖြင့် ဗယ်ပြန်ညာပြန် ကြေညက်အောင် ထုပေးရသည်။ ဤသို့ ထုရိုက်ပေးရာ၌ အချိန်ယူဂရုစိုက် ထုရိုက်ပေးနိုင်မှသာ စက္ကူပြုလုပ်ရာတွင် အမျှင်ကင်း၍ ချောမွတ်သောစက္ကူကို ရနိုင်သည်။

ကြေမွအောင် ထုချေပြီးသော သာလဲခေါက်များသည် စက္ကူကြမ်းများကို ရေနှူးထားသည့် ပုံသဏ္ဌာန်ကဲ့သို့ ရှိနေပေသည်။ ထိုထက် ပိုမိုနူးညံ့စေရန် သာလဲခေါက်အကြေကို ဝါးဆစ်ဖူးယယ် အတွင်းသို့ ရေနှင့်ရောရ၍ ထည့်ပြီးလျှင် ဝါးဒလက်ငယ်ဖြင့် လုသ်ပတ်ကာ ဖုံဗိုင်စုတ်များသဖွယ် အထက်အောက် အပြန်ပြန် အလှန်လှန် ထပ်မံ ကြေမွစေပြန်လေသည်။

ဤတာဝန် ပြီးဆုံးသည့်နောက် တဖက်တွင် လေးထောင့်သဏ္ဌာန် ထွင်းထားသော သစ်သားခွက်ကြီး အတွင်း၌ ရေလက် ၄ သစ်ခန့် ထည့်၍ အလျား ၂ ပေခွဲ၊ အနံ ၂ ပေခန့်ရှိ ဝါးဖြင့် ကားကြက်ထားသော ပိတ်ခွက်ကို သစ်သားခွက်ကြီး အတွင်းရှိ ရေတွင် ချလိုက်၏။ သို့ချလိုက်သည်တွင် ပိတ်ခွက် အတွင်းသို့ အမှုန်ကင်းစင်သော ရေသန့်များလက် ၂ သစ်ခန့်မျှ စစ်၍ ဝင်လာရာ ပိတ်ခွက်တွင် ရေပြည့်နေတော့၏။ ထိုနောက် ဝါးဆစ်ဖူးယယ် အတွင်းမှ ချေမွထားသည့် သာလဲခေါက်ကို ပိတ်ခွက် ရေအတွင်းသို့ သွန်ချလိုက်လေသည်။ ပိတ်ခွက်အတွင်း သာလဲခေါက် အကြေများသည် စက္ကူကြမ်းများကို ရေနှူး၍ ရေခွက်ကျယ်တွင် ထည့်ထားသည်နှင့် တူနေလေသည်။ ထိုနောက် ဆန်ကောတွင် ဆန်ဝိုင်းသကဲ့သို့ ပိတ်ခွက်ကို လက်နှစ်ဖက်ဖြင့် ဗယ်ညာ ဝိုင်းပေးသောအခါ စက္ကူ ဖြစ်တော့မည့် သာလဲခေါက်များသည် ပိတ်ခွက် အတွင်းရှိ ရေတွင် ပြေးလွှားပျံ့နှံ့ လာကြလေသည်။ အထူးအပါး ညီအောင် လက်ဖြင့်ပြုပြင်ပေးရ၏။ ဤသို့ ပိတ်ခွက်အား ဝိုင်းပေးခြင်းဖြင့် စက္ကူပြား တချပ်ကို ရေစိမ်ထားသည့် သဏ္ဌာန်သို့ ရောက်သည့်အခါ ပိတ်ခွက်ကို လက်နှစ်ဖက်ဖြင့် ညီညီ သစ်သားရေခွက်ကြီး အတွင်းမှ ဆွဲမလိုက်လျှင် ရေများ ကျန်ခဲ့ကြ၍ နေလှန်းရန်သာ လိုတော့သည့် စက္ကူ ဖြစ်လာလေသည်။ သို့ဖြင့် စက္ကူရေစိုချပ်ကြီး တခုကို ပိတ်ကားတွင် ကပ်လျက်သား ရှိနေတော့၏။ နေပူပြင်းပြင်းတွင် ၃ နာရီမျှ လှန်းလျှင် ခြောက်သွေ့သွားနိုင်ရာ ပိတ်ကားမှ ခွာယူလိုက်သောအခါ မိုင်းကိုင်စက္ကူကို ရရှိတော့၏။

မိုင်းကိုင်နယ်တွင် တလလျှင် စက္ကူအချပ်ရေ ၁ သိန်းအထိ ထွက်သည်။ စက္ကူအမျိုးအစားမှာ ၃ မျိုးခန့် လုပ်ကိုင်ကြပြီးလျှင်၊ အကောင်းဆုံး တရာလျှင် ၉ ကျပ်အထိ၊ မှန်တန်းတရာလျှင် ၅ိ မှ ၅ိ-၅၀ ပြား အထိ၊ ကုန်ထုတ်အညံ့စား ၃ိ မှ ၃ိ-၅၀ ပြားအထိ ရောင်းချရလေသည်။

**မိုင်းခိုင်းဆရာတော်** (မြန်မာ ၁၂၀၄ — ၁၂၆၁)။ ။မိုင်းခိုင်းဆရာတော်သည် အမရပူရ ဒုတိယမြို့တည် နန်းတည်

သာယာဝတီမင်းတရားကြီး လက်ထက် မြန်မာသက္ကရာဇ် ၁၂၀၄ ခုနှစ် တပေါင်းလပြည့်ကျော် ၁ ရက် ကြာသပတေးနေ့တွင် မုံရွာခရိုင်၊ အလုံမြို့နယ် သာစည်ရွာ၌ ဖွားမြင်တော်မူသည်။ ၇ နှစ် အရွယ်သို့ ရောက်သောအခါ ဂိုဏ်းအုပ် ဆရာတော် ဦးရေဝတထံ အပ်နှံ၍ ကျောင်းသားဘဝမှ ရှင်သာမဏေအဖြစ် ရောက်သည်အထိ ပညာသင်ကြားလေသည်။ သာမဏေဘွဲ့မှာ ရှင်ပဏ္ဍိတ ဖြစ်သည်။

ပညာဉာဏ် အလွန် ထက်မြက်သဖြင့် ကျောင်းသားသူငယ်တို့ သင်အပ်သမျှ နမောဗုဒ္ဓာယ အစ၊ သင်ပုန်းကြီး၊ မင်္ဂလသုတ်၊ အောင်ခြင်းရှစ်ပါး၊ ရတနာ့ရွှေချိုင့်၊ ပရိတ်နမက္ကာရ၊ ထိုထိုစာငယ်တို့နှင့်တကွ ဇာတ်ကြီးဆယ်ဘွဲ့၊ ဆန်းအလင်္ကာ၊ သဒ္ဒါ၊ အဘိဓာန်၊ သင်္ဂြိုဟ်သင်္ဂဟတို့ကို သင်ကြားပြီးသည့်နောက် ရှင်သာမဏေအဖြစ်မှ အသက် ၁၇ နှစ် ရောက်သည်တွင် သင်္ခေပဋီကာ၊ အဘိဓမ္မတ္ထဝိဘာဝနီဋီကာ၊ အဋ္ဌသာလိနီ၊ မူလဋီကာ စသော အဘိဓမ္မာ ပိဋကတ်ကျမ်းများကို သင်ကြား တတ်မြောက်ခဲ့လေသည်။

ဆရာတော် ဦးရေဝတသည် တပည့်သာမဏေ ရှင်ပဏ္ဍိတ၏ တိက္ခ၊ ဂမ္ဘီရ၊ ဘူရိ၊ ဟာသ၊ ဇဝန ပညာဉာဏ်နှင့်တကွ သတ္တိဗလ၊ ဗျတ္တိဗလ စူးရှထက်သန် လျင်မြန် နက်နဲသော အကြောင်းအရာတို့ကို သိတော်မူသည်အလျောက် မန္တလေး ရတနာပုံနေပြည်တော်၊ သုဓမ္မာသာသနာပြု စံကျောင်း ဆရာတော် ဘုရားကြီးထံသို့ ပညာဆက်လက် ဆည်းပူး သင်ကြားရန် ပို့တော်မူလေသည်။ စံကျောင်းဆရာတော် ဘုရားကြီးသည် ရှင်ပဏ္ဍိတအား ကိုယ်တော်တိုင် ခုနစ်ရက်ခန့် စုံစမ်း စစ်ဆေး မေးမြန်းတော်မူရာ သာသနာ၏ အကျိုးကို အထူး သည်ပိုးရွက်ဆောင်လတ္တံ့သော စွမ်းရည်ရှိသည်ကို မြင်တော်မူရကား များစွာ နှစ်သိမ့် အားရတော်မူလေသည်။ သို့ဖြစ်၍ သုံးဆူသော ပိဋကတ်တော်တို့တွင် အဘိဓမ္မာ ပိဋကတ်ကျမ်းစာ၊ ပါဠိအဋ္ဌကထာဋီကာ၊ အနုမဓု၊ လက်သန်း၊ ဂန္ထန္တရ၊ ဂဏ္ဌိ၊ ယောဇနာ စသည်တို့ကို အရာမကသော နည်းတို့ဖြင့် အထူး ပို့ချသင်ကြား ပြသတော်မူလေသည်။

ယင်းသို့ စံကျောင်း ဆရာတော်ဘုရားကြီး၏ ခြေရင်းတော်၌ သူမတူအောင် ဆောင်ရွက် သင်ကြားနေသည့်အတွင်း ရှင်ပဏ္ဍိတ သာမဏေ၏ ထက်မြက်သော ဂုဏ်သတင်းကို ပဉ္စမသင်္ဂါယနာတင် မင်းတုန်းမင်းတရားကြီး ကြားသိတော်မူရာ၊ သားကောင်းရတနာကို အရတော်လေစွဟု ဝမ်းမြောက်တော်မူလှသဖြင့် ပစ္စည်းလေးပါး အလှူတော်ကို အမြဲ ခြီးမြှောက်တော်မူသည်။ သက္ကရာဇ် ၁၂၂၄ ခုနှစ် ဝါဆိုလတွင် ဆင်ဖြူမရှင် မိဖုရားကြီးက မြင့်မြတ်သော ဥပသမ္ပဒ ရဟန်းအဖြစ်သို့ သွတ်သွင်း ခြီးမြှင့်တော်မူသည်။

စံကျောင်းဆရာတော် ဘုရားကြီးထံ စာပေ သင်ကြားပြီးသည့်နောက် ရဟန်းသိက္ခာ ၅ ဝါမှစ၍ ဆရာတော်ဘုရား၏ နည်းနာအတိုင်း အလွန်သိမ်မွေ့နက်နဲ ခဲကတ်သောသုတ်၊ ဝိနည်း၊ အဘိဓမ္မာ ပိဋကတ် အထူးထူးသော အဆုံးအဖြတ်တို့ကို ဆုံးဖြတ် စီရင် ရေးသားလျက် သာသနာတော်၏ အကျိုးကို သည်ပိုး ဆောင်ရွက်တော်မူ၏။ ထိုအကြောင်းကို မင်းတုန်းမင်းကြီး ကြားသိတော်မူရာ နှစ်သက် ဝမ်းမြောက်ခြင်း ပြင်းစွာဖြစ်သဖြင့် ရဟန်းသိက္ခာ ၁၂ ဝါ အရတွင် ပဌမ စာချအဖြစ် ခြီးမြှောက်တော်မူ၍ သိက္ခာ ၂၃ ဝါအရတွင် "ပဏ္ဍိတဓဇ သီရိပဝရ မဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့နာမံဖြင့် ခြီးမြှောက်တော်မူသည်ကို ခံရလေသည်။

ထိုနောက် သက္ကရာဇ် ၁၂၅၀ ပြည့်နှစ်တွင် စံကျောင်း ဆရာတော်ဘုရား ပျံလွန်တော်မူရာ ထိုစံကျောင်းတိုက်၌ပင် ဆက်လက်၍ စာပေပို့ချနေလေသည်။ ၁၂၅၄ ခုနှစ်တွင် စလင်းမြို့သို့ ကြွ၍ မြို့သူမြို့သားများအား တရားရေအေး တိုက်ကျွေးတော်မူခြင်း၊ ပိဋကတ်တော် အဆုံးအဖြတ်များကို ရေးသား စီရင်ခြင်းများကို ဆောင်ရွက်တော်မူသည်။

သက္ကရာဇ် ၁၂၅၇ ခုနှစ်သို့ ရောက်သောအခါ မြို့သစ်မြို့စား အတွင်းဝန်ကြီး မဟာဇေယရာဇသင်္ကြံက အတန်တန် လျှောက်ထား တောင်းပန်သောကြောင့် မန္တလေးမြို့သို့ ပြန်လည် ကြွလာတော်မူပြီးလျှင် ရွှေရေးဆောင်တိုက် အုတ်ကျောင်းကြီး၌ သီတင်းသုံးတော်မူ၍ရှင်ရဟန်းတို့အား စာပေပို့ချကာ ဝိနိစ္ဆယ အဆုံးအဖြတ်များကို စီရင် ဆုံးဖြတ် သုတ်သင် ရှင်းလင်းတော်မူသည်။

ဤသို့ သာသနာတော် အကျိုးကို အဖက်ဖက်မှ သည်ပိုး ဆောင်ရွက်တော်မူနေဆဲတွင် အစဉ်ကပ်ငြိရင်း လေရောဂါကြောင့် သက်တော် ၅၇၊ ဝါတော် ၃၇၊ သက္ကရာဇ် ၁၂၆၁ ခုနှစ် တပေါင်းလပြည့်ကျော် ၁၃ ရက် အင်္ဂါနေ့ညနေတွင် ပျံလွန်တော်မူလေသည်။

**မိုင်းခိုင်းမြို့စား**(မြန်မာ ၁၁၇၇ – ၁၂၅၃)။ ။ရတနာပုံ ရွှေနန်းတော်ကြီး အနီးရှိ ပိဋကတ်တိုက်တော် အတွင်း၌သာလျှင် များစွာသော ပိဋကတ် စာပေများကို ဖတ်ရှုလေ့လာပျော်မွေ့ကာ နေလေ့ရှိသောကြောင့် ပဉ္စမသင်္ဂါယနာတင် ဘဝရှင် မင်းတုန်းမင်းတရားကြီး ကိုယ်တော်တိုင်က "မောင်ယမ်မှာ သူ့ပိဋကတ်တိုက်နှင့်သာ နေရော့သည်" ဟု မြည်ဆိုခြင်းပင် ခံရဘူးသော မိုင်းခိုင်းမြို့စား ပိဋကတ်တော်အုပ်မင်း မဟာသီရိဇေယသူကား မင်းဘူးခရိုင်မြောက်ပိုင်း၊ စလင်းမြို့တောင်လက်၊ သမန်းရင်းရွာ၌ အဖဦးကျော်စံ အမိ ဒေါ်လုံလေးတို့မှ သက္ကရာဇ် ၁၁၇၇ ခုနှစ် ဝါဆိုလပြည့်ကျော် ၄ ရက် တနင်္ဂနွေနေ့ ညဥ့် ၂ ချက်တီးကျော်၊ လပြည့်ကျော် ၅ ရက်နေ့ အဝင်တွင် ဖွားမြင်သည်။ ငယ်မည်မောင်ယမ် (မောင်ရန်လည်းဟူ၏။)ဖြစ်သည်။

အသက် ၁၅ နှစ်တိုင်အောင် ကျောင်းသားသူငယ်အဖြစ်နှင့် စာပေ သင်ကြားပြီးလျှင် ထို ၁၅ နှစ်အရွယ်တွင်ပင် သာမဏေပြုသည်။ ၄ နှစ်တိုင်တိုင် သဒ္ဒါ၊ သင်္ဂြိုဟ်၊ ဆန်း၊ အလင်္ကာ၊ အဘိဓာန် စသော သင်ရိုးကျမ်းများကို သင်ကြားသည်။ အသက် ၂၀ အရွယ်တွင် ရဟန်းပြုသည်။ ရဟန်းဘွဲ့ ရှင်ကေလာသဘ ဖြစ်သည်။ ရဟန်းပြုပြီးနောက် ဆက်လက်၍ ၂ နှစ်တိုင်တိုင် စာပေ ကျမ်းဂန်များကို သင်ကြား ဆည်းပူးသည်။

အသက် ၂၂ နှစ် သက္ကရာဇ် ၁၁၉၉ ခုနှစ်တွင် လူထွက်၍ အမရပူရ ဒုတိယမြို့တည် နန်းတည် ရွှေဘိုမင်းတရားကြီး အထံတော်တွင် ခယမ်းထမ်းရွက်ရာ ဗြဲတိုက်သံတော်ဆင့် အရာ ခန့်ထားခြင်း ခံရသည်။ ထိုရာထူး၌ ၉ နှစ်တိုင်တိုင် ထမ်းရွက်ပြီးနောက် သက္ကရာဇ် ၁၂၀၈ ခုနှစ်တွင် နန်းတက်တော်မူသော သားတော် ပုဂံမင်းတရားကြီး လက်ထက်တွင် ယင်းသည့်ရာထူးနှင့်ပင် ၆ နှစ်တိုင်တိုင် အမှုတော်ကို ဆက်လက် ထမ်းရွက်ရသည်။

ထိုနောက် သက္ကရာဇ် ၁၂၁၄ ခုနှစ်တွင် နန်းတက်တော်မူသော ပဥ္စမသင်္ဂါယနာတင် ဘဝရှင် မင်းတုန်းမင်းတရားကြီး အထွတ်အမြတ်သို့ ရောက်တော်မူစ၊ ရတနာ သိင်္ဃ ရွှေဘိုမြို့၌ စံနေတော်မူစဉ် အခါကပင်လျှင် သံတော်ဆင့် အရာနှင့် မကွေးမြို့စား အသနားတော်မြတ် ခံရသည်။ နောက်မကြာမမြင့် အဆင့်ဆင့်အားဖြင့်လည်း ရွှေတော်ပြေးမှူးအရာ၊ ရတနာ လျှော်ကားတော်အုပ်အရာ၊ ရွှေနန်းမြှော် ဥယျာဉ်တော်အုပ် အရာတို့ကို ရပြီးလျှင် "မဟာသီရိဇေယသူ" ဘွဲ့နှင့် မိုင်းခိုင်းမြို့ကို စားရပြန်လေသည်။ ထိုပြင် နိကာယ် ငါးရပ်တို့ဖြင့် တန်ဆာဆင်အပ်သော ပိဋကတ်သုံးပုံ ပါဠိတော် အဋ္ဌကထာ ဋီကာများကို ရွှေရေး၊ မင်ရေး၊ ကညစ်ရေးတို့ဖြင့် ရေးသား ပူစုခြင်းကို ရှုကြည့် ကြပ်မ ရွက်ဆောင်စေရန် ဆိုင်ရာအစုအမှုထမ်းတို့နှင့်တကွ ပိဋကတ်တော်အုပ် ခန့်ထားတော်မူခြင်း ခံရသည်။ သို့ ရှုကြည့် ကြပ်မ ဆောင်ရွက်ရာတွင် ပိဋကတ်သုံးပုံ စုံရေအများ ပြီးပြေအောင် ရေးကူးရာ၌ သက္ကရာဇ် ၁၂၁၈ ခုနှစ် တန်ခူးလမှသည် ၁၂၄၀ ပြည့်နှစ်အထိ ၂၂ နှစ်တိုင်တိုင် လုပ်ဆောင်လုံးပမ်းရသည်။

ထို့ပြင် ပဥ္စမသင်္ဂါယနာတင်ရာ၌ရင်း၊ ၂,၄၀၀ အရေအတွက်ရှိသော ဆရာတော် သံဃာတော်တို့ စာပြန်ဆိုရာ၌ရင်း ကြီးမှူးကြပ်မရသေးသည်။ သို့ ကြီးမှူးကြပ်မနေရသည့်အတွင်း ခင်မမင်းဝန်အရာ ခန့်ထားခြင်း ခံရပြန်သည်။

သက္ကရာဇ် ၁၂၄၀ ပြည့်နှစ်တွင် နန်းတက်တော်မူသော သီပေါမင်း လက်ထက်တော်၌လည်း အတွင်းဝန်၊ ခင်မမင်းဝန် အရာနှင့် မိုင်းခိုင်းမြို့ကိုပင် စားမြဲ စားရသည်။ ထိုနောက် လက်ရွေးကြီး လျှော်ကားတော်အုပ်အရာ၊ စစ်ကိုင်းမြို့၊ အမြင့် ၅ မြို့၊ အလုံမြို့၊ ဒီပဲယင်းမြို့ စသော အဋ္ဌမဌာန ခရိုင်ဝန်အရာ "မင်းကြီး မဟာသီရိဇေယသူ" ဘွဲ့နှင့် စော်ဘွားကြီး နေရာအဖြစ်သို့ အဆင့်ဆင့် ချီးမြှင့်ခြင်း ခံရသည်။ အသက် ၇၇ နှစ်၊ သက္ကရာဇ် ၁၂၅၃ ခုနှစ် ဝါဆိုလပြည့်ကျော် ၂ ရက် သောကြာနေ့တွင် ကွယ်လွန်အနိစ္စရောက်လေသည်။

ပြုစုခဲ့သော ကျမ်းများမှာ။ ၁၊ ဓမ္မသံဟိတဒီပနီ ဓမ္မသတ်ကျမ်း။ ၂၊ ဓမ္မပဒပါဠိတော် နိသျသစ်။ ၃၊ အဘိဓမ္မတ္ထ သင်္ဂဟ အဋ္ဌကထာ နိသျသစ်။ ၄၊ အနာဂတဝင် ပါဠိတော်နိသျ။ ၅၊ ဒါဌာဓာတုဝင် စာကိုယ်နိသျ။ ၆၊ သဒ္ဒါ ရှစ်စောင် နိသျသစ်။ ၇၊ ဒွါရသီဒီပနီကျမ်း။ ၈၊ ဆနဝုတိ ပါသဏ္ဍ-ဝိသဇ္ဇနာကျမ်း။ ၉၊ ပိဋကတ်သမိုင်း။ ၁၀၊ မေတ္တာ ဒကသေစနဒီပနီ။ ၁၁၊ သုသန္ဒေသကထာ။ ၁၂၊ သီဟဠ ဝတ္ထုခေါ် မဓုရရသဝါဟိနီကျမ်း။ ၁၃၊ အတိဒိဇိတြသန္ဒေသ ကထာ။ ၁၄၊ မဟာရဋ္ဌသာရပ္ပတ္တိကထာတို့ ဖြစ်သည်။

**မိုင်းဆပ်မြို့။** ။မိုင်းဆပ်မြို့သည် ရှမ်းပြည်နယ်နှင့် ယိုးဒယားနယ်စပ်ဒေသရှိ မြို့ငယ်ကလေး တခုသာ ဖြစ်၏။ သို့သော် တရုပ်ဖြူများ ဝင်ရောက် ကျူးကျော်ခဲ့သော ဒေသ ဖြစ်၍ မြန်မာတို့က ကမ္ဘာ့ကုလသမဂ္ဂကို တိုင်ကြားခဲ့သဖြင့် မိုင်းဆပ်ကို ကမ္ဘာက အာရုံပြုခဲ့ရသည်။



တရုပ်ဖြူများ ကျူးကျော်ဝင်ရောက်စဉ်က မိုင်းဆပ်မြို့ရိုးဟောင်းကို ဤသို့ ကတုတ်ကျင်းအဖြစ် အသုံးချခဲ့သည်ကို တွေ့မြင်ရသည်။



မိုင်းဆပ်မြို့ လွင်ပြင်ကို ဤသို့ ရှုမြင်ရသည်။

မိုင်းဆပ်မြို့သည် ကျိုင်းတုံနယ်ရှိ မိုင်းဆပ်နယ်ခွဲတွင် တည်ရှိ၍ ကျိုင်းတုံမြို့နှင့် ၆၂ မိုင်မျှ ကွာဝေးသည်။ ကျိုင်းတုံစော်ဘွား လက်အောက်ခံ မြို့စား အုပ်ချုပ်သည့် မြို့ငယ်ဖြစ်၍ လွယ်လင်ခရိုင် အရှေ့ပိုင်းနယ်တွင် ပါဝင်လေသည်။ မိုင်းဆပ်မြို့သည် ပင်လယ်ပြင်ထက် ပေ ၁,၉၅၀ အမြင့်တွင် တည်ရှိ၍ တောင်ပတ်လည် ဝန်းရံနေသည့် မြေချိုင့်မြေပြန့်ဖြစ်သည်။ မိုင်းဆပ်မြို့တွင် ရှေးမြန်မာမင်းများ ပြုလုပ်ခဲ့သည့် မြို့ရိုးများ ယခုတိုင် ရှိသေးသည်။ သို့သော် တရုပ်ဖြူတို့ ဝင်ရောက် ကျူးကျော်စဉ်က ခံကတုတ်ကျင်းများ ပြုလုပ်ထားသည်ကိုတွေ့ရ၏။ မိုင်းဆပ်မြို့ဟု ခေါ် ရသော်လည်း မိုင်းဆပ်ဟူ၍ သီးခြားရွာမအဖြစ် တည်ရှိသည် မဟုတ်ဘဲ ရွာအစုပေါင်း လေး ငါး ခြောက်ခု စုထားသည်ကို မိုင်းဆပ်နယ်ဟူ၍ ခေါ်ပေသည်။ ရွာစုများမှာ အရေအတွက်အားဖြင့် တောင်ပေါ် ၃၇ ရွာနှင့် မြေပြန့်ရှမ်းရွာ ၂၉ ရွာရှိသည်။ လူဦးရေ စုစုပေါင်း ၄,၃၂၁ ယောက်ခန့်ရှိ၏။ ရှမ်းရွာများဟု ဆိုရသော်လည်းတောင်ပေါ်သားများဖြစ်သည့်အကော၊ လားဟူ၊ လီရှော လူမျိုးများလည်း နေထိုင်ကြသည်။

အလုပ်အကိုင်အားဖြင့် အပြင်အပသို့ ထုတ်ဝေ ရောင်းချနိုင်လောက်အောင် ပစ္စည်းများ မလုပ်ကိုင်ဘဲ အချင်းချင်း ဖလှယ်နိုင်ရုံမျှသာ ထွန်ယက် စိုက်ပျိုး လုပ်ကိုင်ကြသည်။ မြေပြန့်တွင် စပါး၊ ဆေး၊ ဂျုတ်များစိုက်ပျိုး၍ တောင်ပေါ်တွင် လက်ဖက်၊ အာလူးများကို ထွန်ယက်စိုက်ပျိုး လုပ်ကိုင်သည်။ ပိုလျှံသော ဆန်၊ လက်ဖက်ခြောက် စသည့် ပစ္စည်းများဖြင့် ဆား၊ ရေနံဆီ၊ ဖယောင်းတိုင်၊ မီးခြစ်စသည်တို့ကို ယိုးဒယားသားတို့နှင့် ဖလှယ်ကြသည်။

မိုင်းဆပ်သည် ယခုအခါ ကျိုင်းတုံပိုင်နယ် ဖြစ်သော်လည်း ရှေးအခါက တသီးတခြား နယ်တခုအဖြစ် တည်ရှိခဲ့၍ သူရိယ ဆိုသူက ဖွဲ့စည်းကာ အကြီးအမှူးအဖြစ် အုပ်ချုပ်ခဲ့၏။ နောက် စဝ်ဖခွန်ဆိုသူက စော်ဘွားအနေနှင့် မိုးနဲကို မဟာမိတ်ပြု၍ မန္တလေး နေပြည်တော်သို့ တိုက်ရိုက်ဆက်သွယ်သည်။ နောက် မန္တလေးနှင့် အလှမ်းဝေး၍ မိုးနဲနှင့်သာ ဆက်သွယ်၏။ နောင်သော်ကား မိုင်းဆပ် ပတ်လည် တောင်ပေါ် ရှိ လားဟူလူမျိုးများနှင့် ကျိုင်းတုံနယ်မှ မကြာခဏ လာရောက် နှောင့်ရှက် တိုက်ခိုက်မှုကြောင့် နောက်ဆုံးတွင် ကျိုင်းတုံစော်ဘွားထံ အညွှံခံလိုက်ရသည်။ ထို့ကြောင့် အင်္ဂလိပ်တို့ ဝင်ရောက်စဉ်က မိုင်းဆပ်သည် ကျိုင်းတုံနယ် အပါအဝင် နယ်ခွဲတခု ဖြစ်ခဲ့၏။ ကျိုင်းတုံစော်ဘွား၏ လက်အောက် မြို့စား အုပ်ချုပ်သော ဒေသဖြစ်လေသည်။ ၁၉၄၁ ခုနှစ် အတွင်းတွင် အင်္ဂလိပ်မျက်နှာဖြူ နှစ်ဦး ခေါင်းဆောင်သော ပန်ချာပီ တပ်ဖွဲ့တခု လာရောက်တပ်စွဲ၍ မြန်မာပြည်တွင် စစ်ဖြစ်စ ၁၉၄၂ ခုနှစ် ဇန္နဝါရီလ ခန့်က ယင်းတပ်ကို တရုပ်တပ်များနှင့် တာဝန်လွှဲ၏။ တရုပ်

တပ်များ ၃ လခန့်သာနေ၍ ဆုတ်ခွာခဲ့သည့်နောက် တရက်အကြာတွင် ယိုးဒယားတပ်များ ဝင်လာခဲ့သည်။ ဤသို့ ဝင်လာခဲ့ခြင်းမှာ ဂျပန်တို့ မြန်မာပြည်သို့ ဝင်ရောက် သိမ်းပိုက်ရာတွင် ရှမ်းပြည်နယ်အချို့ကို ယိုးဒယားသို့ ပေးအပ်ခဲ့ခြင်းကြောင့်ပင်ဖြစ်သည်။ ယိုးဒယား၏စစ်အုပ်ချုပ်ရေးအောက်သို့ ၃ နှစ်မျှ သက်ရောက်ခဲ့ရသည်။ အုပ်ချုပ်မှု ဆိုးရွားကြမ်းတမ်းသည် ဆို၏။ ၁၉၄၅ ခု နှစ်ဦးပိုင်းတွင် ဂျပန်တပ်စုတစု ဝင်ရောက်လာသေးသော်လည်း အင်္ဂလိပ် လေထီးလဲဗီးတပ်များ မိုင်းပူအောင်ဖက်မှ လာရောက် တိုက်ခိုက်မှုကြောင့် တာချီလိပ်ဖက်သို့ ဆုတ်ခွာ ထွက်ပြေးကြရ၏။ လဲဗီးတပ်များသည် ဂျပန် လက်နက်ချပြီးချိန်အထိ ၃ လခန့်တပ်စွဲခဲ့၏။ရှောင်တိမ်းနေရသော မြို့စားလည်း ထိုအခါမှ ဝင်ရောက်လာနိုင်လေသည်။

စစ်ပြီးခေတ်တွင် မိုင်းဆပ်မှာ တရုပ်ဖြူများ တပ်စွဲရာ ဖြစ်သောကြောင့် ကမ္ဘာက အာရုံပြုကြရ၍ လူသိများလာသည်။ ကော၊ အမ်၊ တီခေါ် တရုပ်ဖြူတို့သည် ၁၉၅၁ ခုနှစ် ဩဂုတ်လ ၁၅ ရက်နေ့တွင် စတင် တပ်စွဲသည်။ တစတစနှင့် တပ်သားများသာမက အိမ်ထောင်စုများ ပါဝင်ကာ လူအင်အား ၄,၀၀၀ ကျော်ခန့် ဖြစ်လာသည်။ ထိုပြင် တရုပ်ဖြူဗိုလ်ချုပ် လီမီ၏ ဌာနချုပ်ဖြစ်လာသည်။ ၁၉၅၂ ခုနှစ်ဦးတွင် ယခုလက်ရှိ လေယာဉ်ကွင်းကိုပင် ဆောက်လုပ်ခဲ့သည်။ တရုပ်နီတို့ကို တိုက်ခိုက်ရန်ဟု အကြောင်းပြ၍ကျူးကျော်ကာ ဌာနချုပ်ပြုလုပ်ထားခဲ့ခြင်းဖြစ်၏။ ဤသို့ ကျူးကျော်နေသည်ကို ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရက အေးချမ်းစွာဖြေရှင်းလိုသဖြင့် ကုလသမဂ္ဂဝင် နိုင်ငံဖြစ်သည်နှင့်အညီ ကုလသမဂ္ဂသို့ တိုင်ကြားခဲ့သော်လည်း ကုလသမဂ္ဂက ထိရောက်စွာ အရေးမယူခဲ့ပေ။ သို့ဖြစ်၍ နောက်ဆုံးတွင် ဗမာ့တပ်မတော်မှ နဂါးနိုင် စစ်ဆင်ရေးဖြင့် ၁၉၅၃ ခုနှစ်တွင် စတင် တိုက်ခိုက် တွန်းလှန်ခဲ့လေသည်။ နဂါးနိုင်စစ်ဆင်ရေးတွင် သံလွင်မြစ် အရှေ့ဖက်ကမ်းကိုသာ တိုက်ထုတ်နိုင်ခဲ့၍ ဘုရင့်နောင်စစ်ဆင်ရေးနှင့် ထပ်မံ အင်အားဖြည့်တင်းပြီး တိုက်ခိုက်ခဲ့ရာ ၁၉၅၄ ခုနှစ် မတ်လ ၂၀ ရက်နေ့တွင် တရုပ်ဖြူ ဗိုလ်ချုပ် လီမီ၏ ဌာနချုပ် စိုက်ခဲ့ရာ မိုင်းဆပ်ကို အောင်မြင်စွာ သိမ်းပိုက်မိခဲ့လေသည်။

မိုင်းဆပ်ဟု တွင်ခဲ့ရခြင်း အကြောင်းမှာ မြတ်စွာဘုရား၏ဗျာဒိတ်အရ ဖြစ်သည်ဆို၏။ အခါတပါး၌ မြတ်စွာဘုရားသည် ဒေသစာရီ ကြွချီတော်မူရာတွင် တောတွင်း တနေရာရှိ ကျောက်တုံးကြီးတခုပေါ်ဝယ် ရပ်နား၍ ဆွမ်းဘုဉ်းပေးတော်မူခဲ့သည်။ မူလက သာမန် ကျောက်တုံးကြီးသာ ဖြစ်သော်လည်း မြတ်စွာဘုရား ရပ်နား၍ ဆွမ်းဘုဉ်းပေးရန် ထိုင်တော်မူသည်နှင့် ကျောက်တုံးမှာ ကျောက်ဖျာအဖြစ်သို့ ပြောင်းလဲသွားသည် ဆို၏။ ဤတွင် မြတ်စွာဘုရားက ဤနေရာတွင် နောင်အခါ မြို့ဖြစ်လာမည်ဟု ဗျာဒိတ် ပေးသောကြောင့် မြို့တည်လာသောအခါ ထိုကျောက်ဖျာကို အစွဲပြု၍ ရှမ်းဘာသာဖြင့် မိုင်းဆပ်တွင်လာသည်ဟု ဆိုလေသည်။ မိုင်းသည် ရွာစု (ဝါ) မြို့ဟု အဓိပ္ပါယ်ရကာ ဆပ်မှာ ဖျာဟု အဓိပ္ပါယ်ရသည်။ သို့ဖြစ်၍ မိုင်းဆပ်သည် ဖျာကဲ့သို့ ညီညာကျယ်ပြန့်စွာ တည်ရှိသောမြို့ ဟူသတည်း။

**မိုင်းနောင်နယ်။** ။မိုင်းနောင် နယ်သည် ရှမ်းပြည်နယ်တောင်ပိုင်း အရှေ့ဖက်တွင် တည်ရှိသော နယ်တနယ်ဖြစ်သည်။ နယ်နိမိတ်အားဖြင့် မြောက်ဖက်တွင် ကျေးသီးမံစံနယ်၊ အရှေ့ဖက်တွင် မိုင်းရှူးနယ်၊ တောင်ဖက်တွင် မိုးနဲနယ်၊ အနောက်ဖက်တွင် လဲချားနယ်နှင့် မိုင်းကိုင်နယ်တို့ဖြင့် ဝိုင်းပတ်လျက် ရှိသည်။ အကျယ်အဝန်းမှာ ၁,၆၅၅ စတုရန်းမိုင်၊ ကျေးရွာပေါင်း ၆၀၆ ရွာနှင့် လူဦးရေမှာ ၁၉၅၆ ခုနှစ်တွင် ခန့်မှန်းခြေ ၄၂,၉၉၀ ယောက်ခန့် ရှိသည်။ ရှမ်းလူမျိုးမှာ အများစုဖြစ်၍၊ ယင်း၊ ပလောင်နှင့် အခြား တောင်တန်းသားလူမျိုးများလည်း နေထိုင်သည်။

မိုင်းနောင်နယ်သည် မြေမျက်နှာပြင်အားဖြင့် လှိုင်းတွန့်ပြေပြေ ထသကဲ့သို့ ဖြစ်၏။ ထုံးကျောက်တောင်များကို ထိုနေရာ တလုံး၊ ဤနေရာတလုံး တွေ့ရပေသည်။ မြောက်ဖက်နှင့် အနောက်ဖက်တို့တွင် ကုန်းပြင်မြက်ခင်းများရှိ၍ သစ်ပင်ဟူ၍ မရှိသလောက်ပင်။ တောင်ဖက်တွင် ဆူးခြုံတောများ ရှိသည်။ အရှေ့ဖက်တွင် တောင်ထူထပ်သည်။ မိုင်းနောင်နယ်တွင် အရေးအပါဆုံးမြစ်မှာ နမ့်ပန်မြစ်ဖြစ်သည်။ ယင်းမြစ်ကမ်းတလျှောက်တွင် စပါးစိုက်ပျိုးသောလယ်များရှိသည်။ ဤလယ်များအပြင် တောင်ယာများတွင်လည်း စိုက်ပျိုးလုပ်ကိုင်သည်။ မိုင်းနောင်နယ်၏ မြို့တော် မိုင်းနောင်မြို့တဝိုက်တွင် မြေသည် ပြန့်သဖြင့် ထိုဒေသတွင် လယ်ယာစိုက်ပျိုးသည်။ မိုင်းနောင်မြို့သည် နယ်၏မြောက်ဖက်နားလောက်ဆီတွင် တည်ရှိသည်။

ရှေးအခါက မိုင်းနောင်နယ်သည် သိန္နီနယ်၏ လက်အောက်ခံနယ် ဖြစ်ခဲ့သည်။ ပုဂံမင်းလက်ထက် ခရစ် ၁၈၅၂ ခုနှစ်တွင် သိန္နီနယ်၏ လက်အောက်ခံအဖြစ်မှ လွတ်မြောက်ခဲ့၍ မြို့စားအုပ်ချုပ်သောနယ်ဖြစ်လာသည်။ ပဌမဆုံးမြို့စားမှာ ဟိန်အောင် ဖြစ်၏။ ပါရမီ ဟုလည်း တွင်သည်။ ဤသို့ဖြင့် မြို့စား၊ စော်ဘွား အဆက်ဆက် အုပ်ချုပ်လာခဲ့ရာ၊ ၁၉၅၉ ခုနှစ်တွင် စော်ဘွားများ အုပ်ချုပ်ရေးအာဏာ စွန့်လွှတ်ပြီးနောက် ရှမ်းပြည်တွင် ပြည်မကဲ့သို့ အုပ်ချုပ်ရေးစံနစ်ကို တီထွင်လိုက်သည့်အခါ၊ မိုင်းနောင် နယ်သည် ရှမ်းပြည်တောင်ပိုင်းတိုင်း၊ လွယ်လင်ခရိုင်တွင် ပါဝင်သော နယ်တခုဖြစ်လာသည်။ မိုင်းနောင်မြို့သည်လည်း မြို့ပိုင်ရုံးစိုက်မြို့ ဖြစ်လာလေသည်။

**မိုင်းပန်မြို့**။ ။မိုင်းပန်မြို့သည် ရှမ်းပြည်နယ် တောင်ပိုင်း လွယ်လင်ခရိုင်၊ မိုင်းပန်နယ်၏ရုံးစိုက်မြို့ဖြစ်သည်။ ရှမ်းပြည် အရှေ့တောင်ဖက်၊ အရှေ့လောင်ဂျီတွဒ် ၇၉.၅ နှင့် မြောက်လတ္တီတွဒ် ၂၀.၅ ပေါ်တွင် တည်ရှိသည်။ ပင်လယ်မျက်နှာပြင်အထက် ၂,၂၂၂ ပေမြင့်၏။ မိုင်းပန်မြို့ကို ခရစ် ၁၆၃၇ ခုနှစ်တွင် အလောင်းမင်းတရားကြီး ယိုးဒယားသို့ စစ်ချီရာမှ အပြန်တွင် တည်ထောင်ခဲ့သည်ဟု ဆိုသည်။ လွန်ခဲ့သော နှစ်ပေါင်းများစွာက ယခု မိုင်းပန်မြို့၏ အနောက်တောင်ထောင့်တွင် အင်းကြီးတခုရှိ၍ ထိုအင်း၏ အလယ်၌ မြေကျွန်း တကျွန်းရှိရာ၊ ထိုကျွန်းကြီးသည် လည်နေသည်ကို အစွဲပြု၍ မြို့ကိုလည်း မိုင်းပန် (မိုင်း=မြို့+ဖန်=လည်နေသည်=လည်သော မြို့)ဟု ခေါ်ဝေါ်ခဲ့ကြောင်း ဆိုကြလေသည်။

မိုင်းပန်မြို့၏ အကျယ်အဝန်းမှာ အလျား ၁ မိုင်၊ အနံ ၂ ဖာလုံခန့် ရှိသည်။ လူဦးရေမှာ ၁,၅၃၆ ယောက် ရှိ၏။ လူဦးရေအများစုမှာ ရှမ်းလူမျိုးများဖြစ်ပြီးလျှင်၊ မြန်မာ၊ တရုပ်နှင့် အိန္ဒိယလူမျိုး အနည်းငယ်သာရှိသည်။ ဗုဒ္ဓအယူဝါဒ၌ သက်ဝင်ယုံကြည်သူလည်း များလေသည်။ မြို့နေ လူထု၏ အလုပ်အကိုင်များမှာ ကုန်သွယ်မှုနှင့် လယ်ယာ၊ ခြံလုပ်ငန်းများဖြစ်သည်။

မိုင်းပန်မြို့နယ်၏ ထွက်ကုန်များမှာ ဆန်စပါး၊ အင်တွဲ၊ ပွဲလျက်၊ ချိပ်၊ ထင်းရှူးဆီ၊ ကြက်သွန်နီ၊ ကြက်သွန်ဖြူ၊နှမ်း စသည်တို့ဖြစ်၏။

မိုင်းပန်မြို့သည် လင်းခေး၊ မိုင်းတုံမြို့တို့နှင့် ကားလမ်း အဆက်အသွယ်များရှိသည်။

မိုင်းပန်မြို့၏ အရှေ့ဖက်တွင် မြစိမ်းတောင်ဟု ခေါ်ဆိုသော တောင်တလုံးရှိ၏။ ထိုတောင်ခြေတွင် အလောင်းဘုရား တည်ခဲ့သည်ဟု ဆိုသော မြစိမ်းတောင် စေတီတဆူ ရှိလေသည်။

**မိုင်းပွန်စော်ဘွား**(မြန်မာ ၁၂၆၉ – ၁၃၀၉)။ ။မြန်မာ့လွတ်လပ်ရေး အမြန်ရရှိရန်အတွက် ဗိုလ်ချုပ်အောင်ဆန်းတို့နှင့်အတူ အထူးကြိုးပမ်းဆောင်ရွက်နေဆဲ သက္ကရာဇ် ၁၃၀၉ ခုနှစ် ဝါခေါင်လဆန်း ၂ ရက်(၁၉၄၇ ခုနှစ် ဇူလိုင်လ ၁၉ ရက်) စနေနေ့ နံနက် ၁၀ နာရီ ၃၅ မိနစ်အချိန်တွင် မသမာလူတစုတို့၏ လုပ်ကြံခြင်းကို ခံရ၍ ကျဆုံးသွားရရှာသော မိုင်းပွန်စော်ဘွားကြီး စဝ်စံထွန်းကား ရှမ်းပြည်တောင်ပိုင်း မိုင်းပွန်မြို့၌ အဖ စော်ဘွားကြီး စဝ်ခွန်ထီး၊ အမိ နန်းစိန်ဥတို့မှ သက္ကရာဇ် ၁၂၆၉ ခုနှစ်၊ နယုန်လပြည့်ကျော် ၅ ရက် သောကြာနေ့ ညနေ ၃ ချက်တီးကျော် အချိန်တွင် ဖွားမြင်သည်။ ငယ်မည် စဝ်သာထွန်းဖြစ်သည်။

စဝ်စံထွန်း ၅ နှစ်အရွယ်တွင် တရားမစာရေးကြီး ဦးစံဖေ ထံ၌ မြန်မာ အင်္ဂလိပ်စာပေအခြေခံကို ၂ နှစ်သင်ယူပြီးလျှင် တောင်ကြီးမြို့၊ ရှမ်း စော်ဘွားသားများ အထက်တန်း ကျောင်းတွင် ဆက်လက်သင်ကြားရာ ထိုကျောင်းမှ ဒသမ ဆင့် အောင်မြင်သည်။ ထိုမှတဆင့် မိတ္ထီလာမြို့၊ စက်ရှင်တရားသူကြီး ဦးကျောက်တိုင်ရုံးတွင် ၆ လ အလုပ်သင်သည်။ တဖန် မန္တလေးမြို့ ရဲအုပ်သင်တန်းကျောင်း၌ ၆ လတက်၍ ဗန်းမော်မြို့တွင် အလုပ်သင်ဝန်ထောက်အဖြစ် ခေတ္တဆောင်ရွက်သည်။ ထိုမှတဖန် တောင်ကြီးမြို့၊ ရှမ်းပြည်မင်းကြီးရုံးတွင် ခေတ္တ အလုပ်လုပ်၍ ၁၂၉၀ ပြည့်နှစ် ဝါဆိုလဆန်း ၁၁ ရက်နေ့တွင် အခမ်းအနားဖြင့် စော်ဘွားရာထူးကို ဆက်ခံရသည်မှ မိုင်းပွန်စော်ဘွား ဟူ၍ အမည်တွင်တော့သည်။

မိုင်းပွန်စော်ဘွား စဝ်စံထွန်းသည် ၁၂၉၄ ခုနှစ် တန်ဆောင်မုန်း လဆန်း ၁၄ ရက်နေ့တွင် မိုးမိတ်မြို့၌စော်ဘွားကြီး၏သမီး စဝ်ခင်သောင်း (နိုင်ငံခြားရေးဝန်ကြီးဟောင်းနှင့် ရှမ်းပြည်နယ် ဥက္ကဋ္ဌဝန်ကြီးဟောင်း စဝ်ခွန်ချို၏ နှမ) နှင့် ထိမ်းမြားရာ သားသမီး ၄ ယောက်ထွန်းကားခဲ့၏။ စဝ်ခင်သောင်းမှာ ဂျပန်အပြေးတွင် မိုင်းပွန်၌ ကွယ်လွန် အနိစ္စ ရောက်သည်။

မိုင်းပွန် စော်ဘွားသည် ကျန်းမာရေးကို အထူးလိုက်စားသည့်အလျောက် တင်းနစ်၊ ဟော်ကီ၊ ခရစ်ကက်၊ ပိုလိုများကို ကစားတတ်သည့်ပြင် ဘောလုံးကစားခြင်း၌ ဂိုးစောင့်နှင့် လက်ဝဲ ဝင်းအဖြစ် နာမည်ကြီးခဲ့သည်။ စာပေများကိုအလွန် လိုက်စားသည့်ပြင် ဂီတတွင်လည်း ဝါသနာပါ၍ လေ့လာလိုက်စားသည်။ အယူဝါဒရေး၌လည်း အလွန် ကိုင်းရှိုင်းသည်။ အရက်သေစာ၊ ဆေးလိပ် လုံးဝ မသောက်တတ်၊ ကွမ်းလည်း မစားတတ်ပေ။ ပေါင်းသင်း ဆက်ဆံရေးတွင်လည်း အလွန်ပြေပြေပြစ်ပြစ် ရှိသည်။

ဒုတိယ ကမ္ဘာစစ်ပြီးသည့်ကာလ၊ ကမ္ဘာ့အခြေအနေ၊ မြန်မာ့အခြေအနေ၊ တောင်တန်း ဒေသ၏ အခြေအနေကို ကွက်ကွက်ကျော်မြင်သဖြင့် နိုင်ငံရေး စာအုပ်များလေ့လာခဲ့သည့် မိုင်းပွန်စော်ဘွားသည် လွတ်လပ်ရေးအတွက် လုံးပန်းလျက်ရှိသော ဗိုလ်ချုပ်အောင်ဆန်းနှင့် ရင်းနှီးစွာ ပေါင်းဖက်မိကာ တောင်တန်း မြန်မာညီညွတ်ရေးနှင့် ပူးပေါင်းမှုကို ခရစ် ၁၉၄၆ ခုနှစ် နိုဝင်ဘာလမှစ၍ အစွမ်းကုန် ကြိုးစားတော့၏။

တောင်တန်း ဒေသနှင့် မြေပြန့်ဟူ၍ ပိုင်းခြားပြီးလျှင် သွေးခွဲစံနစ်ဖြင့် မြန်မာနိုင်ငံအား အုပ်စိုးခဲ့သော နယ်ချဲ့သမားများသည် တောင်တန်း မြန်မာ မပူးပေါင်းမိရန် မည်သို့ပင် အစွမ်းကုန် ခြေထိုး၍ ကြိုးစားကြသော်လည်း ခေါင်းဆောင်ကြီးများ၏ ကြိုးပမ်းမှုကြောင့် ၁၉၄၇ ခုနှစ် ဖေဖွာရီလ ၁၂ ရက်နေ့တွင် တောင်တန်း မြန်မာ ပူးပေါင်းသည့် ပင်လုံစာချုပ်ကို အောင်မြင်စွာ လက်မှတ် ရေးထိုးနိုင်ခဲ့ကြသည်။ (ပင်လုံညီလာခံ — လည်းရှု။) ထိုနောက် ၁၉၄၇



မိုင်းပွန်စော်ဘွားကြီး စဝ်စံထွန်း

ခုနှစ် မတ်လ ၂၆ ရက်နေ့မှစ၍ လွတ်လပ်ရေး အမြန်ရနိုင်ရန် တောင်တန်းဒေသ အတိုင်ပင်ခံ ဝန်ကြီးတာဝန်ကို လက်ခံ ဆောင်ရွက်ခဲ့လေသည်။သို့သော် မြန်မာသက္ကရာဇ် ၁၃၀၉ ခုနှစ် ဝါခေါင်လဆန်း ၂ ရက်(၁၉၄၇ ခုနှစ် ဇူလိုင်လ ၁၉ ရက်) စနေနေ့သည်ကား မြန်မာ ပြည်သူပြည်သားများအဖို့ ဝမ်းနည်းမဆုံး ယူကြုံးမရ ဖြစ်စေခဲ့သောနေ့၊ အဖိုးတန် သားကောင်းရတနာများ ဆုံးရှုံးခဲ့ရသော အမင်္ဂလာနေ့ကြီးပင် တည်း။ ထိုနေ့နံနက် ၁၀ နာရီ ၃၅ မိနစ်အချိန်၌ မိုင်းပွန်စော်ဘွား စဝ်စံထွန်းသည် အသက် ၄၁ နှစ် အဝင်တွင် ဗိုလ်ချုပ် အောင်ဆန်းနှင့် တကွ ရှေ့တန်း အမျိုးသားခေါင်းဆောင်ကြီးများနှင့် အတူ ရန်ကုန်မြို့ အတွင်းဝန်များ ရုံးခန်းမ၌ လွတ်လပ်ရေးလုပ်ငန်းရေးရာများကို စည်းဝေး တိုင်ပင် နေစဉ် မသမာလူတစုတို့၏ လုပ်ကြံမှုကြောင့် ကျဆုံး သွားလေသည်။

အလောင်းကို ဗိုလ်ချုပ် အောင်ဆန်းတို့နှင့်အတူ ရန်ကုန်မြို့၌ ထားရှိပြီးနောက် ရှမ်းပြည် မိုင်းပွန်မြို့သို့ ယူဆောင် သွားလျက် ၁၃၁၀ ပြည့်နှစ် ကဆုန်လဆန်း ၁ ရက်နေ့တွင် ဒေသအလိုက် ထုံးတမ်းစဉ်လာအရ အခမ်းအနားဖြင့် ဖုတ်ကြည်းသင်္ဂြိုဟ်ပြီးလျှင် အရိုးပြာတဝက်ကို ရန်ကုန်မြို့အာဇာနည်ကုန်းသို့ပို့၍ တဝက်ကိုကား မိုင်းပွန်မြို့တောင်ဖက်ကုန်းတွင် အာဇာနည်ဗိမာန် ပြာသာဒ် တည်ဆောက်၍ ထားရှိလေသည်။

**မိုင်းပွန်နယ်။** ။မိုင်းပွန်နယ်သည် ရှမ်းပြည်နယ် တောင်ပိုင်းအရှေ့ဖက်တွင် တည်ရှိသည်။ မိုင်းပွန်နယ်သည် နယ်နိမိတ်အားဖြင့် မြောက်ဖက်တွင် လဲချားနယ်၊ အရှေ့ဖက်တွင် မိုးနဲနှင့် မောက်မယ်နယ်များ၊ တောင်ဖက်တွင် သထုံနှင့် ဘန်းယဉ်နယ်၊ အနောက်ဖက်တွင် ညောင်ရွှေနယ်၊ အနောက်မြောက်ဖက်တွင် ဟိုပုံးနယ်တို့ဖြင့် ပတ်ရံလျက် ရှိသည်။ အကျယ်အဝန်းအားဖြင့် ၃၆၆ စတုရန်းမိုင်၊ ကျေးရွာပေါင်း ၂၂၆ ရွာနှင့် ၁၉၅၆ ခုနှစ်တွင် ခန့်မှန်းခြေအားဖြင့် လူဦးရေ ၁၄၃,၇၅၉ ယောက် ရှိသည်။ မြို့တော်ဖြစ်သော မိုင်းပွန်မြို့သည် နယ်၏ မြောက်ဖက်၊ နမ့်ပွန်မြစ်၏ လက်ဝဲဖက်ကမ်းပေါ်တွင် တည်ရှိသည်။

မိုင်းပွန်နယ်သည် ကမ်း ၂ ဖက်လုံးတွင် တောင်များဖြင့် ဖီလာ သန်းနေသော နမ့်ပွန်မြစ်ဝှမ်းကျဉ်းဖြင့် ဖွဲ့စည်းထားသည်။ တောင်များပေါ်တွင် သစ်တောများအုပ်ဆိုင်းလျက် ရှိသည်။ တောင်များမှ ခနောက်စိမ်းနှင့် ခဲအနည်းအပါး ရရှိသည်။ အချို့ နေရာများတွင် ထင်းရှူးပင်များလည်း ရှိသည်။ ထို့ကြောင့် မိုင်းပွန်နယ်သည် ထင်းအခက်အခဲ မတွေ့ရပေ။ မြစ်ချိုင့်ဝှမ်းတွင် ဆန်စပါးစိုက်ပျိုးသည်။ ရေမောင်းများဖြင့် ရေအား သွယ်ယူသည်။ နမ့်ပွန်မြစ် တလျှောက်တွင် ရေမောင်း ၅၀ ထက်မနည်း ရှိသည်။ တောင်ယာ စိုက်ပျိုးသော မြေမှာ မြေနိမ့် မြေပြန့်တွင် စိုက်ပျိုးသည်ထက် အတန်ငယ် နည်းသော်လည်း စပါးထွက်ရာ၌ ညီတူ၊ တခါတရံ ပို၍ပင်ထွက်သည်။ သို့ဘိုင်အောင် များသောအားဖြင့် နယ်တွင်းစားသုံးရန်အတွက် မလောက်ငပေ။ မိုင်းစိတ်မှ ဝယ်ယူရသည်။ ဝါဂွမ်း အနည်းငယ် စိုက်ပျိုးသည်။ နယ်၏ တောင်ဖက်တွင် ကြံများ စိုက်ပျိုးသည်။ တောင်များပေါ်တွင် မျိုးကောင်း သနပ်ဖက်စိုက်ပျိုးသည်။ လွယ်တွန်တွင် ရှေးအခါက မဲနည် စိုက်ပျိုးခဲ့သည်။ ယခုသော် မတွင်ကျယ်၍ စိုက်ပျိုးခြင်း မပြုတော့ပေ။ ရွာတိုင်း၌လိုပင် ရက်ကန်းစင်များ ရှိသည်။ ကြံ စိုက်ပျိုးသော အရပ်ဒေသများတွင် ကြံသကာ ပြုလုပ်သည်။ သို့သော် မည်သည့်လုပ်ငန်းမျှ ဖြစ်ဖြစ်မြောက်မြောက် မရှိလှပေ။

မိုင်းပွန်နယ်သည် ဘေး ၂ ဖက်တွင် တောင်များဖြင့် ညှပ်လျက် ရှိသော်လည်း လမ်းပန်း ဆက်သွယ်ရေးအားဖြင့်ကား အခက်အခဲ မရှိပေ။ နယ်၏ မြောက်ဖက်တွင် တည်ရှိသော မိုင်းပွန်မြို့သည် ကျိုင်းတုံမှသည် မြန်မာပြည်မသို့ ပေါက်သော ကားလမ်းပေါ်တွင် တည်ရှိသည်။ နမ့်ပွန်ချောင်းပေါ်တွင် ဆောက်လုပ်ထားသော တန်တားသည်

ကျိုင်းတုံမြို့မှ ပေါက်လာသော လမ်းကို မြန်မာပြည်မမှ လမ်းနှင့် ဆက်သွယ်ပေးသည်။

မိုင်းပွန်နယ်တွင် ပအိုးတောင်သူ အများအပြား နေထိုင်သည်။ ရှမ်းတို့သည် ချိုင့်ဝှမ်းရှိ ရွာများတွင် နေထိုင်ကြ၍ မြန်မာတို့မှာမူ မိုင်းပွန်မြို့တွင်သာ အနေများသည်။

မိုင်းပွန်နယ်မှာ ရှေးအခါက တစိတ်တဒေသအားဖြင့် ညောင်ရွှေနယ်၊ တစိတ်တဒေသအားဖြင့် မိုးနဲနယ်တို့တွင် အကျုံးဝင်ခဲ့ပေသည်။ နမ့်ပွန်ချောင်းသည် ယင်းနယ် ၂ ခုကို ပိုင်းခြား သတ်မှတ်ခဲ့သည်။ သက္ကရာဇ် ၁၁၇၇ ခုနှစ် (ခရစ် ၁၈၁၆ ခုနှစ်) တွင် မြို့စား အုပ်ချုပ်သော သီးခြားနယ် ဖြစ်လာသည်။ သက္ကရာဇ် ၁၂၁၆ (ခရစ် ၁၈၅၄) ခုနှစ်တွင် မိုင်းပွန်နယ်သည် မိုးနဲနယ် လက်အောက်သို့ ရောက်ရှိသွားသည်။ မြို့စားကို ခန့်ထားမြဲခန့်ထား၏။ သို့သော် မိုးနဲလက်အောက်ခံ ဖြစ်၏။ မိုင်းပွန်စော်ဘွား စဝ်ခွန်လိပ်လက်ထက်သို့ရောက်သောအခါ စစ်ဖြစ်ရာ စဝ်ခွန်လိပ်သည် မိုင်းပွန်မြို့နှင့် ၃ မိုင်ခန့်ကွာဝေးသော နောင်ချိုကန်အနီးတွင် ကျဆုံးသည်။ ထိုအခါ စဝ်ခွန်လိပ်၏မဟာဒေဝီသည် ကိုယ်ဝန်နှင့် မိုင်းပွန်မှ မိုးနဲသို့ ရှောင်တိမ်းနေရလေသည်။ မြန်မာသက္ကရာဇ် ၁၂၂၄ ခုနှစ်တွင် မဟာဒေဝီသည် စဝ်ခွန်ထီး အမည်ရ သားတယောက်ကို မိုးနဲတွင်ဖွားမြင်သည်။ စဝ်ခွန်ထီး ၇ နှစ်အရွယ်ရောက်လတ်သော် မင်းတုန်းမင်းတရားက ကောက်ယူမွေးသည်။ တတ်သင့်တတ်အပ်သော ပညာရပ်များကို နေပြည်တော်ရောက် အခြား ရှမ်းမင်းသားများနှင့်အတူ စဝ်ခွန်ထီးက သင်ရလေသည်။ စဝ်ခွန်ထီးသည် စစ်ရေးစစ်ရာ ပညာဖက်တွင် နေပြည်တော်ရောက် အခြား ရှမ်းမင်းသားများထက် ထူးချွန်လေသည်။ မြန်မာသက္ကရာဇ် ၁၂၃၇ ခုနှစ်တွင် မင်းတုန်းမင်းတရားကြီးက စဝ်ခွန်ထီးကို မိုင်ပွန်စော်ဘွား ရာထူးသို့ တိုးမြှင့်ခန့်အပ်သည်။ ၁၂၅၀ ပြည့်နှစ်တွင် အင်္ဂလိပ်ဘုရင်ခံက စဝ်ခွန်ထီးကို မိုင်းပွန်စော်ဘွားအဖြစ် ဆက်လက်အသိအမှတ်ပြုခဲ့လေသည်။

စဝ်ခွန်ထီး၏သား မိုင်းပွန်စော်ဘွား စဝ်စံထွန်းသည်ကား စစ်ပြီးခေတ်တွင် ဗိုလ်ချုပ်အောင်ဆန်းတို့နှင့်အတူ လူမသမာတို့ လက်တွင် ကျဆုံးရသော မိုင်းပွန် စော်ဘွားကြီးပင် ဖြစ်၏။ (မိုင်းပွန်စော်ဘွား — ရှု။)

မိုင်းပွန်မြို့သည် ပွန်ချောင်းကို အစွဲပြု၍ တွင်သောမြို့ဖြစ်သည်။ မိုင်းဟူသည် ရွာစု၊ သို့မဟုတ် မြို့ဟု အဓိပ္ပါယ်ရ၍ ပွန်မှာ ပွန်ချောင်းကို ဆိုလိုသည်။ ရှေးဟုံ အလောင်းစည်သူ မင်းတရားကြီး တိုင်းခန်းလှည့်လာစဉ် ပုဏ္ဏရာဝတီချောင်းကို လွန်မြောက်ချိန်တွင် ရွှေဟင်္သာ ၂ ကောင်ကို တွေ့သဖြင့် ဘုရားတည်၏။ မိုင်းပွန်မြို့အဝင် ပေလမ်တောင်ဖက်တွင် ရွှေဟင်္သာဘုရားကို ယခုတိုင် တွေ့မြင်နိုင်ပေသည်။ ပုဏ္ဏရဝတီချောင်းကို ထိုအချိန်မှစ၍ ပွန်ချောင်းဟု ခေါ်ကာ ပုဏ္ဏရဝတီမြို့ကိုလည်း မိုင်းပွန်မြို့ဟု ပြောင်းလဲ ခေါ်ဝေါ်သည် ဟုလည်းဆိုသည်။

စော်ဘွားများ အုပ်ချုပ်ရေးအာဏာ စွန့်လွှတ်ပြီးနောက် ရှမ်းပြည်တွင် ပြည်မကဲ့သို့ အုပ်ချုပ်ရေးစနစ်ကို တီထွင်လိုက်သည့်အခါ မိုင်းပွန်နယ်သည် ရှမ်းပြည်တောင်ပိုင်းတိုင်းတောင်ကြီးခရိုင်တွင်ပါဝင်သည့် နယ်တခုဖြစ်လာသည်။

**မိုင်းဖုံး။** ။အမြောက်ဆံများ ပစ်ထုတ်ရန်မှတပါး ယမ်း၊ ယမ်းဘီလူး စသော ပေါက်ကွဲစရာပစ္စည်းများကို ရှေးအခါက အသုံးပြုခဲ့ပုံ တမျိုးမှာ ရန်သူ၏ခံတပ်များကို ဖြိုဖျက်ပစ်ရန်ဖြစ်သည်။ ဤသို့ဖြိုဖျက်ပစ်ရာ၌ ပဌမ မြေအောက်မှ ခံတပ်အထိ မြောင်းတူးဖောက်၍ သွားရသည်။ ရန်သူ၏ ခံတပ်အောက်တည့်တည့် ရှိရာသို့ ရောက်သောအခါ ယမ်းကို စုပုံထားခဲ့ပြီးလျှင် အဝေးမှနေ၍ စနက်တံဖြင့် ဖောက်ခွဲပစ်လေသည်။ မြေအောက်၌ တူး၍ ဤသို့ တနေရာရာတွင် ချထားသော ပေါက်ကွဲနိုင်သည့် ပစ္စည်းကို မိုင်းဖုံးဟုခေါ်လေသည်။

ပဌမ ကမ္ဘာစစ်အတွင်းက လူတို့သည် မြေကတုတ်များနှင့် ခံတပ်များကို အခိုင်အမာ ပြုလုပ်ပြီးလျှင် တိုက်ခိုက်ခဲ့ကြသဖြင့် ရှေးခေတ်က အသုံးပြုခဲ့ကြသော မိုင်းဖုံးမျိုးကို အသုံးပြုခဲ့ကြသည်။ ထိုသို့ အသုံးပြုရာတွင် မြေအောက် ဥမင်များကို တခမ်းတနား တူးဖော်ခဲ့ကြရသဖြင့် မိုင်းဖုံးဖြင့် ဖောက်ခွဲရန် ကြံစည်သည့် အချိန်ကစ၍ ဖုံးမြှုပ်ပြီး ဖောက်ခွဲသည့် အချိန်အထိ တခါတရံ လပေါင်းများစွာပင် ကြာတတ်လေသည်။

ဒုတိယ ကမ္ဘာစစ်တွင် သယ်ယူပို့ဆောင်ရေး လျင်မြန်မှုကြောင့် တကြောင်း၊ တင့်ကားများ လျင်မြန်စွာ လှုပ်ရှားသွားလာနိုင်မှုကြောင့် တကြောင်း ဥမင်များကို တခမ်းတနား ဖောက်လုပ်ရန် အချိန်မရချေ။ ထိုကြောင့် မြေတွင်မြှုပ်၍ အသုံးပြုရသော မိုင်းဖုံးများကို အသုံးပြုလာခဲ့ကြသည်။ ဤမိုင်းဖုံးမျိုးမှာ ပန်းကန်ပြားလောက်သာရှိ၍ စက်တမျိုးဖြင့် တပ်ဆင်ထားသည်။ အကယ်၍ မိုင်းဖုံးမြှုပ်ထားရာ နေရာ၌ ဖိအားသက်ရောက်လာသောအခါ စက်သည် အလိုအလျောက် လည်လာပြီးလျှင် မိုင်းဖုံးသည်လည်း ပေါက်ကွဲသွားလေသည်။ မြေအောက် ၁ ပေ၊ သို့မဟုတ် ၂ ပေခန့် အနက်တွင် မြှုပ်ထားလျှင် လူများကို သေစေနိုင်သည့်အပြင် လော်ရီကဲ့သို့ ယာဉ်များကို ပျက်စီးစေနိုင်သဖြင့် ချီတက်လာသော စစ်တပ်အား နှောင့်နှေးစေနိုင်သည်။ မိုင်းဖုံးများကို မြှုပ်ထားသော နေရာမှ ဖယ်ရှားပစ်ရန်အတွက် သတ္တိရှိ၍ ကျင့်သားရပြီးသော တပ်ဖိတ် ကို အသုံးပြုရသည်။ သူတို့သည် နေရာအနှံ့အပြားသို့ မိုင်းဖုံးများ မြှုပ်ထား မထားကို သိနိုင်သော လျှပ်စစ်ကရိယာများ

ကိုင်ဆောင်လျက် သွားကြရသည်။ ဤနည်းဖြင့် မိုင်းဗုံးမြှုပ်ထားသည့်နေရာကို တွေ့ရှိသောအခါ ထိုမိုင်းဗုံးများကို ဖော်ထုတ်ပစ်လိုက်ကြသည်။

ရေမြှုပ် မိုင်းဗုံးများကို ခရစ် ၁၇၇၇ ခုနှစ်တွင် အနဲ့တွပ်မြို့ကို တိုက်ခိုက်ခဲ့စဉ်ကပင် စတင် အသုံးပြုခဲ့ကြသည်။ အသုံးပြုခဲ့သူများမှာ ဒပ်ချလူမျိုးများဖြစ်ကြ၍ သူတို့သည် ရေမြှုပ်ဗုံးကို နာရီစက်ဖြင့် ဖောက်ခွဲယူကြသည်။ သဘော်နှင့် ထိပြီး ပေါက်ကွဲစေသည့် ဗုံးကို ပဌမဆုံး အသုံးပြုသူမှာ အမေရိကန် လူမျိုး ဒေးဗစ် ဗွတ်ရှနဲ ဆိုသူ ဖြစ်သည်။ ထိုဗုံးမျိုးကို အမေရိကန် လွတ်လပ်ရေး စစ်ပွဲတွင် စတင်အသုံးပြုခဲ့ရာ ယခုတိုင်အောင် ရေတပ်စစ်ပွဲများတွင် ခေတ်စားလျက် ရှိသည်။

ယခုခေတ်တွင် အသုံးပြုသည့် ရေမြှုပ် မိုင်းဗုံးမှာ သံမဏိအလုံးဖြစ်၍ အထဲတွင် ပေါက်ကွဲစေသည့် ပစ္စည်း ထည့်ထားသည်။ ထိုဗုံးကို ဝိုင်ယာကြိုးဖြင့် ဆွဲ၍ အလေးတခုဖြင့် ကျောက်ချထားသည်။ မိုင်းဗုံးတွင် တစုံတခုနှင့် တိုက်မိသောအခါ ပေါက်ကွဲသွားစေရန် အတွင်းမှ ဦးချိုကဲ့သို့ အတက်ငယ်များ အဖက်ဖက်သို့ ထိုးထွက်လျက် ရှိသည်။ ဤဦးချိုများကို ပျော့ပျောင်းသော ခဲဖြင့် ပြုလုပ်ထား၍ အထဲတွင် အက်ဆစ်ပုလင်းများ ပါရှိသည်။ သင်္ဘောသည် မိုင်းဗုံးနှင့် တိုက်မိသောအခါ အပြင်သို့ ထိုးထွက်လျက် ရှိသည့် ဦးချိုများအနက် တခုခုသည် ကောက်ကွေးသွားသည်။ ထိုအခါ အတွင်းမှ အက်ဆစ်ပုလင်း ကွဲသွား၍ အက်ဆစ်သည် ဗက်ထရီတွင် ဓာတ်လိုက်ဖြစ်လာသည်။ ဓာတ်လိုက်ရည် ဖြစ်လာသည်နှင့် အားအနည်းငယ်ရှိသော လျှပ်စစ်ဓာတ်သည် ယမ်းဘီလူးကို ပေါက်ကွဲစေလေသည်။

ဒုတိယ ကမ္ဘာစစ်ကြီးတွင် လူတို့သည် တိုက်မိမှ ပေါက်ကွဲသည့် မိုင်းဗုံးများအစား ရေအောက်မြေပေါ်တွင် ချထားရသည့် မိုင်းဗုံးမျိုးကို အသုံးများလာကြသည်။ ဤဗုံးမျိုးချထားရာ နေရာ အပေါ်မှ သင်္ဘောဖြတ်သွားသည့်အခါ သံလိုက်ကြောင့် ဖြစ်စေ၊ အသံမြည်မှုကြောင့် ဖြစ်စေ ဗုံးပေါက်ကွဲခြင်းကို ဖြစ်စေသည့် လျှပ်စစ်ခလုတ်ကို ဆက်သွယ်မိစေသည်။ သံလိုက် မိုင်းဗုံးများတွင် အိမ်မြှောင်တံကဲ့သို့ သံလိုက်ကို အလွန်ကြိုက်သည့် လက်တံ ပါရှိသည်။ ထိုလက်တံသည် အထက်မှ သင်္ဘော ဖြတ်သန်းသွားသည့်အခါ လှုပ်ရှားသွား၍ လျှပ်စစ်ခလုတ်ကို ဆက်သွယ်မိစေကာ ပေါက်ကွဲမှု ဖြစ်ပေါ်စေသည်။ အသံမြည်မှု အပေါ်၌ တည်သည့် မိုင်းဗုံးများတွင် မိုက္ကရိုဖုန်းစက် တပ်ဆင်ထားသည်။ မိုင်းဗုံး အပေါ်တည့်တည့်သို့ သင်္ဘောရောက်လာသောအခါ သင်္ဘောမှ အသံကြောင့် ဤစက်သည် လည်၍ မိုင်းဗုံးကို ပေါက်ကွဲစေလေသည်။

ပင်လယ် မိုင်းဗုံးများကို မိုင်းဗုံးရှင်း သင်္ဘောများဖြင့် ဖယ်ရှားပစ်ရသည်။ ထိုသို့ ရှင်းပစ်ရာတွင် ခွေးသွားစိတ်အနားများ ဖော်ထားသည့် ရေအောက် ကြေးနန်းကြိုးတွင် တဖက်မှ အော့ရိုပီဆာ ဟု ခေါ်သည့် ဘောတပ်၍ သင်္ဘောဖြင့် ကြိုးကို ဆွဲယူသည်။ ခွေးသွားစိတ် အနားရှိသော ကြိုးသည် မိုင်းဗုံးကြိုးကို စားသဖြင့် မိုင်းဗုံးကြိုး ပြတ်သွားတော့၏။ ထိုအခါ မိုင်းဗုံးသည် ရေပေါ်သို့ ပေါ်လာ၍ ထိုသို့ ပေါ်လာသော မိုင်းဗုံးကို မြှုပ်၍ဖြစ်စေ၊ သေနတ်ဖြင့် ဖောက်ခွဲ၍ ဖြစ်စေ သုတ်သင် ရှင်းလင်းပစ်ကြသည်။

သံလိုက် မိုင်းဗုံးများကိုမူကား ရေအောက်မြေပေါ်တွင်ပင် ဖောက်ခွဲပစ်လေ့ ရှိသည်။ ထိုသို့ ဖောက်ခွဲပစ်ရာတွင် သင်္ဘော၏ ပဲ့ပိုင်းမှ ကြိုးတကြိုးကို ဆွဲယူ၍ ထိုကြိုးတွင် အလွန် အားကောင်းသော လျှပ်စစ်ဓာတ်စီးကို ဖြတ်သွားစေသည်။ ထိုသို့ လျှပ်စစ်ဓာတ်စီးရာ၌ ဖြစ်ပေါ်လာသော သံလိုက်သည် မိုင်းဗုံးကို ပေါက်ကွဲသွားစေသည်။ သင်္ဘောကိုမူကား သံလိုက် မိုင်းဗုံးကြောင့် ပေါက်ကွဲ ပျက်စီးခြင်း မရှိရအောင် တမျိုးတဖုံ စီမံ ပြုလုပ်ထားရသည်။ သင်္ဘောပတ်လည်၌ ရေအောက် ကြေးနန်းကြိုးကဲ့သို့ ကြိုးကို အခွေဖြစ်အောင် ပတ်ပတ်လည် ပတ်ပေး၍ ထိုအခွေတွင် သေချာစွာ တိုင်းတာထားသည့် လျှပ်စစ် ဓာတ်စီးကို ဖြတ်သန်းသွားစေသည်။ ဤသို့ လျှပ်စစ်ဓာတ် လွှတ်ပေးထားသောအခါ သင်္ဘောသည် မိုင်းဗုံးတည့်တည့်သို့ ရောက်ရှိလာသော်လည်း မိုင်းဗုံးတွင် တပ်ဆင်ထားသည့် လက်တံငယ် လှုပ်ရှားသွားခြင်း မရှိပေ။ အသံကြောင့် ပေါက်ကွဲတတ်သည့် မိုင်းဗုံးမျိုးမှ ကာကွယ်နည်း တနည်းတည်းရှိရာ ထိုနည်းမှာ သင်္ဘော မရောက်မီ ရေအောက်တွင် အသံမြည်အောင် ပြုလုပ်ပြီးလျှင် မိုင်းဗုံးကို ဖောက်ခွဲပစ်သည့်နည်း ဖြစ်သည်။

ရေအောက် မြေပြင်ပေါ်တွင် ချပေးသော မိုင်းဗုံးများကို လေထီးများဖြင့် လေယာဉ်ပျံမှဖြစ်စေ၊ သို့မဟုတ် ရေမြှုပ်မိုင်းဗုံးများ ချပေးသော သင်္ဘောဖြင့်ဖြစ်စေ ဖြန့်ပေးလေ့ ရှိသည်။ ဒုတိယ ကမ္ဘာစစ်အတွင်းက မြေပြင်သုံး မိုင်းဗုံးများကို လေယာဉ်ပျံပေါ်မှ ချပေးခဲ့ကြသည်။ ဤမိုင်းဗုံးများသည် တစုံတခုနှင့် တိုက်ခိုက်မိသောအခါ သာမန်ဗုံးများကဲ့သို့ပင် ပေါက်ကွဲနိုင်သော သတ္တိရှိသည်။

**မိုင်းရယ်မြို့။** ။မိုင်းရယ်မြို့သည် ရှမ်းပြည်နယ် မြောက်ပိုင်း၊ တောင်သိန္နီနယ် (မိုင်းရယ်နယ်)၏ ရုံးစိုက်မြို့ ဖြစ်ခဲ့၍ ပင်လယ်ပြင်အထက် အမြင့်ပေပေါင်း ၂,၇၅၀၊ နမ့်ချယ်မြစ်ပေါ်တွင် တည်ရှိသည်။ တောင်သိန္နီနယ်သည် အကျယ်အဝန်းအားဖြင့် ၂,၃၅၁ စတုရန်းမိုင်ရှိ၍ လူဦးရေမှာ ၁၉၅၉ ခုနှစ်တွင် ခန့်မှန်းခြေအားဖြင့် ၅၇,၇၅၆ ယောက် ရှိသည်။ ၁၉၅၉ ခုနှစ်တွင် စော်ဘွားများ အုပ်ချုပ်ခရေးအာဏာ စွန့်

လွတ်ပြီးနောက် ရှမ်းပြည်တွင် ပြည်မကဲ့သို့ အုပ်ချုပ်ရေး စံနစ်ကို တီထွင်လိုက်သည့်အခါ မိုင်းရယ်မြို့သည် ရှမ်းပြည် မြောက်ပိုင်းဘိုင်း၊ လားရှိုးခရိုင်တွင် ပါဝင်သည့် တောင် သိန္နီနယ်၏ နယ်ပိုင်ရုံးစိုက်မြို့ ဖြစ်လာလေသည်။ မိုင်းရယ် တွင် နယ်ပိုင်ဝန်ထောက်ရုံး၊ မြို့ပိုင်ရုံး၊ အထူးအုပ်ချုပ်ရေး အရာရှိရုံး၊ အမတ်ချုပ်ရုံး စသည်တို့ ရှိသည်။ မူလတန်း ကျောင်းများ၊ ဆေးပေးရုံ၊ သားဖွားရုံ စသည်တို့လည်း ရှိသည်။

မိုင်းရယ်မြို့ အနီးတွင် လွယ်လင်၊ လွယ်ဖလိုမ်း၊ လွယ်စန်၊ မိုင်းဟိန်း၊ လွယ်မော်စသည့် တောင်များ သွယ်တန်းတည် ရှိသည်။ ထို့ကြောင့် မြို့၏ ဘေးပတ်လည်သည် သဘာဝ ရှုခင်း သာယာလှပေသည်။ တောင်ပေါ် စခန်းများသို့သွား ရောက်ပါလျှင် စိမ့်စမ်း ရေတံခွန်များကို တွေ့ရပေမည်။

မိုင်းရယ်မြို့တွင် နေထိုင်သူ အများစုသည် တောင်ယာ လယ်ယာ လုပ်ကိုင်ခြင်းဖြင့် အသက်မွေးကြသည်။ အဓိက အားဖြင့် ခြံမြေများကို ပြုစု၍ ကောက်ပဲသီးနှံ ဟင်းသီး ဟင်းရွက်များ စိုက်ပျိုးသည်။ လယ်ယာ ခြံမြေမှ ထွက် သော ဆန်စပါး ကောက်ပဲသီးနှံတို့ကို မြို့တွင်းဈေး၌ ရောင်း ချသည်။ လမ်းပန်း ဆက်သွယ်ရေးအားဖြင့် မိုင်းရယ်မြို့မှ လားရှိုးမြို့၊ သီပေါ၊ တန့်ယန်း၊ ကျေးသီး မံစံ အစရှိသော မြို့ များသို့ မော်တော်ကားလမ်း ပေါက်သည်။ ထိုလမ်းများ သည် ကတ္တရာလမ်းတပိုင်း ကျောက်ခဲလမ်း တပိုင်းဖြစ်သည်။ တရွာမှ တရွာသို့ သွားလာရာ၌မူကား တောကြိုတောကြား ဖြစ်သည့် အလျောက် လှည်းလမ်းနှင့် လူသွားလမ်းကြမ်း များမှ သွားလာကြသည်။

မိုင်းရယ်မြို့တွင် ရှိသော ထင်ရှားသည့် ဘုရားစေတီတို့မှာ မဟာဗောဓိစေတီ၊ နောင်ဟောက်စေတီ၊ မဟာမြတ်မုနိ ရုပ်ပွား စေတီများ ဖြစ်၏။ ရှေးခေတ် ကာလကတည်းက တည်ရှိသော မန်ပုံရွာတွင် စေတီတဆူ ရှိပေသေးရာ၊ နှစ် စဉ် တပေါင်းလ၌ ဘုရားပွဲတော် ကျင်းပသည်။ တောင် ပေါ် မိုင်းဟိန်းတွင် မြတ်စွာဘုရား၏လက်ျာ၊ လက်ဝဲ ခြေ တော်ရာများရှိသည့်ပြင် ထင်ရှားသော စေတီတဆူလည်း ရှိပေသေးသည်။

ယခုအခါ မိုင်းရယ်မြို့တွင် အနုပညာ လက်ရာဆန်းတခု အနေဖြင့် ထူးဆန်း၍ ကျက်သရေရှိစွာ အလုပ်ပန်းရေးခြယ် ပြုလုပ်ထားသော ငွေဆေးတံရှည်များကို ပြုလုပ် ရောင်းချ သည်။ တခုလျှင် ၂၅ဝ ကျပ် တန်ဖိုးရှိသည်။ ထို့ပြင် ငွေ ဓားလွယ်ရှည်များကိုလည်း ပြုလုပ်ရောင်းချသည်။

မိုင်းရယ်မြို့ကို မည်သည့်အချိန်က စတင် တည်ထောင် ခဲ့ကြောင်း အတိအကျမသိရပေ။ သို့သော် သက္ကရာဇ် ၁၁၇ ခုနှစ်တွင် သိန္နီစော်ဘွားကြီး၏ ကိုယ်စား နယ်ပိုင်က မိုင်း ရယ်မြို့ကို အုပ်ချုပ်ခဲ့ကြောင်း အထောက်အထား တွေ့ရ သည်။ သက္ကရာဇ် ၁၂၄၉ ခုနှစ်အထိ စော်ဘွားကြီး စဝ်နော် မိုင်းနှင့် စော်ဘွားကြီး စဝ်တုန်ဟုန်းတို့၏ လက်ထက်တိုင် အောင် သိန္နီဟု ခေါ်ဝေါ်သည်။

မိုင်းရယ်မြို့မှာ မူလက ရွာကြီးနှစ်ရွာကို ပေါင်းစပ်ထား သော မြို့ဖြစ်၏။ ထိုရွာကြီး နှစ်ရွာသည် တရွာနှင့်တရွာ နှစ်ဖာလုံမျှသာ ဝေးကွာသည်။ အရှေ့မိုင်းရယ် ရွာကြီး သည် တောင် သိန္နီနယ် စော်ဘွား၏ ရုံးစိုက်ရာ ဒေသဖြစ်၍ အနောက် မိုင်းရယ်ရွာမှာကား မိုင်းရယ်တိုက်နယ် မြို့စား ၏ ရုံးစိုက်ရာ ဒေသဖြစ်၏။ ရွာကြီး နှစ်ရွာစလုံးတွင် ဘုန်း ကြီးကျောင်းများရှိ၍ ရွာနှစ်ရွာ အကြားတွင် မိုင်းရယ်ဈေး တည်ရှိသည်။

**မိုင်းရှူနယ်။** ။မိုင်းရှူနယ်သည် ရှမ်းပြည်နယ်၏ အလယ် ဗဟိုလောက်တွင် တည်ရှိ၍ ရှမ်းပြည်နယ် အရှေ့ပိုင်းတွင် ကျရောက်သည်။ မိုင်းရှူနယ်သည် နယ်နိမိတ်အားဖြင့် အရှေ့ မြောက်ဖက်နှင့် အရှေ့ဖက်တွင် မိုင်းလွန်းနယ်၊ အနောက် မြောက်ဖက်တွင် ကျေးသီးမံစံနယ်၊ အနောက် တောင်ဖက် နှင့် တောင်ဖက်တွင် မိုင်းနောင်နယ်တို့ဖြင့် ရံလျက်ရှိသည်။ မိုင်းရှူနယ်သည် အကျယ်အဝန်းအားဖြင့် ၄၇၃ စတုရန်းမိုင်၊ ကျေးရွာပေါင်း ၂၄၆ ရွာနှင့် လူဦးရေ ၁၉၅၆ ခုနှစ်တွင် ခန့် မှန်းခြေအားဖြင့် ၁၆,၄၁ဝ ခန့် ရှိသည်။

မိုင်းရှူနယ်သည် တောင်ထူထပ်၍ တောင်ပေါ်တွင် သစ် ပင်ကြီးများ မပေါက်ရောက်ဘဲ ချုံတောများဖြင့်သာ ဖုံး လွှမ်းလျက် ရှိသည်။ မိုင်းရှူနယ်တွင် မြစ်ဝှမ်းကျယ်များ ရှိသည်။ ထိုနေရာများတွင် ရွာတည်ကြသည်။ လယ်ယာ စိုက်ပျိုး လုပ်ကိုင်ကြသည်။ နမ့်ပန်နှင့် နမ့်အွတ်တို့မှာ အဓိ က မြစ်များဖြစ်သည်။ ယင်းမြစ် ၂ ခုတို့သည် မိုင်းရှူနယ် အနီးတွင်ပေါင်းဆုံကြသည်။နယ်၏အရှေ့တောင်ဖက်ရှိလွယ် ဆိုတောင်သည် နယ်တွင်းရှိ အမြင့်ဆုံးတောင်ဖြစ်လေသည်။

ရှေးအခါက သီးခြား နယ်အဖြစ် တည်ရှိခဲ့သော မိုင်းစံ သည် များသော အပိုင်းတွင် မြေပြန့်ဖြူး၍ ပတ်လည်တွင်မူ တောင်များ ခြံရံလျက် ရှိသည်။ နမ့်စံမြစ်သည် မြေပြန့် လွင်ပြင်တွင်းသို့ အရှေ့ဖက်မှသည် အနောက်ဖက်သို့ စီးဆင်း သည်။ နမ့်ပန်မြစ်၏ လက်တက်ဖြစ်သည်။ နမ့်ပန်သည် ရှေး အခါက မိုင်းရှူနှင့် မိုင်းစံ နယ်များကို ပိုင်းခြား သတ် မှတ်ခဲ့သည်။

မိုင်းရှူနယ်တွင်ရော မိုင်းစံတွင်ပါ စပါးကိုသာလျှင် စိုက် ပျိုးသည်။ ဝါဂွမ်း အနည်းငယ် စိုက်ပျိုးသော်လည်း လုံ လောက်စွာ မရရှိပေ။ ဆေးရွက်ကြီးနှင့် နှမ်းကိုလည်း အ နည်းအကျဉ်း စိုက်ပျိုးသည်။ ရောင်းနိုင်လောက်အောင် ကား မရပေ။ သွားလမ်းလာလမ်းမှာ နွားလှည်းများကိုသာ အားထားရသည်။

ရှေးအခါက မိုင်းရှုနယ်သည် သိန္နီနယ် တောင်ပိုင်းတွင် ပါဝင်ခဲ့သည်။ ခရစ် ၁၇၅၇ ခုနှစ်တွင် မင်းတုန်းမင်း၏ အမိန့်တော်အားဖြင့် သီးခြားနယ် ဖြစ်လာသည်။ ကျေးသီးမံစံတွင်ရှိ မြန်မာမြို့အုပ်၏ လက်အောက်တွင် ထားရှိခဲ့သည်။ မိုင်းရှုနယ်ကို အမျိုးသမီး ၂ ဦးတို့သည် ၆ နှစ်တာမျှ အုပ်ချုပ်ခဲ့ဘူးသည်။ တဦးမှာ သိန္နီစော်ဘွား၏ ညီနှင့် လက်ထပ်လေသည်။ ထို့ကြောင့် ယခု မိုင်းရှု မြို့စားများသည် တခါက ရှမ်းပြည်တွင် တန်ခိုးထွားခဲ့သော သိန္နီနယ်ရှင်စော်ဘွားများ၏ အဆက်အနွယ် ဖြစ်သည်ဟု ဂုဏ်ယူ ပြောဆိုကြသည်။ မိုင်းရှုနယ်ကို သိန္နီနယ်မှခွဲထုတ်သည့် အချိန်မှစ၍ ၁၇၇၄ ခုနှစ်အထိ မိုင်းစံသည် မိုင်းရှုနယ်တွင် ပါဝင်သော ကိုက်နယ် အဖြစ်သာ အသိအမှတ် ပြုခြင်း ခံရ၏။ ၁၇၇၄ ခုနှစ်တွင် ခွန်ဆောအား မိုင်းစံမြို့စားအဖြစ် ဖခင်ခွန်မုန်းက ခန့်အပ်သည်။ ခွန်မုန်း သေဆုံးသောအခါ အစ်ကိုဖြစ်သူ ခွန်မဟာသည် ဖခင်ကိုဆက်ခံသည်။ ညီဖြစ်သူကို မိုင်းစံမြို့စားအဖြစ် ထားမြဲထားသည်။ ခရစ် ၁၈၈၈ ခုနှစ်ဗြိတိသျှတို့ ဝင်ရောက် သိမ်းပိုက်ပြီးနောက်၌သည်းညီအစ်ကိုနှစ်ဦးလုံးကို အတည်ပြုသည်။ နယ် ၂ ခုသည် တခုတည်းအဖြစ် တည်ရှိ၏။ မိုင်းစံနယ်သည် အမည်အားဖြင့်သာလျှင် တည်ရှိ၏။ အုပ်ချုပ်ရေးမှစ၍ အစစအရာရာတွင် မိုင်းရှု၏ အစီအမံကို လိုက်နာ ဆောင်ရွက်ရသည်။ ၁၉၀၁ ခုနှစ်တွင် မိုင်းစံမြို့စားကွယ်လွန်၍ ယင်းအားဆက်ခံမည့်သူမရှိသဖြင့် မိုင်းစံနယ်ကို မိုင်းရှုနယ်နှင့် ပေါင်းလိုက်လေသည်။ ထို့နောက် မြို့စားအစဉ်အဆက် အုပ်ချုပ်လာခဲ့ရာ၊ ၁၉၅၉ ခုနှစ်တွင် စော်ဘွားများ အုပ်ချုပ်ရေးအာဏာစွန့်လွှတ်ပြီး၍ အုပ်ချုပ်ရေးစံနစ် ပြောင်းလိုက်သည့် အခါတွင်ကား မိုင်းရှုနယ်သည် ရှမ်းပြည်တောင်ပိုင်းတိုင်း၊ လွယ်လင်ခရိုင်တွင် ပါဝင်လာလေသည်။

**မိုင်းလွှန်းနယ်။** ။မိုင်းလွှန်း နယ်သည် ရှမ်းပြည်နယ် မြောက်ပိုင်း အရှေ့ဖက်တွင် တည်ရှိသောနယ်တခုဖြစ်သည်။ သံလွင်မြစ်၏ တဖက်တချက်တွင် တည်ရှိရကား မိုင်းလွှန်းနယ်သည် အရှေ့မိုင်းလွှန်းနယ် အနောက်မိုင်းလွှန်းနယ် ဟူ၍ ၂ ပိုင်း ကွဲလျက်ရှိသည်။ အရှေ့မိုင်းလွှန်းမှာ နယ်မ ဖြစ်၏။ ရှေးအခါက စော်ဘွား၏ ဟော်သည် အရှေ့မိုင်းလွှန်းတွင် ရှိသည်။ ရှေးအခါက မြို့တော်မှာ တာကွန့် ဖြစ်သော်လည်း ယခုအခါ အစိုးရ ရုံးစိုက်မြို့မှာ တာကွန့်၏ တောင်ဖက် မိုင်အနည်းငယ်ကွာတွင် တည်ရှိသော ပန်ယန်းမြို့ ဖြစ်၏။

မိုင်းလွှန်းနယ်သည် နယ်နိမိတ်အားဖြင့် မြောက်ဖက်တွင် တောင်သိန္နီနယ်နှင့် ဝနယ်များ၊ အရှေ့ဖက်တွင် လွယ်လုံဝနယ်၊ တရုပ်နိုင်ငံနှင့် ကျိုင်းတုံနယ်၊ တောင်ဖက်တွင် သံလွင်မြစ်အရှေ့ဖက်၌ ကျိုင်းတုံနယ်၊ အနောက်ဖက်တွင် မိုင်းရှုနယ်၊ မိုင်းနောင်၊ ကျေးသီးမံစံနယ်နှင့် တောင်သိန္နီနယ် (မိုင်းရယ်) နယ်များဖြင့် ပတ်ရံလျက် ရှိသည်။ အကျယ်အဝန်းအားဖြင့်အရှေ့မိုင်းလွှန်းနယ်သည် ၂,၀၄၂ စတုရန်းမိုင်နှင့် ၁၉၅၆ ခုနှစ်တွင် ခန့်မှန်းခြေအားဖြင့် လူဦးရေ ၁၉,၆၄၆ ယောက် ရှိကာ၊ အနောက် မိုင်းလွှန်းနယ်သည် အကျယ်အဝန်း ၇၇၈ စတုရန်းမိုင်နှင့် လူဦးရေမှာ ၁၉၅၆ ခုနှစ်တွင် ခန့်မှန်းခြေအားဖြင့် ၁၈,၆၅၅ ယောက် ရှိရကား စုစုပေါင်း အကျယ်အဝန်း စတုရန်းမိုင် ၃,၇၂၀ နှင့် လူဦးရေ ၃၈,၃၀၁ ယောက်ခန့် ရှိသည်။

ဆိုခဲ့သည့်အတိုင်း မိုင်းလွှန်းနယ်သည် သံလွင်မြစ်ကမ်း ၂ ဖက်တွင် တည်ရှိရာ၌ မြစ်ကမ်းတလျှောက် မိုင် ၁၀၀ မျှ ရှည်လျား ကျယ်ပြန့်သည်။ မိုင်းလွှန်းနယ် အရှေ့တောင်ပိုင်းသည် များသောအပိုင်းတွင် တောင်များဖြင့် ဖုံးလွှမ်းလျက်ရှိသည်။ ယင်းတောင်များသည် သံလွင်မြစ်နှင့် နမ့်ခမြစ်၏အကြား၌ တည်ရှိသည်။ နမ့်ခမြစ်သည် သံလွင်မြစ်၏ လက်တက်ကြီးတခု ဖြစ်သည်။ အရှေ့ဖက်နှင့် အနောက်ဖက် နယ်နိမိတ်လည်း ဖြစ်၏။ မိုင်းလွှန်း နယ်သည် ရေကောင်းစွာ ရရှိသည်။ မြစ်ချောင်းများသည် ချိုင့်ဝှမ်းများ ဖြစ်ပေါ်စေသဖြင့် လမ်းပန်း ဆက်သွယ်ရေးတွင် ခက်ခဲပေသည်။ အရှေ့မြောက်ပိုင်းတွင် မတ်စောက်သော တောင်များ ရှိသည်။ချိုင့်ဝှမ်းများကျဉ်းမြောင်း၍ နက်ရှိုင်းသည်။ သံလွင်မြစ်၏လက်တက်ငယ်များမှ ရေကိုရရှိသည်။ အနောက်ဖက် မိုင်းလွှန်းနယ်သည် ကျဉ်းမြောင်းသော ကုန်းမြင့် ဒေသဖြစ်၍ကျဉ်းမြောင်းသော တောင်ကြား များစွာရှိသည်။

မိုင်းလွှန်းနယ်ဘွင် တောင်ယာများကို စိုက်ပျိုး လုပ်ကိုင်ကြသည်။ မိုင်းလွှန်းနယ်တွင် ရှမ်းလူမျိုး၊ ဝလူမျိုး၊ လီရှော လူမျိုး၊ တရုပ်သူမျိုးဘို့ နေထိုင်ကြ၏။ အရှေ့မိုင်းလွှန်းနယ်၏ တောင်ပေါ် ဒေသဘွင် ဝလူမျိုးတို့ နေထိုင်ကြ၍ ချိုင့်ဝှမ်းတွင် ရှမ်းလူမျိုးတို့ နေထိုင်ကြသည်။ အနောက် မိုင်းလွှန်းနယ်တွင် ရှမ်းလူမျိုးတို့ အနေများသည်။ လီရှောနှင့် တရုပ်လူမျိုးတို့ကို အရှေ့ဖက်တွင်ရော အနောက်ဖက်ဘွင်ပါ တွေ့ရသည်။ ၁၉၅၉ ခုနှစ်တွင် စော်ဘွားများ အာဏာစွန့်လွှတ်ခဲ့၍၊ ရှမ်းပြည်နယ် အုပ်ချုပ်ရေးစံနစ်ကို ပြန်လည် စီစစ်သောအခါ မိုင်းလွှန်းနယ်သည် ရှမ်းပြည်မြောက်ပိုင်းတိုင်း၊ ရှမ်းပြည်အရှေ့မြောက်ဖက် အထူးခရိုင်တွင် ပါဝင်သည့် နယ်တနယ် ဖြစ်လာလေသည်။

**မိုင်းသာလူမျိုး။** ။တိဗက် – မြန်မာအုပ်စုဝင်၊မရူ – အဇီအုပ်စုခွဲတွင် ပါဝင်သော မိုင်းသာလူမျိုးကို အချို့က ရှမ်းတရုပ်ဟု ခေါ်ကြသည်။ ရှမ်းပြည် မြောက်ပိုင်း နမ်းခမ်းနယ်တွင် ယင်းတို့ကို ရှမ်းတရုပ်ဟု ခေါ်ကြ၍၊ ရှမ်းပြည် အရှေ့ပိုင်း နယ်များတွင်မူ မိုင်းသာ ဟု ခေါ်ကြသည်။

မိုင်းသာ (ရှမ်းတရုပ်) တို့ကို ရှမ်းပြည်နယ်နှင့် ကချင်ပြည်နယ် နှစ်နယ်စလုံးတွင် ဗန်းမော်၊ မြစ်ကြီးနား၊ နမ်းခမ်းနှင့် ကျိုင်းတုံဒေသတို့၌ ၄ နေရာခွဲ၍ တွေ့ရသည်။ ရှမ်းပြည် အရှေ့မြောက်ပိုင်း နမ်းခမ်းနယ်၊ တရုပ် – မြန်မာ နယ်ခြားကျောက်တိုင် အမှတ် ၄၂ အနီး၊ ရွှေလီမြစ် ဝဲယာ ကမ်းတလျှောက်ရှိကျေးရွာတို့ကား မိုင်းသာ (ရှမ်းတရုပ်) တို့ အများဆုံးအခြေစိုက်ရာ အရပ်များ ဖြစ်ကြသည်။ တရုပ်နိုင်ငံ ယူနန်နယ်အတွင်း၌လည်း နေထိုင်ကြသည်။ ၁၉၃၁ ခုနှစ် သန်ကောင်စာရင်းအရ လူဦးရေ ၂၉,၁၇၃ ဖြစ်လေသည်။

မိုင်းသာလူမျိုးတို့ပြောသောစကားမှာ ရှမ်းလည်းမဟုတ်၊ မြန်မာလည်း မဟုတ်။ ရှမ်းနှင့် မြန်မာစကား နှစ်မျိုးလုံးပါသော စကားမျိုး ဖြစ်သည်။ မိုင်းသာ အမျိုးသမီးတို့၏ ဆင်ယင်ထုံးဖွဲ့မှုမှာ ဦးခေါင်းတွင် စက်ကြိုခေတ်က မြန်မာ အမျိုးသမီးများ ဆံထုံးကြီးကြီး ထုံးထားဘိသကဲ့သို့ အဝတ်ဖြင့် ရစ်ပတ်ဆုံးဖွဲ့ထားကြသည်။

**မစ်စစ်စပီပြည်နယ်။** ။မစ်စစ်စပီပြည်နယ်သည် အမေရိကန် ပြည်ထောင်စုတွင် ဖွဲ့စည်း ပါဝင်သော ပြည်နယ်တခု ဖြစ်၍ တောင်ဖက် အလယ်ပိုင်း အရှေ့ယွန်းယွန်းတွင် တည်ရှိသည်။ မစ်စစ်စပီပြည်နယ်မှာ မစ်စစ်စပီမြစ်ကြီးကို အစွဲပြု၍ ခေါ်တွင်ထားသော အမည်ဖြစ်၏။ မစ်စစ်စပီမြစ်သည် မစ်စစ်စပီပြည်နယ်၏ အနောက်ဖက်တလျှောက်လုံးတွင် နယ်နိမိတ်ကို ပိုင်းခြား သဘ်မှတ်ကာ မစ်စစ်စပီပြည်နယ်ကို အာကင်ဆောနှင့်လူဝီဇီယန္နား(တစိတ်တဒေသ) တို့မှ ခြားထားလိုက်ပေသည်။ မစ်စစ်စပီပြည်နယ်၏ မြောက်ဖက်တွင် တင်နက်ဆီပြည်နယ်၊ အရှေ့ဖက်တွင် အဲလဗားမား ပြည်နယ်၊ တောင်ဖက်တွင် မက္ကဆီကိုပင်လယ်ကွေ့နှင့် လူဝီဇီယန္နားပြည်နယ်တို့ တည်ရှိသည်။ မစ်စစ်စပီပြည်နယ်သည် အကျယ်အဝန်းအားဖြင့် ၄၇,၇၁၆ စတုရန်းမိုင်ရှိ၏။ ယင်းအနက် ရေပြင်၏ ပမာဏမှာ ၂၉၆ စတုရန်းမိုင်ဖြစ်၏။ မစ်စစ်စပီပြည်နယ်၏ မြို့တော်မှာ ဂျက္ကဆန်မြို့ဖြစ်သည်။ အခြားမြို့ကြီးများမှာ ဂရင်းဗီး၊ ဗီလော့ဆီ၊ ဂပ်လဖပို၊ ဂရင်းဝုဒ်၊ ကိုလံဗတ်၊ လော်ရယ်၊ ဟက်တီစဗတ်၊ မယ်ရီဒီယန်၊ နတ်တချီနှင့် ဗစ်ကစဗတ်မြို့တို့ ဖြစ်၏။

မစ်စစ်စပီ ပြည်နယ်၏ မြေမျက်နှာပြင်မှာ ပရေရီ လွင်ပြင်မှသည် တောင်ထူထပ်သော မြေပြင်ပိုင်း၊ သဲထူထပ်သော ကမ်းရိုးတန်းမှသည် မြေစေးနှင့် လိုအက်မြေဝါများ စသည်ဖြင့် အမျိုးမျိုး ထွေပြားလျက် ရှိသည်။ အချို့ နေရာများတွင် တောင်ထူထပ်သော်လည်း များသောအပိုင်းမှာ မြေပြန့်၊ သို့မဟုတ် ခပ်ပြေပြေ ဆင်းတက်သော ကုန်းမြေ ဖြစ်သည်။ အမြင့်ဆုံး နေရာသည် အရှေ့မြောက်ဖက်ဒေသဖြစ်၍ မြေပြန့်သည် အနောက်ဖက်မြစ်ဝှမ်းတွင်ဖြစ်၏။

မစ်စစ်စပီ ပြည်နယ်တွင် သဘာဝအပိုင်း ၈ ခု ပါရှိသည်။ ယင်းတို့ကား မြစ်ဝကျွန်းပေါ် ဒေသ၊ ကိန်း၊ သို့မဟုတ် ဗလပ်တောင်ကုန်းများ၊ မြောက်ဖက် အလယ်ပိုင်း တောင်ကုန်းများ၊ ပရေရီ မြေနက်များ၊ တင်နက်ဆီမြစ်ဖက် တောင်ကုန်းများ၊ ဂျက္ကဆန်ပရေရီ၊ ထင်းရှူးတောများနှင့် ကမ်းရိုးတန်း မြက်ခင်းများ ဖြစ်၏။ မြစ်ဝှမ်းဒေသသည် ယာဇူမြစ်နှင့် မစ်စစ်စပီမြစ်နှစ်သွယ်ကြားရှိ မြေနိမ့်ပိုင်းဖြစ်ကာ ဗစ်ကစဗတ်မြို့၏ အထက် မြောက်ဖက်တွင် မိုင် ၂၀၀ ခန့် ကျယ်ပြန့်သည်။ အနံမှာ ပျမ်းမျှ ၆၅ မိုင် ရှိသည်။ ရေတက်ပြီးနောက် ရေကျသွားသောအခါ နုံးမြေ အနည်များ ကျန်ရစ်သောကြောင့် မြေဆီဩဇာ ကောင်းသည်။ ကမ္ဘာတွင် ဝါ များစွာထွက်သော ဒေသဖြစ်၏။ မစ်စစ်စပီပြည်နယ်၌ ဤဒေသတွင်သာ စိမ့်မြေရှိသည်။ ကိန်း၊ သို့မဟုတ် ဗလပ်တောင်ကုန်းများသည် လိုအက် မြေဝါဖြင့် ဖွဲ့ထားသည် ဖြစ်၍ ယာဇူမြစ်၏ လက်ဝဲဖက် ကမ်းရိုးတလျှောက်တွင် ဖြစ်၏။ ဤဒေသတွင် ကောက်နှံ ဖွံ့ဖြိုးသည်။ ရှေးအခါက ဝါတခုတည်းသာ စိုက်ပျိုးသော်လည်း ယခုအခါတွင် နွားနို့လုပ်ငန်း၊ မြက်စိုက်ခြင်း၊ ဆိုယာပဲစိုက်ခြင်းတို့နှင့် စပ်လျဉ်း၍ အရေးပါသည်။ တောင်ဖက် အလယ်ပိုင်းမှ တောင်ဖက်သို့ သွယ်တန်းလာသော ကုန်းမြင့်ဒေသဖြစ်၏။ ရှေးအခါက ကောက်သီး ကောက်နှံများ ကောင်းစွာထွက်သည်။ ဤဒေသတွင် မြစ်ကမ်းပါးကို ရေစားတတ်ရာ မြေပဲ၊ ဆိုယာပဲ၊ သစ်သီးများ စိုက်ခြင်းဖြင့် ရေစား သက်သာစေသည်။ ရှေးက ခုတ်လှဲသော တောများနေရာတွင် သစ်ပင်သစ်များ ပြန်လည်စိုက်ပျိုးသည်။

မြောက်ဖက် အလယ်ပိုင်း ကုန်းမြင့်ဒေသ၏ အရှေ့ဖက်တွင် ပရေရီ မြေနက်ပိုင်းရှိသည်။ မြက်ခင်းဖြစ်၍ နွားနှင့် အခြားတိရစ္ဆာန် မွေးမြူရန်အတွက် ကောင်းသည်။ ပြောင်း၊ သစ်သီးနှင့် မြက်ပင်များသည် နုံးမြေနက်ရှိရာတွင် ဖွံ့ဖြိုးသည်။တင်နက်ဆီမြစ်ဖက် တောင်ကုန်းသည် ပြည်နယ်အရှေ့မြောက်ဖက် ထောင့်တွင် တည်ရှိ၍ ပြည်နယ်တွင် အမြင့်ဆုံးတောင်များ ဤဒေသတွင်ရှိ၏။ အမြင့်ဆုံးတောင်မှာ ၈၀၆ ပေသာ ဖြစ်သည်။ ဂျက္ကဆန် ပရေရီဒေသသည် မြောက်ဖက် အလယ်ပိုင်းကုန်းမြင့်၏ တောင်ဖက်ဘွင် တည်ရှိကာ မြေနက်များဖြင့် ဖွဲ့စည်းထားသည်။ လယ်ယာ စိုက်ပျိုးရေးနှင့် တိရစ္ဆာန် မွေးမြူရေးအတွက် ကောင်းသည်။ ဂျက္ကဆန် ပရေရီ တောင်ဖက်တွင်ကား ထင်းရှူးတောများရှိသည်။ ဤဘင်းရှူးတောများမှ သစ်၊ တာရပင်ဆီ၊ ကတ္တရာစေးတို့ရရှိသည်။ စက္ကူအတွက် သစ်ပျော့ဘက်များရရှိသည်။ ရှမ်းဆီ များစွာ ထွက်သော ရပ်ကွက်ဖြစ်၏။ ထင်းရှူးတောများမှ လွန်သောအခါ ကမ်းရိုးတန်း မြက်ခင်း မြေပြန့်ဖြစ်၍ ယင်းသည် မက္ကဆီကို ပင်လယ်ကွေ့သို့

ထိုးထွက်နေသော ဒေသဖြစ်၏။ မက္ကဆီကိုကွေ့ထဲသို့ စီးဝင်သော မြစ်ချောင်းများမှ ရေရသည်။ ကမ်းရိုးတလျှောက်တွင် ပင်လယ်အော်များ ရှိသည်။ မစ်စစ်စပီ ပြည်နယ်တွင် အရေးပါ၍ ထင်ရှားသော မြစ်များမှာ နှစ်ခုကဲ့လျက် ရှိသည်။ တောင်ကုန်းများ၏ အနောက်ဖက်ရှိ မြစ်များ ဖြစ်သော ယာဇူနှင့် ဗလက်မြစ်ကြီး (မြစ်နက်ကြီး) အစရှိသည်တို့ မစ်စစ်စပီမြစ်တွင်းသို့ စီးဝင်ကာ တောင်ကုန်းများ၏ အရှေ့ဖက်ရှိ ပါး (ပုလဲ) မြစ်၊ ပဈ်စကာဂိုလာ၊ တွန်ဗစ်ဗီ အစရှိသော မြစ်တို့သည် မက္ကဆီကို ကွေ့တွင်းသို့ စီးဝင်သည်။

ရာသီဥတုမှာ နွေတာရှည်၍ ပူပြင်းပြီးလျှင် ဆောင်းအခါ၌ အေးမြမြရှိကာ မကြာရှည်လှပေ။ မြောက်ပိုင်းတွင် ပိုအေး၍ နှင်းများလည်း ကျတတ်သည်။ သို့သော် ပင်လယ်ကွေ့ တလျှောက်တွင်မူ ရာသီဥတု မပြင်းထန်လှပေ။ နှင်းများ တခါတရံသာ ကျဆင်းတတ်သည်။ မိုးရေချိန်မှာ တနှစ်သျှင် ပျမ်းမျှလက်မ ၅၀ မျှ ဖြစ်၏။ တောင်ဖက်ကမ်းရိုးတန်း တလျှောက်တွင် မိုးအများဆုံး ရွာသွန်းသည်။

မစ်စစ်စပီပြည်နယ်သည် အဓိကအားဖြင့် စိုက်ပျိုးရေးထွန်းကားသော ပြည်နယ်ဖြစ်၍ လယ်ယာထွက် ပစ္စည်းမှာ အထူးသဖြင့် ဝါဂွမ်းဖြစ်သည်။ စုစုပေါင်း ယာမြေ၏ တဝက်မှာ ဝါခင်းများဖြစ်၏။ ယင်းနောက် ဂျုံ၊ ဆိုယာပဲ၊ မြေပဲ၊ ကြံ၊ ပြောင်း၊ ဆန်၊ ဟင်းသီးဟင်းရွက်၊ သီးနှံ စသည်တို့ ဖြစ်၏။ နွားနို့ လုပ်ငန်းလည်း တွင်ကျယ်ပေသည်။ သယံဇာတပစ္စည်းတို့မှာ သဘာဝ ဓာတ်ငွေ့၊ ရေနံ၊ မြေစေး၊ ဗောက်ဆိုက်၊ ထုံးကျောက်၊ သဲကျောက် စသည်တို့ ဖြစ်၏။ စက်မှုလက်မှု လုပ်ငန်းများဖြင့် ထုတ်လုပ်သော ပစ္စည်းတို့ကား သစ်နှင့် အိမ်ထောင်ပရိဘောဂ၊ သေတ္တာ၊ စက္ကူ၊ ကတ္တရာ၊ တာရပင်ဆီ၊ ထင်းရှူးဆီစသော သစ်ထွက်ပစ္စည်းများ၊ အထည်အလိပ်၊ ခြည်ထည်၊ ဝါဆီ၊ ရှမ်းဆီ၊ ဆိုယာပဲဆီ၊ မြေပဲဆီ၊ စည်သွတ်အစားအစာ စသည်တို့ဖြစ်၏။ မစ်စစ်စပီပြည်နယ်တွင် မီးရထားလမ်းမိုင်ပေါင်း ၄,၀၀၀ ကျော်ရှိ၍ အမေရိကန် ပြည်ထောင်စု တဝှန်းလုံးနှင့် ဆက်သွယ်လျက်ရှိသည်။ ထိုပြင် မော်တော်ကားလမ်း မိုင်ပေါင်း ၇,၀၀၀ ကျော်လည်း ရှိပေသည်။ မစ်စစ်စပီမြစ်နှင့် ယာဇူမြစ်တို့သည် အရေးပါသော မြစ်ကြောင်းများဖြစ်၍ လေကြောင်း အဆက်အသွယ်လည်း ရှိသည်။

ယခုအခါတွင် မစ်စစ်စပီ ပြည်နယ်တွင် နေထိုင်သူတို့အနက် တဝက်မျှမှာ နီးဂရိုးများဖြစ်၏။ လူဖြူတို့အနက် အင်္ဂလိပ်၊ စကော့နှင့် အိုင်ရစ်တို့၏အဆက်အနွယ် များပေသည်။ နိုင်ငံခြားသားများ အနက် အများစုမှာ ကနေဒီယန်၊ ဂျာမနီ၊ ဂရိ၊ ဣတာလျံ၊ မက္ကဆီကန်၊ ယူဂိုဆလပ်တို့ ဖြစ်၍ တရုပ်လူမျိုး တထောင်ကျော် ရှိ၏။ စုစုပေါင်းလူဦးရေမှာ ၁၉၆၀ ပြည့်နှစ် သန်ကောင်စာရင်း အရ ၂,၁၇၈,၄၂၂ ယောက် ဖြစ်၏။

သမိုင်းအရသော်ကား ခရစ် ၁၅၄၀ ပြည့်နှစ်ခန့်က စပိန်လူမျိုး ဒီဆိုတိုသည် မစ်စစ်စပီ နယ်မြေသို့ လာရောက်ရုံမျှသာ ရှိသည်။ ၁၆၈၂ ခုနှစ်တွင် လာဆဲ ရောက်ရှိလာပြီးလျှင် ပြင်သစ်နိုင်ငံအတွက် မြေကို တောင်းဆိုသည်။ သို့သော် အိမ်ခြေမစိုက်ပေ။ ၁၆၉၉ ခုနှစ်တွင်မှ ပြင်သစ်လူမျိုး ဒစ်ဗာဗီး ခေါင်းဆောင်၍ ဗီလော့ဆီတွင် အဦးဆုံးမြို့ရွာ တည်ထောင်သည်။ ၁၇၆၃ ခုနှစ်တွင် ထိုမြေသည် ပြင်သစ်တို့လက်မှ အင်္ဂလိပ်တို့လက်သို့ ပြောင်းသွား၍ ဗြိတိသျှတို့လက်ထက်တွင်ကြီးပွားလာသည်။ ၁၇၈၁ ခုနှစ်တွင် တောင်ပိုင်းဒေသမှာ စပိန်လူမျိုးတို့လက်တွင်းသို့ ရောက်သွားလေသည်။ အမေရိကန် ပြည်ထောင်စုနှင့် စပိန်တို့သည် မြေကိစ္စနှင့် စပ်လျဉ်း၍ အချိန် အတော်ကြာစွာ အချင်းပွားကြသည်။ နောက်ဆုံး၌ ၁၇၉၅ ခုနှစ်တွင် စပိန်က အလျှော့ပေးလိုက်ရသည်။ နောက် ၃ နှစ် အကြာတွင် မစ်စစ်စပီသည် နယ်တခု ဖြစ်လာ၍ ၁၈၁၇ ခုနှစ်တွင် အမေရိကန် ပြည်ထောင်စုတွင် ပြည်နယ်တခု အဖြစ် သွတ်သွင်းခံရသည်။ ၁၈၂၁ ခုနှစ်တွင် မြောက်ပိုင်းနှင့် အလယ်ပိုင်းရှိ တိုင်းရင်းသား အင်ဒီးယန်း လူမျိုးတို့၏ မြေကို မစ်စစ်စပီ ပြည်နယ်တွင်းသို့ ပေးလိုက်သည်။ ၁၈၃၂ ခုနှစ်တွင် ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံ ဥပဒေသစ်ကို ရေးဆွဲသည်။ အမေရိကန် ပြည်ထောင်စု၌ ပြည်တွင်းစစ် ဖြစ်ပွားစဉ်က မစ်စစ်စပီ ပြည်နယ်သည် ပြည်ထောင်စုမှ ခွဲထွက်ခဲ့သည်။ နယ်စပ်နယ်တွင်း၌ တိုက်ပွဲများ ဖြစ်ပွားခဲ့ရာ၊ ရှီလို၊ ကိုရင့်နှင့် ဗစ်ကစဗတ်မြို့တို့တွင် ဖြစ်ပွားသော တိုက်ပွဲများကား ထင်ရှားပေသည်။ နယ်စပ်လည်း အတော်နာပေသည်။ ၁၈၇၀ ပြည့်နှစ်တွင် မစ်စစ်စပီပြည်နယ်ကို ပြည်ထောင်စုတွင်းသို့ ပြန်လည်သွတ်သွင်းလိုက်လေသည်။

**မစ်စစ်စပီမြစ်။** ။မစ်စစ်စပီမြစ်သည် အမေရိကန် ပြည်ထောင်စုတွင် အကြီးဆုံး မြစ်ဖြစ်ရုံမက ကမ္ဘာပေါ်ရှိ မြစ်ကြီးများ စာရင်းဝင်လည်း ဖြစ်သည်။ မစ်စစ်စပီဟူသော ဝေါဟာရမှာ တိုင်းရင်း အင်ဒီးယန်းတို့က ခေါ်ဝေါ်သော အမည်ဖြစ်၍ "ရေတို့၏ ဖခင်" ဟူသော အဓိပ္ပါယ်ကို ဆောင်သည်။ ရှေးတိုင်းရင်း အင်ဒီးယန်းတို့သည်ရင်း၊ ရှေးဦးစွာ ရောက်ရှိလာကြသော လူဖြူတို့သည်ရင်း မစ်စစ်စပီ မြစ်ကြောင်း တလျှောက် လှူးလာခေါက်တုံ့ သွားလာကြရာမှ မြစ်ရိုးတလျှောက်တွင် မြို့ကြီးများ ပေါ်ထွန်းလာပေသည်။ မစ်စစ်စပီ မြစ်တလျှောက် နေထိုင်ကြသူ အပေါင်းတို့က မစ်စစ်စပီမြစ်သည် ကောင်းကျိုး ဖန်ဘီးနိုင်သလို ဆိုးကျိုးကိုလည်း ဖန်တီးနိုင်သည်ဟု သဘောပိုက်ကြသည်။

ဝတ္ထုရေးဆရာ၊ ဇာတ်ဆရာ၊ ကဗျာဆရာနှင့် ဂီတစာဆိုတို့သည် မစ်စစ်စပီမြစ်ကို နောက်ခံပြု၍ ဝတ္ထု၊ ပြဇာတ်၊ ကဗျာ၊ ဂီတများကို အသီးအသီး ရေးသားဖွဲ့သီကြ၏။ အမေရိကန် စာရေးဆရာကြီး မတ်တွိန်းသည် မစ်စစ်စပီမြစ်ကို သရုပ်ပေါ်အောင် စာပေ ဖွဲ့ထားခဲ့ပေသည်။ မစ်စစ်စပီမြစ်သက်သက်မှာ မိုင် ၂,၃၅၀ မျှရှိ၍ ယင်း၏ အကြီးဆုံး လက်တက်ဖြစ်သော မိဇူးရီမြစ်နှင့် ပေါင်းလျှင် မိုင်ပေါင်း ၅,၀၆၄ မိုင်မျှရှိသောကြောင့် ကမ္ဘာပေါ်တွင် အရှည်ဆုံး မြစ်ကြောင်း ဟုဆိုနိုင်ပေသည်။ သို့ရာတွင် မြစ်ကြောင်းမှာ မကြာခဏ ပြောင်းလဲတတ်သဖြင့် မြစ်၏ အလျားကို ပုံသေကားချ မမှတ်ယူနိုင်ချေ။

မစ်စစ်စပီမြစ်သည် မင်နီဆိုတာ ပြည်နယ်ရှိ အိုင်တက်စကာအိုင်မှ ၁၀ ပေ ၁၂ ပေခန့်သာ ကျယ်၍၊ ၂ ပေခန့်သာ နက်သော ချောင်းကလေးအဖြစ် စတင် စီးဆင်းသည်။ မြစ်သည် အစပဋမသော် မြောက်ဖက်သို့ စီးပြီးမှ တဖန် အရှေ့တောင်ဖက်သို့ ကွေ့ကာ ကောက်ကာ စီးဆင်းလာရာ လမ်းတွင် မစ်စစ်စပီမြစ်တွင်းသို့ အခြားမြစ်လက်တက်များ စီးဝင်ကြသဖြင့် တဖြည်းဖြည်း ကျယ်ပြန့်လာသည်။ မြစ်လက်တက်ပေါင်း ၂၅၀ မျှ ရှိပေသည်။ အချို့ကား ချောင်းကလေးသာသာရှိ၍ အချို့ကား မြစ်ကြီးများ ဖြစ်သည်။ အရှေ့ဖက်မှ စီးဝင်လာသော မြစ်လက်တက်ကြီးများမှာ အိုဟိုင်းအိုမြစ်၊ အီလီနွိုင်မြစ်၊ ဝစ္စကွန်းဆင်းမြစ်၊ ယာဇူမြစ်တို့ဖြစ်၍ အနောက်ဖက်မှ စီးဝင်လာသော မြစ်လက်ဘက်ဘို့ကား အာကင်ဆောမြစ်၊ မြစ်နီနှင့် မိဇူးရီမြစ်တို့ ဖြစ်သည်။ မိဇူးရီမြစ် စီးဝင်လာပြီးနောက် မစ်စစ်စပီမြစ်သည် ကျယ်လာသည်။ မိဇူးရီမြစ် စီးဝင်ရာ ဒေသကို ဗဟိုပြု၍၊ မစ်စစ်စပီကို အထက်ပိုင်း၊ အောက်ပိုင်းဟူ၍ ခွဲနိုင်ပေရာ မြစ်ကြောင်း အောက်ပိုင်းတွင် အကွေ့အကောက် များပြား၍၊ မြစ်၏ အတိမ်အနက် အကျဉ်းအကျယ်မှာလည်း တနေရာနှင့် တနေရာ မတူပေ။ မစ်စစ်စပီမြစ်သည် တောင်ဖက်သို့ ဆက်လက် စီးဆင်းလာ၍ နောက်ဆုံး၌ မက္ကဆီကိုကွေ့အဘွင်းသို့ စီးဝင်သည်။

မစ်စစ်စပီမြစ်မှာ အကွေ့အကောက် များသည့်ပြင် ရေစီးသန်သော နေရာများလည်း ရှိသဖြင့် လူတို့က ပြုပြင်ပေးခြင်း မရှိလျှင် လှေသင်္ဘောများ သွားလာနိုင်ရန် အတန်ပင် ခဲယဉ်းပေမည်။ သို့ဖြစ်၍ ၁၈၂၀ ပြည့်နှစ်တွင် အင်ဂျင်နီယာကြီးများက မြစ်ထဲရှိ သောင်များကို ရှင်းလင်းခြင်း၊ ရေတံခါးများ ပြုလုပ်ပေးခြင်း စသဖြင့် ရေကြောင်းများကို



မစ်စစ်စပီမြစ် ဖြတ်စီးဆင်းရာ မိဇူးရီပြည်နယ် စိန့်လူဝီမြို့၏ ရှုခင်းပန်းချီကားချပ်



ရေကြောင်းပြုပြင်ထားသော မစ်စစ်စပီမြစ်ရိုးတလျှောက်မိုင်ပေါင်းတထောင့်လေးရာခန့်ထိ သင်္ဘောများ သွားလာနိုင်ပေသည်။

ပြုပြင်ပေးခဲ့ကြရာ ယခုအခါ လှေသင်္ဘောများမှာ မစ်စစ်စပီမြစ်ရိုးအတွင်း ရေကြောင်းတလျှောက် မိုင်ပေါင်း ၁,၄၀၀ ခန့် စုန်ဆန်သွားလာနိုင်ကြပေသည်။

မစ်စစ်စပီမြစ်သည် ဖေဖွာရီလမှ ဇွန်လအထိ ရေတဖြည်းဖြည်း တိုးကာ ရေလျှံတက်လေ့ရှိ၏။ မြစ်ရေများကျသည့်အခါ နုံးတင်မြေများ ကျန်ခဲ့သဖြင့် မြေသြဇာ ကောင်းမွန်သော်လည်း ရေလွှမ်းမိုးခြင်းကြောင့် အိမ်ယာ အဆောက်အအုံနှင့် လူတိရစ္ဆာန်တို့ များစွာ သေကြေ ပျက်စီးကြရလေသည်။

၁၉၂၇ ခုနှစ်၌ ရေကြီးစဉ်က လူနေအိမ်ခြေပေါင်း ၇၅၀,၀၀၀ မျှ ပျက်စီး၍ လူပေါင်း ၆၀၀,၀၀၀ မှာ အိုးအိမ်မဲ့ဘဝသို့ ရောက်ခဲ့ကြရပြီးလျှင် ပျက်စီး ဆုံးရှုံးသော တန်ဖိုးမှာ ဒေါ်လာပေါင်း ၃၅၅,၁၄၇,၀၀၀ မျှဖြစ်လေသည်။ အများအားဖြင့် မစ်စစ်စပီမြစ်၏ အောက်ပိုင်း မြေနိမ့်ဒေသများမှာ မကြာခဏ ရေလွှမ်းမိုးခြင်း ခံရ၍ အပျက်အစီး အများဆုံး ဖြစ်လေသည်။ ထိုကြောင့် ရေလွှမ်းမိုးခြင်းကို ကာကွယ်နိုင်သလောက် ကာကွယ်နိုင်စေရန် မြစ်ကမ်းပါး တလျှောက်၌ တာကြီးများကို ဆောက်လုပ်ထားကြသည်။

မစ်စစ်စပီ မြစ်ဝှမ်းဒေသမှာ အမေရိကန် ပြည်ထောင်စု၏ ၅ ပုံ ၂ ပုံခန့်ရှိ၍ မြေသြဇာ ထက်သန်သော နေရာဖြစ်၏။ ထို့ပြင် မြေမျက်နှာပြင်နှင့် မိုးရေကောင်းသောကြောင့် လူများ နေထိုင်ရန်အတွက် အသင့်တော်ဆုံးဖြစ်၍ မြစ်ဝှမ်းဒေသတခိုက်တွင် လူဦးရေ သန်းပေါင်း ၆၀ ကျော်ခန့် နေထိုင်ကြလေသည်။ ထိုမြစ်၏ ဝဲယာဖက်ကမ်းပေါ်တွင် မြို့ကြီးများစွာလည်း ရှိလေသည်။

**မေတ္တာစာ။** ။မေတ္တာစာဟူသည်ကား မြန်မာ စာပေတွင် လင်္ကာဖြင့်သော်ငြား၊ လင်္ကာစကားပြေ နှစ်ထွေရော၍သော်ငြား ရေးစပ်သီကုံးသော အဖွဲ့အနွဲ့ဘမျိုး ဖြစ်၏။ အစပဌမတွင် မေတ္တာစာများကို ရဟန်းပုဂ္ဂိုလ်ဘိုက ဂုဏ်အားဖြင့် ကြီးသော ဘုရင်စိုးမင်းတို့အား အကြောင်းတပါးပါးကြောင့် မေတ္တာရပ်ခံ၍ မေတ္တာခံယူသည့် အနေဖြင့် ရေးသောကြောင့် မေတ္တာစာဟု ခေါ်တွင်ဟန် ရှိ၏။ နောင်သော် မေတ္တာစာသည် မင်းတို့အား ဆုံးမသော၊ မေတ္တာရပ်ခံသောစာများမဟုတ်ဘဲ ၅၂၈ သွယ် အကြောင်းပြု၍ မောင်နှင့်နှမ၊ သားနှင့်အမိ၊ ဆရာနှင့်တပည့်၊ ရဟန်းပုဂ္ဂိုလ်တဦးနှင့်တဦး ကမ်းလှမ်း ပေးပို့သော စာများဖြစ်လျက်

မေတ္တာစာ သာမည မဟုတ်ဘဲ ဆုံးမစာသဘော သက်ဝင်လာ၏။ ဤမျှသာမကဘဲ ခေတ်ရွေ့လျောသည်နှင့်အမျှ သောင်းပြောင်းထွေလာ အကြောင်းမျိုးစုံပါသော မေတ္တာစာများကို ရေးသားကြလေသည်။ မေတ္တာစာ ရေးရာ၌ ထင်ရှားသော စာဆိုရှင် ပုဂ္ဂိုလ်တို့မှာ ပဌမအင်းဝခေတ်၌ ရှင်မဟာသီလဝံသ၊ ရှင်မဟာရဋ္ဌသာရ၊ ကန်တော်မင်းကျောင်း ဆရာတော်၊ ဒုတိယ ကုန်းဘောင်ခေတ်၌ ကျည်းကန်ရှင်ကြီး၊ ရှင်ဥက္ကံသမာလာနှင့် စလေဦးပုည၊ ကင်းဝန်မင်းကြီး အစရှိသည်တို့ ဖြစ်၏။

မေတ္တာစာ တခုခုတွင် မေတ္တာဖွဲ့၊ စာပေးသူဖွဲ့၊ စာယူသူဖွဲ့၊ အထွေထွေဖွဲ့အားဖြင့် လေးပိုင်း ပိုင်းခြားထားသည် ဖြစ်၏။ ဤသို့ ပိုင်းခြားထားသည်တွင် စာဆိုရှင်တဦးနှင့်တဦး ဖွဲ့ပုံခြင်း မတူကြပေ။ အချို့က မေတ္တာဖွဲ့များကို ဂရုပြု၍ ခမ်းနားတင့်တယ်စွာဖွဲ့သော်လည်း၊ အချို့ကမူ အထွေထွေအကြောင်းအရာ၊ စာပေးသူ၊ စာယူသူဖွဲ့များကို အရေးထား၍ ဖွဲ့တတ်ကြပေသည်။ တကျောင်းတဂါထာ တရွာတပုဒ်ဆန်း ဆိုသလို တဦးနှင့်တဦး တမူထူးခြားစွာ ဖွဲ့ဆိုတတ်ကြပေသည်။ သက္ကရာဇ် ၇၆၆ ခုနှစ်တွင် အင်းဝ ပဌမ မင်းခေါင်ကြီးလက်ထက် မွန်ဘုရင် ရာဇာဓိရာဇ်သည် အင်းဝမြို့တော်သို့ စစ်ချီတက်လာရာ၌ စကြိုသူမြတ်က ရာဇာဓိရာဇ်ထံ ပေးသွင်းသော မေတ္တာစာကို မြန်မာစာပေသမိုင်းတွင် ဦးစွာ တွေ့ရသည်။ ထိုနောက်တွင် ဒုတိယ မင်းခေါင်လက်ထက် ရှင်မဟာရဋ္ဌသာရ ဆက်သွင်းသော မေတ္တာစာနှင့်၊ ရှင်မဟာသီလဝံသ၊ ရှင်တေဇောသာရတို့၏ မေတ္တာစာများကို တွေ့ရ၏။ ထိုမေတ္တာစာစုမှာ မေတ္တာချပ်ခံသော စာများ ဖြစ်လေသည်။ သို့သော် ယင်းပဌမအင်းဝခေတ်တွင်ပင် ပေါ်ပေါက်လာသော ကန်တော်မင်းကျောင်းဆရာတော် ပြုစုခဲ့သည့် မေတ္တာစာမှာ ဘုရင်မင်းမြတ်အား အမြော်အမြင် ကြီးမားစေရန် သတိပေး ဆုံးမသော စာဖြစ်သော်လည်း အများနှင့်လည်းဆိုင်သည့်မေတ္တာစာဖြစ်ရကား အထူးပင် ထင်ရှားလှပေသည်။

အင်းဝခေတ်တွင် ပေါ်ပေါက်ခဲ့သော မေတ္တာစာများသည် များသောအားဖြင့် ဘုရင်မင်းမြတ်ထံမှ မေတ္တာတော်ကို ခံယူလိုသောကြောင့် ဘုန်းကြီး ရဟန်းများက တင်သွင်းသော စာများ ဖြစ်ကြ၏။ ပုံစံပြရလျှင် ရှင်မဟာသီလဝံသက မိမိ၏ တူတော် သုနန္ဒသူရိယကို ဒုတိယမင်းခေါင်၏ အမျက်တော်ရှိခြင်းမှ လွတ်ကင်း ချမ်းသာစေရန် ဘုရင်မင်းမြတ်ထံ အသင်္ခါရိက အစချီလျက် ''မေတ္တာစာရွှေ၊ ဆက်သောထွေကို၊ ရေမြေသခင်၊ ရွှေနန်းရှင်သည်၊ အလျှင်မျက်တော်ပြေစေသောဝ'' ဟူ၍ မေတ္တာစာကို တင်သွင်းခဲ့ဘူးလေသည်။ ရှင်မဟာရဋ္ဌသာရကလည်း အသင်္ခါရိက အစချီသော မေတ္တာစာ ၃ ပိုဒ်ကို တင်သွင်းသည်။ ထိုမေတ္တာစာများတွင် ''ပြည်ထဲရေးကို၊ ဆွေးနွေးထောက်၍၊ မမေ့မလျော့၊ မပေါ့မလေး၊ မနှေးမလျင်၊ မြော်မြင်အရေး၊ အတွေးအခေါ်၊ အမျှော်အတင်း၊ လုပ်ကြပြင်းလျက်'' စသည်ဖြင့် တိုင်းပြည်အုပ်ချုပ်ရာ၌ ပြေပြစ်ချောမောစေရန် သတိပေးသည့် ဆုံးမ စကားများကို တွေ့ရလေသည်။ သို့ဖြင့် အင်းဝခေတ် မေတ္တာစာများသည် ဘုရင်မင်းမြတ်မှ အစပြု၍ အမျိုးလေးပါးတို့ကို တရားလမ်းကြောင်းဖြင့် ဆုံးမ သွန်သင်သော စာများ ဖြစ်သည်ဟု ဆိုသင့်လေသည်။

မေတ္တာစာ အရေးအသားသည် အင်းဝခေတ်လွန်သော် ခေတ်မှိန်သွားခဲ့သည်။သို့သော် ကုန်းဘောင်ခေတ်သို့ရောက်၍ ကျည်းကန်ရှင်ကြီး၊ ရှင်ဥက္ကံသမာလာနှင့် စလေဦးပုညတို့က မေတ္တာစာများကို ရေးသားကြပြန်သောအခါ မေတ္တာစာ အရေးအသားသည် ခေတ်ထ၍ လာပြန်သည်။ သို့သော် ထိုကုန်းဘောင်ခေတ်ပေါ် မေတ္တာစာများသည် အင်းဝခေတ်ပေါ် မေတ္တာစာများနှင့် ရည်ရွယ်ချက်ချင်း မတူဘဲ ကွဲပြား ခြားနားကြ၏။ ကုန်းဘောင်ခေတ်ပေါ် မေတ္တာစာများသည် အင်းဝခေတ်ပေါ် မေတ္တာစာများကဲ့သို့ ဘုရင်မင်းမြတ်ထံ မေတ္တာရပ်ခံ ဆက်သွင်းရေးသားသော စာများ မဟုတ်ချေ။ ကျည်းကန်ရှင်ကြီး ရေးသားသော မေတ္တာစာများသည် မင်းအား ဆုံးမသော စာလည်းမဟုတ်၊ မင်း၏ မေတ္တာကို ခံယူလို၍ ရေးသားသော စာလည်း မဟုတ်ဘဲ၊ ငါးရာ့နှစ်ဆဲ့ရှစ်သွယ်သော မေတ္တာကို အကြောင်းပြု၍ မောင်နှင့်နှမ၊ သားနှင့် အမိ၊ တပည့်နှင့်ဆရာ၊ ရဟန်းပုဂ္ဂိုလ်၊ လူပုဂ္ဂိုလ် တဦးနှင့်တဦး ကမ်းလှမ်းပေးပို့သော စာများ ဖြစ်သည်။ သို့သော် ထိုမေတ္တာစာများတွင် လူကြီးဖြစ်သူတို့က လူငယ်ဖြစ်သူတို့အား ဆုံးမသော ဩဝါဒစကားများလည်း ပါဝင်သောကြောင့် ကျည်းကန်ရှင်ကြီး၏ မေတ္တာစာများကို ဆုံးမစာမေတ္တာစာများ ဟူ၍ ခေါ်နိုင်သည်။ ကျည်းကန်ရှင်ကြီးသည် မေတ္တာစာများကို အဖွဲ့အမျိုးမျိုးဖြင့် ရေးသား ဖွဲ့ဆို၏။ လင်္ကာသွားဖြင့်လည်း ဖွဲ့ဆို၏။ လင်္ကာစကားပြေနှစ်ထွေရော၍လည်း ဖွဲ့ဆို၏။ ပိုဒ်စုံရတု စသော ရတု အထွေထွေတို့ဖြင့်လည်း ဖွဲ့ဆိုသည်။ ထို့ကြောင့် ကျည်းကန်ရှင်ကြီး၏ မေတ္တာစာများမှာ သာယာနာပျော်ဖွယ် ရှိ၍ မှတ်သား နာယူရန်လည်း လွယ်လေသည်။ မေတ္တာစာများတွင် ထည့်သွင်း ရေးသားသော စကားပုံ အချို့မှာ ကိုယ်တိုင် တီထွင်သော စကားပုံ အသစ်များ ဖြစ်လေသည်။ ထိုစကားပုံများသည် ဆုံးမစာများလည်း ဖြစ်၍ အဓိပ္ပါယ်လည်း နက်နဲသည်။ များသောအားဖြင့် ကျည်းကန်ရှင်ကြီး၏ မေတ္တာစာများသည် ဓမ္မကြောင်းနှယ်သည်ထက် လောကကြောင်းဖက်သို့ ပိုမိုနှယ်လေသည်။

ရှင်ဥက္ကံသ မာလာ၏ မေတ္တာစာများကား ကျည်းကန်ရှင်ကြီး၏ မေတ္တာစာများနှင့် ဆင်ဆင်တူလေသည်။ ဆရာသမား၊ ညီဖွားနောင်မယ်၊ မျိုးနွယ်သားချင်း၊ မိတ်ဆွေရင်းတို့က ငါးရာ့ နှစ်ဆဲ့ ရှစ်သွယ်သော မေတ္တာကို ပမာနထားလျက် အကြံဉာဏ်ပေး အဖြစ်ဖြင့်သော်ငြင်း၊ မကောင်းမြစ်ထာ ကောင်းရာ ညွှန်ကြားချင်၍သော်ငြင်း ဆရာတော်အား ရေးပေးပါရန် တောင်းပန်သောကြောင့် ရေးပေးသော မေတ္တာစာများ ဖြစ်လေသည်။ တပည့်ဖြစ်သူများအား ဆရာတော်ကိုယ်တိုင် ဆုံးမပဲ့ပြင်လို၍ ရေးသားသော မေတ္တာစာများလည်း ပါဝင်လေသည်။ သို့သော် ဆရာတော် ရှင်ဥက္ကံသမာလာ၏ မေတ္တာစာများသည် လောကုတ္တရာ ကြောင်းဖက်သို့ အထူး ဂရုပြုရေးရှုလေသည်။ ကျည်းကန်ရှင်ကြီးကဲ့သို့ စကားပုံများ၊ ရတုပိုဒ်စုံများကို ထည့်သွင်း ရေးသားခြင်း မပြုသော်လည်း ငါးရာ့ ငါးဆယ် နိပါတ်တော်လာ ဇာတ်ဝတ္ထု စသည်တို့ဖြင့် ရွှန်းဝေလျက် ရှိလေသည်။

စလေဦးပုည၏ မေတ္တာစာများကား သောင်းပြောင်းထွေလာ အကြောင်းမျိုးစုံပါသော မေတ္တာစာများ ဖြစ်၏။ အစုစု မေတ္တာစာပုဒ်ရေပေါင်း ၆၀ ခန့်ရှိ၍ စလေမြို့တွင် သာမဏေဘဝနှင့်ရှိစဉ် အများ လာရောက် တောင်းပန်ကြသည့်အတွက် ရေးပေးရသော မေတ္တာစာများ ဖြစ်လေသည်။ မိမိအတွက် မိမိကိုယ်တိုင် အသုံးပြုရန် ရေးသားသော မေတ္တာစာများမှာ အခြားသူများအား ရေးပေးသော မေတ္တာစာများထက် သာလွန် ကောင်းမွန်သည်ကို တွေ့ရလေသည်။ သို့သော် ဦးပုည၏ မေတ္တာစာများသည် မင်းအား ဆုံးမပဲ့ပြင်သော စာလည်းမဟုတ်။ လူပုဂ္ဂိုလ်အချင်းချင်း ကြီးသူက ငယ်သူကို ဆုံးမသော စာများလည်း မဟုတ်ချေ။ မောင်နှမ သားအမိ တဦးနှင့်တဦး သာကြောင်း မာကြောင်း ပေးစာများနှင့် သောင်းပြောင်းထွေလာ ပဒေသာ အကြောင်းအရာများကို ရေးသား ဖွဲ့နွဲ့ထားသော စာများ ဖြစ်သည်။ သူ၏ မေတ္တာစာများတွင် ဘုန်းကြီးပင့်၊ ရှင်ပြု၊ ရဟန်းခံ၊ လှေအလှူခံ၊ လှေလုပ်ငှါး၊ ဒေါနဆီ၊ အဂ္ဂိယတ်၊လက်ဖက်အစရှိသော အကြောင်းအရာ အမျိုးမျိုးတို့ကို လိုရာ အနက်လည်း ကွက်ကွက်ကွင်းကွင်း မှုံတီဟင်းကဲ့သို့ ပေါ်လွင်အောင် ဖွဲ့ဆို ရေးသားခဲ့ လေသည်။ ထိုအထဲတွင် ဟာသရသကိုလည်း စွက်ဖက် ရောနှောကာ စကားလုံး ပြောင်ပြောင်နှင့် ထိမိအောင် ထည့်သွင်း ရေးသားထားသေးသောကြောင့် အခြားအခြားသော မေတ္တာစာများနှင့် ကွဲပြား ခြားနားသည်ကို တွေ့မြင်ရပေသည်။ ဦးပုညသည် သရော်တော်တော် ပြောင်လှောင် ရေးသားသော မေတ္တာစာများကိုလည်း ရေးဖွဲ့ဆိုလေသည်။ ထိုသို့သောမေတ္တာစာများတွင် ဦးပုညသည် စကားလုံးပိုင်ပိုင်နှင့် အနိုင်ရအောင် ပြောင်မြောက်စွာ ရေးသားဖွဲ့စပ်လေ့ ရှိပေသည်။ သူ၏ မေတ္တာစာရေးဟန်မှာကား လက်ာ စကားပြေ နှစ်ထွေ ရောသော ရေးဟန်ပင် ဖြစ်သည်။ ဦးပုညသည် မေတ္တာဖွဲ့ကို အထူး အရေးယူကာ ဖွဲ့ဆိုလေ့ရှိ၏။ မေတ္တာကို လနှင့်ငြင်း၊ အနဝတတ် ရေနှင့်ငြင်း၊ မဥ္ဇူသကပန်းနှင့်ငြင်း နှိုင်းခိုင်းကာ စကားကြွယ်ဝစွာ ဖွဲ့ဆိုလေ့ ရှိခဲ့ပေသည်။

အထက်တွင် ဖော်ပြခဲ့သော မေတ္တာစာ ရေးသားသည့် ပုဂ္ဂိုလ်ကြီးများအပြင် ရာဇောဝါဒကျမ်းပြုစုသော မုံရွေးဆရာတော်၊ မောင်ရွှန်း၊ ကင်းဝန်မင်းကြီးဦးကောင်း၊ ကျီးသဲဆရာတော်၊ လယ်တီဆရာတော် အစရှိသောပုဂ္ဂိုလ်ကြီးများလည်း ခေတ်ကာလအလိုက် ပေါ်ထွန်းခဲ့လေသည်။အမျိုးသမီးများလည်း မေတ္တာစာရေးသားရာ၌ အောက်တန်းမကျခဲ့ပေ။ သို့ရာတွင် ယခုခေတ်၌ မေတ္တာစာ အရေးအသားသည် များစွာ ခေတ်မစားတော့ဘဲ တိမ်မြုပ်သကဲ့သို့ ဖြစ်နေလေသည်။

**မေတ္တေယျမြတ်စွာဘုရား။** ။မေတ္တေယျမြတ်စွာဘုရားသည် ဤဘဒ္ဒကမ္ဘာအတွင်း ငါးကြိမ်မြောက် ပွင့်တော်မူလတ္တံ့သော ဘုရားရှင် ဖြစ်သည်။ မေတ္တေယျ မြတ်စွာဘုရားကို အရိမေတ္တေယျဟုလည်း ခေါ်ကြသည်။ ကေတုမတီပြည်မှ သင်္ခစကြာမင်း၏ ပုရောဟိတ် သုဗြဟ္မာပုဏ္ဏားနှင့် ဗြဟ္မဝတီပုဏ္ဏေးမတို့၏ သားတော်ဖြစ်လတ္တံ့။ အရွယ်ရောက်သော် စန္ဒမုခီ အမည်ရှိသော မင်းသမီးနှင့် လက်ထပ်ထိမ်းမြားလတ္တံ့။ သားတော်ဗြဟ္မဝဍ္ဍနတပါး ဖွားမြင်ပြီးနောက် လောကီစည်းစိမ်ကို ပယ်စွန့်ကာ တောထွက်တော်မူလတ္တံ့။ ၇ ရက်ကြာမျှ ဒုက္ကရစရိယာ ကျင့်တော်မူပြီးနောက် ကံကော်ဗောဓိပင်ရင်းဝယ် သဗ္ဗညုတဉာဏ်ကိုရ၍ ဘုရားဖြစ်တော်မူလတ္တံ့။

ထိုမြတ်စွာဘုရား၏ အဂ္ဂသာဝက ၂ ပါးကား အသောကမထေရ်နှင့် ဗြဟ္မဒေဝမထေရ်ဖြစ်လတ္တံ့။ အဂ္ဂသာဝိကာ ၂ ပါးကား ပဒုမာထေရီနှင့် သုမနထေရီဖြစ်လတ္တံ့။ အလုပ်အကျွေးကား သီဟမထေရ် ဖြစ်လတ္တံ့။ ထိုမြတ်စွာဘုရား၏ ဥာဏ်တော်အမြင့်ကား ၈၈ တောင်မြင့်လတ္တံ့။ သက်တော် ရှစ်သောင်း လေးထောင် နေရလတ္တံ့။ ထိုမြတ်စွာဘုရား၏ သာသနာသည် အနှစ်တသိန်းရှစ်သောင်းတိုင်တိုင်တည်လတ္တံ့။

**မစ်ရှီဂန်ပြည်နယ်။** ။မစ်ရှီဂန်ပြည်နယ်သည် အမေရိကန်ပြည်ထောင်စုတွင် ဖွဲ့စည်း ပါဝင်သော ပြည်နယ်တခုဖြစ်၍ အမေရိကန်ပြည်နယ်၏ မြောက်ဖက်နယ်စပ်ရှိ ဂရိတ်လိတ်ဒေသခေါ် အိုင်ကြီးဒေသ ရပ်ဝန်းတွင် တည်ရှိသည်။ မစ်ရှီ

ဂန်ပြည်နယ်သည် ကျွန်းဆွယ်ကြီး ၂ ခုအပြင် မြောက်မြားလှစွာသော ကျွန်းဆွယ်ကလေးများဖြင့် ဖွဲ့စည်း တည်ရှိသည်။ အထက်ကျွန်းဆွယ်နှင့် အောက်ကျွန်းဆွယ်ဟု တွင်သော ယင်းကျွန်းဆွယ်ကြီး နှစ်ခုကို မစ်ရှီဂန်နှင့် ဟျူရွန်အိုင်ကြီး ၂ ခုကို ဆက်ထားသော မက်ကီနက် ရေလက်ကြားက ပိုင်းခြားထားသည်။ မစ်ရှီဂန်ပြည်နယ်ကို အိုင်ကြီး ၄ အိုင်က နယ်နိမိတ် သတ်ထားသကဲ့သို့ ရှိသည်။ အနောက်ဖက်တွင် မစ်ရှီဂန် အိုင်ကြီး၊ မြောက်ဖက်တွင် ဆူပီးရီးယားအိုင်ကြီးနှင့် မြောက်ဖက်နှင့် အရှေ့ဖက်တို့တွင် ဟျူရွန်နှင့်အီရီအိုင်ကြီးများ တည်ရှိသည်။ တောင်ဖက်တွင် အင်ဒီးယားနားနှင့် အိုဟိုင်းအိုပြည်နယ်တို့ တည်ရှိလေသည်။ အထက်ကျွန်းဆွယ် အနောက် တောင်ပိုင်းသည် ဝစ္စကွန်းဆင်း ပြည်နယ်နှင့် ဆက်စပ် တည်ရှိနေသည်။ မစ်ရှီဂန်ပြည်နယ်၏ အကျယ်အဝန်းမှာ ၅၈,၂၁၆ စတုရန်းမိုင် ရှိသည်။ မစ်ရှီဂန် ပြည်နယ်၏ ရုံးစိုက်မြို့တော်မှာ လန်ဆင်မြို့ဖြစ်၍ အခြားမြို့ကြီးများမှာ ဗေးစီးတီး၊ ဒီးထရွိုက်၊ ဖလင့်၊ ဂရင်းရက်ပစ်၊ မက်စကီဂွန်နှင့် ဆဂီနောတို့ ဖြစ်ကြသည်။

မြေမျက်နှာပြင် အားဖြင့်သော်ကား မစ်ရှီဂန်ပြည်နယ်၏ တောင်ဖက်ပိုင်းသည် များသောအားဖြင့် မြေပြန့်ဖြစ်၏။ မြောက်ပိုင်းသည်ကား တောင်ထူထပ်သည်။ အမြင့်ဆုံးတောင်ထွတ်မှာ ၆၀၂,၀၂၃ ပေမြင့်သော ပေါကယူပိုင်းတောင်ဖြစ်သည်။ အဓိကမြစ်များမှာ ဟျူရွန်နှင့် ဆူပီးရီးယား အိုင်ကြီးများ အကြားရှိ စိန်မေရီမြစ်၊ မစ်ရှီဂန်အိုင်တွင်းသို့ စီးဝင်သော စိန်ဂျိုးဇက်၊ ကာလမာဇူ၊ မာနစ္စတီနှင့် မက်စကီဂွန်မြစ်များ၊ အွန်တေးရီးယိုးအိုင် အစပ်တွင်ရှိသော စိန်ကလဲယားမြစ်နှင့် ဝစ္စကွန်းဆင်းနယ်စပ်တွင် ရှိသော မီနိုမင်နီ၊ ဗရူးနှင့် မွန်းထရီးအော မြစ်များဖြစ်သည်။ မစ်ရှီဂန်ပြည်နယ်၏ ကျယ်ပြန့်သော ကမ်းရိုးတန်းတွင် သဘာဝ ဆိပ်ကမ်း အများအပြားနှင့် အထူး ကောင်းမွန်သည့် ပင်လယ်အော်များ တည်ရှိသည်။ ထိုပြင် မစ်ရှီဂန်ပြည်နယ်တွင်း၌ အင်းအိုင်ငယ်ပေါင်း ၅,၀၀၀ မျှ အနှံ့အပြား တည်ရှိလေသည်။

မစ်ရှီဂန်ပြည်နယ်၏ ရာသီဥတုသည် ကျွန်းဆွယ် ၂ ခုလုံးကို ဝန်းရံတည်ရှိနေသော အိုင်ကြီးများကြောင့် အနီးတဝိုက်ရှိ အခြား ဒေသများနှင့်မတူ တမူထူးခြားသည်။ ခြုံ၍ ပြောရလျှင် မစ်ရှီဂန်၏ ရာသီဥတုသည် ယင်းနှင့် အလားတူ အမြင့်တွင် တည်ရှိသော အခြားပြည်နယ်များထက် ပိုမိုညီညွတ်သည်ဟု ဆိုရပေမည်။ သို့သော် အထက်ကျွန်းဆွယ်တွင် ဆောင်းရာသီ တာရှည်၍ အအေးဓာတ်ပိုမို ပြင်းထန်သည်။ သို့သော် နွေရာသီတွင် နှစ်လိုဖွယ်ကောင်းသည်။ ပြည်နယ်တခုလုံးအဘွက် ပျမ်းမျှ မိုးရေချိန်မှာ ၃၁ လက်မ ဖြစ်သည်။ မစ်ရှီဂန်ပြည်နယ်သည် သစ်တောများ၊ တွင်းထွက်ပစ္စည်း အခြေအမြစ်များ၊ မြေဩဇာကောင်းသည့် မြေဆီလွှာ၊ မြောက်မြားလှသည့် အိုင်များနှင့် မြစ်ချောင်းများ၊ ကျန်းမာရေးနှင့် သင့်လျော်သည့် ရာသီဥတု စသည့် သဘာဝ အခြေအမြစ်များနှင့် ပြည့်စုံသည်။ သို့ပြည့်စုံသည့်အလျောက် အကျိုးရှိစွာလည်း အသုံးပြုခဲ့ကြသည်။

မစ်ရှီဂန် ပြည်နယ်သည် မော်တော်ကား လုပ်ငန်း၌ ပဋ္ဌမတွဲသော ပြည်နယ်ဖြစ်၍၊ ယင်းလုပ်ငန်းများသည် အမေရိကန် ပြည်ထောင်စုတွင် ပဋ္ဌမမြို့ကြီးဖြစ်သော ဒီးထရွိုက်နှင့် ပွန်းတီးယက်၊ ဖလင့်၊ လန်ဆင်မြို့များတွင် တည်ရှိသည်။ ထိုပြင် ဆေးဝါးနှင့် ဓာတုဗေဒပစ္စည်းလုပ်ငန်း၊ စက်ကရိယာလုပ်ငန်း၊ အိမ်ထောင် ပရိဘောဂလုပ်ငန်း၊ သံနှင့် သံမဏိလုပ်ငန်း၊ စက္ကူလုပ်ငန်း၊ သားရေထည် လုပ်ငန်း၊ သား၊ ငါး၊ ဟင်းသီးဟင်းရွက်၊ သီးနှံနှင့် နို့ထွက်ပစ္စည်းများကို စည်သွတ်သောလုပ်ငန်း စသည်ဘို့လည်း ရှိသည်။ မြေဩဇာကောင်းသော အောက်ကျွန်းဆွယ်တွင် ဂျုံ၊ သကြားမုန်လာ၊ စပျစ်သီး၊ ဆီးသီးနှင့် ဟင်းသီးဟင်းရွက် အထူးသဖြင့် ပဲတို့ကို စိုက်ပျိုးသည်။ အသားနှင့် နို့အတွက် နွားများနှင့် ဝက်ကြက်တို့ကို မွေးမြူခြင်းသည်လည်း လုပ်ငန်းကြီးတရပ်ပင်ဖြစ်၏။ မစ်ရှီဂန် ပြည်နယ်သည် တွင်းထွက် ပစ္စည်းများဖြင့် ပေါကြွယ်ဝသည့်အလျောက် အထက်ကျွန်းဆွယ်သည် ကမ္ဘာပေါ်တွင် သံအထွက်ဆုံးဒေသကြီးတခု ဖြစ်ပေသည်။ ထိုပြင် ကြေးနီ၊ ဆား၊ ဂျစ်ပဆမ်၊ ကျောက်မီးသွေး၊ ဘော်သတ္တု၊ ရေနံနှင့် သဘာဝဓာတ်ငွေ့တို့လည်း ထွက်သည်။

မစ်ရှီဂန် ပြည်နယ်သည် လမ်းပန်း အဆက်အသွယ်ကောင်းမွန်လှပေသည်။ အိုင်ကြီးများ၏ ကမ်းခြေတွင် ဆိပ်ကမ်းကောင်းများ ရှိသည်။ ပြည်နယ်၏ တောင်ဖက်တခြမ်းတွင် မီးရထားလမ်း အမြောက်အမြားရှိ၍ အရှေ့မှသည် အနောက်သို့ သွယ်တန်းလျက်ရှိကာ ဒီးထရွိုက်မြို့တွင် ဆုံကြသည်။ ယင်းသည့် မီးရထားလမ်းအများအပြားသည် ပြည်နယ်ကို ကနေဒါနိုင်ငံနှင့် ဆက်သွယ်ပေးလေသည်။ အထက်ကျွန်းဆွယ်ရှိ မီးရထားလမ်းများသည် မြို့ကြီးများကို သင်္ဘောဆိပ်ကြီးများနှင့် ဆက်သွယ်ပေးသည်။ ထိုပြင် ကားလမ်းများနှင့် လေကြောင်းလမ်းများလည်း ရှိပေသည်။

မစ်ရှီဂန်ပြည်နယ်၏ လူဦးရေမှာ ၆,၃၇၂,၀၀၀ ခန့် ဖြစ်သည်။ ပြည်နယ်တွင် အကြီးဆုံးဖြစ်သော ဒီးထရွိုက်မြို့သည် အမေရိကန် ပြည်ထောင်စုတွင် လူဦးရေအားဖြင့် ပဋ္ဌမလိုက်သည်။ မစ်ရှီဂန်ပြည်နယ်သား အများစုသည် မြို့ကြီးများတွင် နေထိုင်ကြသည်။

မစ်ရှီဂန်ကို ဦးစွာ တွေ့ရှိသူတို့မှာ ပြင်သစ်လူမျိုးတို့ဖြစ်၍

၁၇ နှစ်ရာစုနှစ်ခန့်ကပင် စတင် တွေ့ရှိခဲ့သည်။ ၁၆၅၀ ပြည့်နှစ်ကတည်းကပင် ယာယီစခန်းများ ဖွင့်လှစ်ထားရှိသော်လည်း ၁၆၆၈ ခုနှစ်တွင်မှ အမြဲတမ်း ကိုလိုနီနယ်တခုကို တည်ထောင်ခဲ့သည်။ ၁၇၀၁ ခုနှစ်တွင် ဒီးထရွိုက်မြို့တည်ရာတွင် ကက်ဒီလက်ဆိုသူ ဦးဆောင်၍ အခြေစိုက် နေထိုင်သည်။ မစ်ရှီဂန်သည် ၁၇၆၃ ခုနှစ်တိုင်အောင် ပြင်သစ်လက်အောက်ခံ ဖြစ်သည်။ ယင်းနှစ်မှစ၍ အင်္ဂလိပ်ပိုင်နက်ဖြစ်လာသည်။ ၁၇၇၄ ခုနှစ်တွင် ကွီဗက်ပြည်နယ်တွင်း သိမ်းသွင်းခြင်း ခံရသည်။ သို့သော် ၁၇၈၃ ခုနှစ်တွင် ပါရစ် စာချုပ်အရ အမေရိကန် ပြည်ထောင်စုသို့ ပြန်လည် ပေးအပ်ခြင်း ခံရသည်။

၁၈၀၅ ခုနှစ်တွင် မစ်ရှီဂန်သည် သီးခြားနယ်မြေ ဖြစ်လာသည်။ ၁၈၁၂ ခုနှစ် စစ်ပွဲအတွင်းက မစ်ရှီဂန် မြေပေါ်၌ အရေးပါသော တိုက်ပွဲများ ဖြစ်ပွားခဲ့သည်။ ၁၈၃၂ ခုနှစ်တွင် လူဦးရေ လုံလုံလောက်လောက် ပြည့်စုံလာသောကြောင့် သီးခြား ပြည်နယ်ဖွဲ့ခန့် စဉ်းစားခြင်း ခံရသည်။ သို့သော် ပြည်နယ် အစိုးရ ဖွဲ့စည်း တည်ထောင်ရန် ပြုလုပ်ဆောင်ရွက်ရာ၌ တောင်ဖက်နယ်စပ်နှင့် စပ်လျဉ်း၍ အိုဟိုင်းအို ပြည်နယ်နှင့် အချင်းများခဲ့သည်။ သို့ဖြင့် ၁၈၃၇ ခုနှစ်တွင်မှ မစ်ရှီဂန်ကို အမေရိကန်ပြည်ထောင်စုဝင် ပြည်နယ်အဖြစ် လက်ခံ အတည်ပြုခဲ့သည်။ ဦးစွာ၌ မြို့တော်မှာ ဒီးထရွိုက်မြို့ဖြစ်၍ ၁၈၄၇ ခုနှစ်တွင်မှ လန်ဆင်ကို မြို့တော်အဖြစ် ရွေးချယ် သတ်မှတ်လိုက်လေသည်။

**မဓျဒေသ ပြည်နယ်။** ။မဓျဒေသ ပြည်နယ်သည် အိန္ဒိယပြည်ထောင်စုတွင် ပါဝင်သော ပြည်နယ်တခုဖြစ်၍ ရှေးဗြိတိသျှ လက်ထက်က စင်ထရယ်ပရော်ဗင့်စစ်နှင့် ဗီရာ (ဝါ) အလယ်ပိုင်းပြည်နယ်စုနှင့် ဗီရာနယ်တို့ကို ခေါ်ဝေါ်သော အမည်သစ်ပင် ဖြစ်၏။ ၁၉၅၆ ခုနှစ်၌ အိန္ဒိယ နိုင်ငံရှိ ပြည်နယ်များကို နယ်နိမိတ် ပြန်လည် သတ်မှတ်ပြီးသည် နောက် ယခုအခါ မဓျဒေသ ပြည်နယ်၏ အကျယ်အဝန်းသည် စတုရန်းမိုင် ၁၇၁,၂၁၀ ရှိသည်။

မဓျဒေသ ဟူသော အမည်နှင့်အညီ အိန္ဒိယ နိုင်ငံ၏ အလယ်ပိုင်း အချက်အခြာ ဒေသတွင် တည်ရှိ၏။ အရှေ့မြောက်ဖက်တွင် ဗီဟာ၊ အရှေ့တောင်ဖက်တွင် သြရိယာ၊ တောင်ဖက်အရှေ့ယွန်းယွန်းတွင် အန္ဒရဒေသ၊ အနောက်တောင်ဖက်တွင် ဘုံဘိုင်ပြည်နယ်၊ အနောက်မြောက်ဖက်တွင် ရာဇဌာန်၊ မြောက်ဖက်တွင် ဥတ္တရ ဒေသ ပြည်နယ်များဖြင့် ပတ်ရံလျက်ရှိသည်။ မဓျဒေသ ပြည်နယ်၏ ရုံးစိုက်မြို့သည် ဗိုပါမြို့ဖြစ်၏။

ဝိန္ဓိယ တောင်တန်းနှင့် ဆတ်ပူရ တောင်တန်းများသည် မဓျဒေသ ပြည်နယ်တွင် အနောက်မြောက်ဖက်၌ ပြတ်တောင်းပြတ်တောင်း တည်ရှိသည်။ မဟာနဒီမြစ်၏ အထက်ပိုင်းသည် ဤပြည်နယ်တွင်ပါဝင်သည်။ ရာသီဥတုအားဖြင့်မူ ကုန်းမြင့်၌ အပူအအေးညီမျှ၍ မြစ်ဝှမ်း၌မူ အိုက်သည်။ မိုးအသင့်အတင့် ရွာသည်။

မဓျဒေသ ပြည်နယ်မှ သံရိုင်း၊ မန်ဂနိ၊ မဂ္ဂနီဆိုက်၊ ဗောက်ဆိုက်၊ ကျောက်မီးသွေး စသည်တို့ ထွက်သည်။ လယ်ယာစိုက်ပျိုးခြင်းသည် အဓိကလုပ်ငန်းဖြစ်လျက် ဆန်စပါး၊ ဂျုံ၊ နှံစားပြောင်း၊ ဝါဂွမ်း၊ လူး ဆပ်တို့ ထွက်၏။ ဗိလတ်မြေလုပ်ငန်းသည် လုပ်ငန်းကြီးတခု ဖြစ်၏။ လမ်းပန်း ဆက်သွယ်ရေးအားဖြင့် မီးရထားလမ်းကောင်းများ၊ မော်တော်ကား လမ်းကောင်းများ ရှိ၏။

မဓျဒေသပြည်နယ်တွင် နေထိုင်သူ အများစုမှာ ဟိန္ဒူလူမျိုးများဖြစ်၍ အများပြော စကားမှာလည်း ဟင်ဒီဘာသာစကား ဖြစ်၏။ ပြည်နယ်တွင်းရှိ လူဦးရေမှာ ၁၉၅၉ ခုနှစ်တွင် ခန့်မှန်းခြေ ၂,၆၇၁,၆၃၇ ဖြစ်၏။

ခရစ် ၁၈၅၃ ခုနှစ်၌ နဂ္ဂပူမှ မရတ္တာရာဇာ လွန်လေသော် ယင်းနယ်ကို ဗြိတိသျှ အုပ်ချုပ်ခံ နယ်အဖြစ် သိမ်းပိုက်ကျေညာခြင်း ခံရ၏။ ၁၈၆၁ ခုနှစ်တွင် ဆော်ဂူးနှင့် နာဗဒ္ဒနယ်များနှင့် ပေါင်းလျက် တခုလုံးသည် အလယ်ပိုင်းနယ်စုဟု တွင်လာ၏။ ၁၉၀၂ ခုနှစ်တွင် ဗီရာနယ်ကို အလယ်ပိုင်းနယ်စုတွင် သွတ်သွင်းလိုက်၏။ ဗီရာနယ်မှာ ရှေးအခါက ဟိုက်ဒရာဗတ်မှ နိုင်ဇမ် အုပ်ချုပ်ခံနယ် ဖြစ်သော်လည်း ယင်းနယ်ကို ကောင်းစွာ မထိန်းသိမ်း နိုင်သောကြောင့် ဗြိတိသျှတို့၏ လက်အောက် ဝန်ရှင်တော်မင်းကြီး အုပ်ချုပ်ခြင်းကို ခံခဲ့ရသည်။ သို့သော်လည်း ၁၉၃၆ ခုနှစ်၌ ဗြိတိသျှနှင့် နိုင်ဇမ် (စော်ဘွား) တို့ နှစ်ဦးနှစ်ဖက် သဘောတူရေးထိုးသော စာချုပ်အရ ဗီရာနယ်တွင် နိုင်ဇမ်၏သြဇာအာဏာကို အသိအမှတ်ပြုခဲ့၏။ ၁၉၂၀ ပြည့်ခုနှစ်တွင် ဘုရင်ခံ အုပ်ချုပ်သော နယ်ဖြစ်ပြီးလျှင် ၁၉၃၇ ခုနှစ်၌ ကိုယ်ပိုင် အုပ်ချုပ်ရေးကို ရရှိသည်။ အိန္ဒိယနိုင်ငံ လွတ်လပ်ရေးရရှိသည်တွင် အိန္ဒိယနိုင်ငံဖွဲ့စည်း အုပ်ချုပ်ပုံ အခြေခံ ဥပဒေအရ ယခင်က အလယ်ပိုင်း ပြည်နယ်စုနှင့် ဗီရာနယ်သည် မဓျဒေသ ပြည်နယ် ဟူသော အမည်သစ်ကို ရရှိလေသည်။ ၁၉၅၆ ခုနှစ်၌ အိန္ဒိယ နိုင်ငံရှိ ပြည်နယ်များကို ပြန်လည် သတ်မှတ်ရာ၌ ယခု အလယ်ပိုင်း ပြည်နယ်စု၏ မြို့တော် နဂ္ဂပူမြို့သည် ဘုံဘိုင်နယ်တွင်းသို့ ပါဝင်သွား၍ မဓျဒေသ ပြည်နယ်၏ မြို့တော်မှာ ဗိုပါမြို့ ဖြစ်လာသည်။

ယခုအခါ မဓျဒေသ ပြည်နယ်တွင် ဘုရင်ခံ အုပ်ချုပ်၍ သီးခြား လွှတ်တော်တရပ်၊ ဝန်ကြီးအဖွဲ့၊ တရားလွှတ်တော်၊ ရာထူးဝန်အဖွဲ့ စသည်တို့ရှိသည်။ အိန္ဒိယ ပြည်ထောင်စု အထက်လွှတ်တော်သို့ ကိုယ်စားလှယ် ၁၆ ဦးနှင့် အောက်လွှတ်တော်သို့ ကိုယ်စားလှယ် ၃၆ ဦး စေလွှတ်ရသည်။

**မည်စည်ပင်**။ ။မည်စည်ပင်သည် ဆက်ပိုတေးစီအီးမျိုးရင်းတွင် ပါဝင်၍ ယင်း၏ ရုက္ခဗေဒ အမည်မှာ ဗက်ဆီယာ လွန်ဂျီဖိုးလီးယား ဖြစ်သည်။ မည်စည်ပင်၏ မူလပေါက်ရာ အရပ်များမှာ သီဟိုဠ်ကျွန်း၊ မလ္လာယုကျွန်းဆွယ်နှင့် အိန္ဒိယနိုင်ငံ တောင်ပိုင်းတို့ ဖြစ်ကြသည်။ ထိုဒေသများမှ ယူဆောင်၍ မြန်မာနိုင်ငံ အထက်ပိုင်း၌ စိုက်ပျိုးခဲ့ရာ၊ ယခုအခါ ထိုအပင်များကို အထက်အညာ၌ အနှံ့အပြား တွေ့ရပေသည်။ မည်စည်ပင်သည် အမြင့်ပေ ၅၀ အထိ ရှိ၍ အမြဲ စိမ်းလန်းနေသော အရွက်တို့ဖြင့် ထူထပ်စွာ ဖုံးအုပ်လျက်ရှိသောကြောင့် အရိပ်ကောင်းရသော အပင်မျိုး ဖြစ်သည်။

မည်စည်ပင်သည် အလွန် အသုံးဝင်သော သစ်ပင် ဖြစ်သည်။ အရိပ် အာဝါသကောင်းရရုံသာမက ယင်း၏ အပွင့်များကို အခြောက်လှန်း၍ ကြော်ချက်စားနိုင်သည်။ အစေ့များကို ကြိတ်၍ ရရှိသော ဆီကို ကြော်ချက်ရာ၌ရင်း၊ ဟင်းချက်ရာ၌ရင်း အသုံးပြုကြသည်။ ဆပ်ပြာချက်ခြင်း၊ ထောပတ်တုလုပ်ခြင်း၊ ဂလစ်ဆရင်းခေါ် အလှဆီ လုပ်ခြင်း စသည်တို့အတွက် အပြင် မီးထွန်းဆီ အဖြစ်ဖြင့်လည်း ထိုဆီကို အသုံးချကြသည်။

အရွက်များသည် လုံးသွား ပုံသဏ္ဌာန်ရှိ၍ အရင်းနှင့်အဖျားဖက်သို့ ချူးလျက် အလျား ၄ လက်မ ၅ လက်မခန့်ရှိသည်။ အဖြူပွင့်များ ပွင့်သည်။ အသီးသည် သံလွင်သီးနှင့် ဆင်ဆင်တူ၍ ၁ လက်မမှ ၁ လက်မခွဲထိ ရှည်သည်။ မှည့်လျှင် ဝါလာ၍ အသီးတလုံးတွင် များသောအားဖြင့် အစေ့ ၁ စေ့၊ သို့မဟုတ် ၂ စေ့စီ (အများဆုံး ၄ စေ့အထိ) ပါသည်။အခေါက်မှာမဲ့ပြာမှိုင်းမှိုင်းရောင်ရှိ၍ ထွင်းကြောင်းများ ပေါ်လျက်ရှိသည်။

မည်စည်ပင်များသည် မြေဖွာသည့် အရပ်များတွင် ကောင်းစွာ ဖြစ်ထွန်းသည်။ အစေ့ကို စိုက်ခြင်းဖြင့် အပင်ပေါက်လွယ်သော်လည်း အနည်းငယ် အကြီးနှေးသည်။

**မတ်, ကားလ** (ခရစ် ၁၈၁၈ – ၁၈၈၃)။ ။ခေတ်သစ် ဆိုရှယ်လစ်နှင့် ကွန်မျူနစ်ဝါဒတို့ကို လေးနက်စွာ တွေးတောကြံဆ လမ်းစဉ်ချပေးကာ ပြုစုပျိုးထောင်ခဲ့သူ ကားလမတ်သည် ဂျာမန် လူမျိုး သဘာဝတ္တဗေဒ ပညာရှင်၊ ဘောဂဗေဒပါရဂူ တဦးဖြစ်၏။ နာမည် အပြည့်အစုံမှာ ဟိုင်းနရစ် ကားလမတ်ဖြစ်သည်။ ယခုအခါ ကမ္ဘာပေါ်ရှိ သန်းပေါင်းများစွာသော လူအပေါင်းတို့သည် ကားလမတ်၏ သဘောတရားဝါဒတို့ကို လိုက်နာ ကျင့်သုံးလျက် ရှိသည်။ လူတို့၏ စိတ်ဓာတ်ကို ဆွဲဆောင်နိုင်စွမ်းရှိ၍၊ လူတို့၏ ပေါင်းသင်းဆက်ဆံရေး အဖွဲ့အစည်းကို ပြုပြင် ပြောင်းလဲပေးသူ ခေါင်းဆောင်တဦး ဖြစ်ပေသည်။

ကားလမတ်သည် ၁၈၁၈ ခုနှစ် မေလ ၅ ရက်နေ့တွင် ဂျာမန် နယ်ပယ်ကြီးတခု ဖြစ်သော ပရပ်ရှားပြည် ရိုင်းလန်းဒေသရှိ ထရိယာ (ထရိ) မြို့၌ မွေးဖွားသည်။ ဖခင်မှာ ယဟူဒီ အဆက်အနွယ် ရှေ့နေတဦး ဖြစ်သည်။ ကားလမတ်၏ ဖခင်သည် ၁၈၂၄ ခုနှစ်၌ ခရစ်ယန် အယူဝါဒီ ပရိုတက်စတန့် ဂိုဏ်းဝင်အဖြစ် သွတ်သွင်းခံယူခဲ့သောကြောင့် သူ၏ အိမ်သားစုသည်လည်း ခရစ်ယန် အယူဝါဒီများ ဖြစ်လာကြသည်။ ကားလမတ်သည် ဦးစွာ၌ ထရိယာမြို့တွင် ပညာသင်ယူခဲ့ပြီးနောက် ဗွန်းနှင့် ဘာလင် တက္ကသိုလ်များတွင် ဆက်လက် ပညာဆည်းပူးခဲ့သည်။ ယင်း တက္ကသိုလ်တွင် ဥပဒေပညာ၊ နိုင်ငံသမိုင်း၊ သဘာဝတ္တဗေဒ ပညာများကို လေ့လာဆည်းပူးခဲ့ပြီးနောက် ပါရဂူဘွဲ့ကို ၁၈၄၂ ခုနှစ်တွင် ဂျီနာတက္ကသိုလ်မှ ဆွတ်ခူးခဲ့သည်။

ကားလမတ်သည် ထိုနှစ်တွင် ကျောင်းမှ ထွက်သော်၊ ကိုလုန်းမြို့၌ ထုတ်ဝေသော "ရိုင်းနစ်ရှီဇိုက်တွန်" သတင်းစာ၏ စာတည်းအဖွဲ့ဝင်အဖြစ် ဆောင်ရွက်သည်။ မကြာမီပင် စာတည်းတဦး ဖြစ်လာသည်။ ၁၈၄၂ ခုနှစ်တွင် အစိုးရက နှိပ်ကွပ်သဖြင့် ထိုသတင်းစာကို ပိတ်လိုက်ရသည်။ ၁၈၄၃ ခုနှစ်တွင် ကားလမတ်သည် အစိုးရ အရာရှိကြီးတဦး၏ သမီးဖြစ်သူ ဂျင်နီ ဖွန် ဗက်စဖေလင်နှင့် လက်ထပ်သည်။ ကားလမတ်အပေါ် သစ္စာရှိပေသော ဘဝကြင်ဖော်တဦး ဖြစ်ခဲ့လေသည်။ ထိုနောက် ကားလမတ်သည် ပါရစ်မြို့သို့ သွားရောက်ပြီးလျှင် လူမှုရေး ပညာနှင့် ဘောဂဗေဒ ပညာတို့ကို ဆည်းပူးသည်။ ထိုအချိန်တွင် ကားလမတ်သည် ဆိုရှယ်လစ်ဝါဒကို စွဲမြဲသုံးကြည်နေပြီ ဖြစ်၏။ ပါရစ်မြို့တွင် အခြားသူတို့နှင့် အတူ 'ဖရန်ဇိုဆစ်ရှီ ဇာဗရူကာ' စာစောင်ကို ထုတ်ဝေရာ တစောင်သာ ထုတ်ရပြီးနောက် ရပ်စဲလိုက်ရသည်။ ပါရစ်မြို့တွင် နေထိုင်စဉ် ဖရီဒရစ် အန်းဂဲနှင့် တွေ့ဆုံလေသည်။ အတွေးအခေါ်ချင်း တူမျှသောကြောင့် ရာသက်ပန်မိတ်ဆွေများဖြစ်သွားကြသည်။ (အန်းဂဲ, အက် (ဖ) — ရှု။) ကားလမတ်နှင့်အန်းဂဲတို့ ၂ ဦး ပူးပေါင်းပြီးလျှင် 'မြတ်သော အိမ်ထောင်စု' ဟူသောကျမ်းကို ပြုစုကြသည်။ ထိုပြင် ထိုသို့ ပါရစ်မြို့တွင် နေထိုင်ခဲ့စဉ်က ဟိုင်းနရစ်ဟိုင်းနနှင့်လည်း ရင်းနှီး ခင်မင်ခဲ့သည်။ သို့သော်များမကြာမီပင် ပရပ်ရှင်း အစိုးရ၏ ပန်ကြားချက်အရ ကားလမတ်သည် ပြင်သစ်နိုင်ငံမှ နှင်ထုတ်ခြင်းခံရသည်။ ထိုအခါ ဗဲလဂျီယမ်နိုင်ငံ၏ မြို့တော် ဗရပ်ဆဲမြို့တွင် ခိုလှုံနေထိုင်သည်။ ထိုသို့ နေထိုင်ခဲ့စဉ် ၁၈၄၇ ခုနှစ်တွင် 'ယထာဘူတ၏မွဲခြင်း' ဟူသော ကျမ်းကို ထုတ်ဝေသည်။ ပြင်သစ်ဆိုရှယ်လစ် ပီယဲ ဂျိုးဇက်ပရူဒွန် ရေးသားသော 'မွဲခြင်း၏ ယထာဘူတ' ကို ထေ့ငေါ့ ပြောင်လှောင် ချိုးနှိမ်သော စာဖြစ်၏။ ဗရပ်ဆဲတွင် ကားလမတ်နှင့် အန်းဂဲတို့သည် ဂျာမန်ဘာသာဖြင့်

ရက်သတ္တပတ်စဉ် စာစောင်ဖြစ်သော ‘ဗရပ်ဆဲလာ ဒွိုက်ရှိဇိုက်တွန်’ သတင်းစဉ်ကို ခေတ္တမျှ ထုတ်ဝေခဲ့သည်။ “တရားသူတို့ အဖွဲ့ချုပ်”ဟု အမည်တွင်သော နိုင်ငံပေါင်းစုံ လျှို့ဝှက်အသင်းသို့လည်း ဝင်ရောက်ခဲ့သည်။ ယင်းသည်ကား မျက်မှောက်ကာလ ကွန်မြူနစ် အဖွဲ့ချုပ်၏ ကနဦး အသွင်ပင်ဖြစ်၏။ ဤအဖွဲ့ချုပ်အတွက် ကားလမတ်သည် အန်းဂဲနှင့်အတူ နာမည်ကျော် “ကွန်မြူနစ် ကျေညာစာတမ်း” ကို ရေးသားပေးခဲ့၍ ၁၈၄၈ ခုနှစ်တွင် ထုတ်ဝေဖြန့်ချိခဲ့လေသည်။ ထိုစာတမ်းတွင် အလုပ်သမား လူတန်းစားတို့ တော်လှန်ရေးတွင် မည်သို့ ပါဝင်ရမည့် အကြောင်းကို ရှင်းလင်းပြတ်သား စိတ်အားထက်သန်စွာ သရုပ်ဖော်ထားသည်ဖြစ်၍ ထိုမှအနှစ် ၁၀၀ လွန်သောအခါ မတ်ဝါဒီ၊ လီနင်ဝါဒီတို့၏ အခြေခံ လက်စွဲစာအုပ် ဖြစ်လာလေသည်။

၁၈၄၈ ခုနှစ်တွင် ဂျာမနီ၌ တော်လှန်ရေး လှုပ်ရှားမှုများ ဖြစ်ပွားလာသောအခါ မတ်သည် ကိုလုန်းသို့သွားပြီးလျှင် ‘နယူးရိုင်းနစ်ရှိဇိုက်တွန်’ သတင်းစာကို ထုတ်ဝေသည်။ ပရပ်ရှင်းအစိုးရက ပြင်းထန်စွာ နှိပ်ကွပ်သည်။ အခွန်အကောက်မပေးဟု ငြင်းဆိုသည်။ လက်နက်ကိုင်၍ ခုခံမည်ဟု ကျေညာသည်။ ထိုကြောင့် နိုင်ငံတော် သစ္စာဖောက်မှုဖြင့် ပရပ်ရှင်း အစိုးရက ဖမ်းဆီးခြင်းကို ခံရသည်။ တရားသေ လွတ်မြောက်ခဲ့သော်လည်း ဇာတိနိုင်ငံမှ တဖန် အနှင်ခံရပြန်သည်။ ဤအကြိမ်တွင် အင်္ဂလန်ပြည် လန်ဒန်မြို့သို့ သွားရောက်၍ သေသည့်တိုင်အောင်နေထိုင်ခဲ့သည်။ လန်ဒန်မြို့သို့ ရောက်စက ကြပ်တည်း ဆင်းရဲ၏။ နယူးယော့ထရီဗျွန်းသတင်းစာ၏ တောင်းပန်ချက်အရ ယင်းသတင်းစာတိုက်သို့ ဆောင်းပါးများ ရေးပို့သောကြောင့် ငွေအနည်းငယ်ရသဖြင့် သက်သာရာရခဲ့သည်။ ထိုပြင် အန်းဂဲကလည်း ကူညီထောက်ပံ့ခဲ့သည်။ လန်ဒန်မြို့၌ နေထိုင်စဉ် သူ၏ဝါဒကို ဖြန့်ခဲ့သည်။ ‘နယူးရိုင်းနစ်ရှိဇိုက်တွန်’ သတင်းစာကို ဆက်လက် ထုတ်ဝေရန် ကြိုးစားခဲ့သော်လည်း စာစောင် ၆ ခုအထိသာ ထုတ်ဝေနိုင်ခဲ့သည်။ ၁၈၅၉ ခုနှစ်တွင် ဘောဂဗေဒကို ဝေဖန်သော ကျမ်းတစောင် ထုတ်ဝေသည်။ အားရကျေနပ်ခြင်း မရှိသဖြင့် တဖန်ပြန်၍ ရေးသားရာတွင် ၁၈၆၇ ခုနှစ်၌ ‘အရင်းအနှီး’ ကျမ်း ပဌမတွဲကို ထုတ်ဝေနိုင်ခဲ့လေသည်။ သို့သော် ကျယ်ပြန့်လှစွာ မိမိရေးသားခဲ့သော ထိုကျမ်းကို အပြီးသတ် ပုံနှိပ်ထုတ်ဝေသည်အထိ ကားလမတ်သည် သက်ဆိုးမရှည်ဘဲ ရှိခဲ့၏။ အတွဲ ၂ နှင့် ၃ တို့ကို ၁၈၈၅ ခုနှစ်မှ ၁၈၉၄ ခုနှစ်အထိ နှစ်များအတွင်း အန်းဂဲက လက်စသတ်ကာ တည်းဖြတ်ထုတ်ဝေခဲ့သည်။ ၁၈၆၄ ခုနှစ်တွင် ကားလမတ်သည် အပြည်ပြည်ဆိုင်ရာ အလုပ်သမားများအသင်းကို ဖွဲ့စည်းသည်။ ကားလမတ်သည် လန်ဒန်မြို့၌ ၁၈၈၃ ခုနှစ် မတ်လ ၁၄ ရက်နေ့တွင် ကွယ်လွန်သည်။



ကွန်မြူနစ်ဝါဒကို ပျိုးထောင်ခဲ့သူ ကားလမတ်

ကားလမတ်သည် အရင်းရှင်၊ အလုပ်သမားတို့နှင့် စပ်လျဉ်းသော ပြဿနာများကို စိတ်ဝင်စား၍ တွေးခေါ်မြော်မြင်သည်။ အလုပ်သမား လူတန်းစားတို့သည် တနေ့တွင် အာဏာရရှိရမည်။ ကုန်ထုတ်ကရိယာတို့ကို ပြည်သူလူထုက ပိုင်ဆိုင်၍ ထိုကုန်ထုတ်ကရိယာတို့ကို အမြတ်အတွက်မဟုတ်ဘဲ ပြည်သူလူထုတို့ မျှတသော အကျိုးကျေးဇူးများကို ခံစားစေရန် အလို့ငှါ စီမံကိန်းပြုရမည် ဟူသော ခေတ်သစ် ဆိုရှယ်လစ် စံနစ်ကို ချမှတ်ပေးသည်။ ပေါင်းသင်းဆက်ဆံရေးတွင် မတူညီသော အတန်းအစား ၂ ခု ဖြစ်သည့် အရင်းရှင်နှင့် အလုပ်သမားတို့သည် ပဋိပက္ခ ဖြစ်ရမည်မှာ မလွဲမရှောင်သာသော အရာဖြစ်သည်။ ထို့ကြောင့် ကုန်ထုတ်ကရိယာကို အလုပ်သမားတို့ လက်ဝယ်ရရှိ၍ အလုပ်သမား ဆိုရှယ်လစ် နိုင်ငံ ထူထောင်နိုင်မှ အေးငြိမ်းချမ်းသာမည်။ ဤသို့မဟုတ်လျှင် အေးငြိမ်းချမ်းသာမှု ရရှိမည်မဟုတ်ဟု ထုတ်ဖော်ရေးသားသည်။

ကားလမတ်သည် ဆိုရှယ်လစ်ဝါဒကို စံနစ်တကျ သုံးသပ်ဝေဖန်ရာ၌ ရှေးဟောင်း ဂျာမန် ယထာဘူတကျမ်းများအနက် အထူးသဖြင့် ဟေးဂဲ၏ ကျမ်းများကို၎င်း၊ အင်္ဂလိပ် နိုင်ငံရေး စာရေးဆရာများအနက် အထူးသဖြင့် အက်ဒမ်

စမစ်၊ ရီကာဒိုတို့၏ ကျမ်းတို့ကိုရင်း မှီငြမ်းပြု၍ တွေးခေါ် မြော်မြင်သည်။ ကားလမတ်သည် မိမိသဘော မကျသော အယူအဆများကို ငြင်းဆိုချေပ ပြောဆိုရာ၌ ပိုင်နိုင် ပြင်းထန်၍ အညှာအတာကင်းမဲ့သည်။ အထေ့အငေါ့ ကောင်းပေသည်။ ရံဖန်ရံခါလည်း စကားအသုံးအနှုန်း ကြမ်းတမ်းတတ်သည်။ သူ၏ 'အရင်းအနှီး' ကျမ်းတွင် အချို့ အပိုဒ်များသည် သရုပ်ပေါ် ရှင်းလင်း ပြတ်သားလှသည်။ လူယဉ်ကျေးစိတ်ဓာတ် ပေါ်လွင်သည်။ သို့သော် အလွန်ခက်ခဲသော ကျမ်းတစောင် ဖြစ်သည်။ အတွေးအခေါ် နက်နဲ၍ အဓိပ္ပါယ်ဖော်ရန် မလွယ်ပေ။ ကားလမတ်နှင့် အန်းဂဲတို့ ချမှတ်ပေးသော လမ်းစဉ်ကို ရုရှခေါင်းဆောင်များ ဖြစ်သော လီနင်နှင့် စတာလင်တို့က လက်ခံ ပြုစုကြသည်။ ၁၉၁၇ ခုနှစ် ရုရှတော်လှန်ရေး ပြီးဆုံး၍ ဆိုဗီယက်နိုင်ငံ ထူထောင်သောအခါ ကားလမတ်၏ သဘောတရား ဝါဒလမ်းစဉ်ကို လိုက်နာ ကျင့်သုံးကြသည်။ ၁၉ ရာစုနှစ်တွင် လူမှုအဖွဲ့အစည်းကို ပြုပြင် ပြောင်းလဲစေအောင် ဖန်တီးရာ၌ ချားဒါဝင်သာလျှင် ကားလမတ်နှင့် နှိုင်းယှဉ်နိုင်သည်ဟု ဆိုကြပေသည်။ (ကွန်မြူနစ်ဝါဒ။ ဆိုရှယ်လစ်ဝါဒ။ လီနင်။ စတာလင်,ဂျေ၊ ဗွီ။ ဒါဝင်,ချား — လည်း။ ရှု)

**မတ်,ဒေါက်တာ။** ။မှတ်၊ ဆရာ — ရှု။

**မတ်ဇီနီ,ဂျီ** (ခရစ် ၁၈၀၅ – ၁၈၇၂)။ ။ဂျူး ဇက် ပေ မတ်ဇီနီသည် ဣတာလျံ မျိုးချစ်ပုဂ္ဂိုလ်တဦးဖြစ်၍ သူ့အမျိုးသားများကို တလုံးတစည်းတည်း ဖြစ်အောင် ကြိုးပမ်းဆောင်ရွက်ခဲ့ လေသည်။ သူကို ၁၈၀၅ ခုနှစ် ဇွန်လ ၂၂ ရက်နေ့တွင် ဂျီနိုးအာမြို့၌ ဖွားမြင်လေသည်။ သူသည် ဂျီနိုးအာ တက္ကသိုလ်၌ ဥပဒေပညာ ဆည်းပူးခဲ့၍ ငယ်စဉ်ကပင် စာပေ၌ ဝါသနာပါခဲ့လေသည်။ ထိုအချိန်က ဣတာလီပြည်ကြီးမှာ ဝါးအစည်းပြေသကဲ့သို့ အစိတ်စိတ်အမွှာမွှာ ကွဲလျက် ရှိပေရာ၊ မတ်ဇီနီသည် သူ၏ ကလောင်လက်နက်ဖြင့် ဣတာလျံ အမျိုးသားများအား နိုင်ငံရေးမျက်စိ ဖွင့်ပေးခဲ့သည်။ သူသည် နိုင်ငံရေးတွင် အထူးပင် စိတ်အားထက်သန်လှရကား တက်လမ်းရှိသော ရှေ့နေ အလုပ်ကိုပင် စွန့်လွှတ်ခဲ့လေသည်။

ထိုနောက် ကာဗော်နာရီခေါ် လျှို့ဝှက်သော ဣတာလီ တော်လှန်ရေး အသင်းနှင့် ဆက်သွယ်ခဲ့ရာတွင် သတ္တိရှိရှိနှင့် အလုပ်လုပ်ဆုံး ရဲဘော်ဖြစ်သဖြင့် ၁၈၃၀ ပြည့်နှစ်၌ အဖမ်းခံရလေသည်။ နောက် ၆ လခန့်အကြာ ထောင်မှလွှတ်လာသောအခါ ပြည်နှင်ခံရလေသည်။ ပဌမ သူသည် မာဆေးမြို့တွင် နေထိုင်ခဲ့၍ နောက်တွင် ဆွစ်ဇာလန်ပြည်တွင် သွားရောက် နေထိုင် ခဲ့လေသည်။ မည်သည့် နေရာတွင် နေစေကာမူ ဣတာလီပြည်ရှိ သမတဂိုဏ်းသားများနှင့်ကား အဆက်အသွယ် ရှိနေခဲ့၏။ သို့သော် သူ၏ မျိုးချစ်စိတ်မှာ ယခင်ကထက် ပိုမို ပြင်းထန်လာ၍ ကာဗော်နာရီ အသင်းမှာ မှန်းခြေကိုက်အောင် ဆောင်ရွက်နိုင်တော့မည် မဟုတ်ဟု သိရှိလာသဖြင့် ဣတာလီ လူငယ်များအဖွဲ့ကို တည်ထောင်ခဲ့လေသည်။ ထိုအဖွဲ့၏ ရည်ရွယ်ချက်မှာ ဣတာလီပြည်ကို နိုင်ငံခြားသားများလက်မှ ကယ်တင်ရန်နှင့် ဣတာလီပြည်နယ်များကို သွေးစည်းကာ သမတ အစိုးရ ထူထောင်ရန် ဖြစ်၍ သူတို့ အကြံ အောင်မြင်ရန်အတွက် လူထုကို ပညာမျက်စိ ဖွင့်ပေး၍ အခါအခွင့်သင့်သလို ပြောက်ကျားစနစ်ဖြင့် ပုန်ကန် ထကြွရန် စီစဉ်ထားလေသည်။ မတ်ဇီနီ၏ တော်လှန်ရေး လုပ်ငန်းများမှာ ဣတာလီပြည်နယ် အာဏာပိုင်များအား များစွာ စိတ်အနှောင့်အယှက် ဖြစ်စေသဖြင့် ထိုအာဏာပိုင်တို့၏ တောင်းဆိုမှုကြောင့် သူ့အား ပြင်သစ်အစိုးရက ပြည်နှင်ဒဏ်ပေးလိုက်ရာ၊ ၁၈၃၂ ခုနှစ်၌ ဆွစ်ဇာလန်ပြည်သို့ ထွက်ခွာသွားရလေတော့၏။

ထိုသို့ ပြည်နှင်ဒဏ် ခံနေရစဉ် သူသည် အငြိမ်မနေဘဲ ရောက်ရာအရပ်၌ လူများအား တော်လှန်ရေး စိတ်ဓာတ် တက်ကြွလာအောင် ကြိုးစား ဆောင်ရွက်ခဲ့ လေသည်။ ၁၈၃၄ ခုနှစ်၌ သူနှင့် သူ့ရဲဘော်များသည် လူမျိုးအားလုံး သာတူညီမျှ ကြီးပွားချမ်းသာရေးကို မျှော်မှန်း၍ ဥရောပ လူငယ် အသင်းကို တည်ထောင်ခဲ့ကြသေးသည်။ သူလှုံ့ဆော်သဖြင့် ဆွစ်ဇာလန် လူမျိုးများမှာ နိုင်ငံရေးဖက်၌ နိုးကြားလာကြသောကြောင့် ၁၈၃၆ ခုနှစ်တွင် သူသည် ဆွစ်ဇာလန်ပြည်မှ နှင်ထုတ်ခြင်း ခံရပြန်လေသည်။ ၁၈၃၇ ခုနှစ်တွင် အင်္ဂလန်ပြည်သို့ သွားရောက် နေထိုင်ခဲ့၏။ သူသည် အင်္ဂလန်ပြည်၌ ၇ နှစ်ကြာမျှ ဆင်းဆင်းရဲရဲ နေထိုင်ခဲ့ရစဉ် အင်္ဂလိပ်စာကို တတ်အောင်သင်၍ သတင်းစာများတွင် ဆောင်းပါးများ ရေးကာ အသက်မွေးခဲ့ရလေသည်။

၁၈၄၈ ခုနှစ်၌ ဥရောပတိုက်ရှိ နိုင်ငံအများတွင် တော်လှန်ပုန်ကန်မှုများပေါ်ပေါက်လာ၍ လောင်ဗတ်နယ်သူနယ်သားများလည်း ပုန်ကန် ထကြွကြလေရာ၊ မတ်ဇီနီသည် ဣတာလီပြည်သို့ ပြန်သွား၍ လွတ်လပ်ရေး တိုက်ပွဲ၌ ပါဝင်ဆင်နွှဲခဲ့လေသည်။ မျိုးချစ်သူပုန်များအရေးသာ၍ ရောမမြို့တော်၌ သမတ အစိုးရ တည်ထောင်သောအခါ မတ်ဇီနီသည် အချုပ်အချာ အာဏာရထားသော အုပ်ချုပ်ရေးမှူး ၃ ယောက်အနက် တယောက် အပါအဝင် ဖြစ်လာခဲ့သည်။ သို့ရာတွင် ပြင်သစ် စစ်တပ်များ လာရောက် တိုက်ခိုက်သောအခါ ရောမမြို့တော်မှာ ရန်သူများ လက်တွင်းသို့ ပြန်လည်ကျရောက် သွားလေတော့၏။ မတ်ဇီနီ၏ မျှော်လင့်ချက်များလည်း လုံးဝပျက်ပြားသွားရသဖြင့် သူသည် ဆွစ်ဇာလန်ပြည်မှတဆင့် လန်ဒန်မြို့သို့ ထွက်ပြေးရလေတော့၏။



ဣတာလျံမျိုးချစ် ခေါင်းဆောင်ကြီး မတ်ဇီနီ

နောင်အခါများတွင် သူသည် မီလန်နှင့် ဂျီနိုးအာမြို့များ၌ တော်လှန် ပုန်ကန်မှုများ ပေါ်ပေါက်အောင် ကူညီခဲ့သေး၏။ ဣတလီပြည် သွေးစည်းလွတ်လပ်ရန် ကြိုးပမ်းနေသော ဣတာလျံ မျိုးချစ်တို့ကိုလည်း အားပေးခဲ့သည်။ ဣတလီပြည်မှာ ဒုတိယ ဗစ်တာအီမန်နျူအယ်ဘုရင်လက်အောက်တွင် စည်းလုံးမိသောအခါ သူ၏ ရည်မှန်းချက်မှာ တဝက်တပျက်အားဖြင့် အောင်မြင်ခဲ့လေသည်။ သူသည် သမတအစိုးရကိုသာလိုလား၍ ဘုရင့်အစိုးရကို မလိုလားပေ။ သို့ဖြစ်၍ မက်ဆီနားနယ် ကိုယ်စားလှယ် အဖြစ် ဣတာလျံလွှတ်တော်သို့ ရွေးကောက်ခြင်းခံရသော်လည်း မတက်ဘဲနေခဲ့၏။

လန်ဒန်မြို့တော်မှတဆင့် ဆွစ်ဇာလန်ပြည်သို့ ပြောင်းရွှေ့နေထိုင်စဉ် သူသည် ဣတလီမျိုးချစ် ခေါင်းဆောင်တဦးဖြစ်သော ဂယ်ရီဗောဒီနှင့် အဆက်အသွယ်ပြုသည်ဟု ဣတလီအစိုးရကစွပ်စွဲ၍ ဆွစ်ဇာလန်အစိုးရကို တောင်းဆိုချက်အရ ဆွစ်ဇာလန်ပြည်မှ နှင်ထုတ်ခြင်းခံရလေသည်။

၁၈၇၀ ပြည့်နှစ်တွင် စစ္စလီကျွန်း ပါလာမိုမြို့တွင် သမတဂိုဏ်းသားများ တော်လှန်ရေးအတွက် စီစဉ်ရန် အသွားလမ်းခရီးတွင် အဖမ်းခံရပြီးလျှင် ၂ လမျှထောင်ထဲ၌ နေခဲ့ရသေး၏။ ထိုနောက် သူသည် ဣတလီ နိုင်ငံရှိ အလုပ်သမားများကို သွေးစည်းပေးရန် ကားလမတ်စသော ပုဂ္ဂိုလ်ကြီးများနှင့် အဆက်အသွယ်ပြုခဲ့သေး၏။ သို့ရာတွင် အခြေအနေမလှသဖြင့် သူ၏ကြံရွယ်ချက်များကို စွန့်လွှတ်လိုက်ရပြီးလျှင် ၁၈၇၂ ခုနှစ် အသက် ၆၇ နှစ် အရွယ်၌ ပီစာမြို့တွင် ဆင်းဆင်းရဲရဲ နေထိုင်ယင်း အနိစ္စရောက်သွားလေသည်။

မတ်ဇီနီကား မျိုးချစ်စိတ် အလွန်ထက်သန်၍၊ ကိုယ်ကျိုးမငဲ့ဘဲ အနစ်နာခံကာ ဆောင်ရွက်ပြီးလျှင် မိမိ၏မျှော်မှန်းချက်များ နောက်ဆုံး၌ အောင်မြင်ရမည်ဟု မဗိုတ်မသုံ စွဲမြဲစွာ ယုံကြည်သူဖြစ်သဖြင့် ထင်ရှားသော ခေါင်းဆောင်တဦး ဖြစ်ပေသည်။

**မတ္တရာမြို့။** ။မတ္တရာမြို့သည် မန္တလေးခရိုင်တွင် ပါဝင်သော မတ္တရာနယ်၏ ရုံးစိုက်မြို့ ဖြစ်သည်။ မန္တလေးမြို့၏ မြောက်ဖက် ၁၅ မိုင် အကွာ ရွှေတချောင်း တူးမြောင်း၏ လက်ဝဲဖက်ကမ်းတွင် မန္တလေး မတ္တရာ မီးရထား လမ်းဆုံး၌ တည်ရှိသည်။ မတ္တရာမြို့သည် ပင်လယ်ပြင်ထက် ပေ ၃၃၀ အမြင့်တွင် တည်ရှိ၍ ဗင်္ဂလားအော်မှ ၂၇၅ မိုင်၊ မုတ္တမကွေ့မှ ၄၁၅ မိုင် ကွာဝေးသည်။ လူဦးရေမှာ ၁၉၅၃ ခုနှစ် သန်းကောင်စာရင်းအရ ၃,၉၂၉ ယောက် ရှိသည်။

မတ္တရာနယ်၏ မြေမျက်နှာပြင်မှာ လှိုင်းတွန့်ထသကဲ့သို့ ဖြစ်လျက် တောင်ကုန်း ထူထပ်သည်။ မတ္တရာ နယ်တွင် ရေဝတီနှင့် မတ္တရာ မြစ်တို့မှ ဆက်သွယ်သော တူးမြောင်းများကြောင့် လယ်ယာစိုက်ပျိုးရေးအတွက် ရေရရှိပေသည်။ မတ္တရာနယ်တွင် လယ်ယာ စိုက်ပျိုးရေးအားဖြင့် အသက်မွေးသူမှာ ၅ ပုံ ၃ ပုံရှိ၍ ကျန်ရှိသူတို့က ငါးဖမ်းခြင်းဖြင့် အသက်မွေးကြသည်။ မတ္တရာနယ်တွင် ရေးမြန်မာမင်း၏ ဥယျာဉ်ရှိ၍ ယခုအခါတွင်လည်း သရက်၊ ငှက်ပျော၊ သံပရာ၊ ရှောက်၊ နာနတ်၊ ကွမ်းပင် စသည်တို့ကို စိုက်ပျိုး လုပ်ကိုင်ကြလေသည်။

မတ္တရာနယ်သည် လမ်းပန်း ဆက်သွယ်ရေး ကောင်းပေသည်။ မော်တော်ကားလမ်း၊ မီးရထားလမ်း၊ ရေလမ်းများဖြင့် ခရီးပေါက်သည်။ မတ္တရာမြို့မှ မန္တလေးသို့ မီးရထားလမ်း ဖောက်လုပ် ထားသည်။ ရွှေတချောင်း တူးမြောင်း တလျှောက်မှလည်း မန္တလေးသို့ မော်တော်ကားလမ်း ရှိသည်။ ထိုပြင် ရှမ်းပြည်နယ်သို့လည်း ခရီးပေါက်သည်။ ရေလမ်း အားဖြင့် ရွှေတချောင်း တလျှောက် မတ္တရာမြစ် (ချောင်းမကြီး) တလျှောက်တွင် လှေများ၊ ဖောင်များ အသွားအလာများသည်။

မတ္တရာနယ်ဘွင် ထင်ရှားသော ဘုရားများမှာ မတ္တရာမြို့ရှိ ရွှေကူကြီး စေတီ၊ ရှစ်မျက်နှာစေတီနှင့် ရွှေညောင်တော် စေတီ၊ လွန်တောင်းရွာရှိ ရွှေမုဋ္ဌော စေတီနှင့် ရွှေဘုံသာစေတီ၊ တောင်ပြုံးရှိ ဆုတောင်းပြည့်စေတီ စသည်တို့ဖြစ်၏။ ဝါခေါင်လတွင် တောင်ပြုံးနတ်ပွဲ ကျင်းပသော

အခါ မြန်မာနိုင်ငံအနှံ့အပြားမှ လူအပေါင်းတို့ သွားရောက်ကြလေသည်။

မတ္တရာမြို့ဟု ခေါ်တွင်ရခြင်း အကြောင်းမှာ ပုဂံရာဇဝင်အရ နော်ရထာမင်းစောသည် သက္ကရာဇ် ၃၉၅ ခုနှစ်တွင် ကမ္ဘောဇနှင့် မြန်မာပြည် နှစ်ဖက်စပ်ကြား ရှမ်းယွန်းတို့နှင့် မရောမစပ်စေခြင်းငှါ မှူးမတ်ဗိုလ်ပါတို့ကို တာဝန်ခွဲဝေပေး၍ တည်စေသော မြို့ ၄၃ မြို့အနက် မတ္တရာမြို့သည် အပါအဝင် ဖြစ်သည်။ အမတ်တည်သည်ကို စွဲ၍ မတ္တရာဟု တွင်သည်ဟု ဆို၏။ အချို့ကလည်း အမတ်ပေါင်း ၁၀၀ တည်သောကြောင့် မဘ်တရာတွင်သည်ဟု ယုံကြည်ကြ၏။အမတ်ကို ပါဠိဘာသာဖြင့် အမစ္စဟု ခေါ်၍ သင်္ကြိုင်္ကဘာသာအားဖြင့် အမတျာဟု ခေါ်ပေရာ၊ အမတျာမြို့ ဟု ခေါ်ဆိုရင်းတွင် အ ကျေပြီးလျှင် မတျာမြို့၊ မတ္တရာမြို့ ဖြစ်လာသည်ဟုလည်း ဆိုသည်။

**မိတ္ထီလာကန်။** ။'လှကလေးရဲ့ချော့စရာ၊ မိတ္ထီလာ ကန်တော်အောက်က ဖားကောက်ခဲ့ပါ' ဟူသော ကလေးချော့ကဗျာကို ကလေးအရွယ်မှစ၍ မြန်မာတိုင်း ရွတ်ဆိုခဲ့ကြသဖြင့် မိတ္ထီလာကန်ကို မရောက်ဘူးသော်လည်း လူတိုင်းပင်ကြားဘူးကြပေသည်။

မိတ္ထီလာကန်သည် မိတ္ထီလာမြို့၏ အနောက်ဖက်တွင် တည်ရှိသည်။ မိတ္ထီလာကန်သည် အလျား ၇ မိုင်နှင့် အနံ မိုင်ဝက်ရှိသောကြောင့် ဧရိယာ အကျယ်အဝန်း စတုရန်း ၃ မိုင်ခန့်ရှိသည်။ မိတ္ထီလာကန်မှာ ကန် ၂ ခုဖြင့် ဖွဲ့ထားသည်ဖြစ်၍ တောင်ကန်နှင့် မြောက်ကန် ဟူ၍ တွင်သည်။ ၎င်းကန် ၂ ခု စပ်ကြားတွင် ယခုအခါ မီးရထားလမ်း ဖြတ်သွားသည်။ ကန် ၂ ခုဟု ဆိုရသော်လည်း ရေတဆက်တည်းဖြစ်၏။ သို့သော် ထူးခြားချက်ကား မိုးရာသီရေဝင်ချိန်တွင် မြောက်ကန်မှ ရေသည် ရေကြည်စင်မှ တောင်ကန်တွင်းသို့ စီးဝင်ပေသည်။ ယခုအခါ မြောက်ကန်တွင် ရေလွှဲတံခါး ၂ ခုရှိ၍ တောင်ကန်တွင် ရေလွှဲတံခါး ၁၁ ပေါက်နှင့် အလျား ပေ ၃၀ ကျယ်သော တံခါးကြီး တပေါက် ရှိသည်။ မိတ္ထီလာမြို့သူမြို့သားတို့သည် မိတ္ထီလာ ကန်တော်ရေကို သောက်သုံးကြရ၏။ လယ်ယာစိုက်ပျိုးရာတွင်လည်း မိတ္ထီလာကန်မှ ရေများကို သွယ်ယူ ရရှိသည်။

မိတ္ထီလာကန်သည် အခြားသော ကန်များနှင့် မတူဘဲ အံ့ဖွယ်ကိုးပါး ရှိလေသည်။ မိတ္ထီလာကန်မှ ရေတွင် အနဝတတ်အိုင်မြတ်မှ ရေပါရှိသည်။ အကြောင်းမဲ့ မနောက်ကျုပေ။ အကြောင်းမဲ့ ညှီဟောက် နံစော်ခြင်း မရှိပေ။ ဒိုက်အမှိုက်များ မတည်ပေ။ အကောင်ပုပ်များ ကြာရှည်



• မိတ္ထီလာ တောင်ကန်ရိုးရှိ လောကထိပ်ပန်စေတီနှင့် ကန်သမိုင်းကျောက်စာဂူ



တောင် ကန်ရိုးရှိ နတ်မောက်နတ်ဂူ

မတည်ပေ။ ရတနာအမျိုးမျိုးတို့ဖြင့် ပြွမ်း၏။ ကြာစသော ရေမှော်ပင်တို့ မပေါက်ရောက်ပေ။ ကန်တွင်းရှိ ကြိုးကြာ ရုပ် မှတ်တိုင်မှ ကြိုးကြာနှုတ်သီးသို့ ရေမရောက်ပေ။ သုံးနှစ် သုံးသီး လုပ်စားနိုင်လောက်အောင် ရေများရှိ၏။ ငရုံ့၊ ငချူ၊ ငစီပူမရှိပေ။ အမိဋ္ဌာန်ပြုသော ပေပင် မကြီးမထွားပေ။ (ထိုပေပင်မှာ အနော်ရထာမင်းစောက မထောင်းတာ နတ်မောင်နှစ်မ ကျွတ်ချိန်တန်လျှင် ထရစ်မှ ပိုလွန်၍ ကြီးထွားပေလတ္တံ့ ဟု ဆိုကာ စိုက်ပျိုးခဲ့သော အပင်ဖြစ်သည်။ ၁၉၄၀ ပြည့်နှစ်ခန့်က ရှိရင်းစွဲ လူတရပ်ထက် ပို၍ ကြီးထွားလာသော ဟူ၏။) အမိဋ္ဌာန်သော မန်ကျည်းပင် တဆစ်သာ သီးသည်။ (အထက်ပါ နတ်မောင်နှစ်မကိုပင် အကြောင်းပြု၍ ယင်းတို့ ကျွတ်ချိန်တန်လျှင် တဆစ်မှ ပိုလွန်၍ သီးပေးလတ္တံ့ ဟု ဆိုကာ စိုက်ခဲ့သည်။ အင်္ဂလိပ်တို့ ခုတ်ပစ်လိုက်သောကြောင့် ယခုအခါ မရှိတော့ပြီ။) ထိုပြင် ကန်ပတ်လည်၌ သိမ် ၉ သိမ်၊ ဂူ ၉ လုံး၊ ကုန်း ၉ ကုန်း၊ အင်း ၉ အင်း၊ အိုင့် ၉ အိုင့် ရှိသည်။ မိတ္ထိလာကန်တွင် အုံ့ဖွယ်ကိုးပါး ရှိသည်ဟု ဆိုသော်လည်း ၉ ပါးထက်မနည်း ကြောင်း တွေ့ရှိရသောဟူ၏။ မိတ္ထိလာကန်သည် အတိတ်နိမိတ်များ ပြတတ်သည်ဟုလည်း ဆိုသည်။ နတ်ကြီးသည် ဟုလည်း ယုံကြည်ကြသည်။

မိတ္ထိလာကန်မှာ သဘာဝ အားဖြင့် ဖြစ်ပေါ်သော ကန် မဟုတ်ဘဲ လူတို့က ပြုပြင်ထားသော ကန်ဖြစ်၏။ သမိုင်းတစောင်တွင် မိတ္ထိလာကန်ကို ကမ္ဘာဦးကာလက အာကာရဋ္ဌမင်း လက်ဦးအမွန် ဖန်ဆင်းတည်ထောင်ပြီးသည့်နောက် နှစ်ပေါင်းများစွာ ကြာသော ကာလ၌ ကုသမင်း ဆည်ဖို့ ပြုပြင်ပြီးလျှင် ကာလရွေ့လျော့လျှင် ဂေါတမ မြတ်စွာ ဘုရား၏ ဘိုးတော် အဥ္ဆနမင်းက တဖန် ဆည်ဖို့ ပြုစုသည် ဟု ဆို၏။ အချို့မူများတွင်ကား ဂေါတမ မြတ်စွာဘုရား၏ ဘိုးတော် အဥ္ဆနမင်းက လက်ဦးအစ ဖန်ဆင်းပြုစုသည်ဟု ဆို၏။ ရှေးအခါက သျှိသျှားပင်များ ပေါက်ရောက်သော ကြောင့် သျှိသျှားကန်ဟု တွင်ခဲ့၏။

ကောဇာသက္ကရာဇ် ၄၁၄ ခုနှစ်တွင် အရည်းကြီး ရဟန်း ရှင်ယောင် (၁,၀၀၀) တို့သည် သျှိသျှား ကန်တော်တဝိုက်တွင် သောင်းကျန်းလျက် ရှိကြောင်း တိုင်းသူပြည်သားတို့ လျှောက်ထားချက်အရ ပုဂံပြည်အနော်ရထာမင်းစောသည် သျှိသျှားကန်ရှိရာသို့ သွားရောက်၍ အရည်းကြီးတို့အား နှိမ်နင်းအောင်မြင်လေ၏။ ထိုပြီးကာလ ၉ လလွန်မြောက်သောအခါတွင် အနော်ရထာမင်းစောသည် ရှင်အရဟံ ဟောပြောတော်မူချက်အရ ဗိုလ်ပါအပေါင်းတို့ခြံရံပြီး သော်တောင်ဖက် လယ်တွင်းတပြင် နယ်ပယ်တို့သို့ ခရီးလှည့်လည် ကြွမြန်းတော်မူခဲ့ရာ၊ ကျွဲတလင်းချောင်း၊ "မြေ၊ ကတူးကန်" အရပ်သို့ ရောက်တော်မူသဖြင့် ခေတ္တအပန်းဖြေ ရေသဘင် နန်း စံမြန်း သာယာတော်မူသည်။ ထိုအခါ သျှိသျှားကန်တော်စောင့် နတ်ကြီးလေးပါး ပေါ်လာ၏။ နတ်များ ပြောပြချက်အရ မဟာသက္ကရာဇ် ၁၁၇ ခုနှစ်တွင် ဂေါတမမြတ်စွာ ဘုရားသည် ညီတော်အာနန္ဒာမထေရ်ကို နောက်ပါ ခေါ်ဆောင်တော်မူ၍ ခရီး ဒေသစာရီ ကြွချီတော်မူလာကာ သျှိသျှားကန်တော်တွင် ရေသပ္ပါယ်တော်မူပြီးသောအခါ ညီတော်အာနန္ဒာအား ဒုကုဋ်သင်္ကန်းတော်ကို ခင်းစေတော်မူပြီးနောက် ထက်ဝယ်ဖွဲ့ခွေ စမ္ပါယ်နေတော်မူ၏။ ထိုအခါ ဘောဂဝတီမှ နတ်နဂါးတို့သည် သစ်သီး ကြီးငယ်များကို ယူဆောင် လာကြကုန်၍ လှူဒါန်း ဆက်ကပ်ပူဇော်ကြသည်။ ဘုရားသခင်၏ တရားတော်ကို နတ်နဂါးများ၊ နတ်သားများ ကြားနာပြီးသည့်အဆုံးတွင် နတ်နဂါးတို့သည် ကန်တော်၏ အကြောင်းဇာစ်မြစ်ကို မေးမြန်းလျှောက်ထားကြ၏။ ထိုအခါ မြတ်စွာဘုရားလည်း "ဤကန်တော်သည် ကမ္ဘာဦးတည်စက ကန်ဖြစ်၍ အာကာရဋ္ဌမင်း၊ ကုသမင်းတို့ ဆည်ဖို့ပြုစုကြသည်။ ထိုသည့်နောက် ငါဘုရား၏ ဘိုးတော်ဖြစ်သော မဟာအဥ္ဆနမင်း လက်ထက် ကလိယုဂ် ဂ၆၄၅ ကို ဖို့၍ အတို ၂ ခုကြွင်း ပြုပြီးသောအခါ ဇမ္ဗူဒီပါကျွန်းအပြင် ဝယ် တံခွန်သဖွယ်ဖြစ်၍ ကျော်စောထင်ရှား ကျေးဇူး များသော ဤသျှိသျှားမည်သော ကန်တော်ကို ပွားတက်လာသော သက္ကရာဇ် ၁၀ ခုနှစ်တွင် တောင်ရိုးတောင်စဉ် ရေလာရေဆည်း ကုန်းကြည်းချောင်းမြောင်း အရပ်ဟူသမျှ



တောင်ဖက်ကန်ရေလွှဲတံခါးကို ဤသို့ရှုမြင်ရသည်။



မိတ္ထိလာကန်တွင်းရှိ ရေဝန်းရံလျက်ရှိသောရေလယ်ဘုရားအား ဖူးမြင်ရပုံ

တို့နှင့် နှိုင်းဆပြီးလျှင် နောင်လာလတ္တံ့သော နှစ်ပေါင်း ၈၄,၀၀၀ ပတ်လုံး တည်စေသတည်းဟု မိဋ္ဌာန်တော်မူပြီး ဆည်ဖို့ခဲ့တော်မူ၏။ ထိုအခါ သိကြား ဗြဟ္မာ နတ်အပေါင်း တို့သည် အနဝတတ် အိုင်မြတ်မှ ရေကို ယူဆောင်လာကြ ပြီးသော် ဤကန်တွင်း၌ ထွေးအံကြလေရာ နောင်လာ လတ္တံ့သောနှစ်ပေါင်း ၈၄,၀၀၀ တည်ပေလတ္တံ့ဟု သိကြား ဗြဟ္မာ နတ်အပေါင်းက ဆိုကုန်ကြသည်''ဟု မိန့်ဆိုတော် မူကြောင်းကို သိရလေသည်။ ကန်စောင့် နတ်များ၏ တိုက် တွန်းချက်အရ အနော်ရထာမင်းစော ကန်တော်ကို ဖို့လေ ရာ၊ သက္ကရာဇ် ၄၁၆ တွင် အပြီးတိုင်သည်။ ၁၁ ကြိမ်မြောက် ဆည်ဖို့ခြင်းဖြစ်၏။ ကန်တော်ကို ဘုန်းတန်ခိုးကြီးသော ဘုရင်များသာ ဆည်ဖို့နိုင်သည်ဟု ဆိုရိုးရှိ၏။ အနော်ရထာ မင်း၏ နောက် ပုဂံ အလောင်းစည်သူ၊ နရပတိစည်သူ၊ အင်းဝဘုရင် မင်းကြီးစွာ စော်ကဲ၊ ညောင်ရမ်းမင်းတရား၊ ကုန်းဘောင်ခေတ် ဘိုးတော်ဘုရား၊ မင်းတုန်းမင်းတို့ ဆည်ဖို့ ပြုပြင်ခဲ့သည့်အပြင် ကောဇာသက္ကရာဇ် ၁၂၈၇ ခုနှစ် (ခရစ် ၁၉၂၅)ခုနှစ်တွင် အင်္ဂလိပ်အစိုးရ လက်ထက်က သိန်း ၂၀ ကျော် စိုက်ထုတ် အကုန်ခံ၍ ရေကာတာ၊ ရေလွှတ်တံခါး ကြီး တခုကို တည်ဆောက်ခဲ့၏။

မိတ္ထီလာကန်သည် ရှေးအခါက သျှိသျှားကန်ဟု တွင် ခဲ့သည်။ ကန်တဝိုက်တွင် ပေါက်ရောက်သော သျှိသျှားပင် များကိုစွဲ၍ခေါ်ခြင်းဖြစ်၏။ ကာဠုဝကကန်၊ မင်္ဂလာကန်၊ မေတ္တာကန် ဟူ၍လည်း တွင်ခဲ့သည်။ မိတ္ထီလာကန်ဟူ၍ ယခုအခါ တွင်လျက်ရှိသော အမည်မှာ အနော်ရထာမင်း မှည့်ခေါ်ခဲ့သော အမည်ဖြစ်၏။ သျှိသျှားကန်၏ ရေသည် ပုပ္ပါးတောင်နှင့် စပ်ခြင်း ထိခြင်း ရှိမရှိကို မြင်းသည်တော် တဦးအား သွားရောက် ကြည့်စေ၏။ သွားရောက် ကြည့်ရှု သူသည် အလျင်သွား၍ ကြည့်ကာ ပြန်လာသည်တွင် မထိ လာပါဟု လျှောက်ထားဖြေကြားပြီးလျှင် အမောဆို့၍ သေ ဆုံးသွား၏။ ယင်းကို စွဲ၍ မထိလာကန်ဟု ပြောင်းလဲ ခေါ် ဝေါ်သမုတ်ရာမှ ကာလ ရွေ့လျောသည့်အလျောက် မိတ္ထီ လာကန်ဟု ဖြစ်လာသည်။ အမောဆို့ သေဆုံးသွားသော မြင်းသည်ကား မထောင်းတာနတ်ဖြစ်၍ကန်တော်ကိုစောင့် သည်ဟု ဆိုသည်။ ကန်တော်တဝိုက်ရှိ မြို့ကိုလည်း ကန်၏ အမည်ကို အစွဲပြု၍ မိတ္ထီလာမြို့ဟု ခေါ်ကြပေသည်။

**မိတ္ထီလာခရိုင်။** ။မိတ္ထီလာခရိုင်သည် မြန်မာနိုင်ငံအထက် ပိုင်း မန္တလေးတိုင်းတွင် ဖွဲ့စည်းပါဝင်သော ခရိုင်တခု ဖြစ် သည်။ မြန်မာနိုင်ငံ အလယ်ပိုင်း မိုးခေါင်ရေရှား ရပ်ဝန်း တွင်သက်ရောက်၍ ယင်းရပ်ဝန်း၏ အရှေ့ဖက်တွင် တည်ရှိ သည်။ မိတ္ထီလာခရိုင်သည် မြောက်ဖက်တွင် ကျောက်ဆည် နှင့် မြင်းခြံခရိုင်များ၊ တောင်ဖက်တွင် ရမည်းသင်းနှင့် မကွေးခရိုင်များ၊ အရှေ့ဖက်တွင် ရှမ်းပြည်နယ်တောင်ပိုင်းရှိ မြေလပ်ပိုင်းတွင် ပါဝင်သော နယ်များနှင့် အနောက်ဖက် တွင် မြင်းခြံခရိုင်နှင့် မကွေးခရိုင်များဖြင့် နယ်နိမိတ် ပိုင်း ခြား သတ်မှတ်လျက် ရှိသည်။ မိတ္ထီလာခရိုင်ကို မိတ္ထီလာ နယ်နှင့် သာစည်နယ်ဟူ၍ နယ် ၂ နယ်ခွဲ၏။ တဖန် မိတ္ထီလာ နယ်တွင် မိတ္ထီလာမြို့နယ်နှင့် မလှိုင်မြို့နယ်များ ပါဝင်၍ သာစည်နယ်မှာ သာစည်မြို့နယ်နှင့် ဝမ်းတွင်းမြို့နယ်တို့ဖြင့် ဖွဲ့ထား၏။ သို့အားဖြင့် မိတ္ထီလာခရိုင်သည် နယ် ၂ နယ် နှင့် မြို့နယ် ၄ ခု ဟူ၍ အုပ်ချုပ်ရေးတွင် ခွဲဝေပိုင်းခြားလျက် ရှိသည်။ မိတ္ထီလာခရိုင်တွင် သူကြီးပိုင် ၂၉၆ ပိုင် ရှိသည်။ မိတ္ထီလာခရိုင်တွင်း မိတ္ထီလာမြို့၊ မလှိုင်မြို့၊ သာစည်မြို့၊ ဝမ်း တွင်းမြို့၊ သဲတောမြို့များမှာ အရေးပါသော မြို့များဖြစ် သည်။ မိတ္ထီလာခရိုင်သည် အကျယ်အဝန်းအားဖြင့် ၂,၂၃၇ စတုရန်းမိုင်ရှိ၍ ၁၉၅၆ ခုနှစ်တွင် လူဦးရေ ခန့်မှန်းခြေ ၄၀၁,၃၇၉ ယောက် ရှိသည်။

ဆိုခဲ့သည့်အတိုင်း မိတ္ထီလာခရိုင်သည် မိုးခေါင် ရေရှား ရပ်ဝန်း အရှေ့ဖက်တွင် တည်ရှိသောကြောင့် မြန်မာနိုင်ငံ၏ အလယ်ဗဟိုခန့်တွင် ဖြစ်သည်။ မိတ္ထီလာခရိုင်တွင် မြေမျက် နှာပြင်မှာ ခပ်ပြေပြေဆင်းသက်သော လှိုင်းတွန့်သဖွယ် ဖြစ် ၏။ ပြေသော ကုန်းလျှောများတွင် ဝါစိုက်ပျိုးရန်အတွက် ကောင်းသော စိမ့်နက်မြေ ရှိသည်။ စမုန်ချောင်း၏ အရှေ့ ဖက်ဖြစ်၍ ခရိုင်၏ ၃ ပုံ ၁ ပုံခန့်ဖြစ်သောဒေသသည် အရှေ့ ဖက်သို့ တဖြည်းဖြည်းမြင့်ကာ ရှမ်းကုန်းပြင်မြင့်၏ တစိတ် တဒေသ ဖြစ်သွားသည်။ မိတ္ထီလာ ခရိုင်တွင်း၌ တောင်ဟု ခေါ်လောက်အောင် ကုန်းများမရှိ။ သို့သော် ပေ ၃၀၀ အမြင့်ရှိသော တောင်တော်တောင်နှင့် သစ္စာပြု တောင်တို့ မှာ ထင်ရှားသည်။ ထိုပြင် မလှိုင်နယ်တွင် ပုပ္ပါးတောင်နှင့် ဆက်လျက်ရှိသော လျှော်ကန် ကုန်းတန်းရှိသည်။ ထို နောက် အင်းယင်ဒိုင်တွင် ၉၇၅ ပေအမြင့်ရှိသော တောင်ညို နှင့် ပင်းတလဲ မြို့မဒိုင်တွင် တောင်သာကုန်းတန်း ရှိသည်။ မြင်းခြံခရိုင်မှ မင်းဝံတောင်သည် မိတ္ထီလာခရိုင် ဝမ်းတွင်း မြို့နယ်တွင်းမြောက်ဖက်ဆီတွင်ဖြတ်သန်းသွား၍တောင်ဖက် သို့ ရောက်လျှင် တဖြည်းဖြည်း နိမ့်ကျသွားသည်။ ယင်း သည် မိတ္ထီလာခရိုင်တွင် ရွှေဆံတော်တောင်ဟူ၍ တွင်၏။ တောင်ထိပ်တွင် တည်ရှိသော ရွှေဆံတော်ဘုရားကို အစွဲပြု၍ ခေါ်ခြင်းတည်း။

သာစည်မြို့နယ်တွင်တောင်ပိုင်းရှမ်းကုန်းပြင်မြင့်၏တစိတ် တဒေသ ဖြစ်သော ကုန်းမြင့်များ ရှိပေရာ၊ အမြင့်ဆုံးမှာ ၃၅၇ ပေမျှရှိသည်။ မိတ္ထီလာ ခရိုင်တွင်း၌ လှေသင်္ဘောများ သွားလာခုတ်မောင်းနိုင်သည့် မြစ်ဟူ၍မရှိပေ။ စမုန်ချောင်း သည် မိတ္ထီလာခရိုင်တွင်းသို့ သာစည်မြို့နယ်၏ အရှေ့တောင် ဖက်မှ ဝင်ကာ မြောက်ဖက် သာစည် ဝမ်းတွင်းသို့ စီးဆင်း

ဖြတ်သန်းပြီးလျှင် ကျောက်ဆည်ခရိုင်တွင်းသို့ စီးဝင်သည်။ မိတ္ထီလာခရိုင်အတွင်း သင်ပုန်းချောင်းသည် စမုန်မြစ်တွင်းသို့ စီးဝင်သည်။ မိတ္ထီလာခရိုင်တွင် မိတ္ထီလာမြို့ အနီးရှိ မိတ္ထီလာကန်သည် မြန်မာနိုင်ငံ တဝှန်းလုံးတွင် ထင်ရှားလှပေသည်။ (မိတ္ထီလာကန် — လည်းရှု။) မိတ္ထီလာကန် အပြင် ညောင်ရမ်း မင်းလှကန်လည်း ရှိပေသေးသည်။ ရှေးမြန်မာမင်းများလက်ထက်က ညောင်ရမ်းနှင့် မင်းလှကန်များ ဟူ၍ သီးခြား တည်ရှိခဲ့သော်လည်း ယခုအခါ တူးမြောင်းဖြင့် ဆက်လျက်ရှိသောကြောင့် ကန်တခုတည်းပင် ဖြစ်တော့သည်။ မိတ္ထီလာခရိုင်တွင် မြစ်ကြီးဟူ၍ မရှိသော်လည်း ချောင်းကြီးများနှင့် ကန်များမှ ရေကို တူးမြောင်း၊ ဆည်မြောင်းများဖြင့် သွယ်ယူသောကြောင့် လယ်ယာ စိုက်ပျိုးရေးအတွက် ရေများကို ကောင်းစွာရရှိသည်။

မိတ္ထီလာ ခရိုင်သည် ရာသီဥတုအားဖြင့် ခြောက်သွေ့လျက် ကျန်းမာရေးနှင့် ညီညွတ်သည်။ မိုးအကုန် ဆောင်းအကူး ဥတုပြောင်းကာလတွင်မူ ကျန်းမာရေးကို သတိပြုအပ်သည်။ တောင်နှင့် အနောက်တောင်ဖက်မှ လေသည် မတ်လမှ မေလတိုင် အဆက်မပြတ် တိုက်ခတ်သောကြောင့် နွေအခါတွင် ပြင်းပြသော အပူရှိန်မှ သက်သာရာ ရစေသည်။ မိုးခေါင်ရေရှား ရပ်ဝန်းဖြစ်၍ မိုးအရွာနည်းသည်။ တနှစ်လျှင် ပျမ်းမျှ မိုးရေချိန် လက်မ ၂၅–၃၀ မျှသာ ရွာသွန်းသည်။

မိုးနည်းပါး၍ ခြောက်သွေ့သဖြင့် ရှား၊ ထနောင်း၊ ဆူးရစ်၊ ကျားလျှာ၊ ကုက္ကို၊ မန်ကျည်း၊ ဆီး၊ ထန်း စသော အပင်များသာ ပေါက်၍ သစ်တောကြီးများ မရှိပေ။ ရှမ်းကုန်းမြင့်ဖက်သို့ တက်သွားသော အရှေ့ဖက်ရှိ ကုန်းမြင့်တွင်မူ ကျွန်း၊ ပျဉ်းကတိုး၊ အင်ကြင်း၊ သစ်ယာ၊ ယင်းတိုက်၊ ပိတောက်နှင့် အခြားအပင်တို့ ထူထပ်များပြားစွာ ပေါက်ရောက်သည်။

မိတ္ထီလာ ခရိုင်တွင် မြေဩဇာကောင်းသော အချို့ကုန်းမြင့်ဒေသများတွင် ဝါဂွမ်း၊ ပဲအမျိုးမျိုး၊ ပြောင်း၊ လူးဆပ်၊ နှမ်းတို့ကို စိုက်ပျိုး၍ မြေနိမ့်ရာ ဒေသများ၌ တူးမြောင်းဖြင့် ရေသွယ်ယူနိုင်သော နေရာများတွင် ဆန်စပါးကို စိုက်ပျိုးလုပ်ကိုင်သည်။ ယာလုပ်ခြင်း အပြင် ရှားချက်ခြင်း၊ ထန်းလျက် ချက်ခြင်းများလည်း ပြုလုပ်ကြသည်။ မိတ္ထီလာခရိုင်တွင် ရေပေးသော ဒေသများတွင်သာ လယ်ယာ စိုက်ပျိုးရေး ဖြစ်ထွန်း၏။ ခရိုင်တခုလုံးကို ခြုံ၍ကြည့်သော် စပါးစိုက်ဧကပေါင်း ၁၃၃,၈၈၁ နှမ်းစိုက်ဧကပေါင်း ၁၅၀,၀၄၇၊ ဝါစိုက်ဧကပေါင်း ၉၃,၅၄၆ ဖြစ်၍ မြေပဲမှာ ၁၉,၂၅၀ ဧက စိုက်ပျိုးပြီးလျှင်၊ ကျန်ဒေသများတွင် နယ်မြေဒေသနှင့် ဆီလျော်ရာ သီးနှံများ စိုက်ပျိုးသည်။

မိတ္ထီလာခရိုင်တွင်း မှီတင်း နေထိုင်သူတို့အနက် အများစုမှာ တောင်သူလယ်သမားဖြစ်၍၊ ဒုတိယအနေဖြင့် ကူးသန်း ရောင်းဝယ် စားသောက်သူများ၊ တတိယ လက်မှု



မိတ္ထီလာခရိုင်၏ အဓိကလုပ်ငန်း တရပ်မှာ ဝါဂွမ်းလုပ်ငန်းဖြစ်သည်။

ပညာသည်များ၊ စတုတ္ထ အစိုးရ အမှုထမ်း အရာထမ်းများ ဖြစ်ကြပေသည်။ လက်မှု ပညာသည်များမှာ အများအားဖြင့် ရက်ကန်းလုပ်ငန်းတွင် ပါဝင် လုပ်ဆောင်ကြသူများ ဖြစ်၍ ဤခရိုင်သည် မြန်မာစက်ရက်ထည်များ အထွက်ဆုံး ခရိုင်တခု ဖြစ်ပေသည်။

မိတ္ထီလာခရိုင်တွင် သဲဆပ်ပြာ ထွက်သည်။ ထိုပြင် မလှိုင်ဖက်တွင် ထုံးကျောက်နှင့် သာစည်ဖက်တွင် ကျောက်မီးသွေး ထွက်သည်။ သို့သော် စီးပွားရေးအတွက် မပြောပလောက်ပေ။

မိတ္ထီလာ ခရိုင်သည် ရေလမ်း အဆက်အသွယ် မရှိသော်လည်း ကုန်းလမ်းကောင်းများရှိ၍ လမ်းပန်း အဆက်အသွယ်ကောင်းသည်။ ရန်ကုန်-မန္တလေး မီးရထားလမ်းသည် မိတ္ထီလာ ခရိုင်တွင်းသို့ တောင်မြောက်အားဖြင့် အလျား ၃၉ မိုင်ခွဲမျှ ဖြတ်ကျော်သွားသည်။ မြင်းခြံမြို့မှ သာစည်၊ ထိုမှ ရွှေညောင်သို့ရောက်သော ရထားလမ်းသည် အနောက်မြောက်ဖက်မှသည် အရှေ့တောင်ဖက်သို့ ဖြတ်သန်းသွားသည်။ ဤရထားလမ်းနှစ်ကြောင်းသည် သာစည်မြို့တွင် ဆုံသည်။ ရှမ်းပြည်နယ်သို့ သွားလိုသူတို့သည် သာစည်တွင် ရထားပြောင်း စီးရလေသည်။ ထိုပြင် ရန်ကုန်၊ ကလော၊ မြင်းခြံ၊ ကျောက်ပန်းတောင်း၊ မန္တလေးမြို့များသို့ ပေါက်သော ကားလမ်းများသည် မိတ္ထီလာခရိုင် အတွင်းသို့ ဖြတ်ဝင်လျက် မိတ္ထီလာမြို့တွင် ကားလမ်းအပေါင်း ဆုံသည်။ သို့ဖြင့် မိတ္ထီလာမြို့သည် မြန်မာနိုင်ငံ အလယ်ပိုင်းတွင် ကားလမ်းများ ဆုံရာမြို့ဖြစ်၍ ကူးသန်း ရောင်းဝယ်ရာတွင် အရေးပါသည်။ လေကြောင်း ခရီးအားဖြင့်လည်း မိတ္ထီလာမြို့ရှိ တပ်မတော် လေယာဉ်ကွင်းသည် မြန်မာနိုင်ငံတွင် လေကြောင်း ဗဟိုစခန်းဖြစ်လျက် ပြည်ထောင်စု မြန်မာနိုင်ငံ လေကြောင်း သယ်ယူပို့ဆောင်ရေးမှလည်း သုံးစွဲနိုင်သဖြင့် ရန်ကုန်၊ မန္တလေး၊ မြစ်ကြီးနား၊ဟဲဟိုး၊ ကျိုင်းတုံ၊ လမ်းရွာ၊ ရေနံချောင်းတို့သို့ တိုက်ရိုက် ခရီးလမ်း ပေါက်သည်။

မိတ္ထီလာခရိုင်တွင် ထင်ရှားသော ဘုရားစေတီ များစွာ ရှိပေသည်။ မိတ္ထီလာမြို့နယ်တွင် ထင်ရှားသောစေတီ ၆ ဆူ တို့ကား ရွှေစောလူး၊ နဂါးရုံ၊ ရွှေလက်လှ၊ စည်းခုံကြီး၊ နန်းတော်ရာ၊ ရွှေမြင်တင်ဘုရားတို့ ဖြစ်လျက် ရွှေမြင်တင် စေတီတော်သည် မင်းဝံတောင်ထိပ် အလယ်တွင် တည်ထားသည် ဖြစ်၍ အလောင်းစည်သူမင်း၏ ကုသိုလ်တော် ဖြစ်လေသည်။ မလှိုင်၊ ဝမ်းတွင်း၊ သာစည်မြို့နယ်များတွင်လည်း ဘုရားများစွာ ရှိသည့်အနက် ထင်ရှားသည်တို့ကား ပင်းတလဲမှ ရွှေစည်းခုံ၊ ထိုပြင် ဆုတောင်းပြည့်၊ ရွှေမုဋ္ဌော၊ ရွှေယင်မြော် စသည်တို့ဖြစ်၏။

မိတ္ထီလာခရိုင်တွင် မူလတန်းကျောင်း ၃၇၂ ကျောင်း၊ အလယ်တန်းကျောင်း ၁၄ ကျောင်း၊ အထက်တန်းကျောင်း ၅ ကျောင်းနှင့် ဆရာအတတ်သင် သိပ္ပံကျောင်း ၁ ကျောင်း ရှိသည်။

မိတ္ထီလာ ခရိုင်သည် ယခုအခါ မန္တလေးတိုင်းတွင် ပါဝင်သော်လည်း ရှေးက မိတ္ထီလာမှာ တိုင်းတခုဖြစ်၍ ထိုတိုင်းတွင် မိတ္ထီလာ၊ ကျောက်ဆည်၊ ရမည်းသင်းနှင့် မြင်းခြံခရိုင်များ ဖွဲ့စည်း ပါဝင်ခဲ့သည်။ မိတ္ထီလာ ခရိုင်နှင့် မိတ္ထီလာမြို့တို့မှာ မိတ္ထီလာကန်ကို အစွဲပြု၍ ခေါ်သော အမည်များ ဖြစ်ပေသည်။

**မိတ္ထီလာမြို့။** ။မိတ္ထီလာမြို့သည် မိတ္ထီလာခရိုင်၊ မိတ္ထီလာမြို့နယ်တို့၏ ရုံးစိုက်မြို့ဖြစ်သည်။ မင်းဝံကုန်းတန်းထက်တွင် အမြင့် ပေ ၇၀၀ ဦ တည်ရှိသည်။ ရန်ကုန်မြို့မှ မော်တော်ကားလမ်းအတိုင်း ၃၃၈ မိုင်ဝေး၍၊ မန္တလေးမြို့မှ ၈၅ မိုင်ဝေးသည်။ သာစည်မြို့မှ မီးရထားလမ်းအတိုင်း ၁၄ မိုင် ကွာဝေးသည်။ ရန်ကုန်–မန္တလေး မော်တော်ကားလမ်း၊ ရှမ်းပြည်နယ်–ရေနံချောင်း မော်တော်ကားလမ်း၊ မြင်းခြံမှ မော်တော်ကားလမ်းတို့ ဆုံရာ ဖြစ်သည့်ပြင် သာစည်–မြင်းခြံ မီးရထားလမ်းပေါ်တွင် တည်ရှိပေရာ၊ လမ်းဆုံလမ်းခွတွင် ဖြစ်သောကြောင့် မြန်မာနိုင်ငံ အလယ်ပိုင်းတွင် စည်ကားသော မြို့တမြို့ဖြစ်၏။ မြို့၏ အကျယ်အဝန်းသည် မော်တော်ကားလမ်းကို အမှီပြု၍ သတ်မှတ်ထားရာ၊ ရန်ကုန်သွားသောကားလမ်း တမိုင်တဖာလုံခန့်၊ မန္တလေးလမ်းသို့ တမိုင် ခုနစ်ဖာလုံခန့်၊မြင်းခြံလမ်းသို့ တမိုင် သုံးဖာလုံခန့်နှင့် ကျောက်ပန်းတောင်းလမ်းသို့ ငါးဖာလုံစသည်ဖြင့် မြို့မကောင်စီ ပိုင်နက်ကို သတ်မှတ်ထားပေသည်။ မိတ္ထီလာမြို့မတွင် ရပ်ကွက်ပေါင်း ၁၄ ရပ်ကွက် အိမ်ခြေပေါင်း ၃,၇၃၀ ရှိပြီးလျှင် လူပေါင်း ၂၅,၇၈၁ (၁၉၆၃) ယောက် နေထိုင်လျက် ရှိလေသည်။

မိတ္ထီလာမြို့တွင် ခရိုင်အုပ်ချုပ်ရေးရုံးများ၊ လယ်ယာစိုက်ပျိုးရေး၊ ကြေးတိုင်နှင့် မြေစာရင်း၊ အမြတ်တော်ခွန်၊ ယစ်မျိုး၊ သစ်တော၊ သမဝါယမ၊ ရဲ၊ လမ်းလုပ်ငန်းနှင့် ဆည်မြောင်းဌာနစသည်တို့နှင့် ခရိုင်စက်ရှင်နှင့် တရားမ ရာဇဝတ်တရားသူကြီးစသည်တို့ ရုံးစိုက်ပေရာ၊အစိုးရရုံးများသည် မြို့၏အနောက်ဖက်တွင် တည်ရှိသည်။ မိတ္ထီလာတွင် တပ်မတော် လေယာဉ်ကွင်း ရှိ၍ တပ်မတော် တပ်ပေါင်းစုများ၊ တပ်မတော်ဌာနချုပ် ရုံးများလည်း တည်ရှိသည်။ မူလတန်းကျောင်းများ၊ အလယ်တန်းကျောင်းအထက်တန်းကျောင်းများအပြင် ဆရာအတတ်သင် သိပ္ပံကျောင်းလည်း ရှိသည်။

မိတ္ထီလာမြို့တွင် ထင်ရှားသော မိတ္ထီလာကန်သည် မြို့၏ အနောက်ဖက်တွင် တည်ရှိသည်။ (မိတ္ထီလာကန်—ရှု။) ရဟန်းတော်များ စာသင်တိုက်များအပြင် ထင်ရှားသော ဘုရားစေတီများရှိသည်။ယင်းတို့ကားပုဂံပြည်အနော်ရထာ

မိတ္ထီလာမြို့ကို ကန်တစိတ်တဒေသနှင့် တကွ ကောင်းကင်မှ ဤသို့ရှုမြင်ရသည်။



မိတ္ထီလာမြို့တွင် ထင်ရှားသော စေတီတဆူဖြစ်သည့် ဖောင်တော်ဦး စေတီ



မိတ္ထီလာမြို့ထိပ်ရှိ ထင်ရှားသည့် ရွှေမြင်တင် စေတီတော်

မင်းစော တည်ထားကိုးကွယ်ခဲ့သည့် ရှင်ပင်ဂူစေတီ၊ ရွှေဂူလှစေတီ၊ ရွှေဂူကြီးစေတီ၊ ရွှေစောလူးစေတီ၊ရှင်ပင်ဇယစ်စေတီများ၊ ထို့ပြင် အလောင်းစည်သူမင်း တည်တော်မူခဲ့သော ရွှေမြင်တင်၊ မြို့တွင်း ဆုတောင်းပြည့်၊ ဖောင်တော်ဦး၊ အတွင်းရွှေကျောင်း၊ အပြင်ရွှေကျောင်း၊ ရွှေမြင်မိ၊ လောကထိပ်ပန်၊ ရွှေလက်လှစသည့် များစွာသော ဘုရားစေတီအဆူဆူတို့ဖြစ်၏။ ရွှေမင်းဝံတောင်ထိပ်ထက်၌ တည်ရှိသော ရွှေမြင်တင်စေတီသည် ယခုအခါ ထင်ရှား၍ ကဆုန်လပြည့်နေ့၊ တန်ဆောင်မုန်း လပြည့်နေ့များတွင် နှစ်စဉ် ပွဲတော်များကျင်းပသည်။ ယခုအခါ ဘုရား ပရဝုဏ် အနီးတဝိုက်တွင် ဗမာ့တပ်မတော်မှ အဆောက်အအုံများ တည်ဆောက်လျက် စစ်တပ်ချထားသည်ဖြစ်သောကြောင့် ရွှေမြင်တင်စေတီကို မြေပြင်မှာ တည်ထားသကဲ့သို့ တွေ့မြင်ရပေသည်။ ဤသို့အားဖြင့် တပ်မတော်နယ်မြေတွင် သက်ရောက်နေခြင်းကြောင့်လည်း ဘုရားပွဲတော်များ ကျင်းပသည့်အခါတွင် တပ်မတော်က အကူအညီ ပေးခြင်းအားဖြင့် ဘုရားပွဲမှာ သိုက်မြိုက်စည်ကားပေသည်။

မိတ္ထီလာမြို့သည် ပတ်ဝန်းကျင် ခရိုင်များ၊ မြို့များသို့ ပေါက်ရောက်သော ခရီးလမ်းဆုံလမ်းခွတွင် ရှိသောကြောင့်လည်း စီးပွားရေးတွင် ကောင်းမွန် ဖွံ့ဖြိုးကာ လူသိများသည်။ ထို့ပြင်တဝ ကန်တော်ကို အမှီပြုရ၍ ရာသီဥတု ဆီလျော်သင့်မြတ်၏။ မြေချက်နှာပြင် အနေအထားမှာလည်း ကောင်းမွန်၏။ ခြောက်သွေ့သော်လည်း လေကောင်း လေသန့်ရသဖြင့် ကျန်းမာရေးနှင့် ညီညွတ်သည်။ အထူးသဖြင့် အဆုတ်နာရောဂါ၊ နှလုံးရောဂါ ဝေဒနာရှင်များအတွက် သင့်မြတ်သောကြောင့် ဆိုခဲ့သည့် ရောဂါများ စွဲကပ်နေသော ဝေဒနာရှင်တို့သည် မိတ္ထီလာမြို့သို့ သွားရောက် ကုသယင်း အနားယူကြပေသည်။

မိတ္ထီလာမြို့သည် ရှေးအခါက သျှီသျှားမြို့ဟု တွင်ခဲ့သည်။ ကန်တော်ကို အစွဲပြု၍ တွင်သော အမည်ဖြစ်ရကား ကန်တော်အမည် ပြောင်းသည်နှင့်အမျှ မြို့၏ အမည်လည်း ပြောင်းလဲခဲ့ပေသည်။ ယခု တွင်လျက်ရှိသော မိတ္ထီလာဟူသော အမည်ကား ပုဂံ အနော်ရထာမင်းစော၏ လက်ထက်တော်မှ စ၍ “မထိလာ” ဟူသော အမည်မှ ကာလရွေ့လျောသည့်အလျောက် ပြောင်းလဲလာသော အမည်ဖြစ်သည်ဟု ဆိုလေသည်။

**မိဿလင်ပင်။** ။မိဿလင်ပင်သည် ချင်းစိမ်း၊ ပတဲကော၊ နနွင်းတို့နှင့်အတူ ဇင်ဂျီဗာရေးစီအီး မျိုးရင်းတွင် ပါဝင်၍ ယင်း၏ ရုက္ခဗေဒအမည်မှာ ဇင်ဂျီဗာ ဗာဗေတမ် ဖြစ်သည်။ မိဿလင်ပင်သည် အမြင့် ၃ ပေကျော်ခန့် ရှိ၍ ချင်းစိမ်းပင်ကဲ့သို့ ပင်စည်တလျှောက် ရွက်လွှဲများ ရှိကြသည်။ အရွက်များသည် လုံ့စွပ်ပုံကဲ့သို့ရှိ၍ အဖျားချွန်ပြီးလျှင် အလျား ၈ လက်မမှ ၉ လက်မခန့် ရှိသည်။

မိဿလင် အတက်များမှ အပင်ပေါက်ကြသည်။ မိဿလင် အတက်နှင့် ချင်းစိမ်းအတက်များသည် ခပ်ဆင်ဆင်တူသော်လည်း ယင်းတို့ကို ခွဲခြားနိုင်သည်။ မိဿလင်ပင်သည် ဆေးဖက်ဝင်သောကြောင့် မြန်မာအိမ်များ၌ စိုက်ပျိုးထားလေ့ရှိသည်။ စိုက်ပျိုးရာ၌ မိဿလင်ပင်သည် မြေနု၊ မြေပွကို နှစ်သက်သည်။

မြန်မာဆေးကျမ်း အလိုအားဖြင့် မိဿလင်သည် သွေးကို ကြေစေတတ်၏။ ဝမ်းကိုလည်း ဖြောင့်စေ၏။ လေနှင့်သင့်၏။ အကိုက်အခဲ၊ အကြောထုံးနာအတွက် မိဿလင်ဥကို ဆားနှင့်ရော၍ ကြိတ်ပြီး ကြပ်စည်းပေးလျှင် သက်သာ၏။

အိန္ဒိယ ဆေးကျမ်းအလိုအရ မိဿလင်သည် ပူသောကြောင့် ချောင်းဆိုး၊ ပန်းနာ၊ သန်ထခြင်း၊ ကဠနူနာနှင့် အခြား အရေပြားရောဂါများအတွက် ကောင်းသည်ဟု ဆိုသည်။

မိဿလင်ပွင့်ကို မြန်မာအိမ်များ၌ ပြုတ်၍တို့ကြသည်။ ဟင်းချို ဟင်းခါးချက်၍လည်း သောက်သုံးကြသည်။ သုတ်၍လည်း စားကြသည်။

**မုခ်ခုံး။** ။အနုပညာသမိုင်း ဗိသုကာအတတ်ကို ပြန်သည် ကြည့်ရှုလျှင် ရှေးမခေတ်နှင့် ထိုနောက်တွင် ပေါ်ပေါက်လာ

သော အဆောက်အအုံများ၌ မုခ်ခုံးများ အသုံးများခဲ့သည်ကို တွေ့မြင်ရပေသည်။ ရောမ ဘုရားရှိခိုးကျောင်းကြီးများ၊ ဇာတ်ရုံဝိုင်းကြီးများ၊ တမံဆည်ရိုး ရေကာတာကြီးများ စသော အဆောက်အအုံများတွင် မုခ်ခုံးမပါလျှင် မပြီးသလောက်ဖြစ်သည်။ ရောမဗိသုကာအတတ် ထွန်းကားစအချိန်က အဆောက်အအုံများမှာ အလွန်ကြီးလေးထုထဲရာ ထိုအလေးချိန်ကို ထမ်းထားနိုင်စေရန် မုခ်ခုံးကြီးများ သဏ္ဌာန် ဆောက်လုပ်ခဲ့ရလေသည်။

တံခါးပေါက်များတွင် မုခ်ခုံးများကို အသုံးပြုထားခြင်းမှာ တံခါးပေါက်ကို ပိုမို မြင့်စေရန်နှင့် ခန့်ညားလှပစေရန် သာမက တံခါးအပေါ်ရှိ အဆောင်အရွက်များ၏ အလေးလည်း ကြံ့ကြံ့ခိုင်စေရန် ဖြစ်ပေသည်။

မုခ်ခုံးများကို ဆောက်လုပ်ရာ၌ တဖက်ရှူး ကျောက်တုံး၊ သို့မဟုတ် အုတ်ချပ်များကို အံကျစီ၍ ထည့်ရလေသည်။ (ရေတွင်း အဝိုင်းများကို စီရာတွင် ရေတွင်းအုတ်ခေါ် တဖက်ရှူး အုတ်ချပ်များကို သုံးသည့် သဘောမျိုးဖြစ်၏။) ထိုတဖက်ရှူး ကျောက်တုံးများကို တခုနှင့်တခု အံကျ စီလိုက်သောအခါ အထက်မှ အလေးချိန် မည်မျှပင်ဖိစေကာမူ အောက်သို့ ကျုံကျရန် မရှိတော့ပေ။ အပေါ်မှ ဖိလေ၊ မုခ်ခုံးသည် ခိုင်ခံ့လေဖြစ်၏။ သို့ရာတွင် ထို တဖက်ရှူး ကျောက်တုံးများသည် တခုကိုတခု တွန်းကန်၍နေကြသဖြင့် အပေါ်မှ အလေးချိန်များလွန်းလျှင် ဘေးသို့ ပွင့်ထွက်သွားနိုင်သည်။ ထို့ကြောင့် မုခ်ခုံးများကို ဘေးမှ တောင့်တင်းခိုင်ခံ့သော လက်ခံနံရံ လက်ခံတိုင်များ ခံပေးထားရန် လိုသည်။ လိုအပ်လျှင် ကျားများလည်း ကန်ပေးထားရသည်။ မုခ်ခုံးဖြစ်အောင် စီထားသောကျောက်တုံးများကို အင်္ဂတေ ကွန်ကရိ စသည်တို့ဖြင့် တသားတည်း ဖြစ်အောင် မွမ်းမံဆက်စပ်ထားလျှင်လည်း မုခ်ခုံးပုံရှိသော ကျောက်တုံးကြီး တတုံးကဲ့သို့ ဖြစ်သွားသည့်အတွက် ဘေးသို့ ပွင့်ထွက်စရာ လမ်း မရှိတော့ချေ။

မုခ်ခုံးများကို စီရာတွင် ရှေးဦးစွာ အလိုရှိသော မုခ်ခုံးပုံ အတိုင်း သစ်သားဘောင် ပုံစံခံ၍ တဖက်ရှူး ကျောက်တုံးများကို အံကျ စီရသည်။ အလယ်တည့်တည့်၌ နောက်ဆုံး ချပေးရသော ကျောက်တုံးသည် ကျန် ကျောက်ချပ် အားလုံးကို ရွေ့မသွားအောင် ထိန်းပေးထား၍ ထိုကျောက်တုံးကို ထိပ်စီးကျောက်တုံးဟု ခေါ်သည်။



ပြင်သစ်နိုင်ငံ ပါရစ်မြို့ရှိ ဆန်းကြယ်လှပသည့် မုခ်ခုံးကြီး



ကိုရီးယားနိုင်ငံရှိ တမူထူးခြားစွာ ဆောက်လုပ်ထားသည့် လွတ်လပ်ရေး မုခ်ခုံး



ဘုရားရှိခိုးကျောင်းအတွင်း လှပစွာ ဆောက်လုပ်ထားသော မုခ်ခုံး

အဖြောင့် ဖြစ်သော ထုပ်တန်း၊ ရက်မတန်းများထက် မုန်ခုံးများက ပိုမို၍အလေးချိန်ကို ထမ်းထားနိုင်သည်။ ပုံစံအားဖြင့် သာမန် ဝါးခြမ်းတခုကို တန်တားသဖွယ် ခင်း၍ အုတ်တချပ်ကို တင်ကြည့်ပါ။ ဝါးခြမ်းသည် ညွတ်ကွေးလာလိမ့်မည်။ သို့သော် ထိုဝါးခြမ်းကိုပင် မုန်ခုံးသဏ္ဍာန် ပြုလုပ်၍ အုတ်ချပ်ကို တင်ကြည့်ပါက လွယ်ကူစွာ မညွတ်နိုင်ကြောင်းကို တွေ့ရလိမ့်မည်။ ထို့ကြောင့် အဆောက်အအုံကြီးများ၊ တန်တားကြီးများတွင် အလေးချိန်ကို ပိုမိုထမ်းနိုင်စေရန် မုန်ခုံးကြီးများ၏ အထောက်အပံ့ဖြင့် တည်ဆောက်ကြခြင်း ဖြစ်လေသည်။

**မုတ်ကောင်။** ။ကမာ — ရှု။

**မုတ္တမတိုက်ပွဲ။** ။မုတ္တမတိုက်ပွဲသည် မြန်မာသက္ကရာဇ် ၉၀၂ ခုနှစ်တွင် တပင်ရွှေထီးနှင့် မုတ္တမစား စောဗညားတို့ ဖက်ပြိုင် တိုက်ခိုက်သော တိုက်ပွဲဖြစ်သည်။ (တပင်ရွှေထီး — ရှု။)

သက္ကရာဇ် ၉၀၂ ခုနှစ်တွင် တပင်ရွှေထီးသည် တိုက်ဆင်တရာ့သုံးဆယ်၊ မြင်းနှစ်ထောင့်တရာ၊ စစ်သည်သူရဲ တသိန်းသုံးသောင်းနှင့် မုတ္တမသို့ချီတက်သည်။ ပူတကေ(ပေါ်တူဂီ) လူမျိုး သေနတ်ကိုင် အမှုထမ်းတို့လည်း ပါသည်။ မုတ္တမစား စောဗညားလည်း စစ်သူရဲပေါင်းများစွာဖြင့် မြို့ကိုအလုံပြု၍ ခုခံသည်။ စောဗညားတွင် သူရဲသူခက်လည်း များလှသည်။ သင်္ဘောဆိပ်ဖြစ်၍ လက်နက်ကရိယာ စိန်ပြောင်း မြတပူလည်း ထူထပ်လှသည်။ မြို့တွင်းနေ ပူတကေတို့သည်း တချို့ မြို့ပြစီးကုန်သည်။ အချို့ သင်္ဘောခုနစ်စင်းနှင့် လက်နက်ကရိယာ အပြည့်အစုံတင်၍ မြို့ရှေ့က ကျောက်ဆူးချ၍ နေကုန်သည်။ မုတ္တမမြို့သည် တောင်လျှား မြောက်လျှား ဖီလာမြို့ဖြစ်သည်။ အနောက်ကမြင့်၍ အရှေ့ကနိမ့်သည်။ အရှေ့ဖက်ကလည်း မြစ်၊ အနောက်ဖက်ကလည်း တောင်ထိပ်မြို့ တည်လေသောကြောင့် တိုက်လှေ ပါမလာသော တပင်ရွှေထီး၏ တပ်များသည် အမြောက် သေနတ် လွတ်အောင် အဝေးကပင် ရံနေရပေသည်။

တပင်ရွှေထီးသည် ဟံသာဝတီမှ တိုက်လှေကြီး အစင်းသုံးရာ သွားယူစေ၍ ရောက်ရှိလာသော်၊ မုတ္တမမြို့ကို ကုန်းတပ် ရေတပ် နှစ်ဖက်ညှပ်၍ ဝိုင်းဝန်း တိုက်ခိုက်သည်။ သင်္ဘောထက်က အမြောက် စိန်ပြောင်းများနှင့် ပစ်ခတ်သောကြောင့် မြန်မာတိုက်လှေများ ကွဲချေနစ်ချေသည်။ မြို့ကို မတက်နိုင်ပေ။ ကြည်းကြောင်း တိုက်ပွဲတွင်လည်း မြို့စီးမြို့နင်း ကောင်းလှသောကြောင့်ရင်း၊ လက်နက်ကရိယာ ထူထပ်လှသောကြောင့်ရင်း တပင်ရွှေထီး၏ ရဲမက်တော်တို့ အနာထိ၍ ဆုတ်ခွာခဲ့ရသည်။

တပင်ရွှေထီးသည် မုတ္တမမြို့ကို ဝန်းရံကာနေယင်း၊ မုတ္တမမြို့သို့ စားနပ်ရိက္ခာများ မရောက်စေရန် ဘုရင့်နောင်အား တာဝန်ပေး၏။ ဘုရင့်နောင်လည်း တပင်ရွှေထီး၏ တာဝန်ပေးချက်အတိုင်း စီရင်၏။ သို့ဖြင့် စားနပ်ရိက္ခာ မသွင်းရ၍ ငတ်လေ၏။ ထိုသို့ ငတ်ငြားသော်လည်း စောဗညားကား လက်နက်မချ၊ မြို့ကိုသာ ခိုင်လုံအောင် စီရင်၍ ဆက်လက်ခုခံလေသည်။ ယင်းသို့ မုတ္တမစား စောဗညား အညံ့မခံရှိနေ၍ ရှည်လတ်သော်၊ မုတ္တမစား၏ ယောက်ဖ မော်လမြိုင်စား ဗညားဦး ကူညီလိမ့်မည်ဟု တပင်ရွှေထီးသည် ဆင်ခြင်မိ၏။ ထို့ကြောင့် မြို့လှစားနှင့် ဇလွန်စားကို မော်လမြိုင်သို့စေလွှတ်၍ အမိန့်တော်စာနှင့် မုတ္တမစားအား အထောက်အကူ ပြုခြင်းကို မြစ်တားသည်။ မော်လမြိုင်စား ဗညားဦးလည်း မုတ္တမကို အလိုတော်ပြည့်လျှင် ကျွန်တော်မှာ အထွေအထူး မရှိတော့ပြီ။ ကျွန်တော့် အရှင် ဖြစ်တော့သည်ဟု ပြန်လည် လျှောက်ထားလိုက်လေသည်။

သံတို့ ရောက်၍ ဗညားဦး၏ လျှောက်ထားချက်ကို ကြားရပြီးလျှင် တပင်ရွှေထီးသည် အမတ် သမိန်ပရူကို ခေါ်ဘော်မူ၍ မုတ္တမမြို့ကို ကြိမ်ဖန်များစွာ လုပ်ကြံသော်လည်း မရချေ။ ဤအရေးကို သမိန်ပရူ မည်သို့ ထင်သနည်းဟု မေးတော်မူ၏။ သမိန်ပရူက မုတ္တမမြို့သည် တောင်ရိုးတွင် တည်လေသောကြောင့် တောင်ပင် မြို့တံတိုင်းကဲ့သို့ ဖြစ်လေသည်။ မြို့စီးပြစီးလည်း များသည်။ လက်နက်ကရိယာလည်း ထူထပ်သည်။ ထို့ကြောင့် ရဲမက်တော်တို့ အသက်ကို အသက်မမှတ် လုပ်ကြံသော်လည်း အောင်ခြင်းသို့ မရောက်နိုင်ချေ။ မြို့၏ အရှေ့နိမ့်ရာက တက်ရမည်လည်း ကုလား (ပူတကေ)တို့ သင်္ဘော ခုနစ်စင်းနှင့် ပြောင်းသေနတ်အပြည့်တင်၍ နေလေသောကြောင့် ရုတ်ခြည်း မြို့ကို မတက်သာချေ။ ချဉ်းသမျှလည်း သင်္ဘောထက်က စိန်ပြောင်း မြတပူနှင့်လွှတ်လျှင် ကွဲချေနစ်ချေသည်။ မြို့တွင်းသို့ မျိုးရိက္ခာ မသွင်းရအောင် ဆီးဆို့ရသော်လည်း မြစ်ချောင်းကျယ်လှသည်ဖြစ်၍ ညဥ့်ဘွင် အမှတ်မဲ့ သွင်းလေသည်။ သို့လျှင် မြို့တွင်းသားတို့ ရိက္ခာထောက်ရ၍ ရဲမက်တော်တို့သာ ညောင်းညာချေသည်။ ယင်းသို့ ဖြစ်သောကြောင့် ကုလားတို့ ခံ၍နေသည့် သင်္ဘောများကို တစုံတခုသော ပယောဂဖြင့် စီရင်ဖျက်ဆီးပြီးလျှင် မြို့အရှေ့မှ လှေတပ်ဖြင့် ချဉ်းကပ်ကာ ရအောင်တက်မှ အလိုတော် ပြည့်လွယ်မည်ဟု လျှောက်ထားသည်။ တပင်ရွှေထီးလည်း သမိန်ပရူ၏ လျှောက်ထားချက်ကို နှစ်ခြိုက်သဖြင့် သင့်အောင် စီရင်လေဟု အမိန့်ရှိပြီးလျှင် သမိန်ပရူကို လှေတပ်ဝန်ချုပ် ခန့်အပ်၏။

သမိန်ပရူသည် လှေတပ်သား အပေါင်းနှင့် မုတ္တမမြစ်ညာ လက္ခန်းပျဉ် အရပ်သို့ သွား၍ သစ်ဝါးများ ခုတ်ပြီး

လျှင် ဖောင် ၂ ဖောင်ကို ဖွဲ့၏။ ပဌမ ဖောင်ကား ဖောင်ဝ အလံ ငါးဆယ်၊ အလျားအလံ တရာရှိ၏။ ထိုဖောင်ပေါ်တွင် မီးရှူးဝါးကို စည်း၍ အထပ်ထပ် အတောင် နှစ်ဆယ်ကျော်ခန့် စုပုံထားစေသည်။ ဒုတိယဖောင်ကား အဝအလံ ငါးဆယ် အလျားအလံ သုံးရာရှိ၏။ ထိုဖောင်ပေါ်တွင် မုတ္တမမြို့ထက် မြင့်အောင် သစ်တပ်တည်၍ ပြ၊ လက်ရန်း၊ သူရဲပြေး ခိုင်ခံ့အောင် လုပ်စေပြီးလျှင် အမြောက်သေနတ် အပြည့်အစုံ စီစဉ်၏။

ယင်းသည့် ဖောင် နှစ်ဖောင်စလုံးကို မုတ္တမမြစ်ညာ၌ ဆိုက်ကပ်ထား၏။ ထိုသို့ စီရင်၍ထားသော ဖောင်နှစ်ဖောင်တွင် မီးစာတင်သော ဖောင်ငယ်ကို ဒီရေတက်သော အခါ ဖောင်ကို တည်းမ၍ထားသည်။ မိုးသောက်ထ ဒီရေကျလျှင် မီးရှူးမီးစာ တင်ထားသော ဖောင်ငယ်ကို မီးညှို၍ မီးအလျှံ ထန်းတဖျားခန့်ရှိမှ ကုလားတို့ခံထားသော သင်္ဘော ခုနစ်စင်း ရှိရာသို့ မျှောချစေ၏။ သင်္ဘောတို့ကို ဖောင်ဖိမိ၍ မီးစွဲလောင်လေသည်။ မုတ္တမမြို့တွင်းသားတို့လည်း သင်္ဘောကို မီးစွဲသည်ကို မြင်လျှင် မြို့ကထွက်၍ လှေကြီးလှေငယ်နှင့် ကူကြသည်ကို တပင်ရွှေထီး၏ လှေတပ်သားများက လိုက်လံတိုက်ခိုက်သော်၊ မီးကို မသတ်ဝံ့ဘဲ မြို့တွင်းသို့ ပြေးဝင်ရ၏။ မီးရှူးဖောင်လည်း ကျောက်ဆူးချထားသော သင်္ဘောကြီး သုံးစင်းကို ဖိမိ၍ လောင်လျှင် ကျောက်ဆူးကြိုးပြတ်၍ သင်္ဘောငယ် လေးစင်းကို ကူးစက် လောင်လေကုန်၏။ သင်္ဘောခုနစ်စင်း မီးလောင်ပျက်စီး၍ မြို့အရှေ့ မျက်နှာက လပ်လျှင် အသင့် လုပ်ထားသော ဒုတိယ ဖောင်ကြီးကို လက်နက်ကရိယာ ဆေးကျည်စေ့သွတ်၍ သူရဲသူခက် အပေါင်းတို့ကို အသင့်နေစေပြီးလျှင် ဒီရေကျကို ဖောင်ကိုမျှောခဲ့၍ မုတ္တမမြို့ရှေ့တွင် ကပ်၍ ထား၏။ မုတ္တမမြို့က ပြလက်ရန်း တို့ထက် သမိန်ပရူ စီရင်သော ဖောင်က ပြလက်ရန်းတို့က မြင့်သောကြောင့် မြို့ကို စီးနင်းပစ်ခတ်လျှင် မြို့တွင်းသားတို့ မြို့ထိပ်တွင် မနေဝံ့ဘဲ ဆင်းပြေးကုန်သည်။ ယင်းသို့လျှင် ရဲမက်တော် လှေတပ်သားတို့ မြို့ကို ချဉ်း၍ဖြို၏။ မြို့ပြိုလျှင် ပြိုရာမှ ရဲမက်တော်တို့ မြို့တွင်းသို့ ဝင်ရောက်၍ အိမ်ရာ ကျောင်းကန်တို့ကို မီးတိုက်၏။ ကြည်းတပ်သားတို့လည်း မြို့စီးပြစီး မရှိသည်ကို တွေ့သော် မြို့ကို တိုက်ဖောက်၍ ဆင်မြင်း အလုံးအရင်းနှင့် ဝင်ရောက် တိုက်ခိုက်၏။ မုတ္တမစား စောဗညားလည်း လက်နက်မချဘဲ၊ စုရုံးမိသမျှသော ရဲမက် ဗိုလ်ပါတို့နှင့် ခုခံတိုက်ခိုက်၏။ စောဗညား၏ ဆင်နှင့် နန္ဒကျော်သူ၏ ဆင်တို့ စီးချင်း တိုက်ခိုက်ရာ စောဗညားမခံနိုင်ဘဲပြေးရ၏။ နန္ဒကျော်သူလည်း လိုက်၍ တိုက်ခိုက်သဖြင့် ဆင်နှင့်ဘကွ စောဗညားကို ရ၍ တပင်ရွှေထီးသို့ ဆက်သည်။ တပင်ရွှေထီး၏ ရဲမက်တော်တို့သည် ရွှေငွေ အဝတ်အစားများကို လုယက် ဖျက်ဆီး၍ ယူကုန်၏။ မြို့သူမြို့သားများကိုလည်း သတ်ဖြတ်ကြ၏။ တပင်ရွှေထီးလည်း မောင်းကြေးနင်းခတ်စေကာ ထိုသို့ မပြုရန် ဆီးတားရ၏။

တပင်ရွှေထီးသည် ညီလာခံသဘင်၌ မုတ္တမကို သမိန်ပရူ၏ အစီအမံဖြင့် အောင်မြင်တော်မူရသည်ဟု သမိန်ပရူအား ချီးမွမ်းတော်မူပြီးလျှင် အဆောင်အယောင် အစီးအနင်းနှင့်တကွ မြောင်းမြမြို့ကို ပေးတော်မူသည်။ နေရာလည်း လက်ဝဲတော်ဦး နေရသည်။ ပြည်ရေးရွာမှုကိုလည်း ဘုရင့်နောင်ကျော်ထင် နော်ရထာနှင့် တိုင်ပင်စီရင်ဟု အမိန့်ရှိသည်။ စောဗညားအား စီးချင်းတိုက်၍နိုင်သော နန္ဒကျော်သူကိုလည်း မင်းရဲကျော်ထင်ဟူ၍ ဘွဲ့ချီသည်။ မုတ္တမမြို့ရှိ သဌေးသူကြွယ်တို့က မင်းရဲကျော်ထင်အား ငါးရက်တိုင် လက်ဖွဲ့ရသည်။ မုတ္တမမြို့ကို သုရှင်တကာရွတ်ပိ၏ ယောက်ဖတော် စောလက္ခန်းအိမ်ကို အဆောင်အယောင်နှင့်တကွ ပေးတော်မူလေသည်။

မုတ္တမမြို့။ ။မော်လမြိုင်မြို့ အနောက်မြောက်၊ သံလွင်မြစ် တဖက်ကမ်း လကျ်ာဖက် နှစ်မိုင်နီးပါးခန့် အကွာတွင် တည်ရှိသော မုတ္တမမြို့သည် ရှေးအခါက အလွန် ထင်ရှားကျော်စောခဲ့သော မွန်တို့ ရာဇဌာနီမင်းနေပြည် ဖြစ်ခဲ့ဘူးသည်။ ထိုအခါက စည်ပင်သာယာသော သင်္ဘောဆိပ်မြို့ ဖြစ်ခဲ့သည်အားလျော်စွာ အနောက်နိုင်ငံသားတို့ ရောင်းဝယ်ဖောက်ကား ကျက်စားရာလည်း ဖြစ်ခဲ့ပေသည်။ တောင်စဉ် တောင်တန်းတို့ကို ကျောခိုင်းကာ တံတိုင်းအသွင် ကာဆီးလျက် ရန်သူတို့ ဖျက်ဆီးခြင်းငှါ ခဲယဉ်းလှသော မုတ္တမမြို့ကြီးသည် လောကဓံတရားအရ ပျက်စီးလာခဲ့ရာ ယခုအခါ ရွာကြီးတရွာမျှသာ ရှိတော့သည်။ ရန်ကုန်မြို့မှ မိုင်ပေါင်း ၁၆၉ မိုင်အကွာ ရန်ကုန်–မုတ္တမ မီးရထားလမ်းဆုံးမြို့ဖြစ်၍သာ၊ ရဲဌာန၊ စာတိုက်ခွဲ၊ နိုင်ငံတော်အစိုးရ အထက်တန်းကျောင်း တကျောင်း ရှိသည်။ မော်လမြိုင်မြို့သို့ ကူးတို့သင်္ဘောဖြင့် ကူးရသည်။

ရာမညတိုင်း မွန် ၃ ရပ်တွင် အထင်ရှားဆုံး ဖြစ်ခဲ့သော မုတ္တမ မဏ္ဍလဟုခေါ်သည့် မုတ္တမမြို့၏ မူလအမည်ရင်းမှာ "မောတမော" ဟု ရာဇာဓိရာဇ် အရေးတော်ပုံတွင် ဆိုသည်။ "မော့တမော့" ဟုလည်း အချို့ ဆိုကြသည်။ ကျောက်ကို "တမော့"၊ မကျောက်ညွန့် ကျောက်ဖျာကို "မော့တမော့"၊ ကျောက်ဖျာ ကျောက်ညွန့်တွင် တည်ထားသောကြောင့် "မော့တမော့မြို့" ဟု မွန်တို့ ခေါ်သည်ဟု ဆိုသည်။ နောက်မှ မုတ္တမဟု တွင်သည်။

မုတ္တမမြို့ကို လွန်ခဲ့သော နှစ်ပေါင်း ၁,၄၀၀ ခန့်လောက်က မွန်ဘုရင်တပါးတည်ထောင်ခဲ့ရာ၊ သက္ကရာဇ် ၄၁၈–၄၁၉ ခုနှစ်တို့တွင် အနော်ရထာစော တိုက်ခိုက်သိမ်းယူသည်က

စ၍ နှစ်ပေါင်း ၂၀၀ ကျော်ကျော် မြန်မာ့လက်နက်နိုင်ငံ ဖြစ်ခဲ့ရသည်။ သို့သော် နရပတိ စည်သူမင်း ထားခဲ့သော မုတ္တမမြို့စား အလိမ္မာအမတ်ကို သက္ကရာဇ် ၆၄၃ ခုနှစ်တွင် မဂဒူဆိုသူ လုပ်ကြံပြီးလျှင် "ဝါရီရူ" (မိုးပေါ်ကျမင်း) အမည်ခံ၍ မင်းပြုလေသည်။ မုတ္တမ ဝါရီရူမင်းနှင့် ဟံသာဝတီ တရဖျားတို့ အချင်းချင်း သမီးပေး၍ မဟာမိတ်ဆက်ကြသည်။ ထိုနောက် တရဖျား အကောက်ကြံ၍ တိုက်လာသဖြင့် ဝါရီရူသည် တရဖျားကို တိုက်ရာ၊ တရဖျားကို လက်ရဖမ်းမိသည်။ နောက်တရဖျား မသင့်မတင့်သော အကြံအစည်ကို ကြံသည်နှင့် ကွပ်မျက်ရသည်။ ပဲခူးတွင် မြို့စားခန့်ထားလျက် မုတ္တမက နေပြီးလျှင် ရာမညတိုင်းကို ဝါရီရူမင်း အုပ်ချုပ်လေသည်။ မုတ္တမ မင်းဆက်ကား ဝါရီရူမှစ၍ မင်း ၈ ပါးရှိသည်။ ၈ ဆက်မြောက် ဆင်ဖြူရှင်ဗညားဦး လက်ထက် သက္ကရာဇ် ၇၃၁ ခုနှစ်တွင် မုတ္တမမှ ဟံသာဝတီ ပဲခူးသို့ ပြောင်း၍ စိုးစံသည်။ မုတ္တမမင်းတို့ကား ရာမည တိုင်းအလုံးနှင့် တနင်္သာရီတိုင်းကိုပါ စိုးပိုင်ကြဘူးသည်။ (ဝါရီရူမင်း — လည်းရှု။)

မုတ္တမမြို့၏ ရှေးအခါ ကြီးကျယ်ပုံကို ရာဇဝင်ကြောင်းအရ သက္ကရာဇ် ၉၀၂ ခုနှစ်တွင် တပင်ရွှေထီးနှင့် မုတ္တမမြို့စား စောဗညားတို့ ဖက်ပြိုင် တိုက်ခိုက်သော မုတ္တမ တိုက်ပွဲတွင် ထင်ရှားစွာ တွေ့မြင်နိုင်သည်။ (မုတ္တမတိုက်ပွဲ — ရှု။)

မုတ္တမမြို့၏ အရှေ့ဖက် သံလွင်မြစ်ဆိပ်နားတွင် မြသိန်းတန် စေတီတော် တဆူနှင့် မြို့၏ အနောက်ဖက် တောင်တန်းပေါ်၌ ကျိုက်ဖျင်ကူစေတီတော်တဆူ ဟူ၍ ထင်ရှားသော စေတီတော် နှစ်ဆူရှိသည်။ မြသိန်းတန်စေတီတော်ကို သက္ကရာဇ် ၈၅၆ ခုနှစ်၌ မွန်ဘုရင်တပါး တည်ထားကိုးကွယ်ခဲ့သည်။ ကျိုက်ဖျင်ကူစေတီတော်ကား ရှေးအခါက ရှမ်းစစ်သည်နှင့် မြန်မာစစ်သည်များ သံလွင်မြစ် အရှေ့ဖက်ကမ်းတွင် စစ်ဦးချင်း ဆိုင်ကြပြီးနောက် သတိတရား ရရှိကြပြီးလျှင် စစ်တိုက်မည့်အစား စေတီတဆူစီ တည်၍ ရှေးဦးစွာ ပြီးစီးသည့် ဖက်မှ အနိုင်ယူကြစတမ်းဟု ကတိပြုတည်ကြရာမှ ဖြစ်ပေါ်လာသော စေတီ ဖြစ်သည်ဟု ဆိုသည်။

ရှမ်းစစ်သည်တို့က သံလွင်မြစ် အရှေ့ဖက်ကမ်း တောင်စွယ်ဘွင် အုတ်များဖြင့် တည်ရန် ပြင်ဆင်နေဆဲ မြန်မာစစ်သည်တို့က ခြင်းကျားဖြင့် စေတီပုံ အတုလုပ်၍ ဖျင်ဖြင့် ရစ်ပတ်ထားကြသည်။ ထိုစေတီ အတုကို ရှမ်းတို့ မြင်သဖြင့် မြန်မာများ ဦးစွာ စေတီပြီးနှင့်သည်ဟု အကယ် ထင်မှတ်ကာ အရှုံးပေး ဆုတ်ခွာသွားကြသည်။ ထိုကြောင့် ထိုစေတီကို ကျိုက်ဖျင်ကူ ဟု ခေါ်၏။ ရှမ်းများ လန်ပြေးသည်ကို အကြောင်းပြု၍ ယင်းတို့ဘည်သော စေတီကိုမူ ကျိုက်ရှမ်းလန်ဟုခေါ်ရာမှ နောင် ကာလရွေ့လျောသဖြင့် ကျိုက်သံလန် ဖြစ်လာသည်ဟု ဆိုသည်။ (ကျိုက်သံလန် — ရှု။)



မုတ္တမမြို့ ဆိပ်ကမ်းကို ခေါင်းဆေးကျွန်းဖက်မှ တွေ့မြင်ရသည့်ရှုခင်း

**မုတ်သုန်**။ ။ရာသီအလိုက် အချိန် မှန်ကန်စွာ ပြောင်းလဲ တိုက်ခတ်သော လေများကို မုတ်သုန် (မွန်ဆွန်း)၊ သို့မဟုတ် ရာသီလေဟု ခေါ်သည်။ မုတ်သုန်လေ ဖြစ်ပေါ်လာရခြင်း အကြောင်းမှာ မတ်လမှ စက်တင်ဘာလအထိ နေ၏ တိုက်ရိုက် အပူရှိန်သည် အီကွေတာ မြောက်ဖက်၌ တည့်မတ်စွာ ကျရောက်၏။ ထိုလများ၌ အာရှတိုက် အလယ်ပိုင်းရှိ ကျယ်ပြန့်သော ကုန်းမြေများသည် အလွန် ပူပြင်း၍ တောင်ဖက် အိန္ဒိယ သမုဒ္ဒရာနှင့် အရှေ့ဖက် ပစိဖိတ် သမုဒ္ဒရာတို့သည် များစွာ အေး၏။ ထိုအခါ အိန္ဒိယ အလယ်ပိုင်းရှိ လေတို့သည် ပူသဖြင့် အထက် ကောင်းကင်သို့ အမြောက်အများ လွင့်တက်ကြ၏။ ထိုလွင့်တက်သွားသော နေရာသို့ တောင်ဖက် အိန္ဒိယ သမုဒ္ဒရာမှ လေအေးများသည် အာရှတိုက် အတွင်းဖက်သို့ အဟုန်ပြင်းစွာဖြင့် တိုက်ခတ် ဝင်ရောက်လာကြသည်။ ယင်းလေတို့သည် အိန္ဒိယ နိုင်ငံနှင့် မြန်မာနိုင်ငံတို့တွင် အနောက်တောင်ဖက်မှ တိုက်ခတ်လာသောကြောင့် အနောက်တောင် ရာသီလေ ဟုလည်း ခေါ်သည်။

မုတ်သုန်လေ တိုက်ခတ်သောအခါ လေထဲတွင် ရေခိုးရေငွေ့များ ပါလာ၏။ ထိုလေသည် ကုန်းမြေသို့ ရောက်သောအခါ တောင်တန်းများနှင့် တွေ့ဆုံကာ အထက် ကောင်းကင်သို့ ထိုးတက်သွားကြရာ လေ၌ပါသောရေခိုးရေငွေ့တို့သည် အထက် ကောင်းကင်၏ အအေးဓာတ်ကြောင့် အရည်ဖွဲ့ပြီးလျှင် မိုးအဖြစ် သည်းထန်စွာ ရွာသွန်းလေသည်။ ထို့ကြောင့် ပင်လယ် ကမ်းရိုးတလျှောက် တောင်တန်းဒေသများတွင် မိုးသည်းထန်စွာ ရွာသွန်းလေ့ ရှိသည်။ မြန်မာနိုင်ငံတွင် အနောက်တောင် မုတ်သုန်လေသည် နှစ်စဉ် မေလမှ အောက်တိုဘာလအထိ တိုက်ခတ်ရာ၊ ထိုအချိန်တွင် မိုးများစွာ ရွာသွန်းသဖြင့် မိုးဥတုဟု ခေါ်ကြသည်။

တဖန် စက်တင်ဘာလမှ မတ်လအထိ နေ၏ တိုက်ရိုက် အပူရှိန်သည် အီကွေတာ တောင်ဖက်၌ တည့်မတ်စွာ ကျရောက်၏။ ထိုအခါ အိန္ဒိယ သမုဒ္ဒရာသည် များစွာ ပူ၍ အာရှတိုက် အလယ်ပိုင်း ကုန်းပြင်ကြီးများကား များစွာ အေး၍ နေသည်။ အိန္ဒိယ သမုဒ္ဒရာပေါ်ရှိ လေပူတို့သည် အထက် ကောင်းကင်သို့ လွင့်တက်ကြ၏။ ထိုလေပူနေရာသို့ အာရှတိုက် အလယ်ပိုင်းမှ လေအေးတို့သည် တိုက်ခတ်ဝင်လာကြသည်။ ထိုမုတ်သုန်လေသည် အိန္ဒိယနှင့် မြန်မာနိုင်ငံတို့တွင် အရှေ့မြောက်ဖက်မှ တိုက်ခတ်သောကြောင့် အရှေ့မြောက် ရာသီလေဟုလည်း ခေါ်သည်။ ထိုအချိန်ဘွင် မြန်မာနိုင်ငံတွင် မိုးမရွာချေ။ ရာသီဥတုမှာ အေးသောကြောင့် ဆောင်းဥတုဟု ခေါ်သည်။

အရှေ့မြောက် မုတ်သုန်လေသည် အနောက်တောင် မုတ်သုန်လေလောက် အဟုန် မပြင်းထန်ချေ။ အဘယ်ကြောင့်ဆိုသော် အိန္ဒိယ သမုဒ္ဒရာကြီးသည် နေပူရှိန်ကြောင့် ပူသည်ဟု ဆိုရသော်လည်း အီကွေတာ မြောက်ဖက်၌ အပူရှိန် တည့်မတ်စွာ ကျရောက်စဉ်က အာရှတိုက် အလယ်ပိုင်း ကုန်းမြေကြီးများ ပူသလောက် အပူအားမကြီးသဖြင့် လေပူတို့သည် အထက်သို့ အမြောက်အမြား မတက်ကြချေ။ ထို့ကြောင့် ယင်းတို့ နေရာသို့ ပင်ရောက်လာသော အာရှတိုက် အလယ်ပိုင်းမှ လေအေးတို့သည် ပင်လယ်ဖက်သို့ ဖြည်းညှင်းစွာသာ တိုက်ခတ်လာကြသည်။ မြန်မာနိုင်ငံ၌ ယင်းမုတ်သုန်လေတို့သည် အထူး အချိန်မှန်သဖြင့် စိုစွတ်သော မိုးဥတုနှင့် ခြောက်သွေ့၍ အေးသော ဆောင်းဥတုတို့ကို ဖြစ်ပေါ်စေလေသည်။ မုတ်သုန်လေ ရရှိသော ဒေသများမှာ အိန္ဒိယနိုင်ငံ၊ မြန်မာနိုင်ငံ၊ အင်ဒိုချိုင်းနား၊ ဩစတြေးလီးယားတိုက် အနောက်မြောက်ပိုင်း၊ အာဖရိကတိုက် အရှေ့ကမ်းရိုးတန်း ဒေသအချို့နှင့် တောင်အမေရိက အနောက် မြောက်ပိုင်း ဒေသတို့ ဖြစ်ကြသည်။

**မန်ကျည်းပင်**။ ။မန်ကျည်းပင်သည် စိန်ပန်းပင်၊ ပိတောက်ပင်၊ ကုက္ကိုပင် စသည်တို့နှင့်အတူ လီဂူမီနိုးစီး မျိုးရင်းတွင် ပါဝင်၍ ယင်း၏ ရုက္ခဗေဒ အမည်မှာ တမ်းမရင်းဒပ် အင်ဒီကာ ဖြစ်သည်။ မန်ကျည်းပင်သည် အလွန် ပေါများသောကြောင့် လူတိုင်းမြင်ဘူးကြသည်။ ထိုအပင်မျိုး၏စတင်ပေါက်ရောက်ရာ ဇာတိဒေသမှာ အာဖရိကတိုက် အရှေ့ပိုင်း ပူအိုက်သောတိုင်းပြည်များဖြစ်၍ အိန္ဒိယနိုင်ငံနှင့် မြန်မာနိုင်ငံတို့သို့ တဆင့် ယူဆောင် စိုက်ပျိုးခဲ့ခြင်း ဖြစ်လေသည်။ မန်ကျည်းပင်သည် အမြဲစိမ်းလန်းသော သစ်ပင်ဖြစ်၍ မြန်မာနိုင်ငံ၌ အနှံ့အပြား စိုက်ပျိုးထားကြသည်။ မြန်မာနိုင်ငံ အထက်ပိုင်းတွင် မန်ကျည်းပင်ကို အကြီးအကျယ် စိုက်ပျိုးထားကြရာ၊ ထိုဒေသတွင် အများဆုံး တွေ့ရသည်။ လယ်ကွင်းများ၊ ခြံဥယျာဉ်များ၊ ကျွဲ နွား စားကျက်များ၌ မန်ကျည်းပင် ပေါက်စများကို အနှံ့အပြား တွေ့မြင်ရခြင်းအားဖြင့် အပင်ပေါက်လွယ်သည့် သစ်ပင်မျိုး ဖြစ်ကြောင်း သိရသည်။

မန်ကျည်းပင်များသည် အမြင့်ပေ ၈၀ အထိရှိ၍ ခိုင်ခံ့သော ပင်စည်နှင့် အပင်ထက်တွင် လှပဝေဆာသော ငှက်မွေးသဏ္ဌာန် အရွက်များဖြင့် အလွန် တင့်တယ်သော သစ်ပင်ကြီးမျိုး ဖြစ်သည်။ ရွက်ရိုးတံ တဖက်တချက်တွင် ရွက်မြွာများ စီ၍ ထွက်လျက် ရှိသည်။ ရွက်ရိုးတံသည် ၂ လက်မမှ ၄ လက်မအထိ ရှည်၍ ရွက်မြွာများ ၁၀ စုံအထိ ပါရှိသည်။ အရွက်အခက်တို့ဖြင့် သိုက်မြိုက်ဝေဆာနေသဖြင့် အရိပ်အာဝါသ အလွန် ကောင်းသောကြောင့် ခြံဥယျာဉ်များနှင့် အထူးသဖြင့် လမ်းနံဘေးများ၌ တန်ဆာဆင်ရန် စိုက်ထားတတ်ကြသည်။ မိုးပါး၍ ခြောက်သွေ့သော ဒေသ



မန်ကျည်းသီးနှင့် အရွက်များ

များ၌ နွေအခါတွင် ရက်သတ္တ အနည်းငယ်မျှ ပင်လုံးကျွတ် အရွက်ကြွေတတ်သည်။ အလွန် ကြီးခဲသော အပင်မျိုး ဖြစ်သော်လည်း အစေ့မှ အလွယ်တကူ အပင်ပေါက်နိုင် သည့်ပြင် မည်သည့်မြေမျိုး၌မဆို ကြီးပွား ဖြစ်ထွန်းသဖြင့် မန်ကျည်းပင်ကို မြန်မာနိုင်ငံ မြေညီပိုင်းတွင် နေရာတိုင်း၌ စိုက်ပျိုးနိုင်သည်။

မန်ကျည်းခေါက်သည် ညိုမဲ့ရောင်ရှိ၍ ထွင်းကြောင်းများ ပင်စည်နှင့် အလျားလိုက် ပေါ်လျက်ရှိသဖြင့် အလွန်ကြမ်း သည်။ အပွင့်မှာ ငယ်သော်လည်း အဝါပေါ်တွင် အနီ ပြောက်ကလေးများ ပါရှိသဖြင့် လှပ၏။ မန်ကျည်းသီး အတောင့်သည် ၃ လက်မမှ ၆ လက်မအထိရှည်၍ များ သောအားဖြင့် ကွေးကွေးကောက်ကောက် သီးတတ်ကြ သည်။ ညို၍ ဆတ်သော အခွံပါးကလေးများရှိ၍ ထိုအခွံ အတွင်း၌ အသားပျော့ရှိသည်။ အသားအတွင်း၌မြုပ်နေ သော မာ၍ ချောမွတ်လျက် အညိုရင့်ရောင်ရှိသည့် အစေ့ ပြားကလေးများသည် အသီးတောင့်၏ အလယ်၌ စီတန်း လျက်ရှိသည်။

မန်ကျည်းသားသည် အလွန်မာ၍ ကြာရှည်ခံသဖြင့် ဆန် ဖွပ်ရန် ကျည်ပွေ့များ၊ ဆီဆုံနှင့် ကြံကြိတ်စက်များ၊ ထယ် များ၊ စူးဆောက်ရိုးများ စသည်တို့ကို ပြုလုပ်ရာ၌ အသုံး ဝင်သည်။

ထင်ရှားသော မန်ကျည်းပင် နှစ်မျိုး ရှိသည်။ ယင်းတို့ မှာ အသီးမှည့်သောအခါ အသားနီညစ်ညစ် အရောင်ရှိ၍ အရသာ ချဉ်သော မန်ကျည်းပင်မျိုးနှင့် အသား ဖြူယော် ယော် အရောင်ရှိ၍ အရသာ ချိုသော မန်ကျည်းပင်မျိုးတို့ ဖြစ်ကြသည်။

မန်ကျည်းသီးမှည့်များသည် ဟင်းချက်ရာ၌ အလွန် အ သုံးဝင်သည်။ တေဆေးဟု ခေါ်သော ဝမ်းနုတ်ဆေးတွင် မန်ကျည်းသီးကို ထန်းလျက်၊ ပွေးကိုင်းအပြင် အခြား ဆေး များနှင့် ရော၍ ဖော်စပ်ထားသည်။ ပူအိုက်သော ရာသီ တွင် မန်ကျည်းသီးနှင့် ထန်းလျက်ကို ရေတွင် စိမ်၍ ဖျော် ရည် ပြုလုပ် သောက်ကြသည်။ ဆေးပေါ့လိပ် လုပ်ငန်းတွင် ဆေးရိုးကို မန်ကျည်းမှည့်ရည် ပက်ဖျန်းပြီးမှ ဆေးလိပ် လိပ်ကြသည်။ မန်ကျည်းသီးစိမ်းများကိုလည်း ကြော်ချက် ၍ စားသုံးလေ့ ရှိကြသည်။ မန်ကျည်းရွက်နုကိုလည်း ဖွယ် ဖွယ်ရာရာ စီမံချက်ပြုတ်၍ စားသောက်ကြသည်။ မန်ကျည်း ခေါက်ကို သာမန်မျက်စေ့နာအတွက် သွေးလိမ်းကြသည်။

ယင်းသို့ ဖြစ်ရကား မန်ကျည်းပင်သည် တပင်လုံး အသုံး ဝင်သော အပင်ဟု ဆိုနိုင်ပေသည်။

သဘော်မန်ကျည်းပင်ကို တရုပ် မန်ကျည်းပင် ဟူ၍ လည်း ခေါ်သည်။ ထိုမန်ကျည်းပင်မျိုးသည် အပင်လတ် များဖြစ်၍ ခြံစည်းရိုးပင် အဖြစ် စိုက်ပျိုးထားလေ့ ရှိကြ သည်။ အကိုင်းအခက်များကို ချိုင်ပေးလျှင် ခြံစည်းရိုး တလျှောက်တွင် အပင်များ တညီတည်းရှိနေသည်။ အကယ် ၍ မချိုင်ဘဲ ထားလျှင် နုံးမြေများတွင် ပေ ၃၀ ကျော်ခန့် အထိ မြင့်သည်။ အသီးအမှည့်များကို စားကြသည်။

မြန်မာနိုင်ငံတွင် တွေ့ရသော အခြား မန်ကျည်းပင် များမှာ မန်ကျည်းပေါက်ပင်၊ တောမန်ကျည်းပင်၊ တောင် မန်ကျည်းပင်နှင့် ဆေးမန်ကျည်းပင်များ ဖြစ်ကြသည်။ မန် ကျည်းပေါက်ပင်များကို မင်းဘူးနယ်နှင့် မုတ္တမနယ်တို့၌ တွေ့ရသည်။ တောမန်ကျည်းပင်ကို ခယာမွှေးပင် ဟူ၍ လည်း ခေါ်ကြသည်။ တောင်မန်ကျည်းပင်များကို မိုးကုတ် နယ်၌ တွေ့ရသည်။ ဆေးမန်ကျည်းပင်ကား ခြုံပင်၊ သို့မ ဟုတ် အပင်ငယ်များ ဖြစ်၍ မြန်မာနိုင်ငံ၌ အနှံ့အပြား တွေ့ရသည်။

**မန်ချူးရီးယားပြည်နယ်။** ။မန်ချူးရီးယားသည်တရုပ် ပြည်သူ့သမတနိုင်ငံပိုင် ပြည်နယ်တခုဖြစ်၍ တရုပ်နိုင်ငံ၏ အ ရှေ့မြောက်ဖက် အစွန်တွင် တည်ရှိသည်။ မန်ချူးရီးယား ဟူသည်ကား မန်ချူးတို့၏ ဌာနီဟု အဓိပ္ပါယ်ရကာ အမေ ရိကန်နှင့် ဥရောပတိုက်သားတို့က ခေါ်ဝေါ်သော အမည် ဖြစ်ပေသည်။ မန်ချူးလူမျိုးတို့သည် တရုပ်ပြည်ကို ၁၈၁၁ ခုနှစ်တိုင် နှစ်ပေါင်း ၃၀၀ ကျော် အုပ်စိုးသွားသူများဖြစ်ကြ

၏။ ဂျပန်တို့ သိမ်းပိုက်ပြီးသည်နောက်တွင် မန်ချူးရီးယားကို မန်ချူးကိုးဟု ပြောင်းလဲခေါ်ဝေါ်သည်။ အဓိပ္ပါယ်မှာ မန်ချူးတို့၏ ဌာနီပင် ဖြစ်၏။ တရုပ်လူမျိုးတို့ကမူ အရှေ့တောင်ပိုင်း ဒေသဟု အဓိပ္ပါယ်ရသော "ထွန်ပေ" ဟူသော အမည်ဖြင့် ခေါ်ဝေါ်လေသည်။ မန်ချူးရီးယားသည် တရုပ်နိုင်ငံနှင့် တောင်များဖြင့် ဆီးတား ခြားနားလျက်ရှိသည်။ သယံဇာတပစ္စည်းများ ကြွယ်ဝသောကြောင့် အိမ်နီးချင်းနိုင်ငံများဖြစ်သော ရုရှနှင့် ဂျပန်တို့သည် မန်ချူးရီးယားကို မျက်စောင်းထိုးလျက်ရှိကာ မန်ချူးရီးယားကို ပိုင်ဆိုင်မှုအတွက် ရုရှ၊ ဂျပန်၊ တရုပ်တို့ အချင်းပွားကြရပေသည်။ ထို့ကြောင့် ကမ္ဘာ့အရှေ့ဖျားသမိုင်းတွင် အရေးပါ ထင်ရှားသော ပြည်နယ်ဖြစ်၏။

မန်ချူးရီးယား ပြည်နယ်သည် အကျယ်အဝန်းအားဖြင့် ၅၀၃,၀၁၃ စတုရန်းမိုင် ရှိ၍ တရုပ်နိုင်ငံ စုစုပေါင်း အကျယ်အဝန်း၏ ၈ ပိုင်း ၁ ပိုင်း ဖြစ်သည်။ မန်ချူးရီးယားပြည်နယ်သည် မြေဩဇာကောင်းသော မြေပြန့်ဖြစ်၍ တောင်ကြီး တောင်ငယ်နှင့် မြစ်ပင်လယ်တို့ဖြင့် ပတ်ရံလျက်ရှိသည်။ တည်နေရာအားဖြင့်သော်ကား အရှေ့နှင့် အရှေ့တောင်ဖက်တွင် ကိုရီးယားနိုင်ငံ၊ မြောက်ဖက်တလွှားတွင် ရုရှဆိုက်ဗီးရီးယား၊ အနောက်မြောက် ယွန်းယွန်းတွင် မွန်ဂိုးလီးယား၊ အနောက်တောင်ဖက်တွင် တရုပ်ပြည်သူ့သမတနိုင်ငံ၊ တောင်ဖက်တွင် ပင်လယ်ဝါတို့ဖြင့် ပတ်ရံလျက် ရှိသည်။ ယာလူးမြစ်သည် ကိုရီးယားနိုင်ငံနှင့် မန်ချူးရီးယားပြည်နယ်ကို ပိုင်းခြားထား၍ အထက်တွင် အာမူးမြစ်သည် ဆိုက်ဗီးရီးယားနှင့် မန်ချူးရီးယားပြည်နယ်ကို ပိုင်းခြားလိုက်ပေသည်။ မန်ချူးရီးယား ပြည်နယ်၏ ရုံးစိုက်မြို့တော်မှာ မုကဒင်မြို့ဖြစ်၏။ အခြားမြို့ကြီးများကား ဒိုင်ရင်၊ ပို့အာသာ၊ ကီရင်တို့ ဖြစ်လေသည်။

မန်ချူးရီးယား ပြည်နယ်သည် မြေပြန့် လွင်ပြင်ကြီးဖြစ်၍ တသီးတခြား တည်ရှိသော တောင်တန်းကြီး ၃ ခုဖြင့် ပတ်ရံလျက်ရှိသည်။ မြေပြန့် လွင်ပြင်တွင် အပိုင်း ၃ ပိုင်းရှိ၏။ မြို့ကြီးပြကြီးများနှင့် လယ်ယာ စိုက်ပျိုးရေး အတွက် အကောင်းဆုံးဒေသတို့သည် တောင်ပိုင်းတွင် တည်ရှိသည်။ မြောက်ပိုင်းသည် မြက်ခင်းပြန့်ကြီး ဖြစ်ပြီးလျှင် တတိယပိုင်းဖြစ်သော အရှေ့ဖက်သည် တောင်ကြားဒေသဖြစ်၍ အရေးမပါလှပေ။ မန်ချူးရီးယား ပြည်နယ်၏ အနောက်ဖက်တွင် ခင်ဂန် တောင်တန်းသည် အဆက်မပြတ် သလောက်ပင် တောက်လျှောက် သွယ်တန်း၍တည်ရှိသည်။




မန်ချူးရီးယားပြည်နယ်၏ ဆိပ်ကမ်းမြို့ကြီးဖြစ်သော ဟာဗင်မြို့၏ရှုခင်း

ထိုတောင်တန်းသည် မန်ချူးရီးယား ပြည်နယ်ကို မွန်ဂိုးလီးယားမှ ပိုင်းခြားလိုက်လေသည်။ ထိုတောင်တန်းအပြင် မန်ချူးရီးယား ပြည်နယ်၏ မြောက်ဖက်တွင် မွန်ဂိုးလီးယားမှ စတက်လွင်ပြင် တစိတ်တဒေသလည်း တည်ရှိသည်။ မန်ချူးရီးယားပြည်နယ်၏ မြောက်ဖက်အစွန်းတွင် ခင်ဂန်တောင်တန်းကြီးသည် အရှေ့တောင်ဖက်သို့ ချိုးဆင်းသွားပြီးလျှင် ခင်ဂန်တောင်ကလေးများဟု တွင်လာသည်။ တတိယ တောင်တန်းဒေသသည် ပြတ်တောင်း ပြတ်တောင်း တည်ရှိသော တောင်စဉ်ဖြစ်၍ ပင်လယ်တွင်း၌ ဆက်လက် ပေါ်လာကာ ကွမ်တုန်ပင်လယ်ကျွန်းဆွယ်ဟု တွင်ပေသည်။ ယင်းကို လီယိုတုန် ကျွန်းဆွယ်ဟူ၍လည်း ခေါ်ပေသည်။ မန်ချူးရီးယားပြည်နယ်တွင် အရေးပါသော မြစ်များမှာ လီယို၊ ဟန်၊ ဆွန်ဂါရီ၊နွန်နီ၊ ယာလူးတို့ ဖြစ်၏။ လီယိုနှင့် ဟန်တို့သည် မန်ချူးရီးယားပြည်နယ်၏ အနောက်တောင်ပိုင်းသို့ စီးဆင်း၍ လီယိုတုန် ပင်လယ်ကွေ့တွင်းသို့ စီးဝင်သည်။ နွန်နီနှင့် ဆွန်ဂါရီမြစ်တို့သည် မြောက်ပိုင်းရှိ လယ်ယာခြံမြေများအဖို့ ရေရစေသည်။

ရာသီဥတုအားဖြင့်သော်ကား မန်ချူးရီးယား ပြည်နယ်သည် ဆောင်းအခါတွင်အေးချမ်း၍ လေပြင်းထန်ကာ နှင်းမှုန်တိုင်းလည်း ကျတတ်ပေသည်။ မြောက်ပိုင်းတွင် ဆောင်းအခါ၌ တခါတရံ သုညအောက် ၄၉ ဒီဂရီအထိပင် ရောက်သည်။ နွေအခါတွင် မပူလှဘဲ ပျမ်းမျှ ၇၅ ဒီဂရီဖာရင်ဟိုက်ခန့်တွင် တည်သည်။ မိုးနည်းပါး၍ နွေအခါတွင် မိုးရွာလေ့ရှိသည်။

တရုပ်နိုင်ငံတွင် မန်ချူးရီးယား ပြည်နယ်သည် မိမိနယ်၌ လိုသည်ထက် စားနပ်ရိက္ခာ ပို၍ ထွက်သော တခုတည်းသော ဒေသဖြစ်၏။ အခြားအခြားသော ပြည်နယ်များတွင်ကား ထွက်သော စားနပ်ရိက္ခာတို့မှာ မိမိပြည်နယ်တွင်းရှိ လူများအတွက်ပင် မလုံလောက်ဘဲရှိ၏။ မန်ချူးရီးယားပြည်နယ်၌ အဓိက စိုက်ပျိုးသော ကောက်ပင်မှာ ပဲပိ ပြုလုပ်သော ဆိုယာပဲ (ပဲကျတ်ပျဉ်) ဖြစ်၏။ ထိုပဲ၏ ၅ ပုံ ၄ ပုံကို ပဲဆီအဖြစ်ငင်း၊ ပဲဖတ်အဖြစ်ငင်း၊ ပဲစေ့အဖြစ်ငင်း နိုင်ငံခြားသို့ ထုတ်သည်။ ပဲဆီကို ပေါက်ကွဲတတ်သော ပစ္စည်းများ၊ ဆပ်ပြာနှင့် အခြားလုပ်ငန်းများတွင် အသုံးပြုသည်။ ပဲကျတ်ပျဉ်မှ တပါးလည်း မန်ချူးလူမျိုးတို့ စားသုံးသော ကေအိုလျန်ခေါ် နှံစားပြောင်းကဲ့သို့သော ကောက်ပင်တမျိုးကိုလည်း အကြီးအကျယ် စိုက်ပျိုးသည်။ အနှံကို စား၍ အရိုးကို အိမ်မိုးရန် အတွက်ငင်း၊ ထင်းမီးအဖြစ်ငင်း အသုံးချနိုင်သည်။ ယင်းတို့အပြင် ဂျုံ၊ မယော၊ ဆေး၊ ပါဂွမ်းနှင့် ပိုက်ဆံလျှော်ပင်တို့ကိုလည်း စိုက်ပျိုးသည်။ စက်မှုလက်မှု လုပ်ငန်း ကြီးပွားရေးအတွက် အလွန်အရေးတကြီး လိုအပ်သော သံနှင့် ကျောက်မီးသွေးတို့လည်း မန်ချူးရီးယား ပြည်နယ်တွင် ထွက်သည်။ မုကဒင်မြို့အနီးရှိ ဖူရှန်နယ် ကျောက်မီးသွေးတွင်းသည် ကမ္ဘာပေါ်ရှိ ကျောက်မီးသွေးတွင်းများအနက် ကျောက်မီးသွေးကြော အကြီးဆုံး၊ အထူဆုံး ဖြစ်သဖြင့် ကျော်ကြားလေသည်။ ကျောက်မီးသွေးနှင့် သံအပြင်၊ ရွှေ၊ ကြေးနီ၊ ခဲ၊ သွပ်၊ ကျောက်ဂွမ်း၊ ဒန်၊ မဂ္ဂနီဆိုက်နှင့် မိုလစ်ဒီနမ်တို့လည်း ထွက်သည်။ ပင်လယ် ရေငန်မှ ဆား ရရှိသည်။ မန်ချူးရီးယား ပြည်နယ်တွင် တရုပ်နိုင်ငံတခုလုံး၏ စက်မှုလုပ်ငန်း ၄ ပုံ ၃ ပုံ စုဝေး တည်ရှိသည်။

လမ်းပန်း ဆက်သွယ်ရေးနှင့် စပ်လျဉ်း၍ မန်ချူးရီးယားပြည်နယ်ရှိ မြစ်များသည် ကူးသန်း ရောင်းဝယ်ရေးအတွက် မကောင်းပေ။ မန်ချူးရီးယား ပြည်နယ်တွင်ရှိသော လမ်းများမှာ မျှားသောအားဖြင့် ကျဉ်းမြောင်းကြ၏။ သို့သော် မီးရထားလမ်း မိုင်ပေါင်း များစွာရှိသည်။ ဆိပ်ကမ်းမြို့ကြီးမှာ ဒိုင်ရင်ဖြစ်သည်။

ယခုအခါ မန်ချူးရီးယား ပြည်နယ်တွင် နေထိုင်သော လူဦးရေအနက် ရာခိုင်နှုန်း ၉၀ မှာ တရုပ်လူမျိုးတို့ ဖြစ်၏။ အစဦးမတွင် မန်ချူးတို့သည် တရုပ်တို့ မန်ချူးရီးယားနယ်တွင် ပြောင်းရွှေ့ နေထိုင်ခြင်းကို တားမြစ်၏။ သို့သော် ၁၇၇၆ ခုနှစ်၌ လာရောက် နေခွင့်ပြုသည်တွင်တရုပ်တို့သည် တရုပ်နိုင်ငံ မြောက်ပိုင်း၌ မဆံ့သောကြောင့် မန်ချူးရီးယား ပြည်နယ်တွင်းသို့ ဝင်ရောက်လာ၏။ ၁၉၂၈ ခုနှစ်က မန်ချူးရီးယား ပြည်နယ်တွင်းသို့ ရက်သတ္တ တပတ်လျှင် တရုပ်လူမျိုးပေါင်း ၄၀,၀၀၀ ဝင်ရောက်ခဲ့သည် ဟူ၏။ တရုပ်သမတနိုင်ငံ တည်ထောင်ပြီးသော အခါတွင် မန်ချူး လူမျိုးတို့သည် တရုပ်တို့နှင့် လက်ဆက်ကြကာ တရုပ်လူမျိုးတို့၏ တစိတ်တပိုင်း ဖြစ်လာသည်။ တရုပ်တို့အပြင် မန်ချူးရီးယား ပြည်နယ်တွင် မွန်ဂိုလူမျိုး ၁,၀၀၀,၀၀၀ ခန့်လည်း ရှိကာ ခင်ဂန်တောင်တန်း တလျှောက်တွင် နေထိုင်ကြသည်။ ကိုရီးယား နယ်စပ်တွင်လည်း ကိုရီးယန်း လူမျိုး ၁,၀၀၀,၀၀၀ ခန့်ရှိသည်။ မန်ချူးရီးယား ပြည်နယ်တွင်းရှိ လူဦးရေမှာ စုစုပေါင်း ၃၇,၄၆၁,၀၀၀ ခန့် ဖြစ်သည်။

မန်ချူးရီးယား ပြည်နယ်သို့ ဘီစီ ၂၀၀ ခန့်က မွန်ဂိုနှင့် ထွန်ဂူလူမျိုးတို့ လာရောက်နေထိုင်ကြ၏။ တောင်ပိုင်း ကမ်းခြေတွင် တရုပ်တို့သည်ဩဇာဖြန့်လျက် ရှိ၏။ ခရစ် ၆၆၈ ခုနှစ်တွင် မိုဟိုထွန်ဂူ လူမျိုးတို့သည် ပိုဟိုင်းပြည်ကို တည်ထောင်၏။ ယင်းကို ခရစ် ၉၂၆ ခုနှစ်တွင် ခိတန်မွန်ဂိုတို့က ဖျက်ဆီးလိုက်သည်။ ၁၁၀၀ ပြည့် နှစ်ခေကျော်တွင် ထွန်ဂူ လူမျိုးတို့ ပြန်လည်၍ အာဏာရလာ၏။ သူတို့ကို နာချင်မျိုးတူစုက ခေါင်းဆောင်သည်။ နာချင်တို့သည် နောင်သော် မန်ချူးတို့ ဖြစ်လာသည်။

မန်ချူးတို့သည် ခရစ် ၁၆၄၄ ခုနှစ်မှ ၁၉၁၁ ခုနှစ်တိုင်အောင် တရုပ်နိုင်ငံကြီးကို စိုးမိုးအုပ်ချုပ်ခဲ့ပေသည်။ ထို

ကာလအတွင်း၌ တရုပ် အများအပြား မန်ချူးရီးယား ပြည်တွင်းသို့ ဝင်ရောက်လာ၏။ မန်ချူးလူမျိုးတို့သည် တရုပ် ဘာသာ စကားကို လက်ခံ ပြောဆိုကြသည်။ တရုပ် နိုင်ငံကို အုပ်စိုးရာ၌ အသုံးပြုသော စစ်တပ်မှ တပ်သား များကို မန်ချူးဘုရင်တို့သည် မန်ချူးရီးယားမှ ဖြည့်တင်း ခဲ့သည်။

ထိုအခိုက်တွင် အိမ်နီးချင်း နိုင်ငံများ ဖြစ်ကြသော ရုရှ နှင့် ဂျပန်နိုင်ငံတို့သည် မြေဆီသြဇာ ကြွယ်ဝဖွံ့ဖြိုးသော မန်ချူးရီးယားကို မျက်စောင်းထိုးလျက် ရှိ၏။ ရုရှသည် ဆိုက်ဗီးရီးယားကို ဖြတ်၍ မီးရထားလမ်း ဖောက်လုပ်လို၏။ တရုပ်တို့က မန်ချူးရီးယား မြောက်ပိုင်း တစိတ်တဒေသ ကိုဖြတ်၍ ဖောက်လုပ်ခွင့်ပြုထားသည်။ ထိုပြင်လည်းပစိဖိတ် သမုဒ္ဒရာ ကမ်းခြေပေါ်တွင် ရေမခဲသော ဆိပ်ကမ်းတခုကို ရလို၏။ ၁၈၉၈ ခုနှစ်တွင် တရုပ်နိုင်ငံသည် ရုရှအား ကွမ်တွန် ကျွန်းဆွယ်ကို အနှစ် အစိတ် ငှါးရမ်းလိုက်၏။ ဂျပန်တို့ သည်လည်း မန်ချူးရီးယားပြည်ကို စိတ်ဝင်စားလျက်ရှိ၏။ ၁၉၀၅ ခုနှစ်တွင် ဂျပန်တို့သည် ရုရှ ဂျပန် စစ်ပွဲတွင် အောင်မြင်သောကြောင့် ရုရှတို့၏ အခွင့်အရေး တခုဖြစ် သော ကွမ်တွန်ကျွန်းဆွယ် ငှါးရမ်းခွင့်ကို ရရှိလိုက်ပေသည်။



ရှေးရိုးစဉ်လာမပျက် လှပစွာ ဝတ်စားဆင်ယင်ထားသော မန်ချူး အမျိုးသမီးတဦး

ဂျပန်တို့သည် မန်ချူးရီးယား တောင်ပိုင်း မီးရထားလမ်း ကို ဖောက်လုပ်ပြီးလျှင် စက်ရုံ၊ အလုပ်ရုံ၊ သတ္တုတွင်းများ ကို ဖွင့်လေသည်။ သိပ္ပံနည်းစံနစ်ဖြင့် လယ်ယာ စိုက်ပျိုး ခြင်းကိုလည်း အားပေးသည်။

၁၉၁၁ ခုနှစ်တွင် တရုပ် တော်လှန်ရေး ဖြစ်ပွားသော အခါ မန်ချူးတို့၏ နောက်ဆုံး ဧကရာဇ်မင်းကို တွန်းလှန် လိုက်၏။ စစ်ဗိုလ်ကြီးများ အုပ်စိုးသောခေတ်တွင် မန်ချူး ရီးယားကို အုပ်စိုးသူမှာ ချန်ဆိုလင် ဖြစ်၏။ ချန်ဆိုလင် အအုပ်အချုပ် အစီအမံ အခန့်အခွဲ ကောင်းသောကြောင့် ဂျပန်တို့က သူ့အား ဖယ်ထုတ်ရန် ဆုံးဖြတ်၏။ ချန်ဆိုလင် ၏ နေရာကို သူ၏သား ချန်ရှုလျန်က ဆက်ခံသည်။ ချန်ရှု လျန်သည် ချန်ကေရှိတ်ခေါင်းဆောင်သော အမျိုးသား အစိုးရသစ်၏ ဖက်တော်သား ဖြစ်၏။ တရုပ်တို့သည် မန် ချူးရီးယား၌ မီးရထားလမ်းများ ဖောက်လုပ်၍ တိုင်းပြည် တိုးတက် ဖွံ့ဖြိုးအောင် စိုင်းပြင်း လုပ်ဆောင်ကြသည်။

တရုပ်တို့သည် ဗဟိုအစိုးရ ခိုင်မာအောင် ဆောင်ရွက် နေကြောင်းကို ဂျပန်တို့ မြင်လတ်သော် မန်ချူးရီးယား တွင် မိမိတို့ ခြယ်လှယ်နိုင်မည် မဟုတ်ကြောင်းကို သိလေ သည်။ ထို့ကြောင့် ချန်ကေရှိတ် အစိုးရသစ်၏ သက်တမ်း ၃ နှစ် ကာလတွင် ဂျပန်တို့သည် မန်ချူးရီးယားကို ထိပါး တော့၏။ ဂျပန်တို့ ဖောက်လုပ်နေသော မီးရထားလမ်းကို စောင့်ကြပ်ရန် ဟူ၍ ဂျပန် စစ်တပ်တတပ်သည် မန်ချူးရီး ယားတွင် အတန်ငယ်ကာလကတည်းကပင် ရှိနှင့်ခဲ့ပေသည်။ ဂျပန်တို့သည် ချန်ရှုလျန် ပေပင်မြို့တော်သို့ သွားသည်အထိ စောင့်ဆိုင်း၏။ သွားသည်ဆိုလျှင်ပင် မန်ချူးရီးယားပြည် တွင်းသို့ ဝင်စီး၏။ တရုပ်နှင့် ဂျပန်တို့၏ စစ်ပွဲသည် စင်စစ် အားဖြင့် ၁၉၃၁ ခုနှစ် စက်တင်ဘာလ ၁၈ ရက်နေ့တွင် မုက ဒင်မြို့၌ စတင်ခဲ့ပေသည်။

၁၉၃၂ ခုနှစ်တွင် ဂျပန်တို့သည် မန်ချူးရီးယားပြည်တွင် မန်ချူးကိုးဟူ၍ အမည်တွင်သော ရုပ်သေးနိုင်ငံတခု တည် ထောင်သည်။ နောက်ဆုံး မန်ချူး ဧကရာဇ်ကို မင်းမြှောက် ၏။ တရုပ်နယ်ဖြစ်သော ဂျီဟောကို ပြည်ထောင်သစ်တွင် သွတ်သွင်းလိုက်၏။ ချန်ချွန် မည်သော မြို့ကို ဆင်ကင် ဟူသော အမည်သစ်ကိုပေး၍ မြို့တော်ပြု၏။ ၁၉၃၇ ခုနှစ် တွင် ဂျပန်တို့က တရုပ်နိုင်ငံတွင်းသို့ ဝင်ရောက် တိုက်ခိုက် သောကြောင့် တရုပ်နှင့် ဂျပန်တို့ စစ်ဖြစ်ကြရာ ၈ နှစ်တိုင် တိုင်ပင် ကြာရှည်သည်။ ထိုအတောအတွင်း၌ ဂျပန်တို့ သည် မန်ချူးရီးယား ပြည်တွင်းမှ အဖိုးတန်ရိက္ခာ အ ထောက်အပံ့ ပစ္စည်းများကို ရရှိခဲ့လေသည်။

၁၉၄၁ ခုနှစ်တွင် ဂျပန်တို့က အမေရိကန်တို့အပေါ် စစ် ကြေညာသောအခါ တရုပ်-ဂျပန် စစ်ပွဲသည် ဒုတိယ ကမ္ဘာ စစ်ကြီး၏ တစိတ်တဒေသဖြစ်လာ၏။ အမေရိကန်တို့သည်



မန်ချူးရီးယားပြည်နယ်မြို့တော် မုကဒင်မြို့ရှိ ရှေးဟောင်းသင်းချိုင်း

မန်ချူးရီးယား ပြည်တွင်းရှိ စက်ရုံ အလုပ်ရုံများကို ဖုံးကြ၏။ ဒုတိယ ကမ္ဘာစစ် ပြီးဆုံးသောအခါ မန်ချူးရီးယားပြည်ကို ဆိုဗီယက်တပ်များက သိမ်းပိုက်လိုက်သည်။

၁၉၄၅ ခုနှစ်တွင် ချုပ်ဆိုသော စာချုပ်အရ ဆိုဗီယက်ယူနီယန်သည် မန်ချူးရီးယားပြည်၌ တရုပ်တို့ အချုပ်အချာ အာဏာပိုင်ခြင်းကို လေးစားမည်ဟူ၍ ဖြစ်၏။ ယင်းစာချုပ်အရပင် ဆိုဗီယက် ယူနီယန်သည် မန်ချူးရီးယားပြည်ရှိ အဓိက ဆိပ်ကမ်းကြီး ၂ ခုဖြစ်သော ဒိုင်ရင်နှင့် ပို့အာသာတို့တွင် အနှစ် ၃၀ ငှါးရမ်းခွင့် ရမည်ဖြစ်၏။ ပို့အာသာသည် မန်ချူးရီးယားပြည်၏ တခုတည်းသော ရေတပ်စခန်းလည်း ဖြစ်၏။ ထိုထက် ဆိုဗီယက်တို့သည် မန်ချူးရီးယားပြည်နယ်ရှိ မီးရထားလမ်းအားလုံးကို ချုပ်ကိုင်ထားပေသည်။

ဆိုဗီယက် စစ်တပ်တို့သည် မန်ချူးရီးယားပြည်တွင်းမှ ၁၉၄၆ ခု နှစ်ဦးပိုင်းက ရုပ်သိမ်းသွား၏။ သို့သော် မန်ချူးရီးယားပြည်ရှိ ချက်ကောင်းမြို့ကြီးများကို တရုပ်ကွန်မြူနစ်လက်တွင်းသို့ လွှဲအပ်သွားသည်။ ၁၉၄၈ ခုနှစ် မကုန်မီပင် မန်ချူးရီးယား တပြည်လုံးသည် ကွန်မြူနစ် လက်တွင်းသို့ ရောက်ရှိ၏။ နောက်တနှစ်တွင် မုကဒင်မြို့၌ အရှေ့မြောက်ဖက်အတွက် ပြည်သူ့အစိုးရကို တည်ထောင်ပြီးလျှင် ကွန်မြူနစ်တို့သည် စက်မှုလက်မှု တိုးတက်ရေး လုပ်ငန်းကို စတင် ပြုလုပ်၏။ ကိုရီးယား စစ်ပွဲအတွင်းက တရုပ် ကွန်မြူနစ်တပ်တို့သည် ကုလသမဂ္ဂ စစ်တပ်ကို တိုက်ရာ၌ မန်ချူးရီးယား ပြည်နယ်ကို ခံတပ်ပြုခဲ့သည်။ ၁၉၅၂ ခုနှစ်တွင် ဆိုဗီယက် ယူနီယန်သည် မန်ချူးရီးယား ပြည်နယ်တွင်းရှိ ရထားလမ်း အားလုံးကို တရုပ် ကွန်မြူနစ် အစိုးရလက်သို့ လွှဲပြောင်းပေးလိုက်လေသည်။

**မန်ချက်စတာမြို့။** ။မန်ချက်စတာမြို့သည် အင်္ဂလန်ပြည်အနောက် မြောက်ပိုင်းတွင် တည်ရှိ၍ လန်ဒန်၊ ဗာမင်ဂမ်နှင့် လီဗာပူးတို့၏ နောက် စတုတ္ထလိုက်သော မြို့ကြီးဖြစ်၏။ လန်ကရှိုင်ယာနယ်တွင် အကျုံးဝင်၍ အာဝယ်မြစ်ပေါ်တွင်၎င်း၊ မန်ချက်စတာ တူးမြောင်းပေါ်တွင်၎င်း တည်ရှိသည်။ လီဗာပူးမြို့မှ အရှေ့ဖက်တွင် မိုင် ၃၀ ကွာဝေး၍၊ လန်ဒန်မြို့မှ အနောက်တောင်ဖက်တွင် မီးရထားလမ်းအားဖြင့် ၁၈၃ မိုင် ကွာဝေးသည်။ အာဝယ်မြစ်၏ တဖက်ကမ်းတွင် တည်ရှိသော ဆဲလဖို့မြို့နှင့် တန်တား ၁၆ ခုဖြင့် တမြို့တည်းလိုပင် ဆက်နေသည်။ မန်ချက်စတာမြို့သည်



မန်ချက်စတာမြို့ တူးမြောင်း ဆိပ်ကမ်း ရှုခင်း

အိုင်ရစ်ပင်လယ်နှင့် မိုင် ၃၀ ကျော်ကွာသော်လည်း မန်ချက်စတာ တူးမြောင်းကြီး ဆောက်လုပ်ပြီးစီးသည်နှင့် ယခုအခါ ကုန်းတွင်းပိုင်း ပင်လယ်သင်္ဘောဆိပ်ကမ်းဖြစ်၍ နေပေသည်။ ယင်းတူးမြောင်းသည် အလျား ၃၅ မိုင်ခွဲ၊ အနံပေ ၁၂၀ နှင့် အစောက် ၂၈ ပေမှ ပေ ၃၀ အထိ ရှိသည်။ ၁၈၉၄ ခုနှစ်ကပြီးစီး၍ ဝိတိုရိယဘုရင်မ ဖွင့်လှစ်ခဲ့ပေသည်။ ပင်လယ်ကူးသင်္ဘောများသည် ဤတူးမြောင်းကို ဖြတ်သွားနိုင်ရုံ မကဘဲ မန်ချက်စတာမြို့လယ် အထိပင် ဝင်ရောက်နိုင်သည်။ ခြည်ထည် လုပ်ငန်းနှင့် သိုးမွေးထည် လုပ်ငန်းများနှင့် စပ်လျဉ်း၍ မန်ချက်စတာသည် ၁၄ ရာစုနှစ်ကတည်းကပင် ထင်ရှား ကျော်ကြားသည့် မြို့ဖြစ်၍ ကမ္ဘာတွင် စက်မှုလုပ်ငန်း၌ အထူးဖွံ့ဖြိုးသည့် ရပ်ကွက်ဖြစ်၏။ မန်ချက်စတာမြို့သည် ကျောက်မီးသွေးတူးဖော်ရာဒေသဖြစ်သောကြောင့်လည်း စက်မှုလုပ်ငန်းများကို အထောက်အကူရသည်။ မန်ချက်စတာမြို့သည် အကျယ်အဝန်းအားဖြင့် ၄၂ စတုရန်းမိုင်ခွဲရှိ၏။

မန်ချက်စတာမြို့တွင် ထင်ရှားသော အဆောက်အအုံတို့မှာ ဂေါ်သပုံစံ ဗိသုကာ လက်ရာများဖြစ်၏။ မန်ချက်စတာမြို့ရှိ မြို့တော်ခန်းမသည် အင်္ဂလန်ပြည်၏ ထယ်ဝါသော အဆောက်အအုံများတွင် စာရင်းဝင်ဖြစ်၏။ နာရီစင်သည် ၂၈၆ ပေမျှ မြင့်၍ ခေါင်းလောင်း ၂၁ ခု တို့၏ သာယာသော တီးသံ မြည်သံများကို ကြားနိုင်ပေသည်။ ထို့ပြင် မန်ချက်စတာမြို့တွင် စာကြည့်တိုက်၊ စာကြည့်ခန်းကောင်းများစွာရှိ၍ စာသင်ကျောင်းများမှာလည်း တိုးတက်လျက်ရှိသည်။ မန်ချက်စတာမြို့ရှိ ဝိတိုရိယ တက္ကသိုလ်သည် ကမ္ဘာတွင် ထင်ရှားသော တက္ကသိုလ်ကြီးတခုဖြစ်၏။ ပဌမကမ္ဘာစစ်ကြီး ပြီးစ အချိန်က မန်ချက်စတာမြို့တွင် အိုးအိမ် တည်ဆောက်ရေးစီမံကိန်းများကို ရေးဆွဲလျက် ၁၉၃၀ ပြည့်နှစ်တွင် အိုးအိမ်သစ်ပေါင်း ၁၅,၀၀၀ ခန့် ဆောက်လုပ် ပြီးစီးသည်။ ဒုတိယ ကမ္ဘာစစ်အတွင်းက မန်ချက်စတာမြို့သည် အတော်ပင်ပျက်စီးခဲ့၏။

မန်ချက်စတာမြို့သည် ရှေးအထက်ကျော် ကာရီကပင် ခြည်ထည်လုပ်ငန်း၏ အချက်အခြာ ဒေသဖြစ်ခဲ့ပြီးနောက် ၁၄ ရာစုနှစ်မှစ၍ သိုးမွေးထည်များကို ထုတ်လုပ်လျက်၊ ၁၆ ရာစုနှစ် ရောက်သောအခါ လင်နင်ထည်များကိုရင်း၊ ၁၇ ရာစုနှစ်တွင် ခြည်ထည်ကိုရင်း အထူးတလည် ထုတ်လုပ်သည်။ ယခုအခါတွင် မန်ချက်စတာမြို့တွင် ခြည်ထည်၊ ပိုးထည်၊ သိုးမွေးထည်၊ လင်နင်ထည်များသာ မကတော့ဘဲ

အခြား လုပ်ငန်းပေါင်း ၇၀၀ မျှကို လုပ်ကိုင်လျက် ရှိပေသည်။ ယင်းတို့တွင် ရော်ဘာလုပ်ငန်းများ၊ မီးရထား စက်ခေါင်း၊ မော်တော်ယာဉ်၊ လေယာဉ်၊ လျှပ်စစ်ကရိယာ အစရှိသော လေးလံသည့် အထည်ကြီးများကိုလည်း လုပ်ကိုင်ပေသည်။ မန်ချက်စတာမြို့တွင် ဂျုံစက်၊ ဗီစကွတ်စက်ရုံများလည်း အရေးပါသည်။ ဓာတ်သတ္တု၊ ဆိုးဆေး၊ ဆီတို့မှာလည်း အရေးပါသော ထုတ်ကုန်များ ဖြစ်၏။ ယခုအခါတွင် အလုပ်ရုံများ၊ စက်ရုံများကို မြို့ပြင်သို့ ပြောင်းရွှေ့ထားပြီဖြစ်လျက် မြို့တွင်း၌မူ ထုတ်လုပ်ပြီး ကုန်ပစ္စည်းများကို သိုလှောင်ရန် ကုန်တိုက်များရှိ၍ ပစ္စည်းများ ဖြန့်ဖြူးရာ ရပ်ကွက်အဖြစ် တည်ပေသည်။ ဤသို့သော ကုန်ပစ္စည်းများကို ထုတ်လုပ်သော မန်ချက်စတာမြို့သည် သံရိုင်း၊ တူးမြောင်းတလျှောက်ရှိ ရေနံချက်စက်ရုံများအတွက် ရေနံ၊ ဝါရိုင်း၊ သိုးမွေးနှင့် အစားအသောက်များကို တင်သွင်းသည်။ ကုန်းတွင်းပိုင်း သင်္ဘောဆိပ်မြို့ ဖြစ်သောကြောင့်လည်း ကုန်စည်ပစ္စည်းများ ဖြန့်ဖြူးရာ၌ လွယ်ကူသော အချက်အခြာဒေသ ဖြစ်ပေသည်။

မန်ချက်စတာမြို့သည် ၁၆ ရာစုနှစ်က မထင်ရှားသော ရွာငယ်မျှသာဖြစ်၏။ ၁၈ ရာစုနှစ်က စက်မှုလက်မှုလုပ်ငန်းများတိုးတက်လာသည်တွင် မန်ချက်စတာမြို့သည် ရှေ့တန်းသို့ရောက်လာသည်။ ယခုအခါတွင် စက်မှုလုပ်ငန်းနှင့် စပ်လျဉ်း၍ လူဦးရေ ထူထပ်သောမြို့ ဖြစ်နေပေသည်။ မန်ချက်စတာ အမည်နှင့် ဒွန်တွဲလျက်ရှိသည့် အချက်တခုမှာ "မန်ချက်စတာ ဂါဒီယန်" သတင်းစာဖြစ်၍ ယင်းသတင်းစာသည် အင်္ဂလိပ် စကား ပြောဆိုသော နိုင်ငံများတွင် အလွန် ထင်ရှားပေသည်။

မန်ချက်စတာမြို့တွင် ရှိသော လူဦးရေမှာ ၁၉၅၁ ခုနှစ် သန်ကောင်စာရင်းအရ ၇၀၃,၁၇၅ ခန့် ဖြစ်သည်။

**မန်ဂနီ။** ။မန်ဂနီသည် မာသော သတ္တုတခုဖြစ်၍ သံနှင့် အသွင်အပြင်တူသည်။ သို့သော် သံမှာကဲ့သို့ သံလိုက်ဓာတ်မရှိချေ။ မန်ဂနီသည် ဆတ်၍ အရောင်မှာ ညိုကာ အနီသွေး လွှမ်းလျက်ရှိသည်။ မန်ဂနီ၏ သိပ်သည်းဆမှာ ၇.၄ ဖြစ်၍ အပူချိန် စင်တီဂရိတ် ၁,၂၆၀ တွင်အရည်ပျော်သည်။ စိုထိုင်းသော လေထဲတွင်ထားပါက အလျင်အမြန် သံချေးတက်လွယ်သည်။ ထိုသတ္တုကို မန်ဂနီ သံမဏိ သတ္တုစပ်များ ပြုလုပ်ရာတွင်၎င်း၊ မန်ဂနီကြေးနီ သတ္တုစပ်များ ပြုလုပ်ရာတွင်၎င်း များစွာ အသုံးပြုကြသည်။ ထိုသတ္တုစပ်များတွင် အလွန်မာသောသတ္တုရှိသောကြောင့် ကြီးလေးသော စက်ကရိယာ တန်ဆာများ၊ စစ်ဖက်ဆိုင်ရာ အမြောက် လက်နက်များနှင့် သံချပ်ကာများ ပြုလုပ်ရာတွင် အလွန် အသုံးဝင်သည်။



**မန်ဂနီ သတ္တုစပ်၍ ပြုလုပ်ထားသော အိမ်သုံးဓားများ**



သံမဏိကျိုရာတွင် မာအောင် မန်ဂနိကို ရောစပ်ရသည်။

သံတွင် မန်ဂနိ ရာခိုင်နှုန်း ၁၀ မှ ၃၀ အထိ ရောစပ်ထားသော စပီဂယ်လိုင်ဇင်ခေါ် သံတမျိုးသည် သံမဏိ လုပ်ငန်းများတွင် အကြီးအကျယ် အသုံးဝင်၏။ မန်ဂနိ ရာခိုင်နှုန်း ၇၀ လောက်နှင့် ကာဗွန် ရာခိုင်နှုန်း ၅ လောက်တို့ဖြင့် ရောစပ်ထားသော ဖဲရိုမန်ဂနိခေါ် သံတမျိုးမှာလည်း အလွန်မာသောကြောင့် သံမဏိ လုပ်ငန်းတွင် များစွာ အသုံးဝင်ပေသည်။

အချို့သောမန်ဂနိဓာတ်ဆားများကိုဓာတုဗေဒတွင်၎င်း၊ ဘယဆေးများ ဖော်စပ်ရာတွင်၎င်း အသုံးပြုရ၏။ မန်ဂနိဓာတ်ဆားများသည် အောက်ဆီဂျင် ဓာတ်ငွေ့ကို အလွယ်တကူ ထုတ်ပေးနိုင်သောကြောင့် မန်ဂနိ ဓာတ်ဆားများဖြစ်ကြသော ပိုတက်ဆီယမ်နှင့် ဆိုဒီယမ်ပါမင်ဂနိတ်တို့သည် ပိုးသတ်ဆေးနှင့် ပိုးမွှားနိုင်ဆေး၊ အနံ့အသက်ပျောက်ဆေးတို့အဖြစ်ဖြင့် အလွန်ပင် ထင်ရှားပေသည်။ အကြောင်းသော်ကား မန်ဂနိဓာတ်ဆားများမှ ထွက်လာသောအောက်ဆီဂျင်ဓာတ်သည် ပိုးမွှားများကို သတ်နိုင်သည့် သတ္တိရှိသောကြောင့် ဖြစ်သည်။ မန်ဂနိသတ္တုသည် ရုရှနိုင်ငံမှ အများဆုံး ထွက်၍ အိန္ဒိယနိုင်ငံနှင့် ချက်ကိုဆလိုဗားကီးယားနိုင်ငံများမှလည်း အတော်အသင့် ထွက်လေသည်။

# ပသျှူးကျွန်းဆွယ်

**မြန်မာတို့က ပသျှူးကျွန်းဆွယ်ဟု အသိများသော မလ္လာယုကျွန်းဆွယ်ရှိ မလ္လာယုပြည်ထောင်စုသည် ၁၉၅၇ ခုနှစ်တွင် ဗြိတိသျှဓနသဟာယအဖွဲ့ဝင် အချုပ်အချာအာဏာပိုင် နိုင်ငံဖြစ်လာသည်။ ၁၉၆၃ ခု နှစ်တွင် မလ္လာယုပြည်ထောင်စု၊ စင်္ကာပူ၊ ဆရာဝပ်နှင့် ဆားဗား(ယခင်ဗြိတိသျှမြောက်ဗော်နီယို) တို့ကို စုပေါင်းလျက် မလေးရှားပြည်ထောင်စု နိုင်ငံဟု ဖွဲ့စည်းလိုက်လေသည်။**

မလ္လာယုကျွန်းဆွယ်။ ။မလ္လာယုကျွန်းဆွယ်ကို မြန်မာတို့က ပသျှူးကျွန်းဆွယ်ဟူ၍ အခေါ်များသည်။ မလ္လာယုကျွန်းဆွယ်သည် အာရှတိုက်၏ အရှေ့တောင်ဖက် အဖျားဖြစ်သည်။ မလ္လာယုကျွန်းဆွယ်ဟူ၍ တွင်သော ဒေသသည်ကား မြန်မာနိုင်ငံနှင့် ယိုးဒယားနိုင်ငံတို့မှ ခပ်သွယ်သွယ်လျှားလျှား ဆက်လာကာ အရှေ့တောင်ဖက်သို့ ကွေ့ဝင်ပြီးလျှင် အဖျားတုတ်သွားသော ဒေသတလျှောက်ဖြစ်၏။ သွယ်လျှားသော အပိုင်းသည် ယိုးဒယား နိုင်ငံတွင် ပါဝင်သည်။ တုတ်သော အဖျားပိုင်းသည် မလ္လာယု ပြည်ထောင်စုဖြစ်၏။ ထိပ်ဖျားတွင် စင်္ကာပူကျွန်း တည်ရှိသည်။ မလက္ကာရေလက်ကြားသည် မလ္လာယုကျွန်းဆွယ်၏ အနောက်ဖက်ကမ်းခြေကို ဆူမတြားကျွန်းမှခြားထားသည်။ ကျွန်းဆွယ်၏ အရှေ့ဖက်တွင် တောင်ပိုင်း တရုပ်ပင်လယ်ရှိ၏။ မလ္လာယုကျွန်းဆွယ်၏ ကမ်းရိုးတန်း တလျှောက်သည် မိုင် ၁,၀၀၀ ကျော်ရှည်သည်။ မလ္လာယု ကျွန်းဆွယ်သည် မြောက်မှ တောင်သို့ အလျားမိုင် ၉၀၀ ခန့် ရှိသည်။ အကျဉ်းဆုံးနေရာတွင် ၄၅ မိုင်မျှသာရှိ၍၊ အကျယ်ဆုံး နေရာတွင် မိုင် ၂၀၀ ရှိ၏။

မလ္လာယု ကျွန်းဆွယ်တလျှောက် သွယ်တန်းနေသော တောင်စဉ် တောင်တန်းသည် ကျွန်းဆွယ်၏ ကျောရိုးသဖွယ်ရှိကာ အချို့တောင်တို့သည် မြောက်မှ တောင်သို့ အလျားလိုက် တည်ရှိ၏။ အမြင့် ပေ ၆,၀၀၀ ကျော်သော တောင်ထွတ်များစွာရှိကာ အမြင့်ဆုံးများမှာ ၇,၁၈၅ ပေမြင့်သော ဂူနုန် (တောင်)တဟန်နှင့် ၇,၁၅၉ ပေ မြင့်သော ဂူနုန်ကာဗောတို့ ဖြစ်၏။ ရာပေါင်း များစွာသော မြစ်များသည် တောင်များမှ မြစ်ဖျားခံကာ ဗင်္ဂလားအော်ထဲသို့၎င်း၊ ယိုးဒယား ပင်လယ်ကွေ့ထဲသို့၎င်း၊ မလက္ကာ ရေလက်ကြားထဲသို့၎င်း စီးဝင်သည်။ သို့ဖြစ်၍ အရေးပါအရာရောက်

ဆုံး မြစ်များမှာ အနောက်ဖက်သို့ စီးဆင်းသော ပီရက်နှင့် အရှေ့ဖက်သို့ စီးဆင်းသော ပဟန်မြစ်များဖြစ်၏။ မလ္လာယုကျွန်းဆွယ် ကမ်းရိုးတန်း၏အနောက်ဖက်တွင်အဆက်မပြတ် ဆိုသလို ပေါက်ရောက်နေသော လမုတောနှင့် လတာပြင်ကို တွေ့နိုင်ပေသည်။ အချို့နေရာများတွင် ကမ်းဘေး၌ အုန်းပင်နှင့် ထင်းရှူးပင်များပေါက်လျက်ရှိသော ပင်လယ်အော်များကို တွေ့ရ၏။ ကမ်းရိုးတန်း၏ အရှေ့ဖက်တွင်မူ သဲများ အဆက်မပြတ် ပြန့်ဖြူးစွာရှိကာ လှိုင်းများ ပုတ်ခတ်လျက် စိမ်းလန်းသော သစ်ပင်များ ပေါက်ရောက်သောကြောင့် သဘာဝရှုခင်း လှပရာ၌ အပူပိုင်းဒေသတွင် မနိုင်းသာသော ဒေသတခုပင် ဖြစ်၏။ မလ္လာယုကျွန်းဆွယ်ပိုင် ရေပြင်တွင် ပါဝင်သော ကျွန်းများမှာ ကျွန်းဆွယ်၏ အနောက်ဖက်ရှိ ကေဒါနယ် အလွန်တွင်ရှိသော လန်ကဝီကျွန်း၊ ယင်း၏ တောင်ဖက်လှမ်းလှမ်းရှိ ပီနန်ကျွန်းတို့အပြင် အရှေ့ဖက် ကမ်းရိုးအလွန်ရှိ တိုင်အိုမန်နှင့် အခြား ကျွန်းကလေးများ ဖြစ်၏။ မလ္လာယုကျွန်းဆွယ်ရှိ ရာသီဥတုမှာ တနှစ်ပတ်လုံး ပူအိုက်၏။ ကမ်းရိုးတန်းရှိ မြေပြန့်တွင် နှစ်စဉ် မိုးရေချိန် လက်မ ၁၀၀ ခန့် ရွာသွန်း၍ တောင်တန်းဒေသဖက်တွင် ယင်းထက် တဆပိုသည်။

ကျွန်းဆွယ်၏ ၅ ပုံ ၄ ပုံတွင် ထူထပ်သော သစ်တောများဖြင့် ဖုံးလွှမ်းလျက် ရှိ၏။ ယင်းသစ်တောတို့မှ အက်ဗနီသစ်၊ ကျွန်းသစ်၊ စန္ဒကူး၊ ပရုတ်နှင့် အခြားတန်ဖိုးရှိသော သစ်များရရှိ၍ ယင်းဘို့သည် မလ္လာယုကျွန်းဆွယ်တွင် အရေးပါ အရာရောက်သော သဘာဝထွက် ပစ္စည်းများ ဖြစ်ကြ၏။ ရော်ဘာခေါ် ကောဖတ်မှာ အဓိကထွက်ကုန်ပစ္စည်းဖြစ်၏။ အခြား သစ်စေးနှင့် သစ်ဆီများလည်း ထွက်၏။မလ္လာယုကျွန်းဆွယ်တွင် သံဖြူ၊ သံရိုင်း၊ ကျောက်မီးသွေးနှင့် တန်စတင်အစရှိသော သယံဇာတပစ္စည်းများ ထွက်၍ သံဖြူမှာ အရေးပါအရာရောက်ဆုံး ဖြစ်၏။

မလ္လာယုကျွန်းဆွယ်ရှိ သစ်တောများ၌ ကျား၊ ကျားသစ်၊ ဆင်၊ ကြံ့၊ ပြောင်၊ ဝက်ဝံ၊ သမင်အမျိုးမျိုး၊ မျောက်၊ အဆိပ်ပြင်းသော မြွေနှင့် အမွေးအရောင် လှပသော ငှက်များ ကျက်စားသည်။

မလ္လာယု ကျွန်းဆွယ်၏ များသော အပိုင်း ဖြစ်သည့် တောင်ဖက် အဖျားပိုင်းတွင် မလ္လာယု ပြည်ထောင်စုနိုင်ငံ တည်ရှိသည်။ ဂျိုဟိုး၊ ကေဒါ၊ ကေလန်တန်၊ နက်ဂရီ ဆင်ဗီလန်၊ ပဟန်၊ ပီရတ်၊ ပါလစ်၊ ဆေလန်ဂေါ်၊ တြင်ဂနုမည်သော ပြည်နယ်များကိုစု၍ ဖွဲ့စည်းထားသော မလ္လာယု ပြည်ထောင်စုနိုင်ငံသည် ဗြိတိသျှနေသဟာယအဖွဲ့ဝင် လွတ်လပ်သည့် နိုင်ငံတခုဖြစ်၏။ မလက္ကာနယ်နှင့် ပီနန်တို့လည်း မလ္လာယု ပြည်ထောင်စု နိုင်ငံတွင် ပါဝင်သည်။ မလ္လာယု ပြည်ထောင်စုသည် အကျယ်အဝန်းအားဖြင့် စတုရန်းမိုင် ၅၀,၆၀၀ မျှရှိ၏။ မြို့တော်မှာ ကွာလာလမ်ပူမြို့ဖြစ်၍ တြင်ဂနု ပြည်နယ်တွင် တည်ရှိသည်။ အခြား မြို့ကြီးများမှာ ပြည်နယ်များ၏ ရုံးစိုက်မြို့များဖြစ်သော ဂျော့တောင်း၊ မလက္ကာ၊ အီပို၊ ဆေရင်ဗန်၊ ကွာလာလစ်ပစ်၊ ဂျိုဟိုးဗာရူ၊ အာလောစတား၊ ကိုတဗာရူ၊ ကန်ဂါ၊ ကွာလာ၊ တြင်ဂနုမြို့များ ဖြစ်၏။ အားလုံးခြုံ၍ ကြည့်လိုက်လျှင် မလ္လာယုကျွန်းဆွယ်တွင် မလေးလူမျိုး ဦးရေက တရုပ်လူမျိုး ဦးရေထက် ပိုပေသည်။ သို့သော် ပီနန်၊ ဆေလန်ဂေါ်၊ ပီရတ်၊ နက်ဂရီ ဆင်ဗီလန်နှင့် ဂျိုဟိုးပြည်နယ်များတွင်မူ တရုပ်လူမျိုး ဦးရေက မလေးလူမျိုး ဦးရေထက် ပိုလေသည်။ ကေဒါ၊ ကေလန်တန်နှင့် တြင်ဂနု ပြည်နယ် ၃ ခုတွင်ရှိသော လူဦးရေမှာ မလ္လာယုကျွန်းဆွယ်ရှိ လူဦးရေ၏ တဝက်ဖြစ်၏။ မလ္လာယုပြည်နယ်တွင် အိန္ဒိယ လူမျိုး အမြောက်အမြားနှင့် ဥရောပတိုက်သား အနည်းငယ်ရှိသည်။ မလ္လာယုကျွန်းဆွယ်၏စုစုပေါင်း လူဦးရေမှာ ၄,၉၁၆,၉၉၃ ယောက်ဖြစ်သည်။

မလ္လာယု ပြည်ထောင်စုတွင် အရေးပါ အရာရောက်သော သဘာဝထွက် ပစ္စည်းတို့မှာ ကော်ဖတ် (ရော်ဘာ) နှင့်သံဖြူတို့ ဖြစ်၏။ ကေပေါင်း ၃,၀၀၀,၀၀၀ မျှမှာ ကော်ဖတ်ခြံများ ဖြစ်၏။ ဧက ၁,၀၀၀,၀၀၀ မျှကို လယ်ယာစိုက်ပျိုးသည်။ ထိုပြင် အုန်းပင်များစိုက်ပျိုး၍ အုန်းဆီထုတ်သည်။ နာနတ်



မလ္လာယုကျွန်းဆွယ်၏ မြို့တော်မှာ ကွာလာလမ်ပူမြို့ဖြစ်၍ သာယာသော မြို့ဖြစ်သည်။

ပင်များကို အကြီးအကျယ်စိုက်ပျိုး၍ လက်ဖက်ပင်၊ ကွမ်းသီးပင်၊ ကာဖီ၊ ပီလောပီနံ၊ ဆေးရွက်နှင့် ဟင်းခတ်အမွှေးအကြိုင်များဖြစ်သော ငရုတ်၊ ချင်း၊ နနွင်း အစရှိသည်တို့ကိုလည်း အသင့်အတင့် စိုက်ပျိုးသည်။ ကန်စွန်းဥ၊ မြေပဲပင်၊ ပြောင်းတို့ကိုလည်း အများအပြား စိုက်၍ ငှက်ပျောမှာ သီးစားပင်တွင် ရှေ့တန်းမှ ပါဝင်သည်။ မြန်မာတို့အလွန် ကြိုက်နှစ်သက်သော ဒူးရင်းသီးနှင့် မင်းကွတ်သီး ပေါက်ရောက်ရာ ဒေသလည်းဖြစ်၏။ စတုရန်းမိုင် ၁၂,၀၀၀ မျှသော ကြိုးဝိုင်း သစ်တောများမှ ပြည်တွင်းသုံးအတွက်နှင့် ပြည်ပသို့ ရောင်းချရန်အတွက် သစ်များကို ရရှိသည်။ လယ်ယာ စိုက်ပျိုးရေးတွင် ကျွဲကို အထူးသဖြင့် အသုံးပြုသည်။ နွား၊ ဆိတ်၊ ဝက် အများအပြားနှင့် သိုးအသင့်အတင့်ရှိ၏။

မလ္လာယုပြည်ထောင်စုသည် ကမ္ဘာပေါ်တွင် သံဖြူရိုင်း အများဆုံးထွက်ရာဒေသဖြစ်၏။ ပီရတ်၊ ဆေလန်ဂေါ်၊ ပဟန်၊ နက်ဂရီဆင်ဗီလန်တို့တွင် အများဆုံး ထွက်လေသည်။ ဆေလန်ဂေါ် ပြည်နယ် ဗတူအရန်တွင် ကျောက်မီးသွေး အနည်းငယ်မျှထွက်သည်။ ပဟန်ပြည်နယ်မှ ရွှေထွက်၍ ပီရတ်နှင့် ဆေလန်ဂေါ်တွင်လည်း အနည်းငယ်ထွက်သည်။ ထို့ပြင် ပီရတ်၊ ဂျိုဟိုး၊ ကေလန်တန်နှင့် တြင်ဂနုမှ သံရိုင်း၊ ပီရတ်မှ တန်စတန်ရိုင်း၊ ကေဒါ၊ တြင်ဂနုနှင့် ပဟန်မှ ဝူးဖရမ်မိုက်များ ထွက်သည်။ ဗောက်ဆိုက်နှင့် မန်ဂနိတ်မှာလည်း စီးပွားရေးတွင် အရေးပါသော တွင်းထွက် ပစ္စည်းများဖြစ်၏။ မလ္လာယု နိုင်ငံတွင် တူးဖော် ရရှိသော သံရိုင်း အများကို ဂျပန်တွင် ကျို၍ ကျန်သံရိုင်းတို့ကို စင်္ကာပူတွင် ကျိုသည်။ ဂျပန်မြို့နှင့် စင်္ကာပူမြို့တို့တွင် ကော်ဖတ်ပြားများ လုပ်သော စက်ရုံများရှိ၏။ ကလံနှင့်ကွာလာလမ်ပူမြို့များတွင် စက်ဘီးတိုင်ယာများ ပြုလုပ်သည်။ မလ္လာယု နိုင်ငံ နေရာ အများအပြားတွင် ရော်ဗာဖိနပ်အလုပ်ရုံများနှင့် အုန်းဆီစက်၊ ဆပ်ပြာစက်၊ သစ်စက် အမြောက်အမြား ရှိလေသည်။

လမ်းပန်း ဆက်သွယ်ရေးအားဖြင့်လည်း မလ္လာယု ပြည်ထောင်စုသည် လွယ်ကူမှုရှိသည်။ မော်တော်ကားလမ်း မိုင်ပေါင်း ၆,၀၀၀၊ မီးရထားလမ်းမိုင်ပေါင်း ၆၁၀ ရှိသည့်အပြင် ပြည်တွင်းပြည်ပသို့ လေကြောင်းခရီးလည်း ပေါက်ရောက်လေသည်။

မလ္လာယုကျွန်းဆွယ်သည် အိန္ဒိယနှင့် တရုပ်နိုင်ငံတို့အကြား ကုန်သွယ်ရန် သွားရာလမ်းကြောင်းတွင် တည်ရှိသည့်အတွက်ကြောင့် နှစ်ရာပေါင်း များစွာကတည်းက အရေးပါသော အချက်အခြာ ဒေသဖြစ်ခဲ့၏။ ရှေးအခါက ကျွန်းဆွယ်၏ အတွင်းဖက်၌ နေထိုင်သူနည်းပါးလှ၏။ ကရာကျွန်းဆက်နှင့် မလက္ကာ ရေလက်ကြား ကမ်းရိုးတန်းတလျှောက်တွင်သာ နေထိုင်ကြ၏။ ခရစ် ၁၄၀၀ ပြည့်နှစ်တွင် မလေးလူမျိုးတို့သည် မလက္ကာ ဆိပ်ကမ်းမြို့ကို တည်ထောင်ခဲ့၏။ မလက္ကာ ဆိပ်ကမ်းမြို့သည် ဗင်္ဂလားအော်နှင့် တောင်ပိုင်း တရုပ်ပင်လယ်တို့ အကြားတွင် သွားရာ လမ်းကြောင်းကို ချုပ်ကိုင်ခဲ့သောကြောင့် ကုန်သွယ်ရေးတွင် အရေးပါ၍ တန်ခိုးထွားခဲ့ပေသည်။ ၁၅၁၁ ခုနှစ်တွင် မလက္ကာမြို့ကို ပေါ်တူဂီ လူမျိုးတို့က သိမ်းပိုက်လိုက်သည်။ ပေါ်တူဂီ လူမျိုးတို့သည် မလက္ကာကို မိမိတို့ စီးပွားရေးအတွက်သာ အရေးထားလျက် မလ္လာယုကျွန်းဆွယ်ရှိ အတွင်းပိုင်း အခြားဒေသများကို လျစ်လျူရှုခဲ့ပေသည်။ ၁၆၄၁ ခုနှစ်၌ ဒပ်ချလူမျိုးတို့ သိမ်းပိုက်ပြီး နောက်ပိုင်းတွင် မလက္ကာသည် အရေးမပါတော့ဘဲ ရှိ၏။ ၁၈ ရာစုနှစ် နောက်ပိုင်းလောက်တွင်မှ ဗြိတိသျှတို့သည် မလ္လာယုကျွန်းဆွယ်ကို စိတ်ဝင်စားလာပြီးနောက် ရောက်ရှိလာကြသည်။ ခရစ် ၁၇၈၆ ခုနှစ်တွင် ဗြိတိသျှတို့သည် ပီနန်ကျွန်းကို ဝယ်ယူပြီးလျှင် ၁၈၀၀ ပြည့်နှစ်တွင် မလ္လာယုပြည်မရှိ ပရောဗင့်ဝက်စလီခေါ် နယ်မြေကို လွှမ်းမိုးကြီးစိုးခွင့်ရခဲ့၏။ ဥရောပတိုက်၌ နပိုလီယန်စစ်ပွဲများဖြစ်ပွားခဲ့စဉ်က နပိုလီယန်က ဒပ်ချနိုင်ငံကို ဝင်စီးသောအခါ ဗြိတိသျှတို့က အရှေ့အိန္ဒိယရှိ ဒပ်ချကျွန်းစုများကို သိမ်းပိုက်လိုက်၏။ ဒပ်ချလူမျိုးတို့က ဒပ်ချကျွန်းစုများကို ပြန်လည်ရရှိချိန်၌ ယင်းကျွန်းစုကို အုပ်ချုပ်ခဲ့သော ဘုရင်ခံ ဆာ စတမ်းဖို့ရက်ဖဲက ဗြိတိသျှတို့အဖို့ မလ္လာယုကျွန်းဆွယ်သည် မည်မျှ အရေးပါကြောင်း တင်ပြခဲ့၏။ ခရစ် ၁၈၁၉ ခုနှစ်တွင် ဂျိုဟိုးပြည်နယ် စူလတန် ဘုရင်ထံမှ စင်္ကာပူကျွန်းကို ဗြိတိသျှတို့ဝယ်ယူရန် ဆာစတမ်းဖို့ရက်ဖဲက ပင် စီစဉ်ပေးခဲ့သည်။ ဒပ်ချတို့က ကန့်ကွက်ခဲ့သော်လည်း၊ ၁၈၂၄ ခုနှစ်တွင် ရေလက်ကြားတွင် လွတ်လပ်စွာ ကူးသန်းသွားလာခွင့် စသည့် အခွင့်အရေးများနှင့် အလဲအလှယ်ပြုကာ မလက္ကာကို ဒပ်ချတို့ထံမှ ရယူခဲ့ပြန်လေသည်။ ဗြိတိသျှတို့သည် မလ္လာယုကျွန်းဆွယ်တွင် ပီနန်-ဝက်စလီ၊ စင်္ကာပူနှင့် မလက္ကာမည်သော ၃ ဌာနတွင် ဦးစွာ ခြေကုပ်ရလျက် နောင်သော်ကား စထရိတ်စက်တယ်မင့် အမည်ဖြင့် ကိုလိုနီထူထောင်ခဲ့လေသည်။

ထိုနောက် အနှစ် ၅၀ မျှ ဗြိတိသျှတို့သည် စင်္ကာပူကို အာရုံစိုက်၍ ပြုစုပျိုးထောင်သည်။ ပြည်မတွင်ရှိ မွတ်စလင်ပြည်နယ် ၉ နယ်၌ ပြည်တွင်း အုပ်ချုပ်ရေးတွင် ဝင်စွက်ခြင်းကို နည်းနိုင်သမျှနည်းစေသည်။

၁၈၆၉ ခုနှစ်၌ ဆူးအက် တူးမြောင်းကို ဖွင့်လှစ်သောအခါ ဥရောပနှင့် အာရှတိုက် အရှေ့တောင်ပိုင်းရှိ နိုင်ငံများသည် ရောင်းရေးဝယ်တာ ဖွံ့ဖြိုးလာပြီးလျှင် မလ္လာယုကျွန်းဆွယ်တွင်လည်း သံဖြူလုပ်ငန်းနှင့် ကုန်သွယ်ရေးသည် အရေးပါလာ၏။ သံဖြူတွင်းများသည် ကျွန်းဆွယ်၏ အတွင်းပိုင်းတွင်ရှိရကား ဗြိတိသျှတို့သည် သက်ဆိုင်ရာ နယ်ပယ်ဒေ

သတွင်း၌ နိုင်ငံရေးအားဖြင့် ဩဇာလွှမ်းမိုးရန်လိုကြောင်း သိမြင်သဖြင့် ပီရတ်၊ ဆေလန်ဂေါ်၊ နက်ဂရီဆင်ဗီလန်နှင့် ပဟန်ပြည်နယ်များမှ အုပ်ချုပ်သူတို့နှင့် အုပ်ထိန်းကာကွယ်ရေး စာချုပ်ရေးထိုးကြ၏။ ၁၈၉၅ ခုနှစ်တွင် အဆိုပါ ပြည်နယ် ၄ ခုကို ပေါင်း၍ စုပေါင်း ပြည်နယ်များဟု အမိပ္ပါယ်ရသော ဖက်ဒရိတ်တက် မလေးစတိတ်ဟု ဖွဲ့စည်းခဲ့ရာ ကွာလာလွမ်ပူမှာ မြို့တော်ဖြစ်လာ၏။

ပြည်နယ် ရုံးစိုက်မြို့များတွင်ရှိသော ဗြိတိသျှ ကိုယ်စားလှယ်တော်တို့သည် သက်ဆိုင်ရာအစိုးရ၏ ဝါဒများကို ကွပ်ကဲလျက် စီးပွားရေး အခွင့်အလမ်းများကိုလည်း ကာကွယ်ပေးခဲ့၏။ မလ္လာယု ပြည်နယ်များမှ စူလတန် ဘုရင်တို့သည် မိမိတို့နယ်သူနယ်သားများ၏ အယူဝါဒရေးနှင့် လူမှုရေးကိစ္စများတွင်လည်း ဩဇာအပြည့် ရှိသည်မဟုတ်ပေ။ မလေးလူမျိုးတို့သည် လယ်ယာစိုက်ပျိုးခြင်းနှင့် ငါးဖမ်းခြင်းများဖြင့် သာအသက်မွေးလျက်မိမိတို့တွင်ပိုလျှံသမျှကိုသံဖြူတွင်းများ၌ လာရောက်လုပ်ကိုင်ကြသော တရုပ်နှင့် အခြားအလုပ်ကြမ်းသမားတို့ကို ရောင်းချ၏။ ကြာသော် ပြည်နယ် အများတွင် တရုပ်နှင့် အိန္ဒိယအမျိုးသား အလုပ်သမားတို့၏ ဦးရေမှာ မလေးတို့ထက်ပင် ပိုလာခဲ့လေသည်။

ကျန်ပြည်နယ်များ ဖြစ်သော ဂျိုဟိုး၊ ကေလန်တန်၊ တြင်ဂနု၊ ကေဒါနှင့် ပါလစ်တို့မှာ မစုပေါင်းသော ပြည်နယ်များဟု အဓိပ္ပါယ်ရသော အန်ဖက်ဒရိတ်တက် မလေးစတိတ်ဟူ၍ တွင်၏။ ဤဒေသများသည် စီးပွားရေးကောင်းသော ရပ်ကွက်များ မဟုတ်ဘဲ တိုင်းရင်း မလေးလူမျိုး လူဦးရေ ပိုများသည်။ စူလတန် ဘုရင်များသည် လုံး၀ လွတ်လပ်မှု ရှိသည်ဟုဆိုရငြားလည်း ဗြိတိသျှအရာရှိများသည် သူတို့၏ အခွင့်အရေးများကို ကာကွယ်မှုအတွက် အစိုးရကိစ္စများတွင် ဝင်ရောက်စွက်ဖက်သည်။

ကော်ဖတ် စိုက်ပျိုးခြင်း လုပ်ငန်းကို မလ္လာယု ကျွန်းဆွယ်တွင် ၁၈၉၀ ပြည့်နှစ်ခန့်ကမှ စတင် ပြုလုပ်သည်။ ဤသို့ ပြုရခြင်းမှာ စီးပွားရေးအားဖြင့် ကာဖီပင်ကို မစိုက်ပျိုးသာသောကြောင့်ရော်ဘာကိုအစားထိုးခြင်းဖြစ်၏။ဗြိတိသျှတို့သည် အစသော် မလေး လူမျိုးတို့ကို စိုက်ခင်းများတွင် ငှါးရမ်း အသုံးပြုခဲ့သော်လည်း အိန္ဒိယပြည် တောင်ပိုင်းမှ အိန္ဒိယ အမျိုးသား အလုပ်သမားများကို ခေါ်ယူ အသုံးပြုခြင်းက ပို၍ အကျိုးရှိကြောင်း သိလာခဲ့လေသည်။

ဒုတိယကမ္ဘာစစ်အတွင်းက ဂျပန်တို့သည်ယိုးဒယားနိုင်ငံမှနေ၍ မလ္လာယု ကျွန်းဆွယ်အတွင်း ချဉ်းနင်းဝင်ရောက်



စင်္ကာပူမြို့မှာ အကြီးဆုံးမြို့ဖြစ်၍ လူနေ အလွန်ထူထပ်သည်။



မလ္လာယုကျွန်းဆွယ်တွင် တရုပ်ယဉ်ကျေးမှုသရုပ်ပြ အဆောက်အအုံများကို အမြောက်အမြား တွေ့မြင်နိုင်သည်။

လျက်၊ ၁၉၄၁ ခုနှစ် ဒီဇင်ဘာလ ၈ ရက်နေ့တွင် စတင်တိုက်ခိုက်ခဲ့၏။ ဗြိတိသျှ၊ ဩစတြေးလီယန်နှင့် အိန္ဒိယတပ်များက ရှ်ရှ် ခွဲခွဲ ခုခံ တိုက်ခိုက် ခဲ့သော်လည်း အရေးနိမ့်ခဲ့၍၊ ဂျပန်တပ်များသည် လျင်မြန်စွာ ရှေ့သို့ တိုး၍ ချီတက်လာခဲ့ရာ၊ ၁၉၄၂ ခုနှစ် ဇန္နဝါရီလတွင် မဟာမိတ်တပ်များ အားလုံးစင်ကာပူသို့ဆုတ်ခွာစုရုံးနေခဲ့ကြရသည်။ ဖေဖွာရီလ ၁၅ ရက်နေ့တွင် စင်ကာပူ၌ လက်နက်ချအညံ့ခံခဲ့ရ၏။ ၁၉၄၅ ခုနှစ် ဩဂုတ်လတွင် ဂျပန်တို့လက်နက်ချခဲ့ပြီးနောက် ဗြိတိသျှတပ်များက မလ္လာယုကျွန်းဆွယ်ကို ပြန်လည် သိမ်းပိုက်ခဲ့၏။

၁၉၄၅ ခုနှစ် အောက်တိုဘာလတွင် မလ္လာယုပြည်နယ်များနှင့် ဗြိတိသျှပိုင် ပီနန်နှင့် မလက္ကာတို့ကို စုပေါင်းလျက် "မလ္လာယုပြည်နယ်စု" ဟူ၍ ဖွဲ့စည်းရန် စီမံကိန်းတရပ်ထုတ်ပြန်ခဲ့၏။ ထိုစီမံကိန်းနှင့်စပ်လျဉ်း၍ မလေးလူမျိုးတို့က မလ္လာယုကျွန်းဆွယ်တွင် အမြဲတမ်း နေထိုင်လျက်ရှိသော အိန္ဒိယနှင့်တရုပ်လူမျိုးတို့ကို တန်းတူနိုင်ငံသားအဖြစ်ထားရှိသဖြင့် မိမိတို့တိုင်းရင်းသားများသည် လူနည်းစုဖြစ်သွားရသည်ဟု ကန့်ကွက်ခဲ့၍၊ စုလတန်များကလည်း မိမိတို့၏ အခွင့်အာဏာ များစွာ ဆုံးရှုံးသည်ဟု ကန့်ကွက်ခဲ့သည်။ ဤသို့ဖြင့် စီမံကိန်းသစ်တခု ရေးဆွဲကာ ယခင်ကြံရွယ်ထားသော ပြည်နယ်များနှင့်ပင် "မလ္လာယု ပြည်ထောင်စု" ကို ၁၉၄၈ ခုနှစ် ဖေဖွာရီလတွင် ဖွဲ့စည်းခဲ့၏။ ထိုအစီအမံအရ စုလတန်များသည် အခွင့်အာဏာ ပိုမိုရရှိခဲ့၍၊ ဗြိတိန်က ကာကွယ်ရေးနှင့် ပြည်ပရေးရာတို့ကို ကြိုးကိုင်ထားခဲ့သည်။

၁၉၄၈ ခုနှစ်၌ တည်ထောင်သော မလ္လာယုပြည်ထောင်စုတွင် ပြည်ထောင်စုသား ဖြစ်မြောက်ရေးအတွက် ပိုမိုတင်းကြပ်သော စည်းကမ်းချက်များကို သတ်မှတ် ထားခဲ့၏။ ပြည်ထောင်စကို ဗြိတိသျှအစိုးရက ခန့်ထားသော မဟာမင်းကြီးသည် ဥပဒေပြုကောင်စီနှင့် အမှုဆောင် ကောင်စီများ၏အကူအညီဖြင့် အုပ်ချုပ်လေသည်။ ပြည်ထောင်စုရှိ တရုပ်ကွန်မြူနစ်တို့သည် အုပ်ချုပ်ရေးအသစ်ကို သဘောမကျ မကျေနပ်ကြဘဲ ဆူပူလှုပ်ရှားခဲ့ကြ၏။ ၎င်းဖက်က သူတို့အား အရေးယူကာ လိုက်လံ ဖမ်းဆီးသောအခါ တောခိုပြီးလျှင် ဂျပန်တို့အား တိုက်ခိုက်ခဲ့သည့်နည်းတူ ဗြိတိသျှနှင့် အေးချမ်းစွာ နေထိုင်လျက်ရှိသော တရုပ်လူမျိုးတို့ကို တိုက်ခိုက်၏။

ဗြိတိသျှတို့သည် ကွန်မြူနစ် မဟုတ်သော တရုပ်လူမျိုးတို့အား နိုင်ငံရေးတွင်ရော အလုပ်သမားရေးရာတွင်ပါ ကိုယ်ထိ လက်ရောက် ပါဝင် ဆောင်ရွက်ရန် အားပေး၏။ တရုပ်ကွန်မြူနစ်တို့က ငွေရေး ကြေးရေးနှင့် စားနပ်ရိက္ခာ အတွက် အကူအညီ အဓမ္မ တောင်းခံခြင်း မပြုနိုင်စေရန် ယင်းတို့ကို လုံခြုံသော ရပ်ကွက်တွင် နေရာချထားပေး၏။

စစ်ဖက်နှင့် ရဲဖက်မှ အရေးယူ ဆောင်ရွက်ခဲ့သောကြောင့် တရုပ်ကွန်မြူနစ်တို့သည် ပြောက်ကျားတပ်သား ၃,၀၀၀ မျှသာရှိသည်အထိ လျော့သွားသည်။ ယင်းတို့သည် ယိုးဒယားနယ်စပ်အနီးတွင် ခိုအောင်း၏။ ကိုရီးယား စစ်ပွဲအတွင်းက ကော်ဖတ်နှင့် သံဖြူဈေးကောင်းလာ၍ မလ္လာယုသည် စီးပွားရေး နာလန်ထူလာသဖြင့်သူပုန်တို့ကိုနှိမ်နင်းနိုင်လာ၏။ ကွန်မြူနစ်တို့ ဆူပူသောင်းကျန်းမှုကြောင့် ၁၀ နှစ်ကျော်တိုင်းပြည်မငြိမ်မသက်ဖြစ်ခဲ့ရလင့်ကစားပြည်ထောင်စုသည် ကိုယ်ပိုင်အုပ်ချုပ်ရေးနှင့် လွတ်လပ်ရေးစခန်းသို့ လျင်မြန်စွာ ချီတက်ခဲ့၏။ ၁၉၅၇ ခုနှစ် ဩဂုတ်လတွင် မလ္လာယုပြည်ထောင်စုသည် ဗြိတိသျှ နေသဟာယအဖွဲ့ဝင် အချုပ်အချာအာဏာပိုင်သော နိုင်ငံအဖြစ်သို့ ရောက်ရှိလာလေသည်။

၁၉၆၃ ခုနှစ် စက်တင်ဘာလ ၁၆ ရက်နေ့မှ အစပြု၍ မလ္လာယုပြည်ထောင်စု၊ စင်္ကာပူ၊ ဆရာဝပ်နှင့် ဆားဗား (ယခင် ဗြိတိသျှမြောက်ဗော်နီယိုနယ်) တို့ကို စုပေါင်း၍ မလေးရှား ပြည်ထောင်စု နိုင်ငံဟူ၍ ဖွဲ့စည်း တည်ထောင်လိုက်လေသည်။

မန်လည်ဆရာတော်။ ။သာသနာပိုင်များ — ရှု။

**မန်လည်ဆရာတော်** (မြန်မာ ၁၂၀၃–၁၂၈၁)။ ။မန်လည် ဆရာတော်သည် အထက် မြန်မာနိုင်ငံ၊ ကသာခရိုင်၊ ဝန်းသိုမြို့နယ် မန်လည်မြို့၌ အဖ သစ်ကုန်သည် ဦးထင်ညို၊ အမိ ဒေါ်ဖြေတို့မှ မြန်မာသက္ကရာဇ် ၁၂၀၃ ခုနှစ်၊ နှောင်းတန်ခူးလဆန်း ၁၂ ရက်၊ အင်္ဂါနေ့ ညဥ့် ၃ ချက်တီးကျော်တွင် ဖွားမြင်သည်။ ငယ်နာမည်မှာ မောင်မာ ဖြစ်သည်။ ထိုသူငယ် အသက် ၃ နှစ် အရွယ်တွင် ဖခင် ဦးထင်ညို ကွယ်လွန်ခဲ့လေသည်။

မန်လည်ဆရာတော် လောင်းလျာ မောင်မာကို အသက် ၁၂ နှစ် အရွယ်ရောက်သောအခါ ဝန်းသိုမြို့ တောင်ပေါ်ကျောင်း ဝန်းသိုစော်ဘွား၏ နောင်တော် ဘုန်းတော်ကြီး ဦးပန်းအောင်ထံ၌ အပ်နှံ၍ စာသင်စေရာ၊ တနှစ်အတွင်းမှာပင် မြန်မာစာ အခြေခံ ရခဲ့သဖြင့် သွက်သွက် လက်လက် ရွတ်ဖတ်နိုင်လေသည်။ ကဗျာလင်္ကာများကို အထူးဝါသနာပါခဲ့သည့်အလျောက် ရှေးပညာရှိများ ရေးသားသော ပျို့ ကဗျာများကို သင်ကြားကြည့်ရှု လေ့လာခဲ့ရာ ၁၆ နှစ်အရွယ်မတိုင်မီပင် ဒွေးချိုး၊ လေးချိုး၊ တေးထပ်၊ ရတုစသည်များကို လျင်မြန်စွာ ရေးသား စပ်ဆိုနိုင်လေသည်။

အသက် ၁၅ နှစ် အရွယ်တွင် မိခင် ဒေါ်ဖြေ ကွယ်လွန်အနိစ္စရောက်ပြီးနောက် ၁၆ နှစ်သား အရွယ်ရောက်မှ ဝန်းသို စော်ဘွားကြီး၏ နောင်တော် ဘုန်းကြီး ဦးပန်းအောင်ထံမှာပင် ရှင်သာမဏေအဖြစ်သို့ ရောက်ရှိတော်မူလေသည်။

သာမဏေဘွဲ့ကား ရှင်ဇဝန တည်း။ ရှင်သာမဏေ အဖြစ်ဖြင့် ၆ ဝါတိုင်တိုင် အရှင် နန္ဒမဠူ ထံ၌ ပါဠိ၊ အဋ္ဌကထာ၊ ဋီကာကျမ်းဂန်များကို သင်ကြားရာ၊ ပါရမီဉာဏ် ထက်သန်သည့်အလျောက် ရဟန်းအဖြစ်သို့ မရောက်မီပင် သင်ရိုးကျမ်းများကို တဖက်ကမ်းခတ် တတ်မြောက်လေသည်။

ရှင်ဇဝနသည် သက္ကရာဇ် ၁၂၂၅ ခုနှစ်ဦး၊ အသက် ၂၂ နှစ်သာသာရှိမှ ဥပသမ္ပဒ ရဟန်းအဖြစ်သို့ ရောက်လေသည်။ ရဟန်းဘွဲ့မှာလည်း ရှင်ဇဝနပင် ဖြစ်သည်။ ရဟန်းဖြစ်၍ တဝါ ရတော်မူပြီးသောအခါ မူလ ရဟန်းခံခဲ့ရင်းဖြစ်သောသိမ်ကို ဝိနယကုက္ကုစ္စ သဘောထားဖြင့် သံသယ မကင်းမရှင်း ရှိပြန်သည်နှင့် ၁၂၂၅ ခုနှစ် တပေါင်းလပြည့်ကျော် ၅ ရက်နေ့တွင် မဲဇာမြစ်အတွင်း ဥဒကုက္ခေပနဒီသိမ်၌ သံဃာတော် ၁၀ ပါးနှင့်တကွ ဒုတိယအကြိမ် ဥပသမ္ပဒကံအားဖြင့် ရဟန်းခံတော်မူပြန်လေသည်။ ရဟန်းဝါကို ဒုတိယ ရဟန်းခံပြီး နောက်မှ ရေတွက်တော်မူသည်။

၁၂၂၈ ခုနှစ်၊ ရဟန်း ၃ ဝါ မြောက်တွင် မန္တလေးမြို့ အနောက်ပြင် ထီးလင်းတိုက်တွင် ဝါဆိုတော်မူ၍ မန်လည်မြို့ဝန် မင်းတင် မင်းလှ သမန္တရာဇာ က ကိုးကွယ်လှူဒါန်းသော ပိဋကတ်တော်များကို ကြီးကြပ်ကူးယူ ရေးသားတော်မူသည်။ ထိုနောက် မန်လည်မြို့ လေးထပ်ကျောင်းသို့ ပြန်ကြွတော်မူပြီးလျှင် စာသင်သားတို့အား စာပေ


မန်လည်ဆရာတော်ဘုရားကြီး

သင်ကြားပို့ချ၍ အားလပ်သောအချိန်တွင် စာပေကျမ်းဂန်များကို ရေးသား စီရင်တော်မူသည်။

ရဟန်းဆယ်ဝါ ရတော်မူသောအခါ ဥဘာမီးတောက်စအချိန်တွင် ပညာရှင်နှိုသောက်စိုးရာဖြစ်သော ဆရာအရှင်၏ ကျေးဇူးကို ဆပ်သောအားဖြင့် မဃဒေဝလင်္ကာသစ်ကို စတင် ရေးသားတော်မူလေသည်။ သို့သော် ပြီးဆုံးအောင် မရေးသားနိုင်ဘဲ ရှိခဲ့ရာ၊ ၁၂၆၆ ခုနှစ်တွင်မှ တဖန်ဆက်လက်ရေးသားရာ၊ ထိုနှစ်မှာပင် အောင်မြင်ပြီးဆုံးခြင်းသို့ ရောက်ခဲ့လေသည်။

မန်လည် ဆရာတော်ဘုရားကြီးသည် ၁၂၆၀ ခုနှစ်တွင် မိုးကုတ်မြို့သို့ သာသနာပြု ကြွတော်မူသည်။ ၁၂၇၄ ခုနှစ်တွင် သီပေါမြို့ မဟာရာဇာ စော်ဘွားကြီး ပင့်လျှောက်သဖြင့် သာသနာပြု ကြွတော်မူသည်။ ၁၂၇၉ ခုနှစ်တွင် အင်္ဂလိပ် အစိုးရတို့ လှူဒါန်းသော အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်ကို ခံယူတော်မူသည်။ ၁၂၈၁ ခုနှစ်တွင် ရေဝတီ ရေလမ်းခရီးဖြင့် စစ်ကိုင်း၊ ပခုက္ကူ၊ ပြည်၊ ဇလွန်၊ ဟင်္သာတ၊ ပုသိမ်၊ ရန်ကုန်၊ မော်လမြိုင်စသော မြို့ရွာများသို့ လှည့်လည် ကြွမြန်း၍ သာသနာပြုတော်မူပြီးနောက် မန်လည်မြို့သို့ ပြန်လည် ရောက်ရှိတော်မူသောအခါ ၁၂၈၂ ခုနှစ် ဝါဆိုလတွင်ပင် ပျံလွန်တော်မူလေသည်။

ဆရာတော်ဘုရားကြီး ရေးသားတော်မူအပ်သော မဃဒေဝ လင်္ကာသစ် ကြီးသည် ထုံးတီးနည်းနာ အဖြာဖြာနှင့် ဇာတ်၊ နိပါတ်၊ ရာဇဝင်၊ ဆေးကျမ်း၊ မာတ်ကျမ်း၊ နက္ခတ်ကျမ်း၊ ဗေဒင်ကျမ်း စသော လောကီ လောကုတ္တရာ ဗဟုသုတ အနုစ်သာရတို့နှင့် ပြည့်ဝ စုံလင်သည်ဖြစ်ရကား ဤလင်္ကာတစောင်တည်းနှင့်ပင် ဆရာတော်ဘုရားကြီးမှာ ကဗျာ့ပါရဂူမြောက်ကြောင်း ထင်ရှားပေသည်။ ဤလင်္ကာကြီးတွင် ဖွဲ့နွဲ့ထားပုံမှာ လွန်စွာ ခမ်းနားလှသည့်ပြင် ခွဲထားသတ်ပုံများကို ဖော်ပြရေးသားထားရာ၊ သတ်ပုံကျမ်းကြီး တစောင်ကဲ့သို့လည်း လွန်စွာ အသုံးဝင်လေသည်။

ဆရာတော်ဘုရားကြီးသည် မဃဒေဝလင်္ကာသစ်ကြီး အပြင် ပုစ္ဆာဝိသဇ္ဇနာ ကျမ်းများနှင့် သုတ် ပါဠိတော်နိသျ အမျိုးမျိုး ကျမ်းပေါင်း ၃၁ ကျော်ခန့်ကိုလည်း ရေးသားတော်မူခဲ့သည်။ လေးချိုး၊ ဒွေးချိုး၊ သံချိုများကိုလည်း ဖွဲ့နွဲ့ရေးသားခဲ့သေးသည်။ ဆရာတော်ဘုရားသည် သိမ်မွေ့နက်နဲသည့်အရာ၌ သိမ်မွေ့နက်နဲလှ၍၊ ကြမ်းကြမ်းတမ်းတမ်း ဖော်ပြရန် လိုအပ်သည့် နေရာ၌ ကြမ်းတမ်းစွာ ရေးသားဖွဲ့နွဲ့နိုင်သည်ကို ဆရာတော် ရေးသားထားအပ်သော အဖွဲ့အနွဲ့များ၌ တွေ့ရပေသည်။ ဆရာတော်ပြုစုခဲ့သော ကျမ်းအချို့မှာ၊ ၁၊ ကစ္စာယန သုသုဟာရကပါဠိ။ ၂၊ ကစ္စာယန သုသုဟာရကနိသျ။ ၃၊ ကမ္မဋ္ဌာန်းကျမ်းသစ်။ ၄၊ ဂတိဝိသောဓနကျမ်း။ ၅၊ ပဋ္ဌစတ္တာလီသ ပုစ္ဆာဝိသဇ္ဇနာ။ ၆၊ ပုစ္ဆာဝိသဇ္ဇနာကျမ်း။ ၇၊ ဖုသာထေရဂါထာနိသျ။ ၈၊ မဏိဇောတိက ဝိသဇ္ဇနာကျမ်း။ ၉၊ မဟာသုတကာရီ မဃဒေဝလင်္ကာသစ်။ ၁၀၊ မင်္ဂလာရတု။ ၁၁၊ ဝဇီရဉာဏ ဝန္ဒနာစသော ဘုရားရှိခိုးအမျိုးမျိုး။ ၁၂၊ ဝဇီရှပမ ဗျာကရဏကျမ်း။ ၁၃၊ ဝဇီရဂ္ဂဒိဋ္ဌိ ဝိသောဓနကျမ်း။ ၁၄၊ ဝဇီရတ္တရ ပကာသနီကျမ်း။ ၁၅၊ သတပဒိက ပုစ္ဆာဝိသဇ္ဇနာကျမ်း။ ၁၆၊ သာမညဖလသုတ် ပါဠိတော်နိသျ။ ၁၇၊ သီမဝိစာရဏကျမ်း။ ၁၈၊ အလမ္ဗုတကျမ်း တို့ဖြစ်သည်။

**မန်အောင်မြို့။** ။မန်အောင်မြို့သည် မြန်မာနိုင်ငံ ရခိုင်တိုင်း၊ ကျောက်ဖြူခရိုင်တွင်ပါဝင်သော မန်အောင်မြို့နယ်၏ ရုံးစိုက်မြို့ဖြစ်သည်။ မန်အောင်မြို့နယ်မှာ မန်အောင်ကျွန်း တခုလုံးဖြစ်သည်။ မန်အောင်မြို့သည် မန်အောင်ကျွန်း၏ အရှေ့မြောက်ဖက် အစွန်းတွင် တည်ရှိသည်။ ကျောက်ဖြူမြို့မှ ရေကြောင်းဖြင့် ၈၇ မိုင် ကွာဝေးသည်။ မန်အောင်မြို့နယ်သည် အကျယ်အဝန်းအားဖြင့် စတုရန်းမိုင် ၂၂၀၊ သူကြီးပိုင် နယ်ပေါင်း ၃၄ နှင့် ၁၉၅၆ ခုနှစ်တွင် ခန့်မှန်းခြေအားဖြင့် လူဦးရေ ၃၄,၉၆၉ ရှိသည်။ မန်အောင်မြို့၏ လူဦးရေမှာ ၁၉၅၃ ခုနှစ် သန်ကောင်စာရင်းအရ ၂,၆၃၅ ယောက် ဖြစ်သည်။ မြို့ပေါ်တွင် မြို့နယ်အရာရှိရုံး၊ ရဲဌာန၊ အစိုးရ အထက်တန်းကျောင်းနှင့် ဈေးရှိသည်။

မန်အောင်ကျွန်းသည် ရခိုင် ကမ်းရိုးတန်းအလွန်၊ ဗင်္ဂလားအော်အတွင်းသို့ ရောက်နေသော အစွန်ဆုံး ကျွန်းဖြစ်သည်။ ရန်မာန်အပေါင်းကို အောင်မြင်သည့်အတွက် မန်အောင် (မာန်အောင်) ဟူ၍ ရှေးအခါကပင် မှည့်ခေါ်ထားခြင်း ဖြစ်သည်ဟု ဆို၏။ မန်အောင်ကျွန်းသည် ပုံသဏ္ဌာန်အားဖြင့် တြိဂံပုံဖြစ်၏။ မန်အောင် ရေလက်ကြားဖြင့် ရမ်းဗြဲကျွန်းနှင့် ပိုင်းခြားလျက် ရှိသည်။ မန်အောင်မြို့သည် ရမ်းဗြဲကျွန်းနှင့် အနီးကပ်ဆုံးဖြစ်သော ချွန်ထွက်နေသည့် နေရာတွင် တည်ရှိသည်။

မန်အောင်ကျွန်း၏ မြေမျက်နှာပြင်သည် လှိုင်းထလျက်ရှိသည်။ အချို့တောင်များသည် ပင်လယ်ပြင်အထက် ပေ ၁,၀၀၀ ခန့် မြင့်သည်။ သစ်ပင်လည်း ထူထပ်သည်။ ရွှံ့မီးတောင်များလည်း ရှိသည်။ တောင်နီတောင်ခေါ် မြေနီတောင်တွင် အလွန်မွှေးသော မြက်နီပင်များ တတောင်လုံး ဖုံးလွှမ်းနေသဖြင့် ထူးခြားသည်။ မန်အောင်ကျွန်းတွင် ဆန်စပါးအပြင် ဆေးရွက်၊ မြေပဲ၊ ကြံ၊ ပိုက်ဆံလျှော်၊ အုန်းပင်နှင့် ကွမ်းသီးပင်များလည်း စိုက်ပျိုးသည်။ မန်အောင်၏ အထင်ရှားဆုံးထွက်ကုန်မှာ မန်အောင်ဆေးဖြစ်သည်။

**မာရ်နတ်။** ။မူလပဏ္ဏာသ အဋ္ဌကထာ၌ "မာရ်နတ်ဟူသည် ပရနိမ္မိတဝသဝတ္တိဘုံ၌ဖြစ်၍ လူ့ပြည်တွင် နိုင်ငံ အစွန်



တောထွက်တော်မူလာသော အလောင်းတော် သိဒ္ဓတ္ထမင်းသားအား မာရ်နတ်သား ကန့်ကွက်၍
အနှောင့်အယှက်ပြုပုံ ရှေးမြန်မာ ပန်းချီလက်ရာ



ဂျာဗားကျွန်း ဗောရောဗုဒေါ စေတီတွင် ရှုမြင်ရသော မာရ်စစ်သည် တို့အပေါ် အောင်နိုင် တော်မူပုံ သရုပ်ပြစဉ်ကွင်း

အဖျားကို ဓားမြတိုက်နေသည့် မင်းသားကဲ့သို့ ဆိုးသွမ်းနေသော နတ်သားဖြစ်သည်" ဟု ဆိုထားသည်။

ဂေါတမ မြတ်စွာဘုရားလောင်း တောထွက်တော်မူသည်မှစ၍ ဗုဒ္ဓမြတ်စွာ ပရိနိဗ္ဗာန်ပြုသည်အထိ ကိုယ်တော်မြတ်အား မာရ်နတ်သည် မိမိတန်ခိုးဖြင့် အမျိုးမျိုးသော အန္တရာယ်အရှက် အဖျက်အဆီးများကို စွမ်းအားရှိသမျှ ပြုသော်လည်း အောင်မြင်မှု မရရှိခဲ့ပေ။

ဘုရားလောင်း တောထွက်တော်မူစဉ်က ဘုရားဖြစ်မည့်အရေးကို တွေးမိတိုင်း ရန်သူပမာ စိတ်ထားသော မာရ်နတ်သည် ဘုရားလောင်း တောမထွက်ဖြစ်အောင် မြစ်တားခဲ့၏။ သို့သော်လည်း မအောင်မြင်ခဲ့ပေ။ တဖန် ဘုရားလောင်းသည် ဗောဓိပင်၏ အောက်အပြင် ရွှေပလ္လင်ထက်၌ မလျော့သော လုံ့လဝီရိယဖြင့် ဘုရားအဖြစ်ကို အရယူရန် ကြိုးစားတော်မူစဉ်က မာရ်နတ်သည် ယူဇနာ တရာ့ငါးဆယ်ရှိသော ဂိရိမေခလာ ဆင်ပြောင်ကို စီးကာ နတ်စစ်သည်ပေါင်း မြောက်မြားစွာ ခြံရံလျက် လက်နက် အမျိုးစုံတို့ဖြင့် ဘုရားလောင်းကို တိုက်ခိုက်လာ၏။ ဘုရားဖြစ်မည့်ဆဲဆဲဖြစ်သောအလောင်းတော်အား ခစားဆည်းကပ်လျက်ရှိကြသော နတ်သိကြား အပေါင်းတို့သည် မာရ်နတ်၏ရန်ကိုခံရန် မစွမ်းနိုင်တော့ဘဲ မိမိတို့ မျက်နှာမူရာ အရပ်သို့သာ ရှေးရှု ပြေးကြကုန်၏။ သဟမ္ပတိဗြဟ္မာကြီးသည် ဗြဟ္မာ့ပြည်သို့ ပြေးလေ၏။ ဘုရားလောင်းကား လေးသင်္ချေနှင့် ကမ္ဘာတသိန်း ဆည်းပူးခဲ့သော ဆယ်ချက်သော ပါရမီတော်ကို လက်နက်ပြုကာ မြင့်မြတ်သော နှလုံးရည်ဖြင့် တည်ငြိမ်စွာ နေလေသည်။ နောက်ဆုံး၌ မာရ်နတ်သည် စစ်ရှုံးကာ ထွက်ပြေးရလေသည်။ တဖန်မာရ်နတ်သည် မိမိ၏ သမီးတော် သုံးပါးဖြင့် မြတ်စွာဘုရားအား ဖျက်ဆီးပြန်သော်လည်း မအောင်မြင်ဘဲ အရှုံးပေးရပြန်သည်။

တဖန် ဗုဒ္ဓမြတ်စွာသည် တရားတော် ဒေသနာများကို ၄၅ ဝါ ပတ်လုံး ကောင်းစွာ ဟောကြားတော်မူပြီးသည့်နောက်တွင် မာရ်နတ်သည် မကောင်းသော နှလုံးသွင်းဖြင့် မြတ်စွာဘုရားအား ပရိနိဗ္ဗာန်ဝင်စံဖို့ သင့်ပြီဖြစ်ကြောင်း သုံးကြိမ်တိုင်တိုင် လျှောက်ထားသောကြောင့် ပရိနိဗ္ဗာန်ဝင်စံပေတော့အံ့ဟု ဝန်ခံတော်မူလိုက်လေသည်။

တဖန် သာသနာ့ ဒါယကာဖြစ်သော သီရိဓမ္မာသောကမင်းကြီး၏ ခုနစ်လ ခုနစ်ရက်တိုင်အောင် ပြုလုပ်သော စေတီပူဇော်ပွဲကြီး၌လည်း မာရ်နတ်သည် အမျိုးမျိုး ဖျက်ဆီးရာ ဥပဂုတ္တတိဿနာဂထေရ် (ရှင်ဥပဂုတ်) နှိမ်နင်းတော်မူမှ ပူဇော်ပွဲ အောင်မြင်ခြင်းသို့ ရောက်ခဲ့ရလေသည်။ ဤသို့လျှင် မာန်နတ်သည် မြတ်စွာဘုရားနှင့် ဘုရား သာသနာတော်တွင် ရန်သူသဖွယ်ဖြစ်ခဲ့လေသည်။

**မန်းချောင်း။** ။မန်းချောင်းသည် ဧရာဝတီမြစ်၏ လက်တက်တခုဖြစ်သည်။ ၇၈ မိုင်ရှည်လျား၍ ရှေးအခါက နမ္မဒါမြစ်ဟု ခေါ်သည်။ မင်းဘူးခရိုင် ငဖဲမြို့နယ်၏ အနောက်တောင်ဖက် ရခိုင်ရိုးမတောင်တွင် မြစ်ဖျားခံ၍ အရှေ့ဖက်သို့ စီးဆင်းကာ မင်းဘူးခရိုင်တွင်းသို့ ဖြတ်သန်း ပြီးလျှင် မင်းဘူးအထက် ၅ မိုင်ခန့်အကွာတွင် ဧရာဝတီမြစ်တွင်းသို့ စီးဝင်သည်။ တောင်ပေါ်မှ စီးဆင်းလာ၍ ဆည်တော်ရွာသို့ ရောက်သောအခါ မြေပြန့်သို့ ရောက်လာ၏။ ထိုဒေသတွင် မြစ်ဝှမ်းသည် တမိုင်ခန့် ကျယ်၍ ဧရာဝတီမြစ်နှင့် ဆုံသော နေရာတွင် ၇ မိုင်၊ ၈ မိုင်ခန့်အထိ ကျယ်သည်။ မန်း

ချောင်း၏ အောက်ခင်းသည် ကျောက်စရစ် ထူသည်။ ရေတနှစ်ပတ်လုံး အဆက်မပြတ် စီးဆင်းသည်။ သို့သော် နွေရာသီတွင် ရေအတော်နည်းသွားသည်။ မန်းချောင်းတလျှောက် နွေရာသီတွင် လှေသမ္ဗန်များ ကူးသန်းသွားလာနိုင်ခြင်းမရှိဘဲ၊ မိုးရာသီတွင်မူ အိုင်းမအထိ ကူးသန်းသွားလာနိုင်သည်။ မန်းချောင်းသည် ဆည်တော်ရွာ လွန်သည်မှစ၍ လယ်ယာ စိုက်ပျိုးရေး အလို့ငှါ ရေပေးသွင်းခြင်းအတွက် အဓိကအသုံးဝင်သည်။ ဆည်တော်မှ ဧရာဝတီမြစ်ဆုံရာသို့ အတည့်တိုင်းလျှင် မိုင် ၂၀ ရှိသည်။

မင်းဘူးခရိုင်တွင်းရှိ စက်တော်ရာစေဘီတည်ရာ တောင်ကုန်းသည် မန်းချောင်း၏ ကမ်းဘေးတွင် တည်ရှိသည်။ သို့ဖြစ်၍ ရွှေစက်တော်ကို မန်းစက်တော်ရာဟူ၍ ခေါ်သဖြင့် မန်းချောင်းသည် ထင်ရှားသည်။ (စက်တော်ရာ — ရှု။) မန်းချောင်း တလျှောက် လယ်ယာစိုက်ပျိုးရေး အလို့ငှါ ရှေးမြန်မာမင်းများ လက်ထက်ကပင် ဆည်မြောင်းများ ဖောက်လုပ်ထားခဲ့သည်။ မန်းချောင်း တူးမြောင်းစုအတွက် ရေကို အိုင်းမတွင် ချောင်းကို ကန့်လန့်ဖြတ်ကာ တည်ဆောက်ထားသော အင်္ဂတေရေလွှဲဆည်ကြီးမှရသည်။ ထိုရေလွှဲဆည်မှာ မူလက ကျောက်တုံးများဖြင့် ပြုလုပ်ထားခဲ့သော်လည်း၊ နောင်အခါ ကျောက်တုံးများဖြင့်ပြုလုပ်ထားသော အဆောက်အဦတွင် ကန်ကရစ်များ လောင်းထည့်ကာ အချောကိုင်ထား ခဲ့လေသည်။ ဆည်ထိပ်မှာ ပေ ၄၀၀ ရှည်၍၊ တူးမြောင်းတံခါးမကြီးမှသည် ချောင်းရိုးတလျှောက် ပေ ၃၀၀ ခန့်ရှည်လျားသည်။ တူးမြောင်းအတွင်း ကျောက်စရစ်များ စီးဝင်ပါလာတတ်သဖြင့် ရေစီးအားမှာ တဖြည်းဖြည်း လျော့ပါးလာသည်။ ချောင်းရေမှာလည်း မရေရာလှသဖြင့် အလှည့်ကျ ရေပေးသွင်းခြင်းပြုရလေသည်။ တူးမြောင်းများဖြင့် ရေပေးသွင်းနိုင်သောကြောင့် မန်းချောင်း၏ ကမ်းနှစ်ဖက်လုံးတွင် စပါး၊ ဝါ၊ နှမ်း၊ ပဲ၊ ကွမ်းပင် စသည်တို့ကို ကောင်းစွာ စိုက်ပျိုးနိုင်သည်။ မန်းချောင်း၏ ရေသောက်နယ်မှာ ဧက ၃၀,၀၀၀ နီးပါးရှိသည်။ မန်းချောင်း၏ ကမ်းဘေးနှစ်ဖက်တွင် ရွာပေါင်း ၅၀၊ ၆၀ မျှ ရှိပေသည်။

မင်းဘူးမြို့နှင့် ဖဲမြို့ အမည်များလည်း မန်းချောင်းကို အကြောင်းပြု၍ ဖြစ်ပေါ်လာသော အမည်များ ဖြစ်၏။ မင်းဘူးမြို့အနီးတွင် မန်းချောင်းသည် ဧရာဝတီမြစ် အတွင်း စီးဝင်ပေါင်းဆုံသောကြောင့် မန်းပူးဟု ခေါ်ရာမှ မင်းပူး၊ မင်းဘူး ဖြစ်လာသည်။ ထိုပြင် ဖဲမြို့အနီးတွင် မန်းချောင်း လွှဲဖယ် စီးဆင်းသောကြောင့် မန်းဖယ်၊ မန်းဖဲ၊ မဖဲ၊ ဖဲ ဖြစ်လာသည်ဟု ဆိုလေသည်။

**မန်းစက်တော်ရာ။** ။စက်တော်ရာ — ရှု။

**မန္တလေးခရိုင်။** ။မန္တလေး ခရိုင်သည် မြန်မာနိုင်ငံ အထက်ပိုင်း မန္တလေးတိုင်းတွင် ဖွဲ့စည်းပါဝင်၍ မြန်မာနိုင်ငံ၏ အလယ်ဗဟို အချက်အခြာ ဖြစ်သော ခရိုင် ဖြစ်သည်။ မြောက်ဖက်တွင် ရွှေဘိုခရိုင်တွင် ပါဝင်သည့် မိုးကုတ်နယ်၊ တောင်ဖက်တွင် ရှမ်းပြည်နယ်၊ ကျောက်ဆည်နှင့် စစ်ကိုင်းခရိုင်များ၊ အရှေ့ဖက်တွင် သီပေါနယ်တို့ရှိ၍ အနောက်ဖက်တွင် ဧရာဝတီမြစ်က စစ်ကိုင်း၊ ရွှေဘိုခရိုင်များမှ ပိုင်းခြားကာ နယ်နိမိတ်သတ်မှတ်ထားပေသည်။ မန္တလေးခရိုင်သည် အကျယ်အဝန်းအားဖြင့် ၂,၁၁၅ စတုရန်းမိုင်ရှိ၍ သူကြီးပိုင်နယ် ၃၀၀ ရှိသည်။ တောင်ဖက်တွင်ကျယ်ပြန့်၍ အထက်ဖက်သို့ အဖျားရှူးသွားသည်။ မန္တလေးခရိုင်သည် မြန်မာနိုင်ငံ အထက်ပိုင်း၌ လူနေအများဆုံး ခရိုင် ဖြစ်သည်။ လူမျိုးလည်းစုံပေသည်။ ၁၉၅၆ ခုနှစ် ခန့်မှန်းခြေအားဖြင့် လူဦးရေ ၄၇၇,၁၀၀ ရှိသည်။ မန္တလေးခရိုင်၏ရုံးစိုက်မြို့သည် မန္တလေးမြို့ပင်ဖြစ်၏။ (မန္တလေးမြို့ — လည်းရှု။) ခရိုင်တွင်းရှိ အခြားမြို့များမှာ မေမြို့၊ အမရပူရမြို့၊ မတ္တရာမြို့၊ စဉ့်ကူးမြို့နှင့် မြစ်ငယ်မြို့တို့ ဖြစ်ကြသည်။

မန္တလေးခရိုင်တွင် ဆိုခဲ့သည့်အတိုင်း တောင်ပိုင်းသည် မြောက်ဖက်ပိုင်းထက် ကျယ်ဝန်း၍ မြေပြန့် လွင်ပြင် ဖြစ်သည်။ လွင်ပြင်၏ အကျယ်အဝန်းသည် စတုရန်းမိုင် ၇၀၀ ခန့်ရှိ၍၊ ခရိုင်၏ ၃ ပုံ တပုံဖြစ်လျက် ဧရာဝတီမြစ်၏ အရှေ့ဖက်ကမ်းမှသည် ရှမ်းကုန်းပြင်မြင့်တိုင် ကျယ်ပြန့်သည်။ မန္တလေးခရိုင်၏ အရှေ့ဖက်နှင့် မြောက်ဖက်တွင်မူ တောင်ကုန်းနှင့် ပေ ၄,၀၀၀ ခန့်မြင့်သော ကုန်းပြင်မြင့်များရှိ၍ ရှမ်းကုန်းပြင်မြင့်၏ အစိတ်အပိုင်းတခုဖြစ်သည်။ယင်းဒေသတွင် သစ်ပင်များ ထူထပ်စွာပေါက်ရောက်သည်။ မြေပြန့်တွင်မူ မိုးမမှန်တတ်သောကြောင့် တူးမြောင်းများ၊ ကန်များမှ ရေသွင်းယူရလေသည်။ မန္တလေးခရိုင် မြောက်ဖက်တွင် မတ္တရာနယ်တွင်းရှိ မောင်းတော တောင်ကုန်းသည် ပင်လယ်ပြင်အထက် ပေ ၃,၆၃၇ ပေ မြင့်သည်။ အရှေ့ဖက် မေမြို့နယ်ရှိ တောင်များသည် ပေ ၄,၀၀၀ ကျော် ၅,၀၀၀ နီးပါးထိ မြင့်သည်။ ခရိုင်တွင်းမှ အခြား ထင်ရှားသည့် တောင်တို့မှာမတ္တရာနယ်တွင်းရှိ၍ ၇၀၇ ပေမြင့်သော စကျင်တောင်၊ ပေ ၁,၀၀၀ ကျော်မြင့်သော ရွှေတောင်ဦးတောင်၊ မန္တလေးနယ်တွင်းရှိ မန္တလေးတောင်၊ အမရပူရနယ်တွင်ရှိ၍ ပေ ၇၀၀ ခန့်မြင့်သော ရန်ကင်းတောင်တို့ ဖြစ်၏။

မန္တလေးခရိုင်ကို ဖြတ်၍စီးသောမြစ်များမှာ ဧရာဝတီမြစ်နှင့် ယင်း၏ လက်တက်များ ဖြစ်သော မြစ်ငယ်နှင့် မတ္တရာမြစ် (ချောင်းမကြီး) များ ဖြစ်သည်။ ဧရာဝတီမြစ်သည် မန္တလေးခရိုင်၏ အနောက်ဖက် နယ်နိမိတ် တလျှောက် မြောက်ဖက်မှ တောင်ဖက်သို့ ၇၅ မိုင်ခန့် ဖြတ်စီးသည်။ သင်္ဘောကြီးငယ် အမြဲမပြတ် စုန်ဆန် သွားလာ နိုင်သည်။

မြစ်ထဲတွင် မြေနုကျွန်းများရှိ၍ ထိုကျွန်းများသည် မကြာခဏ နေရာရွှေ့တတ်သည်။ ဒုဋ္ဌဝတီ ဟူ၍လည်း ခေါ်သော မြစ်ငယ်မြစ်သည် ရှမ်းပြည်မှ စီးဆင်းလာ၍ မန္တလေးမြို့အောက်ဖက်တွင် ဧရာဝတီမြစ်ထဲသို့ စီးဝင်သည်။ (မြစ်ငယ်မြစ် — လည်းရှု။) ချောင်းမကြီးဟူ၍လည်းခေါ်သော မတ္တရာမြစ် (ရှမ်းပြည်တွင် နမ့်ပယ် ဟုလည်း ခေါ်သည်။) သည် ရှမ်းပြည်နယ်၌ မြစ်ဖျားခံ၍ မန္တလေးအထက် ၂၅ မိုင် ဝေးသော နေရာ၌ ဧရာဝတီမြစ်နှင့် ပေါင်းဆုံသည်။ ဧရာဝတီနှင့် စကားပင် အကြား မိုင် ၂၀ မျှ အထိ လှေငယ်များ ကူးသန်း သွားလာနိုင်သည်။ လယ်ယာ စိုက်ပျိုးရေးအတွက် ဤချောင်းမှ ရေကို တူးမြောင်းဖြင့် သွယ်ယူရရှိသည်။ အရေးပါသော တူးမြောင်းများကား ရွှေလောင်းတူးမြောင်း၊ ရွှေတချောင်း တူးမြောင်း၊ ဒင်္ဂါးတူးမြောင်းတို့ ဖြစ်လျက် မင်းတုန်းမင်းတရားကြီး လက်ထက်က တူးခဲ့သော တူးမြောင်းများဖြစ်၍ အလျား မိုင် ၃၀၊ ၂၆ မိုင်၊ ၁၃ မိုင် အသီးအသီးရှိသည်။ ထိုပြင် ဧရာဝတီမြစ်နှင့် ဆက်သွယ်လျက်ရှိသော မြစ်တိမ်နှင့် သင်္ဘော ချောင်းများလည်း ရှိပေသေးသည်။ ဤသည်တို့အပြင် မိုးရာသီ၌ ရေများ သိုလှောင်ထားရန် မန္တလေး အရှေ့ဖက်တွင် အောင်ပင်လယ်ကန်၊ အရှေ့မြောက်ဖက်ယွန်းယွန်း ၂၁ မိုင်ခန့် အကွာတွင် နန္ဒာကန်နှင့် အမရပူရမြို့အနီးတွင် တောင်သမန် အင်းများ ရှိသည်။ ယခုအခါ မန္တလေးတူးမြောင်းကို ဖောက်ထားပြီ



မန္တလေးခရိုင်၏ ရုံးစိုက်မြို့ဖြစ်သော မန္တလေးမြို့ကြီးအား နန်းမြို့နှင့်တကွ ကောင်းကင်မှ ဤသို့ ရှုမြင်ရသည်။

ဖြစ်၍ အောင်ပင်လယ်နှင့် နန္ဒာကန်တဝိုက် နေရာများတွင် စပါး စိုက်ပျိုးကြသည်။

မန္တလေးခရိုင်၏ ရာသီဥတုမှာ ပူပြင်းခြောက်သွေ့၍ မိုး နည်းပါးသည်။ မေမြို့နယ်မှာ ရှမ်းကုန်းပြင်မြင့်ပေါ်၌ တည် ရှိနေသဖြင့် အပူရှိန် လျော့ပါးသည်။ တောင်ကုန်းများ ဖက်တွင် မြေပြန့်မှာထက် ပို၍လည်း မိုးရွာသည်။ မြေပြန့် တွင် မိုးရေချိန်လက်မ ၃၀ မှ ၄၀ အထိသာ ရွာသွန်းသည်။

မန္တလေးခရိုင်မှ ထွက်သော ပစ္စည်းများကား စုံလှပေ သည်။ တူးမြောင်းများဖြင့် ဆန်စပါး စိုက်ပျိုး ရရှိသည်။ ထိုပြင် မတ္တရာမှ သရက်၊ နာနတ်၊ ရှောက်၊ ကွမ်းသီးစသော သီးနှံများ၊ မေမြို့နယ်မှ ပန်းများနှင့် ခရမ်းချဉ်၊ ပန်းမုန် လာ၊ ဂေါ်ဘီထုပ်၊ စထရော်ဗယ်ရီ စသော အာဟာရဖြစ် သည့် ဟင်းသီးဟင်းရွက်များ၊ အမရပူရနယ်မှ ပိုးထည်များ နှင့် ကြေးမောင်း၊ လင်းကွင်းစသည့် ကြေးထည်များ၊ ကြေး ရုပ်တု၊ ဆင်းတုများ ရရှိသည်။ မတ္တရာနယ် စကျင်တောင်မှ စကျင်ကျောက်ဖြင့် ကျောက်ဆင်းတုများကို ပြုလုပ်သည်။ မြန်မာနိုင်ငံ အရပ်ရပ်မှ လူအပေါင်းတို့သည် ရှေးမြန်မာ သုံး ပစ္စည်းအမျိုးမျိုးကို လိုအပ်ပါက မန္တလေးမှ မှာယူ ရရှိသည်ဖြစ်၏။ မန္တလေးခရိုင်သည် မြန်မာတို့၏ ယဉ်ကျေး မှု စုဝေးရာ ဒေသဖြစ်၏။

မန္တလေး ခရိုင်သည် လမ်းပန်း ဆက်သွယ်ရေး ကောင်း မွန်သည်။ ဧရာဝတီ မြစ်ကြောင်းအားဖြင့် မီးသင်္ဘောများ အထက်အောက် စုန်ဆန်နိုင်သကဲ့သို့ မီးရထား လမ်းဖြင့် လည်း လွယ်ကူစွာ သွားရောက်နိုင်သည်။ မော်တော်ကား လမ်းများလည်းရှိသည်။ မန္တလေးမြို့နှင့် မေမြို့(အနီးစခန်း) တို့တွင် လေယာဉ်ကွင်းများ ရှိသဖြင့် မြန်မာနိုင်ငံ တဝှန်း လုံးသို့ ခရီးလမ်း မခက်ခဲလှချေ။ လမ်းပန်း ဆက်သွယ်ရေး ကောင်းသည့်အလျောက် ရောင်းရေးဝယ်တာ ဖွံ့ဖြိုးသော ခရိုင်တခုဖြစ်လေသည်။

မန္တလေး ခရိုင်သည်ကား မြန်မာမင်းတို့ ဘုန်း တန်ခိုး ထွန်းတောက်ရာ အရပ်ဖြစ်ခဲ့သည်နှင့်အညီ ခရိုင်တွင်း၌ ထင် ရှား ကျော်စောသည့် ဘုရားပုထိုး စေတီများသာမက ထင်ရှားသော အဆောက်အအုံ များစွာရှိသည်။ အထူး သဖြင့် မန္တလေးမြို့တွင် စုဝေးလျက်ရှိသည်။ (မန္တလေး မြို့ — ရှု။) မတ္တရာမြို့နယ် တောင်ပြုံးတွင် အနော်ရထာ မင်းစော တည်ခဲ့သော ဆုတောင်းပြည့် ဘုရား၌ ယခုတိုင် အုတ်နှစ်ချပ် လပ်နေသည်ကို တွေ့နိုင်ပေသည်။ ထိုပြင် မင်းတုန်းမင်းတရားကြီး၏ ဆုတောင်းရစေတီလည်း ရှိသေး သည်။ အမရပူရတွင် ရွှေကြက်ယက်ဘုရားရှိသည်။ မြစ် ငယ်မြစ်၏ မြောက်ဖက်ကမ်းပေါ်တွင် အနော်ရထာမင်း စော၏ မိဖုရား စောမွန်လှတည်ခဲ့သော ရွှေစာရံဘုရားမှာ လည်း တန်ခိုးကြီးမား ထူးခြားလျက် နှစ်စဉ်တပေါင်းလတွင် ဘုရားပွဲတော် ကျင်းပသည်။ ဘုရားပွဲတော် ကျင်းပချိန် တွင် ငါးများ ကမ်းဘေးသို့ပေါ်လာ၍ ဘုရားဖူးများလက်မှ အစားအစာကို ယူစားရုံမက ဘုရားဖူးများက ခေါင်းတွင် ရွှေချပေးသည်ကို ခံကြ၏။ ထိုပြင် ရွှေစာရံဘုရားတွင် ဘင်သောဆွမ်းများကို ပရွက်ဆိတ်လည်းမတက်၊ ကျီးလည်း မစား ဟူ၏။ ဘုရားပရဝုဏ်အတွင်း၌ ပရွက်ဆိတ်နှင့် ကျီး များကို မတွေ့ရချေ။

မင်းတုန်းမင်းတရားကြီး သတ်မှတ်ခဲ့သော မန္တလေးနယ် မြေမှာ ရွှေကြိုးသတ် နယ်မြေဟု ခေါ်တွင်လျက် အရှေ့သို့ လားသော် နတ်ထိပ်တောင်ရိုး၊ တောင်ဖက်သို့ လားသော် ဒုဋ္ဌဝတီခေါ် မြစ်ငယ်မြစ်၊ အနောက်သို့လားသော် ဧရာ ဝတီမြစ်၊ မြောက်ဖက်သို့လားသော် မတ္တရာမြစ်တို့ ဖြစ်ကြ လေသည်။

မန္တလေးခရိုင်ကို မန္တလေးအနောက်ပိုင်းနယ်၊ မန္တလေး အရှေ့ပိုင်းနယ် (အမရပူရနယ်)၊ မတ္တရာနယ်နှင့် မေမြို့နယ် ဟူ၍ ခွဲခြားထားလေသည်။

**မန္တလေးတက္ကသိုလ်။** ။မန္တလေး တက္ကသိုလ်သည် မန္တ လေးမြို့ တောင်ဖက် မင်္ဂလာလမ်းထိပ်တွင် တည်ရှိသည်။ တက္ကသိုလ် နယ်မြေ အကျယ်အဝန်းမှာ ဧက ၃၀၀ မျှ ဖြစ် သည်။ ကျယ်ဝန်း၍ သာယာ စိုပြည်သော ရပ်ကွက်တွင် တည်ရှိသည်။

၁၉၂၅ ခုနှစ် ဇူလိုင်လ ၄ ရက်နေ့တွင် မန္တလေး ဥပစာ ကောလိပ်ကို စတင်ဖွင့်လှစ်ခဲ့သည်။ ဖွင့်လှစ်ချိန်၌ ကျောင်း သားဦးရေ ၃၀ ယောက်သာ ရှိသည်။ ကျောင်းအုပ်ကြီး မှာ မစ္စတာ အယ် ထင်စီ (မဟာဝိဇ္ဇာ) ဖြစ်သည်။

ဒုတိယ ကမ္ဘာစစ်ကြီး အပြီးတွင် ၁၉၄၇ ခုနှစ် ဇွန်လ ၁၇ ရက်နေ့မှ အစပြု၍ ပြန်လည် ဖွင့်လှစ်နိုင်ခဲ့သည်။ စိုက်ပျိုး ရေး ကောလိပ် အပါအဝင် ကျောင်းသားဦးရေ ၁၂၉ ယောက် ရှိသည်။ ၁၉၄၇ ခုနှစ် ဇွန်လမှစ၍ ဥပစာကောလိပ် အဆင့်အတန်းမှ ဝိဇ္ဇာဘွဲ့၊ သိပ္ပံဘွဲ့ သင်တန်း ပို့ချနိုင်သော ဒီဂရီ ကောလိပ် အဆင့်အတန်းသို့ ရောက်ခဲ့သည်။ ထို အချိန်၌ ကျောင်းသားဦးရေ ၂၀၂ ယောက် ရှိသည်။ ကော လိပ်ကျောင်းအုပ်ကြီးမှာ ဦးကိုလေး အမ်၊ အက်စီ (လန် ဒန်) ဖြစ်သည်။

၁၉၅၈ ခုနှစ် ဇွန်လ ၁ ရက်နေ့မှ အစပြု၍ သီးခြား တက္က သိုလ် ဖြစ်ခဲ့သည်။ သီးခြားတက္ကသိုလ်မဖြစ်မီ အချိန်က ပင် မန္တလေး၌ ရန်ကုန် တက္ကသိုလ် လက်အောက်ခံ စိုက်ပျိုး ရေး ကောလိပ်နှင့် ဆေးအတတ်သင် ကောလိပ်များ ရှိခဲ့ သည်။ ဆေးကောလိပ်ကို ၁၉၅၄ — ၅၅ ခုနှစ်မှ အစပြု၍ တည်ထောင် ဖွင့်လှစ်ခဲ့သည်။ စိုက်ပျိုးရေး ကောလိပ်မှာ မူ စစ်မဖြစ်ခင်ကပင် တည်ရှိခဲ့သည်။ သီးခြား တက္ကသိုလ်

ဖြစ်လာသောအခါ မန္တလေးတက္ကသိုလ်၌ စိုက်ပျိုးရေးမဟာဌာန၊ ဆေးအတတ်သင် မဟာဌာန၊ ဝိဇ္ဇာမဟာဌာနနှင့် သိပ္ပံမဟာဌာနဟူ၍ မဟာဌာန ၄ ခု ရှိသည်။ မကွေး ဥပစာကောလိပ်သည် ယခင်က ရန်ကုန်တက္ကသိုလ်လက်အောက်၌ တည်ရှိ၍ မန္တလေးတက္ကသိုလ် ဖြစ်လာသောအခါ မန္တလေးတက္ကသိုလ်လက်အောက်သို့ ၁၉၅၈ ခုနှစ် ဇွန်လ ၁ ရက်နေ့မှ စတင် ရောက်လာသည်။

၁၉၆၁ ခုနှစ် ဇွန်လ ၁၅ ရက်နေ့တွင် တောင်ကြီး၌ မန္တလေး တက္ကသိုလ် လက်အောက်ခံ ဥပစာကောလိပ်ကျောင်း တကျောင်းကို ဖွင့်လှစ်ခဲ့သည်။

မန္တလေးတက္ကသိုလ် အကြီးအကဲမှာ ရန်ကုန်တက္ကသိုလ်ကဲ့သို့ ပါမောက္ခချုပ် မဟုတ်ဘဲ ဒုတိယအဓိပတိ ဖြစ်သည်။ တက္ကသိုလ်ဖြစ်ခါစ ဒုတိယ အဓိပတိမှာ ဦးကိုလေးဖြစ်၍ ၁၉၆၁ ခုနှစ် ဖေဖွာရီလ ၁ ရက်နေ့မှစ၍ တက္ကသိုလ် ဒုတိယ အဓိပတိမှာ ဝဏ္ဏကျော်ထင် ဦးဘစိန်ဖြစ်သည်။

တက္ကသိုလ်ဖြစ်ပြီးသည်မှစ၍ ၁၉၆၀ – ၆၁ ခုနှစ် အထိ၊ ဘွဲ့ပေးပြီးခဲ့သော ကျောင်းသားဦးရေမှာ၊ ဝိဇ္ဇာဘွဲ့ရ ၁၈၇ ယောက်၊ သိပ္ပံဘွဲ့ရ ၁၀၅ ယောက်၊ ဝါဏိဇ္ဇဝိဇ္ဇာဘွဲ့ရ ၈ ယောက်၊ ဝိဇ္ဇာ (ဂုဏ်ထူး) ဘွဲ့ရ ၉ ယောက်၊ သိပ္ပံ (ဂုဏ်ထူး) ဘွဲ့ရ ၉ ယောက်၊ ဆေးသိပ္ပံဘွဲ့ရ ၄ ယောက်၊ စိုက်ပျိုးရေး သိပ္ပံဘွဲ့ရ ၃၈ ယောက်၊ ပိုးမွေးမြူရေး သိပ္ပံဘွဲ့ရ ၅ ယောက်၊ အသုံးချ ဓာတုဗေဒ သိပ္ပံဘွဲ့ရ ၃ ယောက်၊ စုစုပေါင်း ၃၆၈ ယောက်ဖြစ်သည်။

၁၉၆၁ – ၆၂ စာသင်နှစ်တွင် မန္တလေး တက္ကသိုလ်၌ သင်ကြားနေကြသည့် ကျောင်းသား ကျောင်းသူ ဦးရေမှာ အောက်ပါအတိုင်း ဖြစ်သည်။

မန္တလေး ပင်ရင်းတက္ကသိုလ်တွင် ၂,၇၂၅ ယောက်၊ စိုက်ပျိုးရေး ကောလိပ် ၆၁ ယောက်၊ ဆေးကောလိပ် ၂၁၅ ယောက်၊ မကွေး ဥပစာ ကောလိပ် ၅၅၃ ယောက်၊ တောင်ကြီး ဥပစာကောလိပ် ၁၀၉ ယောက်၊ စုစုပေါင်း ၃,၇၆၃ ယောက် ဖြစ်သည်။

၁၉၆၂ – ၆၃ ခုနှစ်တွင် ဥပဒေ မဟာဌာနကို ဖွင့်လှစ်သင်ကြားပေးရန် အစီအစဉ် ပြုလုပ်ပြီးဖြစ်သည်။

၁၉၆၁ – ၆၂ ခုနှစ် အထိ မိန်းကလေးကျောင်းဆောင် ၂ ခု၊ ယောကျ်ားကလေး ကျောင်းဆောင် ၃ ခု နှင့် စာသင်ခန်းဆောင် ၃ ခုသာ ရှိသည်။ မလုံလောက်သေး၍ တိုးချဲ့ ဆောက်လုပ်ရန် စီစဉ်ဆဲ ဖြစ်သည်။ နိုင်ငံတော်အစိုးရ ဒုတိယ ၄ နှစ် စီမံကိန်းတွင် ဘွဲ့နှင်းသဘင် အဆောက်အအုံ ၁ ခု၊ စာသင်ခန်း အဆောက်အအုံ ၁ ခု၊ ပိဋကတ်တိုက် ၁ ခု၊ အားကစားရုံ ၁ ခုနှင့် ဆရာဆရာမများ နေအိမ်၊ အလုပ်သမား တန်းလျားများ တက္ကသိုလ်ဝင်းတွင် ဆောက်လုပ်ရန် စီစဉ်ပြီး ဖြစ်သည်။ တောင်ကြီး ဥပစာ ကောလိပ်



၁၉၅၈ ခုနှစ် ဇွန်လ ၁ ရက်နေ့မှအစပြု၍ သီးခြား တက္ကသိုလ် ဖြစ်ခဲ့သော မန္တလေးတက္ကသိုလ်

အဆောက်အအုံများကို ဆောက်လုပ်ရန် စီစဉ်ဆဲဖြစ်သည်။ ဖွင့်လှစ်ရန် စီမံထားသော မြစ်ကြီးနား ဥပစာကောလိပ် အဆောက်အအုံများ အတွက်ကိုလည်း စီစဉ်ထားသည်။ ၁၉၅၈ ခုနှစ်မှ အစပြု၍ တက္ကသိုလ် ဖြစ်လာသဖြင့် လိုအပ်သော အဆောက်အအုံများ ယခုမှ တိုးချဲ့ဆောက်လုပ်နေရခြင်း ဖြစ်သည်။

တက္ကသိုလ် ကျောင်းသား ကျောင်းသူများမှာ အများအားဖြင့် အထက် မြန်မာနိုင်ငံဒေသမှ ဖြစ်ကြသည်။

မန္တလေးမြို့၌ တည်ရှိသော တက္ကသိုလ် ဖြစ်သည့်အားလျော်စွာ မြန်မာတို့၏ ပျောက်ကွယ်လုမတတ် ဖြစ်သော ဓလေ့ထုံးစံ၊ မြန်မာ့ယဉ်ကျေးမှု၊ မြန်မာတို့၏ အနုပညာ စာပေ ဗုဒ္ဓကျမ်းစာ စသည်တို့ကို တစတစ ပြန်လည် ထုတ်ဖော်ပေးနေသော တက္ကသိုလ် အဆင့်အတန်းသို့ ရောက်အောင် တဖြည်းဖြည်း ဆောင်ရွက်လျက် ရှိသည်။

ဦးဘစိန်

**မန္တလေးမြို့။** ။မန္တလေးမြို့သည် လွန်ခဲ့သည့် နှစ်ပေါင်း ၁၀၀ ကျော်က မြန်မာဘုရင် မင်းတုန်းမင်းတရား တည်တော်မူခဲ့သော ရတနာပုံ နေပြည်တော်ဖြစ်၍ ယခုအခါ မြန်မာနိုင်ငံ အထက်ပိုင်း မန္တလေးတိုင်း၊ မန္တလေးခရိုင်တို့၏ ရုံးစိုက်မြို့ ဖြစ်သည်။ ရန်ကုန်မြို့ပြီးနောက် ဒုတိယလိုက်သော မြို့ဖြစ်၏။ မြန်မာနိုင်ငံ၏ အလယ်ဗဟိုတွင် တည်ရှိသကဲ့သို့ပင် မြန်မာ့ယဉ်ကျေးမှုတို့ စုဝေးရာ အချက်အခြာဒေသလည်း ဖြစ်ပေသည်။ မန္တလေးမြို့သည် ခေတ် ၃ ခေတ်ပြောင်းခဲ့ပေပြီ။ သို့သော် ထင်ရှားလျက်ပင် ရှိပေသေးသည်။ နှစ် ၁၀၀ အတောအတွင်းဝယ် မန္တလေးမြို့တွင် ဒုတိယကမ္ဘာစစ်ဒဏ်ကို ခံရသောကြောင့် အပျက်အစီးရှိခဲ့သော်လည်း အသစ် ပြန်လည်ပျိုးထောင်နိုင်ခဲ့ပေသည်။ နောက်ဆုံး မြန်မာမင်း ၂ ပါး စံမြန်းတော်မူခဲ့သော နန်းတော်ကြီးကား ယခုအခါ မရှိတော့ပြီဖြစ်သော်လည်း မြို့ရိုး၊ ကျုံးနှင့် ဘုရားစေတီ ဂူပုထိုး အများအပြားပင် ရှိပေသေးသည်။ ထို့ကြောင့် မန္တလေးသည် အဟောင်းနှင့်အသစ် ရောပြွမ်းလျက်ရှိကာ မန္တလေးကို ရောက်သူတိုင်း ရှေးဖြစ်ဟောင်းမအောက်မေ့ဘဲ မနေနိုင်တော့ပေ။

မန္တလေးမြို့သည် ဧရာဝတီမြစ်၏ လက်ဝဲဖက်ဖြစ်သော အရှေ့ဖက် ကမ်းပေါ်တွင် တည်ရှိ၍ ဧရာဝတီမြစ်နှင့် ရှမ်းကုန်းပြင်မြင့်၏ အကြား အနံ ဂ မိုင်ရှိသော မြေပြန့်၏ တစိတ်တပိုင်းတွင် တည်ရှိသည်။ မြေပြန့်ဟု ဆိုရသော်လည်း မြောက်ဖက်တွင် ၉၅၄ ပေမြင့်သော တောင်တလုံးရှိ၍ ထိုတောင်မှာ မန္တလေးတောင်ဟု တွင်သည်။ မန္တလေးတောင်၏ အနောက်တောင်ဖက် ၁ မိုင်ခွဲ အလွန်တွင် မင်းတုန်းမင်း တည်ခဲ့သော မြို့ရိုးနှင့် ကျုံးတို့ကို တွေ့နိုင်ပေ



မန္တလေးမြို့တွင် မင်းတုန်းမင်း တည်ခဲ့သော မြို့ရိုးနှင့်ကျုံးတို့ကို ဤသို့ နန်းမြို့ပြင်မှ ရှုမြင်နိုင်သည်။



ဒုတိယ ကမ္ဘာစစ်ဒဏ်ကြောင့် ပျက်စီးသွားသော မန္တလေးမြို့ရိုးကြီးကို တော်လှန်ရေးအစိုးရလက်ထက်တွင် ဤသို့ မွမ်းမံပြင်ဆင်ခဲ့သည်။

သည်။ ယခုအခါ အနောက်နန်း၏ နေရာဟောင်း နေရာတွင် နန်းတော်၏ ပုံစံအတိုင်း ပြုလုပ်ထားသော နန်းတော်ပုံစံကိုသာ မြင်နိုင်ပေတော့သည်။ မြို့ရိုးပတ်လည်သည် ၆ မိုင်ခန့် ရှိသည်။ မန္တလေးမြို့သည် အကျယ်အဝန်းအားဖြင့် ၂၅ စတုရန်းမိုင် ရှိ၍ လူဦးရေမှာ ၁၉၆၃ ခုနှစ်တွင် ခန့်မှန်းခြေ ၂၁၅,၄၂၆ ယောက်ခန့်ရှိသည်။ မျူနီစီပယ်ရပ်ကွက် ၃၈၊ အိမ်ခြေပေါင်း ၃၅,၀၀၀ ခန့်ရှိ၏။ ရန်ကုန်မြို့ကဲ့သို့ပင် လူမျိုးပေါင်းစုံသောမြို့ဖြစ်၏။ ရာသီဥတုမှာ ပူအိုက်ခြောက်သွေ့၍ ဖုံထူသည်။

ချမ်းမြသာစည် လေယာဉ်ကွင်းသို့ လေယာဉ်ပျံမသက်ဆင်းမီ လေယာဉ်ပေါ်မှ ကြည့်ပါက နန်းတော် မြို့ရိုး၏ အနောက်ဖက်နှင့် တောင်ဖက်တို့တွင် လေးထောင့်ကွက်တုံးကြီးများ ညီညီညာညာ ချထားသော ဝင်းကြီးများအသွင် မြို့ကြီး တည်ရှိနေသည်ကို တွေ့ရပေမည်။ မန္တလေးမြို့ရှိ လမ်းများသည် တည့်တည့် ဖြောင့်ဖြောင့်နှင့် ထောင့်မှန်ချိုးသည်။ လမ်းတလျှောက်တွင်လည်း အရိပ်ကောင်းသည့် မန်ကျည်းပင်များကို တွေ့ရပေမည်။ လမ်းကျယ်လမ်းမများကို အေလမ်း၊ ဘီလမ်း၊ စီလမ်း၊ ဒီလမ်း စသည်ဖြင့် အမည်ပေးကာ တောင်မှမြောက်သို့ ဖြတ်သောလမ်းများကိုမူ ဂဏန်း သင်္ကေတများပေး၍ ခေါ်သည်။ မန္တလေးမြို့သည် သေသေသပ်သပ် ညီညီညာညာ အကွက်ချ၍ တည်ထားသော မြို့ဖြစ်၏။ ခမ်းနားသော တိုက်ကြီး အိမ်ကြီးများစွာ ရှိပေသည်။ တိုင်း၊ ခရိုင်ဆိုင်ရာ ရုံးကြီးများ၊ မျူနီစီပယ်ရုံး၊ မီးသတ်ဌာန၊ အာဇာနည်ကုန်း၊ ဆေးရုံကြီး၊ စာတိုက်၊ မီးရထား ဘူတာရုံ၊ ဈေးချိုတော်နှင့် အခြား ဈေးများ၊ တက္ကသိုလ်၊ ဆေးကောလိပ်၊ စိုက်ပျိုးရေးကောလိပ်၊ အနုပညာ ပန်တျာကျောင်းနှင့် စာသင်ကျောင်းများ၊ ဘောလုံးကွင်း၊ ဂေါက်သီးကစားကွင်း၊ မြင်းပြိုင်ကွင်း၊ လေယာဉ်ကွင်း၊ သဘော်ဆိပ်တို့ အပြင် အဆူဆူသောစေတီပုထိုးများနှင့် မရေမတွက်နိုင်အောင် များပြားသော ဘုန်းကြီးကျောင်းများ ရှိပေသည်။ ပျော်ပွဲရှင်ပွဲအတွက် ရုပ်ရှင်ရုံများ၊ စားသောက်ဆိုင်ကြီးများလည်း ရှိ၏။

အရောင်းအဝယ် စည်ကားသော ရပ်ကွက်များမှာ မြို့၏ အနောက်ပိုင်းတွင်ရှိသည်။ အရှေ့ကျုံးထိပ်တန်းမှအနောက်ရှေ့တချောင်းအရောက် အာဠဝီ စီလမ်း ဝဲယာတလျှောက်၊ မြောက် ၂၄ လမ်းမှ တောင် ရွှာဟိုင်းဈေးတောင်ဖျားအရောက် ၈၄ လမ်း တလျှောက်၊ ဈေးချိုကို ဗဟိုပြု၍ အရှေ့ ၃ ပြ၊ အနောက် ၂ ပြပတ်လည် ရပ်ကွက်များနှင့် ရှမ်းပွဲလမ်းတလျှောက်တို့မှာ ကူးသန်းရောင်းဝယ်ရေးပြုလုပ်ရာ စီးပွားရေးရပ်ကွက်များ ဖြစ်လေသည်။ ထိုပြင် နန်းတော်ရှေ့ဈေး၊ မင်္ဂလာဈေး၊ သူရဲဈေး၊ စိန်ပန်းဂွမ်းရုံဈေး တဝိုက်များလည်း အရောင်းအဝယ်ပြုရာ စီးပွားရေး ရပ်ကွက်များဟု သတ်မှတ်ထားရပေသည်။ သို့သော် မကျယ်ပြန့်လှချေ။ ဈေးချိုဗဟိုပြုထားသော ချမ်းသာဇံ ရပ်ကွက်သာလျှင် တရပ်ကွက်လုံး ကူးသန်းရောင်းဝယ်ရေးပြုရာဖြစ်၍ စီးပွားရေးရပ်ကွက်များတွင် အကျယ်ပြန့်ဆုံး ဖြစ်လေသည်။ ဈေးချိုတော်၊ မင်္ဂလာဈေး၊ ရွှာဟိုင်းဈေး စသည့်ဈေးကြီးများအနက် ဈေးချိုတော်မှာ မြို့၏အလယ်၌ တည်

ရှိကာ မြန်မာပြည် တလွှားတွင် ထင်ရှားသော ဈေးကြီး တခု ဖြစ်၏။ ဈေးချိုတော်ကို ခရစ် ၁၉၀၃ ခုနှစ်က တည်ဆောက်၍ မန္တလေးမျူနီစီပယ်၏ ပဌမဆုံး စက္ကရီတေရီဖြစ်သူ ဂ္ဂတာလျံလူမျိုး ကောင့်ကယ်လဒရာရီက ပုံစံဆွဲပေးသည်။ ဈေးချိုတော်တွင်း၌ မြန်မာနိုင်ငံအရပ်ရပ်မှ ကုန်ပစ္စည်း မျိုးစုံကို ဝယ်ယူနိုင်ကာ ရှမ်းပြည်နယ်၊ ကချင်ပြည်နယ် စသည့် ပြည်နယ်များမှ တိုင်းရင်းသားများကိုလည်း တွေ့နိုင်ပေသည်။ အထက် ခရိုင်နယ်ပယ်များတွင် နေထိုင်သူတို့သည် မိမိတို့လိုအပ်သော ပစ္စည်းများကို မန္တလေးသို့ဆင်း၍ ဝယ်ကြသကဲ့သို့ ရန်ကုန်တွင် နေထိုင်သူတို့ကလည်း ရှေးမြန်မာဆန်ဆန် အသုံးအဆောင် ပစ္စည်းများကို လိုအပ်ပါက မန္တလေးမှ ဝယ်ယူ ကြလေသည်။ မန္တလေးမြို့သည် မန္တလေးအနီးရှိ အမရပူရမှ ပိုးထည်အမျိုးမျိုး၊ ကြေးထည်အမျိုးမျိုး၊မေမြို့မှ သီးနှံဟင်းသီးဟင်းရွက်နှင့် ပန်းများ၊ မတ္တရာမှ သီးနှံများ၊ ပတ်ဝန်းကျင်ရှိ ခရိုင်များမှထွက်သော ကုန်အမျိုးမျိုးရောင်းချရာ ဗဟိုဈေးလည်းဖြစ်၏။ မန္တလေးတွင် များလှစွာသော လုပ်ငန်းများအနက် ရှေးဟောင်း လုပ်ငန်းနှစ်ခုဖြစ်သော ကျောက်ဆင်းတု ထုလုပ်သည့် ကျောက်ဆစ်လုပ်ငန်းနှင့် ဘုရားတွင်ချသော ရွှေဆိုင်းများခတ်ခြင်း လုပ်ငန်းတို့မှာ ထူးခြား၍ စိတ်ဝင်စားဖွယ်ကောင်း၏။မန္တလေးမြို့ အနောက်ပြင် ကျောက်ဆစ်တန်းအရပ်၌ ကျောက်ဆင်းတုများကိုထုလုပ်ကြ၏။ ရွှေဆိုင်းလုပ်ငန်းကို မန္တလေးမြို့ မြက်ပါးရပ်တွင် ပြုလုပ်ကြသည်။ ထိုအရပ်၏ အဓိကလုပ်ငန်းတရပ်လည်း ဖြစ်ပေသည်။

မန္တလေးမြို့သည် မြန်မာနိုင်ငံ၏ အလယ်ဗဟိုတွင် တည်ရှိရာ လမ်းပန်း ဆက်သွယ်ရေး ကောင်းမွန်လှပေသည်။ မြန်မာနိုင်ငံရှိ မြို့ကြီးများသို့ ရေကြောင်း၊ လေကြောင်း၊ မီးရထားလမ်း၊ ကားလမ်း များစွာ ရှိသောကြောင့် စီးပွားရေးဖွံ့ဖြိုးကာ စည်ကားလှပေသည်။

ရှေးမြန်မာမင်းများ တည်ထား ကိုးကွယ်ခဲ့သည့် ဘုရားအဆူဆူအနက် ထင်ရှားသည်တို့ကား ယခုတိုင် ကြည်ညိုဖွယ် တည်ရှိလေသည်။ မြို့၏ တောင်ဖက်တွင် ရခိုင်ပြည်မှ ပင့်ဆောင်လာသော မဟာမုနိဘုရားကြီးရှိ၍ ဈေးချိုတော်၏ အနောက်တောင်ဖက် ၇၅ လမ်းတွင် (အနောက်ပြင် အောင်နန်းရိပ်သာရပ်)မဟာသကျသီဟ ဘုရားရှိ၏။ ယင်းဘုရားတွင်ရှိသော ပဉ္စလောဟာဆင်းတုတော်ကြီးမှာဘကြီးတော်ဘုရား၏ အမိန့်တော်ဖြင့် သွန်းလုပ်သော ဆင်းတုတော်ဖြစ်၏။ မဟာသကျသီဟဘုရား၏ မြောင်ဖက်ယွန်းယွန်း ဈေးချိုတော်၏ အနောက်ဖက်တွင် မဟာလောကရံသီ အိမ်တော်ရာ စေတီရှိသည်။ မန္တလေး မြို့လယ်တွင် အလောင်းစည်သူမင်း၏ သားတော် မင်းရှင်စော တည်သည့် ရွှေကျီးမြင့်ဘုရားရှိသည်။ မြို့တွင်းရှိ ဘုရားစေတီများအပြင်



မန္တလေးမြို့ မြောက်ဖက်၌ အထီးတည်း တည်ရှိသော တောင်ထူးတောင်မြတ်ဖြစ်သည့် မန္တလေးတောင်



မန္တလေးနန်းတော်တွင်းရှိ မြေနန်းပြာသာဒ်

ထင်ရှားသော အခြားဘုရားစေတီတို့ကား မန္တလေးတောင်တော်ခြေရင်းရှိ ဘုရားများပင်တည်း။ မန္တလေးတောင်၏ တောင်ဖက်စောင်းတန်းအနီးတွင် မင်းတုန်းမင်းတရားတည်သော ကျောက်တော်ကြီး ဘုရားရှိ၏။ (ကျောက်တော်ကြီးဘုရား — ရှု။) အရှေ့ယွန်းယွန်းတွင် စန္ဒာမုနိဘုရား ရှိသည်။ ဘိုးတော်ဘုရား၏ ကောင်းမှုတော်ဖြစ်သော စန္ဒာမုနိရုပ်ပွားတော်ကို အမရပူရမြို့ဟောင်းမှ ပင့်ဆောင်၍ မန္တလေးတောင်အနီး နန်းမြေဘုံသာစံ နန်းတော်ရာတွင် ကိန်းဝပ်ရန် အာရုံခံပြာသာဒ် မဟာရာမ်တံတိုင်းနှင့်တကွ မင်းတုန်းမင်းတရား တည်ထား ကိုးကွယ်တော်မူခဲ့သည်။ အနီးတွင် မင်းတုန်းမင်း၏ ကောင်းမှုတော်ပင် ဖြစ်သော ကုသိုလ်တော်ဘုရားကို ဖူးတွေ့ရပေသည်။ မဟာလောကမာရဇိန်စေတီတော်ဟူ၍လည်း ခေါ်သည်။ မင်းတုန်းမင်းတရား ပဉ္စမ သင်္ဂါယနာတင်စဉ်က ကျောက်ထက်အက္ခရာ တင်ခဲ့သော ပြုဖွေးလှသည့် ကျောက်ပြား ၇၂၉ ခုကို အဝေးမှပင် တွေ့မြင်နိုင်ပေသည်။ ကုသိုလ်တော် အနီးတွင် အတုမရှိ ကျောင်းတိုက်ရှိသည်။ အတုမရှိ ကျောင်းတိုက်၏ ဘေးတွင် ရွှေနန်းတော် ကျောင်းတိုက်ရှိသည်။ ဤသည်တို့အပြင် မစိုးရိမ်တိုက်၊ ခင်မကန်တိုက်၊ မိုးကောင်းတိုက်၊ ဝိသုဒ္ဓာရုံတိုက်စသော ကျောင်းတိုက်များသည် ဗုဒ္ဓစာပေ ပရိယတ္တိများကို သင်ကြားပေးရာ၌ ထင်ရှားသော ကျောင်းတိုက်များ ဖြစ်ပေသည်။ မြောက်မြားစွာသော အခြား ကျောင်းတိုက်များ ရှိပေသေးရာ၊ ကျောင်းတိုက်ပေါင်း ၂၃၁ တိုက်ရှိ၍ ရဟန်းသာမဏေ စုစုပေါင်း ၆,၃၁၈ ရှိလေသည်။ မန္တလေးမြို့သည် မြန်မာနိုင်ငံတွင် ရဟန်းသံဃာ အများဆုံး သီတင်းသုံးရာမြို့ ဖြစ်ပေသည်။

မန္တလေး ရတနာပုံ ရွှေမြို့တော်ကို မြန်မာသက္ကရာဇ် ၁၂၂၁ ခုနှစ်တွင် မင်းတုန်းမင်းတရား တည်တော်မူသည်။ ဤသက္ကရာဇ်မှာ မော်ကွန်း စိုက်ထူသော သက္ကရာဇ်ဖြစ်၏။ အမှန်အစပြုသော သက္ကရာဇ်မှာ ၁၂၁၈ ခုနှစ်ဖြစ်၍ သာသနာ သက္ကရာဇ် ၂၄၀၀ နှင့် ကိုက်ညီသည်။ ထို့ကြောင့် မြို့တော်ကို သာသနာသက္ကရာဇ် ၂၄၀၀ နှင့် ကိုက်အောင် တာ ၂၄၀၀ ထားသည်။ ၇ တောင်ကို တတာအဖြစ် အသုံးပြုသည့် မြို့တော်မှာ လေးထောင့် အချိုးကျဖြစ်၍ မြို့တမျက်နှာလျှင် တာ ၆၀၀ ထားသည်။ ကမ္ဘည်းနှစ်အရ အနှစ် ၁၀၀ ပြည့်သော မြန်မာသက္ကရာဇ် ၁၃၂၁ ခုနှစ် (ခရစ် ၁၉၅၉ ခုနှစ်) တွင် ရွှေမန်း မြို့တော်သူ မြို့တော်သားတို့သည် မန္တလေးမြို့တည်နန်းတည် အနှစ်တရာပြည့် အထိမ်း

အမှတ်သဘင်ကို ခမ်းနား သိုက်မြိုက်စွာ ဆင်ယင်ကျင်းပခဲ့ပေသည်။

မန္တလေးမြို့သည် မန္တလေးတောင်၏ ခြေရင်းတွင် တည်ရှိသည်။ မန္တလေးတောင်သည် မန္တလေးမြို့၏ မြောက်ဖက်၌ အထီးတည်း တည်ရှိသော တောင်ထူးတောင်မြတ်တလုံးဖြစ်၏။ မြန်မာသက္ကရာဇ် ၁၂၆၉ ခုနှစ်မှစ၍ ရသေ့ကြီးဦးခန္တီသည် မန္တလေးတောင်တော်သို့ ကြွရောက်တော်မူပြီးလျှင် မန္တလေး တောင်ပေါ်တွင် ဘုရားပုထိုးစေတီများကို ဦးဆောင် တည်ဆောက်ကာ တောင်တော်ကို မွမ်းမံသည်။ မြန်မာနိုင်ငံ တဝှန်းမှ ဗုဒ္ဓအယူဝါဒီ ကုသိုလ်ရှင် အမြောက်အမြားလည်း ကုသိုလ်ပါဝင်ကြလေသည်။ (ခန္တီ၊ ဦး — ရှု။) မန္တလေးတောင်ထိပ်သို့ သွားရောက်နိုင်ရန် စောင်းတန်း သုံးသွယ်ရှိသည်။ မည်သည့်စောင်းတန်းကပင်တက်သည်ဖြစ်စေ တောင်ခုလတ်တွင် သွားရောက်ပေါင်းဆုံသည်။ မန္တလေးတောင်သည် မန္တလေးမြို့ကို အပေါ်မှ စီးပိုး အုပ်မိုးထားသကဲ့သို့ ရှိပေရာ၊ မန္တလေးတောင်ပေါ်မှနေ၍ ကြည့်သော် နန်းမြို့ရိုး၊ ကျုံးနှင့်တကွ မန္တလေးမြို့၏ ရှုခင်းကို ကောင်းမွန်စွာမြင်တွေ့ရပေသည်။ အရှေ့ဖက်သို့ မျှော်ကြည့်လိုက်လျှင် ရှမ်းရိုးမတောင်နှင့် အနောက်ဖက်သို့ ကြည့်လျှင် ဧရာဝတီ မြစ်ကမ်းများကိုလည်း မြင်တွေ့နိုင်ပေသည်။

မန္တလေး ဟူသော အမည်သည် 'မင်္ဂလ' ဟူသောပုဒ်မှ 'မင်္ဂလေး'၊ ထိုမှ 'မန္တလေး' ဖြစ်လာသည်ဟု ယူဆဖွယ်ရှိ၏။ အဓိပ္ပါယ်မှာ 'ပျော်ပျူးသာယာသော နယ်မြေ'ဟု ယူသော် ရ၏။ အချို့က 'မန္တရေး'မှ ပြောင်းလာဟန် ရှိသည်ဟု ဆိုကြသည်။ အဓိပ္ပါယ်မှာ 'ကျက်သရေတို့ကို ဆောင်သောအရပ်' ဖြစ်၏။ အချို့ကလည်း ရှေးပုဂံခေတ်က မင်းရှင်စော မင်းကလေး မှီခိုနေသွားသော တောင်ဖြစ်ခြင်းကြောင့် မင်းကလေးတောင်ဟု တွင်ရာမှ မန္တလေးတောင်ဟူ၍ ဖြစ်လာပြီးလျှင်၊ နောင်သော် ထိုတောင်၏ ပတ်ဝန်းကျင်ရှိ မန္တလေး အရပ်တွင် မြို့တည်သဖြင့် မန္တလေးမြို့ဟု ဖြစ်ပေါ်လာသည်ဟု ဆိုကြသည်။

**မိန်ငှက်။** ။လင်ကောင်ပိုး ဟူ၍ရင်း၊ ငှက်ဆိုးဟူ၍ရင်း ခေါ်သော မိန်ငှက်သည် တိုင်တိုနီဒီး မျိုးရင်းတွင် ပါဝင်၍ ပါဏဗေဒ အလိုအားဖြင့် တိုင်တိုအယ်လဗာ စတာတင်း ဟု ခေါ်သည်။

မိန်ငှက်သည် အလျား ၁၃ လက်မခွဲရှိ၍ တီးတုတ်လောက် မကြီးမားလှချေ။ မိန်ငှက်၏ ကိုယ်ထည် တည်ဆောက်ထားပုံမှာ တီးတုတ်ငှက်မျိုးနှင့် တူသယောင်ယောင် ရှိသော်လည်း မျိုးရင်းချင်းကား မတူ၊ ကွဲပြားကြသည်။ (တီးတုတ် — ရှု။) မိန်ငှက်၏ မျက်နှာအနေအထားသည်



ငှက်ဆိုးဟူ၍ လူသိများသော မိန်ငှက်

မျောက်မျက်နှာကဲ့သို့ ဝိုင်း၍ သေးငယ် တောက်ပသော မျက်လုံးများရှိသည်။ မှောင်စပျိုးချိန်၌ ပျံသန်းသွားသော အခါ မိန်ငှက်၏ အရောင်သည် ဖြူဖတ်ဖြူယော် အရောင်ရှိသည်။ ကိုယ်အထက်ပိုင်းသည် အရောင်ခပ်မွဲမွဲရှိ၍ မျက်နှာကား ဆွတ်ဆွတ်ဖြူလျက် အောက်ပိုင်းတွင် အဖြူပေါ်၌ အညိုစက်များ ရှိသည်။ ခြေတံရှည်၍ နားသောအခါ မတ်မတ်နားနိုင်သည်။ နေဝင်ရီတရော အချိန်၌ အများအားဖြင့် ပျံသန်းနေသည်ကိုသာ တွေ့ရသည်။

မိန်ငှက်သည် တီးတုတ်၊ ဇီကွက်ငှက်များကဲ့သို့ ညဥ့်ငှက်သက်သက်ဖြစ်သဖြင့် နေ့အခါတွင် သစ်ခေါင်း၊ လိုဏ်ခေါင်းများ၌ အိပ်၍ မှောင်စပျိုးသည့် အချိန်ကျမှ ထွက်ကာ တညဥ့်လုံး လိုက်လံကျက်စားသည်။ ကြွက်များကို မြေကြီးပေါ်မှ ဖမ်းယူစားသောက်သည်။ အခြား တိရစ္ဆာန်ကလေးများနှင့် ငှက်ကလေးများကိုလည်း ဖမ်း၍ အကောင်လိုက်မျိုချတတ်သည်။ အတန်ကြီးသည့်ငှက်များကိုလည်း ဖမ်း၍ သတ်စားလေ့ ရှိသည်။ မိန်ငှက်သည် အစာများကို တနေ ရာတည်း၌သာ စား၍ ထိုနေရာ၌ပင် မကြေသော အစာများကို အန်ထုတ်လေ့ရှိသည်။ အမွေးနှင့် အရိုး စသည့် မကြေနိုင်သော အစာများသည် ငှက်၏ပါးစပ်မှ အလုံး

ကလေးများအဖြစ် ထွက်လာပြီးလျှင် ခြောက်သွားသည့် တိုင်အောင်ပင် မည်း၍ ပြောင်နေသည်။

မိန်ငှက်သည် ညဥ့်အခါ စူးစူးရှရှ 'ဂစ်' ဟူသော အသံမျိုးနှင့် အော်တတ်ရာ အချို့က လူမမာသေမည့် အတိတ်ဆိုး နိမိတ်ဆိုးဟု ယူဆသောကြောင့် ယင်းကို ငှက်ဆိုးဟု ခေါ်သည်။ အချို့ကမူ 'ငှက်သူတော်' ဟု ခေါ်ကြသည်။ ထိုငှက်၏ အော်သံကို စက်တင်ဘာလမှ မတ်လအထိ ကြားရ၍ အခြားအချိန်၌ ကြားရခဲသည်။

ဒေသအလိုက် သားပေါက်ချိန် အမျိုးမျိုးရှိသော်လည်း၊ များသောအားဖြင့် ဒီဇင်ဘာလနှင့် ဇန္နဝါရီလများတွင် မိန်ငှက်များ သားပေါက်တတ်ကြသည်။ သို့ရာတွင် အသိုက်ကိုတနှစ်ပတ်လုံး အုတ်နံရံခေါင်းတွင် ဖြစ်စေ၊ ရေတွင်းနံရံခေါင်းတွင်ဖြစ်စေ၊ သစ်ခေါင်းတွင် ဖြစ်စေ တွေ့နိုင်သည်။ အသိုက်ဟု ဆိုရသော်လည်း စားကြွင်းစားကျန်များ၊ အန်ဖတ်များ စုပုံနေသော နေရာမျှသာ ဖြစ်သည်။ ကျနစွာ ပြုလုပ်ထားလေ့ မရှိချေ။ တမြုံလျှင် ၄ ဥမှ ၇ ဥ အထိ ရှိသည်။ ဥများသည်ဖြူ၍ ချောပြီးလျှင် လုံးသယောင်ယောင် ရှိသည်။

မိန်ငှက်ကို ကမ္ဘာပေါ်ရှိ နေရာအနှံ့အပြားတွင် တွေ့ရသည်။ မြန်မာနိုင်ငံ၌ကား ကွင်းပြင်များ၌ နေသည်။

**မိန်ဇိမ်ငှက်။** ။မိန်ဇိမ်ငှက်သည် ကာရာဒရီအီဖောမီး မျိုးစဉ်တွင်၎င်း၊ ဗူရင်နီဒီးမျိုးရင်းတွင်၎င်း ပါဝင်၍ ပါဏဗေဒ အလိုအားဖြင့် အီစာကပ် ရီကာဗီရိုစတြစ် ဟု ခေါ်သည်။ မိန်ဇိမ်ငှက်သည် အလွန် မြင်ရခဲသော ငှက်မျိုးဖြစ်၍ လူသိနည်းသည်။ ကိုယ်အလျား ၂၀ လက်မ ရှိသည်။ နှုတ်သီး ထိပ်သည် အပေါ်သို့ ကောက်မသွားဘဲ ဖြောင့်တန်း၍နေသည်။ ခြေတံရှည်၍ ခြေချောင်း ၃ ချောင်း ရှိပြီးလျှင် ကြီးသော မျက်စိများရှိသည်။



ငှက်ကျားနှင့် ဆင်တူသည့် မိန်ဇိမ်ငှက်

မိန်ဇိမ်ငှက်သည် ကျယ်လောင် စူးရှသောအသံဖြင့် အော်တတ်သည်။ သို့ရာတွင် သွားရောက် နှောင့်ရှက်လျှင် မြွေတွန်သကဲ့သို့ အော်သည်။ သားပေါက်ချိန်၌ ညဥ့်အခါ မိန်ဇိမ်ငှက် အော်သံကို တခါတရံ ကြားရသည်။

မိန်ဇိမ် ငှက်များသည် ပင်လယ် သဲသောင်ပြင် နှင့် ကျောက်တန်းများ၊ မြစ်ကြီးများ၏ သဲကမ်းပါးများတွင် ကျက်စားသည်။ သဲသက်သက်ထက် ရွှံ့၊ ကျောက်ခဲကလေးများနှင့် အပင်ကလေးများ ရှိသည့် နေရာကို ပိုမိုနှစ်သက်ကြသည်။ သားပေါက်ချိန်မှတပါး အခြားအချိန်များ၌ ဝပ်၍မနေတတ်ချေ။ လူ အနားကပ်လာသော်လည်း မပြေးဘဲ စိမ်းဖျော့ဖျော့ ခြေတံရှည်ကြီးများဖြင့် ရပ်ကြည့်နေတတ်ကြသည်။ မိုးရာသီနှင့် ဆောင်းရာသီများတွင် ၁၂ ကောင်မှ အကောင် ၂၀ ထိ အုပ်ဖွဲ့၍ အစာရှာထွက်ကြသည်။ မြစ်ရေကြီးသည့်အခါ မိန်ဇိမ်ငှက်အုပ်များသည် ရေကြီးမှတ်ပေါ်တွင်ပေါက်သော မြက်ခင်းပြင်များ၌ သွားလာ ကျက်စားနေသည်ကို တွေ့ရသည်။

နွေရာသီတွင် မိန်ဇိမ် ငှက်ကလေးများ ဥမှ ပေါက်ကြသည်။ ဥများကို မြစ်သဲကမ်းပါးပေါ်တွင် အုလေ့ရှိရာ၊ ကျောက်ခဲကလေးများနှင့် ဆင်တူ၍ မှားယွင်းတတ်သည်။ တမြုံလျှင် ဥ ၂ ဥ ရှိတတ်သည်။ ဥအရောင်မှာ အဝါမှ အညိုရောင် ဖြစ်ပြီးလျှင် အမည်းတွန့်များ ပါရှိသည်။

အရှေ့တောင် အာရှ ကျွန်းဆွယ်နှင့် ဩစတြေးလီးယား ကျွန်းတွင် မိန်ဇိမ်ငှက်ကို တွေ့ရသည်။ မြန်မာနိုင်ငံတွင် မြိတ်ကျွန်းစု၊ ဧရာဝတီမြစ်တလျှောက်၌ မြစ်ဆုံမှ ဟသာတမြို့ အထိ၊ မိုးကောင်းနှင့် ရွှေလီမြစ်များ၊ ပုသိမ်ဖက်ရှိ ပင်လယ်ကမ်းရိုးတန်းနှင့် စစ်တောင်းမြစ်ဝများတွင် တွေ့ရလေသည်။

**မိလ္လာထည်။** ။ငွေထည်လုပ်ငန်း — ရှု။

**မိန်းပြည်နယ်။** ။မိန်းပြည်နယ်သည် အမေရိကန် ပြည်ထောင်စုတွင် ဖွဲ့စည်း ပါဝင်သော ပြည်နယ်တခုဖြစ်၍ အမေရိကန် ပြည်ထောင်စု၏ အရှေ့မြောက်ဖက် အစွန်ဆုံးတွင် တည်ရှိသည်။ မိန်းပြည်နယ်သည် ကနေဒါ နိုင်ငံတွင် ပါဝင်သော ကွိဗက်နှင့် နယူးဗရန်းဇွစ် ပြည်နယ် ၂ ခု အကြား သပ်နှက်သွင်းထားဘိသကဲ့သို့ ဟိုက်၍ ဝင်သွားသည်။ မိန်းပြည်နယ်၏ တောင်ဖက်တွင် နယူးဟမ့်ရှိုင်ယာ

ပြည်နယ် တည်ရှိကာ တောင်ဖက်နှင့် အရှေ့တောင်ဖက်တွင်ကား အတ္တလန္တိတ်သမုဒ္ဒရာနှင့် ဆက်စပ်နေသော မိန်းပင်လယ်ကွေ့ရှိသည်။ မိန်းပြည်နယ်တွင် ဆိပ်ကမ်းကောင်းများရှိသည်။ သို့သော် ကမ်းရိုးတန်းသည် ညီညာခြင်းမရှိဘဲ အကွေ့အကောက် အဝင်အထွက်များကာ ကျွန်းကလေးအမြောက်အမြားလည်း ရှိသည်။ ထို့ကြောင့်ပင် တမျိုးကြည့်၍ ကောင်းသည့်အပြင် ကမ်းရိုးတန်း အတွင်းဖက်၌ စိမ်းလန်းစိုပြည်သော တောတောင်၊ နက်ရှိုင်းသော ချိုင့်ဝှမ်းများ၊ အင်းအိုင် စိမ့်စမ်းများ ပေါမျှား၍ သာယာသောကြောင့် မိန်းပြည်နယ်ကို အမေရိကန် ပြည်ထောင်စု၏ ကစားကွင်းဟုပင် ခေါ်စမှတ်ပြုကြသည်။ နှစ်စဉ် မိန်းပြည်နယ်သို့ ထောင်ပေါင်း များစွာသော လူအပေါင်းတို့ လာရောက် လည်ပတ်ကြသည်။ မိန်းပြည်နယ်၏ အကျယ်အဝန်းမှာ ၃၃,၂၁၅ စတုရန်းမိုင် ဖြစ်၏။ အကျယ်ဆုံးအနံမှာ မိုင် ၂၁၀၊ အရှည်ဆုံး အလျားကားမိုင် ၃၂၀ ရှိ၍ကမ်းရိုးတန်း မိုင် ၂,၄၀၀ ရှည်လျားသည်။ မိန်းပြည်နယ်၏ မြို့တော်မှာ အော်ဂပ်စတာဖြစ်၍ အခြားမြို့ကြီးတို့မှာ လူဝစ်စတန်၊ ဩဗန်း စသည်တို့ဖြစ်၏။

မိန်းပြည်နယ်ကို သဘာဝ အပိုင်းအခြားအားဖြင့် အက်ပလက်ချီယန် ကုန်းပြင်မြင့် ဒေသနှင့် ကမ်းရိုးတန်း ဒေသဟူ၍ ၂ ပိုင်း ခွဲနိုင်သည်။ တောင်တန်းများသည် အနောက်မြောက်ဖက်တွင်ရှိ၍ အမြင့်ဆုံး တောင်ထွတ် ဖြစ်သော ကတာဒင် တောင်သည် ပေ ၅,၂၅၀ မျှမြင့်၍ မိန်းပြည်နယ်၏ အလယ် ဗဟိုလောက်တွင် တည်ရှိသည်။ မိန်းပြည်နယ်တွင် အိုင်ပေါင်း ၁,၆၂၀ မျှရှိသည့်အနက် အကြီးဆုံးအိုင်ဖြစ်သော မုစဟက်သည် ၃၅ မိုင် ရှည်လျား၍၊ အနံ ၂ မိုင်မှ ၁၀ မိုင်အထိ ရှိသည်။ မိန်းပြည်နယ်တွင် ထင်ရှားသည့် မြစ်ချောင်းတို့ကား ကင်နီဗက်၊ ပီနော့ဗစကော့၊ အန်ဒရပ်စကော့ဂင်၊ စိန်ကရွားတို့ဖြစ်၍ လျှပ်စစ်ဓာတ်အား ထုတ်ယူရေးအတွက် ရေအားပေးနိုင်စွမ်းရှိသည့် မြစ်များဖြစ်၏။

မိန်းပြည်နယ်၏ ရာသီဥတုသည် ဆောင်းတာရှည်၍ အေးမြလှသည်။ နှင်းများ‌စွာကျသည်။ တနေရာနှင့် တနေရာ မိုးအရွာ ညီသောကြောင့် မိုးခေါင်ခြင်း၊ ပြင်းထန်သော မိုးသက်မုန်တိုင်း ကျခြင်းတို့ ဖြစ်ခဲ၏။

မိန်းပြည်နယ် အကျယ်အဝန်း၏ ၆၅ ရာခိုင်နှုန်းမျှတွင် သစ်တောများဖြင့် ဖုံးလွှမ်းလျက် ရှိသည်။ သစ်ထုတ် သစ်ခွဲခြင်းသည် လုပ်ငန်းကြီးတခုဖြစ်၍ အဓိက သစ်တို့ကား ထင်းရှူးဖြူ၊ စပရု၊ ဘုဇပတ်၊ ဟမ္မလော့၊ ဆီဒါ၊ အက်ရှ၊ ဗိချ (သင်းဝင်) အစရှိသည်တို့ ဖြစ်၏။ သို့ဖြစ်၍လည်း မိန်းပြည်နယ်သည် အမေရိကန် ပြည်ထောင်စုတွင် သစ်ပျော့ဖတ်နှင့် စက္ကူအများဆုံး ထွက်ရာဒေသ ဖြစ်၏။ အာလူးအများဆုံး ထွက်ရာဒေသလည်းဖြစ်၍ အခြား ကောက်နှံတို့မှာ ပြောင်း၊ မြင်းစားဂျုံ၊ ရှရီမန်ပင်တို့ဖြစ်သည်။ တံငါလုပ်ငန်းသည်လည်း ထိပ်တန်းလုပ်ငန်းတခုဖြစ်၍ မိန်းပြည်နယ်မှ ဟဲလဗတ်၊ ကော့ဒ၊ ဟက်ဒေါ့၊ မက်ကရယ်၊ တူနား၊ ဟယ်ရင်၊ ဆာဒင်းငါး စသော ငါးများထွက်၏။ ဗုဇ္ဈန်ထုပ်၊ ကနန်း စသည်တို့လည်း ပေါများစွာ ထွက်၍ ထင်ရှား၏။ မိန်းပြည်နယ်တွင် သင်္ဘော တည်ဆောက်ခြင်း လုပ်ငန်းသည်လည်း ထင်ရှားသော လုပ်ငန်းကြီးတခု ဖြစ်၏။ သီးနှံ၊ ဟင်းသီးဟင်းရွက်၊ ငါးစသည်တို့ကို စည်သွတ်သောလုပ်ငန်း၊ အထည် အလိပ်၊ ဘွတ်ဖိနပ် လုပ်ငန်းများ သည်လည်း အရေးပါသည်။ မိန်းပြည်နယ်မှရရှိသော သယံဇာတပစ္စည်းတို့မှာ ထုံးကျောက်၊ သင်ပုန်းကျောက်၊ သဲ၊ ကျောက်စရစ်၊ ဖဲလစပါးနှင့် နှမ်းဖတ်ကျောက်တို့ ဖြစ်၏။ မိန်းပြည်နယ်သည် အမေရိကန် ပြည်ထောင်စုရှိ အခြား ပြည်နယ်များနှင့်၎င်း၊ ကနေဒါ နိုင်ငံနှင့်၎င်း ရေကြောင်း၊ ကုန်းကြောင်း၊ လေကြောင်းတို့ဖြင့် ဆက်သွယ်လျက် ရှိသည်။ မိန်းပြည်နယ်တွင် မီးရထားလမ်း မိုင်ပေါင်း ၁,၉၄၀ နှင့် ကားလမ်းမိုင် ၃,၀၀၀ ခန့် ရှိသည်။ မိန်းပြည်နယ်သည် ကုန်သန်း ရောင်းဝယ်ရေး လမ်းမပေါ်တွင် တည်ရှိသည် မဟုတ်သောကြောင့် ဆိပ်ကမ်းများတွင် သင်္ဘောကြီးများ ဝင်ထွက်သွားလာခြင်းမရှိလှပေ။ သို့သော် လေကြောင်းခရီးသည် အရေးပါလေသည်။

မိန်းပြည်နယ်တွင် နေထိုင်သူတို့အနက် အများစုမှာ အင်္ဂလိပ်၊ စကော့နှင့် အိုင်ရစ် အဆက်အနွယ်များ ဖြစ်၏။ လူဦးရေမှာ ၁၉၆၀ ပြည့်နှစ် သန်ကောင် စာရင်းအရ ၉၆၄,၂၁၅ ယောက် ဖြစ်၏။ မိန်းပြည်နယ် လူဦးရေ၏ ရာခိုင်နှုန်း ၆၀ ခန့်သည် ကျေးလက် မြို့ငယ်များတွင် နေထိုင်ကြသည်။

မိန်းပြည်နယ် ကမ်းခြေသို့ ခရစ် ၁၀၀၀ ပြည့်နှစ်ခန့်က ဗိုက်ကင်းတို့ လာရောက်ခဲ့ကြသည်ဟု ဆို၏။ ဆီဗက်စချန်ကဲဗော့၊ ဗေရီဆားနို၊ ဂျွန်ဟောကင်း၊ ဂီးလဗတ်၊ ရှမ်ပလိန်၊ ကာတီယေး အစရှိသော နယ်သစ်ရှာ အာဇာနည်များသည်လည်း မိန်းပြည်နယ် သမိုင်းနှင့် ဆက်စပ် ထင်ရှားသော ပုဂ္ဂိုလ်များ ဖြစ်၏။ ခရစ် ၁၆၀၇ ခုနှစ်တွင် ဂျော့ပေါ့ပဟမ် ဦးဆောင်၍ အင်္ဂလိပ်လူမျိုးတို့ မြို့ရွာ တည်ထောင်ခဲ့သော်လည်း မကြာရှည်ပေ။ ၁၆၂၂ ခုနှစ်တွင် ကင်နီဗက်နှင့် မဲရီမက်မြစ် ၂ ခုကြားရှိ မြေကို ဂျွန်မေဆွန်နှင့် ဖာဒီနန်ဒိုဂေါ်ဂျက်တို့ ရရှိခဲ့ကြ၍ မကြာမီ ထိုမြေကို ယင်းပုဂ္ဂိုလ် ၂ ဦး ခွဲဝေယူကြသည်။ ၁၆၃၆ ခုနှစ်တွင် ဂေါ်ဂျက်သည် မိန်းနယ်၌ စံနစ်တကျအုပ်ချုပ်ရေးကို အစပျိုးခဲ့သည်။ ၁၆၄၁ ခုနှစ်တွင် ယခု ယော့မြို့ တည်ရာ၌ ဂေါ်ဂျိယာနာမြို့ကို တည်ထောင်ခဲ့၏။ မက်ဆချူးဆက်ပြည်နယ်သည် ကြာမြင့်သော ကာလကပင် မိန်းနယ်ကို ပိုင်ဆိုင်

ကြောင်းဖြင့် တောင်းဆိုခဲ့ပေသည်။ သို့ဖြင့် ၁၆၇၇ ခုနှစ်တွင် ဂေါ်ဂျက်၏ပိုင်ဆိုင်ခွင့်ကို ယင်း၏အဆက်အနွယ်များထံမှ ဝယ်ယူလိုက်၏။ ၁၆၉၀ ပြည့်နှစ်တွင် မိန်းနှင့် မက်ဆာချူးဆက်ကို ပူးပေါင်းလိုက်သည်။ သို့သော် ၁၇၂၀ ပြည့်နှစ်တွင်မှ မိန်းသည် သီးခြားပြည်နယ်ဖြစ်လာကာ အမေရိကန်ပြည်ထောင်စုတွင် ဖွဲ့စည်းပါဝင်လာသည်။ ၁၇၃၁ ခုနှစ်တွင် အော်ဂပ်စတာမြို့သည် မြို့တော်ဖြစ်လာသည်။

ပြည်နယ်တွင်း၌ ပြည်သူပိုင် မြေများကို ဝေငှနေရာချရာ၌ အတော်ပင် အငြင်းအခုန် ဖြစ်ပွားခဲ့၏။ ၁၇၃၉ ခုနှစ်တွင် မိန်းပြည်နယ်နှင့် နယူးဗရန်းဇွစ် ပြည်နယ်တို့သည် နယ်စပ် နယ်နိမိတ်နှင့် စပ်လျဉ်း၍ အချင်းများခဲ့လေသည်။ ၁၇၄၂ ခုနှစ်တွင် အက်ရှဗာတန် စာချုပ်အားဖြင့် ပြေလည်သွားခဲ့သည်။ သို့သော် ၁၉၁၀ ပြည့်နှစ်တွင်မှ အပြီးသတ်ဖြေရှင်း ပြီးစီးသွားလေသည်။ ပဌမ ကမ္ဘာစစ်ကြီး အတွင်း၌ မိန်းပြည်နယ်တွင် သင်္ဘောတည်လုပ်ငန်း အထူးပင် ဖွံ့ဖြိုးတိုးတက်ခဲ့၏။ ဒုတိယ ကမ္ဘာစစ်ကြီးအတွင်း၌ကား သင်္ဘောတည် လုပ်ငန်းကိုသာမက၊ ဖိနပ် လုပ်ငန်းနှင့် အထည်အလိပ် လုပ်ငန်းတို့ကိုပါ စစ်ကြီးကို အထောက်အပံ့ဖြစ်စိမ့်သောငှါ တိုးချဲ့ခဲ့ရလေသည်။ လုပ်ငန်းသစ်များလည်း ထွန်းကားခဲ့လေသည်။

**မိန်းမလက်သည်း။** ။ခရုစုတ်ငှက် — ရှု။

**မုန်ညင်း။** ။မုန်ညင်းပင်သည် ကရူစီဖာရီး မျိုးရင်းတွင် ဗရပ်ဆီကာ မျိုးစု၌ ပါဝင်၍ ယင်း၏ ရုက္ခဗေဒအမည်မှာ အဖြူမျိုးကို ဗရပ်ဆီကာ အဲလဗာဟူ၍ရင်း၊ အမည်းမျိုးကို ဗရပ်ဆီကာ နိဂရာ ဟူ၍ရင်း ခေါ်သည်။ အရွက်ပေါများသော ဤမုန်ညင်းပင်များကို ကမ္ဘာ့သမပိုင်းဒေသများတွင် စိုက်ပျိုးကြသည်။ မုန်ညင်းပင်မှရသော မုန်ညင်းစေ့များကို ဟင်းလျာခတ် အမွှေးအကြိုင်အနေနှင့် ဖြစ်စေ၊ ဘယဆေး အဖြစ်နှင့်ဖြစ်စေ ရှေးခေတ်မှစ၍ အသုံးပြုလာခဲ့ကြသည်။

မုန်ညင်းရွက်များသည် ကြီး၍ ထူပြီးလျှင် လှိုင်းအုံကဲ့သို့ အချွန်ကလေးများ ရှိသည်။ အရောင်မှာ အစိမ်းရင့်ရောင်ဖြစ်သည်။ အရွက်နုများကို ခူး၍ ဟင်းရွက်အဖြစ် စားသုံးကြသည်။ အရွက်များကို နုစဉ်က မခူးဘဲ အရင့်ခံထားလိုက်လျှင် ယင်းမှအစေ့တံများ မကြာခင် ထွက်လာသဖြင့် စားရန် မသင့်တော့ချေ။

မုန်ညင်းသည် စိုက်ပျိုးရန် လွယ်ကူသော အပင်မျိုးဖြစ်သည်။ မိုးကုန်ခါနီးတွင် အစေ့များကို ကြဲ၍ စိုက်ပျိုးကြသည်။ မုန်ညင်း အမည်းနှင့်အဖြူ နှစ်မျိုးစလုံးသည် တနှစ်ခံပင်များဖြစ်ကြ၍ အစေ့မှ စိုက်ပျိုး ရသည်။

### ဟင်းလျာခတ် အမွှေးအကြိုင်အဖြစ် အသုံးများသော မုန်ညင်းပင်၏ အဖူး၊ အပွင့်နှင့် အရွက်များ

မုန်ညင်း အမည်းပင်များသည် ၆ ပေခန့် အမြင့်ရှိသည်။ တောက်ပသော အဝါရောင်အပွင့်များ ပွင့်၍ ချောမွတ်သော သီးတောင့်များသည် ပွင့်တံတွင် ကပ်၍ထွက်လာကြသည်။ အညိုရင့်ရောင် အစေ့များကို ဈေး၌ မုန်ညင်းစေ့အဖြစ် အမြောက်အမြား ရောင်းချကြသည်။ မုန်ညင်းအဖြူပင်မျိုးကား အမြင့် ၂ ပေမှ ၃ ပေအထိသာ ရှိသည်။ တောင့်တင်း၍ဖြာထွက်သော ပင်စည်ရှိခြင်း၊ အရွက်များ၌ အမွေးများရှိခြင်း၊ သီးတောင့်များ၌ အမွေးကြမ်းများရှိခြင်းနှင့် တောက်ပသော အဝါရောင် အပွင့်ကလေးများ ပွင့်ခြင်းတို့ကြောင့် မုန်ညင်း အမည်းပင်မျိုးမှ သိသာ ခွဲခြားနိုင်သည်။

မုန်ညင်းရွက်များတွင် အကောင်းဆုံး ဗီတာမင်ဓာတ်များ ပါရှိသည်။ ထို့ပြင် အမျှင်များနှင့် ပင်စည် အပွင့်စသည်တို့သည် ဝမ်းပျော့စေတတ်သည့် သတ္တိရှိသည်။ အစေ့များကို ကြိတ်၍ရသော ဆီသည် အနံ့အရသာကောင်းသည့်ပြင် အိမ်တွင်းသုံး ဆေးအဖြစ်ဖြင့် အသုံးပြုကြသည်။ ဆီကြိတ်ပြီး၍ ကျန်ရစ်သော မုန်ညင်းဖတ်ကို အခြောက်ခံလျက် အမှုန့်ဖြစ်လာအောင် ထောင်းရသည်။ ထိုအခါ မုန်ညင်းစေ့မှုန့် အစစ်ကို ရလေသည်။ ဆေးဖက်တွင် သရွတ်ကိုင်ရာ၌ဖြစ်စေ၊ အဆိပ်အတောက် စားသောက်မိသည့်အခါ အော့အန်စေသည့် ဆေးအဖြစ်ဖြင့်ဖြစ်စေ မုန်ညင်းကိုအသုံးပြုကြသည်။

လယ်မြေများကို ပြုပြင်ရာ၌ သစ်စိမ်း မြေဩဇာ ကျွေးရန် အတွက် လယ်များတွင် မုန်ညင်းဖြူများကို စိုက်ပျိုးကြသည်။ စိုက်ပျိုးပြီးလျှင် ထယ်ထိုးလိုက်ခြင်းဖြင့် ထိုလယ်မြေတွင် မြေဩဇာ ထက်သန်လာသည်။ မုန်ညင်းအမည်းမျိုးမှာ အစေ့များကို ဟင်းလျာခတ် အမွှေးအကြိုင်အတွက် အသုံးပြုရန် စိုက်ပျိုးကြသည်။

**မုန်ညင်းခါး။** ။ မုန်ညင်းခါးပင်သည် ပေါ်လီဂိုနေစီအီး မျိုးရင်းတွင် ရီအမ် မျိုး စု၌ ပါဝင်၍ ယင်း၏ရုက္ခဗေဒ အမည်မှာ ရီအမ် ရာပွန်တီကမ် ဖြစ်သည်။ မုန်ညင်းခါးဟု ခေါ်သော်လည်း မုန်ညင်းနှင့် မျိုးရင်းချင်း မတူချေ။ သို့သော် ရှုရီမန်ပင်နှင့်ကား မျိုးရင်းချင်းတူ၍ နီးစပ်သည်။

မုန်ညင်းခါး၏ မူလပေါက်ရာ ဒေသသည် အာရှတိုက် မြောက်ပိုင်း မွန်ဂိုးလီးယားပြည် ဖြစ်သော်လည်း၊ ယခု အခါတွင် ကမ္ဘာအနှံ့အပြား၌ စိုက်ပျိုးကြသည်။ အပင်မှ အဖူး မြောက်မြားစွာ ထွက်ရာ၊ ထိုအဖူးများမှ ရှည်၍ အ သားထူသော အရွက်ညှာများသည် ထူသော အရွက်ကြီး များနှင့်တကွ ထွက်လာသည်။ မြေကြီးအောက်တွင် အစာ သိုလှောင်သော အဝါရောင် အမြစ်မကြီးတခုနှင့် ထိုအမြစ်မ ကြီးအား အစာကျွေးသော အခြားအမြစ်များ အများအ ပြားရှိသည်။ မြေကြီးပေါ်သို့ တက်လာသော အသားထူ၍ အရည်ရွှမ်းသည့် နီကျင်ကျင် ရွက်ညှာများကိုသာ လူတို့ အစားများကြသည်။ အရွက်များသည် တခါတရံ အဆိပ် အတောက် ဖြစ်စေတတ်သဖြင့် စားသုံးခြင်းငှါ အလျင်း မသင့်လျော်ချေ။ မုန်ညင်းခါးသည် အာဟာရ တန်ဖိုး များစွာ မရှိချေ။ ဆေးဖက်ဝင်သည့် အပင်မျိုး ဖြစ်သဖြင့် ဝမ်းပျော့ဆေး၊ အားတိုးဆေး စသည်တို့ကို ထိုအပင်မှ ဖော် စပ်ယူကြသည်။

မုန်ညင်းခါးပင်ကို ဆောင်းဦးအစတွင် စိုက်ပျိုးကြသည်။ မြေဩဇာ ကောင်း၍ မြေပွမြေသားနှင့် သဲနုံးများတွင် ကောင်းစွာဖြစ်ထွန်းသည်။ မုန်ညင်းခါးပင်သည် နှစ်ကြာခံ ပင်မျိုး၌ ပါဝင်၏။ နှစ်ကြာခံပင်ဟု ဆိုသော်လည်း တပင် လုံးမဟုတ်ဘဲ မြေအောက်ရှိ အမြစ်များသာမသေဘဲ ၅ နှစ် ၆ နှစ် ဆက်၍ စိုက်ပျိုးသွားနိုင်သည်။ မြေပေါ်ရှိ အရွက်နှင့် ရွက်ညှာများမှာ တနှစ်တကြိမ် သေကြသည်။

မုန်ညင်းခါးပင်တွင် အစေ့များ ရှိသော်လည်း ထိုအစေ့ များကို စိုက်ပျိုးခြင်းဖြင့် မုန်ညင်းခါးမျိုးကောင်း ရသည်က နည်းသောကြောင့် အစေ့မှ မယူဘဲ အမြစ်များမှ မျိုးယူ ကြသည်။ အသားများသော အဝါရောင် အမြစ်မကြီးမှ အ စိတ်စိတ် ခွဲယူ၍ ဆောင်းကူးရာသီအစတွင် အပင်ကလေး များ ထပ်မံစိုက်ပျိုးကြသည်။ မြေဩဇာကောင်းကောင်း ချပေး၍ ရေမှန်မှန် လောင်းပေးသွားလျှင် လျင်မြန်စွာ ကြီး ထွားလာသည်။ အရွက်များမှာ တပေကျော်ကျော်အထိ ကျယ်ပြန့်လေသည်။

မုန်ညင်းခါး အမျိုးမျိုးရှိသည့်အနက် မုန်ညင်းစိမ်း၏ အ ရွက်များမှာ ကျုမ္ဗဆိုင် ပြုလုပ်ရန် အကောင်းဆုံး ဖြစ်သည်။ ကျုမ္ဗဆိုင်ဆိုသည်မှာ အချဉ်တည်ထားသော ချဉ်ဖတ်တမျိုး ပင် ဖြစ်သည်။ မြန်မာတို့၏ မူရင်းအစာ မဟုတ်ပေ။ တရုပ် လူမျိုးတို့၏ အစာဖြစ်၍ ယင်းတို့သာလျှင် အများအပြား

ဆောင်းရာသီတွင် ပေါ်လေ့ရှိသည့် မုန်ညင်း

စားသုံးလေ့ ရှိကြသည်။ မုန်ညင်းခါးပင်များကို ၂ နေ ၃ နေခန့် လှန်းပြီးသော် ဆားနှင့်နယ်ကာ အချဉ်ရည်၌ ထည့်၍ စဉ့်အိုးများတွင် သိပ်ထားခြင်းဖြင့်ကျုမ္ဗဆိုင်ခေါ်သည့် ချဉ် ဖတ် ဖြစ်လာလေသည်။

**မုန်တိုင်ပင်။** ။ မုန်တိုင်ပင်သည် ဆဲလပ်စတြေးစီအီး မျိုးရင်းတွင် ပါဝင်၍ ယင်းကို ရုက္ခဗေဒ အလိုအားဖြင့် လိုဖိုပက်တလမ် ဝေါ်လီချီး ဟု ခေါ်သည်။ မြန်မာနိုင်ငံ မိုးပါးသော အရပ်ဘို့၌ ရှိသည့် အင်တိုင်းတောများတွင် များစွာ ပေါက်ရောက်သည်။ မုန်တိုင်ပင်သည် အမြင့် ၃၅ ပေမှ ၄၅ ပေအထိ ရှိ၍ ပင်စည်လုံးပတ်မှာ ၄ ပေ ၅ ပေ ခန့်ရှိသော တောသစ်ပင် ဖြစ်သည်။ သို့သော်လည်း ရန် ကုန်၊ အင်းစိန်၊ ထားဝယ်၊ သောင်ရင်း၊ အတ္တရန် အစရှိ သော မြို့နယ် အသီးအသီးရှိ သစ်တောများ၌လည်း မုန်တိုင် ပင်များ ပေါက်ရောက်ကြကြောင်း သိရှိရသည်။

မုန်တိုင်သား အရောင်မှာ ပန်းရောင်ဖြစ်၍ အတော် အသင့် မာသော သစ်သားဖြစ်သဖြင့် အိမ်အသုံးအဆောင် များ၊ စားသောက်ဖွယ်ရာ ပစ္စည်းထည့်သော သေတ္တာများ နှင့် မီးခြစ်အိမ်များ ပြုလုပ်ရာ၌ အသုံးပြုကြသည်။ တဲတွင်း

၌ ထား၍ အခြောက်ခံသောနည်းဖြင့်ဖြစ်စေ၊ ဖိုတွင် အခြောက်ခံသောနည်းဖြင့်ဖြစ်စေ အခက်အခဲ မရှိဘဲ အသားသေအောင် ပြုလုပ် စိမ်နိုင်သော သစ်သား ဖြစ်သည်။ မုန့်တိုင်ပင်မှ ရရှိသော အစေးတမျိုးကို ပြည်တည်၍ ယင်းနေသည့် အနာပျောက်ရန် ဆေးအဖြစ် အသုံးပြုနိုင်သည်။

တနင်္သာရီတိုင်း တောင်ပိုင်းရှိ ထားဝယ်နယ်၌ တွေ့ရသော မုန့်တိုင်ပင်ကို ထိုနယ်ရှိ လူများက တောင်ယမနေ ဟူ၍ရှင်း၊ ယမနေ အဖြူပင် ဟူ၍ရှင်း ခေါ်ကြသည်။ ထားဝယ်နယ်၌ ထိုမုန့်တိုင်သားကို ပျဉ်ခွဲခြင်း၊ ကြက်ပေါင်စေးထည့်ရန် သေတ္တာများ လုပ်ခြင်း စသည်တို့အတွက် အသုံးပြုကြသည်။

ရှမ်းပြည်နယ်တွင် တွေ့ရသော မုန့်တိုင်ပင် အငယ်မျိုးကို မြန်မာနိုင်ငံ အရပ်ရပ်ရှိ သစ်တောများ၌လည်း တွေ့ရသည်။

ပင်လယ်ကမ်း တလျှောက်နှင့် အောက်မြန်မာနိုင်ငံ စိမ့်မြေရပ်တို့တွင် ပေါက်သော မုန့်တိုင်ပင်ငယ်များလည်း ရှိသေးသည်။ မြန်မာနိုင်ငံ တောင်ပေါ် သစ်တောများ၌လည်း မဒိုင် ဟု ခေါ်သော မုန့်တိုင်ပင် အငယ်မျိုးများကို တွေ့ရသည်။

**မုန်လာထုပ်။** ။ဂေါ်ဘီထုပ် — ရှု။

**မုန်လာဥနှင့် ခါးဥဖြူ။** ။မုန်လာဥ၊ သို့မဟုတ် မုန်လာဥဖြူဟုခေါ်သည့် မုန်လာမျိုးသည် မြန်မာနိုင်ငံတွင် အစိုက်များ၍ ဈေး၌ အမြောက်အမြား ရောင်းချလေ့ရှိသော သာမန် မုန်လာဥမျိုးပင် ဖြစ်သည်။ မုန်လာဥသည် ဂေါ်ဘီထုပ်၊ ပန်းမုန်လာ၊ မုန်ညင်း၊ ခါးဥဖြူ စသည်တို့နှင့်အတူ ကရူစီဖာရီးမျိုးရင်းတွင် ပါဝင်၍ ယင်း၏ ရုက္ခဗေဒ အမည်မှာ ရက်ဖာနပ် စတိဗပ် ဖြစ်သည်။ စပ်ရှားရှားအရသာရှိသဖြင့် မုန်ညင်းနှင့် ပို၍နီးစပ်သည့်အပင်ဟု ဆိုရပေမည်။

မုန်လာဥကို တရုပ်နိုင်ငံ၌ ခရစ် မပေါ်မီ နှစ်ပေါင်း အတော်ကြာကပင် စိုက်ပျိုးခဲ့ကြသည်။ အာရှတိုက်၌ အစိုက်များသော မုန်လာဥမျိုးကို တရုပ်မုန်လာဥ ဟု ခေါ်သည်။ မုန်လာဥပင်သည် တနှစ်ခံပင်ဖြစ်၍ မုန်ညင်းရွက်ကဲ့သို့သော အရွက်များနှင့် ဖုံးပွနေသည့် အမြစ်များရှိသည်။ ထိုအမြစ်ကိုပင် ဥဟု ခေါ်ကြသည်။ လူတို့ အဓိကထား၍ စားသော အပိုင်းသည် ထိုအမြစ်ဟု ခေါ်သည့် ဥများပင် ဖြစ်သည်။ ဥများကိုသာမက အရွက်နှင့် အဖူးများကိုလည်း ချက်ပြုတ်စားကြသည်။ မုန်လာဥများသည် ပုံသဏ္ဌာန်၊ အရွယ်၊ အရောင်အားဖြင့် အမျိုးမျိုးရှိကြသော်လည်း အရသာနှင့် အနေအထားမှာ အတူတူပင်ဖြစ်ကြသည်။ စိုက်ပျိုးရလည်း အလွန်လွယ်သည်။

ဤမုန်လာမျိုးကို အနောက်နိုင်ငံ၌ နွေကူးရာသီ အစလောက်ကတည်းက စ၍ စိုက်ပျိုးကြသည်။ မြန်မာနိုင်ငံတွင် ဤမုန်လာမျိုးကို အစေ့စိုက်ပြီးနောက် တလကျော်ကျော်ခန့်ကြာလျှင် ဥများကိုစားနိုင်လေသည်။ ထို့ကြောင့် ခြံဥယျာဉ်များအတွင်း မြေပိုရှိပါက ၁၀ ရက်တကြိမ် ၁၅ ရက်တကြိမ် စိုက်ခြင်းဖြင့် လိုသလောက် ရရှိနိုင်လေသည်။

ခါးဥဖြူသည် မုန်လာဥကဲ့သို့ပင် ဂေါ်ဘီထုပ်၊ ပန်းမုန်လာ၊ မုန်ညင်းတို့နှင့်အတူ ကရူစီဖာရီး မျိုးရင်းတွင်ပါဝင်သော်လည်း ယင်း၏ ရုက္ခဗေဒအမည်မှာ ဗရပ်စီကာ ကွန်ပက်စထရစ် ဖြစ်သည်။ ခါးဥဖြူကို မုန်လာဥဝိုင်းဟု လည်း ခေါ်သည်။

ခါးဥဖြူသည် အေးသော ရာသီဥတုရှိသည့် အရပ်များတွင် ကောင်းစွာ ဖြစ်ထွန်းသည်ဖြစ်ရာ အလွန် ထွားကျိုင်းသော ခါးဥ အသားဝါမျိုးကို မြောက်ဖက် အအေးပိုင်းဒေသများ၌ စိုက်ပျိုးကြသည်။ အဖြူရောင် အသေးစား ခါးဥများကို သာမန် ခြံဥယျာဉ်များ၌ စိုက်ပျိုးကြသည်။ ခါးဥဖြူဥသည် မုန်လာဥကဲ့သို့ ရှည်မျောမျော မဟုတ်ဘဲ တုတ်၍ ဝိုင်းသည်။ စင်စစ်အားဖြင့် ခါးဥဖြူသည် ဂေါ်ဘီထုပ် မျိုးပျက်ဖြစ်သည်။ ခါးဥဖြူဥကို လူတို့ စားသုံးကြ၍ ယင်း၏ အရွက်နုများကိုလည်း ဟင်းရွက်အဖြစ် စားသုံးနိုင်သည်။

ခါးဥဖြူသည် အလွန် စိုက်ပျိုးရလွယ်သော အပင်မျိုးဖြစ်သဖြင့် ခြံဥယျာဉ်များ၌ စိုက်ပျိုးရန် သင့်လျော်သည်။ အစေ့များကို အတန်းလိုက် ပါးပါးချပေးရသည်။ ထိုမျိုးစေ့များပေါ်တွင် မြေဩဇာမှုန့်များကို ခပ်ပါးပါး ဖုံးအုပ်ပေးပြီးနောက် ရေမှန်မှန် လောင်းသွားလျှင် တညီတညာတည်း သန်စွမ်းလာကြသည်။ အစေ့ စိုက်ပြီးနောက် ၂ လ

မုန်လာဥနှင့် အရွက်များ

ခန့် အကြာတွင် ဥများကို စားနိုင်လေသည်။ အရောင် အဆင်း အရွယ်အစားနှင့် ပုံသဏ္ဍာန်ကို လိုက်၍ ခါးဥပင် မျိုးပေါင်း များစွာရှိသည်။ ခါးဥဖြူကို အချို့က နိုကိုဟု ခေါ်သည်။

ခါးဥဖြူရွက်များသည် ဗီတာမင် အေ၊ ဘီ၊ စီ ဓာတ်များ ဖြင့် အလွန် ကြွယ်ဝရကား ဟင်းရွက်အဖြစ် စားသုံးရန် အကောင်းဆုံး ဖြစ်သည်။ ဥများကား အာဟာရဓာတ် တန်ဖိုး များစွာ မရှိလှချေ။ ခါးဥဖြူပင်များကို ခါးဥဖြူပိုး ကလေးများက အလွန် ဖျက်ဆီးတတ်ကြသည်။

**မုန်လာဥနီ။** ။မုန်လာဥနီပင်သည် ကီနိုပိုဒီအေးစီအီး မျိုးရင်းတွင်ပါဝင်၍ ယင်း၏ ရုက္ခဗေဒ အမည်မှာ ဗီတာ ဗားလဂါးရစ် ဖြစ်သည်။ မုန်လာဥနီ ဟု ခေါ်သော်လည်း မုန်လာဥ၊ ဂေါ်ဘီထုပ်၊ ပန်းမုန်လာ၊ မုန်ညင်း စသည်တို့ နှင့် မျိုးရင်းချင်း မတူသည့်ပြင် မုန်လာဥဝါနှင့်လည်း မျိုး ရင်းချင်း မတူချေ။ မုန်လာဥနီပင်သည် မူလက ကက်စပျန် ပင်လယ် ဒေသတွင် အလေ့ကျပေါက်သည်။ ရှေးနှစ်ပေါင်း နှစ်ထောင်လောက်ကတည်းက ယင်းကို လူတို့သည် အစာ အဖြစ် စိုက်ပျိုးလာခဲ့ကြသည်။ မုန်လာဥနီပင်၏ အဖြူရွက် စိမ်းကြီးများသည် ထူ၍ အရည်ရွှမ်း၏။ ဥများမှာ အဖြူမှ အနီရင့်ရင့်ထိ အရောင်အမျိုးမျိုးရှိကြသည်။ အချို့ ဥများ မှာ ဘောလုံးကဲ့သို့ လုံး၍ အချို့မှာ ကျင်ပုံသဏ္ဍာန်ရှိပြီး လျှင် အချို့ကား ရှည်မျောမျော ရှိလေသည်။

မုန်လာဥနီပင်သည် ၂ နှစ်ခံပင်မျိုးဖြစ်၍ ၂ နှစ်၊ သို့ မဟုတ် ၂ ရာသီ အသက်ရှင်နေသော အပင်မျိုး ဖြစ်သည်။ အစေ့များကို စိုက်ပျိုးပြီးသည်နောက် ရက်ပေါင်း ၇၀ အ တွင်းတွင် ဥများကို စားနိုင်သည်။ မုန်လာဥနီပင်များကို အပင်စာသိုမှီးထားသော အမြစ်(ဥ)များအတွက် စိုက်ပျိုး ကြရာ၊ ဥများမထိမနာရအောင် ပြောင်းရွှေ့စိုက်ရန် မဖြစ်နိုင် သဖြင့် စိုက်ခင်းများကို ကောင်းစွာ ဂရုစိုက်၍ ပြုပြင်ရလေ သည်။ မြေသြဇာကောင်းသော မြေနုမြေပွများ၌ ကောင်း စွာ ဖြစ်ထွန်းကြသည်။ ဤမုန်လာဥနီ၏ မျိုးစေ့ကို မစိုက် ပျိုးမီ ရေနွေးတွင် နာရီ အနည်းငယ် စိမ်ထားပြီးမှ စိုက် ပါက ရိုးရိုးစိုက်သည်ထက် ပို၍ မြန်စွာပေါက်သည်။ ဥများ ကောင်းစွာဖြစ်ထွန်းစေရန် တတန်းနှင့်တတန်း ၉ လက်မမှ ၁၂ လက်မအထိ ခွါပြီးလျှင် တပင်နှင့်တပင်လည်း ၆ လက်မ အထိ ကွာအောင် စိုက်၍ အပင်ညှံ့များကို နုတ်ပေးရသည်။

မြန်မာနိုင်ငံတွင် မုန်လာဥနီပင်များကို ဟင်းသီး ဟင်း ရွက်ပင် တမျိုးအဖြစ်ဖြင့်သာ စိုက်ပျိုးကြသည်။ အနောက် နိုင်ငံများ၌မူ ဟင်းသီးဟင်းရွက်ပင် တမျိုးအဖြစ်ဖြင့်ရင်း၊ တိရစ္ဆာန်အစာအတွက်သော်ရင်း စိုက်ပျိုးကြသည်။ စင်စစ် မုန်လာဥနီ အရွက်များတွင် ဗီတာမင်နှင့် သတ္တုဓာတ် အ



သကြားမုန်လာ ဟူ၍လည်း ခေါ်တွင်သော မုန်လာဥနီ

မြောက်အမြား ပါရှိရာ၊ ဥမှာထက် အာဟာရဓာတ်ပို၍များ သည်။ ဥများတွင်ဗီတာမင်ဓာတ်အနည်းငယ်သာပါရှိသည်။

သကြားဓာတ်ပါသော မုန်လာဥနီပင် တမျိုး ရှိသေး သည်။ ယင်းကို သကြားမုန်လာ ဟုလည်း ခေါ်ကြသည်။ ၁၉ ရာစုခေတ်တွင် သိပ္ပံပညာရှင်ကြီးများသည် သကြား ရာ ခိုင်နှုန်း ၇ မျှသာ ပါရှိသော မုန်လာဥနီမျိုးတွင် ရာခိုင်နှုန်း ၂၀ အထိ ပါရှိလာအောင် မျိုးစေ့သန့်သန့်များကို ရွေးချယ် စိုက်ပျိုးသည့်နည်းဖြင့် ပြုပြင်ခဲ့ကြသည်။ ထိုထက် သကြား ရာခိုင်နှုန်း ပိုလာအောင် သကြား မုန်လာပင်များကို ပြု ပြင်လျက် ရှိနေကြသည်။ လွန်ခဲ့သည့် နှစ်ပေါင်း ၅၀ ကျော် အထက်က သကြားအတွက် ကြံပင်များကိုသာ အားထား ခဲ့ကြရသော်လည်း ယခုအချိန်အခါတွင် အင်္ဂလန်ကဲ့သို့သော နိုင်ငံများတွင် လယ်မြေ ဧကပေါင်း ထောင်သောင်းများ စွာ၌ သကြားမုန်လာပင်များကိုစိုက်ပျိုးထားကြလေသည်။ ထိုမုန်လာပင်များမှ သကြား တန်ချိန်ပေါင်း များစွာကို နှစ်စဉ် ရရှိလျက်ရှိသည်။ ရွက်လှ မုန်လာဥနီပင်မျိုးလည်း ရှိသေးရာ၊ ခြံဥယျာဉ်များကို တန်ဆာဆင်ရန် ထိုအပင် များကို စိုက်ပျိုးထားတတ်ကြသည်။

**မုန်လာဥဝါ။** ။မုန်လာဥဝါပင်သည် အမ်ဗယ်လီဖာရီး မျိုးရင်းတွင် ပါဝင်၍ ယင်း၏ ရုက္ခဗေဒ အမည်မှာ ဒေါ



မုန်လာဥဝါတွင် သကြားဓာတ်အပြင် သံဓာတ် များစွာ ပါဝင်သည်။

ကပ် ကာရိုတာ ဖြစ်သည်။ မုန်လာဥဝါ ဟု ခေါ်သော်လည်း မုန်လာဥ၊ ဂေါ်ဘီထုပ်၊ ပန်းမုန်လာ၊ မုန်ညင်း စသည်တို့နှင့် မျိုးရင်းချင်း မတူချေ။ မုန်လာဥဝါ အမျိုးပေါင်း ၂၀ ခန့် ရှိရာ၊ အားလုံးလောက်၏ မူလပေါက်ရာ ဒေသသည် မြေထဲ ပင်လယ် နိုင်ငံများဖြစ်သည်။ လူဘို့အသုံးများသော မုန်လာ ဥဝါမျိုးသည် ၂ နှစ်ခံပင် ဖြစ်၍ ကမ္ဘာဟောင်း မြောက် သမပိုင်း ဒေသတို့တွင် အလေ့ကျပေါက်ကြသည်။ ထိုအလေ့ ကျပေါက် မုန်လာဥဝါ အရိုင်းကို တကမ္ဘာလုံးတွင် အယဉ် ဖြစ်အောင် ပြုပြင်စိုက်ပျိုး၍ ဥကို စားသုံးကြသည်။

အရိုင်းပင်များ၏ ဥများသည် သေးသွယ်၍ မာပြီးလျှင် အနံ့ အလွန်ပြင်းသည်။ ထိုအရိုင်းပင်ကို ယဉ်အောင် ပြုပြင် စိုက်ပျိုး၍ ရသော ဥများမှာ တုတ်၍ အသားများပြီးလျှင် အနံ့မှာ အရိုင်းဥလောက် မပြင်းချေ။ အရောင်မှာ ဝါ၏။

ဤမုန်လာမျိုးမှာ မြေဩဇာ များလွန်းလျှင် အမြစ် များ ခွတတ်သဖြင့် မစိုက်ပျိုးမီ မျိုးစေ့ကို ခြောက်သွေ့ သော သဲနှင့်ဖြစ်စေ၊ ပြာနှင့်ဖြစ်စေ ရောစပ်၍ စိုက်ပါက တစေ့နှင့် တစေ့ မပူးကပ်ဘဲ တညီတညာတည်း ပေါက်လာ ကြသည်။ မုန်လာဥဝါပင် အယဉ်ထဲ၌သည်း ဥအရွယ်အ စား၊ ပုံသဏ္ဍာန်၊ အရောင်အဆင်း အမျိုးမျိုး ကွဲပြားလျက် ရှိသည်။ ဥအဖြူမျိုးထက် အနီမျိုးနှင့် အဝါမျိုးများတွင် အာဟာရဓာတ် ပို၍ များသည်။ အရွက်နှင့် ပင်စည်ကို အသားဟင်း ချက်သည့်အခါ အနံ့မွှေးအောင် အပေါ်မှ ဖြူးပေးလေ့ ရှိသည်။

မုန်လာဥဝါသည် သကြားဓာတ် အလွန်ကြွယ်ဝသည့် ပြင်၊ သံဓာတ်လည်း များစွာ ပါဝင်၏။ ထို့ကြောင့် ကလေး များအတွက် အဖိုးတန်သော အစာဖြစ်သည်။ သကြား ဓာတ်နှင့် သံဓာတ်များအပြင် ဗီတာမင် အေနှင့်ဘီ ၁ ဓာတ် များလည်း အများအပြားပါရှိ၏။ ဗီတာမင် ဘီ ၂ နှင့် စီ ဓာတ်တို့ကား အနည်းငယ်စီသာ ပါရှိသည်။ မုန်လာဥဝါ တွင် ပါသော ဗီတာမင် ဓာတ်များသည် မျက်စိအတွက် ကောင်းသည်။ ဗီတာမင်အေဓာတ်သည် ကြက်မျက်စိရောဂါ ကို ကာကွယ် နိုင်သည်။ မုန်လာဥဝါကို အစိမ်း ဖြစ်စေ၊ ပြုတ်၍ဖြစ်စေ၊ သုတ်၍ဖြစ်စေ စားကြသည်။ ဂျာမနီနိုင်ငံ တွင် မုန်လာဥဝါကို ကျွတ်အောင် လှော်၍ ညက်အောင် ကြိတ်ပြီးလျှင် ကော်ဖီအစား အသုံးပြုကြသည်။

**မုန်းချောင်း။** ။မုန်းချောင်းသည် ချောင်းဟု ခေါ်သော် လည်း အမှန်မှာ မြစ်ကလေး ဖြစ်၏။ ၁၉၆ မိုင်ရှည်လျား သည်။ ဧရာဝတီမြစ်၏ လက်တက်ဖြစ်၍ ဧရာဝတီမြစ်အတွင်း လက်ျာဖက်ကမ်းမှ စီးဝင် ပေါင်းဆုံသည်။ မုန်းချောင်း သည် တောင်ပိုင်း ချင်းတောင်ခရိုင်ရှိ ဝိတိုရိယတောင် ထိပ်၏ အနောက်ဖက်နှင့် မြောက်ဖက်ရှိ တောင်များတွင် မြစ်ဖျားခံသည်။ အစသော် တောင်ဖက်သို့ စီးဆင်းပြီးလျှင် အရှေ့တောင်ဖက်သို့ လမ်းပြောင်းပြီးနောက် မင်းဘူးခရိုင် တွင်းသို့ စေတုတ္တရာမြို့နယ်၏ အနောက်မြောက်ဖက်မှ စီးဝင် သည်။ စေတုတ္တရာမြို့နယ်ကို မြောက်မှ တောင်သို့ နှစ် ပိုင်းအတိမျှ ပိုင်း၍စီးသည်။ ထိုနောက် ပွင့်ဖြူမြို့နယ်တွင်းသို့ ဖြတ်သန်း စီးဆင်းသည်။ မဲဇလီရွာမှစ၍ မြေပြန့်တွင်းသို့ ရောက်သည်။ မဲဇလီရွာမှ ဧရာဝတီမြစ်နှင့် ဆုံရာအထိ အ တည့်တိုင်းလျှင် မိုင် ၃၀ ကျော် ရှိသည်။ မြစ်ရိုးတလျှောက် မှ တိုင်းလျှင်မူကား နှစ်ဆမျှ ရှိပေမည်။ မုန်းချောင်းသည် မန်းချောင်းထက် ပို၍ ကြီးသည်။ မြစ်ဝှမ်းလည်း ပို၍ ကျယ်သည်။ မုန်းချောင်း ကမ်းဘေးတွင် မန်းချောင်း ကမ်းဘေးမှာထက် မြို့ရွာများ ပိုမို တည်ရှိသည်။ မုန်း ချောင်းဘေးတွင် မဲဇလီ အောက်ဖက်မှစ၍ ရွာပေါင်း ၁၀၀ ကျော်ရှိ၍ မြစ်ချောင်း၏ တဖက်တချက် အမျှပင် တည်ရှိ သည်။ သို့ရာတွင် ပြောပလောက်သည်တို့ကား စေတုတ္တရာ၊ ပွင့်ဖြူ စသည်တို့သာလျှင် ဖြစ်၏။ မဲဇလီရွာအထက် ၄၅ မိုင်အထိ လှေများ တနှစ်ပတ်လုံး ကူးလူးသွားလာနိုင်သည်။ မိုးအခါတွင် လှေများဖြင့်သာ ဖြတ်ကူးနိုင်သော်လည်း နွေ အခါ၌ အချို့နေရာများတွင် ကျောက်ဆောင်များကို ကျော် ဖြတ်၍ ကူးသန်းနိုင်သည်။

မုန်းချောင်း မြစ်ဝှမ်းရှိ မြေသည် မန်းချောင်း မြစ်ဝှမ်း

မှာထက် ပို၍ ပွသည်။ ဆည်မြောင်းများ ဖောက်လုပ်၍ ရေသွယ်မည် ဆိုပါက မန်းချောင်းမှာကဲ့သို့ပင် တောင်ခြေ တလျှောက်မှသည် ရေဝတီမြစ်ဝှမ်းအထိ စိုက်ပျိုးနိုင်သည်။ မဲဇလီအောက်ဖက်ဆိတွင် မုန်းချောင်းမြစ်ဝှမ်းသည် ၁ မိုင် မျှ ကျယ်ဝန်းသည်။ ထိုမှအောက်ဖက် ၁၀ မိုင် အကွာ ကျွဲတဲသို့ရောက်လျှင် ၆ မိုင်ရှိ၍ ထိုမှ လွန်ပြန်သော် အလျား ၁၃ မိုင် အနံ ၇ မိုင်ခန့် ရှိသော မြေပြန့်ရှိ၏။ မြေလည်း ကောင်းမွန်သည်။

မဲဇလီရွာ အထက် မြောက်ဖက်တွင် ရှေးမြန်မာမင်းများ လက်ထက်က တူးမြောင်းတခု တူးဖောက်ခဲ့သည့် အထောက် အထားများ တွေ့ရသည်။ အခြား တူးမြောင်းတခုမှာ မဲဇလီ ၏ အောက်ဖက် ၁၀ မိုင်ခန့် အကွာ တောင်ဖက်ကမ်းမှ ပြည် လုံးကျော်၏ အနောက်ယွန်းယွန်းတွင် ရှိခဲ့သည်။

အချို့နေရာများတွင် မုန်းမြစ်ကြောင်း ပြောင်းသည့် လက္ခဏာများ ရှိသည်။ ၁၉၀၈ ခုနှစ်ခန့်က မုန်းမြစ်ဝနှင့် ၃၄ မိုင် ကွာဝေးသော မဲဇလီရွာတွင် ရေလွှဲဆည်ကို စတင် ပြုလုပ်၍ ယခုအခါ မုန်းတူးမြောင်းစုဖြင့် ရေသွယ်ကာ လယ်ယာစိုက်ပျိုး လုပ်ကိုင်လျက်ရှိသည်။ မုန်းတူးမြောင်း စုသည်ကား မင်းဘူးခရိုင်ရှိ တူးမြောင်းစု ၃ စုအနက် အလယ် တူးမြောင်းစု ဖြစ်၏။ အခြား တူးမြောင်း ၂ စုမှာကား စလင်း တူးမြောင်းစုနှင့် မန်း တူးမြောင်းစုတို့ ဖြစ်သည်။ မုန်း တူးမြောင်းစုကို အမှီပြုလျက်ရှိသည့် ရေသောက်မြေ ဧကပေါင်းမှာ ၇၉,၁၄၀ ဖြစ်လေသည်။

**မံမီရုပ်ကလာပ်**။ ။ရှေးအီဂျစ်လူမျိုးတို့သည် လူတဦး တယောက် သေဆုံးသွားသော အခါ၌ ထိုသူ၏ ရုပ်အ လောင်း မပျက်မစီး၊ မပုပ်မသိုးမှသာလျှင် သေသူ၏ အ သက်ဝိညာဉ်သည် နောင် တနေ့သောအခါတွင် ကြွင်းကျန် ခဲ့သော မံမီရုပ်ကလာပ်ထဲသို့ ပြန်ဝင် အသက်ရှင်လိမ့်မည် ဟု ယုံကြည်ကြသည်။ ယုံကြည်သည့်အတိုင်း ရုပ်အလောင်း ကို မပုပ်မသိုးဘဲ ကြာမြင့်စွာ တည်တံ့နိုင်စေမည့် နည်း အမျိုးမျိုးကို ရှာဖွေခဲ့ကြ၏။ အဆီ၊ သစ်စေး၊ အမွှေးအထုံ စသော ဆေးများဖြင့် လူသေ ရုပ်ကလာပ်ကို သုတ်လိမ်းပြီး လျှင် ပိတ်ပိုင်းစ အရှည်ကြီးဖြင့် ဦးခေါင်းမှ ခြေဖျားတိုင် ရစ်ပတ်ကျပ်စည်းကြ၏။ ဤသို့ မပုပ်မသိုးအောင် ကျပ် စည်းထားသော ရုပ်ကလာပ်မျိုးကို မံမီရုပ်ကလာပ်ဟု ခေါ် သည်။ အထူးသဖြင့် မင်းစိုးရာဇာနှင့် ပစ္စည်းဥစ္စာ ကြွယ်ဝ သောသူများ သေလွန်သောအခါ ငွေကြေး မြောက်မြား စွာပေး၍ ဝယ်ယူရသော ဆေးအမျိုးမျိုး၊ အမွှေးအမျိုး မျိုးတို့ဖြင့် ရုပ်ကလာပ်ကို စီမံ ကျပ်စည်းပေးကြသည်။ ထို နောက် အဖိုးတန်ပစ္စည်း အသုံးအဆောင်များနှင့်အတူတကွ ကြီးကျယ်ခမ်းနားစွာ မြှုပ်နှံထားလေ့ ရှိကြသည်။ သာမန် ဆင်းရဲသား ဖြစ်လျှင်ကား ဆားရည်တွင်စိမ်၍ အခြောက် ခံပြီးလျှင် သာမန် အဝတ်စများဖြင့်ပင် ရစ်ပတ်ကာ မြှုပ်နှံ လိုက်ကြသည်။

မံမီရုပ်ကလာပ် ပြုလုပ်သည့် အလေ့အထသည် အီဂျစ် နိုင်ငံမှ တောင်ပိုင်းသို့ ပျံ့နှံ့သွားရာ အာဖရိက၊ အိန္ဒိယ၊



အီဂျစ်နိုင်ငံမှ မံမီရုပ်ကလာပ် တခုကို ဤသို့ ရှုမြင်ရသည်။

ဩစတြေးလီးယားနှင့် အာရေဗျတိုင်အောင် ရောက်သွားခဲ့လေသည်။ အနောက်ဖက်တခွင်တွင်မူ ထိုအလေ့ အထသည် ပီးရူးနှင့် မက္ကဆီကို နိုင်ငံတို့တိုင်အောင် ပျံ့နှံ့သွားခဲ့သည်။ သို့သော် မံမိရုပ်ကလာပ် ပြုလုပ်ကြရာတွင် အီဂျစ်တို့၏ နည်းကို မည်သူမျှ မမှီကြပေ။ ရှေးခေတ် အီဂျစ်ဘုရင်များ ဖြစ်ကြသော ဒုတိယရမ်မီးဆီးနှင့် တူတန်ခမွန်တို့၏ မံမိရုပ်ကလာပ်များမှာ အကျော်ကြားဆုံးသော မံမိရုပ်ကလာပ်များ ဖြစ်ကြသည်။ အီဂျစ်လူမျိုးတို့သည် ရုပ်ကလာပ်ပြုလုပ်သည့် အလေ့အထကို ဘီစီ ၄၅၀၀ လောက်မှစ၍ အေဒီ ၇ ရာစုခေတ်တိုင်အောင် ပြုလုပ်ခဲ့ကြသည်။ ကလေးများ၏ ရုပ်အလောင်းများကို ထိုကဲ့သို့မပုပ်မသိုးအောင် ပြုလုပ်ပေးခြင်း နည်းပါးကြသည်။ ယဟူဒီနှင့် ဂရိလူမျိုးတို့လည်း လူသေရုပ်အလောင်းများကို ထိုကဲ့သို့ပြုလုပ်စီမံပေးလေ့ ရှိခဲ့ကြဘူးသည်ကို တွေ့ရသည်။ နောက်ပိုင်းခေတ်များတွင် လူ၏ ရုပ်အလောင်းများကိုသာမက ခွေး၊ ကြောင်၊ ကြက်၊ ငှက်၊ ခြသေ့်၊ မိကျောင်း၊ငါးနှင့် ပိုးမွှားများ အပါအဝင် မိမိတို့ အမြတ်တနိုးမွေးမြူထားသော တိရစ္ဆာန်တို့၏ ရုပ်အလောင်းများကိုပင် မပုပ်မသိုးအောင် အီဂျစ်လူမျိုးတို့ စီမံ ပြုလုပ်ခဲ့ကြသည်များကိုလည်း တွေ့ရသည်။

ရှေးအီဂျစ်လူမျိုးတို့သည် မံမိ ရုပ်ကလာပ် ပြုလုပ်ရာ၌ နည်းပေါင်း များစွာကို အသုံးပြုခဲ့ကြသည့်အနက် ယခုအခါ နည်းအချို့ကိုသာလျှင် စုံစမ်း သိရှိရလေသည်။ အကြမ်းအားဖြင့်ကား မံမိ ရုပ်ကလာပ် ပြုလုပ် စီရင်ပုံမှာ ဤသို့ ဖြစ်၏။ ရှေးဦးစွာ လူသေရုပ်အလောင်းမှ ဦးနှောက်နှင့် အူများကို ထုတ်ပစ်လိုက်သည်။ ထိုနောက် ပူစပ်မွှေးကြိုင်သော သစ်ခေါက် သစ်မြစ်များ၊ သစ်ပင်မှရသော အစေးများ စသော ရုပ်အလောင်းကို မပုပ်မသိုးအောင် ထိန်းသိမ်းပေးနိုင်သည့် ဆေးဖက်များဖြင့် စီမံထားသော အရည်တွင်ဖြစ်စေ၊ တခါတရံ ပျားရည်တွင် ဖြစ်စေ ရက်ပေါင်း ၇၀ မျှ စိမ်ထားသည်။ ထိုနောက် ရုပ်အလောင်းကို ခြောက်သွေ့အောင် စီမံပြန်သည်။ ကိုယ်တွင်းသို့လည်း တတ်နိုင်သမျှ ရုပ်မပျက်ဘဲ ဖောင်းကြွနေအောင် အခြားဆေးဖက်များကို လိုသည့် နေရာ၌ သွတ်သွင်းပေးသည်။ တခါတရံ မျက်လုံး အတုများကိုပင် တပ်ဆင်ပေးလေ့ ရှိသေး၏။ ထိုနောက် လင်နင် အဝတ်ဖြင့် တကိုယ်လုံးကို သေသပ်စွာ အထပ်ထပ် ရစ်ပတ်ပေးပြီးလျှင် လှပစွာ ရေးခြယ်ထွင်းထု အထပ်ထပ် ပြုလုပ်ထားသော ခေါင်းများတွင် ထည့်ကာ မြှုပ်နှံလေသည်။

အလယ်ခေတ် တခေတ်လုံးနှင့် ၁၈ ရာစုခေတ်တိုင်အောင် မံမိ ရုပ်ကလာပ်များကို ဥရောပတိုက်သို့ ပို့ကာ ဆေးဆိုင်များတွင် ဆေးအဖြစ်ဖြင့် ရောင်းချခဲ့ကြသည်။ မံမိ ရုပ်ကလာပ်များကို ထုထောင်းပြီး ဆေးအဖြစ် မှီဝဲလျှင် အလွန် ကောင်းသည်ဟု ကျော်ကြားခဲ့ဘူး၏။ ထောင်ပေါင်းများစွာသော မံမိရုပ်ကလာပ်များကို အီဂျစ်နိုင်ငံမှ တူးဖော်ရရှိ၍ အချို့ကို ယခုအခါ လန်ဒန်နှင့် ကိုင်ရိုမြို့ရှိ ပြတိုက်များ၌ ပြသထားသည်ကို တွေ့မြင်နိုင်ပေသည်။

**မမွတ်ဆင်ကြီး။** ။မမွတ်ဆင်ကြီးများသည် သမိုင်း မတင်မီ ရှေးနှစ်ပေါင်းများစွာက ရှိခဲ့ဘူးကြသော ဆင်အမျိုးဝင် ရှေးတိရစ္ဆာန်ကြီးများ ဖြစ်ကြသည်။ ယင်းတို့၏ အရိုးများနှင့် အခြား ရုပ်ကြွင်းများကို ကမ္ဘာ့အရပ်ရပ်တွင် တွေ့ရသည်။ မမွတ်ဆင်ကြီးဘို့၏ ကိုယ်လုံးကိုယ်ထည်မှာ ယခုခေတ် အကြီးဆုံး အာရှတိုက်ဆင်၏ ကိုယ်အရွယ်လောက်ပင်ရှိသည်။ သို့သော်လည်း ယင်းတို့၏ အစွယ်မှာ ယခုခေတ်ဆင်အစွယ်များနှင့်မဘူဘဲ အပေါ် သို့ကော့လန်နေပေသည်။ တကိုယ်လုံးမှာလည်း ယခုခေတ် ဆင်များကဲ့သို့အရေထူကြီးများဖြင့် ပြောင်ချောချေမနေဘဲ ကိုယ်ထည်အနှံ့ ရှည်လျားသော အမွေးအမှင်များဖြင့် လွှမ်းအုပ်လျက် ရှိပေသည်။

တကြိမ်တခါမျှ မတွေ့မြင်ရဘူးသော ရှေးမမွတ်ဆင်ကြီးမျိုး၏ ပုံပန်းကို အရိုးတခုတည်း လေ့လာရုံဖြင့် မလုံလောက်ပေ။ အရိုးကို ကြည့်ရရုံနှင့် ထိုတိရစ္ဆာန် ပိန်သည်၊ ဝသည်ကို တိတိကျကျ သိဖို့ ခဲယဉ်းပေသည်။ ဆိုက်ဗီးရီးယားနယ်တွင် ရှေးပဝေဏီခေတ်ကတည်းက ရေခဲပြင်တွင် မြုပ်နေသော ယင်းဆင်ကြီးမျိုးကို အမှတ်မထင် တူးဖော် တွေ့ရှိရလေသည်။ ထိုဆင်ကြီး သေဆုံးခဲ့သည်မှာ ကြာပြီ ဖြစ်သော်လည်း မြေကြီးသည် ထူးဆန်းစွာ ရေခဲခန်းပမာ ထိုဆင်သေကို မပုပ်မသိုးရအောင် ကောင်းစွာသိုမှီး၍ ထားပေသည်။ ထိုကြောင့် မျက်လုံး၊ အမွေးအမှင်တို့နှင့်တကွ အရေစသည်တို့မှာ မည်သို့မျှ ပျက်စီးခြင်း မရှိသည်ကိုတွေ့ရသည်။

ယင်းတို့၏ အထက်ဖက်သို့ ကော့ဘက်နေသော အစွယ်ကြီးမှာ အလေးချိန် ပေါင် ၂၅၀ မျှရှိလျက်၊ အလျား ၁၂ ပေကျော်မျှ ရှည်သည်ကိုပင် တွေ့ရသည်။ ဆင်စွယ်များတွင် ထိုအစွယ်ကြီးသည် များစွာကျော်စော ထင်ရှားပေသည်။ လွန်ခဲ့သော နှစ်ပေါင်း ၂၀၀ ခန့်က ယနေ့တိုင် တနှစ်လျှင် ဆိုက်ဗီးရီးယား နယ်မှ ရှာဖွေ ရရှိသော ထိုဆင်စွယ်မျိုးပေါင်း အစုံ တရာခန့်မျှကို မှန်မှန် တင်ပို့ ရောင်းချခဲ့ရလေသည်။ ထိုသတ္တဝါကြီးများ၏ အဓိက အစာမှာ ရှေးခေတ် ထင်းရှူးပင်ပေါက်များနှင့် အသီးများ ဖြစ်သည်ဟု သိရ၏။ ဤရှေးဆင်ကြီးမျိုးသည် ရှေးနှစ်ပေါင်း ထောင်သောင်းမက ကြာသောအခါကတည်းက နွံအိုင်ကြီးများထဲတွင် နစ်မြုပ်ခြင်းဖြင့်သော်၎င်း၊ အခြားနည်းတမျိုးမျိုးဖြင့်သော်၎င်း သေဆုံးခဲ့ကြရာတွင်၊ အေးမြလှန်းသော ရာသီ ဥတုကြောင့် ယခုတိုင် မပျက်မစီးဘဲ ကျန်ရှိနေကြခြင်း ဖြစ်သည်။ အချိန်ကာလ ဤမျှကြာမြင့်ခဲ့သော်လည်း အချို့

ယခုအခါ တိမ်ကောပျောက်ကွယ်သွားပြီဖြစ်သော မဗ္ဗတ်ဆင်ကြီး

ဆင်ကြီးများ၏ အသားမှာ ယခုတိုင် လတ်ဆတ်လျက် ရှိနေသေးရာ၊ ဟင်းပင်ချက်စားနိုင်သည်ဟု အဆိုရှိလေသည်။ ယင်းတို့ ကျက်စားခဲ့သော ဒေသများမှာ ဆိုက်ဗီးရီးယားနယ်သာလျှင် ဖြစ်သော်လည်း အင်္ဂလန်နိုင်ငံ၊ ဥရောပတိုက်အလယ်ပိုင်းနှင့် မြောက်အမေရိကတိုက်တို့တွင်လည်း အနှံ့အပြား ကျက်စားခဲ့ဘူးကြပေသည်။

**မုံရွာမြို့။** ။သလ္လာမြို့ ဟူ၍လည်း တွင်သော မုံရွာမြို့သည် မြန်မာနိုင်ငံ အထက်ပိုင်း၊ စစ်ကိုင်းတိုင်းတွင် ပါဝင်သော အောက်ချင်းတွင်းခရိုင်ရှိ မုံရွာနယ်၏ ရုံးစိုက်မြို့ ဖြစ်ရုံမက အောက် ချင်းတွင်းခရိုင်၏ ရုံးစိုက်မြို့လည်းဖြစ်သည်။ ရေဝတီမြစ်၏ လက်တက်ဖြစ်သော သလ္လာဝတီ ဟူ၍လည်း တွင်သည့် ချင်းတွင်းမြစ်၏ အရှေ့ဖက်ဖြစ်သော လက်ဝဲဖက်ကမ်းပေါ်တွင် တည်ရှိပြီးလျှင် ချင်းတွင်းမြစ် တလျှောက်တွင် အချက်အခြာကျသောမြို့ဖြစ်သည်။ ထို့ပြင် မုံရွာနယ်တွင်းရှိ သမ္ဗုဒ္ဓေစေတီ၊ လယ်တီကျောင်းတိုက်များကြောင့် ထင်ရှားသောမြို့လည်းဖြစ်၏။ (ချင်းတွင်းခရိုင် [အောက်] — လည်းရှု။)

မုံရွာမြို့သည် ချင်းတွင်းမြစ်နှင့် ဧရာဝတီမြစ်တို့ ဆုံရာအရပ်မှ မိုင် ၅၀ အကွာတွင် တည်ရှိသည်။ စစ်ကိုင်းမြို့မှ အနောက်ဖက် ၆၅ မိုင်ကွာဝေးသည်။ မုံရွာမြို့သည် မြေနိမ့်ပိုင်းတွင် တည်ရှိသဖြင့် မြစ်ရေ တိုးလာသောအခါ အကာအကွယ် ဖြစ်စေရန် မြစ်ကမ်းတွင် တာတမံများ ဆောက်လုပ်ထားသည်။ မုံရွာမြို့တွင် ၁၉၅၆ ခုနှစ် တပေါင်းလကမီးအကြီးအကျယ် လောင်သွားသဖြင့် လက်ရှိ မုံရွာမြို့ကို ပြန်လည် တည်ဆောက်သော မြို့သစ်ဟု ခေါ်ဆိုရပေမည်။ မုံရွာမြို့တွင် ခရိုင်ဝန်နှင့် အုပ်ချုပ်ရေးရုံး၊ ခရိုင် ရာဇဝတ်နှင့် တရားမတရားသူကြီး၊ မြေစာရင်း၊ အမြတ်တော်ကြေး၊ ရဲ၊ လယ်ယာစိုက်ပျိုးရေး၊ သမဝါယမ၊ လမ်းလုပ်ငန်းဌာန စသည့် ရုံးများအပြင်၊ ဆေးရုံနှင့် ကျောင်းများလည်း ရှိသည်။ ၁၉၆၀ ပြည့်နှစ်တွင် မုံရွာမြို့၌ သက်ကြီး တက္ကသိုလ် တခု ဖွင့်လှစ်သည်။

မုံရွာနယ်မှထွက်ကုန်များမှာ ခြည်လုံချည်၊ စောင်များ၊ ကျောက်ကာအခုပ်မှ ကျောက်ကာထည်များ၊ ဆန်စပါး၊ နှမ်း၊ ပဲ၊ အပူပိုင်းဒေသထွက် သစ်သီးများဖြစ်၏။ မုံရွာမြို့တွင် ရက်ကန်းစက်၊ ဆန်စက်၊ သစ်စက်၊ ဆီစက်၊ ဆပ်ပြာစက်စသော စက်များရှိသည်။ မြို့နှင့်နယ်မှ ထွက်သောပစ္စည်းများကို မုံရွာမြို့မှ ထုတ်ဝေဖြန့်ဖြူးသည်။

မုံရွာမြို့သည် သွားလမ်း လာလမ်း လွယ်ကူပေသော ကြောင့် အရေးပါ အရာရောက်သော မြို့တမြို့ ဖြစ်၏။ ချင်း တွင်းမြစ်ပေါ် ဥဒ္ဒါဟို သွားလာသော လှေသင်္ဘောများ သည် မုံရွာမြို့တွင် ဆိုက်ကပ်မြဲ ဖြစ်၏။ ချင်းတွင်းမြစ် အထက်ပိုင်းရှိ မြို့များသို့ သင်္ဘောများ မပြတ်မှန်မှန် ခုတ် မောင်းသည်။ မန္တလေးနှင့် မီးရထားလမ်း အဆက်အသွယ် ရှိသဖြင့် မန္တလေးမှတဆင့် အောက်မြို့ အောက်ရွာနှင့် ခရီး ပေါက်ပေသည်။ တဖန် နယ်တွင်းရှိ မြို့နယ်များနှင့်သာမက ဘဲ အနီးပတ်ဝန်းကျင်ရှိ ခရိုင်များသို့လည်း မော်တော်ကား လမ်းများ ရှိသည်။ ထို့ပြင် မုံရွာမြို့သို့ လေကြောင်းခရီး ပေါက်သည်။

မုံရွာနယ်တွင်ရှိသော ကျောင်းကန် ဘုရားစေတီ ပုထိုး တို့သည် မြန်မာနိုင်ငံ တဝှမ်းတွင် ထင်ရှား ကျော်ကြား သောကြောင့် အနယ်နယ် အရပ်ရပ်မှ ဘုရားဖူး သွားရောက် ကြသူများမှာ မနည်းချေ။ မုံရွာနယ်တွင်ရှိ မိုးညှင်းတောရ ဆရာတော်ဘုရားတည်သော သမ္ဗုဒ္ဓေစေတီကား ယခုအခါ ကျော်စောလှပေသည်။ ထို့ပြင် လယ်တီဆရာတော်ဘုရား၏ လယ်တီ ကျောင်းတိုက်သည်လည်း မုံရွာနယ်တွင်ရှိပေသည်။ ချင်းတွင်းမြစ် တဖက်ကမ်းရှိ ဖိုးဝန်းတောင်သည်လည်း မုံရွာ နယ်တွင် ပါဝင်သည်။ မုံရွာ အထက်နားရှိ အလုံဘိုးတော် ကြီး နတ်ပွဲမှာ အထူးပင် ထင်ရှားသည်။ မုံရွာမြို့တွင်းရှိ ထင်ရှားသော စေတီတော်များမှာကား ရွှေစည်းခုံနှင့် ဆုတောင်းပြည့် စေတီတော်များဖြစ်၏။

မုံရွာ ဟူသော အမည်မှာ မုံ့ရွာဟူသော အမည်မှ ကာ လ ရွေ့လျော၍ ပြောင်းလဲလာခြင်း ဖြစ်သည်ဟု ဆိုသည်။ ရှေးအခါက မုံ့သည်မတဦးကို ဘုရင်က မိဖုရားမြှောက်ခဲ့သ ဖြင့် မုံ့သည်မရွာဟု ခေါ်တွင်သည်ကစ၍ ကာလရွေ့လျော သဖြင့် မုံရွာဖြစ်ကြောင်း ဆိုစမှတ်ပြုကြသည်။ ရှေးမြန်မာ မင်း လက်ထက်ကမူ ရွာကြီးမျှသာဖြစ်၍ အလုံမြို့သာလျှင် ထင်ရှားခဲ့ပေသည်။ ဗြိတိသျှတို့လက်ထက် ခရစ် ၁၈၈၈ ခုနှစ် တွင် ချင်းတွင်းခရိုင်ကို နှစ်ပိုင်း ခွဲလိုက်သည့်တွင် မုံရွာမြို့ကို ချင်းတွင်းခရိုင် အောက်ပိုင်း၏ ရုံးစိုက်မြို့အဖြစ် ရွေးချယ်ခဲ့ သည်။ မုံရွာမြို့ရှိ လူဦးရေမှာ ၁၉၅၃ ခုနှစ် သန်းကောင်စာ ရင်းအရ ၂၈,၃၂၈ ယောက် ဖြစ်လေသည်။

**မုံရွေး ဇေတဝန် ဆရာတော်** (မြန်မာ ၁၁၂၈ – ၁၁၉၆) ။ ။ကုန်းဘောင် ဒုတိယခေတ်တွင် ပေါ်ထွန်းလာသော ရဟန်းစာဆိုများအနက် မုံရွေး ဇေတဝန်ဆရာတော်သည် ထင်ရှားသော စာဆိုတဦးဖြစ်၏။ ဆရာတော်ကို သက္ကရာဇ် ၁၁၂၈ ခုနှစ် နယုန်လဆန်း ၄ ရက်နေ့တွင် မုံရွာမြို့ စီရင်စု ကြေးမုံ့ရွာ၌ အဖ ဦးဇေယျ၊ အမိ မမင်းလှတို့မှ ဖွားမြင် လေသည်။ မိဖတို့ ခေါ်ဝေါ်သော ငယ်မည် မောင်အောင် မြ၊တွင်သော ငယ်မည် မောင်နိုးဖြစ်၏။ အဖဖက်မှာ သူကြီး မျိုးရိုး ဖြစ်လေသည်။

အသက် ၆ နှစ် အရွယ်တွင် မုံရွေးရွာ ရွှေရေးလေးထပ် ဇေတဝန် ကျောင်းတိုက်ကြီး၏ အရှင် ဝိစိတ္တာ လင်္ကာရထံ



ချင်းတွင်းမြစ်၏ အရှေ့ဖက်ဖြစ်သော လက်ဝဲကမ်းပေါ်တွင် တည်ရှိသည့် သလ္လာမြို့ဟုခေါ်တွင်သော မုံရွာမြို့ဆိပ်ကမ်း

ဆည်းကပ်လျက် ပညာသင်ကြား၍ ၁၅ နှစ် အရွယ်တွင် သာမဏေပြုလေသည်။ သာမဏေဘွဲ့ကား အရှင်အရိယာ ဝံသတည်း။ သာမဏေဘဝနှင့်ပင် အာဒါသမုခ ပျို့သစ်ကို စီကုံး၏။ အရွယ်ရောက်သော် ရဟန်းပြု၍ စာပေများကို ဆက်လက် သင်ကြားသည်။ ရဟန်းဘွဲ့ အာဒိစ္စရံသီဖြစ်၏။ သို့သော် သာမဏေဘွဲ့ အရိယာဝံသတွင် အာဒိစ္စရံသီဟူသောဘွဲ့ကို ထပ်ဆင့်၍ အရိယာဝံသ အာဒိစ္စရံသီ ဟု တွင်လေသည်။

ရဟန်းခံပြီးနောက် ပရိယတ်အရာထင်ပေါ် ကျော်ကြားသော ဆားလင်း၊ ဆားပုံ၊ ဗဒုံ၊ မုံရွာစသော မြို့ရွာတို့မှ အရှင်မဟာဂုဏသာရစသော ဆရာတော်ကြီးများထံဆည်းကပ်လျက် လောကီဆိုင်ရာ၊ လောကုတ္တရာဆိုင်ရာ နေ့ဝါ ညဝါစာပေများကို သူမတူအောင် ကြိုးစားအားထုတ်ကာ သင်ကြားတော်မူသည်။ ဂန္ထန္တရ ဗဟုသုတနှင့် လွန်စွာပြည့်စုံတော်မူ၏။ ထိုထိုမြို့ရွာသို့ လှည့်လည်လျက်ပရိယတ္တိဓမ္မကို ကြိုးစား ဆောင်ရွက်တော်မူပြီး၍ အားရနှစ်သိမ့်ကျေနပ်တော်မူပြီးခါမှ မုံရွေး ဇေတဝန်ကျောင်းတွင် ပြန်လည်သိတင်းသုံးသည်။ ထိုသို့ သိတင်းသုံး နေထိုင်တော်မူစဉ် ဆရာတော်ကြီး ပျံလွန်တော်မူသဖြင့် ထိုကျောင်း၌ပင် ဆရာ၏ အရိုက်အရာကို ဆက်ခံ၍ စာပေပို့ချ နေတော်မူသည်။ ထိုသို့စာပေပို့ချနေသည့် အကြားမှာပင် ကျမ်းဂန်များကို ရေးသားတော် မူခြင်း၊ မေးလျှောက်လာသည့် ပုစ္ဆာပြဿနာများကို ဖြေကြားတော်မူခြင်း၊ သမထ ဝိပဿနာတို့ကို ပွားများတော်မူခြင်းစသော ရဟန်းကိစ္စများကိုလည်း ပြုတော်မူသည်။ ဘိုးတော်မင်းတရားကြီးသည် ဆရာတော်၏ဂုဏ်သတင်းကို ကြားသိ၍ ကြည်ညိုလှသဖြင့် ငါးထပ်ကျောင်း ဆောက်လုပ် လှူဒါန်းတော်မူလေသည်။ ဘိုးတော်ဘုရား နတ်ရွာစံ၍ ဘကြီးတော်ဘုရား အထွတ်အထိပ်သို့ ရောက်တော်မူသောအခါ သက္ကရာဇ် ၁၁၈၁ ခုနှစ်တွင် ဆရာတော်အား အင်းဝမြို့တော်သို့ ပင့်ဆောင်ကာ ထီးလှိုင်ရှင်ဘုရားအနီး မင်္ဂလာဘုံသာမည်သော အုတ်ကျောင်းတော်ကိုဆောက်လုပ်လှူဒါန်းပြီးလျှင် "ဉာဏဝရဇီနာဘိလင်္ကာရ သိရိဓဇ မဟာဓမ္မရာဇာဓိ ရာဇဂုရု"ဟူသော ဘွဲ့တံဆိပ်တော် ကပ်လှူကိုးကွယ်တော်မူလေသည်။

ဆရာတော်သည် မဟာသီလဝပျို့၊ ပဉ္စာဝုဓပျို့၊ ကုသပျို့သစ်၊ ပါရမီတော်ခန်းပျို့ အဖြေ စသော ပျို့ပေါင်း ခုနှစ်စောင်ကို ရေးသားတော်မူသည်။ ထိုပျို့များအနက် မဟာသီလဝပျို့နှင့် ပဉ္စာဝုဓပျို့များသည် ဆရာတော်၏ အကောင်းဆုံးလက်ရာဟု ဆိုရပေမည်။ မဟာသီလဝပျို့တွင် ဆရာတော်သည် ရာဇကြောင်းကို နွှယ်၍ ရေးသား၏။ ပဉ္စာဝုဓပျို့၌လည်း ထိုကဲ့သို့ပင် ရာဇကြောင်းကို အသားပေးကာ ရေးသားထားရကား ဆရာတော်သည် ရာဇကြောင်းကို ပိုမိုနိုင်နင်းဟန် တူလေသည်။ စစ်ဆင်စစ်ဘက်နှင့်ဆိုင်သော သေနင်္ဗျူဟာကျမ်းကိုလည်း နိုင်နင်းလှသည့်အလျောက် မဟာသီလဝပျို့တွင် စစ်ဗိုလ်မှူးတို့ သိသင့်သိထိုက်သော သေနင်္ဗျူဟာကျမ်းပါ အချက်အလက်များကို ပေါ်လွင်ထင်ရှားအောင် အကျဉ်းရုံး၍ ပြခဲ့လေသည်။ ဆရာတော်သည် ဖွဲ့ဆိုလိုသည်ကို ကွက်ကွက်ကွင်းကွင်း ပေါ်အောင် ဖွဲ့တတ်၏။ တခါတရံ အဖွဲ့အနွဲ့ထဲတွင် ဥပမာ ဥပမေယျများကို ညှပ်၍ ဆိုလိုရင်းသဘောကို ထင်ရှားစွာ သိနိုင်ရန်သုံးခဲ့၏။ လူတို့၏ စိတ်ကို ကြောက်ရွံ့ရမည့်နေရာ၌ ကြောက်ရွံ့စေလျက် ကရုဏာ ဖြစ်ပေါ်ရမည့်နေရာ၌ လှိုက်လှိုက်လှဲလှဲ ကြင်နာစိတ်များ ပေါ်ထွက်လာအောင် ထင်ရှားသော ဥပမာများဆောင်ကာ ရေးသားနိုင်၏။

ဆရာတော်သည် လောကကြောင်းဖက် ဖွဲ့ရာတွင် ရှင်မဟာရဋ္ဌသာရ၊ ရှင်အဂ္ဂသမာဓိတို့ကို မမှီချေ။ ထိုကြောင့် ဆရာတော်၏ အရေးအသားတို့ကို သင့်ရုံမျှသာ ကောင်းသည်ဟုဆိုရပေမည်။ သို့ရာတွင် ရာဇကြောင်းဖက်၌ ဗဟုသုတကြွယ်ဝသဖြင့် အခြားဆရာများထက် စုံလင်စွာ ဗဟုသုတ ဖြစ်ဖွယ် အခန်းများကို ရေးသားနိုင်သည်။

ဘကြီးတော်မင်းတရားကြီးအား ဆက်သရန် မေတ္တာစာ တစောင် ရေးသားရာတွင် ၁၁၈၉ ခုနှစ် နယုန်လဆန်း ၃ ရက် တနင်္လာနေ့တွင် ရေးစီ၍ ပြီးလေသည်။ ဆရာတော်၏ အရေးအသားများမှာ လွန်စွာ ကျယ်ဝန်းသည့် စကား ဥပဒေများကို အကျဉ်းချုံး ရေးသားထားသောကြောင့် သိနားလည်ရန် အလွန် ခက်ခဲရကား ၁၁၉၄ ခုနှစ်တွင် မေတ္တာစာ အဖွင့်ဖြစ်သော ရာဇောဝါဒကျမ်းကို ထပ်မံရေးသားရ ပြန်လေသည်။ ဆရာတော်၏ မေတ္တာစာမှာ မဇ္ဈိမဒေသရာဇဝင်၊ မြန်မာ ရာဇဝင်တို့သာမက ဇာတ်၊ နိပါတ်ကြောင်းများမှ သာဓက ထုတ်၍ ရေးဖွဲ့ထားရကား ပဌမတန်းစား မေတ္တာစာကြီးဟု ဆိုရပေမည်။

ထိုပျို့များ၊ ကျမ်းများပင် မကသေး၊ ဆရာတော်သည် မင်းဆက် ရာဇဝင်သံပေါက်၊ အမွေခွဲပုံကြီး ဓမ္မသတ်ကျမ်း၊ သမန္တစက္ခုဒီပနီကျမ်း စသည်များကိုလည်း ရေးသားခဲ့၏။ မင်းဆက် ရာဇဝင် သံပေါက်မှာ နှောင်းသမိုင်း ဆရာတိုင်း လက်မလွှတ်နိုင်သော သံပေါက် ဖြစ်လေသည်။ ဆရာတော်သည် သက်တော် ၆၉ နှစ်၊ ဝါတော် ၄၉ ဝါ၊ သက္ကရာဇ် ၁၁၉၆ ခု၊ ဝါဆိုလတွင် အင်းဝမြို့ မင်္ဂလာဘုံသာကျောင်း (ပြာသာဒ်ကျောင်း)၌ ပျံလွန်တော်မူသည်။

ပြုစုတော်မူခဲ့သော ကျမ်းများမှာ ၁၊ ကဝိမဏ္ဍနီသတ်ပုံ။ ၂၊ ကုသပျို့သစ်။ ၃၊ ကေသဓာတုဝင်နိသျ။ ၄၊ နာနာဆန္ဒပျို့။ ၅၊ နာရဒပျို့။ ၆၊ ပါရမီခန်းအဖြေ။ ၇၊ ပုစ္ဆာလင်္ကာ။ ၈၊ ပဉ္စာဝုဓပျို့။ ၉၊ ပြာသာဒ်ကျောင်းဘွဲ့ပျို့။ ၁၀၊ ပြာသာဒ်ကျောင်းဘွဲ့မော်ကွန်း။ ၁၁၊ မဟာရာဇဝင်

တော်ကြီး။ ၁၂၊ မဟာရာဇဝင်သံခိပ်။ ၁၃၊ မဟာသီလဝပျို။ ၁၄၊ မဂ်လသုတ်ပျို။ ၁၅၊ မုံရွေးမေတ္တာစာ။ ၁၆၊ မုံရွေးမှတ်စု။ ၁၇၊ မုံရွေးသတ်ညွှန်း။ ၁၈၊ ရတုကေပိုဒ်များ။ ၁၉၊ ရာဇောဝါဒကျမ်း။ ၂၀၊ သမန္တစက္ခုဒီပနီကျမ်း။ ၂၁၊ သာသနဝံသဒီပနီ။ ၂၂၊ အမွေခွဲဓမ္မသတ်ကျမ်း။ ၂၃၊အာကာသစာချီပျို။ ၂၄၊ အာဒါသမုခ ပျို့သစ်တို့ဖြစ်သည်။

**မျူစမြစ်** ။ ။မျူစမြစ်သည် ဥရောပ အနောက်ပိုင်းတွင် အရေးအပါဆုံးသော သဘောၤလမ်းကြောင်း တခုဖြစ်၏။ မျူစမြစ်သည် ပြင်သစ်နိုင်ငံ အရှေ့ပိုင်းရှိ လန်းဂရာတောင်များတွင် မြစ်ဖျားခံ၍ မြောက်ဖက် အားဒင် တောင်တန်းများကို ကျော်ဖြတ်ပြီးနောက် အရှေ့မြောက်ဖက်သို့ ကွေ့သွားလျက် ဗဲလဂျီယမ်နိုင်ငံတွင်းသို့ စီးဝင်သည်။ ဗဲလဂျီယမ်နိုင်ငံမှတဖန် နယ်သာလန် နိုင်ငံတွင်းသို့ဝင်ကာ နယ်သာလန်တွင် အဆုံးသတ်၍ မြောက်ပင်လယ်တွင်းသို့ စီးဆင်းသည်။ မြစ်ဝကျယ်၍ ရိုင်းမြစ်ဝနှင့် တဆက်တည်းဖြစ်သည်။ မျူစမြစ်၏ အကြီးဆုံး လက်တက်မှာ ဆန်ဗာဖြစ်၍ ဗဲလဂျီယမ်နိုင်ငံ နားမူးမြို့တွင် စီးဝင်ပေါင်းဆုံသည်။ အခြားလက်တက်များကား ဗဲလဂျီယမ်နိုင်ငံ လီဂျမြို့တွင် စီးဝင်ပေါင်းဆုံသော အုနှင့် နယ်သာလန် တောင်ပိုင်းတွင် စီးဝင်ပေါင်းဆုံသော ရူးတို့ ဖြစ်၏။ နယ်သာလန်နိုင်ငံဖက်တွင် မျူစမြစ်သည် မားစမြစ်ဟု တွင်သည်။

မျူစမြစ်သည် မြစ်ဖျားမှ မြစ်ဝအထိ ခရီးဖြောင့်အားဖြင့် မိုင် ၂၃၀ မျှသာ ကွာဝေးသော်လည်း အကောက်အကွေ့ အလွန် များသောကြောင့် ၅၇၅ မိုင် ရှည်လျားသည်။ မျူစမြစ်၏ ထူးခြားချက်တခုမှာ ယင်းသည် ဗဲလဂျီယမ်နိုင်ငံတွင်းသို့ မဝင်မီကလေးတွင် ၃ မိုင်မျှ ငုပ်လျှိုးစီးဝင်ပြီးမှ မြေပေါ်သို့ ပေါ်လာခြင်းဖြစ်သည်။ မျူစမြစ်သည် နယ်သာလန်နှင့် ဗဲလဂျီယမ် နိုင်ငံများတွင် ဖောက်လုပ်ထားသော တူးမြောင်းများဖြင့် ဆက်သွယ်လျက် ရှိခြင်းကြောင့် မျူစမြစ်နှင့် ယင်း၏လက်တက်များသို့ မိုင် ၃၆၀ မျှ သဘောၤများသွားလာဆန်တက်နိုင်ပေသည်။ ပြင်သစ်နိုင်ငံရှိ အခြားမြစ်များနှင့်လည်း တူးမြောင်းများဖြင့် ဆက်သွယ်လျက်ရှိပေသည်။

ပြင်သစ်တို့၏ခံတပ်မြို့ဖြစ်သော ဗာဒွန်နှင့် ဗဲလဂျီယမ်နိုင်ငံမှ လီဂျနှင့်နားမူးမြို့တို့သည် မျူစမြစ်ပေါ်တွင် တည်ရှိသည်။ ၁၉၁၄ ခုနှစ်တွင် ဖြစ်ပွားသော ပဌမ ကမ္ဘာစစ်ကြီးအတွင်း




ပြင်သစ်နိုင်ငံမှ ဗဲလ်ဂျီယမ်နိုင်ငံသို့ စီးဝင်သော မျူစမြစ်ကမ်းပါးတွင် အလုပ်ရုံများ တည်ဆောက် ထားလေ့ရှိသည်။



ဗဲလဂျီယမ်နိုင်ငံ နားမူးမြို့အနီး မျူစမြစ်ဖြတ်စီးစဉ် တွေ့မြင်ရသည့် ရှုခင်းပန်းချီကား

က မျူစမြစ်တလျှောက်တွင် တိုက်ပွဲများ ဖြစ်ပွားသဖြင့် သမိုင်းတွင် တွင်ပေသည်။ စစ်ဦးကာလက ပြင်သစ်တို့နှင့် ချဉ်းနင်း ဝင်ရောက်လာသော ဂျာမန်တပ်များသည်ပြင်သစ် နိုင်ငံ အရှေ့မြောက်ပိုင်းရှိ မြစ်ဝှမ်းတွင် ပြင်းပြင်းထန်ထန် တိုက်ပွဲဆင်ကြ၏။ ၁၉၁၈ ခုနှစ် စစ်ပြီးခါနီးတိုင်အောင် ဂျာမန်တို့က ချုပ်ကိုင်ထားခဲ့သည်။ ၁၉၁၈ ခုနှစ် နိုဝင်ဘာ လ ၁၁ ရက်တွင် ပြင်သစ်တို့က မျူစမြစ်၏ အနောက်ဖက် ကမ်းမှ ဝင်ရောက်ကာ ဆီဒန်မြို့ကို သိမ်းပိုက်ခဲ့လေသည်။ တဖန် ဒုတိယကမ္ဘာစစ်အတွင်းကလည်း ၁၉၄၀ ပြည့်နှစ်တွင် ဂျာမန်စစ်တပ်များ ချဉ်းနင်းဝင်ရောက်ခြင်း ခံရလေသည်။

**မျူရီလို၊ ဗီ၊ အီ** (ခရစ် ၁၆၁၇ – ၁၆၈၂)။ ။ဗာတိုလို မေး အေစတေးဗန်း မျူရီလိုသည် ထင်ရှားသော စပိန်အ မျိုးသား ပန်းချီဆရာတဦး ဖြစ်၏။ မဒေါနားရုပ်များ၊ သူ တော်စင်ရုပ်များ အစရှိသည့် အယူဝါဒဆိုင်ရာ ပန်းချီကား များ ရေးဆွဲရာတွင် ထင်ရှားသူ ဖြစ်သော်လည်း လမ်းပေါ် တွင် လေလွင့်နေသော အဝတ်ဗလချာနှင့် သူငယ်ကလေး များ၏သရုပ်ကိုလည်း ထင်ရှားလေအောင် ဖော်ထုတ် ရေး ခြယ်နိုင်စွမ်း ရှိသူဖြစ်၏။

မျူရီလိုသည် ခရစ် ၁၆၁၇ ခုနှစ် ဒီဇင်ဘာလ ၃၁ ရက် နေ့တွင် စပိန်နိုင်ငံ တောင်ပိုင်းရှိ ဆဲဗီးမြို့၌ မွေးဖွားသည်။ မိဖများမှာ ဆင်းရဲနွမ်းပါး မထင်ရှားသူများ ဖြစ်၏။ မျူရီ လိုအား သူ၏ ဖခင်က ဟွန် သေ ကက်စတီလို အမည်ရှိ မထင်ရှားသော ပန်းချီဆရာတဦးထံ အပ်နှံသည်တွင် လက် ဦး အခြေခံ ပန်းချီပညာကို ရရှိလေသည်။ ၁၆၃၉ ခုနှစ်၌ ကက်စတီလို အရပ်တပါးသို့ ပြောင်းရွှေ့သွားသောအခါ မျူရီလိုသည် မိမိကိုယ်စွမ်း ကိုယ်စကို အားကိုးပြီးလျှင် ပန်းချီကား အကြမ်းများကို ရေးဆွဲခြင်းဖြင့် ဝမ်းရေးအ တွက် ရှာကြံခဲ့ရ၏။ ရေး ဆွဲသော ပုံကြမ်းများမှာ များ သောအားဖြင့် ‘မဒေါနား’ ခေါ် ခရစ်၏ မယ်တော်ပုံများ ဖြစ်လျက် ပန်းချီ အဆင့်အတန်းလည်း မမြင့်၊ ဈေးလည်း မရပေ။ အဆင့်အတန်း မမြင့်ဟု ဆိုရသော်လည်း ထိုစဉ်က ဆဲဗီးမြို့ရှိ သူ၏ ရောင်းရင်းများ၏ လက်ရာများထက်ကား အနုပညာ ဂုဏ်မြောက်ပေသည်။

မျူရီလို၏ ရောင်းရင်း ပန်းချီဆရာ တဦးသည် ခရီး လှည့်လည်ခြင်းအားဖြင့် ပန်းချီရေးဆွဲဟန်များ တိုးတက် ကောင်းမွန်လာကြောင်းကို တွေ့မြင်ရသောအခါ မျူရီလို သည် အံ့သြလျက် အားကျလာမိ၏။ ထိုကြောင့် မျူရီလို သည် ၁၆၄၂ ခုနှစ်တွင် မိမိကို အားထား၍ နေသော နှစ်မ ငယ်ကို မိတ်ဆွေတဦးထံ အပ်နှံပြီး သကာလ မဒရစ်မြို့

တော်သို့ ရှေးရှုထွက်ခွာသွား၏။ မဒရစ်သို့ရောက်လျှင် မိမိနှင့် တရပ်တည်းနေ တရေတည်းသောက်သူ ဖြစ်သော ပန်းချီကျော် ဗေလက်ကတ်ထံ ချဉ်းကပ်ရလေ၏။(ဗေလက်ကတ် — ရှု။) ထိုစဉ်အခါ၌ ဗေလက်ကတ်သည် ထင်ရှားကျော်ကြား ကောင်းစားနေခိုက် ဖြစ်၏။ ဗေလက်ကတ်သည် မျူရီလိုအား မိမိအိမ်တွင် တည်းခိုနေထိုင်စေပြီးလျှင် မြို့တော်တွင်းရှိ တော်ဝင်ပန်းချီပြခန်း၊ ပြတိုက်များသို့ ဝင်ခွင့်ရအောင် ဆောင်ရွက် ပေးသည်။ ထိုနောက် ၂ နှစ်အတောအတွင်းဝယ် မျူရီလိုသည် ဣတလီနှင့် ဖလန်းဒါးမှ ပန်းချီကျော်တို့၏ ပြောင်မြောက်သော လက်စွမ်းပြပန်းချီကားများကို ကူးယူ ရေးဆွဲခဲ့၏။ ၁၆၄၄ ခုနှစ်တွင် ဗေလက်ကတ်သည် မျူရီလို၏ လက်ရာများကို စပိန်ဘုရင်ထံ ဆက်သလေသည်။

ဗေလက်ကတ်က မျူရီလိုကို ရောမသို့ သွားရောက်ရန် တိုက်တွန်းပါသော်လည်း မျူရီလိုသည် ဇာတိရပ်ရွာနှင့် နှစ်မငယ်တို့ကို သံယောဇဉ် တွယ်နေသောကြောင့် ဆဲဗီးမြို့သို့ ပြန်သွား၏။ ထိုအတောအတွင်း ဆဲဗီးမြို့ရှိ စန်ဖရန်စစ္စကိုကျောင်းမှ ဘုန်းတော်ကြီးများသည် မိမိတို့၏ကျောင်းမှ နံရံများပေါ်တွင် ပန်းချီ ရေးဆွဲ တန်ဆာဆင်လိုသော်လည်း နာမည်ရ ပန်းချီဆရာတဦးအား ငှါးရမ်းနိုင်လောက်အောင် ကြေးငွေ မတတ်နိုင်ဘဲ ရှိနေသောကြောင့် မျူရီလိုသည် ကျောင်း၏နံရံတွင် အလွန် လှပ ပြောင်မြောက်သော ပန်းချီကားကြီး ၁၁ ချပ်ကို လက်ခကြေးငွေ တပြားတချပ်မျှ မယူဘဲ ရေးဆွဲပေးလေသည်။ ယင်း ပန်းချီကားများသည်ကား သူ၏ ရှေးဦးကျသော ပန်းချီဟန် ဖြစ်၍ သူ၏ လက်စွမ်းလက်စကို ထင်ရှားစေခဲ့လေသည်။

၁၆၄၈ ခုနှစ်တွင် မျူရီလိုသည် ချမ်းသာကြွယ်ဝသော အမျိုးသမီးတဦးနှင့် အိမ်ထောင်ကျပြီးလျှင် ကျွမ်းကျင်သော ပန်းချီ ဆရာများနှင့် တွေ့ဆုံ ရင်းနှီးလျက်၊ သူ၏အိမ်မှာ အဆိုပါ ပုဂ္ဂိုလ်တို့ စတည်းချရာဖြစ်လာ၏။ မျူရီလို၏ ပန်းချီ လက်ရာများသည်လည်း ပိုမို၍ တိုးတက် ကောင်းမွန်လာ၏။ သူ၏ ပန်းချီရုပ်များသည် ပို၍ ပြေပြစ်လာကာ အရောင်ခြယ်ရာ၌လည်း ပို၍ ကြည်လင်လာ၏။ ၁၆၅၅ ခုနှစ်တွင် မျူရီလိုသည် သူ၏ ထင်ရှားလှသော ပန်းချီကား ၂ ချပ်ဖြစ်သည့် 'စန်လီယန်ဒရို' နှင့် 'စန်အီစီဒိုရို' တို့ကို ရေးဆွဲလေသည်။ ထိုပန်းချီကားများသည် ယခုအခါ ဆဲဗီးကသီဒရယ် ဘုရားရှိခိုးကျောင်းကြီးတွင် ချိတ်ဆွဲထားလျက် ရှိ၏။ မျူရီလို၏ ပန်းချီဟန် ဒုတိယ အဆင့်ကို ဖော်ပြသော ပန်းချီကားများလည်း ဖြစ်ပေသည်။

မျူရီလိုသည် ၁၆၅၈ ခုနှစ်တွင် အနုပညာတံခွန်ကျောင်း တည်ထောင်ရေးကို တာဝန် ယူလျက် ၁၆၆၀ ပြည့်နှစ်တွင် ထိုကျောင်းကို ဖွင့်လှစ်ခဲ့၏။ မျူရီလိုသည် ဥက္ကဋ္ဌတဦး အဖြစ်ဖြင့် ရွေးချယ်တင်မြှောက်ခြင်း ခံရလေသည်။

၁၆၆၅ ခုနှစ်တွင် မျူရီလိုသည် စန်တာ မာရီယာ လာ ဗလန်ကာ ဘုရားရှိခိုးကျောင်းတွင် တန်ဆာဆင်ရန် စက်ဝိုင်းခြမ်းကြီး ၂ ခုပေါ်တွင် ပန်းချီကားများ ရေးဆွဲလေသည်။ ထိုပန်းချီကားများနှင့် ထိုနောက်တွင် ရေးခြယ်သော ပန်းချီလက်ရာများသည် သူ၏ တတိယနှင့် နောက်ဆုံး ပန်းချီဟန်ကို ဖော်ပြသော ပန်းချီကားများ ဖြစ်ကြလေသည်။

မျူရီလိုသည် ပန်းချီကားပေါင်း အမြောက်အမြား ရေးဆွဲခဲ့ရာ၊ အများအပြားမှာ ဘုရားရှိခိုးကျောင်းများ အတွက် အယူဝါဒဆိုင်ရာ ကားများသာဖြစ်၏။ ၁၆၈၁ ခုနှစ်၌ သူသည် ကာဒစ်မြို့ရှိ ဘုရားရှိခိုးကျောင်းတခုတွင် ပန်းချီ ရေးဆွဲ တန်ဆာဆင်ရန် ငြမ်းပေါ်တက်ရာတွင် ငြမ်းပေါ်မှ လိမ့်ကျ၍ ရရှိသောဒဏ်ရာမှ နာလန်မထူတော့ဘဲ ၁၆၈၂ ခုနှစ် ဧပြီလ ၃ ရက်နေ့တွင် ကွယ်လွန်လေသည်။

မျူရီလို၏ လက်ရာများကို လေ့လာလိုသူတို့သည် သူ၏ ဇာတိချက်ကြွေရာ ဆဲဗီးမြို့သို့ သွားရောက်၍ လေ့လာနိုင်လေသည်။ သို့သော် မဒရစ်မြို့ရှိ ပရာဒို ပြတိုက်တွင်၎င်း၊ ပြင်သစ်နိုင်ငံရှိ လူးဗရ်ပြတိုက်တွင်၎င်း၊ လန်ဒန်မြို့ရှိ အမျိုးသား ပန်းချီပြတိုက်တွင်၎င်း သူ၏ လက်ရာများကို တွေ့မြင်နိုင်ပေသည်။



စပိန်ပန်းချီကျော် မျူရီလို

**မျူးနစ်မြို့။** ။မျူးနစ်မြို့သည် ဂျာမနီနိုင်ငံတွင် ဘာလင်မြို့နှင့် ဟမ်းဗတ်မြို့တို့၏ နောက် တတိယလိုက်သော မြို့ကြီးဖြစ်၏။ အနောက် ဂျာမနီနိုင်ငံတွင် ပါဝင်သော ဗာဗေးရီးယားနယ်၏ ရုံးစိုက်မြို့ ဖြစ်သည်။ မျူးနစ်မြို့ကို ဂျာမန်ဘာသာအားဖြင့် မွန်းကင်ဟု ခေါ်ကာ ရဟန်းတို့ဌာနီဟူ၍ အဓိပ္ပါယ်ရသည်။ ခရစ် ၇၀၀ ပြည့်နှစ်ခန့်က ယင်းဒေသ၌ ဘုန်းတော်ကြီးကျောင်း တကျောင်း ရှိသောကြောင့် ဖြစ်သည်ဟု ဆိုရိုးရှိ၏။ မျူးနစ်မြို့သည် နာဇီပါတီနှင့် စပ်လျဉ်း၍ ထင်ရှား နာမည်ရပေသည်။ ခရစ် ၁၉၁၉ ခုနှစ်တွင် မျူးနစ်မြို့တွင် နာဇီပါတီကို တည်ထောင် ခဲ့လေသည်။ ၁၉၂၃ ခုနှစ်တွင် ဖြစ်ပွားသော ဗီယာ အဆောင် ပုန်ကန်မှု အရေးအခင်းသည် မျူးနစ်မြို့တွင် ဖြစ်ပွားခဲ့ခြင်းဖြစ်၏။ ဟစ်တလာ၏ ပဌမဆုံးအကြိမ် အာဏာသိမ်းယူရန် ကြံစည်သော အမှုပင်တည်း။ ၁၉၃၈ ခုနှစ်တွင် ဂရိတ် ဗြိတိန်၊ ဣတလီ၊ ပြင်သစ်နှင့် ဂျာမနီတို့ ဆွေးနွေး၍ ချက်ကိုဆလိုဗားကီးယားကို နာဇီတို့အား ပေးအပ်သော သဘောတူညီချက်ကို မျူးနစ်မြို့တွင် လက်မှတ် ရေးထိုးကြ၏။

မျူးနစ်မြို့သည် ဘာလင်မြို့မှ မိုင် ၃၁၀ ကွာဝေး၍ အနောက်တောင်အရပ် ဗာဗေးရီးယား လွင်ပြင်ရှိ အီဇာမြစ်ကမ်းဘေး၌ တည်ရှိသည်။ အီဇာ၏ကမ်းဘေး တလျှောက်တွင် ဥယျာဉ်ပန်းခြံ၊ ချောင်းငယ် မြောင်းငယ် ရေတံခွန်နှင့် အိုင်များရှိသဖြင့် နာဇီပါတီတို့ မကြီးစိုးမီ အခါကာလက အလွန်သာယာသော ဟူ၏။ မျူးနစ်မြို့သည် ဣတလီနိုင်ငံသို့ ခရီးပေါက်သော ဗရင်နာ တောင်ကြားလမ်းနှင့် မိုင် ၁၀၀ မျှပင် မဝေးပေ။ မျူးနစ်မြို့မှ မျှော်မှန်းကြည့်လိုက်ပါက ဆီးနှင်းများ ဖုံးလွှမ်းနေသော အဲလပတောင်ထွတ်များကိုမြင်နိုင်ပေသည်။ မျူးနစ်မြို့၏တည်နေရာသည် သင့်လျော်သောကြောင့် နှစ်ပေါင်းများစွာပင် ဥရောပတိုက် တောင်ပိုင်းနှင့် မြောက်ပိုင်းရှိ နိုင်ငံများ ဆုံတွေ့ကြရာဒေသ ဖြစ်ခဲ့ပေသည်။

မျူးနစ်မြို့တွင် လှပခမ်းနားသော နန်းတော်များ၊ ဘုရားရှိခိုးကျောင်းများ၊ အစိုးရရုံးများ၊ ကျောင်းများ၊ ဆိုင်ကန္နား တိုက်တာ အဆောက်အအုံ အနှံ့အပြားပင် ရှိ၏။ ထင်ရှားသော အဆောက်အအုံကြီး ၃ ခုတို့မှာကား နန်းတော်ဟောင်း၊နိုထရာဒမ် ကသီဒရယ် ဘုရားရှိခိုးကျောင်းနှင့် ဂျာမန်ပြတိုက်ကြီး ဖြစ်၏။ ဂျာမန် ပြတိုက်ကြီးမှာ ကမ္ဘာတွင် ထင်ရှားသော ပြတိုက်ကြီးတခုဖြစ်၍ စက်မှုလက်မှုနှင့် သိပ္ပံပညာဆိုင်ရာ အဝဝကို ခင်းကျင်း ပြသထားပေသည်။ မျူးနစ်မြို့ရှိ နိုင်ငံတော် စာကြည့်တိုက်တွင် စာအုပ်ပေါင်း ၁,၀၀၀,၀၀၀ ကျော်နှင့် စာမူပေါင်း ၅၀,၀၀၀ ကျော်ရှိ၏။ အမျိုးသား ဇာတ်ရုံကြီးမှာလည်း ဂျာမနီနိုင်ငံတွင်းရှိ ဇာတ်ရုံကြီးများ စာရင်းဝင် ဖြစ်၍၊ ဒုတိယကမ္ဘာစစ် အတွင်းက ပြတိုက် ၃ ခုမှာ လုံးဝဆိုသလို ပျက်စီးသွား၏။ အနည်းအကျဉ်းလောက်ကိုသာ ရရှိသဖြင့် စစ်ပြီးသောအခါတွင် ရရှိသမျှကို ပြန်လည် ခင်းကျင်းပြသနိုင်အောင် ပြုပြင် တပ်ဆင်ရ၏။ မျူးနစ်မြို့ရှိ တက္ကသိုလ်သည် ၁၄၇၂ ခုနှစ်က တည်ထောင်ခဲ့၍ ထင်ရှားပေသည်။ ယင်းတက္ကသိုလ်ကို ၁၈၂၆ ခုနှစ်တွင် လန်စဟွတ်မြို့မှ မျူးနစ်မြို့သို့ ပြောင်းရွှေ့ခဲ့သည်။ မျူးနစ်မြို့သည် ဂျာမနီနိုင်ငံတွင် စာပေပညာနှင့် ယဉ်ကျေးမှု အနုပညာပေါင်းတို့ စုဝေးရာ ဒေသဖြစ်၏။

မျူးနစ်မြို့သည် ရှေးကစ၍ ဘုရားရှိခိုးကျောင်းများတွင် တပ်ဆင်လေ့ရှိသည့် ရောင်စုံ ဆေးရေး ပြတင်းမှန်ချပ်များကို ပြုလုပ်ရာ၌ ကျော်ကြားခဲ့သည်။ ထိုပြင်တာ ဗီယာချက် လုပ်ငန်းမှာလည်း ထင်ရှား၍ အရေးပါဆုံး ထုတ်ကုန်ဖြစ်၏။ ဘုရားရှိခိုးကျောင်းများတွင် အသုံးပြုသော ခေါင်းလောင်းများ သွန်းလုပ်ခြင်းသည် မျူးနစ်မြို့တွင် လုပ်ငန်းကြီး တရပ်ဖြစ်လျက်၊ မျူးနစ်မြို့မှ သွန်းလုပ်သော ခေါင်းလောင်းများကို ကမ္ဘာအနှံ့အပြားသို့ တင်ပို့ရ၏။ အခြားလုပ်ငန်းတို့မှာ ကြွေထည်လုပ်ငန်း၊ ကျောက်ပုံနှိပ်လုပ်ငန်း၊ ပုံထွင်းလုပ်ငန်း၊ အလွန်နုသော မျက်စိဆိုင်ရာကရိယာများ၊



**လူစည်ကားသည့် မျူးနစ်မြို့ တဂိုတ်တဒေသ၏ ရှုခင်းတရပ်**

သချ်ာဆိုင်ရာ တိုင်းတာသော ကရိယာတန်ဆာပလာများ ပြုလုပ်ခြင်းတို့ ဖြစ်၏။

မျူးနစ်မြို့ကို ခရစ် ၁၁၅၈ ခုနှစ်တွင် ဒျူဘွဲ့ခံဟင်နရီ-သ-လိုင်းယွန်း တည်ထောင်သည်ဟု ဆို၏။ ၁၂၅၅ ခုနှစ်တွင် ဗာဗေးရီးယား၏ မြို့တော်ဖြစ်ခဲ့သည်။ ၁၆၃၂ ခုနှစ်တွင် ဆွီဒင်နိုင်ငံ၏ လက်အောက်သို့ ရောက်ခဲ့ရသည်။ ထိုနောက် ၁၇၀၅ ခုနှစ်နှင့် ၁၇၄၂ ခုနှစ်တို့တွင် ဩစတြီးယား လက်အောက်သို့ရောက်ခဲ့ရလေသည်။ ၁၉၁၉ ခုနှစ်မှ ဒုတိယကမ္ဘာစစ်ကြီး ပြီးဆုံးသည့်အချိန်အထိ နာဇီပါတီ စခန်းထသော ဒေသဖြစ်ခဲ့၏။ စစ်အတွင်းက မျူးနစ်မြို့သည် ဗုံးဒဏ်ကို အတန်ပင် ခံရ၏။ စစ်အပြီးတွင် မျူးနစ်မြို့သည် ဂျာမနီနိုင်ငံ အနောက်ပိုင်းရှိ အမေရိကန်တို့ အုပ်ချုပ်သော နယ်တွင် ကျရောက်သွားလျက် ထိုနယ်တွင် အကြီးဆုံးမြို့ဖြစ်သည်။ ၁၉၄၉ ခုနှစ်တွင် အနောက်ဂျာမနီနိုင်ငံအတွင်း ပါဝင်သွားလေသည်။

မျူးနစ်မြို့ရှိ လူဦးရေမှာ ၁၉၅၇ ခုနှစ်တွင် ခန့်မှန်းခြေ ၉၆၀,၂၃၃ ယောက် ဖြစ်လေသည်။

**မျိုးစေ့နှင့် မျိုးမှုန်။** ။မျိုးစေ့များမှ အပင်များ ပေါက်ပွားလာကြ၏။ ထိုမျိုးစေ့များထဲတွင် ပင်လောင်းဟု ခေါ်သော အပင်ငယ် ကလေးများ တခုစီရှိကြသည်။ ထိုပင်လောင်းသည် ငုပ်နေ၍ သင့်လျော်သော အခြေအနေ ဆိုက်ရောက်လာမှသာလျှင် ကြီးထွားလာသည်။ အကယ်၍ မျိုးစေ့များ အားလုံးသည် ပင်မအောက် တနေရာတည်းတွင်သာ ကျရောက်ပါက မျိုးစေ့အားလုံး ပေါက်ရန် ပင်မအောက်တွင် နေရာမရှိသည့်ပြင်၊ အနီးအနား အခြား နေရာများတွင်လည်း အလွယ်တကူ မပေါက်နိုင်သဖြင့် ထိုအပင်မျိုးမှာ ပျောက်ကွယ်သွားရန်သာ အကြောင်းရှိပေသည်။ ထို့ကြောင့် မျိုးစေ့များသည် ပျံ့နှံ့သွားရန် လိုပေသည်။ မျိုးစေ့များ ပျံ့နှံ့ရာတွင် (၁)လေဖြင့်၎င်း၊ (၂)ရေဖြင့်၎င်း၊ (၃) တိရစ္ဆာန်များဖြင့်၎င်း၊ (၄) အသီး ပေါက်ကွဲခြင်းဖြင့်၎င်း နည်းအမျိုးမျိုးဖြင့် ပျံ့နှံ့သွားလေသည်။

လေတိုက်ခတ်၍ ပျံ့နှံ့သွားသော အသီးနှင့် သစ်စေ့များသည် ပေါ့ပါးကြသည်။ အချို့ အသီးနှင့် မျိုးစေ့တို့သည် လေအဟုန်စီး၍ လိုက်ပါသွားနိုင်ရန် အတောင်သဖွယ် စီမံဖန်တီးထား၏။ အချို့တွင် ငှက်မွေးသဏ္ဌာန် အမွေးများရှိသည်။ အင်သီး၊ သစ်စေးသီးနှင့် ဆတ်ကမိုးသီးများတွင် အတောင်များ ရှိကြသည်။ အင်သီး၌ အတောင်ရှည် နှစ်ခုရှိရာ၊ ကြွေ၍ အောက်သို့ ကျလာသောအခါ ချာချာလည်၍ ကျဆင်းလာသည်။ သစ်စေးသီးတွင် ရိုးတံဘခုရှိရာ အတောင် ငါးခုသည် ထိုရိုးတံနှင့် ဆက်၍နေသည်။ သစ်စေးသီးသည်လည်း အင်သီးကဲ့သို့ပင် အောက်သို့ ချာချာလည်၍ ကျဆင်းသည်။ ကြောင်လျှာစေ့နှင့် ဒန့်ဒလွန်စေ့တို့တွင် စက္ကူကဲ့သို့ ပါးလွှာသော အတောင်များ ရှိကြသည်။ ပိတောက်သီးတွင် အမြိတ်ကဲ့သို့သော အမြှေးပါးသည် ဝိုင်းလျက် ရှိသည်။ ထိုအသီးအစေ့တို့သည် လေတိုက်ခတ်ရာ အဝေးသို့ လွင့်ပါသွားကြသည်။

မျိုးစေ့များ ပျံ့နှံ့ရာ၌ တိရစ္ဆာန်များမှလည်း များစွာ အကူအညီ ရရှိသည်။ အချို့သော အသီးနှင့် မျိုးစေ့များတွင် တိရစ္ဆာန်များကို တွယ်ကပ်လိုက်ပါရန် အစေးများ၊ ချိတ်များ၊ ဆူးများ ပါရှိကြ၏။ တိရစ္ဆာန်များသည် ထိုအပင်များထဲသို့ ဖြတ်သွားသောအခါ ယင်းတို့၏ ကိုယ်တွင် အသီးအစေ့များ တွယ်ကပ်ပါသွားကြသည်။ တနေရာသို့ ရောက်သောအခါ ကပ်ပါလာသော မျိုးစေ့များ ကျကျန်ရစ်ခဲ့ကြရာမှ အပင်များ ပေါက်ပွားလာကြသည်။ မြက်သီးနှင့် ကပ်စေးနဲသီးများတွင် ဆူးများ ရှိကြသည်။ ရှဉ့်၊ ကြွက်နှင့် လင်းနို့စသော အကောင်များသည် အသီးနှင့် မျိုးစေ့များကို သိုလှောင်စားသောက်ယင်း အပင်များကို ပျံ့နှံ့စေသည်။ ငှက်တို့သည် အသားပျော့၍ အရည်ရွှမ်းသော သရက်သီး၊ မရမ်းသီး စသည့် အသီးများကို စားသောက်ကြပြီးလျှင် မျိုးစေ့များကို တနေရာသို့ ကိုက်ချီစွန့်ပစ်၍ ပျံ့နှံ့စေသည်။ အသားပျော့၍ အရည်ရွှမ်းသော အသီးများတွင် များသောအားဖြင့် အကာမာသော မျိုးစေ့များ ရှိကြသည်။ ထိုမျိုးစေ့များသည် ကိုယ်ခန္ဓာဝမ်းအတွင်းသို့ ရောက်ရှိသွားသော်လည်း ပျက်စီးခြင်းမရှိဘဲ မစင်စွန့်သည့်အခါ အပြင်သို့ပြန်ရောက်လာကြသည်။ ဆီးသီးစေ့၊ ဩဇာစေ့၊ မာလကာစေ့၊ သဖန်းစေ့နှင့် ညောင်သီးစေ့များသည် ဤသို့သော မျိုးစေ့များဖြစ်သည်။

မြေစေး၊ ရွံ့စေးများပေါ်သို့ ကျရောက်သော မျိုးစေ့ငယ်များသည် ကျေးငှက်တို့၏ ခြေထောက်တွင် ကပ်ပါသွား၍ နေရာ အနှံ့အပြားသို့ ရောက်ရှိကာ ပေါက်ပွားကြသည်။ လူတို့သည်လည်း မျိုးစေ့များကို ပျံ့နှံ့စေသည်။ ဂျုံ၊ စပါး၊ ပဲ၊ ပြောင်းစသော အသီးအနှံများကို နေရာအနှံ့အပြားသို့ ယူဆောင်သွားပြီးလျှင် အပင်များပေါက်ပွားစေသည်။

ရေဖြင့်လည်း သစ်သီးနှင့်မျိုးစေ့များ ပျံ့နှံ့ကြသည်။ ရေတွင် ပေါက်ရောက်သော အပင်များနှင့် ရေစပ်တွင် ပေါက်ရောက်သော အပင်များသည် ရေတွင်ပေါ်သော အသီးများသီးကြသည်။ ကြွေကျသော အသီးများသည် ရေပေါ်တွင် ပေါလော မျောပါသွား၍ အခြား ကမ်းစပ်ဒေသများသို့ ရောက်ရှိသွားကြသည်။ ဤသို့ဖြင့် အပူပိုင်းဒေသများတွင် အသစ် ပေါ်ထွန်းလာသည့် ကျွန်းမြေများတွင် အုန်းပင်များ ပဌမဆုံး ပေါက်ပွားလာကြသည်ကို တွေ့ရတတ်လေသည်။ ကြာသီးနှင့် အခြား ရေတွင် ပေါက်ရောက်သော

အပင်တို့၏ အသီးများသည် နေရာ အနှံ့အပြားသို့ မျောပါသွားကြ၍ ပျံ့နှံ့ကုန်ကြသည်။

အချို့ အသီးများသည် ရင့်၍မှည့်လာသောအခါ ပြင်ပခွံမာသည် ရုတ်တရက် အက်ကွဲပြီးလျှင် အထဲမှ အစေ့များ လွင့်စဉ်ထွက်သွားကြသည်။ ထိုအသီးများသည် ကြွေမကျဘဲ အပင်၌ရှိနေလျက်နှင့်ပင် မျိုးစေ့များ လွင့်ထွက်သွားကြသည်။ ပဲမျိုးပင်တို့၏ အသီးတောင့်များသည် ခြောက်လိုက်လာသောအခါ နှစ်ခြမ်းကွဲပြီးနောက် တခြမ်းစီ လိမ်သွားတတ်ကြသည်။ ထိုသို့ လိမ်သွားခြင်းဖြင့် မျိုးစေ့များကို ဝေးရာသို့ လွင့်စဉ်သွားစေသည်။ ဒန်းပင်၏ အသီးမှည့်ကို တစုံတခုနှင့် ထိခိုက်သည်နှင့် ဒန်းသီးသည် အသံမြည်လျက် အစိတ်စိတ် ကွဲသွားပြီးလျှင် မျိုးစေ့များသည် ပြန့်ကြဲထွက်ကုန်ကြသည်။

မျိုးစေ့သည် အပင်၏ အင်္ဂါအစိတ်အပိုင်းများနှင့် စုံလင်သော အပင်ငယ်ကလေး ဖြစ်သည်။ ယင်းအပင်ငယ်ကလေး မှီဝဲရန် အစာသည် အစေ့ရွက်များတွင် သိုမှီးပြီး ရှိသည်။ မျိုးစေ့တွင် မည်ကဲ့သို့ ဖန်တီးထား၍ ယင်းမှ မည်ကဲ့သို့ အပင်ကလေး ပေါက်လာသည်ကို ပဲကြီးစေ့တစေ့ကို ယူ၍ ကြည့်လျှင် သိသာနိုင်သည်။ ပဲကြီးစေ့တစေ့ကို ယူ၍ ရေတွင် တရက်မျှစိမ်ထားပါက ပွထလာပြီးလျှင် ပျော့ပျောင်းလာသည်ကို တွေ့ရသည်။ အစေ့ တခုလုံးကို ပါးသော အစေ့ခွံဖြင့် ဖုံးအုပ်လျက်ရှိသည်။ ပဲစေ့၏ ဘေးတဖက် ချိုင့်နေသော နေရာတွင် အမာရွတ်တခုရှိရာ ထိုနေရာသည် အစေ့နှင့် အစေ့အိမ် (အသီး) ကို ဆက်ထားသော နေရာ ဖြစ်သည်။ ပွနေသော ပဲကြီးစေ့ကို အနည်းငယ် ညှစ်ကြည့်သော် အမာရွတ် အဆုံးတဖက်တွင် ရှိသော အပေါက်ကလေး တပေါက်မှ ရေတစက်မျှ ထွက်လာသည်ကို တွေ့ရလိမ့်မည်။ အစေ့ခွံကို ဖယ်ရှားလိုက်လျှင် အသားပြည့်နေသော အဖတ်ကြီးနှစ်ခုကို တွေ့ရပေမည်။ ထိုအဖတ်များကို အစေ့ရွက်များဟု ခေါ်၍ ယင်းတို့အား လွယ်လင့်တကူ ခွါလိုက်နိုင်သည်။ ထိုအစေ့ရွက် နှစ်ရွက်ဆက်လျက်ရှိသော နေရာမှ ချွန်ထွက်နေသော အမြစ်ငယ်ကလေးတခု ရှိ၍ ယင်းကို အစေ့မြစ်ဟု ခေါ်သည်။ အစေ့မှ အပင်ပေါက်လာသော ထိုအစေ့မြစ်သည် သန္ဓေပေါက်မှ ထွက်၍ ရှည်လာသည်။ အမြစ်အပြင် ပင်စည်နှင့် အရွက်တို့လည်း အထက်သို့ ထွက်လာလေသည်။

အစေ့ရွက်များထဲတွင် အပင်ကလေးများ အစာမချက်လုပ်နိုင်မီ စားသောက်နိုင်ရန် အစာများ သိုလှောင်လျက်ပါရှိသည်။ သို့ရာတွင် အချို့အပင်များ၌ အစေ့ရွက်များသည် အလွန်ငယ်သောကြောင့် အပင်လောင်းအတွက် အစာ လုံလောက်အောင် မပေးနိုင်ချေ။ ဤသို့ မပေးနိုင်သည့် အခါတွင် "အင်ဒိုစပမ်" ခေါ် အစေ့တွင်း အစာမှ ရရှိလေသည်။ အစေ့တွင်း အစာသည် အပင်လောင်း ပေါက်လည်း၍ ဝန်းရံလျက်ရှိပြီးလျှင် အဆီနှင့် ပြည့်၍ရှိသည်။ အချို့ ပင်လောင်းများတွင် အစေ့ရွက် တခုသာရှိသောကြောင့် "အစေ့ရွက်ထီး" ပင်ဟု ခေါ်သည်။ အချို့တွင် အစေ့ရွက်နှစ်ခု ရှိသောကြောင့် "အစေ့ရွက်စုံ" ပင်ဟု ခေါ်သည်။

ပန်းပွင့်သော အပင်များမှသာ မျိုးစေ့များကို ရသည်။ ပွင့်မဲ့ပင်များမှ မျိုးစေ့များ မရသော်လည်း ယင်းတို့မှ ရသော မျိုးမှုန်များဖြင့် မျိုးပွားကြသည်။ မျိုးမှုန်များသည် အလွန်သေးမှုန်ကြ၍ ဆဲတခုတည်းသာ ရှိကြသည်။ မျိုးမှုန်တွင် မျိုးစေ့ကဲ့သို့ ပင်လောင်းမရှိချေ။ အလွန်သေးမှုန်ကြသောကြောင့် မိုက်ကရိုစကုပ် (အဏုကြည့် မှန်ပြောင်း) နှင့် ကြည့်မှ မြင်နိုင်သည်။ မျိုးမှုန် နှစ်မျိုးရှိ၏။ တမျိုးမှာ လိင်မျိုးမှုန်ဖြစ်၍ ဆဲ အဖိုအမ နှစ်ခု ပေါင်းသင်းမှုရှိမှ အပင်ပေါက်ပွားနိုင်သည်။ အခြားတမျိုးမှာ လိင်မဲ့မျိုးမှုန်ဖြစ်၍ ဆဲ အဖိုအမ ပေါင်းသင်းမှုမရှိဘဲ မျိုးပွားနိုင်သည်။ ကျောက်ခက်ပင်မျိုး၊ မှိုမျိုးနှင့် ရေညှိပင်မျိုးတို့တွင် မျိုးစေ့မရှိဘဲ မျိုးမှုန်များသာရှိကြသည်။

**မျိုးရိုးဇာတိ။** ။ပညာသင်ကြားရေး၌ စိတ်ပညာကို နားလည်ထားဖို့ အရေးကြီးသကဲ့သို့ စိတ်ပညာကို လေ့လာဆည်းပူးသော အခါ၌လည်း မျိုးရိုးဇာတိသဘောကို ထည့်သွင်း စဉ်းစားရပေမည်။ ကလေးများသည် မိဘမျိုးရိုးလိုက်သည်ဆိုရာ၌ အမျိုးမျိုး ရှိ၏။ အချို့က မိဘ၏ ရုပ်ဆင်းသွင်ပြင်၊ ကိုယ်အင်္ဂါ အစိတ်အပိုင်း၊ အသားအရေ စသည်တို့၌ မျိုးရိုးကို လိုက်၍ တူကြ၏။ အချို့က မိဘနှင့် ဉာဏ်ရည်ချင်း တူကြ၍အချို့က မိဘနှင့် စိတ်နေသဘောထား အပြုအမူ၊ အကျင့်စာရိတ္တတို့တွင် တူကြ၏။ များသောအားဖြင့် သားသမီးတို့သည် မိဘနှစ်ပါးစလုံးနှင့် ခပ်ဆင်ဆင် တူတတ်ပေသည်။

### မျိုးရိုးဇာတိနှင့် ပညာသင်ကြားရေး ဆက်သွယ်ပုံ

မျိုးရိုး ဇာတိနှင့် ပညာသင်ကြားရေးသည် မည်ကဲ့သို့ ဆက်သွယ်နေသနည်း။ ကလေးတယောက် မွေးဖွားလာသောအခါ သူ့မိဘ၏ မျိုးစေ့သည် သူ့ဝမ်းတွင်း၌ ပါလာပေမည်။ ကောင်းသော မျိုးစေ့ဖြစ်စေ၊ မကောင်းသော မျိုးစေ့ ဖြစ်စေ ကလေးသည် ခံယူရလိမ့်မည်။ ထိုကြောင့် ပင် မကောင်းသော မျိုးစေ့ ပါလာသော ကလေးများကို အကောင်းဆုံး ကလေးများ ဖြစ်လာရန် ပညာရေးက ပြုပြင်နိုင်ပါသလော ဟူသော ပြဿနာတရပ် ပေါ်ပေါက်လာ၏။

ကလေးများ ပညာသင်ကြားရေး၌ သူတို့၏ ဇာတိစိတ်နှင့် ပတ်ဝန်းကျင်၏ ဖန်တီးမှု နှစ်ခုကို ယှဉ်တွဲ၍ အသုံးပြု

သွားရသောကြောင့် ကလေးတို့၏ မျိုးရိုးဇာတိ စိတ်နေသဘောထားကို သိရှိထားဖို့ အထူး လိုအပ်ပေသည်။ မွေးကတည်းကပါလာသော ပင်ကိုယ်ဥာဏ်၊ အကျင့်စာရိတ္တစသည်တို့သည် မျိုးရိုးကြောင့်ဖြစ်၍၊ ကြီးမှ ပြောင်းလဲသွားသော စိတ်အပြုအမူ စသည်တို့သည် ပတ်ဝန်းကျင်၏ ဖန်တီးမှုကြောင့် ဖြစ်လေသည်။ ထိုအတွက် ကလေးများ ပညာသင်ကြားရေး၌ သူတို့နှင့် ဆီလျော်သော ပတ်ဝန်းကျင်ကို ဖန်တီးပေးရန် အရေးတကြီး လိုအပ်ပေသည်။

ကလေးများ၏ စိတ်သည် ပျော့ပျောင်းသောကြောင့် ပတ်ဝန်းကျင်က ဖြားယောင်းသွေးဆောင်လျှင် ပါနိုင်သည်။ ကလေးများကို ပြင်ပလောကနှင့်ဆက်သွယ်၍ လူမှုရေးရာ၊ ပေါင်းသင်း ဆက်ဆံရေးတို့၌ အမြင်ကျယ်လာအောင် ဆရာများသည် အမျိုးမျိုး ပညာသင်ရင်း ဖန်တီးပေးနိုင်လေသည်။ သို့သော် ပညာရေးက ဖန်တီးပေးရုံမျှနှင့် ကလေးများသည် အချွန်ဆုံး အတော်ဆုံးကား မဖြစ်နိုင်ပေ။ သူတို့၏ ဗီဇသတ္တိက ထူးချွန်လာမှသာလျှင် အကျိုး ပိုမို ဖြစ်ထွန်းနိုင်သည်။ ထိုကြောင့် ပညာသင်ကြားရေး ဆိုင်ရာ သုတေသီ ပုဂ္ဂိုလ်ကြီးတို့သည် ကလေး၏ ဇာတိစိတ်နှင့် ပြင်ပ ပတ်ဝန်းကျင်က သွင်းပေးသော စိတ်နှစ်ခုတို့တွင် ကလေး၏ ဇာတိစိတ်က ပို၍ အရေးကြီးကြောင်း ဆုံးဖြတ်ကြလေသည်။

မြေသြဇာ ကောင်းမွန်သော လယ်ယာများ၌ ကောက်ပဲသီးနှံ မျိုးကောင်းကိုစိုက်ပျိုးခဲ့သော် ကောင်းစွာဖြစ်ထွန်းအောင်မြင်ပေမည်။ ထိုနည်းတူစွာ ဇာတိဥာဏ် ထက်မြက်သော ကလေးများကို ကောင်းသော ပတ်ဝန်းကျင်၌ ပညာသင်ကြားပေးခဲ့လျှင် ထူးချွန်သော ပုဂ္ဂိုလ်ကြီးများ ဖြစ်လာနိုင်ပေသည်။

ကလေးများ၏ ဇာတိစိတ် ကောင်းမွန်လာရန်မှာ သူတို့၏ မိဖ အဆက် အနွယ်များသည် ကောင်းမွန်ပါမှ ဖြစ်ပေမည်။ မူလ မွေးကတည်းကပါလာသော အကျင့်ဆိုးတို့ကို ပြုပြင်ပေး၍မရ။ ကျန်းမာရေးနှင့် သက်ဆိုင်လျှင်လည်း ချည့်နဲ့အားနည်းသော မိဖကမွေးလာသော ကလေးသည် မည်ကဲ့သို့ပင် သူ့အဖို့ကောင်းမွန်သော ပတ်ဝန်းကျင်ကို ဖန်တီးပေးထားသော်လည်း သွေးတွင်းတွင် ပါလာသော မိဖတို့၏ သွေးကြောင့် ပိန်ကြုံနေမည်မှာ အမှန်ပင်ဖြစ်သည်။ အဖဖြစ်သူကပိန်၍ အမိဖြစ်သူက အလွန်ဝနေလျှင် ကလေးသည် မပိန်လွန်း မဝလွန်း ဖြစ်လာပေမည်ဟု ကျန်းမာရေး ပညာရှင်များက ဆိုထား၏။ ထိုအတူ ကလေးများ၏ ဉာဏ်စွမ်း၊ အကျင့်စာရိတ္တ စသည်တို့မှာလည်း မိဖနှစ်ပါးကိုလိုက်၍ အကောင်းအဆိုးရှိကြပေသည်။ ထိုကြောင့် ပညာသင်ကြားရေး၌ မျိုးရိုးကိုစိစစ်ဖို့ရာ အလွန်အရေးကြီးလေသည်။

### အလေ့အကျင့်

သံကောက်ကိုတူနှင့်နှက်၍ ဖြောင့်ဖြောင့်ဝင်အောင် ကြိုးစားသော်လည်း အချည်းနှီး ဖြစ်သကဲ့သို့ ခေါက်ရိုးကျိုးပြီး အဝတ်ကို ခေါက်တွန့်ပြေလျက် အသစ်ဖြစ်အောင် ပြုလုပ်ရန် ခဲယဉ်း၏။ အဝိဇ္ဇာဏက သက်မဲ့ပစ္စည်းများပင် ပြုပြင်ရန် ခဲယဉ်းပါမူ သက်ရှိဖြစ်သော လူတိရစ္ဆာန်တို့ အဖို့ကား အကျင့်သည် မည်မျှ အရေးကြီးကြောင်းကို အထူးဖော်ပြရန် မလိုတော့ပေ။

လူတို့သည် ငယ်ရွယ်စဉ် အခါကပင် အကျင့်အမျိုးမျိုးတို့ကို ရအောင် ဆည်းပူး လေ့လာခဲ့ရ၏။ ပုံပမာ ကလေးသည် ပဋမဦး ကြမ်းပြင်ပေါ်တွင် စမ်း၍မှောက်တတ်အောင် လေ့ကျင့်ရ၏။ နောက် လမ်းလျှောက်ချိန်၌ သူ့ကိုယ်သူ စမ်း၍ လမ်းလျှောက်ကြည့်ရပြန်သည်။ ဤသို့ လျှောက်တတ်အောင် ကြိုးစားနေစဉ် ပဋမဦး ကလေးအဖို့အတော် အခက်အခဲ တွေ့ပေမည်။ သို့သော် နေ့စဉ်ရက်ဆက်လျှောက်ကြည့်သောအခါ လက်တွေ့အားဖြင့် မချော်မလဲအောင် မည်ကဲ့သို့ လျှောက်ရမည်ကို သူ့ဖာသာသူ သိလာပြီးလျှင် အနည်းငယ်မျှ ကျင့်သားရသော် ကလေးသည် ကောင်းစွာ လမ်းလျှောက်တတ်သွားလေသည်။

လူသည် အသက်ရှင်နေသမျှ ကျင့်ရကြံရ၏။ ပို၍ အောင်မြင်ချင်လျှင် ပို၍ ကြံရ၏။ ကျင့်ရ၏။ လူသည် အဟိတ်တိရစ္ဆာန်ထက် လုပ်ရည်ကိုင်ရည် ပညာအရည်အချင်း ရှိ၏။ အဘယ်ကြောင့်နည်း။ တိရစ္ဆာန် အဖို့မှာ စည်းကမ်းတကျ သင်ကြားမှု မရှိပေ။ အမိဝမ်းမှ ကျွတ်စသာသာတွင် ထ၍ လမ်းလျှောက်နိုင်၏၊ စားနိုင်၏။ လူမှာကား တိရစ္ဆာန်ကဲ့သို့ မဟုတ်ပေ။ မိဖ ဖြစ်သူတို့ စည်းကမ်းတကျ ကျွေးရမွေးရ သင်ကြားရ၍ နှစ်ပေါင်း ရှည်ကြာမှသာ သူ့ဘဝကို သူ ခေါင်းဆောင်နိုင်လေသည်။ သူလေ့ကျင့် နေရသော အချိန်သည် တိရစ္ဆာန်ထက် ကြာ၏။ လူ့သက်တမ်း၏ လေးပုံတပုံ ကုန်ဆုံးသည့်အထိ လူ့လောက နေရေးထိုင်ရေး အတွက် ပြင်ဆင်လေ့ကျင့်ရလေသည်။ ထိုကြောင့် လူသည် တိရစ္ဆာန်တို့ထက် အဆပေါင်းများစွာ သာသည့်ပြင် သူ့ကိုယ်သူ လွတ်လပ်စွာ နေနိုင်သော အရည်အချင်းနှင့် ပြည့်စုံရလေသည်။

အလွန် ခိုင်မာ ထက်မြက်သော ဝက်အူရစ်ပင် ဖြစ်လင့်ကစား လှည့်ဖန်များ သုံးဖန်များက ပွန်းပဲ့ပြွန်းတီးရချေသည်။ ထိုနည်းအတူ မည်မျှ ခေါင်းမာသည့် ပုဂ္ဂိုလ်ပင်ဖြစ်စေ လှည့်ပတ်ပြုပြင်ဖန်များက ကိုယ်ကြိုက်သလို ဖြစ်လာနိုင်ပေသည်။ သို့သော် လူနှင့် သံသတ္တု စသည်တို့တွင် ခြားနားချက် ရှိ၏။ သံသတ္တု စသည်တို့ကို ကြိုက်သည့် ပုံသို့ သွန်းနိုင်သည်။ သို့သော် အဝိဇ္ဇာဏက ဖြစ်၍ ထိုသွန်းထားသည့်ပုံကို ခိုင်မြဲ တည်တံ့အောင် စောင့်ရှောက်နိုင်စွမ်းကား

မရှိချေ။ လူကား ထိုကဲ့သို့မဟုတ်၊ ပုံသွင်းခံ နိုင်၏၊ သွင်းထားသည့် ပုံကိုလည်း မပျက်မစီး ခိုင်မြဲအောင် စောင့်ရှောက် ထိန်းသိမ်းထားနိုင်၏။ သတ္တုကို အိုးပုံသွင်းနိုင်၏။ သို့သော် ထိုအိုးသည် ပိန့်ပဲ့ ပေါက်သွားနိုင်သည်။ သတ္တုက မပျက်စီးအောင် မကာကွယ်နိုင်။ လူကား ထိုကဲ့သို့မဟုတ်၊ လူတယောက်ကို စာသင်လျှင် စာတတ်၏။ စာတခါ ရေးတတ် ဖတ်တတ်သွားလျှင် ဘယ်တော့မျှမမေ့တော့ချေ။

လူတို့၏ တတ်သိမှုကို ဖော်ပြရာတွင် အာရုံကြောများအကြောင်းပါ ဖော်ပြရပေမည်။ ခန္ဓာကိုယ်ရှိ လှုပ်ရှားနိုင်သော ကိုယ်အင်္ဂါများသည် အာရုံခံစားတတ်သော အင်္ဂါများနှင့် အာရုံကြောများဖြင့် ဆက်သွယ်နေ၏။ ထိုအာရုံခံစားတတ်သော အင်္ဂါကို ထိခိုက်ထိုးဆွလိုက်လျှင် ယင်းသည် ချက်ခြင်း ဆိုင်ရာ အာရုံကြောများသို့ အာရုံကြောလမ်းကြောင်းဖြင့် ထိုးဆွခံရကြောင်းကို အကြောင်းကြားလိုက်သည့်ပြင် အာရုံကြောများက ကိုယ်အင်္ဂါများကို လှုပ်ရှားရန် အချက်ပေးလိုက်သဖြင့် လှုပ်ရှားမှု ဖြစ်ပေါ်လာရလေသည်။ ပုံပမာ ဦးခေါင်း ယားသည်ဆိုလျှင် ယားကြောင်းကို ဆိုင်ရာ အာရုံကြောတို့က အကြောင်းကြားလိုက်၏။ ထိုအခါမှ အယားဖျောက်ရန် လှုပ်ရှားနိုင်သော အင်္ဂါဖြစ်သည့် လက်က ဦးခေါင်းကို ကုတ်နိုင်၏။ ဤသို့ အာရုံကြောများနှင့် ကိုယ်အင်္ဂါ အစိတ်အပိုင်းကို အထူးဆက်သွယ်ထားသောကြောင့် ကျွန်ုပ်တို့ ကိုယ်၌ တစုံတခု ဖြစ်ခဲ့သော် ချက်ခြင်း ပြန်၍ တွန်းလှန်နိုင်၏။ အချို့ လှုပ်ရှားမှုတို့သည် လွယ်ကူ၍ အချို့ကားခက်၏။ ထိုခက်သည့် လှုပ်ရှားမှုတို့ကို လွယ်ကူလာအောင် နေ့စဉ်ကျင့်ပေးရ၏။ အလေ့အကျင့်ရပြီးလျှင် မည်သည့် အလုပ်မဆို လွယ်ကူလာ၏။ ကိုယ်အင်္ဂါဖြင့် လှုပ်ရှားရန် အမှုမျိုးသော်၎င်း၊ ဦးနှောက်ကို အသုံးပြု၍ စဉ်းစားရန် အမှုမျိုးသော်၎င်း မည်သည့်အလုပ်မဆို အကျင့်လုပ်ပေးလျှင် လွယ်ကူလာလေသည်။ အကျင့် ဖြစ်ပေါ်လာရအောင် အထက်က ပြဆိုခဲ့သည့် ကိုယ်အင်္ဂါနှင့် အာရုံကြောတို့သည် သူတို့၏ ဝတ်တရားကို ပူးပေါင်းဆောင်ရွက်ရ၏။ အကျင့်ကောင်းများ ရရန် စတင် လေ့ကျင့်မည်ကြံလျှင် စိတ်ထက်သန်စွာနှင့် နောက်မဆုတ်မည့် အဓိဋ္ဌာန်ဖြင့် ပြုလုပ်ရမည်၊ ကိုယ်လုပ်အံ့သော အလေ့အကျင့် မအောင်မြင်သေးသမျှ ယိုးမယ်ဖွဲ့ကာ အားမလျော့ရာ။ မကောင်းသည့် အလေ့ဆိုးကို စွန့်ပစ်ပြီးလျှင် အကျင့်ကောင်းကို ကျင့်ကြံရန် အချိန်အခါရွေးခြင်း၊ နေ့ရက်ရွှေ့ခြင်းဖြင့် အခါ မနှောင်းစေသင့်ပေ။ အလုပ်တခုကို အောင်မြင်အောင် လေ့ကျင့်နိုင်ရန် စိတ်ပျိုကိုယ်နု ပေါ့ပါးဖျတ်လတ်ရပေမည်။ စိတ်အားမလျော့ဘဲ ပျော်ပျော်ပါးပါး လေ့ကျင့်ပေးပါက လောကတွင် အကျင့်ကောင်းများ ရရန် မခဲယဉ်းချေ။

မျိုးရိုးဇာတိ သဘောကား ပတ်ဝန်းကျင်၏ ဖန်တီးမှုထက် တန်ခိုးကြီး၏။ ပျော့ညံ့သော မိဖနှစ်ပါးမှ ပေါက်ဖွားလာသူသည် အမြဲတမ်း ပျော့ညံ့နေပေမည်။ ထိုသူမျိုးအတွက် အထူးကောင်းမွန်သော ပတ်ဝန်းကျင်လို၏။ အသင့်အတင့် ထက်မြက်သော မိဖမှ ပေါက်ဖွားလာသူတို့ကား ပတ်ဝန်းကျင် ပြုပြင်သမျှ ထွန်းကားနိုင်၏။ အလွန်တရာထက်မြက်သည့် မျိုးရိုးမှ ဆင်းသက်လာသူတို့မူ မည်သည့်ပတ်ဝန်းကျင်မျိုး၌ပင် ကျင်လည် နေရငြားသော်လည်း မထောင်းတာလှပေ။ အချိန်နှင့် နေရာအလိုက် ထက်မြက်ထူးချွန်လာမည် မလွဲတည်း။ သို့သော်လည်း တကဲ့လူရည်ချွန် ပုဂ္ဂိုလ်ထူးကြီး ဖြစ်ရန်မှာ မျိုးရိုးထက်မြက်မှု၊ အကျင့်စာရိတ္တကောင်းမှု၊ အရည်အခြင်းပြည့်ဝမှုနှင့် အခွင့်အရေးကောင်း ကြုံတွေ့မှုတို့ လိုအပ်ပေသည်။

**မျိုးရိုးသန့်ပညာ။** ။နောင်လာ နောက်သားတို့၏ လူမျိုး အရည်အခြင်း တိုးတက်မှု၊ ဆုတ်ယုတ်မှုတို့ကို ပြုပြင်ဖန်တီးသည့် လူမှု ထိန်းသိမ်းရေး လေ့လာသော ပညာကို မျိုးရိုးသန့်ပညာ (ယူဂျင်းနစ်) ဟု ခေါ်သည်။ အဆင့်အတန်းမြင့်၍ ကာယဗလ၊ ဉာဏဗလနှင့် ပြည့်စုံသော လူမျိုးသန့်သန့် ရရှိရေးတွင် အခက်အခဲပေါင်းများစွာနှင့် ရင်ဆိုင်ရသည်။ လူတို့တွင် မိဖတို့မှ ဆက်ခံရရှိသော မျိုးရိုးဇာတိ တခုတည်းသာ လွှမ်းမိုးနေသည်မဟုတ်။ သူတို့ နေထိုင်သော ပတ်ဝန်းကျင် အခြေအနေများကလည်း လွှမ်းမိုးလျက် ရှိသည်။ အမှန်မှာ မျိုးရိုးသန့် ပညာသည် လူမျိုးတို့၏ အရည်အခြင်းကို မြှင့်တင်ရေးနှင့် စပ်လျဉ်းသော ဘာသာရပ်ဖြစ်သည်။

ဂရိပညာရှင်ကြီး ပလေးတိုးက "သင်တို့ မွေးမြူလာခဲ့သော ကျွဲနွား တိရစ္ဆာန်တို့၌ အမျိုးမြှင့်တင်မှု မရှိလျှင် တဖြည်းဖြည်း အမျိုးဆုတ်ယုတ် ညံ့ဖျင်းလာလိမ့်မည်" ဟု လွန်ခဲ့သော နှစ်ပေါင်း နှစ်ထောင်လောက်က ပြောခဲ့ဘူးသည်။ လူ၌လည်း ထိုသဘောတရားအတိုင်းပင် အမျိုးမြှင့်တင်မှု မရှိလျှင် လူမျိုး ဆုတ်ယုတ် ညံ့ဖျင်းသွားပေမည်။ လူမျိုး မြှင့်တင်ရေး၌ ကာယဗလ၊ ဉာဏဗလ ညံ့ဖျင်းသူတို့၏ မျိုးဆက် ပြန့်ပွားမှုကို ပိတ်ပင် တားဆီးခြင်း ပြုလုပ်ရလေသည်။ ထိုသို့ မဟုတ်ပါက တိုင်းပြည်၌ ဝေဒနာ ထူပြောသူ၊ စိတ်သဘောထား သေးသိမ် ယုတ်ညံ့သူ၊ အားအင်နည်းပါးသူ၊ ဉာဏ်နုံ့သူများပေါများနေ၍ တိုးတက်မှုမရှိဖြစ်နေပေလိမ့်မည်။

မျိုးရိုးသန့် ပညာသည် ၁၉ ရာစုနှစ်နောက်ပိုင်းလောက်ကမှ ပေါ်ပေါက်လာသော ပညာရပ် ဖြစ်သည်။ အင်္ဂလန်နိုင်ငံမှ ဆာ ဖရန်စစ် ဂေါ်လတန် ဆိုသူသည် လူမျိုး အရည်အခြင်းများကို လေ့လာယင်း ထွင်လိုက်သော ဝေါဟာရဖြစ်သည်။

သိပ္ပံပညာရှင်များသည် အပင်နှင့် တိရစ္ဆာန်များကို မိမိတို့ အလိုရှိသလို မျိုးသန့်သန့် မျိုးပွားယူနိုင်သကဲ့သို့ လူများကို မျိုးပွားမယူနိုင်သည်မှာ အခက်အခဲတခုပင်ဖြစ်သည်။ လူများသည် မျိုးပွားရာ၌ အသင့်တော်ဆုံး အကောင်းဆုံးတို့နှင့် ထိမ်းမြားခြင်းမရှိဘဲ မိမိတို့ ကြိုက်နှစ်သက်သူများနှင့်သာ လက်ထပ်ထိမ်းမြားလေ့ရှိကြသည်။ စီးပွားရေး တောင့်တင်း၍ ပညာအရည်အချင်းလည်း အလွန်ကောင်းသော လူများတွင် ဆင်းရဲ၍ ပညာမရှိသော လူများမှာလောက် သားသမီးဦးရေ မများကြောင်း လူဦးရေစစ်တမ်းတွင် တွေ့ရသည်။ ဤနှုန်းအတိုင်း မျိုးပွားနေပါက တနေ့တွင်လူမျိုးအဆင့်အတန်း ညံ့ဖျင်းသွားပေလိမ့်မည်။

မျိုးရိုးသန့်ခြင်းနှင့် စပ်လျဉ်း၍ ဉာဏ်နုံ သူများနှင့် လူတန်းမစေ့သူများအား အခြားသူများနှင့် မရောနှောစေဘဲ သီးသန့် ခွဲထားခြင်းကို နှစ်သက်သူများလည်း ရှိကြသည်။ အချို့တိုင်းပြည်များတွင် ထိုသူများကို မြုံစေခြင်းဖြင့် မျိုးပွားမှုကို ပျက်ပြားစေလေသည်။ နာဇီ ဂျာမနီနိုင်ငံသည် မျိုးရိုးသန့်မှုတွင် ဥပဒေ အလွန် ပြင်းထန်ရကား အခြားနိုင်ငံများကပင် မလိုက်နိုင်ချေ။ ဟစ်တလာသည် မိမိသတ်မှတ်ထားသော မျိုးရိုးသန့် အတန်းအစားတွင် မဝင်သောသူများအား အစတုံးချေမှုန်းရန် အလွန်အားပေးခဲ့၏။ ထိုသူများ အထဲတွင် ပိုးလူမျိုး၊ ယဟူဒီလူမျိုး၊ ဂျစ်ပစီလူမျိုး၊ ရူးသွပ်သူများနှင့် နာဇီဝါဒကို အတိုက်အခံပြုသူများ ပါဝင်လေသည်။

**မျက်စိ**။ ။လူတို့တွင် မြင်မှု၊ ကြားမှု၊ အနံ့ရမှု၊ အရသာခံစားမှု၊ တွေ့ထိမှု တည်းဟူသော အာရုံငါးပါးတို့သည် သိမှုနာဗ်ကြောတို့ကို အကြောင်းပြု၍ ဖြစ်ပေါ်လာကြသည်။ ထိုအာရုံငါးပါးအတွက် အာရုံခံအင်္ဂါ တခုစီ အသီးအခြား ရှိကြသည်။ ပုံပမာ အနံ့ရမှုသည် နှာခေါင်းရင်းရှိ သိမှုနာဗ်ကြောတို့ကြောင့် ဖြစ်ပေါ်လာ၍၊ ကြားမှုသည် နားအတွင်းရှိ သိမှုနာဗ်ကြောတို့ကြောင့် ဖြစ်ပေါ်လာသည်။ အနံ့ရမှုကို နားကြောများက မဆောင်ရွက်နိုင်သကဲ့သို့ အသံကြားမှုကိုလည်း နှာခေါင်းကြောများက မဆောင်ရွက်နိုင်ကြပေ။ ထိုအတူ မြင်မှုသည်လည်း မျက်စိ၏ နောက်ဖက်၌ရှိသော ဓာတ်ပုံကရိယာနှင့် သဏ္ဌာန်တူသည့် အလွှာအတွင်းရှိ သိမှုနာဗ်ကြောပေါ်သို့ အရိပ်ကျရောက်သောကြောင့် ဖြစ်ပေါ်လာသည်။ ထိုသိမှု နာဗ်ကြောများသည် ဦးနှောက်နှင့် ဆက်သွယ်နေကြသဖြင့် မြင်မှုကို ဦးနှောက်ကသာ အပ်ချုပ်၍ သရုပ်ဖော်ပေးလေသည်။ အရသာခံစားမှုသည်လည်း ထိုနည်းတူပင် ဖြစ်၏။ ထို့ကြောင့် အရာဝတ္ထု တခုတခုကို မြင်ရာ၌ရှင်း၊ အသံကြားရာ၌ရှင်း၊ အနံ့ခံရာ၌ရှင်း၊ အရသာ ခံစားရာ၌ရှင်း၊ တွေ့ထိရာ၌ရှင်း ဦးနှောက်ကသာလျှင် ဦးစီး၍ ထိုအာရုံများကို ဖြစ်ပေါ်လာစေသည်။

ကင်မရာခေါ် ဓာတ်ပုံရိုက်ကရိယာသည် မှန်ဘီလူး နေရာမှ အလင်းကို ဝင်စေ၏။ ထိုမှန်ဘီလူးရှိ အပေါက်ကို ဒိုင်ယာဖရမ်ခေါ် အဖုံးရှင်ကလေးဖြင့် ကြီးစေ ငယ်စေနိုင်လေသည်။ ဓာတ်ပုံရိုက် ကရိယာ၏ နောက်ပိုင်းတွင် အလင်းမိလွှယ်သော ကော်ပြားတခုရှိ၏။ ထိုကော်ပြားပေါ်တွင် မှန်ဘီလူးမှ ဝင်လာသော အလင်းသည် ဝတ္ထု၏ ရုပ်ပုံကို စောက်ထိုး ထင်ပေါ်စေသည်။ ဓာတ်ပုံရိုက်သူသည် ရိုက်လိုသည့် ပစ္စည်းပုံကို ပြတ်ပြတ်သားသား ထင်ရှားစေရန် ဓာတ်ပုံရိုက် ကရိယာကို ရှေ့တိုးနောက်ဆုတ် လုပ်သည်ကို သတိမူမိကြပေလိမ့်မည်။ မျက်စိသည် သဘောအားဖြင့် ဓာတ်ပုံရိုက် ကရိယာနှင့် တူသည့်ပြင် ထိုထက် ပို၍ ကောင်းမွန်သေးသည်။ ဓာတ်ပုံရိုက် ကရိယာမှာကဲ့သို့ မျက်လုံးအိမ်၏ နောက်ပိုင်းတွင် ပုံဖမ်း ကော်ပြားသဘောမျိုးရှိသော ရက်တီနာခေါ် အလွန် သိမ်မွေ့နူးညံ့သော မြင်လွှာရှိသည်။ ဓာတ်ပုံရိုက် ကရိယာမှာကဲ့သို့ ရုပ်ပုံ ပြတ်သားစွာ ထင်ပေါ်စေရန် မြင်လွှာကို ရှေ့တိုးနောက်ငင် လုပ်ရန်မလို အလိုအလျောက် ချိန်ပြီးသား ဖြစ်လေသည်။

မျက်လုံး တလုံးသည် ဓာတ်ပုံရိုက် ကရိယာကဲ့သို့ပင် ပြုမူလေသည်။ မျက်လုံးများတွင် အသားအရေမှာကဲ့သို့ တစ်ရှူးများ ရှိ၏။ မျက်လုံး၏ အပေါ်ယံ မျက်လွှာကို မျက်ဖြူလွှာဟု ခေါ်သည်။ ထိုမျက်ဖြူ အလယ်တည့်တည့်ရှိ ထုတ်ချင်းပေါက် မြင်ရသော နေရာကို မျက်ကြည်ဟု ခေါ်သည်။ ထိုခိုင်မာသော အထပ်အတွင်း၌ မည်းနက်၍ ပါးလွှာသော အထပ်တခု ရှိသည်။ ထိုအထပ်သည် ဓာတ်ပုံရိုက်ကရိယာ သေတ္တာအတွင်းတွင် သုတ်၍ထားသော ဆေးနက်နှင့် တူလေသည်။ ထိုအထပ်ကို မျက်စိသွေးကြောလွှာဟု ခေါ်သည်။ ထိုမျက်စိသွေးကြောလွှာ၏ အစိတ်အပိုင်းအချို့သည် မျက်စိမှန်ခုံးပေါ်သို့ အနည်းငယ် ရောက်လျက်နေသည်။ မျက်စိတွင် အရောင်ရှိသော အပိုင်းကို မျက်နက်ဝန်းဟု ခေါ်သည်။ ဆံပင်နှင့် အရေမှာကဲ့သို့ပင် မျက်နက်ဝန်းတွင် အရောင် မြောက်မြားစွာရှိသောအခါ မျက်စိ၏ အရောင်သည် အညိုရင့်ရောင် ရှိသည်။ မျက်နက်ဝန်းတွင် အရောင် အနည်းငယ်သာရှိလျှင် မျက်စိသည် ပြာနေသည်။ မျက်စိတွင် အလွန် မည်းနက်သော မျက်ဆန်ရှိ၏။ မျက်ဆန်သည် အလင်းဝင်သော ပြတင်းပေါက်ပိုင်း ဖြစ်သည်။ မျက်ဆန်ထဲသို့ ဝင်လာသော အလင်းသည် မျက်စိမှန်ခုံးကို ဖြတ်၍ မြင်လွှာပေါ်သို့ ကျရောက်သည်။ မျက်ဆန် မည်းနက်ရခြင်း အကြောင်းမှာ မျက်စိ၏ အတွင်းဖက်သည် မည်းနက်နေသောကြောင့်ပင် ဖြစ်သည်။ မြင်လွှာသည် မျက်စိသွေးကြောလွှာ အနက်ဆပ်၏ အတွင်းဖက်

တွင်ရှိသော ပါးလွှာ၍ သိမ်မွေ့သည့်အလွှာအထပ်ဖြစ်သည်။ မျက်စိမှန်ခုံး၏ ရှေ့ပိုင်းတွင် အက်ကွိုယပ်ဟျူးမားခေါ် အရည်ကျဲတမျိုးဖြင့် ပြည့်၍ နောက်ဖက်တွင်ကား ဗစ်ထရီယပ်ဟျူးမားခေါ် ကြည်လင်သော အရည်ပျစ်ဖြင့် ပြည့်လျက်ရှိသည်။

မျက်စိသည် ဓာတ်ပုံရိုက် ကရိယာကဲ့သို့ မျက်စိမှန်ခုံးမှ အလင်းကို ဝင်လာစေပြီးလျှင် မြင်လွှာပေါ်တွင် ရုပ်ပုံကို ထင်ပေါ်စေသည်။ မျက်လုံးကို သေးငယ်သော ကြွက်သား ၆ ခုက ထိန်း၍ထားသည်။ ထိုကြွက်သား ၆ ခုတို့ အနက် ၄ ခုသည် တည့်တည့်တန်းဆွဲ၍ ထားသည်။ ကျန် ၂ ခုမှာကား ဘေးသို့ဆွဲထားသည်။ ပဌမကြွက်သား ၄ ခုကြောင့် မျက်လုံးသည် ရှေ့သို့ဂုင်း၊ ဘေးသို့ဂုင်း စောင်း၍ကြည့်နိုင်သည်။ ဒုတိယကြွက်သား ၂ ခုကြောင့် မျက်လုံးသည် အထက်မှအောက်သို့၊ အောက်မှအထက်သို့ဂုင်း၊ ဘေးသို့ဂုင်း လှည့်၍ကာ ကြည့်ရှုနိုင်သည်။ မျက်နက်ဝန်းတွင် အတွင်းကြွက်သားများ ရှိသည်။ ထိုအတွင်းကြွက်သားများသည် အလင်းရောင် များသောအခါ မျက်ဆန်ကိုကျဉ်းစေနိုင်၍ အလင်းရောင် နည်းသောအခါ မျက်ဆန်ကို ချဲ့ပေးနိုင်သည်။ ဤနည်းဖြင့် အဝေးနှင့်အနီးရှိ ဝတ္ထုပစ္စည်းများကို မျက်စိဖြင့် မြင်နိုင်သည်။ အတွင်း ကြွက်သားများသည် အလိုအလျောက် မျက်စိမှန်ခုံးများ၏ ပုံသဏ္ဌာန်ကို ပြောင်းလဲစေ၍ မြင်လွှာပေါ်တွင် ဝတ္ထုမှလာသော အလင်းတန်းများကို ကျရောက်စေပြီးလျှင် ဝတ္ထု၏ရုပ်ပုံကို ပြတ်သားစွာ ထင်ပေါ်စေနိုင်သည်။

ထို အတွင်း ကြွက်သားများကြောင့် မျက်စိမှန်ခုံးသည် ပုံသဏ္ဌာန် အမျိုးမျိုး ပြောင်းလဲနိုင်သည်။ အသက်အရွယ်ကြီးရင့်သူများတွင် အတွင်း ကြွက်သားများသည် မည်မျှပင် မျက်စိမှန်ခုံးကို ပြုပြင်သော်လည်း များစွာ ခုံးနိုင်တော့မည် မဟုတ်သည့်ပြင် ပြားမြဲ ပြားလျက် ရှိနေတတ်သည်။ ထိုသို့ ပြားလျက်ရှိသော မှန်ခုံးများသည် အဝေးရှိ ဝတ္ထုပစ္စည်းများမှ လာသော အလင်းတန်းများကို အနီးရှိ ဝတ္ထုပစ္စည်းများမှ လာသော အလင်းတန်းများထက် ပို၍ မြင်လွှာပေါ်တွင် စုဆုံကျရောက်စေနိုင်သည်။ ထိုကြောင့် အသက်ကြီးရင့်သူများသည် အဝေးရှိ ပစ္စည်းများကို အနီးရှိ ပစ္စည်းများထက် ပို၍ ထင်လင်းစွာ မြင်နိုင်ကြခြင်း ဖြစ်လေသည်။

မျက်နက်ဝန်းသည် ကြွက်သားဖြင့်ပြီး၍ မျက်စိအတွင်းသို့ အလင်းကို လိုသလောက်သာလျှင် ဝင်ခွင့်ပြုသည်။ မှောင်နေသော အခန်းတွင်းမှ အလင်းဖက်သို့ လူတယောက် ထွက်လာသောအခါတွင် မျက်ဆန်ကျဉ်းသွားသည်ကို သတိမူမိကြပေလိမ့်မည်။ ကြောင်များ၏ မျက်စိများကို ဂရုစိုက်၍ ကြည့်မိလျှင် ညဉ့်အချိန်တွင် မျက်ဆန် ပို၍ ကြီးလာသည်ကို တွေ့ရပေမည်။ ထိုအခါဘွင် အလွန်မှိန်သည့် အလင်းရောင်ပင် ကြောင်၏ မျက်စိတွင်းသို့ ဝင်နိုင်သောကြောင့် ကြောင်များသည် အမှောင်ထဲတွင် မြင်နိုင်ကြခြင်း ဖြစ်သည်။ နေ့အခါ၌ ကြောင်၏ မျက်စိတွင် အလွန်ကျဉ်းမြောင်းသော မျက်ဆန်ကိုသာလျှင် မြင်နိုင်သည်။

မြင်လွှာသည် အလင်းမီလွယ်သော ဖလင်ကော်ပြားကဲ့သို့ ဖြစ်၍ မျက်စိတွင် အလွန်အံ့ဩဖွယ်ကောင်းသော အစိတ်အပိုင်းတခု ဖြစ်သည်။ မြင်လွှာတွင် နဗ်ကြောထပ်ပေါင်း ၁၁ ထပ် ရှိသည်။ အထူး ဆဲကလေးများရှိသည့် မြင်လွှာအပိုင်းသည် အလင်းရောင် တိုက်ရိုက်ကျရောက်သော အပိုင်းဖြစ်သဖြင့် အရေးအကြီးဆုံး ဖြစ်သည်။ ထို ဆဲကလေးများသည် မြင်လွှာ၏ ရှေ့ဖက်တွင်မရှိ၊ မည်းနက်သောမျက်စိသွေးကြောလွှာ၏ နောက်ဖက်တွင် ရှိသည်။ မြင်လွှာတွင် အထပ်များစွာပင် ရှိသော်လည်း ထိုအထပ်များသည် ပါးလွှာသိမ်မွေ့၍ ထုဘ်ချင်းပေါက် မြင်နိုင်ကြလေသည်။

ထိုဆဲများသည် အချောင်းပုံ၊ ကတော့ပုံတို့နှင့် တူသောကြောင့် ထိုဆဲတို့ကို ဆဲချောင်းများ၊ ဆဲကတော့များ ဟုခေါ်သည်။ ဆဲ ကတော့များထက် လေးဆပို၍ ဆဲချောင်းများက များသော်လည်း ဆဲကဘော့များက ပို၍ အရေးကြီးလေသည်။ မြင်လွှာအလယ်ရှိ အဝါစက်တွင်ကား ဆဲကတော့များသာလျှင် ရှိသည်။ ဆဲကတော့များကို တောက်ပသော အလင်းနှင့် အရောင်များအဘွက် အသုံးပြုပြီးလျှင် ဆဲချောင်းများကို မှုန်သော အလင်းအတွက် အသုံးပြုသည်။ မြင်လွှာမှ အဝါစက်ကလေးအားဖြင့် ဝတ္ထုပစ္စည်းများကို ထင်ရှားစွာ မြင်နိုင်သည်။ ပုံနှိပ်စာလုံးများကို ဖတ်သောအခါတွင်ဂုင်း၊ ဝတ္ထုပစ္စည်းများကို ကွဲပြားအောင် ကြည့်သောအခါတွင်ဂုင်း ထိုအဝါစက်ကို အသုံးပြုသည်။ နေ့အခါတွင် ထိုအစက်ဖြင့် ထင်ရှားစွာ မြင်နိုင်သော်လည်း ညဉ့်အခါ၌ လုံးဝ မမြင်နိုင်ချေ။ အဘယ်ကြောင့်ဆိုသော် မှုန်သည့်အလင်းတွင် အသုံးပြုရသော ဆဲချောင်းများသည် ထိုအဝါစက်တွင် လုံးဝမရှိသောကြောင့် ဖြစ်သည်။

အချို့သောသူများသည် အရောင်ကို မခွဲခြားနိုင်ကြချေ။ အစိမ်းရောင်နှင့် အနီရောင်များသည် ထိုသူတို့ မျက်စိတွင် အစိမ်းနှင့် အနီရောင်များ မဟုတ်ကြတော့ဘဲ မွဲပြာရောင်သာလျှင်ဖြစ်၍ နေကြသည်။ မော်တော်ကားမောင်းသမားနှင့် မီးရထားစက်ခေါင်းမောင်းသမားတို့၏ အရည်အချင်းကို စမ်းသပ်သည့်အခါတွင် အရောင်ကို ခွဲခြား၍ မြင်နိုင်၊ မမြင်နိုင်ကို ထည့်၍ စမ်းသပ်လေသည်။ အဘယ်ကြောင့်ဆိုသော် လမ်းများရှိ အထိမ်းအမှတ်မီးများသည် အများအားဖြင့် အနီရောင်နှင့် အစိမ်းရောင်ရှိသော မီးများဖြစ်ကြသောကြောင့်တည်း။

မျက်စိနှစ်လုံးရှိမည့်အစား မျက်စိတလုံးတည်းသာရှိခဲ့လျှင် မြင်ရသည့် အရာဝတ္ထုများသည် ပန်းချီကား ရေးဆွဲထားဘိသကဲ့သို့ အားလုံး ပြား၍နေပေမည်။ မျက်စိနှစ်လုံး ရှိခြင်းကြောင့် အလုံးကို အလုံးအတိုင်းမြင်ရ၍ အပြားကို အပြားအတိုင်း မြင်နိုင်သည်။ မျက်စိသည် ကိုယ်ခန္ဓာတွင် အသုံးဝင်၍ အလွန် သိမ်မွေ့နူးညံ့သော အပိုင်းတခု ဖြစ်၏။ အနည်းငယ်သော ဒဏ်ရာနှင့်ပင်လျှင် မျက်စိကို ဒုက္ခပေးနိုင်ပြီးလျှင် မျက်စိကို ကွယ်ပင် ကွယ်စေနိုင်လေသည်။ ထိုကြောင့် မျက်စိများကို ဂရုတစိုက် စောင့်ရှောက်ရန် လိုအပ်ပေသည်။ မျက်ခွံ၊ မျက်တောင်၊ မျက်ခုံးတို့သည် ဖုံများကို ကာကွယ်ပေးသည်။ မျက်လုံးခွံနှင့် မျက်ဖြူလွှာများတွင် ဖုံမှုန့်တခု ဝင်သွားလျှင် မျက်ရည်အိတ်မှ မျက်ရည်များ ကျဆင်းလာ၏။ ထိုသို့ ကျဆင်းခြင်းသည် မျက်စိကို ဆေးကြောခြင်းပင် ဖြစ်၍ ဖုံမှုန့်များ ပြန်၍ ထွက်လာစေသည်။ မျက်ရည်အိတ်သည် အပေါ်နှင့်အောက် မျက်ခွံများ အတွင်း၌ရှိ၏။ မျက်ရည်အိတ်မှ မျက်ရည်ထွက်လာအောင် လုပ်သောအခါတွင် မျက်စိတွင် မျက်ရည်များ ပြည့်လာ၍ ပိုလျှံသော မျက်ရည်သည် နှာခေါင်းပေါက်ထဲသို့ စီးဝင်နိုင်လေသည်။

မျက်နှာပြင်တင်းအား။ ။ပြဒါး ဖိတ်စဉ်၍ အစိတ်စိတ်ကွဲသွားသောအခါ အလုံးကလေးများအဖြစ် တည်နေသည်ကို မြင်ဘူးကြပေမည်။ ထိုအလုံးကလေးများကို ထပ်မံခွဲစိတ်ပြန်သော်လည်း အလုံးကလေးများပင် ဖြစ်မြဲဖြစ်နေကြပေလိမ့်မည်။ အလုံးကလေးများကို အချင်းချင်း ထိစေသောအခါ၌လည်း တခုနှင့်တခု စုပေါင်း၍ အရွယ်ကြီးလာသည့်တိုင်အောင် အလုံးပင် ဖြစ်နေသည်ကို တွေ့ရပေလိမ့်မည်။ တဖန် ငြိမ်သက်နေသော ရေ၏ မျက်နှာပြင်ပေါ်သို့ အပ်ကလေးတချောင်းကို ဖြည်းညှင်းစွာ ချကြည့်သောအခါ အပ်ကလေးသည် ရေထဲသို့နစ်မြုပ်မသွားဘဲ ရေပေါ်၌ ပေါ်လျက်ရှိနေသည်ကို စမ်းသပ် တွေ့မြင်နိုင်ပေသည်။ ထိုသို့သော အခြင်းအရာများမှာ မျက်နှာပြင် တင်းအားကြောင့်ပင် ဖြစ်သည်။

ဒြပ်ဝတ္ထုမှန်သမျှတို့သည် မော်လီကျူးများဖြင့် ဖွဲ့စည်းထားသည့် အစုအဝေးများ ဖြစ်ကြသည်။ ထိုမော်လီကျူးတို့သည် အချင်းချင်း ဆွဲငင်လျက် ရှိကြ၏။ သို့သော် အရည်နှင့် ဓာတ်ငွေ့တို့ကို နှိုင်းရှည့်ကြည့်လျှင် အရည်တွင်ပါရှိသော မော်လီကျူးတို့၌ ဓာတ်ငွေ့တွင်ပါရှိသောမော်လီကျူးတို့ထက် ဆွဲအား ပို၍ကြီးကြသည်ကို တွေ့ရသည်။ အရည်တခုတွင် မျက်နှာပြင် အနီး၌ရှိကြသော မော်လီကျူးတို့သည် မျက်နှာပြင်ပေါ်တွင် ရှိကြသော မော်လီကျူးတို့ကို ဆွဲငင်ကြသည်။ ထိုကြောင့် မျက်နှာပြင်တွင် မော်လီကျူးများ ပိုမို စုရုံးကြရာမှ မျက်နှာပြင်သည် အရေပါးကလေး လွှမ်းထားသည့်ပမာ တင်းပြီးရှိနေလေသည်။ ဤသို့ တင်းနေမှုကို မျက်နှာပြင်တင်းအားဟုခေါ်၏။ အရည် အသီးအသီးတွင်ရှိသောမျက်နှာပြင်တင်းအားတို့သည် မော်လီကျူးတို့၏ ဆွဲငင်အားကိုလိုက်၍ တခုနှင့်တခု မတူကြပေ။ မျက်နှာပြင်တင်းအားသည် မျက်နှာပြင်ကို နေရာ အကျဉ်းဆုံးယူအောင် ဆွဲကြုံ့ပေးသည်။ ပုံစံအားလုံးတွင် စက်ဝိုင်းလုံးပုံသည် မျက်နှာပြင် အကျဉ်းဆုံးဖြစ်၏။ ထိုကြောင့် ပြဒါးကို အစိတ်စိတ် ခွဲကြည့်ရာ၌သော်၎င်း၊ အရည်များကို အစက်ချကြည့်လျှင်သော်၎င်း၊ ဆပ်ပြာရည်ကို ပူဖောင်း မှုတ်ကြည့်လျှင်သော်၎င်း စက်ဝိုင်းလုံးပုံသာ ဖြစ်သွားသည်ကို တွေ့မြင်ရခြင်း ဖြစ်လေသည်။ အပ်ကလေးကို ရေမျက်နှာပြင်ပေါ်သို့ အသာချကြည့်စဉ်က ပေါ်နေနိုင်ခြင်းမှာလည်း တင်းနေသော ရေမျက်နှာပြင်သည် ကွဲပြတ်ပျက်ပြားသွားခြင်း မရှိသေးသည့်အတွက်ကြောင့် ဖြစ်လေသည်။

မျက်မမြင် ပညာသင်ကြားရေး။ ။မျက်မမြင်ဒုက္ခိတများ၏ အခြေအနေ တိုးတက် ကောင်းမွန်လာရေးအတွက် ကြိုးပမ်းမှုများသည် ၁၇ ရာစုနှစ်အဘွင်းကပင် စတင် ပေါ်ပေါက်လာခဲ့သော်လည်း ၁၉ ရာစုနှစ် အစလောက်အထိ မည်သို့မျှ မည်မည်ရရ မရှိခဲ့သေးချေ။ သို့သော် ၁၉ ရာစုနှစ်အတွင်းသို့ ရောက်သောအခါ မျက်မမြင် ဒုက္ခိတများ၏ အခြေအနေသည် တိုးတက် ကောင်းမွန်လာခဲ့သည်။ အထူးသဖြင့် ပဌမ ကမ္ဘာစစ် ပြီးဆုံးသွားပြီးသည့် နောက်တွင် ထိုကဲ့သို့သော ကြိုးပမ်းမှုများသည် ဆထက်ထမ်းပိုး တိုးတက်လာလေတော့သည်။ ပဌမ ကမ္ဘာစစ်အတွင်း ပါဝင်ဆင်နွှဲခဲ့စဉ်က မျက်စိတွင် ဒဏ်ရာရရှိသဖြင့် မျက်စိကွယ်ရသူ ဦးရေမှာ ဗြိတိန်နိုင်ငံ၌ပင် ၁,၀၀၀ ကျော်မျှ ရှိလေသည်။ သို့ဖြစ်ရာ စစ်ကြီးတွင် ပါဝင်တိုက်ခိုက်ခဲ့သော နိုင်ငံများသည် ထိုကဲ့သို့ လူဖြစ်ရှုံးရသူများအရေးကို လျစ်လျူရှု၍ မနေသာတော့ဘဲ အထူးပင် ကြိုးပမ်း ဆောင်ရွက်ပေးရလေသည်။ ထိုကြောင့် ယခုအခါတွင် မျက်မမြင်များ မလုပ်နိုင်သော အလုပ်ဟူ၍ မရှိသလောက်ပင် ဖြစ်နေပေသည်။ စာပေဖက်တွင်၎င်း၊ ကုန်ကူးသန်းရေးဖက်တွင်၎င်း၊ လယ်ယာ စိုက်ပျိုးရေးဖက်တွင်၎င်း အဖက်ဖက်တွင် မျက်မမြင်များ အတွက် လမ်းဖွင့်ပြီးသားဖြစ်နေ၏။ အလုပ်အကိုင် မလုပ်နိုင်သော မျက်မမြင်များကိုလည်း ပြုစုစောင့်ရှောက်ထားသဖြင့် ယခင်ကကဲ့သို့ ခိုကိုးရာမဲ့ မဖြစ်တော့ပေ။ အနောက်နိုင်ငံများတွင် မျက်မမြင် ဖြစ်ခန၍ များစွာ ဝမ်းနည်းစရာ အကြောင်း မရှိတော့ဘဲ၊ မျက်မမြင် အများပင် စာပေသင်ကြား တတ်မြောက်ကြ၍ လွတ်လွတ်လပ်လပ်နှင့် ကိုယ့်ဝမ်းကိုယ်ကျောင်းနိုင်သောသူများ ဖြစ်နေကြလေပြီ။

မျက်မမြင်များကို ပညာသင်ကြားပေးရာတွင် မျက်စိကို အသုံးမပြုနိုင်သဖြင့် အခြားအာရုံများကို ထက်မြက်အောင် လေ့ကျင့်စေကာ သင်ကြားပေးရလေသည်။ စပိန်လူမျိုး ဖရန်စစ္စကို လူးကပ် ဆိုသူသည် သစ်သားတုံးများပေါ်တွင် ထွင်းထားသော စာလုံးများကို လက်နှင့် စမ်းသပ်ခြင်းဖြင့် မှတ်မိလာပြီးလျှင် ဖတ်တတ်လာအောင် သင်ကြားပေးရန် ကြံစည်ခဲ့လေသည်။ အမေရိကန် ပြည်ထောင်စု၊ ဗော့စတန် မြို့ရှိ ပါကင် မျက်မမြင်ကျောင်း၏ ကျောင်းအုပ် ဒေါက်တာ ဆယ်မျူယယ် ဂရီဟောင်း ဆိုသူသည် တခါက ဆွံ့အပြီး နားမကြားသော မျက်မမြင် အမျိုးသမီးကလေးတဦးအား ဖောင်းကြွသော စာလုံးများဖြင့် ခက်ရင်းဟု ရေး၍ တံဆိပ် တပ်ထားသည့် ခက်ရင်းတချောင်းနှင့် အလားတူ အမည်တံဆိပ် တပ်ထားသော ဇွန်းတချောင်းကို ပေးကာ ကလေး၏ လက်ဖြင့် ထိုစာလုံးများကို စမ်းသပ်ကြည့်စေ၏။ ဤသို့ နေ့စဉ်ရက်ဆက် စမ်းသပ် ကြည့်ရသောအခါ ခက်ရင်း ဟူသော ပစ္စည်းနှင့် ခက်ရင်းဟူသော ဖောင်းကြွနေသည့် စာလုံးများသည်၎င်း၊ ဇွန်းနှင့် ဇွန်းဟူသော စာလုံးများသည် ၎င်း ဆက်သွယ်နေကြပုံကို ကလေးသည် သဘောပေါက်လာလေသည်။ တံဆိပ်များပေါ်မှ ဖောင်းကြွနေသော စာလုံးများ၏ အနေအထားကို ကလေးသည် ကောင်းစွာ ကျက်မှတ်မိသောအခါ ခက်ရင်းနှင့် ဇွန်းများကို တံဆိပ်များနှင့် တခြားစီပေး၍ ပြန်တပ်ခိုင်းလျှင် သူသည် ခက်ရင်းပေါ်၌ ခက်ရင်းဟူသော တံဆိပ်ကို၎င်း၊ ဇွန်းပေါ်၌ ဇွန်းဟူသော တံဆိပ်ကို၎င်း ကောင်းမွန် မှန်ကန်စွာ တပ်ဆင်နိုင်လာလေသည်။ ထိုနောက် အက္ခရာစာလုံးများကို တလုံးစီ ခွဲခြားပေး၍ ပြန်ဆက်စေသည့်အခါတွင်လည်း မှန်ကန်အောင် ဆက်စပ် လာနိုင်ပြန်သည်။ ဤသို့ဖြင့် သူ့ကို အရာဝတ္ထု ပစ္စည်းကလေးများနှင့် အမည်တံဆိပ်များတွဲကာ စမ်းသပ်ဖို့ ပေးထားရာ၊ စမ်းရင်း စမ်းရင်းနှင့် သူသည် အက္ခရာ စာလုံးများနှင့် အခြား စာလုံးပေါင်းများကို ကောင်းစွာ မှတ်မိလာလေသည်။ သို့ရာတွင် ဤသို့ အက္ခရာ စာလုံးများကို မှတ်မိဖို့ လေ့ကျင့်ရသည်မှာ အချိန်ကြာလှသည့်ပြင် တော်ရုံ ဇွဲဝီရိယနှင့်လည်း မတတ်မြောက်နိုင်ချေ။

အချို့က မှိုအုံးပေါ်၌ တွယ်အပ်ကလေးများကို စာလုံးပုံ ဖော်၍ စိုက်ထားပြီးသော် စမ်းသပ်စေခြင်းဖြင့် မျက်မမြင်တို့ ကို စာသင်ပေးရန် ကြိုးစားခဲ့ကြ၏။ ၁၈၄၄ ပြည့်နှစ်တွင် ပြင်သစ် လက်ရေးသင် ဆရာတဦးသည် မျက်မမြင်များအတွက် ရွေ့ရှားနိုင်သော စာလုံးများကို စမ်းသပ် တီထွင်ကြည့်ခဲ့သည်။ အချို့ကလည်း သတ္တုစာလုံးများကို အသုံးပြု၍ စမ်းသပ် သင်ကြားပေးခဲ့ကြ၏။ ဂျာမနီနိုင်ငံတွင် ဗိုက်ဆင် ဗု ဆိုသူသည် စက္ကူကပ်ပြားများတွင် စာလုံးထွင်း၍ သင်ကြားခဲ့သည်။ နည်းသစ် စထွင်သူများသည် တခါတရံ နည်းလမ်းအစကို မျက်မမြင်တပည့်များထံမှသင် ရတတ်လေသည်။ တခါက ဗလင်တင် အျူအီးဆိုသူ၏ မျက်မမြင်တပည့် တယောက်ဖြစ်သူ ဖရန်ဆွာ လက်ရှားသည် သူ့ဆရာ၏ စားပွဲပေါ်ရှိ စာရွက်များကို ရွေးချယ်နေရင်း စက္ကူကပ်ပြားတခုပေါ်၌ ပုံနှိပ်ထားသော စာလုံးများကို စမ်းသပ်ကြည့်မိ၏။ ထိုစာလုံးများမှာ စက္ကူပေါ်တွင် အရာထင်နေအောင်ပင် ပုံနှိပ်ထားရာ၊ ယင်းတို့ကို စမ်းကြည့်ခြင်းဖြင့် စာလုံးအမျိုးမျိုးကို ခွဲခြားတတ်ကြောင်း သူ့ဆရာကို ပြောပြလေသည်။ ထိုအခါ အျူအီးသည် အကြံရလာပြီးသော် စာရွက်လွတ်တရွက်ပေါ်တွင် ကလောင်တံအရိုးဖြင့် စာလုံးများကို ရေး၍ လက်ရှားအား ဖတ်ခိုင်းသည်။ လက်ရှားသည် လက်နှင့် စမ်းသပ်၍ မှန်ကန်အောင် ဖတ်နိုင်ခဲ့ပြန်သည်။ သို့ဖြင့် အျူအီးသည် အားတက်လာကာ စာရွက်ပေါ်တွင် စာလုံး ဖော်၍ မျက်မမြင်များကို သင်ကြားပေးခဲ့လေသည်။

မျက်မမြင်များ ဖတ်ရန်စာအုပ်များကို ဦးစွာပဌမ ဖောင်းကြွနေသော စာလုံးများဖြင့် ပုံနှိပ် ထုတ်ဝေခဲ့၏။ သို့သော် ယခု အသုံးပြုနေသည့် စာအုပ်များမှာ များသောအားဖြင့် စာရွက်ပေါ်၌ အဖုကလေးများဖြင့် အက္ခရာပုံ ဖော်ထားသော စာအုပ်များ ဖြစ်လေသည်။ ဤစာအုပ်မျိုးကို ပါရစ်မြို့မှ လူဝီဗရေးဆိုသူ တီထွင် ထုတ်ဝေခဲ့လေသည်။ လူဝီဗရေး၏ ဖခင်သည် သားရေကုန်းနှီး ကကြိုးတန်ဆာများကို ချုပ်လုပ်ရောင်းချသူ ဖြစ်ရာ၊ သူသည် သားရေစကလေးများကို စူးဖြင့် ထိုးဖောက်ကာ ကစားလေ့ရှိခဲ့၏။ တနေ့တွင် လူဝီသည် အခါတိုင်းကဲ့သို့ သူ့စူးနှင့်သားရေကို ထိုး၍ ကစားနေစဉ် ကံမကောင်း အကြောင်း မလှသောကြောင့် လက်ချော်၍ မျက်စိကို ထိုးမိသဖြင့် ၃ နှစ်သားအရွယ်တွင် မျက်စိ ကွယ်ခဲ့ရရှာလေသည်။ သားရေတွင် စူးနှင့်ထိုးဖောက်လိုက်သောအခါ အပေါက်ကလေးများ ဖြစ်ပေါ်လာပုံကို သူစိတ်ဝင်စားစွာ တွေးကြည့်ယင်း အကယ်၍ စူးနှင့် သားရေကို ထုတ်ချင်းပေါက် မဖောက်ဘဲ သားရေတွင် အပေါက်ပေါ်ရုံလောက်သာ စူးကို ထိုးကြည့်လျှင် တဖက်၌ ဖောင်းကြွသော အပေါက်ရာကလေးများ ထင်လာသည်ကို သူစမ်း၍ သိရှိခဲ့လေသည်။ တဖန် ထိုအပေါက်ရာကလေးများကို နေရာတကျ စီစဉ်ပေးလျှင် အက္ခရာ စာလုံး ပုံသဏ္ဍာန်များ ဖြစ်ပေါ်လာနိုင်ကြောင်းကို သူစဉ်းစားမိပြန်လေသည်။ ထိုမှ သဲလွန်စရကာ မျက်မမြင်များ အတွက် စာလုံးများကို ထွင်နိုင်ခဲ့လေသည်။ သူ့နည်းစံနစ်သည် မျက်မမြင်များအတွက် အလွန် သင့်တော်သောကြောင့် ယခုအခါ ကမ္ဘာပေါ်တွင် အများဆုံးအသုံးပြုလျက်ရှိပေသည်။

ဗရေးနည်းအတိုင်း ပုံနှိပ်ထားသော စာအုပ်များသည် ရိုးရိုးစာအုပ်များထက် ပိုထူ၍ အဖိုးလည်း များစွာပေးရသဖြင့် မျက်မမြင်ကျောင်း စာကြည့်တိုက်များ၌သာ ထား



ယခုအခါတွင်မျက်မမြင်များ မလုပ်နိုင်သောအလုပ်ဟူ၍ မရှိသလောက်ပင်ဖြစ်သည်။ ထိုသို့ အခြေမျိုးသို့ရောက်ရှိရန် လက်တွေ့ တက္ကသိုလ် သင်တန်းများ (အပေါ်ပုံ)ဖွင့်လှစ်သင်ကြားပေးလျက်ရှိသည်။ အောက်ပုံမှာမျက်မမြင်အမျိုးသမီးကလေးတဦး ပန်းကိုလက်ဖြင့်စမ်း၍ အနံ့ ခံကြည့်ရုံမျှဖြင့် မည်သည့်ပန်းဖြစ်ကြောင်း ပြောပြနေပုံဖြစ်သည်။



ရှိနိုင်လေသည်။ ဗြိတိန်နိုင်ငံ၌ မျက်မမြင်များအတွက် ပဌမဦးဆုံး ပုံနှိပ်ထုတ်ဝေသော စာအုပ်မှာ ၁၈၂၇ ခုနှစ်တွင် အက်ဒင်ဗာရာမြို့၌ ဂျိမ်းဂေါ ဆိုသူ ထုတ်ဝေသော စာအုပ်ဖြစ်သည်။ ထိုစာအုပ်၌ သုံးထောင့်ပုံကို အမျိုးမျိုးပြောင်းလွဲကာ အက္ခရာပုံဖော်၍ ပုံနှိပ်ထားလေသည်။ ၅ နှစ်မျှကြာသောအခါ ဆရာကြီးတဦးက တမျိုး တီထွင်ပြန်သည်။ ဤသို့ တစတစ နည်းကောင်းကို ထွင်လာကြရာ၊ ၁၉ ရာစုခေတ်ဦးလောက်တွင် မျက်မမြင်များအတွက် စာလုံးပုံဖော်သည့် နည်း ၂၃ မျိုးခန့် ရှိလာလေသည်။ ယင်းတို့အနက် ဗရေး၏နည်း၊ ဒေါက်တာမွန်း၏နည်း၊ လူးကပ်၏နည်းနှင့် ဖရဲ၏နည်းတို့သည် အထင်ရှားဆုံးဖြစ်၏။ ဗရေး၏နည်းသည် ကမ္ဘာသုံးဖြစ်၍ တရုပ်နိုင်ငံတွင် ဒေါက်တာမာရေး ဆိုသူသည် ဗရေး၏နည်းကိုပင် တရုပ်အက္ခရာနှင့် ဆီလျော်အောင် ပြုပြင်ပေးခဲ့လေသည်။

ဗရေး တီထွင်သောနည်းမှာ အစက်ကလေး ၆ ခု ကို အမျိုးမျိုး လှည့်ပတ်ကာ တွဲပေးခြင်းဖြင့် အက္ခရာဖော်ထားခြင်း ဖြစ်သည်။ ထိုအစက်ကလေးများမှာ အလျားလိုက် ၂ စက်စီ ထောင်လိုက် ၃ စက်စီရှိပြီးလျှင် ယင်းတို့ကို သင့်သလို တွဲလိုက်လျှင် ၆၃ တွဲရနိုင်၏။ ၂၆ တွဲကို အက္ခရာစာလုံးများအတွက် ထား၍ ကျန်အတွဲတို့ကို စကားဖြတ်၊ ပုဒ်ဖြတ်၊ အတိုချုံး စကားလုံးများ စသည်တို့အတွက် ထားလေသည်။ ပမာအားဖြင့် အင်္ဂလိပ်စာလုံး **A** ကို အစက်တစက်၊ **B** ကို ထောင်လိုက် အစက်နှစ်စက်၊ **C** ကို အလျားလိုက်အစက်နှစ်စက်၊ **D** ကို အလျားလိုက် အစက်နှစ်စက်နှင့် ထောင်လိုက်တစက် စသည်ဖြင့် အစက် ၆ စက်ကို အမျိုးမျိုး လှည့်တွဲကာ အက္ခရာစာလုံး ဖော်ထားလေသည်။

မျက်မမြင်များကို စာတတ်အောင် သင်ကြားပေးခြင်းထက် လက်မှုပညာကို တတ်အောင် သင်ကြားပေးလျှင် ပိုမို အကျိုးဖြစ်ထွန်းနိုင်သည့်အလျောက် ကြိမ်ဖြင့် ခြင်းတောင်းယက်ခြင်း၊ ကုလားထိုင်ကြိမ်ထိုးခြင်း၊ ဖာယက်လုပ်ခြင်း၊ တံမြက်စည်း စည်းခြင်းစသော စမ်းသပ်သုပ်ရသည့် လက်မှုပညာများကို မျက်မမြင်ကျောင်းများ၌ သင်ကြားပေးသေးသည်။ ထိုပညာဖြင့် မိမိတို့ အသက်မွေး ဝမ်းကျောင်းပြုနိုင်ကြ၍ ထိုပညာရပ်များမှာ မျက်မမြင်များအတွက် အထူး သင့်လျော်လေသည်။ အနောက်နိုင်ငံ၌ မျက်မမြင်များသည် တူရိယာတီးမှုတ်သည့်ဖက်၌ အချို့ တဖက်ကမ်းခတ် တတ်မြောက်ကြ၏။ အချို့ စန္ဒယားအတီးကောင်းသူများ၊ စန္ဒယားပြင်ဆရာများမှာ မျက်မမြင်များပင် ဖြစ်ကြလေသည်။

**မျက်မှန်။** ။ပေနှစ်ဆယ် အဝေးမှ မြင်သင့်မြင်ထိုက်သည့် အရာများအား ကောင်းစွာ မြင်နိုင်သော မျက်စိကို အခြေမှန် မျက်စိဟု ခေါ်သည်။ သို့ရာတွင် ချွတ်ယွင်းချက်မရှိဘဲ လုံးဝကောင်းမွန်သည့် မျက်လုံးရှိသူ လောကတွင် အလွန်ရှားပါးသေး၏။ အချို့မျက်လုံးတွင် ချွတ်ယွင်းချက်ရှိစေကာမူ ထိုချွတ်ယွင်းချက်မှာ အနည်းငယ်မျှဖြစ်၍ လျစ်လျူရှုနိုင်ပေသည်။ အချို့ ချွတ်ယွင်းချက်မှာ ကြီးကျယ်သဖြင့် မျက်စိဝေနေတတ်၍ အရာဝတ္ထုများကို မှုန်မွှားမွှားသာမြင်ရလေသည်။ ဤသို့ဖြစ်ခြင်းကို မျက်မှန်ဖြင့် ပြုပြင်ပေးနိုင်သည်။ မျက်မှန်သည် မှန်ဘီလူးဝိုင်းကလေးများသာဖြစ်သည်။ မျက်စိ၏ ချွတ်ယွင်းချက်များ ပပျောက်စေရန်အတွက် မျက်မှန်ကို တပ်ဆင်ကြရလေသည်။

မျက်မှန်ဖြင့် ပြုပြင်ပေးရသော မျက်စိမှုန်ခြင်းမျိုး၏ အကြောင်းရင်းများမှာ (၁) မျက်လုံးအိမ်အနေအထား မှားယွင်း ချွတ်ချော်နေခြင်း၊ (၂) အသက်ကြီးရင့်လာခြင်း၊ (၃) မျက်စိအာရုံနှင့်ဆိုင်သော ကြွက်သားများ အားနည်းခြင်းတို့ဖြစ်လေသည်။ ပဌမ အမျိုးအစားသည် ကောနီယခေါ် မျက်ကြည် ချွတ်ယွင်းမှုကြောင့် ဖြစ်တတ်သည်။ ထိုပြင် မျက်ကြည် အနေမှားနေမှုကြောင့်လည်း ဖြစ်တတ်သည်။ ဤသို့ မျက်ကြည် အနေမှားမှုကို ဆလင်ဒါခေါ် ထုလုံးရှည်သဏ္ဌာန်ရှိသော မှန်မှ ဖြတ်ယူရသော မှန်ဘီလူးမျိုးဖြင့် ပြုပြင်ယူရသည်။

မျက်စိမှုန်ခြင်းတွင် အဝေးမှုန်ခြင်းနှင့် အနီးမှုန်ခြင်းဟူ၍ နှစ်မျိုး ရှိသည်။ လူတိုင်းလူတိုင်းသည် အသက်ကြီးလာလျှင် အနီးမှုန်လာတတ်ကြသည်။ သို့သော် နဂိုကတည်းက အဝေးမှုန်သူတို့မှာ အနီးကြည့်ရာ၌ အလွန် ကောင်းမွန်ကြည်လင်သည့်အလျောက် အသက်အရွယ် ကြီးရင့်လာစေကာမူ၊ စာကြည့်ရာ၌ မျက်မှန်တပ်ရန် မလိုကြချေ။ အနီးမှုန်ခြင်းအတွက် မှန်ဘီလူးခုံးကိုဂွင်း၊ အဝေးမှုန်ခြင်းအဘက် မှန်ဘီလူးခွက်ကိုဂွင်း တပ်ဆင်ရသည်။ တတိယအမျိုးအစား မျက်စိချွတ်ယွင်းခြင်းအတွက် ပရစ်ဇင်ခေါ် သုံးမြှောင့် ဖန်တုံးများမှ သွေးယူရသော မှန်ကို တပ်ဆင်ရလေသည်။

မျက်မှန် စတင် အသုံးပြုခဲ့ကြသည်မှာ ၁၃ ရာစုခေတ်လောက်က ဖြစ်ရာ၊ ရော်ဂျာ ဗေကင် ဆိုသူ မျက်မှန် ပါရဂူကြီး တဦးက စတင်တီထွင်ခဲ့သည်။ ရှေးက မျက်မှန်များမှာ ရိုးရိုးဖန်ဖြင့် ပြုလုပ်ကြ၍ ဈေးပေါခဲ့သော်လည်း ယခုအခါတွင်မူ အထူးရွေးချယ်ထားသော ဖန်အမျိုးအစားများဖြင့်သာ စိမ် ပြုလုပ်ထားသဖြင့် ပိုမိုကောင်းမွန်ပြီးလျှင် ဈေးလည်း အတော်ကြီးမြင့်ပေသည်။ ယခုအခါ၌ တစုံတယောက်သည် မျက်စိမှုန်သည်ဟု မိမိကိုယ်ကိုမိမိ သက်သာမကင်း ဖြစ်လာလျှင် မျက်စိရောဂါကု ဆရာဝန်ထံ သွားရောက် ပြသရပေသည်။ ဆရာဝန်သည် မျက်စိကို အမျိုးမျိုး စမ်းသပ်ပြီးနောက် မျက်စိမှာ အကယ်မှုန်နေခဲ့လျှင်

မည့်မျှအားရှိသော မျက်မှန်ကို အသုံးပြုသင့်ကြောင်း ညွှန်ကြားလိုက်သည်။ ထိုအခါ မျက်မှန်ရောင်းသူထံသို့ သွားရောက်၍ ထိုညွှန်ကြားလိုက်သော မျက်မှန်မျိုးကို ဝယ်ယူတပ်ဆင်ရပေသည်။

မျက်မှန် အမျိုးမျိုးရှိသည်။ ယင်းတို့မှာ မှန်ဘီလူး နှစ်ခုပါဝင်၍ နားနောက်ဖက်တွင် ချိတ်ထားနိုင်သော အမြင်များသည့် မျက်မှန်မျိုး၊ မှန်ဘီလူး နှစ်ခုပင်ပါဝင်၍ နှာခေါင်း၌ ညှပ်ရသည့် မျက်မှန်မျိုး၊ မှန်ဘီလူး တခုတည်းရှိသော မျက်မှန်မျိုးတို့ ဖြစ်၏။ အချို့ မျက်မှန်များမှာ မှန်ဘီလူးနှစ်ခု ပေါင်းစပ်ပြုလုပ်ထား၍ အောက်နားဖက်တွင် အနီးကြည့်အတွက် အားကြီးသောမှန်ဘီလူး တပ်ဆင်ထားခြင်းဖြင့် အဝေးနှင့်အနီးကိုပါ ကြည့်နိုင်လေသည်။ ထိုမျက်မှန်များသည် အထူးကောင်းမွန်သော ဖန်မျိုးဖြင့် ပြုလုပ်ထားသဖြင့် မျက်စိကို ဒုက္ခပေးတတ်သော ခရမ်းဘေးရောင်ခြည်ကို ဖယ်ရှားပစ်နိုင်သည်။ နေပူရှိန်ကြောင့်ကျိန်းစပ်ခြင်း စသော ရောဂါမျိုးမှလည်း ကာကွယ်ပေးနိုင်လေသည်။

**မျက်လှည့်အတတ်။** ။ကြည့်သူတို့၏မျက်စိကို လှည့်စားခြင်းဖြင့် မဟုတ်သည်ကို အဟုတ်ထင်စေနိုင်သောကြောင့် မျက်လှည့်အတတ်ဟု ခေါ်သော အတတ်ပညာတမျိုးသည် ကမ္ဘာအနှံ့အပြားရှိ နိုင်ငံတို့တွင် အနည်းနှင့်အများ ခေတ်စားလျက် ရှိလေသည်။ မျက်လှည့်ဆရာဟု အမည်ခံသူ တယောက်သည် စိတ်ပညာကို အတော်အသင့် ခေါက်မိရမည့်အပြင် လက်၏ ကျွမ်းကျင်မှုဖြစ်သော ပဥ္စလက်နည်း ပရိယာယ် အသွယ်သွယ်တို့ကိုလည်း ကောင်းစွာ နားလည်ထားရပေမည်။ ထိုမျှသာမကသေး၊ ပရိသတ်၏ စိတ်ကို ဆွဲငင်နိုင်လောက်အောင် ကရားရေလွှတ် အချက်ကျကျ ပြောဆိုတတ်သော အရည်အချင်းရှိရန်လည်း လွန်စွာပင် လိုချေသည်။ မျက်လှည့်တို့မည်သည်မှာ လွန်စွာ လျှို့ဝှက်၍ အသိခက်သော အရာများကို ပြသနိုင်မှသာ ကြည့်သူ ပရိသတ်၏ အံ့သြချီးမွမ်းခြင်းကို ခံရတတ်သဖြင့် မျက်လှည့်ဆရာတို့သည် မိမိတို့၏ နည်းပရိယာယ်တို့ကို လူမသိအောင် လျှို့ဝှက်၍ ထားလေ့ရှိကြပေသည်။

အချို့သော လှည့်စားမှုများမှာ လွန်စွာပင် အံ့ဘနန်း ရှိလှသဖြင့် မျက်လှည့်ဆရာ၏ အစွမ်းတခုတည်းနှင့်သာ မဟုတ်ဘဲ၊ အစိမ်းတိုက်သဘော သက်ဝင်လေသလောဟူ၍ အတော်အတန် ခေတ်မီသူ အချို့တို့ပင်လျှင် ယုံမှားသံသယ ဖြစ်ကြရလေသည်။ ထိုယုံမှားမှုသည်ပင် မျက်လှည့်ဆရာကို ပို၍ အထင်ကြီးစေကာ လူကြိုက်များအောင် ဖန်တီးပေးတတ်သောကြောင့် အချို့သော မျက်လှည့်ဆရာများသည် မျက်လှည့်ပြခိုက်တွင် မျက်လှည့်စင်ပေါ်၌ ယုတ္တိတန်သည်၊ မတန်သည်ကို အပထားလျက်၊ လူဦးခေါင်းခွံတခုနှင့် လူရိုးတချောင်းနှစ်ချောင်းကိုတင်၍ ပြသထားလေ့ ရှိကြလေသည်။



ကမ္ဘာကျော် ဣတာလျံ မျက်လှည့်ဆရာကြီး မာတိနိသည် အမျိုးသမီးတဦးအား ဤသို့ အိပ်မွေ့ချကာ ပြသခဲ့သည်။

မျက်လှည့်အတတ်သည် မှော်အဘက်ကဲ့သို့ပင် လွန်စွာ ရှေးကျသော လောကီပညာရပ်တခု ဖြစ်လေရာ၊ ထိုအတတ်နှစ်ရပ်သည် တခုနှင့်တခု အလွန်နီးစပ်ခဲ့သဖြင့် မျက်လှည့်အတတ်သည် အစိမ်းတစ္ဆေ စသော ဝိညာဉ်တို့နှင့် ထွေးရောရှက်တင် ဖြစ်ခဲ့သည်ဟု ရှေးက ယူဆခဲ့ကြလေသည်။ သို့ရာတွင် များသောအားဖြင့် ယခုခေတ်အခါ ပြသလေ့ရှိကြသော မျက်လှည့်များတွင်ကား မှော်အတတ်၏ အကူအညီ ပါဝင်ခဲ့သော် အနည်းငယ်မျှသာ ပါဝင်၍ ကျင့်သားရ ကျွမ်းကျင်နေသော လက်ဖြင့် လှည့်စားခြင်း၊ အထူးစီမံထားသော ကရိယာ တန်ဆာပလာတို့ဖြင့် လှည့်စားခြင်း တို့သာ များလေသည်။

မျက်လှည့်အတတ်တွင် လက်လှည့်၊ မျက်လှည့်ဟူ၍ နှစ်မျိုးရှိ၏။ လက်လှည့်ဆိုသည်မှာ လက်ထဲရှိ ပိုက်ဆံကို ရုတ်တရက် ပျောက်သွားစေခြင်း၊ ဖဲချပ်ဝှက်ခြင်း စသည့် လက်ဖြင့် ကျင့်သားရအောင် လေ့ကျင့်ထားရသည့် လှည့်စားခြင်း အတတ်ဖြစ်၍၊ မျက်လှည့်ဆိုသည်မှာ မျက်စိကို ထင်ယောင် ထင်မှားဖြစ်စေခြင်း (ဝါ) ကြည့်သူတို့၏ စိတ်ကို လှည့်စားခြင်းပင် ဖြစ်လေသည်။ ပဌမ အမျိုးအစား ဖြစ်သည့် လက်လှည့်အတတ်ကို လမ်းဆုံလမ်းဝ လမ်းလေးခွတို့နှင့် လူစည်ကားသည့် နေရာတို့တွင် တွေ့ရှိရတတ်သော သာမန် မျက်လှည့်ပြပွဲများ၌ တွေ့မြင်နိုင်၍၊ ဒုတိယ အမျိုးအစားဖြစ်သည့် အထက်တန်း မျက်လှည့် အတတ်ကိုကား ကမ္ဘာအရပ်ရပ်သို့ လှည့်လည်၍ ရုံတင်ပြသသော နာမည်ကျော် မျက်လှည့်ဝိဇ္ဇာတို့၏ ပြပွဲများတွင်သာ တွေ့မြင်နိုင်ပေသည်။

မျက်လှည့်ပြရာ၌ အသုံးပြုလေ့ရှိသော ကရိယာများမှာ (၁) အမှန်အတိုင်း ပြုလုပ်ထားသော ပစ္စည်း၊ (၂) နဂိုပုံသဏ္ဌာန်ကို မပျက်စေဘဲ လှည့်စားရန်အတွက်သာ စီမံ ပြုလုပ်ထားသည့် ပစ္စည်းနှင့် (၃) ကြည့်သူများ မသိမမြင်နိုင်အောင် ပြုလုပ်ထားသော ပစ္စည်းဟူ၍ သုံးမျိုးသုံးစား ရှိလေသည်။ အချို့သော လှည့်စားမှုများတွင် ပစ္စည်းတမျိုးတည်းဖြင့်ပင် ပြုလုပ်နိုင်သော်လည်း ပစ္စည်းသုံးမျိုးစလုံးကို ပေါင်းစပ် ပြုလုပ်မှရသော လှည့်စားမှုများလည်း ရှိလေသေးသည်။

၊ လှည့်စားမှု အမျိုးမျိုးရှိသည်တွင် လှည့်စားမှုတခု အထမြောက် အောင်မြင်ရန်အတွက် ၈၀ ရာခိုင်နှုန်းလောက်မှာ မျက်လှည့်ဆရာ၏ စိတ်ပညာ နိုင်နင်းမှုပေါ်တွင် တည်၍ ၁၀ ရာခိုင်နှုန်းလောက်မှာ သရုပ်ပါပါ အမူအရာကောင်းကောင်းနှင့် ကျွမ်းကျင်စွာ ကိုင်တွယ် ပြသနိုင်မှုပေါ်တွင် တည်ရှိပြီးလျှင် ကျန် ၁၀ ရာခိုင်နှုန်းမှာ ကောင်းမွန်သော ပစ္စည်းများကို အသုံးပြုမှုပေါ်တွင် တည်နေလေသည်။ ဖြစ်နိုင်ဖွယ်ရာမရှိသော လှည့်စားမှုမျိုးကို ပြုလုပ်ပြသခြင်းသည် ကြည့်သူ ပရိသတ်အား ရင်သပ်အံ့သြ ထူးကဲသောအာရုံကို ခံစားစေနိုင်သည်သာမက လူမျိုးခြားပရိသတ်ပင် ဖြစ်စေကာမူ သဘောပေါက်ကာ စွဲလမ်းသွားစေနိုင်ပေသည်။ သို့အားဖြင့် မျက်လှည့် အတတ်သည် လူမျိုးတိုင်း လေ့လာပြသ ကြည့်ရှုနိုင်သော သဘင်အတတ်တရပ် ဖြစ်သည်ဟု ဆိုနိုင်ပေသည်။



မျက်လှည့်ဆရာတဦး ဖဲများကို လက်ဆွဲဘာဂျာသဖွယ် ဆွဲယူပြသစဉ်

ရှေးဟောင်း သမားရိုးကျဖြစ်သော မျက်လှည့်အတတ်များစွာတို့မှာ တကျောင်းတဂါထာ တရွာတပုဒ်ဆန်း ဟူသည်နှင့်အညီ တနိုင်ငံနှင့်တနိုင်ငံ မသိမသာ ကွဲပြားခြားနားလျက်ရှိသော်လည်း အခြေခံသဘောတို့၌ကား ထပ်တူထပ်မျှပင် ဖြစ်ကြသည်။

ယင်းသို့ ဖြစ်ရခြင်း အကြောင်းမှာ ထိုအခြေခံ အချက်အလက်များသည် တနိုင်ငံမှတနိုင်ငံသို့ တဆင့်ကူးပြောင်း ရောက်ရှိသွားကြခြင်းကြောင့် မဟုတ်ဘဲ၊ အလွယ်ဆုံး အရိုးဆုံးနည်းတို့ဖြင့်သာ လုပ်ကိုင်ပြသကြသောကြောင့်ပင် ဖြစ်လေသည်။ နှစ်ပရိစ္ဆေဒ ကြာညောင်းလာသောအခါ၊ ကမ္ဘာအရပ်ရပ်ရှိ မျက်လှည့်ဝိဇ္ဇာများသည် တိုးတက် ခက်ခဲနက်နဲသော ပြသမှုများကို ကြံစည်တီထွင်လာကြတော့၏။ သို့ရာတွင် တဦးနှင့်တဦး အတတ်ပညာချင်း ဖလှယ်ကြသည့်အတွက်၊ အရှေ့နိုင်ငံများမှ မျက်လှည့်အတတ်သည် အနောက် နိုင်ငံများသို့ ရောက်ရှိသွားပြီးလျှင် အနောက်နိုင်ငံ



လူမှ လင်းတဖြစ်သွားဟန် သရုပ်ပါပါပြသစဉ်

မျက်လှည့်အတတ်များသည်လည်း အရှေ့နိုင်ငံတို့သို့ ပျံ့နှံ့ရောက်ရှိလာကြလေတော့သည်။

မျက်လှည့်ပညာကို အပျော်ထမ်း လိုက်စားလိုသူများအဖို့ သိသင့်သိထိုက်သော အချက်အလက် အနည်းငယ်ကို အောက်တွင် ရေးသား ဖော်ပြထားပေသည်။

ပရိသတ်အား ဘာလုပ်၍ ပြမည်ဆိုသည့် အကြောင်းကို မည်သည့်အခါမှ ကြိုတင်၍ ဖွင့်မပြောသင့်ပေ။ ဘာဖြစ်လာမည်ကို ပရိသတ်က သူတို့ဖာသာ မှန်းဆ တွေးယူစေသင့်၏။ သာဓကပြရသော် လက်ထဲတွင်ရှိသော ငါးမူးစေ့ တစေ့ကို သူတို့ မျက်မှောက်တွင်ပင် ကွယ်ပျောက် သွားအောင် ပြုလုပ်ပြသမည် ဆိုကြပါစို့။ ဦးစွာပဌမ ငါးမူးစေ့ကို အများမြင်သာအောင် ထောင်၍ ကိုင်ပြပါ။ ထိုနောက် ပရိသတ် မသိအောင် ငါးမူးစေ့ကို ကျင်လျင်စွာ ရုတ်ခြည်း ဖျောက်လိုက်ပြီးလျှင် ငါးမူးစေ့ရှိသည်ဟု ထင်နေကြသော လက်ပေါ်သို့ ဆေးကြိမ်လုံး တချက် ဝင့်လိုက်ရုံမျှနှင့် ငါးမူးစေ့သည် လက်ထဲမှ ပျောက်သွားမည့် အကြောင်းကို ပရိသတ်အား ဗ္ဗာန္ဒြေမပျက် ပြောပြနိုင်ပေသည်။

အချို့ လွန်စွာ ရှုပ်ထွေးသော လှည့်စားမှုများကိုပင် များစွာ မခဲယဉ်းဘဲ ပြုလုပ်ပြသနိုင်ပေသည်။ လှည့်စားမှုတခုသည် ကောင်းစွာ အထမြောက် အောင်မြင်သွားပြီးနောက် ပရိသတ်က သဘောကျ၍ ပြပါဦးဟု တောင်းပန်ကြသော်လည်း မပြုလုပ်သင့်ပေ။ ပဌမအကြိမ်တွင် ချောမောစွာ အောင်မြင်သွားသော်လည်း ဒုတိယအကြိမ်တွင် အလိမ်ပေါ်သွားမည်ကို စိုးရပေသည်။ အကယ်၍ ပဌမအကြိမ်မှာကဲ့သို့ အောင်မြင်စွာ ပြုလုပ်ပြသနိုင်လိမ့်မည်ဟု မိမိကိုယ်ကို မိမိယုံကြည်စိတ်ချပါမူကား၊ တောင်းပန်ကြသည့်အတိုင်း အခြားနည်းတမျိုးနှင့်သာ ထပ်မံပြုလုပ် ပြသသင့်ပေသည်။ မျက်လှည့်များကို ပရိသတ်ရှေ့တွင် မပြသမီ တယောက်တည်း မှန်ကြီးကြီးတချပ်ရှေ့တွင် လေ့ကျင့်ကြည့်သင့်၏။ မိမိ၏လက်များသည် မိမိ၏မျက်စိများကိုပင် လှည့်စားနိုင်ပြီဟု ယုံကြည်ရသည့်အခါမှသာ အများရှေ့မှောက်တွင် ပြသသင့်ပေသည်။ လှည့်စားမှုများကို ပြသသည့်အခါတွင် အလောတကြီး လျင်မြန်မှုကို ဂရုမစိုက်ဘဲ ဖျတ်လတ်ကျင်လျင်မှုကိုသာ ရည်ရွယ်သင့်ပေသည်။ ကြည့်မကောင်းလောက်အောင် နှေးကွေးခြင်းကိုကား ရှောင်ကြဉ်သင့်၏။

မျက်လှည့်ဆရာကောင်း တယောက် ဖြစ်ရန် သူတကာထက် ထူးခြားသော ကိုယ်ခန္ဓာ အနေအထားရှိရန် မလိုချေ။ သို့ရာတွင် ပရိသတ်က မြင်လိုက်လျှင် နှစ်သက်သဘောကျသွားစေနိုင်သော အသွင်အပြင် ဟန် အမူအရာ ရှိရန်ကား လိုလေသည်။ မဖြစ်နိုင်ဟု ယူဆကြသည့် အရာများကို ပြုလုပ် ပြသရမည် ဖြစ်သောကြောင့် မျက်လှည့်ဆရာသည် မိမိကိုယ်ကို မိမိ ယုံကြည်မှု ထက်သန်ရပေမည်။ ကြည့်သူပရိသတ်အား ခင်မင် နှစ်လိုသောစိတ် ထားတတ်ရမည့်ပြင်၊ ပရိသတ်၏ သဘောကိုလည်း နားလည်ရပေမည်။ မျက်လှည့် အတတ်တွင် ကျွမ်းကျင်မှုမှာ အလေ့အကျင့်ပေါ်တွင် တည်သည်ကိုလည်း သတိအမြဲချပ်အပ်ပေသည်။ လှည့်စားနည်းအသစ်များကို တီထွင်နေရန် မလိုချေ။ တီထွင်ထားပြီးနည်းများ ထောင်သောင်းမက ရှိသည်ကိုသာ မိမိသဘောကျ စီစဉ်ပြုလုပ်ပြသသွားနိုင်ပေသည်။



လူငယ်မျက်လှည့်ဆရာ ပဏ္ဍဝသည် လှည့်စားသောနည်းကို ပီပီသေသပ်စွာ ထွင်နိုင်ခဲ့သူ ဖြစ်သည်။ အထက်ပါပုံတွင် လူကို လင်းတအသွင် ပြောင်းလဲပြဟန် ဖြစ်သည်။

**မျောက်**။ ။မျောက်ပြ၍ ဆန်တောင်းသည်၊ မျောက်အုန်းသီးရသလို၊ မျောက်မထားသည်၊ မျောက်သားစားချင် မျောက်မျက်နှာ မကြည့်နှင့်၊ မျောက်ရှုံးသည့်ကလေးစသည်ဖြင့် မျောက်နှင့် ခိုင်းနှိုင်းသည့်စကားပုံ များစွာပင် မြန်မာလူမျိုးတို့ ပြောဆိုခဲ့သည်ကို ထောက်၍ မျောက်များသည် လူတို့နှင့် မည်မျှ နီးစပ် ဆက်သွယ်နေကြောင်း သိသာနိုင်ပေသည်။ သက်ရှိသတ္တဝါတို့တွင် မျောက်သည် လူနှင့် အတူဆုံး တိရစ္ဆာန်ဖြစ်သဖြင့် အင်္ဂလိပ်လူမျိုး သိပ္ပံဆရာကြီး ဒါဝင်က လူများသည် မျောက်များမှ အဆင့်ဆင့် ယဉ်ကျေး တိုးတက်လာသူများ ဖြစ်သည်ဟုပင် ရေးသား ဖော်ပြခဲ့လေသည်။ မျောက်များသည် လူတို့ ပြုလုပ်သမျှကို ခဏနှင့်ပင် အတုခိုး၍ လုပ်နိုင်သော သတ္တဝါမျိုးဖြစ်၏။ လူတို့က မဲ့ရွဲ့ပြလျှင် ပြန်၍ မဲ့ရွဲ့ပြတတ်၏။ လူတို့ လုပ်ခိုင်းသမျှ လုပ်တတ်၏။ နေထိုင် စားသောက်ပုံမှစ၍ လူတို့နှင့် အလွန်တူလေသည်။

မျောက်သည် လူကဲ့သို့ပင် လက်ချောင်းများ လက်မများပါရှိ၍ ကိုင်တွယ် သွားလာနိုင်သော သတ္တဝါဖြစ်၏။ သို့ရာတွင် လူတို့ကဲ့သို့ ခြေနှစ်ချောင်းနှင့် လက်နှစ်ဖက်ရှိသော သတ္တဝါမျိုးကား မဟုတ်ပေ။ မျောက်သည် မြေပြင်တွင် သွားသောအခါ လေးဖက်သွားတတ်သဖြင့် ခြေလေးချောင်းရှိသော သတ္တဝါမျိုးဟုလည်း ထင်ကောင်းထင်ကြပေမည်။ အမှန်တွင်မူ မျောက်သည် ခြေလေးချောင်းရှိသော သတ္တဝါမျိုးလည်း မဟုတ်၊ ခြေနှစ်ချောင်း လက်နှစ်ဖက်ရှိသော သတ္တဝါမျိုးလည်း မဟုတ်ချေ။ သူတို့၏ နောက်ခြေဟု ထင်ရသည့် အချောင်းနှစ်ချောင်းမှာ လက်များကဲ့သို့ပင် မည်သည့် အရာဝတ္ထုကိုမဆို ဆုပ်နိုင်ကိုင်နိုင်ခြင်း၊ သစ်ကိုင်းစသော ကိုင်တွယ်စရာတို့ကို ဆုပ်ကိုင်ကာ ကိုယ်ကို စောက်ထိုးတွဲလဲပြုနိုင်ခြင်းစသည်တို့ကြောင့် ခြေမဟုတ် လက်များသာ ဖြစ်ကြသဖြင့် မျောက်သည် လက်လေးဖက်ရှိသော သတ္တဝါဖြစ်သည်ဟု ဆိုရပေမည်။ ရှေ့လက်နှစ်ချောင်းကား နောက်လက်နှစ်ချောင်းထက် ပို၍ ရှည်ကြ၏။

မျောက်သည် လက်လေးဖက်ရှိသည့်အတိုင်း မြေပေါ်တွင် သွားသောအခါ လက်များကိုဆုပ်လျက် လက်ဖနောင့်ဖြင့်သာ သွားကြ၏။ သို့ရာတွင် သစ်ပင်များပေါ်တွင်၎င်း၊ လှောင်အိမ်တွင်းရှိ တန်းများပေါ်တွင်၎င်း ပေါ့ပါးလျင်မြန်စွာ ခုန်ပေါက် ပြေးလွှားနိုင်ကြလေသည်။ မျောက်သည် အလွန်ပင် ပေါ့ပါးလျင်မြန် ဖျတ်လတ်၍ လိမ်မာမှုလည်းရှိသည်။ အစားအစာကိုပစ်ပေးက မြေသို့မကျမီ ဖမ်းယူနိုင်ကြ၏။ မျောက်သည် အချိန်ရှိသရွေ့ အငြိမ်မနေ လှုပ်ရှားပြေးလွှား ကစားနေတတ်သော သတ္တဝါမျိုး ဖြစ်လေသည်။

မျောက်ဆိုလျှင် လူအများ မြင်ဘူးကြသော ခွေးငယ် အရွယ် အမွေးဖွားဖွား အမြီးရှည်ရှည်နှင့် လူနှင့် အလွန်တူသော သတ္တဝါလေးများကိုသာ ထင်မြင်ကြပေမည်။ အမှန်မှာ ကမ္ဘာပေါ်တွင် မျိုးပေါင်း မရေမတွက်နိုင်လောက်အောင် ကွဲပြား မြောက်မြားလှသဖြင့် ရုပ်ဆင်းသဏ္ဌာန်အမျိုးမျိုး ရှိကြသည်။ မျောက်အမျိုးတိုင်း၌ လက်လေးဖက်ရှိသည်မှလွဲ၍ အခြား ရုပ်ဆင်းသဏ္ဌာန်တို့ကား တူညီကြသည် မဟုတ်ပေ။ အချို့ မျောက်များသည် ရှဉ့်ကလေးအရွယ်မျှသာရှိ၍ အချို့ကား ခွေးအကြီးစား အရွယ်ခန့်ပင်ရှိ၏။ အချို့ မျောက်များ၏ အမြီးတို့သည် ဖွား၍ အချို့ကား သာမန် အနေမျှသာ အမွေးရှိသည်။ အချို့ကား အမြီးရှည်ဖြစ်ပြီးလျှင်၊အချို့ကား အမြီးတို ဖြစ်ကြသည်။အချို့မျောက်မျိုး၏ မျက်နှာတွင် အမွေးရှည် ဖုံးအုပ်နေ၍ အချို့မျောက်မျိုး၏ မျက်နှာတွင် လုံးဝ အမွေးမရှိချေ။ ထိုမျှသာမကသေး၊ မျက်နှာပုံချင်းလည်း မတူကြချေ။အချို့မှာ ခွေးနှင့်တူ၍၊ အချို့မှာ ဝက်နှင့်တူသည်၊ အချို့မှာအမယ်အိုနှင့်ပင် တူကြသည်။ ထို့ပြင် နှာနီသော အမျိုး၊ပါးစောင်နီသောအမျိုး၊ နှာခေါင်းလန်သောအမျိုး၊ ပါးမုန်းမွေးရှိသောအမျိုး၊ လက်တံအလွန်ရှည်သော အမျိုးဟူ၍လည်း အမျိုးကွဲကြသေးသည်။ ထိုသို့ အင်္ဂါရုပ် အမျိုးမျိုးကွဲပြားရုံမျှမက အမွေးရောင်လည်း အမျိုးမျိုး ရှိကြသည်။ အချို့မျောက်တို့၏ အမွေးသည် နက်၏။ အချို့မှာ မီးခိုးရောင်ဖြစ်သည်။ အချို့မှာညို၍ အချို့မှာအဖြူရောင်၊ အစိမ်းပုပ်ရောင်၊ လိမ်မော်ရောင်စသည် ရှိကြသည်။

မျောက်များသည် ပူအိုက်စွတ်စိုသော ဒေသများ၌ အထူး ပေါများကြသည်။ မြန်မာနိုင်ငံ သစ်တောကြီးများတွင် မျောက်အုပ်ကြီးများ ရှိကြရာ၊ အချို့လူများသည် မျောက်သားစားရန် လိုက်လံပစ်ခတ်လေ့ ရှိကြသည်။ မြန်မာနိုင်ငံ အလယ်ပိုင်းရှိ ပုပ္ပါးတောင်နှင့် မုံရွာမြို့ အနောက်ဖက်ရှိ ဖိုးဝန်းတောင်တို့၌ မျောက်များစွာရှိရာ၊ ဘုရားဖူးလာသူများ၏ လက်တွင်းမှ သစ်သီးဝလံ အစားအစာများကိုပင် ယူငင် စားသောက်တတ်ကြလျက် ယဉ်ပါးနေကြလေသည်။ အာဖရိကတိုက်၊ အာရှတိုက် တောင်ပိုင်းနှင့် တောင်အမေရိကတိုက်ရှိ ပူအိုက် စွတ်စိုသည့် အရပ်များတွင် မျောက်အမျိုးမျိုး ရှိကြသော်လည်း မြောက်အမေရိကတိုက်နှင့် ဥရောပတိုက်ရှိ အလွန်အေးသော ဒေသများတွင်မူ မျောက်ကို မတွေ့ရချေ။ မြောက်အမေရိကတိုက်တွင် မက္ကဆီကိုနယ်၌၎င်း၊ ဥရောပတိုက်တွင် ဂျီဗရော်တာ တောတောင်ဒေသများ၌၎င်း မျောက်များကို အနည်းအကျဉ်းမျှသာ တွေ့ရှိရသည်။ မျောက်သည် အပူကြိုက်သော သတ္တဝါမျိုး ဖြစ်သဖြင့် အေးမြသော ဒေသများတွင် မနေနိုင်ကြချေ။ တောင်အမေရိကတိုက်ရှိ မျောက်မျိုးနှင့် အာဖရိကတိုက်၊ အာရှတိုက် တောင်ပိုင်းရှိ မျောက်မျိုးများမှာ

အလွန် ကွဲပြား ခြားနားကြသည့်အလျောက် မျောက်တို့ကို မည်သည့် ဌာနေများ ဖြစ်ကြောင်း လွယ်ကူစွာပင် ခွဲခြား ပြောပြနိုင်လေသည်။

အာဖရိကတိုက်နှင့် အာရှတိုက်ရှိ မျောက်များထက် တောင်အမေရိကတိုက်ရှိ မျောက်များသည် အမြီးကို လက်သဖွယ် အသုံးပြုနိုင်ကြသည်။ အမြီးဖြင့် သစ်ကိုင်းများကို ရစ်ပတ်ကာ ကိုယ်ကို တွဲလွဲပြု၍ ကစားခုန်လွှားနိုင်ကြသည်။ အာရှ၊ အာဖရိကစသောဒေသများရှိ မျောက်များကား သူတို့၏အမြီးကို ထိုသို့ အသုံးမပြုနိုင်ကြချေ။ တောင်အမေရိကတိုက်ရှိ မျောက်တို့၏ နှာခေါင်းမှာ ခပ်ပြားပြား ဖြစ်၍ နှာခေါင်းပေါက်ချင်းလည်း ဝေးသည်။ အာရှ၊ အာဖရိကတိုက်ရှိ မျောက်တို့၏ နှာခေါင်းပေါက်ချင်း အကွာအဝေးမှာ တောင်အမေရိကမျောက်တို့လောက် မဝေးလှချေ။ အာရှတိုက်နှင့် အာဖရိကတိုက်ရှိ မျောက်များ၏ ပါးစောင်တွင် အိတ်များပါရှိသဖြင့် အစားအစာများကို ထိုပါးစောင်အိတ်တွင် ထည့်ယူလျက် အလိုရှိမှထုတ်ယူ စားသုံးနိုင်ကြသည်။

သို့ရာတွင် တောင်အမေရိက မျောက်များ၌ကား ထိုကဲ့သို့ ပါးစောင်အိတ်များ မပါကြချေ။ အခြား ကွဲပြားချက် တခုကား အာရှ၊ အာဖရိကတိုက်တို့၌ နေထိုင်ကြသော မျောက်မျိုးတို့ဘွင် အမွေးမပေါက်သည့် အရေထူတင်ပါးအသားမာဖတ်ကြီးများ ရှိကြသဖြင့် သစ်ကိုင်းများ ပေါ်တွင် လွယ်ကူ သက်သာစွာ ထိုင်လျက် စားသောက်နိုင်ကြ လေသည်။ တောင်အမေရိက မျောက်များ၌ကား ထိုကဲ့သို့ မပါရှိကြချေ။ အာရှနှင့် အာဖရိကတိုက်ရှိ မျောက်များသည် တောင်အမေရိကတိုက်ရှိ မျောက်များထက် အမွေးရောင် မျိုးစုံလေသည်။



လူ့သဘာဝနှင့် အလွန်နီးစပ်သည့် ချင်ပန်ဇီ

မျောက်များသည် သစ်တောထူထပ်ရာအရပ်တွင် နေထိုင်လျက် အများအားဖြင့် သစ်ဥသစ်သီးများကို စားသောက်ကြသည်။ သစ်ပင်တပင်မှာပင်သို့ ဆူညံစွာ ဟစ်အော်လျက် သွားလာနေထိုင်ကြသဖြင့် မျောက်ရှိသောနေရာကို အဝေးကပင် သိနိုင်ကြသည်။ နေထွက်ချိန်နှင့် နေဝင်ချိန်တို့မှာ မျောက်တို့ အစာစားချိန်ဖြစ်သဖြင့် အဆူညံဆုံး ဖြစ်လေသည်။ မျောက်တို့သည် တောတွင်း ချောင်းကမ်းစပ်ရှိ သစ်ပင်များ၌ အထူးသဖြင့် နေထိုင်တတ်ကြသည်။

မျောက်အုပ်တိုင်းတွင်ပင် အကြီးအမှူးခေါင်းဆောင် တကောင်စီ ရှိမြဲဖြစ်သည်။ မျောက်ခေါင်းဆောင်သည် လိမ်မာပါးနပ်၍ သတ္တိရှိပြီးလျှင် မျောက်အပေါင်းတို့၏ ဘေးအန္တရာယ်ကို အမြဲပင် ဂရုစိုက် စောင့်ရှောက်တတ်သည်။ ထိုခေါင်းဆောင်အား မျောက်အုပ်တွင်းရှိ မျောက်တိုင်းကပင် ရိုသေလေးစားကြသည်။ ရန်သူနှင့် တွေ့သောအခါ ခေါင်းဆောင်ဖြစ်သော မျောက်သည် ကျယ်လောင်စွာ ဟစ်အော်ခြင်းဖြင့် မျောက်အုပ်အား သတိပေးလိုက်လျှင် မျောက်အပေါင်းတို့သည် ရုတ်တရက် အသံဆိတ်စွာ နေထိုင်ကြလျက် ရန်သူမမြင်နိုင်စေရန် ငြိမ်နေတတ်ကြသည်။

မျောက်အုပ်တိုင်းပင် ကိုယ်ပိုင်ဟု သီးသန့်သဘ်မှတ်ထားသော နယ်ပယ်အတွင်း၌သာ အစာရှာခြင်း၊ ကစားခြင်း၊ အိပ်ခြင်း ပြုလုပ်လေ့ရှိသည်။ ယင်းတို့ အမြဲနေသော နေရာကိုသာ ယင်းတို့ပိုင်သည်ဟုယူဆကြသည်။ တခါတရံ အခြားဖက်မှ မျောက်များသည် ထိုနယ်အတွင်းသို့ ကျူးကျော်ဝင်ရောက်လာခဲ့သော် ဝိုင်းဝန်းတိုက်ခိုက်၍ မောင်းနှင် ထုတ်တတ်ကြသည်။ တခါတရံ မျောက်တအုပ်နှင့်တအုပ် အပြင်းအထန် တိုက်ခိုက်တတ်ကြ၍ နိုင်သည့် မျောက်အုပ်သည် ရှုံးသော မျောက်အုပ်ကို မောင်းထုတ်ကာ ထိုနယ်ကို ကြီးစိုးလိုက်လေသည်။

မျောက်များသည် တောတောင်ရှိ သစ်သီး သစ်ဥများကိုသာ မှီဝဲစားသောက်ကြသော်လည်း အစားအစာ ရှားပါး၍ တော်မွတ်လာသောအခါ လူတို့စိုက်ပျိုးထားသော တောင်ယာပဲခင်းများသို့ ဝင်ရောက်၍ စားသောက် ဖျက်ဆီးတတ်ကြသည်။ ယင်းသို့ ဝင်ရောက်စားသောက်သည့်အခါလည်း ခေါင်းဆောင်မျောက်ကပင် ဦးဆောင်၍ သွားလေ့ ရှိလေသည်။ အသီးအနှံများကို ယာတွင်း၌ မစားကြဘဲ သူတို့၏ ပါးစောင်အိတ်များ၌ အပြည့်ထည့်ကာ ခေါင်းဆောင်နှင့်အတူ နေရင်းအရပ်သို့ပင် ပြန်သွားလေ့ရှိကြသည်။

မျောက်တိုင်းပင် သစ်ပင်ပေါ်၌ ခုန်လွှားပြေးသွားရာတွင် ကျင်လျှင် လေသည်။ မျောက်မများသည် သားငယ်တို့ကို ပိုက်၍ ခုန်လွှားနိုင်ကြ၏။ တောင်အမေရိကတိုက်ရှိ မျောက်များသည် အခုန်အလွှားတွင် အခြားတိုင်းပြည်များရှိမျောက်များထက် ပို၍ကျင်လျှင်ကြသည်။ အမြီးကို လက်

သဖွယ် သစ်ကိုင်းများတွင်ရစ်ပတ်၍ တွဲလဲပြုကာ အရှိန်ဖြင့် လွှဲလျက် တပင်မှတပင်သို့ ခုန်နိုင်ကြ၏။ မြေကြီးမှ ပေ ၄၀ အမြင့်တို့၌ပင် ထိုသို့ လွှဲခုန်ကာ သွားလာနေတတ်ကြသည်။ သစ်ပင်ပေါ်မှ ဆင်းသက်ခဲလှ၍ ရေသောက်သောအခါ၌ပင် အမြီးဖြင့် သစ်ကိုင်းကို ရစ်ပတ်ကာ တွဲလဲပြု၍ ရေသောက်တတ်ကြသည်။ တောင်အမေရိကတိုက်ရှိ မျောက်များသည် လူတို့၏ တောင်ယာပဲခင်းများကို ဝင်ရောက် စားသောက်ဖျက်ဆီးလေ့ မရှိကြချေ။ သို့ရာတွင် သူတို့၏ အသားနှင့် အမွေးများအတွက် လိုက်လံဖမ်းဆီးခြင်း ခံကြရလေသည်။

ကမ္ဘာပေါ်တွင် မျက်နှာရှုံ့မျောက်မျိုးထဲမှ အငယ်ဆုံး ဖြစ်သော မျောက်မျိုးနှစ်မျိုးသည် အာဖရိကတိုက်တောင်ပိုင်းနှင့် အရှေ့မြောက်ပိုင်းတို့တွင် ရှိကြသည်။ ထိုမျောက်မျိုးသည် အကောင်ရေများပြားစွာ အုပ်ဖွဲ့၍နေတတ်ကြပြီးလျှင် အလွန်သတိရှိ၍ ပါးနပ်ကြသည်။ ယင်းတို့နယ်တွင်းသို့ သူစိမ်းတရံစာ လူသတ္တဝါတို့ရောက်လာလျှင် လုံးဝအသံတိတ်လျက် မလှုပ်မယှက် ငြိမ်သက်စွာ နေတတ်ကြသဖြင့် ယင်းတို့ကိုတွေ့ရန် ခက်လှပေသည်။ ထိုမျောက်မျိုး၏ မျက်နှာနှင့် လက်များသည် မည်းနေသည့်ပြင် ကိုယ်ရှိအမွေးမှာ အစိမ်းရောင်သန်းသော မီးခိုးရောင်ဖြစ်သဖြင့် သစ်ရွက်များနှင့် ခွဲခြား၍မရအောင် ရှိကြသည်။ အချို့မျောက်များ၏ အမွေးမှာ ရေညှိအစိမ်းပုပ်ရောင်ရှိ၍ အချို့ မျောက်တို့၏ မေးဖျားနှင့် ပါးမုန်းမွေးတို့မှာ ဖြူနေကြသည်။

မျက်နှာရှုံ့မျောက်မျိုးထဲမှ အကြီးဆုံးနှင့် အရဲရင့်ဆုံးသော မျောက်နီမျိုးကို အာဖရိကတိုက် အနောက်ပိုင်းတွင် တွေ့ရသည်။ ထိုမျောက်နီမျိုးသည်လည်း အုပ်ဖွဲ့ကာ နေထိုင်တတ်ကြ၏။ သို့ရာတွင် ရန်သူတစုံတယောက်သည် ယင်းတို့ နယ်အတွင်း ချဉ်းနင်းဝင်ရောက် လာလျှင် အခြား မျောက်တို့ကဲ့သို့ ငြိမ်သက်စွာ ပုန်းအောင်းမနေဘဲ ကျူးကျော် ဝင်ရောက်လာသော ရန်သူတို့အား ယင်းတို့ လက်လှမ်းမှီရာ သစ်သီးများ၊ တုတ်ချောင်းများ၊ သစ်ကိုင်း သစ်ခွများနှင့် ပစ်ခတ်လေ့ရှိကြသည်။ တခါတရံ ယင်းတို့ နေထိုင်ရာ သစ်တောကို ဖြတ်သန်းစီးဆင်းသော မြစ်ချောင်းများ အတွင်း၌ သွားလာသည့် လှေသမားများကိုပင် မျောက်နီ အုပ်ကြီးသည် မိုင်ပေါင်းများစွာ သစ်ပင်ခေါင်ဖျားမှလိုက်၍ အမျိုးမျိုး ပစ်ခတ်တတ်ကြသည်။

အာဖရိကတိုက်ရှိ မျက်ကွင်းဖြူ မျောက်ငယ်မျိုးများမှာမူ မျောက်နီများကဲ့သို့ ဆိုးသွမ်း ကြမ်းကြုတ်ခြင်း မရှိဘဲ၊ နူးညံ့ သိမ်မွေ့သဖြင့် လူတို့မွေးမြူလေ့ ရှိကြသည်။ ထိုမျောက်မျိုးတို့ကို တိရစ္ဆာန်ရုံများတွင် တွေ့ရှိနိုင်သည်။ သင်ပြ၍ အလွန် တတ်လွယ်သည့်ပြင် မွေးမြူဂရုစိုက်သည့် သခင်ကိုလည်း အလွန်ချစ်ခင်တတ်ကြသည်။ အချို့ မျက်ကွင်းဖြူ မျောက်များ၏ အမွေးမှာ ရှည်၍ အရောင်မှာ မည်းနက်ကာ သပိတ်ရောင်ထနေသည်။ အချို့မျောက်တို့၏ အမွေးများမှာ အမည်းရောင် ပေါ်တွင် ဆွတ်ဆွတ်ဖြူ လည်ဆံမွေးနှင့် အမြီးမွေးတို့က ကျားလျက်ရှိသည်။ ယင်းတို့၏ အရေကို အဖိုးတန်သားမွေးထည်များ ပြုလုပ်ရန်အတွက် မုဆိုးများသည် ထိုမျောက်များကိုလိုက်လံဖမ်းဆီးကြလေသည်။ အက်ဗီဆီးနီးယားနိုင်ငံမှ စစ်ဗိုလ်ကြီးများသည် ရာထူးအလိုက် ယင်းတို့၏ ဒိုင်းများကို ထိုမျောက်မွေးရှည်များဖြင့် တန်ဆာဆင်ထားလေ့ရှိကြ၏။ ဥရောပနှင့် အမေရိကတိုက်တို့တွင် ခေတ်ဆန်သော အမျိုးသမီးများသည် ထိုမျောက်မွေးရှည်များကို ယင်းတို့၏ အင်္ကျီရှည်အနားတလျှောက်တွင် ကွပ်လျက် ဝတ်ဆင်လေ့ရှိကြသည်။ အမွေးအဖြူများရှိသော မျောက် ကလေးများတွင် လက်မမပါဘဲ၊ လက်ချောင်း ၄ ချောင်းသာပါသည်။ လက်မမှာ အရာသာသာ ငုတ်တိုလေးမျှသာ ဖြစ်သဖြင့် ဆုပ်ကိုင်ရာ၌ အသုံးမပြုနိုင်ပေ။ သို့ရာတွင် ထိုမျောက်ကလေးများသည် အခြားမျောက်များ ကဲ့သို့ပင် လွယ်ကူစွာ သွားလာခုန်လွှားနိုင်ကြလေသည်။

မျောက်အပေါင်း တို့တွင် အိန္ဒိယနိုင်ငံရှိ ဟနုမန် ခေါ် မျောက်မျိုးတို့ကဲ့သို့ မည်သည့် မျောက်မျိုးမှ ကံမကောင်းနိုင်ချေ။ ဟနုမန် မျောက်များကို ဟိန္ဒူလူမျိုးများသည် အထွတ်အမြတ် ထားကြ၏။ အနည်းငယ်မျှပင် နာကျဉ်အောင် မရိုက်ဝံ့ကြချေ။ ဟနုမန် မျောက်မျိုးမှာ အတော်အတန် ကြီးမားသည်။ ကိုယ်တွင်ညိုသော်လည်း၊ မျက်နှာနှင့် လက်များမှာ မည်းနေသည်။ အမြီးမှာ သေးသွယ်ရှည်လျားသည်။ ယင်းတို့သည် သစ်တောကြီးများတွင် နေသည်မှာ မှန်၏။ သို့ရာတွင် ယင်းတို့နေထိုင်ရာ အနီးရှိ တောလက်ကျေးရွာများသို့ အစုလိုက်အအုပ်လိုက် လာရောက်ကြလျက် ရွာတွင်းရှိပစ္စည်းများကို သူ့ဘိုးပိုင်သကဲ့သို့ ထင်သလို ပြုလုပ်တတ်ကြသည်။ ရွာဈေးများအတွင်းသို့ အုပ်လိုက်ဝင်ရောက်လျက် မုံ့များ၊ သစ်သီးများ၊ ထမင်းဟင်းများကို လုယူစားသောက်ကာ ပြန်သွားတတ်ကြသည်။ သို့ရာတွင် ဟိန္ဒူတို့သည် ထိုမျောက်များကို အထွတ်အမြတ် ထားကြသူများဖြစ်သဖြင့် မျောက်တို့လုပ်သမျှ ကြည့်နေ၍ အပျက်အစီးအဆုံးအရှုံးခံကြသည်။ တခါတရံ ထိုမျောက်တို့သည် ရွာတွင်းသို့ဝင်၍ အိမ်ခေါင်မိုးများပေါ်သို့တက်ကာ အိမ်များအတွင်းရှိလိုရာပစ္စည်းများကို ဆွဲယူထွက်ပြေးတတ်ကြသည်။ တခါတရံ အမိုးများကို ဖျက်ဆီးပစ်ခဲ့ကြသဖြင့် မိုးအခါတွင် များစွာဒုက္ခရောက်ကြရသည်။ သို့ရာတွင် ဟနုမန်မျောက်မျိုးကား ဘေးမဲ့ထားခြင်းခံရသဖြင့် ထိုသို့သောနှောင့်ယှက်ဖျက်ဆီးမှုတို့ကြောင့် လူတို့၏ ရိုက်ပုတ် ညှဉ်းပန်းခြင်းကို မခံယူကြရပေ။

လူနှင့် ဝေးလှသော တောကြီးများတွင် နေကြသော ဟနုမန် မျောက်များပင်လျှင် လူကို တွေ့ရှိက မှတ်မိသည့်











အပေါ် (ဝဲ) — မျောက်မျက်ကွင်းဖြူနှင့် မျောက်မျက်နှာပြား(ယာ)၊ အောက် (ဝဲ) — မျောက်ဖြူနှင့် မျောက်စပ်(ယာ)တို့မှာ၊ မြန်မာနိုင်ငံအပါအဝင်ဖြစ်သော အရှေ့အာရှတောင်ပိုင်းဒေသတွင် တွေ့ရများသော မျောက်မျိုးများဖြစ်ကြသည်။ အလယ်(ဝဲ)မှာ ကိုယ်အရှယ် ၈ လက်မခန့်သာရှိ၍ အမြီး ၁ ပေခန့်ရှည်ပြီး အမြီးဖွားသည့် ရှဉ့်မျောက်၏ပုံဖြစ်သည်။ အမွေးရှည်၍အလွန်လှသောမျောက်မျိုး ဖြစ်လေသည်။

မိတ်ဆွေကဲ့သို့ပင် သစ်ပင်များပေါ်မှလာ၍ ဝမ်းသာအားရ နှုတ်ဆက်တတ်ကြလေသည်။ ကျား၊ ကျားသစ်စသော ရန်သူတို့နှင့် တွေ့သောအခါမူ လက်ညှိုးတထိုးထိုးပြုလျက် စူးရှစွာ ဟစ်အော်တတ်ကြသည်။ ဟနုမန်မျောက်များ၌ ပါးစောင်အိတ် မရှိကြချေ။ အခုန်သန်သည့် ဟနုမန်တို့ကဲ့သို့ အခုန်သန်သော မျောက်များသည် ပူအိုက်စိုစွတ်သော သစ်တောကြီးများတွင်သာနေတတ်ကြသော်လည်း အချို့အမျိုးတို့သည် ဟိမဝန္တာတောင်ပေါ်ရှိ ဆီးနှင်းလွှမ်းတတ်သည့် ထင်းရှူးတောများတွင် နေထိုင်တတ်ကြသေးသည်။ တရုပ်နိုင်ငံတွင်လည်း ထိုကဲ့သို့ ဆီးနှင်းရှိရာ မြင့်မားသော တောင်တန်းကြီးများတွင် နေနိုင်ကြသည့် မျောက်မျိုးရှိလေသည်။

တောင်အမေရိကတိုက်တွင် ရှဉ့်ထက် အနည်းငယ်မျှသာ ကြီး၍ အမွေးရှည်သော အလွန်လှသည့် မျောက်ကလေးမျိုး ရှိ၏။ ယင်းသည် ၇ လက်မခန့် ရှည်၏။ သူ၏ အမြီးမှုကား တပေခန့် ရှည်၍ အမွေးဖွားသည်။ ယင်း၏ ချွန်နေသော နားရွက်ကလေး၊ လူမျက်နှာနှင့်တူသော မျက်ခွက်နှင့် လက်များကြောင့်သာ မျောက်ဟု သိရသော်လည်း ရုတ်တရက်မူ ရှဉ့်ကလေးဟူ၍သာ အထင်မှားတတ်ပေသည်။ ထို့ကြောင့် ယင်းမျောက်ကလေးများကို ရှဉ့်မျောက်ဟု ခေါ်ကြသည်။ မိုးသည်းထန်စွာ ရွာသွန်းသောအခါ ဤရှဉ့်မျောက်ကလေးများသည် အနီးအနားရှိ အရွက်အထူဆုံး သစ်ပင်ကြီးတပင်ပေါ်တွင် တစုတည်းနေလျက် တကောင်၏ လည်ပင်းပေါ်တွင် တကောင်၏အမြီးကို ပတ်ထားကာ အချင်းချင်း မှီလျက်နေခြင်းဖြင့် အအေးဒဏ်မှ ကာကွယ် ကြသည်။

တောင်အမေရိကတိုက်ရှိ တောကြီးများတွင် ဆူညံစူးရှစွာ အူတတ်သော မျောက်တမျိုးလည်း ရှိသေးသည်။ ထိုမျောက်မျိုးတွင် အသံကိုဖြစ်စေသော လေအိတ် ၆ ခုစီပါရှိသဖြင့် ယင်းတို့၏ အသံမှာ အထူးပင် ကြယ်လောင်စူးရှလှပေသည်။ တောင်အမေရိကတိုက်တွင် အခြား ထူးဆန်းသည့်မျောက်တမျိုးမှာ ပင့်ကူမျောက်ပင်ဖြစ်သည်။ ကျောပေါ်တွင် အမွေးထူထဲစွာ ပေါက်နေ၍ အမြီးနှင့်လက်တံများသည် သေးသွယ်ရှည်လျားရကား ရုတ်တရက်သော် ပင့်ကူကြီးနှင့်တူလှ၏။ ထို့ပြင် ကျောမွေးနီရှိသော မျောက်မျိုး ရှိသေး၏။ ထိုမျောက်မျိုးသည် လူတို့ကဲ့သို့ပင် ရေသောက်သောအခါ လက်ခုပ်ဖြင့်ယူ၍ သောက်တတ်ကြသည်။ ယင်းတို့သည် လွန်စွာနူးညံ့သဖြင့် လှောင်အိမ်နှင့်မွေး၍ မရသောကြောင့် တိရစ္ဆာန်ရုံများ၌ မတွေ့မြင်ရချေ။

မြန်မာနိုင်ငံနှင့် အရှေ့ အိန္ဒိယကျွန်းစုတို့တွင် ဝက်မြီးကဲ့သို့ အမြီးလုံးရှိသော မျောက်မျိုးလည်း ရှိသေးသည်။ ဤမျောက်မျိုးသည် ကြီးသည့်အခါ လွန်စွာ ရက်စက်ကြမ်းကြုတ်သောအမျိုးဖြစ်၏။ သို့ရာတွင် ထိုမျောက်မျိုးကို ငယ်စဉ်ကပင် ယဉ်ကျေးအောင်မွေးမြူလျက် အုန်းပင်တက်၍ ရင့်မှည့်သောအသီးများကိုဆွတ်ခူးရန်သင်ပေးကာ အချို့လူတို့က အသုံးချကြသည်။ ခြင်္သေ့၏အမြီးကဲ့သို့ အဖျားစွန်းအမွေးဖွား ပါရှိသော မျောက်တမျိုးကိုလည်း သီဟိုဠ်ကျွန်း၌ တွေ့ရှိရ၏။

အာဖရိကတိုက် အနောက်ပိုင်းတွင် တွေ့ရသော မျောက်မောင်းမမျိုးမှ အကြီးဆုံးနှင့် အဆိုးဆုံးမှာ မန်ဒရီးခေါ် မျောက်မျိုးဖြစ်သည်။ မျက်နှာပုံမှာ ခွေးနှင့် ဆင်ဆင်တူသည့်ပြင် ချွန်ထွက်နေသော အစွယ်များကြောင့် အတော်ပင် အရုပ်ဆိုးသည်။ အမြီးမှာ နှစ်လက်မခန့်မျှ ရှည်သော အငုတ်ကလေးဖြစ်၏။ မြေပြင်ပေါ်တွင် လေးဖက်လျှောက်မြန်စွာပြေးနိုင်သော်လည်း သစ်ပင်တက်ရာတွင် လွယ်ကူစွာ မတက်နိုင်ချေ။ သစ်သီး သစ်ဥများအပြင် ပိုးမွှားများနှင့် တိရစ္ဆာန်ငယ်များကိုပါ စားသောက်တတ်ကြသည်။ တခါတရံ လူတို့စိုက်ပျိုးထားသော တောင်ယာ ပဲခင်းများကို ဝင်ရောက်ဖျက်ဆီးတတ်ကြသည်။

အာရေဗျနိုင်ငံနှင့် အာဖရိကတိုက် အရှေ့မြောက်ပိုင်းရှိ မျောက်မောင်းမ တမျိုးသည်လည်း ခွေးနှင့် ခပ်ဆင်ဆင်တူ၏။ ယင်းတို့ကို ရှေးအီဂျစ်လူမျိုးတို့ ကိုးကွယ်ရှိခိုးခဲ့ကြသည်။ တောင်အာဖရိကရှိ မျောက်ဝံထက် အနည်းငယ်ကြီးသော မျောက်တမျိုးကို သိုးများထိန်းကျောင်းရန် ငယ်စဉ်ကပင်ယဉ်ကျေးအောင်မွေး၍ သင်ကြားပြသကာ အသုံးပြုကြသည်။ ယင်းတို့သည် ရဲရင့်၍ သစ္စာရှိသည်။ သိုးတို့အားရန်မူလာသော မြေခွေးကြီးများ၊ ကျား၊ ကျားသစ်စသည့် သတ္တဝါနှင့် လူများကိုပင် ရဲရင့်စွာ ခုခံတိုက်ခိုက်ကြသည်။ လူတို့လောက်ပင် သက်တမ်းရှည်သဖြင့် များစွာ အသုံးဝင်သော မျောက်မျိုးဖြစ်သည်။

အာရှတိုက် အရှေ့တောင်ဖက်ရှိ ဗော်နီယိုကျွန်းတွင် ထူးဆန်းသောနှာတံရှည်မျောက်တမျိုး ရှိသေးသည်။ မျောက်ထီးကြီး၏ နှာတံမှာ ဆင်၏နှာမောင်းကဲ့သို့ ရှေ့သို့ထိုးထွက်နေလျက် တမိုက်ခန့်ရှည်ကာ ဆင်နှာမောင်းကဲ့သို့ ဗယ်ညာ အထက်အောက် ရွှေ့ပြောင်းလှုပ်ရှားနိုင်သည့်အပြင် အတိုအရှည် အလိုရှိသလို ရှုံ့ နိုင် ဆန့်နိုင်သည်။

အပြည်ပြည်တွင် မိမိတို့ဆိုင်ရာ မျောက်နှင့် စပ်ဆိုင်သည့် ဝတ္ထုပုံပြင်များ ရှိကြလေသည်။

**မျောက်ချောပင်။** ။မျောက်ချောပင်သည် မြင့်သော တောသစ်ပင်မျိုး ဖြစ်၍ အထက်အောက် မြန်မာနိုင်ငံ သစ်တောများ၌ အနှံ့အပြား တွေ့ရသည်။ အပင်ဖျား၌သာ အကိုင်း အခက် အရွက်များ ဝေဝေဆာဆာတွေ့ရပြီးလျှင် အပင်၏ အောက်ပိုင်းနှင့် အလယ်ပိုင်း ပေ ၅၀ အမြင့်အထိ ပင်စည်တွင် အကိုင်း အခက် အရွက်ဟူ၍ ဘာမျှမရှိဘဲ ပြောင်ချော၍ နေသည်။ မျောက်ချောပင်၏ အခေါက်သည် အ

လွန် ချောမွတ်သဖြင့် မျောက်များပင် လွယ်လွယ်ကူကူနှင့်မတက်နိုင်ဘဲ လျှောကျတတ်သောကြောင့် မျောက်ချောပင်ခေါ်သည်ဟု ဆိုသည်။

မျောက်ချောပင်သည် ဆမ္မီဒေးစီအီး မျိုးရင်းတွင် ပါဝင်၍ ရုက္ခဗေဒအလိုအားဖြင့် ယင်းကို ဟုမ္မာလီယမ် တိုမင်တိုဆမ်ဟုခေါ်သည်။ မြန်မာနိုင်ငံတွင် မျောက်ချောသားနှင့် ပင်လယ် ကနစိုသားတို့သည် မီးဆိုက်ရန် အကောင်းဆုံးထင်းများဖြစ်သည်။ မျောက်ချောသားမီးသွေးသည်လည်း ပဌမတန်းစား မီးသွေးဖြစ်၏။ မျောက်ချောသားနှင့် ပင်လယ်ကနစိုသားကို နယ်များမှ ရန်ကုန်မြို့သို့ ထင်းအဖြစ် အမြောက်အမြားတင်ပို့ရသည်။

မျောက်ချောသားသည် ဝါကြန့်ကြန့် အရောင်ရှိ၍ မာသည်။ အသားကျစ်သည်။ သို့သော်လည်း အသားသေအောင် ပြုလုပ်ထားစဉ် ကောက်လိမ်ကွဲအက်တတ်သည်။ ထွန်သွားများနှင့် လှည်းသန်များပြုလုပ်ရာ၌ မျောက်ချောသားကို အသုံးပြုကြသည်။ လှေရွက်တိုင်၊ ရွက်လက်တို့ပြုလုပ်ရန် သင့်တော်သော သစ်သားဖြစ်သည်။

မျောက်ချောပင်ကို မျောက်ငိုပင်ဟု အချို့ကခေါ်ကြသည်။ မျောက်ချောပင်ကို သင်းသတ်၍ မရချေ။

**မျောက်ငိုပင်။** ။မျောက်ငိုပင်သည် အထက် အောက် မြန်မာနိုင်ငံတွင် စမ်းချောင်းများ အနီးအနားတလျှောက်၌ အနှံ့အပြား ပေါက်သော တောသစ်ပင်များဖြစ်၍ အမြင့် ပေ ၈၀ ခန့်အထိ ရှိသည်။ ပင်စည်လုံးပတ်မှာ ၇ ပေခန့် ရှိသည်။ မျောက်ငိုပင်သည် လစ်သရေးစီအီး မျိုးရင်းတွင် ပါဝင်၍ ယင်း၏ ရုက္ခဗေဒအမည်မှာ ဒျူအာဗန်ဂါ ဆွန်နီရေးရှီအိုအီး ဖြစ်သည်။

မျောက်ငိုပင်သည် မျောက်ချောပင်ကဲ့သို့ အပင်ဖျား၌သာ အကိုင်းအခက်အရွက်တို့ ဝေဝေဆာဆာ ဖြာထွက်၍ ချောမွတ် ဖြောင့်မတ် ရှည်လျားသော ပင်စည်များ ရှိကြသည်။ ယင်းကဲ့သို့ အပင်၏ အောက်ပိုင်းနှင့် အလယ်ပိုင်းတို့၌ ချောမွတ်သော ပင်စည်များရှိသောကြောင့် သစ်ပင်များပေါ်၌သာ ကျက်စားလေ့ ရှိကုန်သော တောတိရစ္ဆာန်ဖြစ်သည့် မျောက်ဘိုပင်လျှင် ငိုရလောက်အောင် လွယ်လွယ် ကူကူနှင့် မတက်နိုင်၊ မဆင်းနိုင်သဖြင့် မျောက်ငိုပင်ဟူ၍ အမည်မှည့်ရသည်ဟု ဆိုကြသည်။ မျောက်ငိုပင်၏ အခေါက်မှာ ညို၍ ချောမွတ်သည်။ အပင်ဖျားမှ အကိုင်းဘိုသည် ဘေးဖက်သို့ ခပ်တန်းတန်း ထွက်လျက် အကိုင်းဖျားတို့မှာ ညွတ်ကျနေသည်။

မျောက်ငိုသား၏အရောင်သည် မွဲပြာရောင်ဖြစ်၍ အစင်းကြောင်းများပါသည်။ သစ်သားပျော့ ဖြစ်သဖြင့် မီးခြစ်နှင့် သုံးထပ်သားများ ပြုလုပ်ရာတွင် အသုံးဝင်သည်။ အသားသေအောင် ပြုလုပ်ရာ၌ မျောက်ချောသားကဲ့သို့ ကောက်ကွေးကွဲအက်ခြင်း မရှိသော်လည်း စွန်းကွက်လွယ်သော သစ်သားဖြစ်သည်။ အသားကြမ်းသည်ဟု ဆိုရသော်လည်း ပြုပြင်ရလွယ်၍ အရောင်တင်နိုင်သဖြင့် အိမ်အသုံးအဆောင်များပြုလုပ်ရန် အသုံးကျသည်။ ပျဉ်ခွဲရန်နှင့် သေတ္တာများ၊ ရေတွင်းဘောင်များ၊ လှေများ၊ လှော်တက်များ လုပ်ရန် အသုံးဝင်သော သစ်ပင်ဖြစ်သည်။

မြန်မာနိုင်ငံ အထက်ပိုင်းရှိ ကသာနယ်တွင် ပေါက်ရောက်သော မျောက်ငိုပင်များကို အောက်ချင်းစာပင် ဟူ၍လည်း ခေါ်ဝေါ်ကြသည်။

**မျောက်လုပ်ပင်။** ။သစ်ပင်အမြင့် ပေ ၆၀ အထိရှိ၍ အကိုင်းအခက်အရွက်တို့ဖြင့် ဝေဝေဆာဆာအုပ်အုပ်ဆိုင်းဆိုင်း ပေါက်ရောက်တတ်သော မျောက်လုပ်ပင်များကို အောက်မြန်မာနိုင်ငံရှိ သစ်တောများ၌၎င်း၊ ဥယျာဉ်များတွင် တခါတရံ စိုက်ပျိုးထားကြသည်ကို၎င်း တွေ့ကြရသည်။ မျောက်လုပ်ပင်တို့သည် အပင်ကြီးမျိုးဖြစ်၍ စိမ်းလန်းသော အရွက်တို့ဖြင့် အရိပ်ကောင်းရသော အပင်များဖြစ်ကြသည်။

မျောက်လုပ်ပင်သည် ပိန္နဲပင်၊ ပေါင်သီးပင်တို့နှင့်အတူ မိုရေးစီအီးမျိုးရင်းတွင်ပါဝင်၍ ရုက္ခဗေဒအလိုအားဖြင့်ယင်းကို အာတိုကားပပ် လာကူချာဟုခေါ်သည်။ မျောက်လုပ်ပင်ကို နေရာတကာအနှံ့အပြား၌ စိုက်ပျိုးကြသောကြောင့် ယင်း၏မူလပေါက်ရောက်ရာ ဒေသအမှန်ကိုတပ်အပ်သေချာ မပြောနိုင်ပေ။ ဟိမဝန္တာတောင်ခြေတလျှောက် ဩရိဿပြည်နယ်နှင့် အနောက်ဂတ်တောင်ဒေသတို့တွင် အလေ့ပေါက်လျက်ရှိသည်ကို တွေ့ရသည်။ သီဟိုဠ်ကျွန်းနှင့် မလ္လာယုကျွန်းဆွယ်တို့၌လည်း တွေ့ရသည်။

မျောက်လုပ်ပင်၏အရွက်များသည်ထူ၍ အလျား ၆ လက်မမှ ၁၀ လက်မအထိ၊ အနံ ၃ လက်မမှ ၅ လက်မအထိရှိသဖြင့် ဝိုင်းရှည်ရှည် ဖြစ်သည်။ အရွက်၏ အပေါ်ဖက်သည် အစိမ်းရင့်ရောင်ဖြစ်၍ ပြောင်ချောသည်။ အောက်ဖက်တွင်ကား အမွေးနုကလေးများရှိသည်။ အပွင့်များသည် သေး၍ ပိန္နဲပွင့်များကဲ့သို့ အဖိုအမ နှစ်မျိုးကွဲသည်။ ပွင့်ဖိုများသည် အတက်ဟောင်းများပေါ်၌ ပွင့်၍ တပွင့်တပွင့်တွင် ဝတ်ဆံဖိုတံငယ်တခုစီနှင့် ပွင့်ချပ် ၂ ခုမှ ၄ ခုအထိပါသည်။ ပွင့်မများကား အတက်သစ်ပေါ်၌ပွင့်၍ တပွင့်တပွင့်တွင် ဝတ်ဆံမတခုစီပါကာ ပြွန်ပုံပွင့်ဖတ်အုံအတွင်း၌ ငုံလျက်ရှိသည်။

အသီး၏ပုံသဏ္ဌာန်သည် ပုဝိုင်းဝိုင်း၊လူ၏လက်သီးဆုပ်ခန့်ရှိ၍ အချင်း ၃ လက်မမှ ၄ လက်မအထိ ရှိသည်။ မညီညာသော အသီးခွံသည် ချော၍ ကတ္တီပါသားကဲ့သို့ရှိသည်။ အသီးမှည့်လာသောအခါ အရောင်ဝါလာသဖြင့် စားကြသည်။ မျောက်လုပ်သီး အနုများကို ပိန္နဲသီးအနုများကဲ့သို့ အချို

ဟင်းချက်၍၎င်း၊ ပြုတ်ပြီးသော် တို့စရာအဖြစ်၎င်း စားသုံးကြသည်။ အပွင့်များသည် မတ်လနှင့် ဧပြီလများတွင် ပွင့်ကြ၍ အသီးများကား မိုးရာသီ ဇွန်နှင့်ဇူလိုင်လများ၌ မှည့်ကြသည်။ မျောက်လုပ်ခေါက်သည် နီညိုရောင်ရှိ၍ အပင်အိုလာသောအခါ ကြမ်း၍ အကြေးအဖတ်များ ပေါ်လာသည်။ ကွမ်းသီးရှားပါးသောအခါ ကွမ်းသီးအစား မျောက်လုပ်ခေါက်ကို ကွမ်းသီးအဖြစ် စားကြသည်။ ကွမ်းသီး အရသာကဲ့သို့ ရှိသည်။

အစေ့များကို ပျိုး၍ မျောက်လုပ်ပင်ကို စိုက်ကြသည်။ အစေ့များသည် ကြာရှည်မခံသောကြောင့် လတ်လတ်ဆတ်ဆတ် စိုက်ပျိုးရသည်။ မြေအိုးများ၊ ခြင်းတောင်းများ၌ အစေ့များကို ဦးစွာပျိုးပြီးနောက်မှ လိုသည့်နေရာ၌ ပြောင်းရွှေ့စိုက်နိုင်သည်။ တအိုးတအိုးတွင် သုံးလေးစေ့ထည့်၍ ပျိုးပြီးလျှင် အပင်တက်လာသောအခါ သန်သော အပင်ကြီးတပင်ကို ချန်လှပ်၍ အခြားအပင်များကို နုတ်လိုက်ရသည်။ အတော် အသင့်ကြီးလာသောအခါမှ စိုက်လိုရာ၌ အမြဲစိုက်သင့်ပေသည်။

မျောက်လုပ်ပင်သည် ပိန္နဲပင်လောက် အရိပ်ကောင်း မရနိုင်သော်လည်း ပို၍ အကြီးမြန်သော သစ်ပင်ဖြစ်သောကြောင့် မြန်မာနိုင်ငံတဝှန်းလုံး၌ စိုက်ပျိုးထားကြသည်။ မျောက်လုပ်ပင်တို့သည် နွေအခါတွင် ပင်လုံးကျွတ်မျှ ရွက်ဟောင်းများကြွေ၍ ရက်အနည်းငယ်အတွင်းတွင် ရွက်သစ်ရွက်နုများ ထွက်လာတတ်သောကြောင့် လမ်းဘေး တလျှောက်၌ အရိပ်ရရန် စိုက်ပျိုးထားတတ်ကြသည်။

မျောက်လုပ်သား၏အရောင်မှာ ညို၍ ပြုပြင်ရလွယ်သော သစ်သားဖြစ်သည်။ အသားသေအောင် ပြုလုပ်ရလွယ်ကူသည့်ပြင် ပြောင်လက်လာအောင် အရောင် တင်နိုင်သော သစ်သားလည်းဖြစ်သောကြောင့် အိမ်အသုံးအဆောင်များ လုပ်ရာ၌ အလွန်အသုံးဝင်သည်။ ကြာရှည်ခံသော သစ်သားဖြစ်သည်သာမက ခြကောင်တို့မဖျက်ဆီးနိုင်သဖြင့် အိမ်တိုင်၊ ထုတ်လျှောက်များ၊ လှေများ၊ လှော်တက်များ၊ ရေတွင်းဘောင်များပြုလုပ်ရန်နှင့် ကြံကြိတ်ဆုံများအတွက် အထူးသင့်လျော်သည်။

မျောက်လုပ်ပင် အမြစ်မှ အဝါရောင် ဆိုးဆေးရသည်။ မျောက်လုပ်သီးမှ ရသော အရည်နှင့်အစေ့တို့ကို ဝမ်းနုတ်ဆေးအဖြစ် အသုံးပြုနိုင်သည်။ မျောက်လုပ်သီးမှည့်သည် ရသာအားဖြင့် ချိုသည်ဖြစ်၍ သည်းခြေနာကို နိုင်သည်။ မျောက်လုပ်သီးစိမ်းမူကား ရသာအားဖြင့် ချဉ်သည် ဖြစ်၍ သလိပ်၊ သည်းခြေကို ပျက်စေတတ်သည်။

မျောက်လုပ်ပင်ကို မျောက်လောင်းပင် ဟုလည်း ခေါ်သည်။ တနင်္သာရီ တောင်ပိုင်းတွင် မျောက်လုပ်နီပင်ဟု ခေါ်သော အပင်တမျိုး ပေါက်ရောက်သည်။

**မျောက်လွှဲကျော်။** ။မျောက်ဝံမျိုးတွင် အငယ်ဆုံးနှင့်လူသိအနည်းဆုံး ဖြစ်သော်လည်း လူနှင့်အတူဆုံးသောမျောက်ဝံမျိုးကား မျောက်လွှဲကျော် (မျောက်မျက်ကွင်းဖြူ) ဖြစ်သည်။ မျောက်လွှဲကျော်သည် နောက်ခြေနှစ်ချောင်းဖြင့် လူကဲ့သို့ မတ်မတ်ရပ်နိုင်ပြီးလျှင် ခါးမကုန်းဘဲ လမ်းလျှောက်နိုင်သည်။ မျောက်လွှဲကျော်၌ အမြီးလည်းမရှိချေ။ မျောက်လွှဲကျော် အမျိုးမျိုးရှိရာ အားလုံး၏ မူလ နေထိုင်ရာဒေသသည် အင်ဒို–မလေးနိုင်ငံများဖြစ်ကြသည်။ အကြီးဆုံး အမျိုးမှာ "ဆိုင်အာမန်း" မျောက်လွှဲကျော်မျိုးဖြစ်၍ အမြင့် ၂ ပေခွဲမှ ၃ ပေနီးပါးထိ ရှိသော်လည်း ကိုယ်အလေးချိန်မှာ ၁၂ ပေါင်ထိသာရှိသည်။ ယင်း၏ ထူးခြားသောအသွင်အပြင်တခုမှာ မည်း၍ပြောင်နေသော မျက်နှာတဝိုက်တွင် အမွေးဖြူများ ရစ်လျက် ရှိသည်။ ခြေနှင့်လက်ထိပ်များပေါ်တွင် အဖြူ၊ သို့မဟုတ် ကောက်ရိုးရောင် အမွေးများဖုံး



မျောက်လွှဲကျော်သည် လူနှင့်အတူဆုံးသော မျောက်ဝံမျိုး ဖြစ်သည်။ လူကဲ့သို့ မတ်မတ်ရပ်နိုင် လမ်းလျှောက်နိုင်၍ မျောက်လွှဲကျော်၌ အမြီးလည်းမရှိချေ။ မျောက်လွှဲကျော်၏ လက်များသည် တုတ်ခိုင်သန်မာ၍ လက်တံလည်းရှည်သည်။ ထိုလက်များဖြင့် သစ်ပင်တပင်မှတပင်သို့၊ တကိုင်းမှတကိုင်းသို့ လွှဲ၍လွှဲ၍ ခုန်သွားလေ့ ရှိသည်။ မျောက်လွှဲကျော်ကို မျောက်မျက်ကွင်းဖြူ ဟူ၍လည်း ခေါ်လေ့ရှိသည်။

အုပ်လျက်ရှိသည်။ တကိုယ်လုံးတွင် အထီး၏အရောင်သည် မည်း၍ အမအရောင်သည် အဖြူတွင် အဝါရောင်အနည်းငယ် သန်းလျက်ရှိသည်။

မျောက်လွှဲကျော်သည် ရေသောက်ချိန်၌သာ အောက်သို့ ဆင်း၍ အခြားတချိန်လုံး သစ်ပင်ပေါ်တွင် နေလေ့ရှိသည်။ သွားလာရာတွင် မျောက်များကဲ့သို့လေးဖက်ထောက်မသွားဘဲ မတ်တတ်ရပ်၍ သွားတတ်သည်။ လက်များသည် တုတ်ခိုင်သန်မာ၍ လက်တံရှည်၏။ ထိုလက်များဖြင့် တောထဲရှိ သစ်ပင် တပင်မှတပင်သို့၊ တကိုင်းမှတကိုင်းသို့ လွှဲ၍လွှဲ၍ ခုန်သွားလေ့ရှိသည်။ သစ်ကိုင်းတကိုင်းကို လက်တဖက်ဖြင့် မြဲမြံစွာကိုင်ဆုပ်၍ ပေ ၂၀ မှ ၄၀ ထိဝေးသောအခြားအကိုင်း တကိုင်းသို့လွှဲ၍ အခြားလက်တဖက်ဖြင့် ဖမ်းနိုင်သည်။ မြေကြီးမှ အထက်ပေ ၅၀ ကျော်မြင့်သော သစ်ကိုင်းများပေါ်၌ မတ်မတ်ရပ်၍ အောက်သို့ မကျအောင် ပြေးလွှားသွားနိုင်သည်။ မြေပြင်ပေါ်၌ကား ထိုကဲ့သို့ လျင်မြန်စွာ မပြေးနိုင်ကြချေ။

မျောက်လွှဲကျော်သည် တောနက်တွင်း၌သာ နေလေ့ရှိသော တိရစ္ဆာန်ဖြစ်သည်။သစ်ရွက်နုများနှင့်သစ်သီးများကို ခူး၍ သစ်ကိုင်းတကိုင်းပေါ်တွင် လူကဲ့သို့ မတ်မတ် ထိုင်ကာ စားလေ့ရှိသည်။ နေဝင်ချိန်ရောက်လျှင် သင့်တော်သော အကိုင်းတကိုင်းကို ရွေး၍ အိပ်စက်ကြ၏။ မျောက်လွှဲကျော် အထီးသည် အမနှင့်တကွ သားငယ်သမီးငယ်နှင့်အတူ အမြဲမပြတ်စုစုရုံးရုံးနေထိုင်လေ့ရှိ၏။ သားငယ်များသည် မိဖနှင့်အတူ ၆ နှစ်အထိ နေ၍ ၆ နှစ်ကျော်မှ အိုးအိမ်ခွဲ၍ သီးခြားနေထိုင် ကြသည်။ တောထဲရှိ မျောက်လွှဲကျော်များသည် ပျမ်းမျှ အသက် ၂၀ မှ ၃၀ ထိ ရှည်သော်လည်း ဖမ်းဆီးရမိထားသော မျောက်လွှဲကျော်များကား ထိုမျှလောက် အသက်မရှည်ကြချေ။

**မျောက်ဝံမျိုး။** ။အာဖရိကတိုက် အပူပိုင်းဒေသနှင့် အရှေ့တောင်အာရှတောနက်ကြီးများ၌ လူနှင့်အလွန်တူသော မျောက်ဝံမျိုးများရှိ၏။ ထိုမျောက်ဝံမျိုးကို လူတူမျောက်ဟုခေါ်သည်။ မျောက်ဝံ ၄ မျိုးရှိရာ အကြီးဆုံးနှင့် ကြမ်းကြုတ်ခက်ထန်၍ အသန်စွမ်းဆုံး မျောက်ဝံမျိုးမှာ ဂေါ်ရီးလားမျောက်ဝံမျိုး ဖြစ်သည်။ ဒုတိယ အကြီးဆုံးမှာ လူဝံဖြစ်၍ တတိယမှာ ချင်ပန်ဇီမျောက်ဝံမျိုးဖြစ်သည်။ အငယ်ဆုံးနှင့် လူသိအနည်းဆုံးမျောက်ဝံမျိုးမှာ မျောက်လွှဲကျော် ဖြစ်သည်။ မျောက်လွှဲကျော် (မျောက်မျက်ကွင်းဖြူ) သည် အခြား မျောက်ဝံ ၃ မျိုးထက် လူနှင့် အစစ အလွန်တူသည့် အလျောက် နောက်ခြေနှစ်ချောင်းဖြင့် လူကဲ့သို့ မတ်မတ်ရပ်နိုင်ပြီးလျှင် ခါးမကုန်းဘဲ လမ်းလျှောက်နိုင်သည်။ မျောက်ဝံမျိုး၌ အမြီးမရှိကြချေ။' အမြီးမပါရုံသာမက၊ ကိုယ်လုံး



လူနှင့်လွန်စွာနီးစပ်သည့် ချင်ပန်ဇီမျောက်ဝံ

ကိုယ်ထည်မှာလည်း သာမန်မျောက်ထက် သိသိသာသာ ကြီးထွားသည်။

ကိုယ်ထည် အနေအထားတွင် မျောက်ဝံများသည် လူနှင့်များစွာနီးစပ်၍ မျောက်ဝံ တမျိုးနှင့်တမျိုးလည်း ကိုယ်ထည်အနေအထားချင်း ထူးခြားကွဲလွဲချက် များစွာမရှိကြချေ။ လက်သည်းများမှာလည်း အခြား တိရစ္ဆာန်များကဲ့သို့ ချွန်ထက်မာကျောလှသည် မဟုတ်ဘဲ လူ၏ လက်သည်းခြေသည်းများကဲ့သို့ ရှိသည်။ အချို့ မျောက်ဝံများသည် လူလောက်နီးပါး အသိဉာဏ်ရှိကြသည်။ လူနှင့် မျောက်ဝံများသည် ဤအချက်များတွင် အတော်တူကြသော်လည်း ကွဲပြားခြားနားသော အချက်များရှိပေသည်။ မျောက်ဝံများသည် လူထက် ကိုယ်လုံးကိုယ်ထည်တုတ်ခိုင်၏။ ခြေထောက်များမှာ လူ၏ခြေထောက်ထက် အတန်ငယ်တို၍ လက်တံများက ပို၍ရှည်ကြသည်။ မျောက်ဝံမျိုးတို့၏ ခြေထောက်သည် ခြေထောက်ဟုသာ ဆိုရသော်လည်း လက်နှင့်များစွာ မခြားနားလှချေ။ လေးဖက်သွားရာမှ တခါတရံ လူကဲ့သို့ ခြေနှစ်ချောင်းကို အားပြု၍ မတ်မတ်ရပ်ကာ လမ်းလျှောက်ရန် ကြိုးစားသည့်အခါတွင်လည်း လူကဲ့သို့ မားမားမတ်မတ် မလျှောက်တတ်ဘဲ အနည်းငယ် ခါးကုန်းလျက် ရှိသည်။ အဓိကခြားနားချက်ကား ဦးနှောက်ဆောက်တည်

ထားပုံချင်း မတူသည့်အချက်ပင် ဖြစ်သည်။ မျောက်ဝံများ၏ ဦးနှောက်၊ ဦးနှောက်တွန့်များသည် လူထက်များစွာငယ်၏။ စကားပီပီသသ ပြောဆိုနိုင်မှုကို ထိန်းသိမ်းသည့် ဦးနှောက်တွန့်များကား မျောက်ဝံမျိုးတွင် မရှိချေ။

မျောက်ဝံသည် ပါဏဗေဒအလိုအရ လူ၊ မျောက်၊ လီမာမျောက်တို့ အဝင်အပါဖြစ်သော ပရိုင်းမိတ် မျိုးစဉ်တွင် ဆိမိုင်အီးဒီး မျိုးရင်း၌ ပါဝင်သည်။ သို့ရာတွင် အီဗော်လျူရှင်းခေါ် ဆင့်ကဲ ဖြစ်လာခြင်း သီအိုရီများအရ လူသည် မျောက်ဝံမျိုးမှ ဆင်းသက်လာသည်ဟုမယူဆကြပေ။ လူနှင့် မျောက်ဝံများသည် "စပ်ကြားသတ္တဝါ"ဟုခေါ်သော အလွန်ရှေးကျသည့် သတ္တဝါတကောင်မှ နှစ်လမ်းခွဲ၍ ဆင့်ကဲဖြစ်လာကြသည်ဟု ယုံကြည်ကြသည်။ သိပ္ပံပညာရှင်များသည် ထိုပျောက်ကွယ်နေသော "စပ်ကြားသတ္တဝါ" တွေ့ရှိရေးအတွက် ကမ္ဘာ့အနှံ့အပြားတွင် ကျောက်ဖြစ်ရုပ်ကြွင်းများကိုပိုက်စိပ်တိုက်ကြိုးပမ်းရှာဖွေကြ၏။ ခရစ် ၁၈၉၁–၉၂ ခုနှစ်အတွင်း၌ ဒပ်ချဆရာဝန် တဦးသည် ဂျားဗားကျွန်းပေါ်၌ သမိုင်းမတင်မီခေတ် ရှေးအရိုးစုများ ဖြစ်ကြသောသွားများ၊ ခေါင်းခွံအပိုင်းအစနှင့် ပေါင်ရိုးတို့ကို တွေ့ရှိခဲ့သည်။ လူနှင့် မျောက်ဝံစပ်ကြား ဆက်စပ်ရန်လိုနေသော ထိုပျောက်ကွယ်နေသည့် စပ်ကြားသတ္တဝါကို တွေ့ရှိပြီဟု ထိုသူက ယူဆလေသည်။ ယူဆသည့်အတိုင်းလည်း "မတ်မတ်မျောက်ဝံ – လူ"ဟု အမည်ပေးတော့၏။ သို့သော်လည်း ခေါင်းခွံကိုပြန်၍ ဆက်စပ်ကြည့်ခြင်းအားဖြင့် ယင်းအတွင်း၌ရှိသော ဦးနှောက်သည် မျောက်ဝံမျိုးတို့အတွက် အလွန်ကြီးနေကြောင်းကိုတွေ့ရလေသည်။ ထိုကြောင့် ထိုကျောက်ဖြစ်ရုပ်ကြွင်းသည် ရှေးအကျဆုံးဖြစ်သည့် စပ်ကြား သတ္တဝါ၏ ရုပ်ကြွင်းမဟုတ်ဘဲ ရှေးအကျဆုံးလူ၏ ရုပ်ကြွင်းသာလျှင် ဖြစ်သည်ဟု သိပ္ပံပညာရှင်တို့က စိစစ်ဝေဖန်လျက်အတည်ပြု ယူဆကြလေသည်။

မျောက်ဝံမျိုးသည် ဟင်းသီး ဟင်းရွက်နှင့် သစ်သီးဝလံများကိုသာ အမြောက်အမြား စားသောက် ကြသည်။ မျောက်ဝံမျိုးတွင် ဂေါ်ရီးလားမျောက်ဝံသည် လူလောက်နီးပါး ကြီး၍ ပို၍လေးသည်။ ကိုယ်အလေးချိန်ပေါင် ၄၀၀ မှ ၄၅၀ ခန့် အထိ ကြီးမားသော ဂေါ်ရီးလားများ ရှိခဲ့ဘူးသည်။ မျောက်ဝံမျိုးသည် လေးဖက်သွားရာ၌၎င်း၊ သစ်ပင်တက်ရာ၌၎င်း အလွန်ကျင်လျင်ပြီးလျှင် လူကဲ့သို့ မတ်တတ်ရပ်၍ လမ်းလျှောက်နိုင်ကြ၏။ မျောက်မှာကဲ့သို့ အမြီးမရှိ။ ပါးစောင်အိတ်မရှိချေ။ ဂေါ်ရီးလား မျောက်ဝံမျိုးတွင် အထူးသဖြင့် အထီးသည် ရန်စခံရသောအခါမျိုးတွင် အလွန်ရက်စက်ကြမ်းကြုတ်သဖြင့် ကြောက်မက်ဖွယ်ကောင်းသော တိရစ္ဆာန်ဖြစ်သည်။ လူဝံမျိုးသည် ဂေါ်ရီးလားမျောက်ဝံမျိုးလောက် ကြမ်းကြုတ် ခက်ထန်ခြင်း မရှိပေ။ ချင်ပန်ဇီ မျောက်ဝံနှင့် အထူးသဖြင့် မျောက်လွှဲကျော် တို့ကား ကြောက်တတ်ကြသည်။

ဂေါ်ရီးလား မျောက်ဝံသည် အသက်အရွယ်ကြီးရင့် အိုမင်းလာသောအခါ ငယ်စဉ်က လူနှင့်တူသော အသွင်အပြင်များ အားလုံးလောက် ပျောက်ကွယ်သွားလေသည်။ ဤသည်ကား အလွန်ထူးခြားသည့် ပြောင်းလဲမှု တခုပင် ဖြစ်သည်။ ထင်ရှားသည့် သဘာဝပညာရှင်ကြီး ဒေါက်တာ အာ ဟတ်မင်းဆိုသူ၏ အာဘော်အရ ဂေါ်ရီးလားမျောက်ဝံ၏ နှာတံသည် မျောက်မောင်းမ၊ ဝက်ဝံနှင့်တောဝက်တို့၏ နှာတံလိုလိုကဲ့သို့ ဖြစ်လာ၍ အသက်အတော် ကြီးသော ဂေါ်ရီးလား၏ဦးခေါင်းခွံသည် နှာတံတွင် ပို၍ချွန်ထွက်လာပြီးလျှင် အစွယ်များမှာလည်း ကျား၊ ခြင်္သေ့တို့၏ အစွယ်ကြီးလောက်နီးနီး ကြီးမားလာသည်ဟု ဆိုသည်။ အရိုးစုများပင် အတော်ပြောင်းလဲ သွားသည်။ ဦးခေါင်းခွံအပေါ်ပိုင်းသည် ငယ်ရွယ်စဉ်ကကဲ့သို့ လုံး၍မနေတော့ဘဲ ထိပ်နှင့်နောက်ပိုင်းတွင် အရိုးကြီးများ ချွန်ထွက်လာသည်။ မျက်ကွင်းပေါ်ရှိ ခုံးနေသော အရေမှာလည်း တွန့်၍တွဲကျလာ၏။ နဂိုကကြောက်မက်ဖွယ်ကောင်းသော အသွင်အပြင်မှာ သာ၍ ဆိုးလာတော့၏။

ဂေါ်ရီးလား၏ သွားအရေအတွက်သည် လူတွင် ရှိသော သွားအရေအတွက်နှင့် အတူတူပင်ဖြစ်သော်လည်း အထက်တွင် ပြခဲ့သော အစွယ်မျိုးကား လူတွင်မရှိချေ။ သွားအနေအထားစီစဉ်ထားပုံမှာလည်း လူ၏ သွား အစီအစဉ်နှင့် မတူဘဲ ကွာခြား၏။ မျောက်ဝံမျိုးတွင် လူနားရွက်မျိုး တကောင်၌မျှမရှိသည့်ပြင် လူ၏အရိုးများသည် ယင်းတို့၏ အရိုးထက် နူးညံ့ပျော့ပျောင်း၏။ လူသည် အပူဒဏ်၊ အအေးဒဏ် နှစ်ခုစလုံးကို ခံနိုင်ရည် ရှိရကား ကမ္ဘာ့မြောက်ဖက်စွန်းအာတိတ်ဒေသတွင်သော်၎င်း၊ အလွန် ပူပြင်းသော သဲကန္တာရကြီးများတွင်သော်၎င်း နေထိုင် နိုင်သော်လည်း မျောက်ဝံမျိုးများမှာ အာဖရိကနှင့် အာရှတိုက်အပူဆုံးဒေသများတွင်သာ နေထိုင်လေ့ ရှိကြသည်။ (ဂေါ်ရီးလား။ ချင်ပန်ဇီ။ လူဝံ။ မျောက်လွှဲကျော် — ရှု။)

**မျောက်ဥ။** ။မျောက်ဥပင်သည် တံတွေးပင်၊ မျောက်နွယ်ပင်တို့နှင့် အတူ ဒိုင်အော့စကိုရီအေစီအီး မျိုးရင်းတွင် ပါဝင်၍ ယင်းကို ရုက္ခဗေဒအလိုအားဖြင့် ဒိုင်အော့စကိုရီ အာအေလေတာ ဟုခေါ်သည်။ မျောက်ဥပင်သည် ဥများ အုသော ရစ်ပတ်နွယ်ပင်မျိုးဖြစ်၍ နွယ်များသည် လက်ျာရစ်လှည့်ကာ တက်သွားတတ်သည်။

မျောက်ဥပင်များကို မြေနုမြေမွ ခပ်နက်နက်တွင် အလွယ်တကူစိုက်ပျိုးနိုင်သည်။ စိုက်ပျိုးရာ၌ မျက်စိနှစ်လုံးမှ သုံးလုံး ထိပါသော ဥထိပ်များကို မြေကြီးတွင် နှစ်ပေခန့် နက်နက်



အာဟာရ ဓာတ်များဖြင့် ကြွယ်ဝသည့် မျောက်ဉ

တူး၍ မြှုပ်ထားရသည်။ ခြံစည်းရိုးများ၊ သစ်ပင်များ၊ တောင်ပို့များတွင် မှီ၍စိုက်ပျိုးနိုင်သည်။ မြေကြီးတွင် တိုင်များ စိုက်ပြီးလျှင် ဝါးများဖြင့် စင်ခံ၍လည်း စိုက်ပျိုးနိုင်သည်။ စိုက်ပျိုးသည်မှ ၉ လမှ ၁၀ လအတွင်း ဉများကို မြေကြီးမှ တူးဖော်ယူရသည်။

မျောက်ဉပင်များသည် အိန္ဒိယနိုင်ငံ၊ မြန်မာနိုင်ငံ၊ သီဟိုဠ်ကျွန်း၊ တရုပ်နိုင်ငံစသော အပူပိုင်းနှင့် အပူလျော့ပိုင်းဒေသများ၌ အနှံ့အပြားပေါက်သည်။ အနောက်အိန္ဒိယကျွန်းစုနှင့် အမေရိကတိုက် အပူပိုင်းဒေသများ၌လည်း ပေါက်သည်။ မျောက်ဉများသည် အရွယ်အမျိုးမျိုးရှိရာ အချို့ အလွန်ကြီးသော မျောက်ဉများမှာ တခါတရံ ပေါင် ၁၀၀ ထိပင် အလေးချိန်စီးသည်။ အနောက် အိန္ဒိယကျွန်းစုနှင့် အမေရိကတိုက် အပူပိုင်းဒေသများတွင် မျောက်ဉကို အရင်းခံ အစားအစာအဖြစ်ဖြင့် စားသုံးကြသည်။

မြန်မာနိုင်ငံတွင် မျောက်ဉများကို ပြုတ်၍ အတုံးကလေးများတုံးကာ ငရုတ် ကြက်သွန် စသည်နှင့် အခြောက်ကြော်၍ငင်း၊ ဟင်းချက်၍ငင်း စားသုံးကြသည်။

**မျောင်လူမျိုး။** ။မွန် – ခမာ အုပ်စုတွင် ပါဝင်သော မျောင်လူမျိုးတို့ကို ဝနယ် အရှေ့ပိုင်းဒေသနှင့် ကိုးကန့်နယ်များတွင် အများဆုံး တွေ့ရှိရပြီးလျှင် ယူနန်နယ် အနောက်ဖျားဒေသတိုင်အောင် ပျံ့နှံ့နေထိုင်လျက် ရှိကြောင်း သိရှိရသည်။ ယင်းတို့၏ မူရင်းဒေသမှာ ကွမ်ဆီနှင့် ကွေချောင်ပြည်နယ်တို့ဖြစ်၍၊ ထိုမှယူနန်နယ်သို့ရောက်ရှိလာပြီးလျှင် မြန်မာနိုင်ငံအတွင်းသို့ တဖန် ရောက်ရှိလာလေသည်။ ယူနန်နယ်တွင် ယင်းတို့ကို မျောင် ဟု ခေါ်ဝေါ်၍ ဝနယ် အရှေ့ဖျားဒေသတွင် ယင်းတို့ အချင်းချင်း မျောင်စီး ဟု ခေါ်ဝေါ် ဆက်ဆံလျက် ရှိကြသည်။



မျောင်လူမျိုး အမျိုးသားနှင့် အမျိုးသမီးများအား အမျိုးသား ဝတ်စုံဖြင့် ဤသို့ရှုမြင်ရသည်။



ရှမ်းပြည်မြောက်ပိုင်း လားရှိုးမှ အရှေ့တောင် စူးစူးသို့ မိုင်တရာခန့်သွားလျှင် တန်ယမ်းသို့ ရောက်၏။ တန်ယမ်းမှ တဖန် လားဖြင့် ခရီးဆက်လျှင် ဝနယ်၏ မြို့တော်ဖြစ်သော ဟိုပန်သို့ရောက်၏။ ဟိုပန်မှတဖန် လားဖြင့် နှစ်ညသုံးညအိပ် ခရီးဆက်ပါက မျောင်စီးလူမျိုးတို့နေထိုင်ရာ တရုပ် – မြန်မာနယ်စပ်သို့ ရောက်တော့၏။ မျောင်စီး လူမျိုးတို့သည် သံလွင်မြစ်အရှေ့ဖက်ကမ်း၌ နေထိုင်ကြပြီးလျှင် သံလွင်မြစ် အနောက်ဖက်ကမ်းရှိ လူမျိုးတို့နှင့်မူ လုံးဝ အဆက်အသွယ် မရှိသလောက် ဖြစ်သည်ဟု သိရှိရသည်။

မျောင်စီးလူမျိုးတို့သည် အရပ်အမောင်း အသင့်အတင့် ရှိ၍ အသားလတ်သည်။ မျောင်စီး အမျိုးသမီးများသည် ကျိုင်းတုံနယ် ကော အမျိုးသမီးများနည်းတူ ဂါဝန်ကဲ့သို့ သောအဝတ်တိုတိုဝတ်ကြသည်။သို့သော် အနက်သာမဟုတ်ဘဲ အဖြူရောင်လည်းဝတ်ကြသည်။ ဦးခေါင်းတွင် ကြီးသော ဗောင်းထုပ်များပေါင်းထားကြသည်။ မျောင်စီးအမျိုးသား များကား ဘောင်းဘီအနက်ဝတ်၍ ဦးခေါင်းတွင် အဝတ်များဖြင့် ဗောင်းထုပ်ပေါင်းထားလေသည်။

**မြ၊ သခင်** (မြန်မာ ၁၂၅၉ – ၁၃၀၉)။ ။သခင်မြသည် နိုင်ငံလွတ်လပ်ရေးအတွက် အထူးကြိုးပမ်းခဲ့သော ခေါင်းဆောင်ကြီးတဦး ဖြစ်သည်။



**အမျိုးသားခေါင်းဆောင်ကြီး သခင်မြ**

သခင်မြကို ၁၂၅၉ ခုနှစ် သီတင်းကျွတ်လဆန်း ၁၂ ရက် ကြာသပတေးနေ့တွင် ပြည်ခရိုင် ပန်းတောင်းမြို့နယ် ထုံးဘိုရွာ၌ သစ်ကုန်သည် ဦးဘိုးချွန်၊ ဒေါ် သက်လယ်တို့မှ ဖွားမြင်သည်။ ငယ်စဉ်က ပြည်မြို့ အစိုးရအထက်တန်းကျောင်းနှင့် သာယာဝတီမြို့ အေ ဘီအမ်ကရင်အထက်တန်းကျောင်းများတွင် ပညာသင်ကြားခဲ့သည်။ ခရစ်နှစ် ၁၉၁၆ ခုနှစ်တွင် ၁၀ တန်းစာမေးပွဲကို ရန်ကုန်မြို့ စိန့်ဂျွန်းကျောင်းမှ အထူးစကောလားရှစ်ဆုနှင့် အောင်မြင်ကာ ၁၉၁၈ ခုနှစ် တွင် ရန်ကုန်တက္ကသိုလ်မှ ဉပစာသိပ္ပံတန်းကို အောင်မြင်သည်။ ၁၉၂၀ ပြည့်နှစ် ရန်ကုန်ကောလိပ် သပိတ်ကြီးတွင် သပိတ်မှောက် ခေါင်းဆောင်တဦး အဖြစ် ပါဝင်ဆောင်ရွက် ခဲ့လေသည်။

ထိုနောက် ကြည့်မြင်တိုင် အမျိုးသား ကျောင်းတွင် ကျောင်းအုပ်အဖြစ် ဆောင်ရွက်ခဲ့ပြီးလျှင် တက္ကသိုလ်တွင် ပညာဆက်လက်သင်ကြားပြန်ရာ ဘီအက်စီဂုဏ်ထူးတန်းကို ၁၉၂၄ ခုနှစ်တွင် အောင်မြင်၍ ရန်ကုန်မြို့ မြို့မ အထက်တန်းကျောင်းဘွင် သိပ္ပံဆရာအဖြစ်ဆောင်ရွက်သည်။ ၁၉၂၇ ခုနှစ်တွင်ဘီအယ်(ဥပဒေဝိဇ္ဇာ)တန်းကိုအောင်မြင်ပြန်သည်။

၁၉၂၇ ခုနှစ်တွင်ပင် သာယာဝတီမြို့၌ ပြန်၍နေထိုင်ကာ ရှေ့နေအဖြစ် အသက်မွေးယင်း သာယာဝတီခရိုင် ကင်းထောက်မင်းကြီးအဖြစ် ဆောင်ရွက်ခဲ့သည်။ သာယာဝတီ သူပုန်အရေးတွင် သူပုန်မှုများ၌ လိုက်ပါဆောင်ရွက်ပေးသဖြင့် နာမည်ကြီးခဲ့သည်။၁၉၃၄ ခုနှစ်တွင် တို့ဗမာအစည်းအရုံးသို့ ဝင်ရောက်၍ သခင်အမည်တပ်ကာ သာယာဝတီခရိုင် တောင်ပိုင်းမှ အမတ်အဖြစ် ၁၉၃၇ ခုနှစ်တွင် အရွေးခံခဲ့သည်။ လွှတ်တော်တွင် လစာမယူဘဲ ဆောင်ရွက်သည့်ပြင် ၁၃၀၀ ပြည့်နှစ် အရေးတော်ပုံအတွင်း အစိုးရဖွဲ့၏ ပြုမူဆောင်ရွက်ပုံများကိုမကျေနပ်သဖြင့် ဥပဒေပြုလွှတ်တော် အမတ်အဖြစ်မှ နုတ်ထွက်၍ တဖန်အရွေးခံသောအခါလည်း မဲဆန္ဒရှင်များသည် သူ့ကိုပင် အားထား နှစ်သက်ကြသဖြင့် ရွေးကောက်ခြင်း ခံရပြန်သည်။

၁၉၃၉ ခုနှစ်တွင် ဗမာနိုင်ငံလုံး ဆိုင်ရာ တောင်သူလယ်သမားအစည်းအရုံးကြီး၏ဥက္ကဋ္ဌဖြစ်လာ၍ ၁၉၄၀ ပြည့်နှစ်တွင် တို့ဗမာအစည်းအရုံးကြီး၏ ဥက္ကဋ္ဌ ဖြစ်လာသည်။

ဂျပန်ခေတ်တွင် လွတ်လပ်ရေး ပြင်ဆင်မှု အဖွဲ့ဝင်၊ ထိုနောက် အစိုးရအဖွဲ့ဝင် ဝန်ကြီးအဖြစ်၎င်း၊ ဒုဝန်ကြီးချုပ်အဖြစ်၎င်း ဆောင်ရွက် ခဲ့သည်။ ဂျပန် နိုင်ငံသို့လည်း သွားရောက်ခဲ့ရသည်။ ဖက်ဆစ်ဂျပန်တို့၏ ဖိနှိပ်ရက်စက်မှုတွန်းလှန်ရန် ၁၉၄၄ ခုနှစ်တွင် ဖဆပလ (ဖတပလ) အဖွဲ့ချုပ်ကြီးကို လျှို့ဝှက်စွာ တည်ထောင်ခဲ့ရာ၌ ပြည်သူ့အ

ရေးတော်ပုံပါတီ (နောင် – ဆိုရှယ်လစ်ပါတီ)လည်း ပါဝင်ခဲ့ရာ၊ သခင်မြသည် ထိုပါတီ၏ ခေါင်းဆောင်ဖြစ်သည်။ (ဖ ဆ ပ လ — လည်းရှု။) ဂျပန်တော်လှန်ရေး ပြီးသည့်နောက်တွင်လည်း ဖ ဆ ပ လ အဖွဲ့ကြီးတွင် ပါဝင်ဆောင်ရွက်၍ မြန်မာနိုင်ငံဆိုရှယ်လစ်ပါတီ တည်ထောင်သောအခါ ဥက္ကဋ္ဌ ဖြစ်လာသည်။

ထိုနောက် သခင်မြသည် ဖ ဆ ပ လ အစိုးရအဖွဲ့ကို ဖွဲ့စည်းသောအခါတွင် ပြည်ထဲရေးဝန်ကြီးအဖြစ်၎င်း၊ ထိုနောက် ဘဏ္ဍာရေးဝန်ကြီးအဖြစ်၎င်း ဆောင်ရွက်ရသည်။ မြန်မာနိုင်ငံ လွတ်လပ်ရေးအတွက် ဆွေးနွေးရန် ဗြိတိသျှအစိုးရက ဖိတ်ခေါ်သောအခါ ဗြိတိန်နိုင်ငံသို့ ဗိုလ်ချုပ်အောင်ဆန်းနှင့်အတူ ကိုယ်စားလှယ်တော် တဦးအနေဖြင့် လိုက်ပါဆောင်ရွက်ရသည်။

သခင်မြသည် ရိုးဖြောင့်ခြင်းဂုဏ်နှင့် ပြည့်စုံ၍ ကိုယ်ကျိုးမငဲ့ဘဲ ဆောင်ရွက်ခဲ့ပုံများကို အကြိမ်ကြိမ် တွေ့ရသည်။ သာယာဝတီခရိုင်အုတ်ဖိုမြို့ ဦးဘကျော်၏သမီး ဒေါ်ခင်ညွန့်နှင့် လက်ထပ်ခဲ့ရာ သားသမီး မထွန်းကားခဲ့ချေ။

၁၃၀၉ ခုနှစ် ဝါခေါင်လဆန်း ၂ရက် စနေနေ့တွင် ဗိုလ်ချုပ်အောင်ဆန်းတို့နှင့်အတူ လုပ်ကြံခြင်းခံရ၍ ကွယ်လွန်ရာတွင် အာဇာနည်ဗိမာန်၌ ဂူသွင်းသင်္ဂြိုဟ်ကြသည်။

မြကလေး၊ မ၊ အနောက်နန်း (မြန်မာ ၁၁၇၁ – ၁၂၀၇)။ ။သက္ကရာဇ် ၁၁၉၉ ခုနှစ်တွင် နန်းတက်တော်မူသော သာယာဝတီ ရွှေဘိုမင်းတရားကြီး၏ မိဖုရား အနောက်နန်းမမြကလေးကား သက္ကရာဇ် ၁၁၇၁ ခုနှစ် သီတင်းကျွတ် လပြည့်ကျော် ၂ ရက် တနင်္လာနေ့တွင်၊ အဖ "မင်းပျံချီ"ဘွဲ့ခံ မောင်ဦးနှင့် အမိမယ်အိတို့မှ ဖွားမြင်လေသည်။ မင်းပျံချီကား ဘိုးတော် မင်းတရားကြီးလက်ထက်က အိမ်တော်ပါ ကျွန်ဖြစ်သော မွန်လူမျိုး ဖိုးထောရာ၏သား သမိန်ထောရာဇာဘွဲ့ခံ ပုသိမ်မြို့ဝန်၏ ယောက်ဖအရင်း၊ ရေကင်းသားဇာတိ မောင်ဦးဖြစ်သည်။ မောင်ဦးကိုလည်း သာရဝေါ၊ လှေတော်ပဲ့နင်း ခန့်အပ်တော်မူသည်။ ထိုနောက် ဟင်္သာတမြို့နယ် တဝိုက်မှ မောင်ဦးအား ခုံသမာဓိအရာသို့ တင်မြှောက်ထားကြသည်။ ထိုအကြောင်းကို မင်းတရားကြီး ကြားတော်မူသောအခါ ငမ်းမြှောက်၍ "မင်းပျံချီ" ဘွဲ့နှင့် ခြီးမြှောက်တော်မူပြန်လေသည်။

မမြကလေး၏ ငယ်မည်မှာ မမြကြုတ်ဖြစ်သည်။ ငယ်စဉ်အခါကပင် ရုပ်ဆင်းရူပကာယနှင့် အထူးပြည့်စုံ၍ ချစ်စဖွယ်ရှိခြင်းကား အိမ်နီးပါးချင်းအားလုံးတို့က "မြမြ"ဟု ချစ်စနိုးခေါ်ကြသည်။

ဘကြီးတော်ဘုရား လက်ထက် ညီတော် သာယာဝတီမြို့စားမင်းသားသည် ပုသိမ်မြို့ဖက်သို့ စုန်ဆင်းတော်မူရာ သာရဝေါပဲ့နင်း မင်းပျံချီ၏ သမီး မမြကြုတ်ကိုမြင်၍ ရွှေမေတ္တာ တိမ်းညွတ်တော်မူပြီးလျှင် သိမ်းပိုက်တော်မူလေသည်။ သာယာဝတီမြို့စား မင်းသားကလည်း လွန်စွာချစ်မြတ်နိုးတော်မူသဖြင့် "မြကလေး"ဟူ၍ ယုယစွာခေါ် စမှတ်ပြုလေသည်။ မမြကလေးအား အိမ်ရှေ့မိဖုရားအဖြစ်နှင့် မြှောက်အိမ်တော်တွင် ထားပြီးနောက် ၁၁၉၉ ခုနှစ်တွင် သာယာဝတီမင်းသားသည် နောင်တော်၏ အရိုက်အရာကို ခံယူသောအခါ အိမ်ရှေ့မိဖုရား မမြကလေးအား အနောက်နန်း မိဖုရားတင်မြှောက်၍ သီရိမဟာ သုရဘန္ဒာ စန္ဒာဒေဝီဘွဲ့ကို ပေးသနားတော် မူလေသည်။ ထိုအချိန်မှစ၍ "အနောက်နန်းမိဖုရား မမြကလေး" ဟု ကျော်ကြားလာ၏။ ရွှေလောင်းတိုက်ကို စားရာမှ ဟင်္သာတမြို့ကို ဖြည့်စွက် စားစေ၏။ အနောက်နန်း မိဖုရားမဖြစ်မီ အိမ်ရှေ့မိဖုရားဘဝ၌ သက္ကရာဇ် ၁၁၉၅ ခုနှစ်တွင် စာဆိုလောကတွင် မယ်တော်ခြေရာ နင်းမည့် သမီးတော် လှိုင်ထိပ်ခေါင်တင်ကို ဖွားမြင်လေသည်။ (လှိုင်ထိပ်ခေါင်တင် — ရှု။)

မမြကလေးသည် ငယ်ရွယ်စဉ်ကပင် တေးကြီးဘွဲ့ကြီး၊ ကဗျာလင်္ကာ၊ ချောင်း၊ ရတု၊ ရကန်များကို ကြိုးစားအားထုတ်သင်ကြားလေ့လာသူဖြစ်သဖြင့် သီချင်းများကို သံနေသံထားဖြင့် စည်းဝါးကိုက် သီဆိုနိုင်လေသည်။ အိမ်ရှေ့မိဖုရားဖြစ်စဉ် မောင်တော် သာယာဝတီမြို့စားသည် မိဖုရားငယ်များနှင့်သာ ပျော်ပါး၍ အဆောင်တော်သို့ မကူးဘဲရှိလေရာ မောင်တော်အား တမ်းတ၍ "ရှိစုံရွှက်ကြာ" ချီပတ်ပျိုးကို ရေးသားစပ်ဆိုခဲ့၏။ အနောက်နန်း မိဖုရားဘဝသို့ ရောက်သည့်အခါ၌သည်း မောင်တော် ကုန်းဘောင်မင်းမှာ ယခင်ကအတိုင်းပင် အပျော်အပါးကြူး၍ မမြကလေးအား မေ့လျော့နေတတ်သောကြောင့် မောင်တော်အား တမ်းတနေဟန်ကို ကွက်ကွက် ကွင်းကွင်း ပေါ်အောင် "မြာမြာ ညိုရောင် မှိုင်းတလဲ့လဲ့" ချီပတ်ပျိုး၊ "ဂန္ဓမာတောင်၊ လိုဏ်ချောင်ဂူနန်း" ချီ ပတ်ပျိုး အစရှိသော ပတ်ပျိုးများကို ရေးသားဖွဲ့နွဲ့တော်မူ၏။ မမြကလေး၏ အဖွဲ့အနွဲ့များမှာ လွန်စွာ နူးညံ့သိမ်မွေ့၍ ဖတ်ရသူစိတ်ကို ထိခိုက်စေ၏။ ဖွဲ့သမျှသောစာများတွင် မောင်တော် ရွှေဘိုမင်းသားကို ရည်စူး၍ တမ်းတသည့် အဖွဲ့များက များလေသည်။ မောင်တော်ကို ချစ်ခင်မြတ်နိုးလှသည့် အားလျော်စွာ ရွှေဘိုမင်း ပျင်းရိငြီးငွေ့သည့်အခါများ၌ မိမိကိုယ်ဘိုင် တေးကဗျာများ သီဆိုဖွဲ့နွဲ့၍ ပျော်တော်ဆက်ရှာ၏။

တခါသော် အနောက်နန်း မမြကလေးအား ရွှေဘိုမင်းတရားကြီး အမျက်တော်ရှိသောကြောင့် အကျဉ်းချထားခြင်းခံရစဉ် အမျက်ဖြေ "ချစ်သမျှကို" ချီ ပတ်ပျိုးကို ရေးသားဆက်သွင်းတော်မူရာ ဘုရင်မင်းမြတ် သနားတော်မူ၍ အကျဉ်းမှ လွှတ်တော်မူသည်ဟု ဆိုလေသည်။ လောကကြီး

ကို ငြီးငွေ့တော်မူသည့်အခါ၌လည်း မမြကလေးသည် တောထွက်လိုကြောင်း စာစပ်၍ ညည်းတတ်သေးသည်။

မမြကလေးမှာ ရှုပါရုံရော သဒ္ဒါရုံပါ စွယ်စုံပြည့်ဝသူ ဖြစ်၍ မောင်တော် ရွှေဘိုမင်းက လွန်စွာချစ်မြတ်နိုးတော်မူလေသည်။ ဤသို့ မြတ်နိုးတော်မူခြင်းနှင့် နန်းတွင်း စာဆိုအဖြစ် ကျော်စောခြင်းကို မနာလိုသူများက အချက်ရှာနေရာ၊ သက္ကရာဇ် ၁၂၀၇ ခုနှစ်တွင် မမြကလေးသည် ပြည်မင်းသားနှင့် ကြံရာပါဖြစ်သည်ဟု မနာလိုသူများလျှောက်ထားသောကုန်းချောစကားကို ကုန်းဘောင်မင်း ယုံတော်မူသဖြင့် အမျိုးသမီးစာဆိုတော် မမြကလေးမှာ အသက် ၃၆ နှစ်တွင် ရာဇဝတ်ဘေးသင့်ကာ ကံကုန်ရှာလေသည်။ အသတ်ခံရမည့်ဆဲဆဲတွင် အာဏာသားတို့အား "လောကစံရစ်ပါ၊ ဘုရားပ ဟောရာ" ချီ တေးထပ်ဖြင့် ဆုံးမသွန်သင်ခဲ့သေး၏။ ဤသို့ သေအံ့မူးမူး၌ စာစပ်ဆိုနိုင်ခဲ့ခြင်းကို ထောက်သဖြင့် မမြကလေးသည် မည်မျှ တရားနှင့်ပြည့်ဝသူ၊ ရဲရင့်သူအမျိုးသမီးဖြစ်ကြောင်း သိနိုင်လေသည်။ မမြကလေးသည် ဂီတကဗျာများမှအပ ဣန္ဒာဝုဓ နန်းတွင်းဇာတ်တော်ကြီးကိုလည်း ရေးသားခဲ့သည်ဟု ယူဆကြလေသည်။

**မြခြေချင်း မငွေမိုင်** ( မြန်မာ ၁၂၅၆ – ၁၃၁၈ ) ။ ။ မြန်မာဇာတ်သဘင်လောက၏ နာမည်ကျော် ဇာတ်မင်း



မြခြေချင်းမငွေမိုင်၏ ကိန္နရာအကမှာ လူကြိုက်များလှသည်။



မြခြေချင်းမငွေမိုင်၏ ကဟန်တမျိုး

သမီးမြခြေချင်း မငွေမိုင်ကို ရန်ကုန်မြို့ ကြည့်မြင်တိုင်အိုးဘိုရပ်၌ ၁၂၅၆ ခုနှစ် တန်ဆောင်မုန်းလပြည့်ကျော် ၁၀ ရက်နေ့တွင် အဖ ဦးအောင်ဘ၊ အမိ ဒေါ်ငြိမ်းဇံတို့မှ ဖွားမြင်သည်။ ငယ်မည် မငွေလှိုင် ဖြစ်၏။ မငွေလှိုင်နှင့်အတူမွေးချင်း ၁၀ ယောက်ရှိ၍ မိဖများမှာ ဆင်ဖြူကျွန်းဇာတိကုန်သည် မျိုးရိုးဖြစ်သည်။

မငွေလှိုင်သည် ကြည့်မြင်တိုင် မျူနီစီပယ်ကျောင်းမှ စတုတ္ထတန်း အောင်မြင်ခဲ့သည်။ ၁၁ နှစ်သမီးအရွယ်တွင် ဖခင်ဖြစ်သူက ပုဇွန်တောင် စက်ဆန်းမောင်းတန်းရပ် စာရေးဆရာ ဆရာစံထံ၌ ဇာတ်သဘင်ပညာများကို သင်ယူစေသည်။ အသက် ၂၁ နှစ်အရွယ်၌ ဦးကိုကိုကြီးနှင့် ထိမ်းမြားလေသည်။

သဘင်လောကသို့ ဝင်ရောက်စဉ်၌ မငွေလှိုင်သည် မြခြေချင်း မငွေမိုင်အမည်ဖြင့် ဇာတ်မင်းသမီးအဖြစ် ကပြခဲ့သည်။ ထိုအခါမှစ၍ မြခြေချင်း မငွေမိုင်ဟု တွင်ခဲ့လေသည်။ မငွေမိုင်နှင့် အများဆုံး တွဲဖက်၍ ဇာတ်ကခဲ့ဘူးသူမှာ အောင်စည်ဗလ ဖြစ်သည်။ မငွေမိုင်သည် မင်းသားဦးစိန်အုပ်၊ ဦးဘလွန်း၊ ဦးဘထွန်း၊ ဦးဘလှိုင်တို့နှင့်လည်း တဇာတ်တည်း ပါဝင်တွဲဖက် ကပြခဲ့ဘူးသည်။ ဇာတ်ကပြခဲ့ရာ၌ မငွေမိုင်သည် မင်းသမီးရွှေဆောင်၍ မင်းသားက အတည်မျှပါဝင်ရသော ဇာတ်ထုပ်မျိုးကို ကပြလေ့ရှိခဲ့သည်။ ကပြသော ဇာတ်ထုပ်များမှာ ပဲခူး ရွှေသာလျှောင်းသမိုင်း၊ ဖော့ဖြူ မောင်ယောဇာတ်ထုပ်၊ သာယာဝတီ ရာဇဝင် ခြေဖဝါးတတောင် မောင်မဲခေါင် ဇာတ်ထုပ်စသည်တို့ ဖြစ်လေ

သည်။ သို့သော် မငွေမြိုင်သည် ကပြခဲ့သမျှသော ဇာတ်ထုပ်တို့တွင် အင်္ဂုလိမာလ ဟိန္ဒကဇာတ်ထုပ်နှင့် ပုဂံရာဇဝင်ထိလိင်္ဂုက် ဇာတ်ထုပ်တို့ကို အနှစ်ခြိုက်ဆုံး ဖြစ်၏။

ထိုနောက် မငွေမြိုင်သည် မြန်မာညွန့် ဦးချစ်မောင်အား ဦးစီး ဦးဆောင်ပြုစေ၍ လက်ထောက်မင်းသမီး အောင်မေလှိုင်၊ အုံးကြည်၊ လူရွှင်တော် သော်ကတို့နှင့်အတူ ဇာတ်သဘင်လောကမှ အငြိမ့်သဘင်လောကသို့ ကူးပြောင်းခဲ့၍ "မြခြေချင်း အငြိမ့်အဖွဲ့" ကို တည်ထောင်ကပြခဲ့သည်။ ထိုစဉ်က မငွေမြိုင်၏ ဝင်ငွေမှာ တလ ၇၀၀ ကျပ်မျှ ရှိခဲ့လေသည်။ အငြိမ့်ဟု ခေါ်ရငြားသော်လည်း မငွေမြိုင်သည် ဇာတ်ဆန်ဆန် ဇာတ်လမ်းရှည်များခင်း၍ အငြိမ့်ကို မိုးလင်းသည်အထိ ကပြလေ့ ရှိသည်။ မငွေမြိုင် ကပြခဲ့သည့် ဇာတ်များအနက် ထိုခေတ်က ပရိသတ် အကြိုက်ဆုံးမှာ ရွှေရိုးဇာတ်ဖြစ်သည်။ မငွေမြိုင်သီဆိုခဲ့သည့် သီချင်းများအနက် ပရိသတ်များ အလွန်စွဲမက်၍ ကျော်ကြားခဲ့သော သီချင်းဆန်းများမှာ နန်းတော်ရွှေ ဆရာတင် ရေးသား စီကုံးသော "မိန်းမမင်းတိုင်ပင်" သီချင်း၊ "စန္ဒကူးမြိုင်" သီချင်းနှင့် "ဦးထွန်းရှိန်" သီချင်းတို့ပင် ဖြစ်သည်။ ထို့ပြင် "အောင်ပင်လယ် တောထဲက ရွှေကျီးညို ငွေမြိုင်လာယင် ဆီးလို့ကြို" အစရှိသည့် ရွှေကျီးညိုသီချင်းကား ထိုစဉ်က မြန်မာပြည်ထက်အောက်တလွှား လူတိုင်း၏ပါးစပ်ဖျား၌ ခေတ်စားခဲ့သော မငွေမြိုင်၏ ကာလပေါ် သီချင်းဆန်းပင်ဖြစ်လေသည်။ ခရစ် ၁၉၂၇ ခုနှစ် ဒါဘာပွဲ၌ မငွေမြိုင်သည် ဘုရင်ခံ၏ ရွှေတံဆိပ်နှင့်နာမည်ကောင်းလက်မှတ် ချီးမြှင့်ခြင်းကိုခံရသည်။

မငွေမြိုင်သည် အသက် ၄၀ အရွယ်ထိ မင်းသမီးအဖြစ် ကပြခဲ့သည်။ အသက် ၄၀ ကျော်လာသောအခါ၌ ကခုန်ခြင်းမှ အနားယူကာ ဇာတ်ထောင်ခြင်း၊ မင်းသားမင်းသမီးများမွေး၍ သဘင်ပညာသင်ပေးခြင်းတို့ကို ဒုတိယ ကမ္ဘာစစ်ဖြစ်၍ မြန်မာနိုင်ငံသို့ ဂျပန်များဝင်ရောက်လာသည်အထိဆောင်ရွက်ခဲ့၏။ မငွေမြိုင်သည် နာမည်ကျော် ဇာတ်မင်းသား အလက်ာကျော်စွာဘွဲ့ရ ရွှေမန်းတင်မောင်၏ ငယ်ဆရာ ဖြစ်ဖူးသည်။စစ်ပြီးခေတ်၌ မငွေမြိုင်သည် ရွှေမန်းချစ်တင်ဇာတ်ကို ခေတ္တ ထောင်ပေး၏။ ထိုနောက် သဘင်ဂီတ၊ ကခုန်ခြင်း လုပ်ငန်းများအားလုံးကို ရပ်စဲ၍ နဂါးဆေးလိပ်ကိုယ်စားလှယ်အဖြစ် မန္တလေးမြို့ ရှမ်းပွဲရပ်၌ နေထိုင်ခဲ့သည်။ "မြခြေချင်း" ဟူသောအမည်ကို တပ်ယူခဲ့ခြင်းမှာ အဓိပ္ပါယ်ထူး မရှိခဲ့ဟု သိရလေသည်။ သို့သော် မြခြေချင်းကို အားကျအတုယူ၍ မိမိတို့ အမည်ရင်း ရှေ့မှ "စိန်ခြေချင်း" "ရွှေခြေချင်း" အစရှိသော အမည်များကို ယူခဲ့ကြသော မင်းသမီးများ ပေါ်ပေါက်ခဲ့ဘူးလေသည်။မငွေမြိုင်သည် ၁၃၁၀ ခုနှစ် တော်သလင်း လပြည့်ကျော် ၄ ရက်နေ့တွင် ကွယ်လွန်အနိစ္စရောက်လေသည်။

# ဘာသာလေးမျိုး ရေးထိုးသည့်ကျောက်စာ

**မြစေတီ ကျောက်စာကို ပါဠိ၊ မြန်မာ၊ မွန်၊ ပျူဘာသာလေးမျိုးဖြင့် ရေးထိုးထား၏။ ပုဂံခေတ်ဟောင်း ကျောက်စာအနက် လက်ဦးကျသည်။ သမိုင်းနှင့် စာပေတို့ကို ခန့်မှန်း သုံးသပ်ရာ၌လည်း အထောက်အကူ ပြုသည်။**

မြစေတီကျောက်စာ။ ။ပုဂံမြို့တောင်ဖက်၊ မြင်းကပါရွာရှိ မြစေတီဘုရားအနီး၌ တွေ့ခဲ့သည်ကိုအကြောင်းပြု၍ မြစေတီ ကျောက်စာဟု အမည်တွင်လျက်ရှိသော ကျောက်စာကား ရှေးပုဂံခေတ်ဟောင်းတွင် ရေးထိုးသော ကျောက်စာများအနက် လက်ဦးကျရုံမကဘဲ သမိုင်းနှင့် စာပေဘို့ကို ခန့်မှန်းသုံးသပ်ရာ၌ အထောက်အကူ ပြုသောကြောင့် အလေးတမူ ဂရုပြုကာ အရေးထားအပ်သော ကျောက်စာဖြစ်၏။ ယင်းကျောက်စာကို ဂူပြောက်ကြီး ကျောက်စာဟူ၍လည်း ခေါ်ကြသည်။

မြစေတီ ကျောက်စာတိုင်နှစ်တိုင်ရှိရာ၊ ပုဂံပြတိုက်တွင် ကျောက်စာတိုင် တခုရှိ၍၊ မြင်းကပါ မြစေတီ ရင်ပြင်ပေါ်တွင် ကျောက်စာတိုင် တခုကို စိုက်ထူထား၏။ ပုဂံပြတိုက်တွင်ရှိသော ကျောက်စာတိုင်ကို ခရစ်နှစ် ၁၈၈၆ – ၈၇ ခု (မြန်မာ ၁၂၄၈ ခုနှစ်ခန့်) တွင် ရန်ကုန် အစိုးရ ကောလိပ်ပါဠိစာပေ ပါမောက္ခနှင့် အစိုးရ ကျောက်စာဝန်အဖြစ် တွဲဖက်ရွက်ဆောင်သော ဂျာမန်ပညာရှိ ဒေါက်တာ ဖိုရှမ်မားသည် ပုဂံမြို့ တောင်ဖက်မြင်းကပါရွာအနီး မြစေတီခြေရင်း၌ကပ်လျက်စတင်တွေ့ရှိခဲ့၏။ မြစေတီ ရင်ပြင်ပေါ်တွင် စိုက်ထူထားသော ကျောက်စာတိုင်ကိုမူ ဂူပြောက်ကြီးလိုဏ်ဂူအတွင်း၌ ၃ ပိုင်းကျိုးပြတ်လျက် စတင်တွေ့ခဲ့ရလေသည်။

ကျောက်စာတိုင် တတိုင်တွင် ၄ မျက်နှာရှိရာ၊ တမျက်နှာလျှင် ဘာသာတမျိုးစီရှိလျက် ပါဠိ၊ မြန်မာ၊ မွန်နှင့်ပျူစာ ၄ မျိုး ရေးထိုးထား၏။

ပုဂံပြတိုက်တွင်ရှိသော ကျောက်စာတိုင်သည် လေးထောင့်မတ်ရပ် ကျောက်စာတိုင်ဖြစ်၍၊ လေးဖက်စာမျက်နှာပြင် အကျယ်ချင်းညီ၏။ အမြင့် ၅ ပေ ၁၁ လက်မ၊ စာမျက်နှာ အမြင့် ၃ ပေ ၆ လက်မ၊ အကျယ် ၁ ပေ ၂ လက်မခန့် ရှိ၏။

ပါဠိစာမျက်နှာ၌ စာကြောင်းရေ ၄၁၊ မြန်မာစာမျက်နှာတွင် စာကြောင်းရေ ၃၉၊ မွန် စာမျက်နှာတွင် စာကြောင်းရေ ၃၃ နှင့် ပျူစာမျက်နှာတွင် စာကြောင်းရေ ၂၆ အသီးအသီး ပါဝင်ရေးထိုးထားသည်။

မြစေတီရင်ပြင်ပေါ်၌ရှိသောကျောက်စာတိုင်မှာမူကား မတ်ရပ် လေးထောင့် ကျောက်တိုင် ဖြစ်ငြားသော်လည်း၊ ကျောက်စာမျက်နှာပြင် ၂ ဖက်သည် ပိုမိုကျယ်ပြန့်လျက်၊ ကျန် ၂ ဖက်မှာ ကျဉ်းသည်။ အကျယ်ဖက် ၂ ဖက်တွင် ၁ ပေ ၈ လက်မခန့်ရှိ၍ အကျဉ်းဖက်၌ ၁၀ လက်မခွဲမှ ၁၂ လက်မ အထိသာ ရှိသည်။ အကျယ်မျက်နှာပြင်ဖက်၌ စာမျက်နှာပြင် ၄ ပေ ၄ လက်မခန့် ရှိ၍၊ ၁ ပေ ၇ ½ လက်မ ကျယ်ပြန့်လေသည်၊ အကျယ်ဖက်တွင် ပါဠိနှင့် မြန်မာစာများကို ရေးထိုး၍ အကျဉ်းဖက်တွင် မွန်နှင့်ပျူစာများကို ရေးထိုးထား၏။ ပါဠိစာမျက်နှာ၌ စာကြောင်းရေ ၄၀၊ မြန်မာစာမျက်နှာတွင် စာကြောင်းရေ ၃၄၊ မွန်စာမျက်နှာတွင် စာကြောင်းရေ ၄၆ နှင့် ပျူစာမျက်နှာတွင် စာကြောင်းရေ ၂၉ အသီးအသီး ရေးထိုးထားလေသည်။

မြစေတီ ကျောက်စာကို ကျန်စစ်သားမင်း၏ သားတော် ရာဇကုမာရ်အမည်ရှိသော မင်းသားက သက္ကရာဇ် ၄၇၄ ခုနှစ်တွင်သော်၎င်း၊ နောက်တနှစ်ဖြစ်သော ၄၇၅ ခုနှစ်၌သော်၎င်း ရေးထိုးသည်ဟု ယူဆကြလေသည်။ ကျန်စစ်သားသည် အနော်ရထာမင်း၏ အမျက်တော်ကြောင့် ကြောင်ဖြူအရပ်၌ ပုန်းရှောင်နေစဉ် မထီးတူမ သမ္ဘူလနှင့်တွေ့၍ မယားအဖြစ် သိမ်းယူလေ၏။ အနော်ရထာမင်း ကွယ်လွန်၍ စောလူးမင်း နန်းတက်သောအခါ ကျန်စစ်သားသည် ရာဇကုမာရ်ကို ပဋိသန္ဓေတည်နေသော သမ္ဘူလအား သားယောကျ်ားမွေးသော် ပုဂံပြည်သို့ လာခဲ့ဟု မှာ၍ စောလူးမင်းထံ ခစားလေသည်။ စောလူးမင်း ကွယ်လွန်တော်မူသောအခါ သက္ကရာဇ် ၄၄၆ ခုနှစ်တွင် ကျန်စစ်သားသည် ဂြိတြိဘုဝနာဒိ ဘျမွေရာဇ်ဘွဲ့နှင့် နန်းတက်တော်မူသည်။ ၂ နှစ်ကြာလတ်သော် သမ္ဘူလသည် နန်းတော်သို့ရာဇကုမာရ်နှင့် ရောက်လာ၏။ မင်းကြီးလည်း သမ္ဘူလအား ဦးဆောက်ပန်းဟူသော တြိလောကဝဋံသကာ ဒေဝီအမည်နှင့် မိဖုရားမြှောက်လေသည်။ မြေးတော် အလောင်းစည်သူကို ဘိသိက်သွန်းပြီး ဖြစ်သဖြင့် ရာဇကုမာရ်အား ဓညဝတီ တောင်စဉ်ခုနှစ်ခရိုင်ကို စားစေ၏။ ရာဇကုမာရ်မင်းသားသည် ၄၇၄ ခုနှစ်တွင် ခမည်းတော်နာမကျန်းဖြစ်၍ သေအံ့မူးမူး၌ ခမည်းတော်အတွက် ရည်စူးလျက် ရွှေဆင်းတုဘုရားကို ဌပနာ၍ ရွှေအထွတ်ရှိသော ကူဘုရား (ဂူပြောက်ကြီး) ကို တည်ပြီးလျှင်၊ ထိုကူဘုရားအား စောင့်ရှောက်ပူဇော်စိမ့်သောငှါ မိမိ၏ အမွေအနှစ်ဖြစ်သော ကျွန်သုံးရွာကိုလည်း လှူလေသည်။ ထိုနောက် အမိအဖတို့၏ ရှေးဖြစ် ရှေးဟောင်း တို့ကို ပြန်ပြောင်း အောက်မေ့ကာ မှတ်တမ်း ရေး၍ ကျောက်စာတိုင် စိုက်ခဲ့လေသည်။ မြစေတီကျောက်စာတိုင်၌ အက္ခရာများ၏ ပုံမှာ အဝိုင်းမဟုတ်ဘဲ မန်ကျည်းစေ့ပုံ ဖြစ်လေသည်။

၁။ဂြီ။ နမောဗုဒ္ဓာယ။ ပုရှာသ္ခင် သာသနာအနှစ်တ
၂ စ်ထောင်ခြောက်ရှျာ နှစ်ဆာယ် ဟေတ်နှစ်လောန်
၃ လိယ် ဖြီရကာ။ ဤယ် အရိ မဒ္ဒနပုရ် မည်သုပြည်
၄ နိုက်အာ။ ဂြီတြိဘုဝနာ ဒိတျ ဓမ္မရာဇ် မည်သုမ
၅ င် ဖ္လစ် အော်။

ဟူ၍ အစချီသော မြစေတီ ကျောက်စာကို ယခုခေတ်အရေးအသားဖြင့် ပြန်လည် ရေးသားပါက အောက်ပါ အတိုင်း ဖြစ်၏။

(၁) ။သီရိ။ နမောဗုဒ္ဓါယ၊ ဘုရားသခင် သာသနာ အနှစ်တ
(၂) စ်ထောင်ခြောက်ရာ နှစ်ဆယ်ရှစ် နှစ်လွန်
(၃) လေပြီးရကား၊ ဤအရိမဒ္ဒနာပုရ်မည်သောပြည်
(၄) ၌၊ သီရိတြိဘုဝနာဒိတျဓမ္မရာဇ်မည်သော မ
(၅) င်းဖြစ်၏။ ထိုမင်း၏ ပယ်မယား တ
(၆) စ်ယောက်သော်ကား တြိလောကဝဋံသကာ ဒေဝီ
(၇) မည်၏။ ထိုပယ်မယားသားတမူလည်း ရာဇ
(၈) ကုမာရ်မည်၏။ ထိုမင်းကား ကျွန်သုံးရွာ
(၉) တည်း ပယ်မယားအားပေး၏။ ထိုပယ် မ
(၁၀) ယားသေခဲ့ရကား၊ ထိုပယ်မယားတန်းဆာနှင့် ထို
(၁၁) ကျွန်သုံးရွာသောနှင့်တည်း ထိုပယ်မယား
(၁၂) သား ရာဇကုမာရ်မည်သောအား မင်းပေးတုံ
(၁၃) ၏။ ထိုမင်းအနှစ်နှစ်ဆယ်ရှစ်နှစ် မင်းမူပြီး၍
(၁၄) သေခမူနာသရော၌ဘည်း ထိုရာဇကု
(၁၅) မာရ်မည်သော ပယ်မယားသား မိမိကိုမွေးသောမင်း
(၁၆) ကြီးကျေးဇူး အောက်မေ့ရကား ရွှေအတိသော ဘုရားသခင်အ
(၁၇) ဆင်းပြု၍ နုပ်လေသရောတည်း ဤသို့
(၁၈) မိန့်၏။ ဤရွှေဘုရားကား ငါ့သခင်အဖို့ အတို
(၁၉) ကျွန်ပြုသောတည်း။ ကျွန်သုံးရွာအတို့ကျွန်
(၂၀) ငါ့သခင်ပေးသည်ကား ဤရွှေဘုရားအားအတို့ကျွန်
(၂၁) ပေး၏။ ထိုရောတည်းမင်း နှစ်ကျိုရကား ကောင်း
(၂၂) လှေ့င်တည်း ကောင်းလှေ့င်တည်း မိန့်၍ သင်ဂြီ
(၂၃) မဟာထေရ်၊ သင်ဂြီမုဂ္ဂလိပုတ္တတိဿထေရ်၊ သင်ဂြီသု
(၂၄) မေဓပဏ္ဍိဘ်၊ သင်ဂြီဗြဟ္မပါလ်၊ သင်ဂြီဗြဟ္မဒိ
(၂၅) ပ်၊ သင်ဂြီသောန်၊ သင်ဂြီသင်္ဃသေနဝရပဏ္ဍိ
(၂၆) တ် ထိုသခင်တို့ အမှောက်တည်း ရေသွန်း၏။
(၂၇) ထိုပြီးရကား ထိုရာဇကုမာရ်မည်သော ပယ်မယား
သား

(၂၇) ထိုရွှေဘုရားထာပနာ၍ ရွှေအထွတ်မူသော
(၂၈) ကူပြု၏။ ပြုပြီးရကား ဤကူဘုရားလွှတ်
(၃၀) သရော္ဘဘည်း သက်မုနလွှန်တစ်ခွာ၊ ရပါ
(၃၁) ယ်တစ်ခွာ၊ ဟောန်ဗိုဝ်တစ်ခွာ၊ ဤကျွန်
(၃၂) သုံးခွာကို ယူ၍၊ ထိုရာဇကုမာရ်မည်သော ပယ်
(၃၃) မယားသား ဤကူဘုရားအား ရေသွန်း၍ ဤသို
(၃၄) မိန့်၏။ ဤငါ့အမှုကား သဗ္ဗညုတဉာ
(၃၅) ဏ်ပညာရအံ့သော အကြောင်းဖြစ်စေသတည်း၊ ငါ့
(၃၆) နောင်အား ငါ့သားလည်းကောင်း၊ ငါ့မြေးလည်း
ကောင်း၊ ငါ့ဆွေ
(၃၇) လည်းကောင်း၊ သူတထူးလည်းကောင်း၊ ဤဘုရား
(၃၈) အား ငါလှူခဲ့သော ကျွန်အနှိပ်အစက်တည်းမူ မု
(၃၉) ကား အရိမေတ္တေယျဘုရားသခင် အဖူးရစေ။

မြစေတီကျောက်စာပါ စကားပြေသည် ရှေးအကျဆုံးဖြစ်သော စကားပြေတရပ်ဟု ဆိုသင့်ပေသည်။ သတ်ပုံ သတ်ညွှန်း စကား အသုံးအနှုန်းတို့မှာ အချို့သောနေရာတွင် ယခုကာလနှင့်မတူဘဲ ကွာခြား၏။ သို့ရာတွင် ယခုကာလအသုံးအနှုန်းသည် အများအားဖြင့် ရှေးရေးအသုံးအနှုန်းမှ ဆင်းသက်လာသည်ကို သတိမူရာသည်။ ဝါကျများကို တိုတိုနှင့် အဓိပ္ပါယ်ပေါ်ရုံ ရေးထား၍ ထိရောက်၏။ သတ်ပုံသတ်ညွှန်းတို့မှာ မြန်မာစာ အရေးအသား အစပျိုးချိန် ဖြစ်၍ ယခုခေတ်ကဲ့သို့ အသားမကျသေးချေ။ ပျူ၊ မွန်နှင့် ပါဠိဘာသာများဖြင့် ရေးထိုးသည်ကို ထောက်သော် ထိုခေတ်က မြန်မာလူမျိုး သာမက ပျူလူမျိုး၊ မွန်လူမျိုးတို့ ထွန်းကားလျက် ရှိပြီးဖြစ်ကြောင်း၊ မြတ်စွာဘုရား၏ မုခပါဠ်တော်ဖြစ်သော ပါဠိဘာသာ အရှိန်အဝါ ရပြီးဖြစ်ကြောင်းကို သိသာနိုင်ပေသည်။

တဖန် သမိုင်းဆိုင်ရာ အထောက်အထားအဖြစ် အသုံးဝင်အဖိုးတန်ပုံမှာလည်း မြစေတီ ကျောက်စာတွင် တြိဘုဝနာဒိတျဓမ္မရာဇာခေါ် ကျန်စစ်သားမင်းသည် သာသနာနှစ် ၁၆၂၈ တွင် နန်းတက်သည်ဟု ဆို၏။ မြစေတီ ကျောက်စာသည် မူလရှေးဦးခေတ်က မျက်မှောက် ရေးထိုးခဲ့သော ကျောက်စာဖြစ်ခြင်းကြောင့် မှန်ကန်သော အကိုးအကားအဖြစ်ယူနိုင်ကာ ကျန်စစ်သားမင်း၏ နန်းတက် သက္ကရာဇ်၊ နန်းစံ သက္ကရာဇ်နှင့် နတ်ရွာစံသော သက္ကရာဇ်များကို အတိအကျ ထုတ်ဖော်နိုင်လေသည်။ ထိုကျောက်စာပါ သက္ကရာဇ်မှာ ဇာတာတော်ပုံပါ ရာဇဝင်သက္ကရာဇ်နှင့်လည်း တူညီတိုက်ဆိုင်သည်။ ထိုမှတဆင့် အနော်ရထာ၊ စောလူးနှင့် အလောင်းစည်သူမင်းတို့၏ နန်းစံသက္ကရာဇ်တို့ကိုပါ တွက်ချက်ထုတ်ယူနိုင်ပေသည်။ ထိုပြင် ထိုမြစေတီ ကျောက်စာကို ပျူစာ၊ မွန်စာတို့ဖြင့် ရေးထိုးထားသည်ကို တွေ့ရသောကြောင့်လည်း မြန်မာစာနှင့် ယှဉ်ကာ၊ အဓိပ္ပါယ် ဖော်နိုင်ကြ၍ အထူးသဖြင့် ပျူစာကိုလေ့လာရာ၌ သဲလွန်စရနိုင်သဖြင့် နှောင်းပညာရှိတို့ အတွက် အဖိုးထိုက်တန်လှသော ကျောက်စာဖြစ်ပေသည်။ ထိုအပြင် ရာဇကုမာရ်သည် **ထီးနန်းစည်းစိမ်ကို** မဆက်ခံရသော်လည်း **အမိအဖ၏ ဂုဏ်ကျေးဇူးကို** မည်မျှ သိတတ် ရှိသေ ကိုင်းရှိုင်း **တတ်သော**သားကောင်းရတနာဖြစ်ကြောင်း **ဤမြစေတီကျောက်စာ**ကို ဖတ်ရှုခြင်းဖြင့် သိသာနိုင်ပေသည်။



**မြရင်၊ မ၊ လေဘာတီ** (မြန်မာ ၁၂၆၆ – ၁၃၀၇)။ ။ဒုတိယ ကမ္ဘာစစ်မဖြစ်မီ ခေတ်လောက်က မန္တလေးနှင့် အထက်မြန်မာနိုင်ငံ တဝှန်းတွင် အလှူအတန်းနှင့် ရှင်ပြု မင်္ဂလာဆောင်စသည့် အခမ်းအနားဟူသမျှ၌ ဆိုင်းဆိုလျှင် ရွှာစားကြီး စိန်ဗေဒါ မပါမဖြစ်သကဲ့သို့ အငြိမ့်ဆိုလျှင် လေဘာတီမမြရင် အငြိမ့် မပါမဖြစ်သလောက်ပင် ရှိခဲ့သည်။ ထိုစဉ်အခါက အလှူ၊ မင်္ဂလာပွဲများ ပြုလုပ်မည်ဆိုပါက ပုဏ္ဏားဗေဒင်ပညာရှိများ ရွေးလေသည့် နေ့ကောင်းရက်သာ၌သာ ရွေး၍ ပြုလုပ်ကြရသည်မဟုတ်၊ စိန်ဗေဒါနှင့် လေဘာတီမမြရင်တို့ အားသည့်ရက်၌သာ ရွေး၍ ပြုလုပ်ကြသည်အထိ လူကြိုက်များ၍ ကျော်ကြားခဲ့လေသည်။

လေဘာတီ မမြရင်သည် အငြိမ့်မင်းသမီး အဖြစ်သာ



**လူကြိုက်များလှသည့် နာမည်ကျော် အငြိမ့်မင်းသမီး လေဘာတီ မမြရင်**

မဟုတ်၊ ခေတ်ပြား အဆိုကျော်အဖြစ်လည်း နာမည်ကြီးသူ ဖြစ်သည်။ သူနှင့် ခေတ်ပြိုင်ပေါ်သော အငြိမ့်သဘင် ပညာရှင်များမှာ ဥက္ကလာအေးကြည်၊ ဒဂုံခင်လှကြည်၊ ဩဘာသောင်း၊ ယူနီဗာစီတီ မြသန်းကြည် စသည်တို့ ဖြစ်သည်။

မမြရင်သည် မိတ္ထီလာခရိုင် သာစည်မြို့ အနောက်ဖက် ဂ မိုင်ကွာရှိ ရွှေဖလားကန်ရွာ၌ အဖမင်းသား ဦးဘိုးသစ်၊ အမိမင်းသမီး ဒေါ်ဥာဏ်ရှုံတို့မှ ၁၂၆၆ ခုနှစ်တွင် ဖွားမြင်သော အနုပညာရှင်ဖြစ်သည်။ ဇာတိရပ်ရွာ၌ မိဖများနှင့် နေစဉ်က တောင်သူလယ်သမားအလုပ်နှင့် ကြီးပြင်းခဲ့ဟန်တူသည်။ "ထမီကလေးတိုတိုဝတ်ကာ၊ ကျွန်မငယ်စဉ်အခါ၊ လူထဲမဝင်သေးတော့ အလုအပြင်အဆင်ချော၊ မယ်ရင်ကုန်ကုန်ပြောမယ်၊ တောသက်သက်မို့၊ ဘယက်ဒွါဒယာ၊ ရွှံတွေကပ်စီးကပ်စီး ပုတီးလုပ်ကာ ဆွဲတတ်တာ၊ ဒေါ်လာပြားတွေ ၁၅ ပြားလောက်ဆွဲတတ်တာ၊ ကိုကိုတို့က မြှောက်စားပေမဲ့ ဟိုတုန်းကလောက် မပျော်ပါ"ဟု သူကိုယ်တိုင်သီဆိုခဲ့သော ရွှေမိုးညိုသီချင်းအရ သူ၏ငယ်စဉ်ဘဝကို သိသာလေသည်။

မမြရင်သည် ရုပ်ရည်အားဖြင့် ချစ်စရာ သန့်သန့်ပြန့်ပြန့်မို့ သူအားချစ်စနိုးနှင့် ဗိုလ်မဟု ခေါ်ကြသည်။ အသားလတ်၍ မျက်နှာဝိုင်းပြီးလျှင် နှာတံပေါ်ကာ မဟာဆန်သည်။ အယပ် ခပ်ပျပ်ပျပ်ဖြစ်၍ ဝတ်စားဆင်ယင်ထားသည့်အခါ တကယ့် မင်းသမီးရုပ်ကလေးနှင့်တူသည့် ရုပ်ရှိရှင် ဖြစ်သည်။ မမြရင်သည် ရုပ်ရည် လှပရုံသာမဟုတ်၊ အသွားအလာ အနေအထိုင်လည်း ယဉ်၍ မျက်နှာပေးကလေးကလည်း ချစ်စရာဖြစ်သည်။

အမည်နှင့်လိုက်အောင် လှ၍ ယဉ်သော မမြရင်အား နာမည်ကျော်သည်ထက် ကျော်စေသော ကောင်းကွက်တခုကား သူ့အသံ ဖြစ်သည်။ မမြရင်၏ အသံသည် အာသံ၊ လျှာသံ၊ နှာသံ စွယ်စုံကောင်းလှသည်။ အသံကို လှည့်ချင်တိုင်း လှည့်၍ ပိုင်အောင် ဆိုနိုင်သူ ဖြစ်သည်။ မည်မျှပင် ပရိသတ်ပေါက်အောင် ဆိုရသော်လည်း အသံဝင်ခြင်း၊ တိမ်ခြင်း၊ ကြောင်ခြင်း မရှိဘဲ၊ ကြည်ကြည်လင်လင် ပြတ်ပြတ်သားသား ရှိလေသည်။ သောတရှင် ပရိသတ်၏ စိတ်အာရုံကို အများဆုံး ဆွဲဆောင်နိုင်သည့် အသံရှင်ဖြစ်သည်။

မမြရင်သည် ရုပ်ချော၊ အသံကောင်း၊ အဆိုပိုင်သူသာ မဟုတ်၊ အကလည်းကောင်း၍ အမူအရာတွင်လည်း သဏ္ဍာန်လုပ် သရုပ်ပေါ်အောင် စွမ်းဆောင်နိုင်သူ ဖြစ်သည်။ အကတွင် အထူး သိမ်မွေ့နူးညံ့လှ၍ မည်သည့် အကကိုပင်ကက စည်းဝါးနှင့် အံကိုက်အောင် ကနိုင်သည်။ 'ကမ္ဘောဇ' ဟူသော သီချင်းကိုဆို၍ ရှမ်းမကလေးလို ကလိုက်သည့်အခါ၊ ရှမ်းမကလေးနှင့် တထေရတည်း တူကြောင်းဖြင့် ဆိုကြသည်။ မမြရင်သည် အငြိမ့်စင်ပေါ်မှာရော၊ ပြင်ပမှာပါ အနေအထိုင် သိပ်သည်း၍ ကိုယ်နှုတ် အမူအရာ ကြမ်းတမ်းခြင်း လုံးဝမရှိသူဖြစ်ပေသည်။ သူခေတ်က အလွန်နာမည်ကြီးခဲ့သူ ဖြစ်သော်လည်း ကြွားဝါမောက်မော်ခြင်း လုံးဝမရှိချေ။ စိန်ဗေဒါ၊ နန်းတော်ရွှေဆရာတင် စသော သူ၏ သင်ဆရာ မြင်ဆရာများကို တွေ့သည့်နေရာတိုင်း၌ ပရိသတ်မရှောင် ဝတ်ချရှိသေလေ့ရှိသူဖြစ်သည်။ ဘုရားတရားလည်း မြဲ၍ နိစ္စဘတ် ပုတီးစိပ်သူ ဖြစ်သည်။ ဘုရား တရား ဆရာ မိဖကို ရိုသေသူ ဖြစ်လေသည်။

လေဘာတီမမြရင်သည် အများအားဖြင့် အချစ်သီချင်းများကို ဆိုလေ့ရှိသည်။ သူဆိုခဲ့သည့် သီချင်း စာသားကို လေ့လာကြည့်သည့်အခါ သူ၏အဆင်မပြေသော အချစ်ရေးသည် ပေါ်လေ့ရှိသည်။ သူဆိုသည့် သီချင်းတိုင်းလိုပင် အချစ်ကို ထေ့ထေ့ပြီး စပ်ဆိုထားလေသည်။

"ဇာအာရုံတွင်၊ ရည်းစားသယ်က ဂုဏ်ယ်တယ်ထင်၊ တောင်းပန်တဲ့ရင်ရင် ကပရစေရှင်၊ မပိုင်စိတ်စွဲ အငြိမ့်ထဲ မကစေချင်၊ ကပရစေရှင်၊ မတည်အတည်ပင် အကိုများ ကာလသားတိုင်း ကျွန်မကို ချစ်ရှာမေတ္တာစစ်ပင်၊ အသစ်ထင်၊ မောင့်တော့ အလှူ့ရှင်မှန်း အားလုံးသိကြပါတယ်ရှင်၊ အပိုင်နော် ကြံလိုက်သခင်၊ တိုင်ပေါ် အလံစိုက်ချင်" ဟူ၍ရင်း၊

"အငြိမ့်မင်းသမီးများ ရည်းစားထားတဲ့ လူဆိုတာမျိုးနော်၊ သဘောနည်းနည်း ကြီးအုံးမှပေါ့သခင်ရေ၊....မီးရောင်အောက်ကိုဝင်ကာ၊ လူပြက်တွေနဲ့ သောတော့ သူ့သဘောက အလွန်တရာ မကြည်မလင်၊ ဩော်-မြရင်-မြရင်-မြရင်-ချစ်ကြပေသရှင်၊ ပြည်တခွင်၊ မောင့်အချစ်မျိုးဟာ ဘယ်အချိုးအစားလဲ၊ တကယ်အားမရနိုင်ရှာအောင်ပင်၊ ပေါ်ပေါ်ထင်ထင်ချစ်ချင်လှရင်၊အလှူ့ရှင်မှန်းအားလုံးသိကြပါတယ်ရှင်၊ အပိုင်နော် ကြံလိုက်သခင်၊ တိုင်ပေါ် အလံစိုက်ချင်။ အိဂျစ်နှင့် အင်္ဂလန် နိုင်ငံခြားကို မောင်သွားထားပါလား သူများ မကြည့်စေချင်" ဟူ၍ရင်း၊

"စာရေးတဲ့ ဆရာတောင် အိမ်မလာရအောင်၊ သူပြောထားလေသလား ပျိုတပါး မသိပေါင်၊ ဝါသနာကို မတားနဲ့တော့မောင်၊ သည်လိုနေတာ အများကလဲ သနားကြတယ်၊ မြမြရင်၊ ကျမကချင်၊ သည်းခံတော့ ဘိုကေလင်" ဟူ၍ရင်း၊ သူ၏ ကိုယ်တွေ့ အချစ်ရေးကို ဖွဲ့နွဲ့သီဆိုခဲ့သည်ဟု ဆိုကြသည်။ သူ၏ ချစ်သူက သူ့အပေါ် သဝန်တိုသဖြင့် ဦးသဝင်ကြောင် သီချင်းကို သီဆိုကာ သူ့ချစ်သူအား တိုက်ရိုက်မပြောရှာဘဲ အရပ်နှင့်လှည့်၍ "ရှင့်ကို ဦးသဝင်ကြောင်" ဟု ခေါ်နေပြီဖြစ်ကြောင်း သီဆိုခဲ့လေသည်။ မမြရင်၏ သီချင်းများသည် များသောအားဖြင့် ကိုယ်တွေ့ အဖြစ်အပျက်များ ဖြစ်လေသည်။ မမြရင်ကို ချစ်သူပေါ်သလောက် မနာလိုဝန်တို၍ မုန်းသူလည်းရှိလေသည်။ မမြရင်

အသက် ၃၀ အရွယ်ခန့်တွင် မန္တလေးမြို့ပေါ်၌ ခရီးသွား ယင်း ပုလင်းဖြင့် အပစ်ခံရဘူးသည်။ ထိုသို့ အပစ်ခံရ၍ မျက်နှာပေါ်တွင် ဒဏ်ရာရကာ အမာရွတ်ကလေး ရေးရေး ထင်စဉ်က မြစပယ်ရှင်ရင် သီချင်းကို ဆိုခဲ့ပြီးလျှင် အဖျား ရောဂါပျောက်၍အငြိမ့်ပြန်ကသည့်အခါ တုံးကျော်မသီချင်း ကို ဆိုလေသည်။ ကိုယ်တိုင်ရဟန်းအမ၊ အလှူ့အမဖြစ်လာ သောအခါ၊ အလှူ့အမသီချင်းကိုဆို၍၊ ဘုရားတရားကို သတိရသောအခါ ဖွားဖက်တော် သီချင်းကို ဆိုခဲ့သည်။ မမြရင်သီဆို၍ ဓာတ်ပြားသွင်းခဲ့သောအခြားနာမည်ကျော် သီချင်းများမှာ မွန်းလိုက်ဂလိုရီ၊ ပဒုမ္မာ ရွှေကြာ၊ ခင့်သ ဘော၊ မောင်မောင့် ရွှေကျေး၊ ထင်သလိုနေ၊ အိုကေ၊ စိတ် တခုယုတ်ကိုးဆယ်၊ ဥစ္စာရင်မှန်ပြန်၊ သော့တွဲ စသည်တို့ဖြစ် သည်။ လေဘာတီ မမြရင် သီဆိုခဲ့သော သီချင်းများအ နက် ထင်ပေါ် ကျော်ကြားသော တေးသွားမှန်သမျှ နန်း တော်ရှေ့ဆရာတင် (တင်၊ ဆရာ၊ နန်းတော်ရှေ့ — ရှု။) ၏လက်ရာ များလေသည်။ သူနှင့် တွဲသော အငြိမ့်လက်စွဲ (ယခုအခေါ် လူပြက်) များမှာ ဦးဓာတ်ဆီ၊ ဦးသခ်၊ ဦး ဓာတ်ခိုး၊ ဦးညွှပ်ကြီး၊ ဦးဒန်ပေါက် စသည်တို့ ဖြစ်ကြသည်။

အနုသဘင် ပညာရှင်၏ သမီးကြီး နာမည်ကျော် လေ ဘာတီ မမြရင်သည် ဒုဋ္ဌဝတီမြစ်ငယ်မြစ် ကမ်းပေါ်ရှိ ညော့်ပြ ရွာတွင် စစ်ပြေး ပုန်းခိုယင်း ၁၃၀၇ ခုနှစ် ကဆုန်လပြည့် ကျော် ၄ ရက်နေ့တွင် ငှက်ဖျားရောဂါဖြင့် ကွယ်လွန်သည်။

## မြလွင်၊ မ၊ ကောလိပ်စိန် (မြန်မာ ၁၂၆၈ – ၁၃၂၀)

။ ။မမြလွင်သည် နာမည်ကျော် ဇာတ်မင်းသားကြီး ဘု ရားတကာ ဦးဘိုးစိန်နှင့် တွဲဖက်ကပြခြင်းကြောင့် နာမည်ရ သော ဇာတ်မင်းသမီးကြီးဖြစ်၍ အမည်ရင်း မမြလွင်ထက် ကောလိပ်စိန်ဟူသော အမည်ဖြင့် ပိုမိုလူသိများထင်ရှားပေ သည်။ ဦးဘိုးစိန်သည် ငယ်စဉ်က ယောကျ်ား မင်းသမီး အောင်ဗလနှင့်ရင်း၊ မင်းသမီး မငွေစိန်နှင့်ရင်း တွဲဖက်ကပြ ခဲ့ရာတွင် ဘိုးစိန် – အောင်ဗလ၊ ဘိုးစိန် – ငွေစိန်ဟူ၍ အ မည်များ ဒွန်တွဲကျော်ကြားခဲ့ပြီးနောက် မြောက်မြားစွာ သော မင်းသမီးတို့နှင့်တွဲ၍ ကပြခဲ့သော်လည်း ကောလိပ် စိန် အမည်ခံ မမြလွင်နှင့် တွဲ၍ကသောအခါ ပရိသတ် အများ သဘောကျ နှစ်ခြိုက်ကြသဖြင့် ဘိုးစိန် – ကောလိပ် စိန်ဟူ၍ထင်ရှားလာပေသည်။ (ဘိုးစိန်၊ ဦး — လည်းရှု။)

မမြလွင်သည် သက္ကရာဇ် ၁၂၆၈ ခုနှစ် ဝါခေါင်လဆန်း ၈ ရက်နေ့တွင် ဝါးခယ်မမြို့အပိုင် ထိပနန်းရွာတွင် ဇာတ်မင်း သားကြီး အဖ ဦးဘိုးရှိန်နှင့် မိန်းမ ဇာတ်မင်းသား အမိ ဒေါ်မှန်တို့မှ ဖွားမြင်သည်။ မွေးချင်း ၃ ယောက်အနက် တဦးတည်းသော အထွေးဆုံး သမီးဖြစ်၏။

မမြလွင်အသက် ၇ နှစ်အရွယ်တွင် ဝါးခယ်မမြို့ပေါ်၌ တိုက်ပိုင် အင်စပက်တော် (ယခုအခေါ် ရဲမှူး) ဦးဘိုးစဆိုသူ သည် အချပ်အငြိမ့်ကလေးထောင်ခဲ့ရာ မမြလွင်ကလေးသည် ဇာတ်စင်ပေါ်တက်ကာ ကပြ အသုံးတော် ခံခဲ့လေသည်။ ထိုနောက် ၁၀ နှစ် အရွယ်တွင် တလိုင်း မြကြင်၏ အငြိမ့် အဖွဲ့၌ လက်ထောက်အဖြစ်ဖြင့် ကပြနေစဉ်တွင် ရန်ကုန်မြို့ ၁၄ လမ်းမှ အငြိမ့်ဆရာဦးဘိုးသင်ကခေါ်ခဲ့၍ ခေါင်းဆောင် မင်းသမီး ဩဘာညွှန့်၏ လက်ထောက်အဖြစ် လူရွှင်တော် ဦးစိန်ကုံး၊ ဦးဗလကြီးတို့နှင့် အတူ မြလွင်အမည်ဖြင့် ကပြခဲ့ သည်။ ထိုသို့ကခဲ့ရာ၌ ကောလိပ်ကျောင်းပွဲအများအပြား၌ ကပြခဲ့ရပြီးလျှင် ကျောင်းသားများ သဘောကျကြသော ကြောင့် ကောလိပ်စိန်ဟူသော အမည်ကို ရခဲ့လေသည်။ ထိုစဉ်အခါက မမြလွင်သည် အသက်အရွယ်အားဖြင့် ၁၂ နှစ် ၁၃ နှစ်ခန့်သာ ရှိသေး၏။

မမြလွင်သည် ၁၂၈၂ ခုနှစ်လောက်တွင် ဦးစိန်ကုံးကို အကြောင်းပြု၍ ဦးဘိုးစိန် ဇာတ်အဖွဲ့သို့ ရောက်သွားလေ သည်။ ဦးဘိုးစိန်၏ ဇာတ်ထဲရောက်ခါစ အချိန်က မမြလွင် သည် ယိမ်းခေါင်းဆောင်၊ လက်ထောက်မင်းသမီးကလေး ဘဝနှင့် အငြိမ့်ခန်းများ၊ သားတော် သမီးတော်ခန်းများ တွင် ပါဝင်ကပြခဲ့ရ၏။ အိုးစည်ယိမ်းတွင် တယောက်တည်း ထွက်ကာ ဦးဘိုးစိန် တီထွင် သင်ပြပေးသည့်အတိုင်း လင်း ကွင်းတီး၍ ကပြရာ၌ သူမတူအောင် ထူးချွန်ရကား ယနေ့ တိုင် ကောလိပ်စိန် လင်းကွင်းတီးဟန်ဟူ၍ တွင်ခဲ့ပေသည်။ မယ်ဟေမာဇာတ်ကို ဦးဘိုးစိန် ထွင်ပြီးလျှင် ဓမ္မစကြာ သုတ်ကို မင်းသမီး ၄ ယောက်အား အကျက်ခိုင်းရာတွင် မမြလွင်က ဦးစွာရသဖြင့်၊ ယင်းမယ်ဟေမာဇာတ်တွင် မမြ လွင်သည် ခေါင်းဆောင်မင်းသမီး အဖြစ် ပါဝင်ကပြခဲ့ရ လေသည်။

မမြလွင်သည် ကြိုးစားမှုကြောင့် ၁၉ နှစ်အရွယ်မှ စ၍ ဦးဘိုးစိန်နှင့် တွဲ၍ ကလာနိုင်သည်။ အကတွင် ဦးဘိုးစိန်၏ ကဟန်များကို ထက်ကြပ်မကွာလိုက်နိုင်သဖြင့် ၂၅ နှစ်အ ရွယ်တွင် ဦးဘိုးစိန်မျက်နှာလွှဲနိုင်လောက်အောင် အရည် အခြင်း ပြည့်လာသည်။ မမြလွင်သည် ရုပ်ရည်လည်း တင့် တယ်၍ အသံလည်းအောင်၏။ ယိမ်းကကွက်များ တီးလုံး တိုက်ရာ ဇာတ်တိုက်ရာတွင်သာမက အမျိုးသမီးပိုင်း အုပ် ချုပ်ရေးတွင်ပါ တာဝန်လွှဲအပ်ခြင်း ခံခဲ့ရ၏။ အနေကြာသ ဖြင့် ဦးဘိုးစိန်၏ သမီးတယောက်သဖွယ် ဖြစ်လာကာ ဦးဘိုး စိန်၏သားသမီးများကလည်း အစ်မကြီးသဖွယ် ခင်မင်ကြ ၏။ ဦးဘိုးစိန်၏သား ကနက်စိန် ဇာတ်ခုံပေါ်ရောက်လာ သောအခါတွင် ဖခင်ကိုယ်တိုင် သင်ပြခြင်း မပြုနိုင်သော အချိန်များ၌ မမြလွင်ကပင် သင်ကြားပြသပေးရ၏။ မမြ လွင်သည် ယောကျ်ားကဟန်များတွင်လည်း ကောင်းမွန် နိုင်နင်းစွာ ကတတ်သူ ဖြစ်၏။

ဒုတိယကမ္ဘာစစ် ဖြစ်လာသောအခါ မမြလွင်သည် ဝါးခယ်မမြို့သို့ပြန်နေစဉ် ရောဂါဖိစီးလာသဖြင့်သဘင်အလုပ်ကို စွန့်လွှတ်လိုက်ရလေသည်။ ထိုအခါက် တရားအားထုတ်၍ သံဃာများအား နိစ္စဘတ်ဆွမ်းလှူ၍ ဒါနပြုသည်။ ထိုပြင် မိမိဇာတိရပ်ရွာ၌ ဓမ္မာရုံတခုနှင့် စာသင်ကျောင်း တခု ဆောက်လုပ် လှူဒါန်းခဲ့သည်။

မမြလွင်သည် ၁၃၂၀ ပြည့်နှစ် တန်ဆောင်မုန်းလပြည့်ကျော် ၈ ရက်နေ့တွင် ဝါးခယ်မမြို့၌ ကွယ်လွန်လေသည်။

**မြဝတီမြို့**။ ။မြဝတီမြို့သည် မြန်မာနိုင်ငံ အောက်ပိုင်း၊ ကော်သူးလေပြည်နယ်၊ဖားအံခရိုင်၊ကော့ကရိတ်နယ်တွင်ပါဝင်သော မြဝတီမြို့နယ်၏ ရုံးစိုက်မြို့ဖြစ်၍ မြန်မာ-ယိုးဒယားနယ်စပ်တွင် တည်ရှိသည်။ တောင်မှ မြောက်သို့ စီးသော သောင်ရင်းမြစ်၏ လက်ဝဲဖက်ကမ်းပေါ် တွင်တည်ရှိ၍ မြစ်၏ တဖက်ကမ်း၌ယိုးဒယားနိုင်ငံအပိုင် မယ်တော်ရွာမဲဆောက်မြို့တို့ရှိသည်။ သံလွင်မြစ်ဘွင်းသို့ စီးဝင် ပေါင်းဆုံသော သောင်ရင်းမြစ်မှ သစ်ဖောင်သစ်တုံးများမျှောနိုင်သည်။ သို့ရာတွင် နွေအခါ၌မူ တဖက်ကမ်းသို့မြစ်ကိုဖြတ်ကူးနိုင်သည်။ တဖက်ကမ်းတွင်မယ်တော်ရွာလမ်းရှိသည်။ မြဝတီမှလမ်းနှင့် မယ်တော်ရွာမှလမ်းတို့သည် မြစ်သာမခြားပါက တဖြောင့်တည်းပင်ရှိပေမည်။ မယ်တော်ရွာမှ နာရီဝက်ခန့် မော်တော်ကားစီးသွားလျှင် မဲဆောက်မြို့သို့ ရောက်သည်။ တဖန် မဲဆောက်မှ ဆက်လက်၍ ကားဖြင့်၎င်း၊ လေယာဉ်ပျံဖြင့်၎င်း သွားသော် ဗန်ကောက်မြို့သို့ ရောက်နိုင်သည်။ ကော့ကရိတ်မြို့နှင့် မူကား ကားလမ်းအားဖြင့် ၃၉ မိုင် သွားရသည်။ ကော့ကရိတ်မြို့နှင့် မြဝတီမြို့အကြားတွင် ဒေါနတောင်စဉ် တောင်တန်းရှိသည်။ ဒေါနတောင်စဉ်၏ နောက်ဆုံးတောင်ပေါ် စခန်းဖြစ်သော သက်န်းညီနောင်နှင့် မြဝတီမြို့သည် ၉ မိုင်မျှသာ ကွာဝေးသည်။ တောင်စဉ်တောင်တန်းများသည် မတ်စောက်သည်။ ဒေါနတောင်စဉ်တွင် အမြင့်ဆုံးတောင်သည် တရုပ်ဖြူတောင်ဖြစ်သည်။ တရုပ်ဖြူတို့ ဝင်ရောက်သောင်းကျန်းစဉ်အခါက တပ်စွဲသည်ကို အကြောင်းပြု၍ ခေါ်ခြင်းဖြစ်၏။ အမြင့်ပေ ၅,၀၀၀ ခန့် ဖြစ်သည်။ မြဝတီတွင် သစ်တောကြိုးဝိုင်းများ ရှိသည်။

မြဝတီမြို့သည် အိမ်ခြေ လေးရာကျော် ငါးရာခန့် မျှသာ ရှိသော်လည်း၊ အိမ်ခြေအဆောက်အအုံတို့မှာ မြို့ကလေးနှင့်မတန်အောင် ခမ်းနားတင့်တယ်သည်။ နေထိုင်သူများမှာ ရှမ်း၊ မြန်မာ၊ ကရင်၊ တောင်သူ၊ အိန္ဒိယနှင့် တရုပ် အမျိုးသား အနည်းငယ်တို့ဖြစ်၏။ များသောအားဖြင့် စိုက်ပျိုးလုပ်ကိုင်ကြသည်။

မြဝတီမြို့သည် နယ်စပ် ဖြစ်သည်အလျောက် ယိုးဒယားနှင့် ကူးသန်းရောင်းဝယ်မှု များစွာပြုသော နေရာဖြစ်၏။ အမှန်သော်ကား မြဝတီသည် အခွန်အကောက်များ စည်းကြပ်ရာ မြန်မာအကောက်ဆိပ်ဖြစ်သော်လည်း ဝင်ရောက်လာသူတို့သည် အကောက်လွတ်အောင်တတ်နိုင်သမျှ ရှောင်ကွင်းတတ်ကြသည်။ သို့ဖြစ်၍ နိုင်လွန်၊ ရွှေချောင်းမှစ၍ အခြား ကုန်ပစ္စည်းများကို မြဝတီလမ်းမှ ခိုးထုတ်ခိုးသွင်းလေ့ရှိသည်မှာ နာမည်ရဖြစ်တော့၏။

ဤမြဝတီမြို့သည် ဝန်ကြီးဦးစ စားရသော မြန်မာနိုင်ငံ အထက်ပိုင်း သရက်ခရိုင်တွင်း၌ရှိသည့် မြဝတီမြို့ မဟုတ်ချေ။ ပဌမ အင်္ဂလိပ်မြန်မာ စစ်ပွဲအပြီးတွင် အင်္ဂလိပ်တို့ တနင်္သာရီနယ်ကို သိမ်းသောအခါ မြဝတီလည်း အင်္ဂလိပ်ပိုင်နယ် ဖြစ်လာသည်။ ထိုအခါ ယိုးဒယား ဇင်းမယ်စသည်တို့သို့ ရောင်းဝယ်မှု စုံစမ်းရာတွင် မြဝတီလမ်းကိုပင် ဝင်ပေါက်ထွက်ပေါက် ပြုခဲ့သည်။ ယခုထက်တိုင်ပင် ယိုးဒယား မြန်မာနယ်ခြားတွင် အကောက်ဆိပ်ဖြစ်၏။

မြဝတီမြို့တွင် မူလပင်ရင်းဒါယကာ ကရင်အမျိုးသား သစ်ခေါင်းကြီး ဦးတက်ဖော့ဆိုသူ တည်ထားခဲ့သော ရွှေမင်းဝံစေတီရှိသည်။ မြဝတီမြို့မှာ ရှေးအခါက ရွာဖြစ်၍ ထိုရွာ၏ မူလ အမည်ရင်းမှာ မုတ္တမမွန်ဘာသာဖြင့် 'ကွန်ဘရဲဖတိုင်'၊ပဲခူး မွန်ဘာသာဖြင့် 'ကွမ်ဖရဲပတီ' ဟူ၍ဖြစ်သည်။ မြန်မာဘာသာဖြင့် 'သဲအေးမြ' ရွာဟု အဓိပ္ပါယ်ရသည်။ ယခု မွန်တဝက် မြန်မာတဝက် 'အေး'မပါဘဲ 'မြပတီ'ကို 'မြဝတီ' ဟု ခေါ်သည်ဆို၏။ ဟံသာဝတီ ဆင်ဖြူများရှင် ဘုရင့်နောင်လက်ထက်က မြဝတီကို 'အမြဝတီ' ဟုရေးသားကြောင်း တွေ့ရလေသည်။

**မြဝတီဝန်ကြီး ဦးစ**။ ။စ၊ ဦး၊ မြဝတီဝန်ကြီး — ရှု။

**မြသလွန်ဘုရား**။ ။မြသလွန် ဘုရားသည် မြန်မာ နိုင်ငံ အလယ်ပိုင်း ဧရာဝတီမြစ်အရှေ့ဖက်ကမ်းရှိ မကွေးမြို့၌ တည်ရှိသည်။ "မကွေးမြသလွန် မလွန်မြသပိတ်" ဟု ဆိုရိုးရှိသည့်အတိုင်း မြန်မာ နိုင်ငံ တန်ခိုးကြီးဘုရားများတွင် မြသလွန် ဘုရားလည်း အပါအဝင် ဖြစ်သည်။ မြသလွန်ဘုရား၏ သမိုင်း အကျဉ်းချုပ်ကား ဤသို့တည်း။

ဂေါတမမြတ်စွာဘုရားသည် ဘုရားဖြစ်တော်မူပြီး၍ ဝါတော်နှစ်ဆယ်သို့ ရောက်သောအခါ သုနာပရန္တတိုင်း လယ်ကိုင်းသားတို့သည် စန္ဒကူးသားဖြင့် ဆောက်လုပ်ထားသော ကျောင်းတော်ကို အလှူခံတော်မူရန် မြတ်စွာဘုရားထံ သွားရောက် လျှောက်ထားကြ၏။ ဘုရားသခင်လည်းမဟာသက္ကရာဇ် ၁၂၃ ခု၊ ဝါဆိုလဆုတ် ၈ ရက်နေ့တွင် လယ်ကိုင်း စန္ဒကူးနံ့သာကျောင်းကို အလှူခံတော်မူပြီးလျှင် ခုနစ်ရက် ပတ်လုံး စျာန်၏ ချမ်းသာခြင်းဖြင့် မွေ့လျော်တော်မူ၍ တရားဒေသနာ တိုက်ကျွေးတော်မူသည်။ ထိုမှတဖန် ရှိပွက်



မကွေးမြို့၏ကျက်သရေဆောင် မြသလွန်ဘုရား

တောင်တို့ဖြင့် ခြံရံလျက်ရှိသော မင်းဘူးမြို့ရှိ စက္ကုတဲတောင် ထိပ်သို့ကြွချီကာ သိတင်းသုံးနေတော်မူသည်။ ရှေးဘုရား အဆူဆူ ပွင့်တော်မူစဉ်က ထိုတောင်ထိပ်သို့ ရောက်သည် ရှိသော် သိကြားနတ်မင်းသည် ရတနာသလွန်တော်ကိုလှူ ဒါန်းမြဲ ဖြစ်သည်အတိုင်း ဂေါတမမြတ်စွာဘုရားအားလည်း မြသားအတိပြီးသော သလွန်တော်ကို လာရောက် လှူဒါန်း လေသည်။

ထိုအချိန်တွင် ရောဝတီမြစ် အရှေ့ဖက်ကမ်း ခပ်လှမ်းလှမ်း တောနက်ကြီးတခု၌ နေသော ဘောသော၊ ဘောကျော်၊ ဘောသူရ၊ ဘောရသမည်သော ဘီလူးညီနောင် ၄ ဦးတို့ သည် မြတ်စွာဘုရားထံ ကြစုပန်ခါးသီးများ သွားရောက်လှူ ဒါန်း၍ ဘုရားသခင်၏ တရားတော်ကို နာကြားရသဖြင့် အ ကျွတ်တရားရကုန်၏။ တရားနာပြီးသော် ဘုရားသခင်အား ကိုးကွယ်ရာအမွေတစုံတခု ပေးသနားတော်မူပါရန်လျှောက် ထားသည်တွင် မြသားသလွန်တော်ကို ပေးအပ်လေတော့ ၏။ ဘီလူးညီနောင်တို့လည်း အားရ ရွှင်လန်းစွာဖြင့် သလွန် တော်ကို ပင့်ဆောင်ကာ မကွေးမြို့ဖက်ကမ်းရှိ မိမိတို့နေရာ တောကြီးအတွင်း၌ ဌပနာ၍ ဘုရားတည် ကိုးကွယ်ကြ သည်။ (ယခုအခါ ထိုနေရာကို ဘုရားပုံ့ရွာဟု တွင်သည်။)

သို့သော် ထိုဒေသကား ဘုရားသခင်ဗျာဒိတ်ချမှတ်တော် မူသောနေရာ မဟုတ်ရကား သိကြားမင်းသည် ဘီလူးတို့ တည်ထားသော ဘုရားကိုဖျက်ကာ မြသားသလွန်တော်ကို ယူ၍ ရောဝတီမြစ်ကမ်းတွင် သိတင်းသုံးနေကြသော ဒိဗ္ဗ စက္ခု၊ ဒိဗ္ဗသောတ၊ ဒိဗ္ဗဃာနမည်သောရသေ့ကြီး သုံးဦးထံ သို့ ပင့်ဆောင် သွားလေသည်။ ထိုနောက် ကဿပဘုရား လက်ထက်တော်အခါက ရွှေသား သလွန်တော်ကို ဌပနာ ခဲ့ဘူးသော နဂုတ္တမတောင်ထိပ်တွင် မြသလွန်တော်ကိုလည်း ဌပနာရန် စီမံ၏။ ထိုအခါ ပဌမ လှေုတစင်းတွင် ပတ္တမြား ပြာသာဒ်တော်၌ ဂေါတမမြတ်စွာဘုရား၏ မြသလွန်ကိုတင် ဆောင်၍၎င်း၊ ဒုတိယ လှေုတစင်းတွင် ရွှေသားပြာသာဒ် တော်၌ ကဿပ ဘုရား၏ ရွှေသား သလွန်တော်ကို တင် ဆောင်၍၎င်း မဟာသက္ကရာဇ် ၁၂၈ ခု တပေါင်းလပြည့် နေ့တွင် ရောဝတီ မြစ်ရေနှင့် အညီ စီမံကာ ဌပနာတော်မူ လေသည်။ နောက်ထပ် စေတီတည်ရန်မှာ ဘီလူးညီနောင် တို့စုတေ၍ လူသားစင်စစ်ဖြစ်သော အခါမှသာ ဘုရားတည် ရန် သင့်ကြောင်း ရသေ့တို့အား ပန်ကြား၍ တာဝတိံ သာသို့ ပြန်ကြွသွားလေသည်။

ထိုရသေ့မြတ်သုံးပါးတို့ သိတင်းသုံးတော်မူရာ နေရာနှင့် မကွာဝေးသောနေရာတွင် မဟာဂါမမည်သောရွာကြီးတရွာ ရှိ၏။ ထိုရွာကြီးတွင် ကုဋေများစွာ ကြွယ်ဝသည့် သုဘောဂ ဟူသော သဌေးကြီးတဦးရှိရာ ရသေ့တို့၏ ပစ္စည်းလေးပါးဒါ ယကာဖြစ်၏။ တနေ့သ၌ သဌေးကြီးသည် ရသေ့သုံးဦးထံ

ရောက်သွား၍ ဘုရားသခင်၏ သလွန်တော် ဌပနာရာ နဂုတ္တမ တောင်ထိပ်တွင် စေတီတည်ပါရန် လျှောက်ထားလေသည်။ သို့သော် လူဝင်စားများဖြစ်ကြသည့် ဘီလူးညီနောင်တို့နှင့်တိုင်ပင်၍ ပူးပေါင်းစေတီတည်မှသာ ထမြောက်အောင်မြင်မည့် အကြောင်းကို မိန့်ကြားလေသည်။ ထိုကြောင့် သင်္ဘေးကြီးသည် လူဝင်စား ဘီလူးညီနောင်တို့အား မည်သူမည်ဝါဟူ၍မသိဘဲ ရှာဖွေရတော့၏။

သင်္ဘေးကြီးတွင် အဆင်းအင်္ဂါတင့်တယ်လှပသည့် ပုဏ္ဏဝတီမည်သော သမီးတယောက်ရှိ၏။ သင်္ဘေးသမီးလည်း လူဝင်စားဘီလူးညီနောင်တို့အား ထိုမှ ဤမှ ရွာစဉ်လျှောက်၍ ရှာဖွေသော်လည်း မတွေ့သည့်အဆုံး၌ မြသားသလွန်ဌပနာထားသော နဂုတ္တမတောင်၏တောင်ဖက် တခုသောကုန်းမြင့်ပေါ်သို့ ရောက်သွားလေသည်။ ထိုတောင်ကုန်းပေါ်၌ အမျိုးမျိုးသော ပန်းတို့ကိုသီကုံး၍ ပန်းကုံးတခု ပြုလုပ်ပြီးလျှင် အလိုရှိသောစာခွေကိုလည်း ရေးသားထား၏။ ထိုစာခွေကို ပန်းကုံးဖြင့်ရစ်ပတ်ကာ ဘီလူးဝင်စားသော လူသားများသာလျှင် တွေ့မြင်နိုင်ပါစေသတည်းဟု သစ္စာအဓိဋ္ဌာန်ပြု၍ ထားခဲ့လေသည်။ (ထိုနေရာတွင် ပန်းရစ်တောင်စေတီဟူ၍ ရှိသည်။) ထိုမှတဖန် ပုဏ္ဏဝတီသည် နဂုတ္တမတောင်သို့တက်ကာ မြသားသလွန်ကို ရှိခိုးပူဇော်ပြီးလျှင် မြောက်ဖက်စူးစူး တမိုင်ခန့်ဝေးသော ကုန်းမြင့်တခုသို့ ရောက်လေသော်ငါ၏ လင်လောင်းလျာ ဘောကျော်ဆိုသူ လူဝင်စားသည် ယခုအခါ အဘယ်အရပ်တွင် ရှိသိမ့်မည်နည်းဟု မျှော်မှန်းတောင့်တလေသည်။ (ဤနေရာတွင် ရွှေလင်မျှော် စေတီတော် တဆူရှိသည်။) ထိုနောက် မိမိရွာသို့ပြန်လေ၏။

လူဝင်စားများ ဖြစ်လာကြသော ဘောသော၊ ဘောကျော် ဘီလူးညီနောင်တို့သည် အရွယ်ရောက်လာကြသောအခါ ကုန်သည်ဘဝဖြင့် တနေ့တွင် ရသေ့ကြီး သုံးဦးထံရောက်လာကြပြီးနောက် မြသလွန် ဌပနာရာ ဖြစ်သောနဂုတ္တမတောင်ထိပ်သို့ အသွားတွင် တောင်ဖက်ကုန်းမြင့်သို့ရောက်လာကြ၏။ ထိုကုန်းထက်၌ ပုဏ္ဏဝတီ အဓိဋ္ဌာန်ပြုခဲ့သည့် ပန်းကုံးရစ်ပတ်ထားသော စာခွေကို တွေ့ရ ဖတ်ရှုကြည့်သဖြင့် အကြောင်းစုံ သိရှိကြလေသည်။ ထိုနောက်သလွန်တော်ကို ဖူးပြီးလျှင် ပုဏ္ဏဝတီရှိရာ ရွာသို့သွားကြ၏။

သင်္ဘေးကြီးလည်း အနှစ်နှစ်ကတောင့်တစောင့်မျှော်နေရသော ဘောသော၊ ဘောကျော် လူဝင်စားညီနောင်တို့အား တွေ့ရသောကြောင့် များစွာ ဝမ်းမြောက်၏။ ထိုနောက် သင်္ဘေးကြီးနှင့်တကွ ဘောကျော်တို့ညီနောင်နှင့်အတူ ပုဏ္ဏဝတီ သင်္ဘေးသမီးတို့သည် ဆရာရသေ့ သုံးဦးထံ သွားရောက်ဖူးမျှော်ကြရာ ရသေ့တို့က သိကြားမင်း မှာစကားကို ပြောကြားလေတော့၏။ သင်္ဘေးကြီးသည် ညီတော်ဘောသောအား ရွှေသားနွားဝန်တတင်း၊ ငွေသား နွားဝန်တတင်းတင်ဆောင်စေ၍ ပြန်လွှတ်လိုက်၏။ နောင်တော် ဘောကျော်အား သမီးတော်နှင့် ထိမ်းမြားလိုက်လေသည်။

မဟာသက္ကရာဇ် ၁၅၀ ပြည့်နှစ်တွင် ရသေ့ကြီး သုံးဦးနှင့်တကွ သိကြားမင်း၊ သင်္ဘေးကြီးသမီး ပုဏ္ဏဝတီနှင့် သားမက် ဘောကျော်တို့သည် ရွှေသားသလွန်တော်နှင့်မြသားသလွန်တော်တို့ကို ဌပနာကာ စေတီတည်ကြလေသည်။ ထိုပဌမဆုံးအကြိမ် တည်သော စေတီတော်မှာ အမြင့် သံတောင် ၁၅ တောင်ရှိသည်ဟူ၏။ ဤကား မြသလွန်စေတီကို ပဌမဆုံးအကြိမ် တည်ခြင်းဖြစ်သည်။

ထိုနောက် ပုဂံခေတ်၊ သက္ကရာဇ် ၄၂၁ ခုနှစ်တွင် နန်းတက်သော စောလူးမင်းသည် သံတောင် ၅၅ တောင်မြင့်သော မြသလွန် စေတီတော်ကို ဒုတိယအကြိမ် ထပ်မံပြုပြင် တည်ပြန်သည်။ သက္ကရာဇ် ၁၂၀၉ ခုနှစ်တွင် မြေငလျင် ကြီးကျယ်စွာ လှုပ်သောကြောင့် မြသလွန်စေတီတော်ကြီး ကွဲအက်ပျက်စီး၍ ပြိုခဲ့ရလေသည်။ ထိုနှစ် တပေါင်းလဆန်း ၁၅ ရက်နေ့တွင် မကွေးမြို့ သူကြီးမင်း မင်းထင် မင်းလှကျော်ခေါင်သည် သံတောင် ၆၆ တောင် ၂ မိုက်မြင့်သော စေတီတော်ကြီးကို အသစ်ဘဖန် ထပ်မံတည်ပြန်သည်။ ထိုမှ တပါး ပဌမခွေတွင် အချင်း ၅ တောင်တမိုက်၊ အစောက် ၁၇ တောင်မြင့်သော ထီးတော်ကြီးကိုလည်း လှူဒါန်းခဲ့လေသည်။ မကွေးမြို့ မြသလွန်ဘုရားပွဲတော်ကို နှစ်စဉ်နှစ်တိုင်း သီတင်းကျွတ်လဆန်း ၈ ရက်မှ သီတင်းကျွတ်လပြည့်ကျော် ၈ ရက်နေ့ထိ စည်ကားသိုက်မြိုက်စွာ ကျင်းပလျက်ရှိသည်။

**မြားဆိပ်ပင်။** ။မြားဆိပ်ပင်များသည် အမြင့် ပေ ၆၀ မှ ၈၀ ခန့်အထိရှိသောအပင်ကြီးမျိုးဖြစ်၍ ပေ ၆၀ ခန့် အတွင်း အကိုင်းအခက်အရွက်များမထွက်ဘဲ ဖြောင့်ဖြောင့် မတ်မတ်တက်သွားသော ပင်စည်ကြီးများရှိကြသည်။ မြားဆိပ်ပင်သည် မိုရေးစီအီး မျိုးရင်းတွင် ပါဝင်၍ ယင်း၏ ရုက္ခဗေဒအမည်မှာ အန်တီအေးရစ် တော့ဆီကေးရီးယား ဖြစ်သည်။ မြားဆိပ်ပင်၏ မူလပေါက်ရာဒေသသည် အရှေ့အိန္ဒိယကျွန်းစုများတွင် အပါအဝင် ဖြစ်သော ဂျားဗားကျွန်းဖြစ်သည်။ နောင်အခါမှ အထက်အောက် မြန်မာနိုင်ငံ တောင်ကုန်းသစ်တောများ၌ အနည်းအကျဉ်းပေါက်ရောက်ကြသည်။

မြားဆိပ်ပင်သည် ယင်း၏အခေါက်မှ ထွက်သော အဆိပ်စေးများကြောင့် လူသိများ၍ ထင်ရှားကျော်ကြားသည်။ အခေါက်သည် ဖြူတုတ်ဘူ အရောင်ရှိ၍ တလက်မခန့် ထူသည်။ အခေါက်ကို အနည်းငယ် ထွင်းဖောက်လိုက်သည့်အခါ ဝါတာတာ နို့ရည်ကဲ့သို့ အစေးများ ယိုစီးထွက်လာ၍ လေသလပ်ခံလိုက်ရာတွင် အညိုရောင်ဖြစ်လာပြီးလျှင် မာသွားလေသည်။ ဤအစေးကို ငရုတ်စေ့နှင့် အခြားပစ္စည်းများဖြင့် ရောစပ်လိုက်သည့်အခါ သေလောက်သော အဆိပ်ဖြစ်သာ



**မြားဆိပ်ပင်၏ ပင်စည်နှင့်အကိုင်းအခက်များကို ဤသို့ ရှုမြင်ရသည်။**

တော့၏။ ထိုအဆိပ်သင့်သော သူသည် ပဌမတွင် ဝမ်းဆင်း၍အော့အန်ပြီးလျှင် ထိုင်းမှိုင်းသွားကာ နောက်ဆုံးအကြောများဆွဲ၍ သေဆုံးသွားလေသည်။ မြားဆိပ်ပင်ကို ခုတ်လှဲလိုက်သောအခါ၌ဖြစ်စေ၊ အခေါက်များကို ခွာလိုက်သည့်အခါ၌ဖြစ်စေ ယင်းမှ ဘေးအန္တရာယ် ဖြစ်စေသော အခိုးအငွေ့များ ထွက်လာသည်။ ထိုအခိုးအငွေ့များကို ရှူမိပါက အရေပြားတွင် အဖုအပိန့်များ ထွက်တတ်သည်။ အပင်ကိုမီးရှို့လျှင် ထွက်လာသော မီးခိုးသည်လည်း ထိုနည်းတူ ဘေးအန္တရာယ် ဖြစ်စေနိုင်သည်။

မြားဆိပ်ပင် တမျိုးမှ ဂုံနီအိတ်ကဲ့သို့သော အိတ်မျိုးကို ပြုလုပ်နိုင်သည်။ ထိုအပင်မှ အခေါက်ကို ရေဆွတ်၍ ထုရိုက်လိုက်သောအခါ အတွင်းသားကို မဆုတ်ဘဲနှင့် ခွာထုတ်နိုင်၍ ယင်းကို ဂုံနီအိတ်ကဲ့သို့ ပြုလုပ် အသုံးချနိုင်သည်။

မြားဆိပ်ပင်၏ အတွင်းခေါက်မှ လျှော်မျှင်များကို အထည်ကြမ်းပြုလုပ်နိုင်၍ ထိုအထည်ကြမ်းကို ဆင်းရဲသား လူတန်းစားတို့ ဝတ်ဆင်ကြသည်။ သို့သော် ထိုအထည်ကြမ်း ရေစိုသွားပါက ဝတ်ဆင်သူ၏ အရေပြားပေါ်တွင် မခံ မရပ်နိုင်သည့် ယားနာများ ဖြစ်ပေါ်လာတတ်သည်ဟု ဆိုသည်။

ဂျားဗားကျွန်းမှ တိုင်းရင်းသားများသည် မြားဆိပ်ပင်မှ ထွက်သော အဆိပ်စေးကို မြားများတွင် လူး၍ ပစ်ရာတွင် အလွန် ထက်မြက်သောကြောင့် ရှေးက နိုင်ငံခြားခရီးသည်များနှင့် နယ်သစ်ရှာဖွေသူများပင် ကြောက်ရွံ့၍ အံ့သြကြရသည်။ ဤမျှသတ္တိထက်မြက်သောကြောင့် အချို့က မြားဆိပ်ပင်အကြောင်းနှင့် စပ်လျဉ်း၍ အမျိုးမျိုးချဲ့ထွင် ပြောကြသေးသည်။ ဤသစ်ပင်၏ ၁၅ မိုင် ပတ်လည်အတွင်းသို့ ရောက်ရှိလာသော တိရစ္ဆာန်ဟူသမျှ သေကြရ၍ မည်သည့် အပင်မျှလည်း ထိုနေရာအတွင်း မပေါက်နိုင်ဟူ၍ရင်း၊ မြားဆိပ်ပင်ရှိရာသို့ ရာဇဝတ်ဘေးသင့်သူများကိုသာ အဆိပ်စေးထုတ်ရန် စေလွှတ်ရာ အနည်းငယ်သာ အသက်မသေဘဲ ပြန်လာကြသည်ဟူ၍ရင်း ယုတ္တိမတန် ဒဏ္ဍာရီတမျှ ပြောဆိုကြ၏။ စင်စစ်ကား မြားဆိပ်ပင်သည် ထိုမျှ မဆိုးရွားလှချေ။

**မြီးညှောင့်ငှက်မျိုး။** ။ငှက်လောက၌ ပေါ်လွင်ထင်ရှား၍ လူသိများသောငှက်မျိုးတွင် မြီးညှောင့်ငှက်မျိုးလည်း အပါအဝင်ဖြစ်သည်။ မြီးညှောင့်ငှက်မျိုးသည် ပက်ဆာရီဖောမီး မျိုးစဉ်တွင် မိုတဆီလီဒီး မျိုးရင်း၌ပါဝင်သည်။ ယင်း၏ ပါဏဗေဒအမည်မှာ မိုတဆီလာ အယ်လဗာလျူကော့ဆစ် ဖြစ်သည်။ မြီးညှောင့်ငှက်ကို တကောင်ချင်းသိသာသော်လည်း အမျိုးများစွာ ရှိနေသဖြင့် မည်သည့် မြီးညှောင့်ငှက်မျိုးဟု ရုတ်တရက် ပြောရန် ခဲယဉ်းသည်။ အလျား ၇ လက်မရှိ၏။ လမ်းလျှောက်နေသည့်အခါ၌ ဖြစ်စေ၊ ပြေးလွှားနေသည့်အခါ၌ဖြစ်စေ သူ၏အမြီးကို နိမ့်တုံမြင့်တုံ အမြဲတမ်း လှုပ်ရှားကစားနေတတ်၏။ နားနေသည့်အခါ၌လည်း သူ၏အမြီးမှာ လှုပ်ရှားလျက်ပင် ရှိသည်။

မြီးညှောင့်ငှက်သည် အမြီးရှည်၏။ များသောအားဖြင့် အသွေးအရောင် အမျိုးမျိုးရှိသော ငှက်မျိုးဖြစ်သည်။ စိမ့်စမ်းများ၊ တည်ငြိမ်သောရေပြင်များနှင့် ရေဝပ်၍ရွံ့ထူသော အရပ်များ၌ ကျက်စား၏။ ထိုငှက်၏ အစာမှာ ပိုးမွှား၊ တီကောင်နှင့်အသီးအနှံ၏အစေ့များဖြစ်သည်။ ပိုးမွှားများကို အများဆုံး စားသဖြင့် လူတို့၏ မိတ်ဆွေငှက်ဖြစ်လေသည်။ အသိုက်လုပ်ရာတွင် ရေညှိ၊ မြက်နှင့် သစ်မြစ်များကို အသုံးပြုပြီးလျှင် အမွေးအတောင်များဖြင့် အနားကွပ်ထားတတ်သည်။ တကြိမ်လျှင် ဥ ၄ လုံးမှ ၆ လုံးအထိ အုတတ်သည်။ ဥများမှာ ပြာလဲ့လဲ့၊ သို့မဟုတ် အညိုရောင် ဖြစ်၍ အဝါမှတ်များ ရှိသည်။

မြီးညှောင့်ငှက်ကို ဥရောပတိုက်၊အာဖရိကတိုက်အနောက်မြောက်ဒေသနှင့် အာရှတိုက် မြောက်ပိုင်းတို့တွင် အနှံ့ အပြားတွေ့ရသည်။ မြန်မာနိုင်ငံရှိ မြီးညှောင့်ငှက်မျိုး အားလုံးပင် ဒေသပြောင်းရွှေ့တတ်သော ငှက်များဖြစ်၏။ ဆောင်းတွင်းမှသာ မြန်မာနိုင်ငံသို့ လာရောက်ကြသည်။

မြီးညှောင့်ငှက် အမျိုးမျိုးရှိသည့်အနက် ထင်ရှားသော ငှက်မျိုးမှာ မြီးညှောင့်မွဲ၊ မြီးညှောင့်ခေါင်းမွဲ၊ မြီးညှောင့်



**ကမ်းစပ်များတွင် ကျက်စားလေ့ရှိသည့် မြီးညှောင့်ငှက်**

ခေါင်းဝါတို့ဖြစ်ကြသည်။ မြီးညှောင့်မဲ့သည် အလျား ၈ လက်မခန့်ရှိ၍ အခြားမြီးညှောင့်မျိုးထက် အမြီးရှည်၍ သေးသွယ်သည်။ အပေါ်ပိုင်းတွင် အပြာရောင် လွှမ်းနေသည်။ မြီးညှောင့်ခေါင်းမဲ့သည် အလျား ၇ လက်မ ရှိ၍ ဦးခေါင်းတွင် မဲ့ပြာပြာအရောင် လွှမ်းနေသည်။ မြီးညှောင့်ခေါင်းဝါသည် အလျား ၇ လက်မရှိ၍ ငှက်ဖို၏ ဦးခေါင်းတခုလုံး ဝါနေသည်။

**မြီးညှပ်ပိုးကောင်။** ။မြီးညှပ်ပိုးကောင်သည် ပိုးတောင်မာကဲ့သို့သော ပိုးကောင်ဖြစ်၍ အလျား လက်မဝက်ခန့်ရှည်သည်။ လူတို့အား မည်သည့်ဒုက္ခမျိုးကိုမျှ မပေးချေ။ အချို့လူများ အထင်မှားသကဲ့သို့ ဤအကောင်ကလေးများသည် လူတို့၏ နားအတွင်းသို့ လုံးဝမဝင်ပေ။ အလင်းရောင်ကိုအမြဲရှောင်ကြဉ်ကြသည့် အလျောက် သွားလာခိုက်တွင် အလင်းရောင်နှင့် တွေ့ကြုံချေက မှောင်မိုက်သည့် နေရာများ ဖြစ်သည့် အပေါက်များ အအက်အကွဲကြိုကြားများထဲသို့ ဝင်ပြေးပုန်းအောင်းလေ့ ရှိကြသည်။ ဤသို့ မှောင်မိုက်သော နေရာကို ရှာဖွေရင်း နားရွက်တွင်းသို့ တခါတရံ ဝင်ရောက်မိခြင်း ဖြစ်ဟန်တူပေသည်။

မြီးညှပ်ပိုးကောင်၏ အမြီးပိုင်းတွင် အတော်အသင့် ကြီးသော ညှပ်တစုံရှိ၏။ ဤညှပ်ကြီးများ မည်သို့အသုံးဝင်သည်ကို မည်သူမျှ တပ်အပ်သေချာမသိကြချေ။ ရန်သူများ၏ဘေးအန္တရာယ်မှ ကာကွယ်ရန် အဓိက ဖြစ်ဟန်တူ၏။ သို့သော် အတောင်များ ခေါက်ရန် အတွက်လည်း အသုံးပြုသည်။ ယင်း၏ နောက်ဖက်ရှိ အတောင်များမှာ ရှည်လျား၏။ သို့အတွက် ထိုအတောင်များကို အလျားလိုက် ခေါက်ပြီးသည့်အခါ တဖန် နှစ်ထပ်ပြန်ခေါက်ရ၏။ ဤကဲ့သို့ ပြုမှုမှသာလျှင် အတောင်အစုံ၏ အောက်တွင် အခြားတစုံကို ကောင်းမွန်သေသတ်စွာ သွင်းထားနိုင်ပေသည်။ အတောင်ရှိသော်လည်း မပျံချေ။

မြီးညှပ်ပိုးကောင်၏ ဦးခေါင်းထိပ်တွင် အာရုံမှင်တစုံရှိသည်။ အမသည် အကောင်ကလေးများမပေါက်မီ ဥများကို ကောင်းစွာကြည့်ရှုထားသည်။ ပေါက်လာသောအခါ၌လည်း ကြက်မကြီးများကဲ့သို့ပင် ကူညီ စောင့်ရှောက်ပြန်သည်။

မြီးညှပ်ပိုးကောင်သည် ကျွန်ုပ်တို့ လွှင့်ပစ်ထားသော အစားအစာများကို ရှာဖွေ စားကြသည်။ ထို့ကြောင့် ဤအကောင်များကို ရှောင်ကြဉ်လိုက အိမ်အတွင်း၌ အစားအသောက်များကို ပစ်မထားရန်လိုအပ်ပေသည်။

ရှေးအခါက မြီးညှပ်ပိုးကောင်ကို ပိုးဟပ်၊ နှံကောင်များနှင့်အတူ မျိုးစဉ် တခုတည်းဟု ယူဆသဖြင့် အထူးခွဲခြားထားခြင်း မရှိသော်လည်း ယခုအခါ၌မူ ယင်းတို့ကို ဒါမာတရား မျိုးစဉ်တွင် ခွဲခြားထည့်သွင်း ထားသည်။ သာမန်မြီးညှပ်ပိုးကောင်၏ ပါဏဗေဒအမည်မှာ ဖော်ဖီကုလာ ဗာလဂါရစ် ဖြစ်သည်။

**မြီးဝန်ငှက်။** ။မြီးဝန်ငှက်သည် တီးတုတ် ငှက်မျိုးစုတွင် ပါဝင်သော်လည်း မထင်ရှား၍ လူသိနည်းသည်။ မြီးဝန်ငှက်သည် စတြစ်ဂျီဒီး မျိုးရင်းတွင်ပါဝင်၍ ပါဏဗေဒ အလိုအားဖြင့် အိုတပ် ဗက်ကာမိုးနား ဟုခေါ် သည်။

မြီးဝန်ငှက်သည် အလျား ၁၀ လက်မရှိသည်။ တီးတုတ် ဇီကွက်ငှက်မျိုးတွင် သေးငယ်သော ငှက်မျိုးဖြစ်သည်။ နားရွက်မွေးများကို ထင်ရှားစွာတွေ့ရှိနိုင်၏။ အမွေးအတောင်မှာ အဝါရောင်ထနေသော်လည်း ဦးခေါင်းနားတဝိုက်တွင် ညိုမည်းနေသည်။ ထိုငှက်၏အသံကို မကြားရလျှင် မြီးဝန်ငှက်ရှိမှန်း သိမည်မဟုတ်ပေ။

မြီးဝန်ငှက်မျိုးကို အရှေ့တိုင်း နိုင်ငံများတွင် အနှံ့အပြားတွေ့နိုင်သည်။ မြန်မာနိုင်ငံတွင် အမြဲတမ်းနေထိုင်ကြ၍ သစ်တောနှင့် တောထူထပ်သော ဒေသများတွင် အများအပြားတွေ့ရသည်။ ပေ ၇,၀၀၀ အမြင့် အထိ နေနိုင်သည်ဟု ဆိုသည်။ရန်ကုန်မြို့အနီးအနားတဝိုက်တွင်လည်းတွေ့နိုင်သည်။

မြီးဝန်ငှက်သည် ညဉ့်ငှက်မျိုး ဖြစ်သည်။ ညဉ့်အခါမှသာ စတင်လှုပ်ရှားစပြုသည်။ ညမိုးချုပ်မှ နံနက် လင်းသည်အထိ ကြိုးကြား ကြိုးကြား ဖြည်းညှင်းစွာ အော်တတ်သည်။အသံမှာ နားထောင်ကောင်း၍ ခပ်တိုးတိုး ညည်းသံနှင့် တူသည်။ ကျွန်းတောများတွင် ကျက်စားလေ့ရှိသည်။ ထိုငှက်၏ အဓိက အစာမှာ ပိုးမွှားများဖြစ်သည်။

ဇန္နဝါရီလမှ ဧပြီလအထိ မြီးဝန်ငှက်များ သားပေါက်ကြသည်။ ဥများကို သစ်ခေါင်းတွင် ထား၍ သစ်ရွက်နှင့် မြက်များဖြင့် ဖုံးထားတတ်သည်။ တမြုံလျှင် ဥ ၂ လုံးမှ ၅ လုံးအထိ ရှိတတ်သည်။ ဥသည် ခပ်လုံးလုံးဖြစ်၍ ဥ ခွံမှာ နူးညံ့ ချောမွတ်သည်။ ဥ အရွယ်မှာ ပျမ်းမျှအလျား ၁.၂၅ လက်မနှင့် ပြက် ၁.၀၅ လက်မရှိသည်။

**မှူနှင့် မှူထူ။** ။မှူနှင့် မှူထူသည် များစွာ ကွဲပြားမှုမရှိ၊ မတိမ်းမယိမ်းတူကြသည်။ မြေပြင်နှင့် ပင်လယ် ရေပြင်ပေါ်တွင်ဖြစ်စေ၊ မနီးမဝေးတွင်ဖြစ်စေ စုဝေးနေသည့် တိမ်ကဲ့သို့သော အခြင်းအရာကိုမှူထူ ဟုခေါ် သည်။ ဤကဲ့သို့သော တိမ်တွင် ရေပေါက်ကလေးများသည် များစွာ မထူထပ်ဘဲ ခရီးဝေးဝေးသို့ မြင်နိုင်သည့်အခါ ထိုအခြင်းအရာကို မှူဟုခေါ် သည်။

လေထဲတွင် ဖုံမှုန့်ကလေးများ လွင့်ပါးလျက် ရှိသည်။ မည်မျှပင် သန့်ရှင်းသောလေ ဖြစ်လင့်ကစား ဖုံမှုန့်များ ပါရှိ၏။ လေသည် အပူဓာတ်ဖြင့် ရေခိုးရေငွေ့များကို စုတ်ယူခဲ့ရာ ထိုရေခိုးရေငွေ့များသည် လေထဲရှိဖုံမှုန့်ကလေးများပေါ်တွင် တင်လျက် ရှိနေကြ၏။ နွေး၍ စိုစွတ်ထိုင်းမှိုင်းသော ထိုလေသည် အေးမြသော မြေပြင်၊ သို့မဟုတ် ပင်လယ်ရေပြင်ပေါ် သို့ဖြတ်၍ တိုက်ခတ်သောအခါ လေထဲတွင်ပါသည့် ရေခိုးရေငွေ့တို့သည် တဖြည်းဖြည်းစုခဲ၍ ရေသီးရေပေါက်ကလေးများဖြစ်လာပြီးလျှင် ဝေဆိုင်း၍ နေတော့၏။ ထိုရေသီးရေပေါက်ကလေးများသည် အတော်များများ ဝေဆိုင်းနေသည့်အခါ လမ်းခရီးများကိုပင် မမြင်နိုင်အောင် ပိတ်ဆို့၍ နေလေသည်။ ဤကဲ့သို့သော အခြင်းအရာကို မှူထူဟုခေါ် သည်။ ဤမှူထူမျိုးသည် နျူးဖောင်းလန်းကျွန်း ကမ်းခြေအလွန်တွင် မကြာခဏကျတတ်သည်။ ထိုနေရာရှိ နွေး၍ စိုစွတ်သောလေသည် လာဗရာဒေါရေအေးစီးကြောင်းပေါ်သို့ ဖြတ်တိုက်သွားသဖြင့် မှူထူများ ပိတ်ဆို့ နေရကား အနီးကပ်၍ပင် မမြင်နိုင်သောကြောင့် ခရီးအသွားအလာများ မကြာခဏ ရပ်ဆိုင်းထားရလေသည်။ လန်ဒန်မြို့တော် လေသည် ဖုံမှုန့်များ၊ မီးခိုးများနှင့် ရောထွေးလျက်ရှိနေရာ မှူထူများသည် အလွန်ထူထပ်စွာ ပိတ်ဆို့နေသဖြင့် တခါတရံ ၄ ပေ၊ ၅ ပေအတွင်းလောက်မှာပင် တဖက်နှင့်တဖက် မမြင်နိုင်ချေ။ လေလွင့်ဝေဆိုင်းနေသော ရေသီးရေပေါက်ကလေးများသည် ထိုမျှလောက် မထူထပ်ဘဲ ခရီးဝေးဝေးသို့ မြင်နိုင်သည့်အခါ ထိုမှူထူကိုပင် မှူဟုခေါ် သည်။ မှူအထူအပါးသာ ခြားနားကြသည်။

မှူထူများ ပိတ်ဆို့လျက် ရှိသောအခါ မြေပြင်၌ရင်း၊ ရေပြင်၌ရင်း ခရီးအသွားအလာ လွန်စွာ ခဲယဉ်းလျက်၊ သင်္ဘောများတွင် မှူသုခေါင်းလောင်းများ ထိုးခြင်း၊ ဥသြ မှုတ်ခြင်း စသည်တို့ကို ပြုလုပ်လေ့ ရှိကြသည်။ မှူထူပိတ်ဆို့နေသဖြင့် သွားလမ်း မမြင်နိုင်သော မီးရထားများမှာမူ ပေထုပ်များဖြင့် မှူထူကို ဖြိုခွဲရလေသည်။

လေတိုက်သောအခါ၌ရင်း၊အပူဓာတ်များလာသောအခါ၌ရင်း မှူထူများကို မတွေ့ရတော့ချေ။ ထိုကြောင့် နေထွက်လာသောအခါ မှူသုများကွယ်ပျောက်ရစမြဲ ဖြစ်၏။ သို့ရာတွင် အနောက်နိုင်ငံရှိ မြို့ကြီး ပြကြီးများ၌ကား မှူထူသည် များလှသဖြင့် ဖုံမှုန့်၊ မီးခိုးတို့နှင့် ရစ်ဆိုင်းနေ၍ တော်တော်နှင့် မှူထူမကွဲနိုင်ချေ။

**မြေခွေး။** ။လူတယောက်အား မြေခွေးနှင့် တူသည် ဟုပြောလျှင် ထိုသူမှာ သူတပါးအပေါ် တွင် ပါးနပ်၍ကောက်ကျစ်စဉ်းလဲသည်ဟု ဆိုလိုကြောင်း လူတိုင်း သိရှိကြသည်။ မြေခွေးသည် တောခွေး တမျိုးပင်ဖြစ်၏။ ကန်နီဒီးမျိုးရင်းတွင်ပါဝင်၍ ယင်း၏ပါဏဗေဒ အမည်မှာ ဗာလပီး ဗာလပီး ဖြစ်၏။ မြေခွေးသည် ကိုယ်အလျား ရှည်သော်လည်း တိုသောခြေထောက်များ ရှိသည်။ တောတိရစ္ဆာန် များတွင် လိမ်မာ ပါးနပ်ခြင်း၊ ကောက်ကျစ်ခြင်း၌ စာ့ခွဲ လောက်ကြောင်း ရှေးအစဉ်အလာကပင် ယုံကြည်ခဲ့ကြသည်။ ချွန်သောနှုတ်သီး၊ ထောင်သောနားရွက်၊ ဖွားသောအမြီးနှင့် မျက်လုံးမှာ ကြောင်မျက်စိကဲ့သို့ အလင်းရောင်ကို

လိုက်၍ ပြောင်းလဲတတ်သော သူငယ်အိမ်ရှိသည်။ မြေခွေးသည် အလွန်ပါးနပ်လိမ်မာသဖြင့် အမဲလိုက် ခွေးအုပ်ကြီးနှင့် လူများကိုပင် လွတ်အောင် ရှောင်ကွင်း၍ ပုန်းနေနိုင်သည်။

ညဥ့်အခါ တောရွာများသို့ ဝင်၍ လယ်သမားများ၏ ကြက်ငှက်များကို ခိုးယူစားသောက်တတ်သော်လည်း မြေခွေးကို ဖမ်းမိရန်ကား မလွယ်ကူချေ။ နေ့အချိန်တွင် သစ်ခေါင်းများ၊ မြေတွင်းများအတွင်း၌ ပုန်းအောင်းနေလျက် ညချမ်းအချိန်များ၌သာ အစာရှာလေ့ရှိကြသည်။ အပြည်ပြည်ရှိ မြေခွေးများမှာ အမျိုးအရောင်မတူဘဲ ရာသီဥတုကို လိုက်၍ ကွဲပြားကြသည်။ တောင်အမေရိကနှင့် ဩစတြေးလီးယားတိုက်များတွင်ကား မြေခွေးကို မတွေ့ရချေ။ ကမ္ဘာ့မြောက်ပိုင်း ရေခဲပြင်များရှိ မြေခွေးများမှာ ဆောင်းရာသီတွင် ဆွတ်ဆွတ်ဖြူသော အမွေးများ ရှိလာသဖြင့် ကမ္ဘာအရပ်ရပ်မှ မုဆိုးများသည် သားမွေးအတွက် အထူးလိုက်လံဖမ်းဆီးကြသည်။ ငွေရောင်တောက်သော မြေခွေးဖြူ၏ အရေကို လူ့ကုံထံများက အဖိုး များစွာပေးဝယ်၍ ဝတ်ဆင်ကြသည်။

ယခုအခါ လုပ်ငန်းတရပ်အဖြစ် ထိုငွေရောင် မြေခွေးများကို ခြံကြီးများခတ်ကာ မွေးမြူကြသည်။ မြေခွေးသည် အသားစား သတ္တဝါသက်သက်ဖြစ်၍ အခြားတိရစ္ဆာန်ငယ်ကလေးများနှင့် ငှက်များကို စားသောက် နေထိုင်သည်။

## ရေးနတ်အမည်ရှိသောမြေခွေး
## (ရှေးဟောင်းပုံဝတ္ထု)

တရံရောအခါ မိမိအလိုက်ဖသော မနေဘဲ အခြားတိရစ္ဆာန်များအား လိုက်လံနှောင့်ရှက်လေ့ရှိသော အလွန်ကောက်ကျစ် စဉ်းလဲသည့် “ရေးနတ်”ခေါ် မြေခွေး တကောင် ရှိသတတ်။ ထိုမြေခွေးသည် အခြားတိရစ္ဆာန်များကို မကြာခဏ ဒုက္ခပေးသဖြင့် သားတို့၏ဘုရင် ခြင်္သေ့မင်းသည် သူ့အား မကြာမကြာ ဆင့်ခေါ် စစ်ဆေးရလေသည်။ သို့ရာတွင် ထိုမြေခွေးသည် လိမ်မာ ပါးနပ်လှသဖြင့် အပြစ်ဒဏ်မှ ကင်းလွတ်ခဲ့သည်ချည်းသာ ဖြစ်ခဲ့သည်။

တခါသော် သူ့အား ခေါ်လာရန် ခြင်္သေ့မင်းက ဝက်ဝံတကောင်ကို စေလွှတ်လိုက်၏။ မြေခွေးသည် ထွက်ပြေးရန် ကြံစည်ထားပြီး ဖြစ်ရကား သူ့မှာ ပျားလပို့ကို စားထားသောကြောင့် နေထိုင်မကောင်း ဖြစ်နေကြောင်း ဝက်ဝံအား ပြောဆို၏။ ထိုအခါ ဝက်ဝံသည် ပျားဟူသောစကားကို ကြားလျှင်ပင် သွားရည်ယိုလာသဖြင့် သူ့အား ထိုပျားလပို့ရှိသောနေရာကို ပြပါရန် မြေခွေးအား တောင်းပန်တော့၏။ သို့ဖြင့် မြေခွေးလည်း ဝက်ဝံကို နေရာတနေရာသို့ ခေါ်သွားလေသည်။

မြေခွေး ခေါ်သွားသောနေရာတွင် အတွင်း၌ အခေါင်းဖြစ်နေသော သစ်တုံးတတုံးရှိ၏။ လက်သမားတယောက်



ငွေသားရောင် အသွေးကြွ၍ တန်ဖိုးကြီးလှသော သားမွေးထည်အတွက် အရေးတယူ ဖမ်းဆီးခံရသည့်မြေခွေး



မြေခွေးသည်မိသားစုနှင့်အတူအုပ်သင်းဖွဲ့ကာနေလေ့ရှိသည်။

က ထိုတုံးကို ထက်ဝက်ခန့်ခွဲဖြတ်ပြီးလျှင် သပ်လျှိုထားခဲ့ရာ တုံးမှာ အတန်ငယ် ဟနေ၏။ မြေခွေးက ဝက်ဝံကို တုံးထဲတွင် ပျားလပို့ရှိကြောင်းပြော၍ ဝက်ဝံသည်လောဘတကြီး စားသောက် စုတ်ယူမည့်သဘောနှင့် သစ်ခေါင်းထဲသို့ ဦးခေါင်းကို သွင်းလိုက်၏။ ထိုခဏ၌ မြေခွေးသည် သပ်များကို ဆွဲနုတ်လိုက်သဖြင့် ဝက်ဝံ၏ ဦးခေါင်းမှာ သစ်ခေါင်းထဲတွင် ပိတ်၍ညှပ်မိလျက် ဖြစ်တော့၏။ ဝက်ဝံမှာ အော်ဟစ်ရုန်းကန်သော်လည်း မလွတ်ချေ။ မကြာမီ လက်သမားနှင့်သူ့အိမ်နီးချင်းများသည် ဝက်ဝံအော်သံကြားသဖြင့် ပြေးလာကြစဉ် ဝက်ဝံမှာ ကြောက်အားလန့်အားနှင့် အတင်းဆောင့်၍ရုန်းလိုက်ရာ သစ်ခေါင်းထဲမှ သူ၏ခေါင်းမှာ အနိုင်နိုင် လွတ်ထွက်သွားလေသည်။ လူများက ဝိုင်းဝန်းရိုက်နှက်ပြန်ရာ မြစ်ထဲသို့ ခုန်ချလိုက်မှသာ ဝက်ဝံသည် လွတ်မြောက်သွားလေသည်။

ထိုမြေခွေးကို ဖမ်းဆီးရန် အမျိုးမျိုးကြံစည် ကြိုးစားကြသော်လည်း ရုတ်တရက် မအောင်မြင်ချေ။ နောက်ဆုံး "ရေးနတ်"အား ဖမ်းမိ၍ ခြသေ့်မင်းထံ ခေါ်လာသော အခါ၌ပင် သူ၏ ဝက်န္တဉာဏ်၊ သူ၏ ပရိယာယ်ကောင်းမှုတို့ကြောင့် အပြစ်မှ ချမ်းသာရာရပြီးလျှင် လွတ်မြောက်သွားလေသည်။

**မြေစေး။** ။နှမ်းဖတ်ကျောက်များ ကြေမွပျက်စီးသောအခါ၌ ဖြစ်လာသော ပစ္စည်းများတွင် ဖဲလစပါးခေါ် ကြွေကျောက်ပါဝင်သည်။ ကြွေကျောက် ကြေမွပျက်စီးသောအခါ မြေစေးဖြစ်လာသည်။ မြေစေးသည် ပေါင်းစပ် ပါဝင်သော တွင်းထွက်ပစ္စည်းများကို လိုက်၍ အမျိုးအမည်ကွဲပြားသည်။ မြေစေးတွင် အများအားဖြင့် သံ၊ အလျူမီနီယမ် ဆီလီကိတ်နှင့် အယ်လကာလီတို့ အဓိက ပါရှိကြသည်။ ဖွဲ့စည်းပါရှိသည့် အမှုန့်များမှာ အချင်း .၀၀၅ မီလီမီတာအထိ ရှိအောင်ပင် သေးငယ်ကြ၏။ တခါတရံ ထိုအမှုန့်များသည် ကော်လွိုက်ဒ်အခြေတွင် ရှိလောက်အောင် သေးငယ်ကြသည်။ မြေစေးတွင် ဆီလီကာသည် ရာခိုင်နှုန်း ၄၆.၃ ခန့် ပါရှိသဖြင့် အများဆုံးဖြစ်၍ အလျူမီနီယမ်မှာ ၃၉.၈ ပါရှိသောကြောင့် ဒုတိယအများဆုံးဖြစ်သည်။

မြေစေးသည် စေးကပ်သော သဘောရှိ၏။ ခြောက်သွေ့နေစဉ် တခုနှင့်တခု ဖွဲ့စည်းတည်ရှိနိုင်ခြင်း၊ စိုစွတ်သောအခါ ပျော့ပျောင်းခြင်း၊ ရေကိုထိန်းသိမ်းထားနိုင်ခြင်း၊ ရေဆွတ်ပေးသောအခါ၊ သို့မဟုတ် ရေငွေ့နှင့် တွေ့ထိလာသောအခါ မြေနံ့သင်းစေတတ်ခြင်းစသော သတ္တိများရှိ၏။ စင်တီဂရိတ်ဒီဂရီ ၃၀၀ အထိ အပူတိုက်ပေးပါက ပျော့ပျောင်းခြင်းသတ္တိမှာ ထပ်မံပြုပြင်၍ မရနိုင်လောက်အောင် ပျက်သွားသည်။ မြေအောက်တွင်ကဲ့သို့ ဖိအားကြီးစွာဖြင့် ဖိနှိပ်ခံရသောအခါ မြေစေးသည် နုံးကျောက်၊ မြေစေးကျောက်နှင့် သင်ပုန်းကျောက် ဟူ၍ အသီးအသီး ဖြစ်လာသည်။ နုံးကျောက်နှင့် သင်ပုန်းကျောက်ကို အမှုန့်ပြုလုပ်၍ ရေဖြင့်ရောပေးသောအခါ မြေစေးကို ပြန်လည်ရရှိသည်။

မြေစေးသန့်သန့်ကို သဘာဝတွင် တွေ့ရခဲသည်။ အချို့မြေစေးတွင် အညစ်အကြေးများသည် ပကတိမျက်စိဖြင့် မြင်နိုင်လောက်အောင် ကြီးမားကြ၏။ အချို့တွင်မူကား အညစ်အကြေးများကို မိုက္ကရိုစကုပ် ခေါ် အဏုကြည့်မှန်ပြောင်းဖြင့် စစ်ဆေးကြည့်မှသာ တွေ့မြင်နိုင်သည်။ မြေစေးများတွင် တွေ့မြင်ရသော အရောင်အမျိုးမျိုးသည် ဤအညစ်အကြေး တို့ကြောင့် ဖြစ်သည်။ အတွေ့ရဆုံးသော အညစ်အကြေးများမှာ သစ်ဆွေးတို့ကဲ့သို့ ဩဂဲနစ်ပစ္စည်းများ၊ ရုပ်ကြွင်းကျောက်များ၊ ထုံးကျောက်များ၊ အိုင်းယန်း ဆာလဖိုဒ်၊ အိုင်းယန်းအောက်ဆိုက်နှင့် သဲများ ဖြစ်ကြသည်။ အချို့အသုံးအဆောင်များအတွက် မြေစေးတွင် အညစ်အကြေးများ ကင်းစင်ရ၏။ သို့သော် တခါတရံ အချို့လုပ်ငန်းများတွင် အသုံးပြုနိုင်ရန် အညစ်အကြေး အနည်းနှင့် အများ ပါရှိကြရသည်။

မြေစေးများကို ခေတ်မှီစက်ဖြင့်တူးဖော်ပုံ



မြေစေးကိုတူးဖော်ပြီးနောက် ရေဖြင့်ရောကာ အနည်ကျအောင်ပြုရသည်။



အနည်ထိုင်လျက်ရှိသော မြေစေးကို တဖြည်းဖြည်းချက်ယူရသည်။

မြေစေး၏ အသုံးဝင်ပုံကို အလွန်ရှေးကျသော ခေတ်အခါကပင် လူတို့ သိရှိခဲ့ကြသည်။ မြေစေးကို ပန်းကန်ခွက်ယောက်များပြုလုပ်၍ အသုံးချခဲ့ကြ၏။ ဗက်ဗီလုံးနီးယန်း၊ အဆီးရီးယန်းနှင့် ဆူမားရီးယန်း လူမျိုးတို့သည် မြေစေးရွှံ့ပြားများပေါ်တွင် စာများရေးသားခဲ့ကြသည်။ အဆီးရီးယန်းလူမျိုးတို့ ကောင်းစားစဉ်အခါက စာကြည့်တိုက်ကြီးများကို တည်ထောင်ခဲ့ရာ စာကြည့်တိုက်တတိုက်တွင် မြေစေးဖြင့် ပြုလုပ်ထားသည့် စာအုပ်ပေါင်း ၂၀,၀၀၀ ခန့်ရှိသည် ဟု ရှေးမှတ်တမ်းများတွင် တွေ့ရသည်။ ယခုအခါ မြေစေးကို အိုးဖုတ်ရန်နှင့် ပန်းကန်ခွက်ယောက် ပြုလုပ်ရန် အသုံးပြုကြသည့် အပြင် အုတ်ကြွပ်၊ ရေပိုက်၊ လမ်းခင်းကျောက်ပြား၊ လျှပ်စစ်ဓာတ်ကာပစ္စည်း စသော အသုံးအဆောင်များ ပြုလုပ်ရန်လည်း အသုံးပြုကြသည်။

မြေစေးဟူသမျှကို အုတ်နှင့် အုတ်ကြွပ် ဖုတ်ရသည်။ အုတ်နှင့် အုတ်ကြွပ်တို့၏ အရောင်မှာ ဖုတ်လုပ်ပုံနည်းနှင့် မြေစေးတွင် ပါရှိသည့် အညစ်အကြေးတို့အပေါ်၌ တည်သည်။ သို့သော် အကောင်းဆုံးအုတ်များကို ရလိုပါက မီးဖုတ်ရာ၌ ကျုံ့ဝင်မသွားရအောင် သဲရာခိုင်နှုန်း ၃၀ ခန့် ပါသောမြေစေးကို အသုံးပြုရသည်။ အုတ်ကြွပ်အတွက်မူကား သဲ ထိုမျှလောက် များများစားစား မလိုချေ။

မီးခံမြေစေးသည် အပူကိုခံနိုင်သည်။ ဤမြေစေးမျိုးတွင် အယ်လကာလီနှင့် အယ်လကာလီ မြေသတ္တုဟူ၍ လုံးဝမပါရှိချေ။ အကယ်၍ ပါပြန်ကလည်း အနည်းအကျဉ်းလောက်သာ ပါရှိတတ်သည်။ မီးခံမြေစေးကို အများအားဖြင့် မီးခံအုတ် ပြုလုပ်ရာ၌ အသုံးများသည်။ တခါတရံ မြေစေးတွင် အလျူမီနီယမ်ကိုလည်း တွေ့ရတတ်၏။ အလျူမီနီယမ်ပါရှိသော မြေစေးမျိုးကို ဗောက်ဆိုက်တစ် မီးခံမြေစေး ဟု ခေါ်သည်။

ကြွေထည်ပြုလုပ်ယူသည့် မြေစေးဖြူကို တမျိုးအားဖြင့် ကေအိုလင်ဟူ၍လည်း ခေါ်သည်။ ကေအိုလင်ဟူသော ဝေါဟာရမှာ တရုပ်စကားဖြစ်၍ မြင့်သောတောင်ကုန်းဟု အဓိပ္ပါယ်ရသည်။ မြေစေးဖြူကို ၁၇၁၁ ခုနှစ်ကပင် ဂျာမနီနိုင်ငံ ဒရက်ဇဒင်မြို့အနီး၌ တွေ့ရှိခဲ့၍ ကြွေထည်လုပ်ရာ၌ အသုံးပြုခဲ့ရာ ထိုအရပ်ထွက် ကြွေထည်ကို ဒရက်ဇဒင် ကြွေထည် ဟု ခေါ်တွင်ခဲ့သည်။ ဗြိတိန်နိုင်ငံ၊ ကွန်ဝေါနယ်၌ မြေစေးဖြူရှိမှန်းမသိမီက မြေစေးဖြူကို နိုင်ငံခြားမှ မှာယူ၍ ကြွေထည်များ ပြုလုပ်ခဲ့ကြသည်။ သို့သော် ကွန်ဝေါနယ်၌ မြေစေးဖြူ တွေ့ရှိပြီးနောက်၌မူကား ကြွေထည်များကို ထိုမြေစေးဖြူဖြင့် ပြုလုပ်ယူခဲ့ကြလေသည်။

မြေစေးဖြူကို ဥရောပတိုက်ရှိ နိုင်ငံများနှင့်တကွ တရုပ်

နိုင်ငံနှင့် ဂျပန်နိုင်ငံများမှလည်း ရရှိသည်။ ကမ္ဘာမှထွက် သမျှ မြေစေးဖြူ အတိုင်းအဆ၏ တဝက်မျှကို အမေရိကန် နိုင်ငံတွင် အထူးသဖြင့် အရှေ့တောင်ပိုင်းရှိ ပြည်နယ်များမှ တူးဖော်ရရှိသည်။

မြေစေးဖြူသည် ကျောက်နှမ်းဖတ်နှင့် အခြား အလား တူကျောက်တို့ ကြေမွပျက်စီးရာမှ ဖြစ်လာသည်။ ဓာတ် သဘောအားဖြင့် မြေစေးဖြူမှာ ရေပါသော အလျူမီနီယမ် ဆီလီကိတ်ဖြစ်သည်။ မြေစေးဖြူကို မြေအိုးမြေခွက်လုပ်ငန်း အပြင် စက်မှုလက်မှုလုပ်ငန်း မြောက်မြားစွာတွင် အသုံးပြု သည်။ စက္ကူလုပ်ငန်းတွင် စက္ကူကို ခိုင်မာစေရန်နှင့် စက္ကူ အသားချောစေရန် ထည့်သွင်း အသုံးပြုသည်။ မြေစေးဖြူ မှ ကြမ်းတမ်းသော အရာဝတ္ထုများကို ဖယ်ရှား သန့်စင် လိုက်လျှင် ဆေးဖက်၌ အသုံးဝင်သည့် ကေအိုလင်ကိုရသည်။ ကေအိုလင်၌ စုတ်ယူတတ်သည့် သတ္တိရှိခြင်းကြောင့် ဝမ်း ပိုက်နှင့် သက်ဆိုင်သည့် ရောဂါများ ကုသရာ၌ အသုံးဝင် လေသည်။

**မြေဆီလွှာ။** ။မြေဆီလွှာ ဆိုသည်မှာ ကမ္ဘာမြေကြီး၏ အပေါ်ယံတွင် တနေရာနှင့်တနေရာ အထူအပါးချင်း မတူ ဘဲ လက်မအနည်းငယ်မှ ပေပေါင်းများစွာအထိ ဖုံးလွှမ်း နေသော မြေလွှာပင်ဖြစ်သည်။ မြေဆီလွှာသည် ကျွန်ုပ်တို့ အတွက် အလွန်အရေးကြီးပေသည်။ မြေဆီလွှာသာ မရှိ ပါက အသီးအနှံများလည်း ဖြစ်ထွန်းတော့မည်မဟုတ်ချေ။ အသီးအနှံကို မှီဝဲ စားသောက်နေရသော သက်ရှိ သတ္တဝါ များလည်း အသက်ရှင်နေနိုင်တော့မည် မဟုတ်ချေ။ သို့ ဖြစ်၍ ဤမျှအရေးကြီးသော မြေဆီလွှာတွင် မည်သည့် အရာများ ပါဝင်၍ မည်သို့ ဖြစ်ပေါ်လာသည်ကို ဆင်ခြင် ကြည့်ကြစို့။

မြေဆီလွှာတွင် အလွန်သေးငယ်သော အမှုန်ကလေး အ မြောက်အမြားပါသည်။ မြေမှုန့်တဆုပ်ကို ယူ၍ သေချာစွာ ကြည့်လျှင် ထိုမြေမှုန့်တို့သည် ကျောက်အစအနကလေးများ ဖြစ်သည်ကို တွေ့ရသည်။ အချို့မြေမှုန့်တို့မှာ ကျောက်မှုန့်က လေးမှန်း မသိရအောင်ပင် သေးငယ်ပေသည်။ ဤကျောက် မှုန့်ကလေးများသည် ကျောက်တုံးကျောက်ခဲများ ကြေ ပျက်၍ ဖြစ်လာကြသည်။ အလွန် မာကျောသော ထို ကျောက်တုံးကျောက်ခဲများကို မြေမှုန့်ဖြစ်ရအောင် မှုန့်မှုန့် ညက်ညက် ကြေပျက်စေသည့် သဘာဝ အင်အားစုများမှာ ရေ၊ လေ၊ အပူ၊ အအေး၊ အပင်များ၊ တီကောင်များနှင့် ပရွက်ဆိတ်များ ဖြစ်ကြသည်။

ရေသည် ကျောက်ခဲများကို အနည်းနည်းဖြင့် ကြေမွ ပျက်စီးစေနိုင်သည်။ မြစ်များ ချောင်းများ ဖြတ်၍စီးဆင်း သွားရာဖြစ်သော ကောင်ကြားများကို ကြည့်လျှင် တသွင် သွင် စီးနေသော ရေစီးကြောင်းသည် တောင်ကမ်းပါးကို အစဉ်အမြဲတိုက်စားနေပုံ၊ တောင်ကမ်းပါးရှိ ကျောက်တုံး ကျောက်ခဲများကိုလည်း တိုက်စားနေပုံတို့ကို တွေ့ရမည်။ ရေစီးကြောင်းသည် ကျောက်တုံးများ ပဲ့ကျ၍ ပါလာသော ကျောက်အစိတ်အပိုင်းများကို မြစ်ကမ်းပါးတလျှောက်တွင် မြစ်ဝသို့တိုင်အောင် နုံးမြေများနှင့်ရော၍ ယူဆောင်သွား သည်။ ဤနည်းဖြင့် ကျောက်တုံးကျောက်ခဲများသည် အ စဉ်အမြဲ ရေ၏တိုက်စားခြင်းကို ခံရ၍ တဖြည်းဖြည်း ကြေမွ ပျက်စီးသွားရသည်။

မိုးရေသည်လည်း ကျောက်တုံးကျောက်ခဲများကို ပဲ့ကျ ကြေမွသွားအောင် ပြုနိုင်ပေသည်။ ပုံစံဆိုသော် ကျောက် တုံးတွင် ပေါင်းစပ်ပါဝင်လျက်ရှိသော ထုံးသည် မိုးရေ ကြောင့် ပျော်ဝင် ကြေပျက်သွားရာ တဖြည်းဖြည်း ထို ကျောက်တုံးသည် ကွဲအက်ပျက်ပြား သွားရလေသည်။ ရေ ကို ခဲစေနိုင်အောင် အေးသော အရပ်များတွင် ကျောက် တုံးကျောက်ခဲများ၌ ဖြစ်ပေါ်နေသော ပပ်ကြားအက် အ တွင်းသို့ မိုးရေဝင်နေပြီးလျှင် ရာသီပြောင်း၍ အလွန်အေး သည့်အခါ ထိုမိုးရေသည် ရေခဲအဖြစ်သို့ ပြောင်းလဲသွား လေသည်။ ရေခဲ၏ ထုထည်သည် မူလရေ၏ ထုထည်ထက် ကြီးထွား ပြန့်ကားလာသဖြင့် ကျောက်တုံးကျောက်ခဲကို တွန်းကန် ခွဲထုတ်ဘိသကဲ့သို့ ပြုသည်။ နောက်ဆုံး၌ ထို ကျောက်တုံး ကျောက်ခဲတို့မှာ ကြေမွပျက်ပြားရလေသည်။

လေ၌လည်း ကျောက်များကို ကြေမွ ပျက်ပြားသွား အောင် ပြုနိုင်သော သတ္တိ ရှိသည်။ တောက်ပြောင်သော သံတုံးကို လေသလပ်ခံကြည့်လျှင် မကြာမီ ထိုသံတုံးတွင် သံချေးတက်လာမည်ဖြစ်သည်။ သံချေးတက်လာရခြင်းမှာ လေထဲတွင်ပါသော အောက်ဆီဂျင်ဓာတ်နှင့် သံပေါင်းစပ်၍ ဖြစ်ပေါ်လာခြင်း ဖြစ်သည်။ ထိုသံချေးသည် သံမှဖြစ်လာ၍ သံတုံးကို ကြေမွပျက်ပြားစေသည်။ ထိုအတူ ကျောက်တုံး တွင် ပါဝင်သော သံသည် လေကြောင့် ပျက်ပြားသွားရာ ကာလကြာမြင့်လေသော် ထိုကျောက်တုံးလည်း ကြေပျက် ၍ အမှုန့်များ ဖြစ်သွားနိုင်သည်။ ထိုကျောက်မှုန့်ကလေး များကို တနေရာမှ တနေရာသို့ ရောက်အောင် လေက တိုက် ခတ် သယ်ယူသွားလေသည်။

အပူသည် ကျောက်သားကို ကြွစေသည်။ အအေးသည် ကျုံ့စေသည်။ ဤကဲ့သို့ ကြွချည် ကျုံ့ချည်ဖြစ်ဖန်များ သောအခါ ကျောက်သားကို အစိတ်စိတ် အပိုင်းပိုင်း ကျိုး ပဲ့၍ ကြေမွ သွားစေနိုင်သည်။ အပင်များ သည်လည်း ကျောက်တုံးကျောက်ခဲများကို ကွဲပျက် ကြေမွစေနိုင်သည်။ ကျောက်တုံးကျောက်ခဲတို့၏ မျက်နှာပြင်တွင် အထက်ဖော် ပြပါ သဘာဝ အင်အားစု တခုခုကြောင့် ကြေမွပျော့ညံ့ လာသည့်အခါ ကျောက်ကပ်မှော်ကဲ့သို့ အပင်ငယ်ကလေး

များသည် ထိုကျောက်တုံးတွင် တွယ်ကပ် ပေါက်ရောက်လာကြ၏။ ထိုကျောက်ကပ်မှော်များ သေ၍ ဆွေးမြည့်သွားသည့်အခါ အချဉ်ဓာတ် ပေါက်လာလျက် ကျောက်သားကိုပို၍ မွလာစေသည့်ပြင် အတွင်းသို့စားသွားလေသည်။ ထိုနောက် အပင်ကြီးများသည် ထိုနေရာများတွင်အမြစ်စွဲလာလျက် အမြစ်ကြီးများကို ကျောက်တုံး ကျောက်ခဲတို့အားရစ်ပတ်စေ၍ဖြစ်စေ၊အမြစ်သေးအမြစ်မွှားများကို ကျောက်တုံး၏ ပပ်ကြားအက်ကြောင်းများထဲသို့ ထိုးဝင်စေ၍ဖြစ်စေ ကြီးပွားလာကြလေသည်။ ထိုအမြစ်ငယ်ကလေးများ၏ ဖိနှိပ်ခြင်းအားသည် မြေစတုရန်းတလက်မလျှင် အလေးပေါင်ချိန် ၂၀၀ မှ ၃၀၀ အထိရှိ၏။ ထိုကြောင့် အလွန်မာကျောသော ကျောက်တုံးကျောက်ခဲများပင်လျှင် အမြစ်တို့၏ စုပေါင်း ဖိနှိပ်ခြင်းအားကို ကြာရှည်စွာ မခံနိုင်သဖြင့် နောက်ဆုံးတွင် ကွဲအက်ပြိုပျက်၍ မြေဆီမှုန့်များ ဖြစ်ရလေသည်။

တီကောင်၊ ပရွက်ဆိတ် စသော သတ္တဝါကလေးများကလည်း မြေဆီလွှာ ဖြစ်စေနိုင်သေးသည်။ သိပ္ပံပညာကျော်ဒါဝင်သည် တနှစ်လျှင် တီကောင်များက မြေမျက်နှာပြင်သို့ ယူလာသော ပျမ်းမျှတီကျစ်ဓာသည် စတုရန်းတပေလျှင် ၇ ပေါင်မျှ ရှိကြောင်းကို လက်တွေ့ စမ်းသပ်တွေ့ရှိဘူးလေသည်။ ထိုတီကျစ်ဓာကို ဖြန့်ကြဲလိုက်လျှင် မြေမျက်နှာ စတုရန်း တပေပေါ်၌ တလက်မ၏ ငါးပုံတပုံခန့်ထူထက်လာနိုင်သည်။ ပရွက်ဆိတ်နှင့် မြေတွင်းသို့ ထိုးဖောက်တူးဝင်တတ်ကြသော အခြားပိုးမွှားတိရစ္ဆာန်တို့သည်လည်း လိုဏ်ပေါက်အတွင်းမှ မြေကျစ်ဓာများကို အပေါ်ယံ မြေပြင်သို့ ထုတ်ယူတင်ဆောင်လာကြသည်။

### အပင်၊ လူ၊ တိရစ္ဆာန်များ၏ သက်မဲ့ ကိုယ်ထည်များမှ မြေဆီလွှာဖြစ်လာပုံ

အထက်တွင် ဖော်ပြခဲ့ပြီးဖြစ်သော သဘာဝ အင်အားစုများအားဖြင့် မြေဆီလွှာတွင် အများဆုံး ပါဝင်သော မြေသားဝတ္ထုသည် ကျောက်များမှ ဖြစ်လာပုံကို အတော်အသင့်သိခဲ့ကြပြီ။ သို့ရာတွင် မြေဆီလွှာထဲ၌ ကျောက်မှုန့်များအပြင် အပင်၊ လူ၊ တိရစ္ဆာန်များ၏ သက်မဲ့ကိုယ်ထည်တို့မှ ဆွေးမြည့်ပျက်စီးသည့် မည်းနက်သော ပစ္စည်းများလည်း ပါသေးသည်။ ထိုပစ္စည်းများကို မြေဆွေးဟုခေါ်သည်။

မြေထဲနှင့်မြေပြင်ပေါ်တွင် တိရစ္ဆာန်နှင့် အပင်တို့သည် မရေတွက်နိုင်အောင်ပင် များပြားသည်။ တီ၊ ပရွက်ဆိတ် အစရှိသော တိရစ္ဆာန်များ သေကြသောအခါ မြေထဲတွင် တဖြည်းဖြည်း ဆွေးမြည့်ပျက်စီး၍ အပင်၏ အစာအဖြစ်သို့ ပြောင်းလဲသွားကြသည်။ အပင်နှင့် တိရစ္ဆာန်များမှ ဖြစ်သော မြေသြဇာကို သြဇာရှိ ဝတ္ထုပစ္စည်းမှဖြစ်သော မြေသြဇာဟု ခေါ်သည်။ သို့ရာတွင် အပင်များသည် မြေသြဇာကို တိုက်ရိုက်အစာအဖြစ် မမှီဝဲနိုင်ကြချေ။ မြေသြဇာကို ဗက်တီးရီးယားများက အပင်၏ အစာဖြစ်အောင် ပြောင်းပေးလိုက်မှသာ အပင်များသည် ထိုအစာကို စားသုံးမှီဝဲနိုင်ကြသည်။ ဗက်တီးရီးယားတမျိုးသည် အပင်များကို ဆွေးမြည့်ပျက်ကျစေ၍ အပင်၏အစာအဖြစ် ပြောင်းပေးသည်။ အခြား ဗက်တီးရီးယားတမျိုးက အပင်ပြတ်များကို နိုက်ထရိတ်ဓာတ်ပါသော ပစ္စည်းများ ဖြစ်စေ၍ အပင်၏ အစာအဖြစ်ပြောင်းပေးသည်။ကြမ်းသောအနံ့များရှိသည့် စပါးပင်၊ ဂျုံပင်များကို ဗက်တီးရီးယားများသည် အစိတ်စိတ် အမွှာမွှာ ပျက်ကျစေ၍ အပင်၏ အစာအဖြစ်သို့ ပြောင်းပေးနိုင်ကြသည်။ ထိုမြေဆွေးများကို မြေပေါ် ပေါက်နေသောအပင်တို့က တဖန် သုံးစွဲကြပြန်သည်။ သို့ရာတွင် အချို့မြေ၌ မြေဆွေး အနည်းငယ်သာပါ၍ အချို့မြေ၌မူ အမြောက်အမြားပင် ပါလေသည်။

မြေဆီလွှာတွင် ကျောက်မှုန့်နှင့် မြေဆွေးများအပြင် ရေ (အစိုဓာတ်) ပါရှိသည်။ မြေဆီလွှာအနည်းငယ်ကို ယူ၍ ချိန်ကြည့်ပါ။ ထိုနောက် ထိုမြေဆီလွှာကို နေပူထဲတွင် အခြောက်လှန်း၍ တဖန်ချိန်ကြည့်ပါ။ မြေဆီလွှာ၏ ဒုတိယ အလေးချိန်သည် ပဌမအလေးချိန်ထက် လျော့နေသည်ကို တွေ့ရမည်။ ယင်းသို့ အလေးချိန်လျော့သွားရခြင်းမှာ မြေဆီလွှာထဲရှိ ရေငွေ့ပျံထွက်သွားသောကြောင့် ဖြစ်လေသည်။

မြေဆီလွှာတမျိုးနှင့်တမျိုးတွင် ပါရှိသော ရေမှာ အတိုင်းအဆချင်း မတူကြပေ။ လေထဲ၌ အခြောက်ခံထားသော မြေစေးတွင် ထိုမြေစေးနှင့် အလေးချိန်တူသော သဲမြေမှာထက် ရေပို၍ ပါလေ့ရှိသည်။ မြေဆီလွှာသည် ကျောက်တုံးကျောက်ခဲများကဲ့သို့ တင်းကျပ် သိပ်သည်း၍မနေဘဲ များစွာသော မြေဆီမှုန့်ကလေးများ အကြားတွင် နေရာလပ်များ ရှိနေလေသည်။ ထိုနေရာလပ်များတွင် လေဖြစ်စေ၊ ရေဖြစ်စေ အစဉ်ခိုအောင်းလျက် ရှိနေသည်။ အပင်များသည် တိရစ္ဆာန်များ ကဲ့သို့ပင် အောက်ဆီဂျင်ကို လိုသည်။ အရွက်အပွင့်များ အောက်ဆီဂျင်ကို လိုသကဲ့သို့ မြေဆီလွှာထဲရှိ အမြစ်များလည်း လိုကြသည်။ ထိုကြောင့် မြေဆီလွှာကောင်းဟု ဆိုနိုင်ရအောင် မြေဆီလွှာတွင် ရေသာမဟုတ်၊ လေလည်း ရှိရသည်။

မြေဆီလွှာထဲတွင် ရေအနည်းငယ်သာ ရှိသောအခါ ရေသည် မြေဆီမှုန့်များ တခုနှင့်တခု ထိနေသောအချက်များ၌ စုရုံးနေတတ်သည်။ ရေနည်းနည်းပိုများလာသောအခါ မြေဆီမှုန့် တခုနှင့်တခု ထိနေသောအချက်များ၌ စုရုံးနေသော ရေသည် တနေရာနှင့် တနေရာ ထိမိအောင် ဆက်သွားသည်။ သို့ရာတွင် မြေဆီမှုန့်များအကြား၌ လေသည် တစပ်တည်းပင် ရှိလျက်နေသေးသည်။ ထိုထက် ရေပိုများလာသောအခါမှ မြေဆီမှုန့်များ အကြားရှိ နေရာလပ်များတွင်

လေမရှိဘဲ ရေသာ ရှိလျက်နေသည်။ ထိုမြေမျိုးကို ရေဝပ်မြေ ဟုခေါ်သည်။

မြေဆီလွှာသည် အပင်များ ဖြစ်ထွန်းကြီးပွားရန် လိုအပ်သော ဓာတ်ပစ္စည်း အမျိုးမျိုးတို့ ပျော်ဝင်နေသည့် အရည်ကို စုတ်ယူ ထိန်းသိမ်းထားသည်။ အပင် များများကြီးပွားသန်စွမ်းရန်အတွက် အလိုအပ်ဆုံး ဓာတ်ပစ္စည်း ၁၀ မျိုးမှာ အောက်ဆီဂျင်၊ ကာဗွန်၊ ဟိုက်ဒရိုဂျင်၊ နိုက်ထရိုဂျင်၊ ဖော့စဖောရပ်၊ ပိုတက်ဆီယမ်၊ ကန့်၊ ကယ်လဆီယမ်၊ မက်ဂနီဇီယမ်နှင့် သံတို့ ဖြစ်ကြသည်။ ထိုဒြပ်စင်များအနက် နိုက်ထရိုဂျင်၊ ကာဗွန်၊ ဟိုက်ဒရိုဂျင်နှင့် အောက်ဆီဂျင်ဓာတ်ပစ္စည်းတို့ကို အပင်များသည် လေနှင့်ရေမှ ရကြသည်။ ဆိုခဲ့သော ဒြပ်စင်အားလုံးတို့သည် အပင်ကြီးပွားရန်အတွက် အနည်းနှင့်အများ အရေးကြီးသော ဒြပ်စင်များ ဖြစ်ကြလေသည်။

မြေဆီလွှာတွင် အထက်တွင် ဖော်ပြခဲ့သော အပင်၏အစာဖြစ်သည့် ဒြပ်စင်များ ချို့တဲ့နေလျှင်သော်၎င်း၊ အသီးအနှံပင်များကို ဆက်ကာဆက်ကာ တနေရာတည်းတွင် စိုက်ဖန်များသဖြင့် ထိုဒြပ်စင်ထဲမှ ဓာတ်ပစ္စည်း တခုခုဖြစ်စေ၊ တခုထက်ပို၍ဖြစ်စေ ကုန်ခန်း ယုတ်လျော့နေလျှင် သော်၎င်း အပင်များ ကောင်းစွာဖြစ်ထွန်းနိုင်မည် မဟုတ်ချေ။ ဤကဲ့သို့သော မြေမျိုးတွင် မြေသြဇာများကို ထပ်လောင်းဖြည့်စွက်ပေးခြင်းအားဖြင့် အပင်များ ကြီးပွား ဖြစ်ထွန်းလာအောင် ပြုပြင်ပေးရသည်။

မြေဆီလွှာတွင်ရှိသော အချို့ဒြပ်စင်တို့သည် အပင်များကြီးပွားဖြစ်ထွန်းရေးကို အထောက်အပံ့ မဖြစ်စေသည်သာမက စိုက်ပျိုး၍မရသော မြေမျိုးကို ဖြစ်စေသည်။ ပုံစံဆိုလျှင် မိုးနည်းသောအရပ်တို့တွင် အတွေ့ရများသော ဆပ်ပြာမြေမျိုး၌ အပင် အချို့သာ ပေါက်ရောက် ဖြစ်ထွန်းနိုင်လေသည်။

## မြေဆီလွှာ အမျိုးမျိုး

မြေဆီလွှာ အမျိုးမျိုးတွင် ပါဝင်ကြသော အမှုန့်တို့၏ အရွယ်မှာ တမျိုးနှင့်တမျိုး မတူကြချေ။ သာမန်မျက်စိနှင့် သဲပွင့်ကို ကောင်းစွာမြင်နိုင်သော်လည်း မြေဆီမှုန့်ကိုမူကား မမြင်နိုင်ချေ။မြေဆီလွှာအသီးအသီးတွင်ပါဝင်သော မြေဆီလွှာမှုန့်၊ သဲ၊ ရွှံ့စေးတို့၏ အချိုးအစားမှာ တမျိုးနှင့်တမျိုး မတူကြချေ။ ထို့ပြင် မြေဆီမြေမှုန့် ဖြစ်ပေါ် လာရသော အခြေခံ ကျောက်တုံးကျောက်ခဲ အရောင်ကို လိုက်သင့်သလောက် လိုက်၍ မြေဆီလွှာ အရောင်တို့သည် တမျိုးနှင့်တမျိုး ကွဲပြားလျက်ရှိကြသည်။ ပုံစံဆိုသော် မြေဆွေးအချိုးအစား များများပါဝင်သည့် မြေဆီလွှာအရောင်မှာ မည်းနက်၍ အပင်အတွက် သြဇာများသောမြေမျိုးဖြစ်သည်။ သဲမြေမျိုးတွင် အပင်အတွက် သြဇာချို့တဲ့နေသည့်ပြင် သွေ့ခြောက်လွယ်၍လေတိုက်ခတ်ရာသို့လွင့်ပျောက်သွားတတ်သဖြင့် အပင်၏အမြစ်များ ပေါ်နေတတ်သည်။ သို့ဖြင့် အပင်မှာ ရေမရသောကြောင့် နောက်ဆုံးတွင် သေရလေသည်။ သို့ရာတွင် ထိုသဲမြေမျိုးကို မြေသြဇာများဖြည့်စွက်ပေးခြင်းအားဖြင့် အပင်များစိုက်၍ ကောင်းစွာ ဖြစ်ထွန်းနိုင်သော မြေဆီလွှာကောင်း ဖြစ်လာနိုင်သည်။ မြေစေး၊ သို့မဟုတ် ရွှံ့စေးမြေမှာ ထွန်ယက်ပြုပြင်ရ ခဲယဉ်းသော မြေမျိုး ဖြစ်သော်လည်း စိုက်ပျိုးရေးလုပ်ငန်းအတွက် ကောင်းမွန်သော မြေဖြစ်သည်။ ထိုမြေဆီလွှာမျိုးသည် အစိုဓာတ်ကို ထိန်းသိမ်းထားနိုင်သဖြင့် မြေမှုန့်များမှာ စေးကပ်စုပေါင်းလျက်ရှိရာ ထွန်သွား ထယ်သွားများနှင့် အလွယ်တကူ တူးဆွ၍ မရချေ။ ခြောက်သွေ့သွားသည့်အခါ၌လည်း မြေသားမှာ အလွန်တင်းမာလာသဖြင့် ပူလွန်းက ပပ်ကြားအက်များပင်ပေါ်လာတတ်သည်။ သို့ရာတွင် မြေစေးတွင် ပေါင်းစပ် ပါဝင်သော မြေမှုန့်များသည် နူးညံ့ ညက်ညောသဖြင့် ဆံခြည်ပေါက်ပြွန်၏ အရည်ကို ဆွဲယူသောသတ္တိကြောင့် ရေကိုထိန်းသိမ်း သိုမှီးထားနိုင်သည့်ပြင် အပင်တို့၏ အမြစ်သေး အမြစ်မွှာတို့ကလည်း မြေဆီလွှာတွင်းရှိ အပင်၏ အစာဖြစ်သော သြဇာဓာတ်တို့ကို အလွယ်တကူနှင့် စုတ်ယူ သုံးစားနိုင်ကြလေသည်။

သဲမြေနှင့် မြေစေး ဆတူခန့် ရောစပ်လျက်ရှိသောမြေမျိုးကို နုံးမြေဟုခေါ်သည်။ ဤမြေမျိုးတွင် အပင်များ ကောင်းစွာ ဖြစ်ထွန်းသဖြင့် စိုက်ပျိုးရေးလုပ်ငန်း၌ အထူးအသုံးကျသော မြေမျိုးဖြစ်ပေသည်။ မြေသစ်၊ သို့မဟုတ် နုံးတင်မြေမျိုးကို မြစ်များက ယူဆောင်လာ၍ မြစ်ရေလျှံသည့်အရပ်များနှင့် မြစ်ဝကျွန်းပေါ် ဒေသများ၌ တွေ့ရှိရသည်။

အပင်များသည် မြေဆီလွှာကိုအကြောင်းပြု၍အမျိုးမျိုးကွဲပြားကြသည်။ အချို့အပင်တို့သည် စိမ့်မြေမျိုး၌ မဖြစ်ထွန်းကြချေ။ အချို့တို့ကလည်း ဆပ်ပြာမြေ (ထုံးမြေ)မျိုးတွင် မပေါက်ရောက်နိုင်ကြ။ ထို့ကြောင့် စိုက်ပျိုးရေးလုပ်ငန်းအတွက် အကောင်းဆုံးမြေမျိုးတွင် ရေနှင့် အပင်၏ အစာများ ထိန်းသိမ်းသိုမှီးထားနိုင်ရမည်။ မြေဆီလွှာ အတွင်းသို့ လေဝင်နိုင်သည့် ရေအောင်းမြေမျိုးလည်း မဖြစ်စေရ။ စိမ့်မြေ မဆန်ရအောင် ထုံးဓာတ်လည်း အသင့်အတင့်ပါဝင်စေရမည်ဖြစ်သည်။ စိုက်ပျိုးရေး လုပ်ငန်းတွင် မြေသည် အလွန်အရေးကြီးသဖြင့် လယ်ယာကိုင်းကျွန်း လုပ်ကိုင်သော တောင်သူ လယ်သမားနှင့် မြေရှင်တို့သည် မိမိတို့မြေ၏ နဂိုအခြေအနေကို သိဖို့ရန် အထူးလိုအပ်ပေသည်။ ထို့ကြောင့် တိုင်းနိုင်ငံအများတွင် မြေစုံစမ်းရေးအဖွဲ့များကို နိုင်ငံအစိုးရတို့က ဖွဲ့စည်းကာ နိုင်ငံတွင်းရှိ အရပ်ရပ်မှ မြေဆီလွှာ နမူနာများကို ဓာတုဗေဒနည်းအရ စုံစမ်း စစ်ဆေးကြည့်ရှုလျက်

ရှိကြသည်။ ထိုသို့ အရပ်ရပ်ရှိ မြေဆီလွှာ၏ နဂိုအခြေအနေကို သိပြီးမှ သင့်တော်သည့် အပင်မျိုးကို ရွေးချယ် စိုက်ပျိုးခြင်းအားဖြင့် တိုင်းနိုင်ငံတခု၏ စိုက်ပျိုးရေးလုပ်ငန်းသည် ဖွံ့ဖြိုး တိုးတက်လာမည်ဖြစ်သည်။

### အပင်များ ကြီးပွား သန်စွမ်းလာရန် ရေလိုခြင်း

အပင်များ ပေါက်ရောက် ရှင်သန်ရန်အတွက် မြေဆီလွှာတွင် အစိုဓာတ်ရှိဖို့ ရေကိုတနည်းနည်းအားဖြင့် ရရှိရမည်ဖြစ်သည်။ ဩဇာကြွယ်ဝသော မည်သည့်မြေမဆို ရေမရရှိခဲ့လျှင် အပင်များ စိုက်ပျိုးရေးအတွက် မည်သို့မျှ အသုံးဝင်တော့မည် မဟုတ်ချေ။ စိုက်ပျိုးရေးလုပ်ငန်းတွင် ရေကို မိုးရေမှ တိုက်ရိုက်ဖြစ်စေ၊ ကန် ဆည် တူးမြောင်းများအားဖြင့် ရေသွင်း၍ဖြစ်စေ ရရှိလေသည်။ ကန်ဆည် တူးမြောင်းများကလည်း မိုးရွာခြင်းကြောင့် ရေကို ရရှိကြသဖြင့် မိုးရေသည် စိုက်ပျိုးရေးတွင် မည်မျှအရေးကြီးကြောင်း နားလည်လွယ်မည်ဖြစ်သည်။ တနှစ်အတွင်း ရရှိသော မိုးရေချိန်ကိုလိုက်၍ စိုက်ပျိုးလုပ်ကိုင်ရာ လယ်မြေယာမြေတို့၏ တန်ဖိုးသည် မိုးအရနည်းလျှင် နည်းသည့်အလျောက် ယုတ်လျော့၍၊ မိုးအရများလျှင် များသလို တန်ဖိုးပိုလာသည် ဟု ဆိုရပေမည်။ သို့ရာတွင် မိုးများလွန်းလျှင် လူများ သက်သာ ချောင်ချိစွာ နေထိုင်ရန် မဖြစ်နိုင်ချေ။ မိုးနည်းလွန်းလျှင်လည်း လူတို့၏ နေထိုင်စားသောက်ရေးမှာ ခက်ခဲကျပ်တည်းလာပြန်သည်။ ထိုကြောင့် ကမ္ဘာပေါ်တွင် လူအများဆုံး သက်သာချောင်ချိစွာ နေထိုင်နိုင်သော အရပ်များမှာ မိုးအသင့်အတင့်ကို အချိန်မှန်မှန်ရရှိသော ဒေသများဖြစ်လေသည်။

အထူးသဖြင့် အပင်များ ကြီးပွားဖြစ်ထွန်းခြင်းသည် မိုးရေချိန်ကို တိုက်ရိုက်အမှီပြုလျက် ရှိလေသည်။ မိုးအလွန်ပါးရှားသော အရပ်များတွင် အပင်များ အပေါက်အရောက် အလွန်နည်းသဖြင့် အချို့အရပ်တို့၌ အပင်ဟူ၍ လုံးဝမရှိသလောက် ရှားလေသည်။ မိုးရေချိန် အသင့်အတင့်ကို အညီအမျှ ရရှိသည့် အရပ်များတွင်မူ အပင်များ ကြီးထွား သန်စွမ်း၍ အမြောက်အမြား ပေါက်ရောက်ကြောင်း တွေ့ရှိရသည်။ မိုးရေအရ အလွန်များသော အရပ်များ တွင်ကား လူများ မနိုင်နင်းနိုင်လောက်အောင် အပင်သေး အပင်ကြီးများ အပေါက်မြန်ကြသည်။

**မြေတိုင်းပညာ။** ။မြေတိုင်းပညာသည် အီဂျစ်နိုင်ငံမှ စတင် ဖြစ်ထွန်းခဲ့ဟန် လက္ခဏာရှိသည်။ ထိုအတတ်သည် မြို့ပြဆိုင်ရာ အင်ဂျင်နီယာ ပညာတွင် အကျုံးဝင်၍ မြေ၏ အနေအထား ပုံသဏ္ဌာန်များနှင့် ဧရိယာ အကျယ်အဝန်းများကို တိကျစွာ တိုင်းတာပြီးနောက် လွယ်ကူမည့်စကေး



မြေတိုင်းပညာ စံနစ်တကျဆောင်ရွက်ခဲ့သော ဟင်လိုမြေတိုင်းအဖွဲ့ ၁၉ ရာစုနှစ် အတွင်းက မြေတိုင်းနေကြစဉ်



မြေပုံထုတ်ရန် မြေအနေအထားကို ခေတ်မှီမြေတိုင်းစက်ဖြင့် တိုင်းတာစဉ်

ဖြင့် ပုံများဆွဲယူသည့် အတတ်ဖြစ်သည်။ အဆောက်အအုံများ၊ မီးရထားလမ်းများ၊ တူးမြောင်း စသည်များကို မဖောက်လုပ်မီ ဆိုင်ရာဒေသ မြေနေရာများကို ရှေးဦးစွာတိုင်းတာ ပုံဆွဲရ၍ ဆောက်လုပ်မည့် အဆောက်အအုံ၏ ပုံစံကို အတိအကျရေးဆွဲပြီးမှ ဆောက်လုပ်ကြရလေသည်။

လမ်းမကြီးတခုကို ဖောက်လုပ်ရန် ကြံစည်သည် ဆိုပါစို့။ မည်သည့်နေရာတွင် မြေကို မည်ရွေ့မည်မျှ၊ မည်ကဲ့သို့ တူးပစ်ရမည်၊ ဖို့ရမည်၊ ညှိပေးရမည် စသည်ဖြင့် တိကျစွာ ညွှန်ကြားချက်များပေးထားသောမြေပုံမရှိခဲ့လျှင် အလုပ်သမားတို့သည် လမ်းကို မည်သည့်နည်းနှင့်မျှ သေချာ ကျနစွာ ဖောက်လုပ်နိုင်ကြမည် မဟုတ်ချေ။ ထိုအတွက် အင်ဂျင်နီယာများသည် လမ်းဖောက်ရမည့်မြေကို တိကျစွာ တိုင်းတာနိုင်သောကရိယာများဖြင့် တိုင်းတာ၍ မြေပုံတွင် စကေးဖြင့် လမ်းကို ရေးဆွဲကြရသည်။ မည်သည့် နေရာတွင် လမ်းကို ကွေ့စေ၍ မည်သည့်နေရာတွင် လမ်းကို ဖြောင့်မတ်စွာ ဖောက်လုပ်က အလုပ်နှင့် စရိတ်သက်သာမည်၊ မသက်သာမည် စသည်တို့ကို ခန့်မှန်းကြရသည်။ မြေပုံကို သဘောကျပြုပြင် အတည်ပြုပြီးမှသာ လမ်းကို စတင်ဖောက်လုပ်ကြရလေသည်။ လေယာဉ်ပျံများ ပေါ်ပေါက်လာသည့် ယခုခေတ်တွင် တောတောင် ထူထပ်၍ အလွန်ကျယ်ဝန်းသောဒေသများကို လေယာဉ်ပျံပေါ်မှ အထူးဓာတ်ပုံများ ရိုက်ယူပေးခြင်းဖြင့် မြေပေါ်ရှိ မြေတိုင်းသမားများကို ကူညီလေသည်။

မြေတိုင်းရာတွင် နည်းနှစ်မျိုးကို အသုံးပြုကြသည်။ တမျိုးမှာ "ပလိန်း" ခေါ် မြေပြန့်တိုင်းနည်းဖြစ်၍ အခြားတမျိုးမှာ "ဂျီအိုဒက်တစ်" ခေါ် ပကတိမြေ အနေအထားတိုင်းနည်းဖြစ်သည်။ မြေပြင်တိုင်းတာခြင်းနှင့် ရေကြောင်းတိုင်းတာခြင်းတို့ ပါဝင်သော "ပလိန်း" ခေါ် မြေပြန့်တိုင်းနည်းသည် မြေကွက်ငယ်များကို တိုင်းတာ၍ ကမ္ဘာ့မြေမျက်နှာပြင်ကို မြေပြန့်အဖြစ် ယူဆထားသည်။ "ဂျီအိုဒက်တစ်" နည်းဖြင့် ကျယ်ဝန်းသော မြေနေရာများကို တိုင်းတာကြသည်။ ဤနည်းတွင် ကမ္ဘာကြီး လုံးနေမှုကြောင့် ကမ္ဘာ့မြေမျက်နှာပြင် ခုံးနေသည့် အချက်ကိုပါ ထည့်သွင်းတွက်ရလေသည်။

အလွယ်ဆုံး မြေတိုင်းနည်းမှာ မြေကွက်ကို တရိဂံပုံများအဖြစ် ခွဲပြီး တိုင်းတာသော နည်းဖြစ်၏။ တရိဂံများ၏ အကျယ်အဝန်းကို တွက်ယူပြီးနောက် အားလုံးကို ပေါင်းလိုက်သောအခါ မြေကွက်တခုလုံး၏ အကျယ်အဝန်းကို ရလေ

သည်။ မြေတွင် တရိဂံပုံတခုဆွဲရာ၌ ပဌမ အလျား အတော်အသင့်ရှိသော အခြေပြုမျဉ်းဖြောင့်တခုကို သတ်မှတ်ပြီးနောက် တိကျစွာ တိုင်း၏။ ထိုနောက် တရိဂံထိပ်ထောင့်အကွက်တနေရာတွင် အမှတ်တခုကို မှတ်သားပြီးလျှင် ထိုအမှတ်နှင့် အခြေပြုမျဉ်းဖြောင့် အစွန်းတခုစီတို့မှ ဖြစ်ပေါ်လာသော ထောင့်နှစ်ထောင့်ကို တိကျစွာတိုင်းယူလေသည်။ ဤအခြေပြုမျဉ်း၏ အလျားနှင့် ထောင့်များမှ တရိဂံ၏ရေိယာကို တွက်ယူလေသည်။ ဤနည်းအတိုင်း ဆက်၍ဆက်၍ တိုင်းတာသွားရာနောက်ဆုံးတွင် မြေကွက်၏ရေိယာအကျယ်အဝန်းကို ရလေသည်။

ထောင့်များကို တိုင်းရာ၌ မြေတိုင်းသူသည် "သီဩဒလိုက်"ခေါ် ထောင့်တိုင်း ကရိယာကို အသုံးပြု၍ မြေပြင်အနိမ့်အမြင့်ကို တိုင်းသောအခါ "လယ်ဗယ်"ခေါ် မြင့်ခြားတိုင်းကရိယာကို အသုံးပြုလေသည်။ အလျားကို တိုင်းသောအခါ မြေတိုင်းသံကြိုး၊ သို့မဟုတ် သတ္တုပေကြိုးများကို သုံးလေ့ရှိကြသည်။ သို့သော် အလွန်တိကျစွာ တိုင်းတာရန်လိုသောအခါ အထူးပေကြိုးတမျိုးကို အသုံးပြုရ၏။ ထိုပေကြိုးမှာ နစ်ကယ်နှင့် သံမဏိစပ်ထားသော သတ္တုစပ်ဖြင့်ပြုလုပ်ထားသဖြင့် သာမန် အပူအအေးဒဏ်နှင့် တွေ့သော်လည်း စန့်ခြင်း၊ ကျုံ့ခြင်းမရှိပေ။ အချို့သံမဏိပေကြိုးများတွင် လက်မနှင့်ပေအလိုက် မှတ်သားထား၍ အချို့တွင် ၁၀ ပေ အမှတ်သားများ ပါရှိသည်။



မြေတိုင်းပညာကို လက်တွေ့ဆည်းပူးလျက်ရှိသော အမျိုးသမီးတဦး

မြေတိုင်းရာတွင် အမှန်ကန်ဆုံးသော နည်းကား "ဂျီအိုဒက်တစ်"နည်းပင် ဖြစ်၍ ထိုနည်းဖြင့် ကမ်းရိုးတန်းမြေ၏ အနိမ့်အမြင့်နှင့် နယ်စပ် တည်နေရာ စသည်တို့ကို တိုင်းတာကြသည်။ ရေကြောင်း တိုင်းတာနည်းဖြင့် ရေရှိသောနေရာ၏ အကျယ်အဝန်း၊ ပုံသဏ္ဍာန်နှင့် ရေ၏ အတိမ်အနက် စသည်တို့ကို တိုင်းတာကြသည်။ ထိုနောက် ပတ်ဝန်းကျင်ဒေသများကို အမှီပြုကာ ပုံများကို ရေးဆွဲကြရသည်။ ထိုပုံမျိုးတွင် ကမ်းခြေ အနေအထား၊ ရေအောက်တွင် မြုပ်နေသော ကျောက်ဆောင်များနှင့် ချောင်းမြောင်းတို့၏ အနေအထား စသည်တို့ကိုလည်း ဖော်ပြထားလေ့ရှိသည်။

မြေတိုင်းပညာသည် အင်ဂျင်နီယာအတတ်ဆိုင်ရာ ပညာခွဲတခုဖြစ်၍ နေရာပေါင်းများစွာတွင် အရေးကြီး အသုံးပြုကြသည့်အတိုင်း အင်ဂျင်နီယာကျောင်းများ၌ ဘာသာရပ်တခုအနေဖြင့် သင်ကြားကြရလေသည်။

**မြေထဲပင်လယ်။** ။ဥရောပ၊အာရှနှင့် အာဖရိကတိုက်ကြီး ၃ တိုက်အကြားတွင် တည်ရှိသည့် မြေထဲပင်လယ်သည်ကား ရှေးပဝေဏီမှစ၍ ကမ္ဘာ့သမိုင်းတွင် ကျော်စော ထင်ရှားခဲ့သော ပင်လယ်ကြီး ဖြစ်သည်။ ထိုပင်လယ်ကို ဝန်းရံလျက်ရှိသည့် ဣတလီ၊ ဂရိ၊ ပယ်လက်စတိုင်၊ အီဂျစ်စသော တိုင်းပြည်များတွင် ရှေးအကျဆုံး ယဉ်ကျေးမှုများ စတင်ပေါ်ပေါက်ခဲ့သည်။ ယခုအချိန်၌လည်း မြေထဲပင်လယ်သည် ကမ္ဘာ့ ကူးသန်းရောင်းဝယ်ရေး ကိစ္စများ၌၎င်း၊ လမ်းပန်းအဆက်အသွယ်ကိစ္စများ၌၎င်း၊ စစ်မက်ရေးရာ၌၎င်း အချက်အခြာဒေသ ဖြစ်လျက်ပင်ရှိသည်။

မြေထဲပင်လယ် ဟူသော ပညတ်နှင့်အညီ ဤပင်လယ်သည် ကုန်းများ ဝန်းရံပတ်ထားလျက်ရှိသောကြောင့် ရေအိုင်ကြီးနှင့်တူသော ပင်လယ်ဖြစ်သည်။ မြေထဲပင်လယ်ကို အရှေ့ဖက်တွင် အာရှတိုက်၊ မြောက်ဖက်နှင့် အနောက်မြောက်ဖက်တွင် ဥရောပတိုက်၊ တောင်ဖက်တွင် အာဖရိကတိုက်တို့ ဝန်းရံလျက်ရှိသည်။ မြေထဲပင်လယ်သည် ၁၂ မိုင်မျှသာကျယ်သော ဂျီဗရော်တား ရေလက်ကြားအားဖြင့် အတ္တလန္တိတ် သမုဒ္ဒရာနှင့် ဆက်လျက်ရှိသည်။ ဆူးအက်တူးမြောင်းသည် မြေထဲပင်လယ်ကို ပင်လယ်နီ၊ အာရေဗျပင်လယ်၊ အိန္ဒိယ သမုဒ္ဒရာတို့နှင့် ဆက်မိစေသည်။

မြေထဲပင်လယ်၌ ရေလက်တက်ကြီး အများအပြားပင်ရှိလေရာ၊ အချို့မှာ ပင်လယ်ငယ်များ အနေနှင့်ပင် တည်ရှိသည်။ ယင်းပင်လယ်ငယ်များမှာကား ဣတလီနိုင်ငံကို ဝန်းရံလျက်ရှိသော တစ်ရီးနီးယန်း၊ အေဒြီယက်တစ်နှင့် အိုင်အိုနီးယန်း ပင်လယ်များ၊ ဂရိနိုင်ငံအရှေ့ဖက်တွင်ရှိသော အီးဂျီးယန်းပင်လယ်၊ ဆိုဗီယက်ပြည်ထောင်စု၏ တောင်ဖက်တွင်ရှိသော ပင်လယ်နက် အစရှိသည်တို့ ဖြစ်၏။ ယင်းလက်

တက်ကြီးများအားလုံးကိုပါ စုပေါင်း၍ ရေတွက်သော် မြေထဲပင်လယ်၏ အကျယ်အဝန်းမှာ စတုရန်းမိုင် ၁,၁၄၅,၁၀၀ ခန့် ရှိပေသည်။

မြေထဲပင်လယ်ကို အကြမ်းအားဖြင့် ဣတလီကျွန်းဆွယ်က နှစ်ပိုင်း ခွဲခြားထားသကဲ့သို့ရှိ၏။ ဤသို့ခွဲခြားလိုက်သောအခါ မြေထဲပင်လယ်မှာ အရှေ့ဖက်ခြမ်း အနောက်ဖက်ခြမ်းဟူ၍ ဖြစ်လာပြီးလျှင် အရှေ့ဖက်ခြမ်း၌ ရေသည် ပို၍ နက်လေသည်။ ပေ ၁၄,၀၀၀ ကျော်မျှ အစောက်ရှိ၏။ အနောက်ဖက် ခြမ်းသည်ကား အနက်ဆုံးတွင် ပေ ၁၂,၀၀၀ ကျော်သာရှိသည်။ မြေထဲပင်လယ်ရှိရေတွင် စပန်းခေါ် ပင်လယ်ရေမြှုပ် အလွန်ပေါများသည်။ ဤပင်လယ်၌ ငါးအမျိုးပေါင်း ၄၀၀ ကျော် ကျက်စားသည်ဖြစ်ရာ အခြားပင်လယ်များထက် ငါးမျိုးပေါင်း စုံလေသည်။ ထို့ပြင် ဤပင်လယ်တွင်း၌ ကျွန်း အမြောက်အမြားရှိလျက် အရေးပါအရာရောက်ဆုံးတို့မှာ ကော်စီကား၊ ဆာဒင်းနီးယား၊ ကရိနှင့် ဆိုင်းပရပ်ကျွန်းတို့ ဖြစ်၍ သမိုင်းအရ ထင်ရှားလှပေသည်။ ဣတလီနိုင်ငံမှ အီဗရိုမြစ်၊ ပိုမြစ်တို့သည်၎င်း၊ ပြင်သစ်နိုင်ငံမှ ရုန်းမြစ်သည်၎င်း၊ အာဖရိကတိုက်မှ နိုင်းမြစ်သည်၎င်း ဤမြေထဲပင်လယ်ထဲသို့ စီးဝင်ကြသည်။ သို့ရာတွင် ထိုသို့မြစ်အနည်းငယ်မှ စီးဝင်လာသောရေထက် ပို၍ ရေခိုးရေငွေ့ အဖြစ်ဖြင့် ရေကိုစွန့်လွှတ်ရသောကြောင့် မြေထဲပင်လယ်သည် အကယ်၍သာ အတ္တလန္တိတ် သမုဒ္ဒရာနှင့် ဆက်စပ်လျက် မရှိပါက ဆားအိုင်ကြီးတခု ဖြစ်သွားရန်ပင် အကြောင်းရှိလေသည်။

မြေထဲပင်လယ်သည် ပတ်ဝန်းကျင်ရှိ ကုန်းမြေဒေသတို့ကို ရာသီဥတုအားဖြင့် ထူးခြားစေသည်။ မြေထဲပင်လယ် ရာသီဥတုဟု ခေါ်သော ရာသီဥတုတမျိုးကို ဖြစ်ပေါ်စေသည်။ ယင်းရာသီဥတုမျိုးမှာ ဆောင်းအခါနွေး၍ စွတ်စိုလျက်၊ နွေအခါပူ၍ ခြောက်သွေ့ပြီးလျှင်၊ ဆောင်းကူး၊ ဆောင်းနှင့်နွေကူးရာသီများတွင် မိုးရွာသည်။ စပျစ်သီး၊ လိမ်မော်သီး၊ မက်မွန်သီး၊ တည်သီး အစရှိသော အသီးများသည် ဤကဲ့သို့သော ရာသီဥတုမျိုးကို နှစ်သက်သည်။ မြေထဲပင်လယ်ကို ပတ်ရံလျက်ရှိသော ကုန်းမြေများသည် တောင်ထူထပ်သည်။ သို့အားဖြင့် ပြာလဲ့သော ပင်လယ်ရေပြင်ကို နောက်ခံလျက်ရှိသောကြောင့် သဘာဝရှုခင်း လှပသဖြင့် ထင်ရှားပေသည်။

မြေထဲပင်လယ်၏ သမိုင်းကို သုံးသပ်ရသော် မြေထဲပင်လယ်တွင် ဦးစွာကျက်စားသောလူမျိုးမှာ ဖိနီရှန်တို့ဖြစ်၏။ ဖိနီရှန် လူမျိုးတို့သည် မြေထဲပင်လယ်တလျှောက် ဂျီဗရော်တား ရေလက်ကြားတိုင်အောင် သွားသောဟူ၏။ ထိုဒေသသို့ ရောက်လေသော် ကျောက်ဆောင်များပေါ်တွင် 'တိုး၍မသွားရ' ဟူ၍ အဓိပ္ပါယ်ရသော စာတမ်းထိုးထားသည်



မြေထဲပင်လယ်နှင့် အတ္တလန္တိတ်သမုဒ္ဒရာတို့ကို နယ်ခြားသတ်မှတ်ရာ စပိန်နိုင်ငံရှိ ဂျီဗရော်တား ကျောက်တောင်ကြီး



မြေထဲပင်လယ်သည် နွေးသမရာသီဥတုရှိသဖြင့် လူအများလာရောက်အပန်းဖြေရာ ဒေသဖြစ်သည်။

ကိုတွေ့ရသောဟူ၏။ သို့ရာတွင် ရဲရင့်လှသောဖိနီရှန်လူမျိုးတို့သည် အတ္တလန္တိတ်သမုဒ္ဒရာတွင်းသို့ ဆက်လက်သွားကြ၏။ ( ဖိနီရှန်လူမျိုး — လည်းရှု။ )

ဂရိ၊ ရောမနှင့် ကားသေ့လူမျိုးတို့သည် ဖိနီရှန်လူမျိုးတို့သွားရာ ခရီးကြောင်းအတိုင်း သွားကြသည်။ သို့ဖြင့် မြေထဲပင်လယ်သည် ကမ္ဘာတွင် အရေးပါသော ရေကြောင်းဖြစ်လာသည်။ ဝင်ပေါက်မှာ ဂျီဗရော်တာ ဖြစ်၏။ ရောမနိုင်ငံ ကောင်းစားစဉ်က မြေထဲပင်လယ်ကို ရောမလူမျိုးတို့ကြီးစိုးခဲ့၏။ ခရစ် ၁၉၃၀ ပြည့်နှစ်တွင် ဣတာလျံလူမျိုးတို့သည် မြေထဲပင်လယ်ကို ကြီးစိုးရန် ကြံစည်ခဲ့ကြသေးသည်။

ယဉ်ကျေးမှုသည် အနောက်ဖက်နှင့် မြောက်ဖက်သို့ ရွှေ့သွားသောအချိန်တွင် မြေထဲပင်လယ်သည် အရေးမပါလှဘဲရှိသွား၏။ သို့သော် ၁၈၆၉ ခုနှစ်၌ ဆူးအက်တူးမြောင်းကို ဖောက်လုပ်ပြီးစီးပြီးသည့်နောက်ပိုင်းတွင် ဥရောပတိုက်တောင်ပိုင်းနှင့် အာရှတိုက်တို့ ကူးလူးဆက်ဆံရာ အဓိက ရေကြောင်းလမ်း ဖြစ်လာသည်။ နှစ်စဉ်နှစ်တိုင်း သင်္ဘောရေပေါင်းများစွာတို့သည် ဆူးအက်တူးမြောင်းကို ကူးဖြတ်လေသည်။ (ဆူးအက်တူးမြောင်း — ရှု။) ထိုကြောင့်ပင် ဥရောပ လက်နက်နိုင်ငံများသည် အာဖရိကမြောက်ဖက်စွန်းရှိ ဂျီဗရော်တာတွင် မိမိတို့ အခြေတောင့်အောင် စိုင်းပြင်းကြလျက် မြေထဲပင်လယ်တွင် ခြေကုတ်ရအောင် ကြိုးပမ်းကြသည်။

ပဌမကမ္ဘာစစ်ကြီးအတွင်းက မြေထဲပင်လယ်သည် စစ်မျက်နှာတရပ် ဖြစ်ခဲ့၏။ ဒါးဒနဲ ရေလက်ကြားကို ရရှိနိုင်စိမ့်သောငှါ တိုက်ခိုက်သော ဂလစ်ပိုလီတိုက်ပွဲသည် ထင်ရှားပေသည်။

ဒုတိယကမ္ဘာစစ်ကြီး ဖြစ်စဉ်အခါကလည်း အောင်မြင်မှု ရနိုင်ရန် မြေထဲပင်လယ်ကို ကြီးစိုးမှုသည် လိုအပ်သည်ဟု ယူဆကြ၏။ ထိုအတွက်ကြောင့်ပင် မဟာမိတ်တို့၏ အမိကရန်သူမှာ နာဇီ ဂျာမနီဖြစ်သော်ငြားလည်း မိမိတို့၏ စစ်တပ်များကို အာဖရိကမြောက်ပိုင်းနှင့် ဣတလီနိုင်ငံတွင်းသို့ စေလွှတ်ခဲ့ခြင်း ဖြစ်လေသည်။

**မြေထဲမြို့။** ။အောင်လံမြို့ — ရှု။

**မြေဒူး။** ။မြေဒူးသည် မြန်မာနိုင်ငံအထက်ပိုင်း၊ စစ်ကိုင်းတိုင်း၊ ရွှေဘိုခရိုင် ကန့်ဗလူမြို့နယ်တွင် တည်ရှိသော ရွာကြီးတရွာဖြစ်သည်။ မြေဒူးသည် ယခုအခါ မထင်ရှားတော့သော်လည်း မြန်မာမင်းများလက်ထက်ကမူ နှစ်ပေါင်းများစွာပင် အရေးပါသော မြို့တမြို့ ဖြစ်ခဲ့၍ သမိုင်းဝင်ပေသည်။ ရှေးကမြို့ရိုးကို ယခုတိုင် တွေ့မြင်နိုင်ပေသေးသည်။ အ

လောင်းမင်းတရားကြီး၏ သားတော်တပါးသည် မြေဒူးမြို့ကို အပိုင်စားရ၍ သက္ကရာဇ် ၁၁၂၅ ခုနှစ်တွင် ထီးနန်းဆက်ခံရသည့်အခါ မြေဒူးမင်းဟု တွင်သည်။ နောက် မကွေးမြို့မှ ဆင်ဖြူရရှိ၍ ဆင်ဖြူရှင်ခံတော်မူသည်။ (ဆင်ဖြူရှင်မင်း — လည်းရှု။)

မြေဒူးသည် မူးမြစ်တူးမြောင်းဟောင်း ခွဲထွက်သော နေရာအနီးတွင် တည်ရှိသည်။ မီးရထားလမ်း မဖောက်မီကာလက ထန်းတပင်နယ်အပိုင် မြေဒူးမြို့နယ်၏ ရုံးစိုက်မြို့ဖြစ်ခဲ့၏။ မီးရထားလမ်း ဖောက်လုပ်ပြီး နောက်ပိုင်းတွင် ကန့်ဗလူမြို့နယ်၏ ရုံးစိုက်မြို့ ဖြစ်သွားလေသည်။ မြေဒူးသည် ကန့်ဗလူမြို့၏ အနောက်ဖက်တွင် ရှိ၍ လှည်းလမ်းအားဖြင့် ၁၂ မိုင်ခန့် ကွာဝေးသည်။ မြေဒူးမြို့တွင် နေထိုင်သူ အများစုမှာ မွတ်စလင်များဖြစ်၏။ ၁၉၂၁ ခုနှစ် သန်ကောင်စာရင်းအရ မြေဒူးနယ်ပယ်တွင်ရှိလူပေါင်း ၁,၉၂၃ ယောက်အနက် ၁,၁၃၇ ယောက်မှာ မွတ်စလင်များ ဖြစ်လေသည်။ ယင်းတို့သည် များသောအားဖြင့် ခရစ် ၁၅၆၄ ခုနှစ်တွင် သံတွဲမှ တပင်ရွှေထီးဘုရင် ခေါ်ဆောင်လာကာ နေရာချထားပေးခဲ့သော ပသီအဆက်အနွယ်များ ဖြစ်သည်ဟုဆို၏။ လူအများစုသည် လယ်ယာနှင့် သစ်တောလုပ်ငန်းတို့ကို အဓိကအားဖြင့် မှီခိုအားထားကြရလေသည်။

မြေဒူးရာဇဝင်အရ မြေဒူးမြို့ကို ဂေါတမမြတ်စွာဘုရား၏ ဘိုးတော်အဥ္ဇနမင်းသည် ဘုရားအလောင်း ဖွားမြင်တော်မမူမီအနှစ် ၂၀ က မိမိ၏အမတ်ကြီး ရတနာသိင်္ဃကို ကပိလဝတ်ပြည်မှ စေလွှတ်ပြီးလျှင် မြေဒူးမြို့ကို တည်စေခဲ့၏။ ရတနာသိင်္ဃအမတ်သည် မြို့ရိုး၊ ကျုံးမြောင်းအပြင် အင်း ၉ အင်း၊ ကန် ၉ ကန်၊ ဂူ ၉ လုံးနှင့် မြို့ ၉ မြို့ကို တချိန်တည်းတည်ခဲ့သည်။ မြို့ ၉ မြို့မှာအောင်စွာ၊ မိတ္ထီလာ၊ကွန်းဒိုင်း၊ တောင်နီ၊ တရုပ်တင်၊ သပွတ်၊ ခက်သင်၊ ရေ့ တိုင်နှင့် မြေဒူးတို့ဖြစ်ကြသည်။ ထိုစဉ်က မြေဒူးမြို့နယ်၏ အပိုင်းအခြားများမှာ မြောက်ဖက်တွင် ရှမ်းနယ်ဖြစ်သော မိုးကောင်းနယ်၊ အရှေ့ဖက်တွင် ရေဝတီမြစ်၊ တောင်ဖက်တွင် ကျောက်တံခါး၊ အနောက်ဖက်တွင် ချင်းတွင်းမြစ်တို့ ဖြစ်၏။ အနော်ရထာမင်းလက်ထက်က မြေဒူးကို ရှမ်းအကြီးအကဲဟန်ဘွားက အုပ်စိုးခဲ့၏။ နောင်အခါ ဟန်ဘွားကို အနော်ရထာက ကွပ်မျက်လိုက်၏။ သက္ကရာဇ် ၃၇၄ ခုနှစ်တွင် တရုပ်တို့ မြို့တွင်းသို့ ချဉ်းနင်းဝင်ရောက်လာသည်။ တရုပ်တို့ကို မြန်မာတို့က တွန်းလှန် နှင်ထုတ်လိုက်ပြီးနောက် မြို့ကို ပြုပြင်ချဲ့ထွင်ခဲ့သည်။ အလောင်းစည်သူမင်းသည် ဖောင်စကြာဖြင့် တိုင်းခန်း လှည့်လည်ခဲ့ရာတွင် မြေဒူးမြို့၏ အရှေ့မြောက်ဖက်အရပ်ရှိ မြင်းခွာတောင်တွင် ခေတ္တစံနေတော်မူ၍ စေတီပုထိုးအများ တည်ထားတော်မူခဲ့သည်။ သက္ကရာဇ် ၆၆၂ ခုနှစ်၌ မြင်စိုင်းမြို့တွင် အသင်္ခယာ ကြီးစိုးခဲ့စဉ်က ဥဇနာအား မြေဒူးမြို့ကို ပြုပြင်ရန် စေလွှတ်ခဲ့သည် ဟုဆို၏။ သက္ကရာဇ် ၆၆၇ ခုနှစ်၌ စစ်ကိုင်းမင်း သခ်ယာစောယွန်းသည် မြောက်ပိုင်းဒေသများတွင် တပ်များချထားခဲ့စဉ်က မြေဒူးတွင် မြင်းသည် ၂၄ ဦးချထားခဲ့သည်။ မင်းကြီးစွာစော်ကဲ လက်ထက်တွင် မြေဒူးမြို့ကို မြို့စားဖြစ်သူ ပြင်ဆင်ခဲ့သည်။ ညောင်ရမ်းမင်း လက်ထက်တွင် တောင်ငူမြို့မှ ကုလားများနှင့် မြန်မာများကို မြေဒူးတွင် မြေရာပေး၍ နေရာချထားသည်။ ထိုကုလားများမှာ တပင်ရွှေထီး သံတွဲမှ ခေါ်ဆောင်လာခဲ့သူများ ဖြစ်၏။ ထိုနောက် မြေဒူးသည် တပယင်းမြို့စားအောက် ရောက်သွား၏။ သက္ကရာဇ် ၉၉၉ ခုနှစ် ရာဇာမဏိစူဠဒါယကာ မင်းတရားကြီး လက်ထက်တွင် ဇင်းမယ်သားများကို မြေဒူးမြို့တွင် နေရာချထားပေး၏။ သာလွန်မင်းတရားကြီးလက်ထက်တွင် ဒိုင်းအစုသားများကို မြေဒူးတွင် နေစေ၏။ သူကြီးရာဇပျံချီ လက်ထက်တွင် ကောင်းဟန်သားတို့ကို နဗက်နှင့် သဖန်းဆိပ်တွင် မြေများကိုပေးပြန်၏။ ထိုနောက် ဇင်းမယ်မှ ရှမ်းများလည်း နေထိုင်ရန် မြေများရရှိသည်။ သက္ကရာဇ် ၉၅၉ ခုနှစ်တွင် တောင်ငူမြို့မှ လူပေါင်း ၁၁၀ အား သံများ တူးဖော်သုပ်ကိုင်ရန် ဝက်ထိုးအင်းတွင် နေရာချထားပေး၏။ သက္ကရာဇ် ၁၀၇၀ တွင် ရခိုင်ကုလားများ မြေနေရာရကြသည်။ သစ်ယာ၊ သို့မဟုတ် အင်ကြင်းကို ခုတ်သုံ၍ သံ ကျိုချက်သောရွာတိုင်းပင် အခွန်တော်ကို သံဖြင့် ပေးဆောင်ရ၏။ တောင်ငူမှ လာရောက်သော အောင်ပြည့်၏ အဆက်အနွယ်များ အားလုံးပင် အလောင်းဘုရားလက်ထက်တိုင် သံမှူးများဖြစ်ကြ၏။ ဆင်ဖြူရှင်မင်းလက်ထက်တွင်လည်း ထိုနည်းနှင်နှင်ဖြစ်သည်။ မြန်မာမင်းလက်ထက်က မြေဒူးမြို့ကို မြို့ဝန်တဦး၊ စစ်ကဲ ၂ ဦးနှင့် မြို့စား ၂ ဦးတို့ အုပ်ချုပ်ခဲ့သည်။ သီပေါမင်း လက်ထက်က ရတနာသိဃ်ခရိုင်တွင် ပါဝင်ခဲ့သည်။

မြေဒူး ဟူသော အမည်သည် မြေတူးမှ ရွေ့လျောလာခဲ့သည်။ မြို့ကိုတည်ဦးစက မြို့ရိုးအတွက် မြို့ပတ်လည်တွင် မြေကို တူးဖော်ရသဖြင့် မြေတူး တွင်သည်ဟု ဆိုလေသည်။

မြေပဲ။ ။မြေပဲပင်သည် တနှစ်ခံ ပင်ပျော့မျိုးဖြစ်၍ လီဂူမီနိုးစီးမျိုးရင်းတွင် ပါဝင်သည်။ ယင်း၏ ရုက္ခဗေဒ အမည်မှာ အယ်ရာကစ် ဟိုင်ပိုဂျီအာ ဖြစ်သည်။ ပဲတောင့်၊ ပဲလုံးတို့နှင့် မျိုးချင်းတူသည်။ မြေပဲပင်၏ မူလပေါက်ရာဒေသသည် တောင်အမေရိကတိုက်ရှိ ဗရာဇီးနိုင်ငံဖြစ်၍ ထိုမှ တဆင့် အာဂျင်တီးနားနိုင်ငံ၊ မြောက်အမေရိကတိုက်၊ တရုပ်နိုင်ငံတို့သို့ ပျံ့နှံ့လာသည်။ ယခုအခါတွင်ကား နေရာအနှံ့အပြားမှာပင် စိုက်ပျိုးလျက်ရှိကြသည်။

မြန်မာနိုင်ငံတွင် ရှေးခေတ်က မြေပဲကို စိုက်ပျိုးလေ့မရှိချေ။ ခရစ် ၁၈၈၅ ခုနှစ်တွင် မကွေးနယ်၌ မြေပဲကိုစ၍စိုက်



မြေပဲသည် စားသုံးကုန်အဖြစ်သာမဟုတ်၊ လူသုံးကုန်ပစ္စည်းအမျိုးမျိုးထုတ်လုပ်ရန်အတွက်လည်း အထူးအသုံးဝင်သည်။

သည်ဟု ရှေးအကျဆုံး မှတ်တမ်းများအရ သိရသည်။ ထိုနှစ်မတိုင်မီက မြန်မာနိုင်ငံ၌ မြေပဲကိုစိုက်ပျိုးသည့်လက္ခဏာ မရှိချေ။ ရှမ်းပြည်နယ်၌မူ ထိုနှစ်ထက် စောစွာကပင် မြေပဲကို စိုက်ပျိုးခဲ့ဟန်တူသည်။ မြေပဲပင်သည် အထူးမိုးခေါင်ခံသော အသီးအနှံဖြစ်သည့်အတိုင်း မြန်မာနိုင်ငံ အပူပိုင်းဒေသနှင့် အလွန်သင့်လျော်၏။ ထိုကြောင့် မိုးနည်းပါးသော ဒေသများ၌ မြေပဲကို အမြောက်အမြား စိုက်ပျိုးကြသည်။ မြေပဲကို အများအပြား စိုက်ပျိုးသော အရပ်များမှာ မကွေး၊ ပခုက္ကူ၊ မြင်းခြံ၊ မိတ္ထီလာ၊ ရွှေဘို၊ စစ်ကိုင်းနှင့် အောက်ချင်းတွင်းခရိုင်များဖြစ်ရာ၊ မကွေး၊ ပခုက္ကူ၊ မြင်းခြံခရိုင်တို့၌ အထူးတလည် ကြီးကျယ်စွာစိုက်ပျိုးကြသည်။

မြေပဲကို အကြမ်းအားဖြင့် (၁) ပင်ပြန့်မြေပဲ၊ (၂) ပင်ထောင်မြေပဲ ဟူ၍ နှစ်မျိုးနှစ်စား ခွဲခြားနိုင်သည်။ ပင်ပြန့်မြေပဲ၏ အသက်မှာ ၆ လ၊ ၇ လခန့်ရှိ၍ မြန်မာနိုင်ငံအလယ်ပိုင်း မိုးခေါင်ရေရှား အရပ်ဒေသတွင် အကြီးအကျယ်စိုက်ပျိုးကြသည်။ ယင်းကို မြန်မာမြေပဲ ဟူ၍၎င်း၊ ကုလားမြေပဲ ဟူ၍၎င်း ခေါ်ကြသည်။ ပင်ထောင်မြေပဲမှာ အသက်လျင်၍ ၃ လမှ ၃ လခွဲအတွင်း ရိတ်သိမ်းရသည်။ ယင်းကို မိုးအခါ၌၎င်း၊ ဆောင်းအခါ၌၎င်း စိုက်ပျိုးနိုင်သည်။ သို့ရာတွင် အထူးသဖြင့် ဆောင်းရာသီတွင် ကျွန်းမြေများပေါ်၌ ပိုမိုစိုက်ပျိုးကြသည်။ •

မြေပဲသည် ရေဝပ်သော မြေစေးမှ တပါး အခြားမည်သည့်မြေ၌မဆို ဖြစ်ထွန်းသည်။ သို့ရာတွင် သဲဆန်သောမြေကား ပင်ပြန့်မြေပဲအတွက် အကောင်းဆုံးဖြစ်သည်။ ပင်ထောင် မြေပဲအတွက်မှာမူ အနည်းငယ် နုံးဆန်သောမြေသည် အကောင်းဆုံး ဖြစ်သည်။ မြေပဲစိုက်ပျိုးသည့်အခါ မြေကို ထယ်ထိုးဖို့ အရေးကြီးသည်။ သို့ရာတွင် မြေတိုင်းကို ထယ်ထိုးရမည်ဟု တထစ်ချ မမှတ်ယူအပ်ပေ။ မြေသည်မွှနေသော သဲမြေဖြစ်လျှင် ထယ်ထိုးဖို့မလိုဘဲ ထွန်နှင့်ပင် လုံလောက်ပေသည်။

မြေပဲသည် ပေါင်းကို အထူးကြောက်သော အပင် ဖြစ်သည်။ ပေါင်းရှိလျှင် မည်မျှပင် အပင် သန်သော်လည်း ကောင်းစွာ ဥမအုချေ။ ထိုကြောင့် ပေါင်းပင်များကို တကြိမ်မက၊ နှစ်ကြိမ် သုံးကြိမ်ပေါင်းသင်ပေးရသည်။ မြေပဲပင်များကို အတန်းလိုက် စိုက်ပျိုးကြသည်။ အတန်းလိုက်စိုက်သည့်အခါ ပေါင်းစရိတ်သက်သာသည်။ သက်သာခြင်းမှာ အတန်းများ အကြားအကြားတွင် ထွန်ဖြင့် ကြားလိုက်နိုင်သောကြောင့် ဖြစ်သည်။

မြေပဲကို စိုက်ပျိုးပြီး၍ ၇ ရက်မှ ၁၀ ရက်အတွင်း အပင်ငယ်များ ပေါက်လာကြသည်။ ၅ သီတင်း ၆ သီတင်းအတွင်း၌ အပွင့်များ ပွင့်ကြသည်။ ထိုအပွင့်များမှာ သေးငယ်၍ ဝါသောအရောင်အဆင်းရှိလျက် စားတော်ပဲပွင့်များ



မြန်မာနိုင်ငံအလယ်ပိုင်း မကွေးခရိုင်တွင် မြေပဲများကို ဤသို့စံနစ်တကျ စိုက်ပျိုးလျက်ရှိသည်။

ကဲ့သို့ လိပ်ပြာနှင့် ပုံသဏ္ဍာန်တူသည်။ အချိန်တန်၍ အပွင့်များ ကြွေကျသွားသောအခါ ပွင့်တံများ ရှည်ထွက်လာသည်။ ထိုပွင့်တံများသည် မြေကြီးရှိရာ အောက်ဖက်သို့ ထိုးဝင်သွားပြီးနောက် ပွင့်တံ၏ ချွန်ထက်သော အဖျားများသည် အသီးအနှံအဖြစ်ဖြင့် ကြီးပွားလာကြသည်။ မြေပဲပင်သည် စိုက်ပျိုးပြီးနောက် ၅ လမှ ၇ လခန့်ကြာလျှင် အသီးများ ရင့်မှည့်၍လာသည်။ အပင်များရှိ အရွက်များ ခြောက်သွေ့၍လာသောအခါ မြေပဲသိမ်းရန် အချိန်တန်ပြီဖြစ်၏။ တဧကလျှင် မြေပဲတင်းပေါင်း ၃၀ မှ ၄၀ အထိထွက်လေသည်။

မြေပဲကို ဆီအတွက် အများဆုံးစိုက်ပျိုးကြသည်။ သို့ရာတွင် အချို့ကိုမူ သရေစာအဖြစ်ဖြင့် မြေပဲ အစေ့အတိုင်း လူတို့စားသုံးကြသေးသည်။ အနောက်နိုင်ငံများတွင် မြေပဲထောပတ်ခေါ် မြေပဲဆီမှ ပြုလုပ်သော ထောပတ်ကို ဟင်းချက်ရာ၌ အသုံးပြုကြသည်။ မြေပဲမှော်များသည် ကျွဲစာနွားစာအဖြစ် သုံးရန် အလွန်ကောင်းသည်။ မြေပဲဆီကို အမျိုးမျိုး အသုံးပြုနိုင်သောကြောင့် အမြောက်အမြား စိုက်ပျိုးကြသည်။ မြေပဲရိုးတံနှင့် အမြစ်များသည်ပင် မြေဩဇာအတွက် အသုံးပြုနိုင်သည်။

မြေပဲတွင် ပရိုတင်း၊ ကာဗိုဟိုက်ဒရိတ်နှင့် .အဆီများစွာပါရှိသဖြင့်၊အခြားမုံ့ပဲသရေစာများနှင့် အစာများတွင် ထည့်သွင်းသုံးစွဲနိုင်သော အဖိုးတန်အစာတခုဖြစ်သည်။

# မြေပုံဆွဲပုံ နည်းမျိုးစုံ

ကမ္ဘာ့မြေမျက်နှာပြင်ကို ပြသော မြေပုံများမှာ မျက်နှာပြင်ပြ မြေပုံ၊ မြေပြင်လက္ခဏာပြမြေပုံ၊ အနိမ့်အမြင့်ပြမြေပုံဟူ၍ အမျိုးမျိုးရှိသည်။ ဤအကြောင်းရပ်တွင် လုံးနေသော ကမ္ဘာမြေကြီး၏ မျက်နှာပြင်ကို မျက်နှာပြန့်သော မြေပုံပေါ်တွင် မည်သို့ ကြံစည်ဖော်ပြပုံကို တွေ့ရပေမည်။

မြေပုံပညာ။ ။ကမ္ဘာမြေကြီးသည် လုံး၏။ ကမ္ဘာမြေကြီး၏ မျက်နှာပြင်ကို ကမ္ဘာလုံးတခုပေါ်၌ ပြရန် လွယ်ကူသော်လည်း မျက်နှာပြန့်သော မြေပုံပေါ်၌ တင်ပြရန်ကား ခဲယဉ်း၏။ ဘောလုံးတလုံးကို စက္ကူတချပ်ဖြင့် ဖုံးအုပ်သောအခါ စက္ကူကို ပုံအမျိုးမျိုးညှပ်ပြီးမှ ဖုံးအုပ်နိုင်သည်။ သို့ရာတွင် ကတော့ပုံသဏ္ဍာန်ရှိသော အရာတခု၏ မျက်နှာပြင်ကိုမူ စက္ကူများဖြင့် တဆက်တည်း ဖုံးအုပ်လျှင် ဖြစ်နိုင်သည်။ သို့ဖြစ်၍ စက္ကူချပ်ကို ကတော့ပုံပြုလုပ်ပြီးလျှင် လုံးသောကမ္ဘာမြေကြီးကို စက္ကူပြန့်ပေါ်၌ ပြနိုင်သည်။

စက္ကူချပ်ကို ကတော့ပုံ ပြုလုပ်၍ ဘောလုံးကို တနေရာ၌ပတ်ကာ ငုံ၍ဆောင်းအုပ်ပြီးနောက် ထိုစက္ကူချပ်ကို ကြမ်းပေါ်၌အပြားလိုက် ဖြန့်ချနိုင်သည်။ ကမ္ဘာ့မြေပုံကို ရေးဆွဲ




အမှန်ကို ရရှိသော်လည်း ထိုမျဉ်းပြိုင်၏ မြောက်ဖက်နှင့် တောင်တို့တွင်ကား လတ္တီတွဒ်နှင့်လောင်ဂျီတွဒ်တို့ စကေး မမှန်တော့ချေ။ ထိုကြောင့် ဤမြေပုံလုပ်နည်းသည်သဘော လွှင့်သွားရာ၌ အသုံးမဝင်ချေ။

အခြားနည်းတနည်းမှာ အပြားလိုက် တိုက်ရိုက်ရယူနိုင်သည့် မာကေးတားဆိုသူ တီထွင်ခဲ့သော စက္ကူလိပ်နည်းဖြစ်၏။ ထိုနည်းမှာ ကမ္ဘာလုံးကို (ဆလင်ဒါ) လုံးရှည်တွင်းသို့ ထည့်သွင်း၍ မြေပုံပြုလုပ်ခြင်းဖြစ်၏။ လုံးရှည်၏အမြင့်နှင့် ကမ္ဘာလုံး၏အမြင့် တူညီနေလျှင် တောင်နှင့်မြောက်အကွာအဝေး မှန်မည်ဖြစ်သော်လည်း ဝင်ရိုးစွန်းအနီး၌ အရှေ့အနောက်အကွာအဝေး မှားနေမည်ဖြစ်၏။ သို့ဖြစ်၍အောက်ပါအတိုင်း ပြင်ဆင်ရေးဆွဲရသည်။

ကမ္ဘာလုံး၏ အလယ်ချက်မမှ လတ္တီတွဒ် အကွာအဝေးညီမျှသော မျဉ်းများကို စက္ကူလုံးရှည်၏ မျက်နှာပြင်ရောက်အောင် ရေးဆွဲရသည်။ ထိုအခါ လတ္တီတွဒ် ၆၀ နှင့်




ရာတွင် ကမ္ဘာလုံးကို ဟိုဖက်သည်ဖက်မှ ကတော့နှစ်ခုဖြင့် စွပ်၍ အီကွေတာရှိရာ အလယ်ဗဟို၌ ကတော့အဝနှစ်ခုကို ကပ်ထားရသည်။

ဖော်ပြပါ ပုံ ၂ ပုံကိုကြည့်လျှင် ကတော့ပုံဖြင့် မြေပုံ လုပ်နည်းကို ကောင်းစွာ နားလည်ပေလိမ့်မည်။ ပဌမပုံ၌ကတော့သည် ကမ္ဘာလုံးကို မြောက်လတ္တီတွဒ် ၄၀ ဒီဂရီ၌ ထိကပ်လျက်ရှိ၏။ လောင်ဂျီတွဒ် မျဉ်းများကို ကတော့ထိပ်မှ အောက်ခြေသို့ ဆွဲထားသည်။ လတ္တီတွဒ် မျဉ်းများကိုကား ကတော့ထိပ်ကို ဗဟိုထား၍ ဆွဲထားသော စက်ဝိုင်းများ အဖြစ်ဖြင့် ပြထားသည်။

ကတော့စက္ကူကို ဖြန့်လိုက်သောအခါ ဒုတိယပုံ၌ ပြထားသည့်အတိုင်း မြေပုံကိုရရှိ၏။ ထိုမြေပုံ၌ မီရီဒီယန်ခေါ် လောင်ဂျီတွဒ်မျဉ်းများနှင့် ၄၀ ဒီဂရီ မျဉ်းပြိုင်တလျှောက်၌ စကေး





၇၅ ဒီဂရီတို့အကြားရှိ အကွာအဝေးသည် အီကွေတာနှင့် ၁၅ ဒီဂရီတို့အကြားရှိ အကွာအဝေးထက် များစွာကြီးမားလာ၍ မီရီဒီယန်လမ်းကြောင်းနှင့်မျဉ်းပြိုင်တို့မှာ မည်သည့်နေရာ၌မဆို ထောင့်မှန်ကျနေလေသည်။ စာမျက်နှာ ၃၉၉ ရှိ ယာပုံတွင်မာကေးတား မြေပုံထုတ်နည်းကို ပြထား၍ စာမျက်နှာ ၄၀၁ အပေါ်ပုံ၌ကား စက္ကူပြန့်ပေါ်၌ မာကေးတားမြေပုံကို ပြထားသည်။ ဤအထက်ပါ နည်းနှစ်နည်းသည် မြေပုံပြုလုပ်ရာတွင် လူသိအများဆုံးနှင့် အလွယ်ကူဆုံးနည်းများ ဖြစ်ပေသည်။



သေချာတိကျစွာရေးဆွဲပြီးမြေပုံကို ခဲတပ်ပုံရိုက်ကူးပြီးနောက် ပုံနှိပ်ဖြန့်ချိရန် ဘလောက်ပြုလုပ်စဉ်

ကမ္ဘာပေါ်၌ ရှေးအကျဆုံး မြေပုံများမှာ ဗက်ဗီလုံ လူမျိုးတို့၏မြေပုံဖြစ်၏။ လွန်ခဲ့သော နှစ်ပေါင်း ၄,၀၀၀ ကျော်က ဗက်ဗီလုံတို့ ပြုလုပ်သော ရှံ့စေးချပ်မြေပုံများကို ယခုအခါ လန်ဒန်မြို့ရှိ ဗြိတိသျှပြတိုက်ကြီး၌ သိမ်းဆည်းထားသည်။ ခရစ်၁၅၀ပြည့်နှစ်လောက်ကထင်ရှားခဲ့သောတော်လမီခေါ် အီဂျစ်ပထဝီဝင်ဆရာကြီး၏ မြေပုံများသည်လည်းသူ့ခေတ်နှင့်စာသော် အထူးကောင်းမွန်သည်ဟု ဆိုရပေမည်။

ကမ္ဘာ့မြေမျက်နှာပြင်ကို ပြသောမြေပုံများမှာ မျက်နှာပြင်ပြ မြေပုံ၊ မြေပြင် လက္ခဏာပြမြေပုံနှင့် ကွန်တို ခေါ် အနိမ့်အမြင့်ပြ မြေပုံဟူ၍ အမျိုးမျိုးရှိသည်။ ကွန်တိုမြေပုံများမှာ အနိမ့်အမြင့် အတိုင်းအတာတို့ကို မျဉ်းကြောင်းအမှတ်အသားဖြင့်ပြ၍ မည်သည့်မျဉ်းကြောင်းနေရာ၌ မည်မျှ မြင့်သည်ကို မြေပုံကြည့်ကာမျှဖြင့် **အလွယ်တကူ** သိနိုင်သည်။

ယခုခေတ်၌ လူများသည် ကမ္ဘာပေါ်ရှိ နေရာအသီးအသီးသို့ ခြေရာချင်းထပ်မျှ ရောက်ခဲ့ကြပြီးဖြစ်၍ ရေးဆွဲသော မြေပုံတို့မှာလည်း အလွန်ကောင်းမွန် သေသတ်ပြီးလျှင် အသေးစိတ် အားဖြင့်လည်း မှန်ကန်သည်ထက် မှန်ကန်လာခဲ့လေသည်။ မြေပုံပေါင်းချုပ်များ၌ ကမ္ဘာပေါ်ရှိ ရာသီဥတု၊ ကောက်ပဲသီးနှံ၊ ပကတိအပင်မျိုး၊ အယူဝါဒ၊ ဘာသာစကား၊ လမ်းပန်းအဆက်အသွယ်နှင့် အလုပ်အကိုင်များ၊ လူဦးရေစသည်တို့ကို မြေပုံပေါ်တွင်ဖော်ပြထားသည်။ တိုင်းပြည်အသီးအသီး၏ မြေမျက်နှာသွင်ပြင်နှင့် မြို့ရွာ၊ မီးရထားလမ်းများကို ပြထားသောမြေပုံများလည်းရှိသည်။ ယခုအခါ၌မူ လူတို့သည် လေယာဉ်ပျံများပေါ်မှ ခဲတပ်ပုံရိုက်၍ မြေပုံများကို ပြုလုပ်လျက် ရှိကြလေပြီ။

**မြေပုံမြို့။** ။မြေပုံမြို့သည် မြန်မာနိုင်ငံ ရခိုင်တိုင်း၊ ကျောက်ဖြူခရိုင်တွင် ပါဝင်သော မြေပုံမြို့နယ်၏ ရုံးစိုက်မြို့ ဖြစ်သည်။ မြေပုံမြို့သည် ဟန်းတား ပင်လယ်အော် ကမ်းခြေရှိ ကျွန်းကလေး တခုပေါ်တွင် တည်ရှိသည်။ ကျောက်ဖြူမြို့မှ ရေ

ကြောင်းဖြင့် ၆၅ မိုင်ဝေး၍ စစ်တွေမြို့မှ မိုင် ၆၀ အကွာတွင် တည်ရှိသည်။ မြို့နယ်အကျယ်အဝန်းမှာ ၇၆၆ စတုရန်းမိုင်ရှိ၍ ကျေးရွာပေါင်း ၅၇ ရွာ ပါဝင်ပြီးလျှင် ၁၉၅၆ ခုနှစ်တွင် ခန့်မှန်းခြေအားဖြင့် လူဦးရေ ၃၆,၄၇၄ ယောက်ရှိသည်။ မြေပုံမြို့နယ်တွင် ဗုဒ္ဓဝါဒီ အများအပြား နေထိုင်ကြ၍ လူဦးရေ၏ အများစုဖြစ်သည်။ နတ်ကိုးကွယ်သော ချင်းလူမျိုးလည်း ပြောက်တိ ပြောက်ကျား နေထိုင်သည်။ ၁၉၅၃ ခုနှစ် သန်ကောင်စာရင်းအရ မြေပုံမြို့၏လူဦးရေမှာ ၃,၄၉၂ ယောက်ခန့် ဖြစ်သည်။

မြေပုံမြို့နယ်သည် မြေမျက်နှာပြင်အားဖြင့် တောင်ကုန်းထူထပ်သည်။ ထိုကြောင့် လူနေကျဲသည်။ မြေပြန့်ပိုင်းတွင် မြစ်ငယ်ချောင်းငယ်များ ပေါများ၍ ရေလမ်းခရီး အဆက်အသွယ်ကောင်းမွန်သည်။

မြေပုံမြို့နယ်တွင် လယ်ယာစိုက်ပျိုးသူများလည်းရှိသည်။ များသောအားဖြင့်မူကား ငါးဖမ်းခြင်းဖြင့် အသက်မွေးကြလေသည်။

မြေဖြူ။ ။မြေဖြူ (ထုံးကျောက်ဖြူ)သည် များသောအားဖြင့် အဖြူရောင်ရှိသော ထုံးကျောက် တမျိုးဖြစ်၍၊ ဓါတုဗေဒ အလိုအရ ကယ်လဆီယမ် ကာဗွန်နိတ် ၉၄ ရာခိုင်နှုန်းခန့်အထိ ပါဝင်တတ်သည်။ မွဲပြာရောင် သန်းနေသော မြေဖြူများလည်းရှိ၏။ ထုံးကျောက်တမျိုး ဖြစ်သော်လည်း အပျော့စား ဖြစ်သဖြင့် ကျစ်လျစ်ခြင်း မရှိဘဲ ပွသောသဘောရှိ၍ ညက်ညောသည်။ ချေမွ ထားသော မြေဖြူကို လက်ဖြင့် ကိုင်ကြည့်လျှင် လက်တွင်စွန်းထင်တတ်သည်။ ယခု ကျွန်ုပ်တို့သုံးစွဲလျက်ရှိသော မြေဖြူများမှာ လွန်ခဲ့သည့်နှစ် သန်းပေါင်းများစွာက ပင်လယ်သမုဒ္ဒရာထဲတွင် ကျက်စားလာခဲ့ကြသော ဖော်ရာမင်နီဖာရာခေါ် ရေသတ္တဝါ ကလေးတို့၏ အခွံများမှ ဖြစ်လာသည့် ပစ္စည်းပင်ဖြစ်သည်။

အဆိုပါ သတ္တဝါကလေးများသည် အရွယ်အားဖြင့် အလွန်သေးငယ်သောကြောင့် မိုက္ကရိုစကုပ်ခေါ် အဏုကြည့်မှန်ပြောင်းဖြင့် ကြည့်မှသာ တကောင်ချင်း မြင်နိုင်သည်။ အသက်ရှင်လျက်ရှိစဉ်က ဤသတ္တဝါကလေးတို့သည် ပင်လယ် ရေမျက်နှာပြင်နားတွင်ကပ်၍ အုပ်သင်းဖွဲ့ကာနေထိုင်လှော့ရှိကြသည်။ သို့သော် သေဆုံးသွားသောအခါ ယင်းတို့၏ အခွံများသည် ရေအောက်သို့ အနည်ထိုင်ဆင်းသွားသည်။ ဤနည်းဖြင့် တဖြည်းဖြည်း များပြားစုပုံလာရာမှ ကာလကြာညောင်းသော် အထက်မှ ရေထု၏ဖိအားအလေးကြောင့် ယင်းတို့၏အခွံများသည် ကြေမွပြီးလျှင် အစိုင်အခဲအဖြစ်သို့ ပြောင်းလဲသွားကာ မြေဖြူဖြစ်လာသည်။ ပဥ္စမ



အင်္ဂလန်ပြည် အရှေ့တောင်ပိုင်းရှိ မြေဖြူကျောက်ဆောင်ကြီးများ



မြေဖြူသည် နူးညံ့ပျော့ပျောင်းမြီးလျှင် အရောင်ဖြူသည့် ထုံးကျောက်တမျိုးဖြစ်သည်။

တွင် မြေဖြူသည် ရေအောက်မှာပင် နှစ်မြုပ်၍ တည်ရှိ၏။ နှစ်ပရိစ္ဆေဒများစွာကြာပြီးမှ၊ ရေခန်းခြောက်ခြင်း၊ လျှော့ခြင်း၊ မီးတောင်ပေါက်ကွဲခြင်း စသော အကြောင်းများကြောင့် ရေပေါ် သို့ ကုန်းသစ်အဖြစ်ဖြင့် တဖြည်းဖြည်း ပေါ်ထွန်းလာသည်။ ကမ္ဘာအရပ်ရပ်ရှိ မြေဖြူတောင် မြေဖြူကမ်းပါးများမှာ ဤနည်းအတိုင်း ပေါ်ပေါက်လာကြခြင်းပင် ဖြစ်လေသည်။ ထိုသတ္တဝါကလေးများသည် ယခုတိုင်အောင် အထူးသဖြင့် အပူပိုင်းဇုန်ရှိ ပင်လယ်သမုဒ္ဒရာများ၌ မျိုးမသုန်းသေးဘဲ ပေါက်ပွားလျက်ရှိကြ၏။ ပင်လယ်သမုဒ္ဒရာအောက်မှ ရွှံ့နွံများကို တူးဖော်၍ စစ်ဆေးကြည့်လျှင်၊ ယင်းတို့၏ အခွံများကို ကောင်းစွာ တွေ့နိုင်သည်။ ထိုအခွံများသည် အချိန်တန်သော် အထက်ပါအတိုင်း မြေဖြူ ဖြစ်လာပြီးနောက် နှောင်းခေတ်လူများ တူးဖော် အသုံးချနိုင်အောင် ရေပေါ် သို့ ပေါ်တက်လာဖွယ်ရာ အကြောင်းရှိလေသည်။

မြေဖြူသည် လူတို့အဖို့ အမျိုးမျိုး အသုံးဝင်သည်။ မြေဖြူကို ခဲအောင် ပြုလုပ်ခြင်းဖြင့် ကျောင်းများတွင် အသုံးပြုသည့် မြေဖြူတောင့်များနှင့် အရုပ်ရေးရန် ဆေးတောင့်များကိုရသည်။ မဖောက်ထုံး၊ အင်္ဂတေ၊ ဗိလတ်မြေ၊ သွားတိုက်ဆေး၊ ခြယ်ဆေး၊ ပလာစတာ၊ မြေသြဇာ၊ ပတ္တီး (ထေးဧး)နှင့် အရောင်တင်ဆေးမှုန့်များကို မြေဖြူမှ ပြုလုပ်ကြရသည်။ မြေဖြူကို ရာဗာကြက်ပေါင်စေးဖြင့် ပြုလုပ်သော အထည်ပစ္စည်းများတွင်လည်း အသုံးပြုရ၍၊ သန့်စင်သောမြေဖြူကိုမူ ဆေးဖက်တွင် အသုံးချရလေသည်။

မြေဖြူကို အင်္ဂလန်နှင့် ပြင်သစ်နိုင်ငံများတွင် အမြောက်အမြားတွေ့ရ၍ အမေရိကန်ပြည်ထောင်စု၌ အတော်အသင့်များပြားစွာ တွေ့ရသည်။ တနှစ်လျှင် အင်္ဂလန်တနိုင်ငံတည်းမှ မြေဖြူတန်ချိန် ၅ သန်းနီးပါးထွက်၏။ ထိုအနက် အထူးသဖြင့် ကင့်နယ်မှ ထွက်သည့် မြေဖြူမှာ အကျော်ကြားဆုံး ဖြစ်လေသည်။

မြေမျက်နှာပြင် ပထဝီဝင်။ ။ကမ္ဘာမြေကြီး၏ မျက်နှာပြင်သည် စည်မျက်နှာပြင်ကဲ့သို့ ညီညာချောမွတ်နေသည် မဟုတ်ဘဲ၊ တောင်၊ တောင်ကြား၊ မြစ်ဝှမ်း၊ ကုန်းမြင့်၊ လွင်ပြင် စသည်တို့ဖြင့် အတက်အဆင်း၊ အဟိုက်အမောက်၊ အဖုအထစ်တို့ဖြင့် တန်ဆာဆင်လျက်ရှိ၏။ ထိုအတူ တိုက်ကြီးတတိုက်၏ ပင်လယ်ကမ်းရိုးတန်းသည်လည်း စက္ကူသားကို ဓားဖြင့် လှီးဖြတ်ထားသကဲ့သို့ တိတိညီညာသည် မဟုတ်ဘဲ ပင်လယ်ကွေ့၊ ပင်လယ်အော်၊ ကျွန်းဆွယ်၊ အငူ၊ ကျွန်းဆက် စသည်တို့ဖြင့် အဖျားကိုလျှောက်ကာ ခြကိုက်၍ထားသော အဝတ်စတစကဲ့သို့ အလိမ်အတွန့် အကွေ့အကောက်တို့ဖြင့် ပြည့်လျက် ရှိပေသည်။

မြေမျက်နှာပြင် ပထဝီဝင်သည် သဘာဝ အကြောင်းတရားများကြောင့် ကမ္ဘာ့မြေမျက်နှာသွင်ပြင် ပြောင်းလဲပုံ

ကို လေ့လာသော ပညာရပ်ဖြစ်သည်။ ဤပညာရပ်၌ ကျွန်ုပ်တို့သည် ရေနှင့် လေတို့က ကမ္ဘာကြီး၏ မြေမျက်နှာသွင်ပြင်ကို မည်သို့မည်ပုံ ပြုပြင်ပြောင်းလဲကြောင်း လေ့လာကြရသည်။ ကမ္ဘာ့မြေမျက်နှာသွင်ပြင် ပြောင်းလဲလာပုံကို သုံးမျိုးသုံးစားခွဲခြားနိုင်၏။ ယင်းတို့မှာ (၁) ကမ္ဘာမြေကြီး အမြဲ အထက်အောက် လှုပ်ရှားနေသဖြင့် ဖြစ်ပေါ်လာသော ပြောင်းလဲချက်များ၊ (၂) မီးတောင်နှင့် စပ်လျဉ်း၍ ဖြစ်ပေါ်လာသည့် လှုပ်ရှားမှုမှ အပြောင်းအလဲများ၊ (၃) ရေ၊ မြေ၊ ကျောက်တုံး ကျောက်ခဲ စသည်တို့ တနေရာမှတနေရာသို့ပြောင်းရွှေ့သဖြင့်ဖြစ်ပေါ်လာသောပြောင်းလဲချက်တို့ ဖြစ်လေသည်။

မြေကြီးလှုပ်ရှားသဖြင့် ပင်လယ်ကမ်းခြေတခုနှင့် ထောင့်မှန်ကျသည့် အရပ်တခုတွင် မြစ်၌ သဲသောင်များ ထွန်းသကဲ့သို့ ရေအောက်မြေများ တဖြည်းဖြည်း မြင့်တက်လာခဲ့လျှင် ကျွန်းဆွယ်ဖြစ်ပေါ်လာတတ်၏။ ထိုအတူ ပင်လယ်ကမ်းရိုးတန်းတခုသည် ပင်လယ်ရေပြင်အောက်သို့ နစ်မြုပ်သွားခဲ့လျှင် ချိုင့်ဝှမ်းအောက်ပိုင်းသို့ ပင်လယ်ရေဝင်၍ ပင်လယ်အော်ဖြစ်ပေါ်လာတတ်၏။ ဤနည်းဖြင့် ကျွန်းဆွယ်များဖြစ်လာခြင်း ပင်လယ်အော်များ ဖြစ်လာခြင်းတို့မှာ ပဌမအကြောင်းအချက် ဖြစ်သော မြေကြီးလှုပ်ရှားခြင်းနှင့် သက်ဆိုင်သည်။

သမုဒ္ဒရာအောက်၌ မီးတောင် လှုပ်ရှားသကဲ့သို့ လှုပ်ရှားခြင်းမျိုး ဖြစ်၍ တဖြည်းဖြည်း မြေကြီးကြွတက်လာပြီးလျှင် နောက်ဆုံး၌ ကျွန်းဖြစ်ပေါ်လာတတ်၏။ ဤသို့ ကျွန်းဖြစ်ပေါ်လာခြင်းမှာ ဒုတိယအချက်နှင့် သက်ဆိုင်သည်။

မြစ်သည် ကုန်းမှ မြေဆီလွှာများ၊ သဲများ၊ ကျောက်စရစ်များ၊ အမှိုက်သရိုက်များကို ပင်လယ်သို့ သယ်ယူသွား၏။ ထိုအခါ ကုန်းမှာ တဖြည်းဖြည်းရေစား၍ ပင်လယ်အောက်ရှိမြေပြင်သည် တဖြည်းဖြည်းမြင့်တက်လာ၏။ ထိုအတူ ရေခဲမြစ်များသည်လည်း ပူသောရာသီ၌ အရည်ပျော်၍ စီးဆင်းကြရာ၊ မြစ်ညာရှိအရာဝတ္ထုများကို မိမိတို့စီးဆင်းသည့်နေရာသို့ သယ်ယူခဲ့ကြ၏။ ယင်းတို့သည် အချို့နေရာ၌ ကုန်းကိုတိုက်စားခဲ့၍ အချို့နေရာ၌ ကုန်းကိုမြင့်တက်စေ၏။ ဤနည်းအားဖြင့် မြေမျက်နှာပြင် မညီမညာ ဖြစ်လာခြင်းသည် တတိယအချက်နှင့် သက်ဆိုင်သည်။

ကမ္ဘာ့မြေမျက်နှာပြင်ကို လွင်ပြင်၊ ကုန်းမြေမြင့်၊ တောင်တန်း ဟူ၍ အကြမ်းဖျင်း ၃ ပိုင်း ပိုင်းခြားထားသည်။ တိုက်ကြီးများတွင် အများအားဖြင့် ပင်လယ်ကမ်းရိုးတန်း တလျှောက်၌ ကမ်းရိုးတန်း လွင်ပြင်များ ရှိတတ်သေးရာ၊ အတွင်းကျသော လွင်ပြင်များမှာ ထိုကမ်းရိုးတန်း လွင်ပြင်များထက် မြင့်တတ်ကြလေသည်။ လွင်ပြင်များမှာ လူတို့အတွက် အဖိုး အထိုက်တန်ဆုံးဖြစ်၏။ အဘယ်ကြောင့်ဆိုသော် အများဆုံးသော ကမ္ဘာ့လူဦးရေသည် လွင်ပြင်များ၌ နေထိုင်ကြသည်။ တရုပ်နိုင်ငံနှင့် အိန္ဒိယနိုင်ငံ၊ ဥရောပတိုက် အလယ်ပိုင်း၊ ဂရိတ်ဗြိတိန်ကျွန်းစု၊ မြောက်အမေရိက အလယ်ပိုင်း၊ ရုရှနိုင်ငံတို့မှာ လူနေအိမ်ခြေများ အထူထပ်ဆုံး ဖြစ်၍ ယင်းတို့သည် ကျယ်ပြန့်သော လွင်ပြင်ကြီးများပင် ဖြစ်သည်။ လူများသည် ကျယ်ပြန့်သောနေရာ၊ သွားလမ်းလာလမ်း ကောင်းသောနေရာများကို နှစ်သက်ကြသည့်အတိုင်း လွင်ပြင်များ၌ လူဦးရေ ထူထပ်ရလေသည်။

လွင်ပြင်များ ကောင်းကျိုးပေးသလောက် တောင်များသည် ဆန့်ကျင်ဖက် အကျိုးများကို ဖြစ်ထွန်းစေ၏။ ခရီးသွားရန်ခဲခက်စေ၏။ လူတမျိုးနှင့်တမျိုး ခွဲခြား၍ထား၏။ ကူးသန်း ရောင်းဝယ်ရေးကို ပိတ်ပင်တားဆီးထား၏။

လွင်ပြင်များတွင် သစ်ပင်ဟူ၍ ပြောပလောက်အောင် မရှိသော မြက်ခင်း လွင်ပြင်ကြီးများလည်း ရှိပေသေးသည်။ ယင်းတို့မှာ အလွန်ဆုံး ကျွဲအုပ်နွားအုပ်သိုးအုပ်များကျောင်းရန်လောက်သာ အသုံးဝင်၏။ အာတိတ်သမုဒ္ဒရာ၏ တောင်ဖက် တန်ဒြာခေါ် လွင်ပြင်ကြီးများ၊ ဥရောပတိုက်နှင့် အာရှတိုက်ရှိ စတက် ခေါ် လွင်ပြင်ကြီးများ၊ တောင်အမေရိကတိုက်မှ လျာနိုခေါ် မြက်ကွင်းပြင်ကြီး၊ မြောက်အမေရိကတိုက်မှ ပရေရီခေါ် လွင်ပြင်များ၊ တောင်အမေရိကတိုက်တောင်ပိုင်း၊ အာဂျင်တီးနားနိုင်ငံရှိ ပမ်းပပ်ခေါ် လွင်ပြင်များနှင့် အာဖရိကတိုက် ဆဗားနားခေါ် လွင်ပြင်များသည် နေရာ ပြန့်ပြောကျယ်ဝန်းသလောက် လူတို့အသုံးမပြုနိုင်သော နေရာများဖြစ်၏။ သို့ဖြစ်၍ လွင်ပြင်များသည် ရေမြေ ဥတု ကောင်းမွန် ညီညွတ်မှသာ အဖိုးထိုက်တန်၏။

ကုန်းမြေမြင့်ဆိုသည်မှာ အနီးအပါးရှိ လွင်ပြင်များထက် မြင့်၍ တောင်များလောက်လည်း မမြင့်သော နေရာကို ဆိုလိုသည်။ အချို့လွင်ပြင်များမှာ ပင်လယ်မျက်နှာပြင်ထက် ပေ ၅၀၀၊ ၆၀၀ ခန့်သာမြင့်သော်လည်း အနီးပတ်ဝန်းကျင်ရှိ မြေပြင်နှင့် နှိုင်းစာသော် ကုန်းမြေမြင့် ဟူ၍ပင် ခေါ်ရ၏။ သို့ဖြစ်၍ လွင်ပြင်မှာ မည်မျှလောက် မြင့်ရမည်၊ ကုန်းမြေမြင့်မှာ မည်မျှလောက် မြင့်ရမည် စသည်ဖြင့် အမြင့်အတိုင်းအထွာကို အတိအကျ ကန့်သတ်ထားချက် မရှိချေ။ ကုန်းမြေမြင့်များ ဖြစ်ပေါ်လာခြင်းမှာ မြေကြီးသည် ပတ်လည်ဝိုင်းလျက်ရှိသော မြေပြင်ထက် အတန်ငယ် ကြွတက်လာခြင်းကြောင့်သော်၎င်း၊ ဘေးပတ်လည်ရှိ မြေများ ပို့ဆင်းသွားသောကြောင့်သော်၎င်း ဖြစ်ပေါ်လာတတ်၏။ တခါတရံလည်း မီးတောင်တခုမှ ချော်ရည်များသည် ကျယ်ပြန့်သော လွင်ပြင်ပေါ်၌ ညီညာစွာ ကျရောက်ပြီးလျှင် နှစ်ပရိစ္ဆေဒကြာမြင့်သောအခါ ကုန်းမြေမြင့် ဖြစ်လာတတ်လေသည်။

တောင်များမှာမူ ကမ္ဘာကြီး၏ အပေါ်ယံ မြေလွှာများ လိပ်တက်လာခြင်းကြောင့်သော်၎င်း၊ မြေကြီး၏ အတွင်းရှိ

မြေသားများ ကြွတက်လာခြင်းကြောင့်သော်၎င်း၊ မီးတောင်များ ပေါက်ကွဲခြင်းကြောင့်သော်၎င်း ဖြစ်ပေါ်လာတတ်၏။

ရေသည် မြင့်ရာမှနိမ့်ရာသို့ စီးဆင်းသည့်အတိုင်း ထိုလွင်ပြင်များ၊ တောင်များ၊ ကုန်းမြေမြင့်များ၌ ချောင်းကြီး၊ မြောင်းကြီး၊ မြစ်ကြီးများ ဖြစ်ပေါ်စေ၍ ယင်းတို့ထက်နိမ့်သောနေရာ ပင်လယ်ထဲသို့ စီးဝင်၏။ ထိုမြစ်ကြီး ချောင်းကြီးများသည် ချိုင့်ဝှမ်းကြီးများဖြစ်ပေါ်စေ၍ မြေများကို တဖြည်းဖြည်း တိုက်စားသွားရာ ချိုင့်ဝှမ်းများ တခုနှင့်တခု အကြားတွင် မြေမြင့်များ ဖြစ်၍ ကျန်ရစ်ခဲ့၏။ ဤသို့ဖြင့် ထိုမြေမြင့်များမှာ တောင်ရိုးတန်းကဲ့သို့၎င်း၊ တောင်ကုန်းကဲ့သို့၎င်း ဖြစ်ပေါ်လာ၏။ ဤသို့ တနေရာမှ တနေရာသို့ ရေစီးခြင်းအားဖြင့်လည်း တောင်များ ပေါ်ပေါက်လာရလေသည်။

လေနှင့်ရေများတိုက်ခတ်စားသွားခြင်းအားဖြင့် တောင်တခု၏ မျက်နှာပြင်သည် တဖြည်းဖြည်း ပြောင်းလဲတတ်ပေရာ၊ ရေစားလေလေ ချိုင့်ဝှမ်းရာအရပ်တို့မှာ နိမ့်ရှိုင်းလေလေဖြစ်ပြီးလျှင်၊ မြစ်ဝှမ်းနှင့် တောင်ကြားများနက်လေလေ၊ တောင်တန်းများ၊ တောင်ကုန်းများမှာ မြင့်လေလေ ဖြစ်ကြောင်း တွေ့ရှိရလေသည်။

မြစ်ဝှမ်းများသည် အမြဲကျယ်သည်ထက် ကျယ်လာလျက်ရှိ၏။ ကမ်းပါးများသည် ရေအဟုန်ကြောင့် ပြိုကျ၏။ မူလက မြင့်နေသောကမ်းပါးသည် မိုးရွာသောအခါ ရေစား၍ နိမ့်သွားတတ်၏။ မြေကြီးသည် ရေစိုသောအခါ အလိုလိုလေးလာ၍ ပြိုကျတတ်၏။ မြစ်ဝှမ်း နက်ရှိုင်းလာခြင်း၊ ကျယ်လာခြင်းဟု နှစ်မျိုးရှိရာ နက်ရှိုင်းလာခြင်းက ကျယ်လာခြင်းထက် မြန်လျှင်၊ ချိုကြီးများ၊ ချောက်ကြီးများ ဖြစ်ပေါ်လာတတ်ပေသည်။

မြစ်ကြီးများသည်လည်း ပင်လယ်ကမ်းခြေနှင့် နီးလာသောအခါ အတန်ငယ် ရေစီးတန့်သွား၍ အနည်ထိုင်ကာ နုံးတင်မြေများ ဖြစ်ပေါ်လာတတ်၏။ ထိုနေရာများကို မြစ်ဝကျွန်းပေါ်ဟု ခေါ်သည်။ ကျွန်ုပ်တို့မြန်မာနိုင်ငံ တောင်ပိုင်း ပုသိမ်၊ မြောင်းမြ အစရှိသော ဧရာဝတီမြစ်ဝကျွန်းပေါ် ဒေသများကဲ့သို့သော ဒေသများသည် ကောက်ပဲသီးနှံများ အထူးဖြစ်ထွန်းသည့် ဒေသများ ဖြစ်ပေသည်။ မြစ်ကြီး ချောင်းကြီးများ၌ အနည်ထိုင်ခြင်း၊ မြေမှုန့်ကျောက်မှုန့်များကို တောင်များပေါ်မှ ယူဆောင်လာခဲ့ခြင်းနှင့် စပ်လျဉ်း၍ သာမန်မျက်စိဖြင့် ကြည့်လျှင် မပြောပလောက်ဟု မှတ်ထင်ရသော်လည်း စူးစမ်းရှာဖွေသူများ၏ တွက်ချက် ခန့်မှန်းခြေအရ မြောက်အမေရိကတိုက်ရှိ မက္ကဆီကိုပင်လယ်ကွေ့ထဲသို့ စီးဝင်သော မစ်စစ်စပီမြစ်ကြီးသည် တနှစ်လျှင် တန်ချိန် သန်းပေါင်း ၄၀၀ မျှသော အပေါ်ယံမြေဆီလွှာများကို သမုဒ္ဒရာထဲသို့ သယ်ဆောင်လာသည်။

သမုဒ္ဒရာအောက်ရှိ မြေမျက်နှာပြင်၌လည်း လွင်ပြင်၊ ကုန်းမြင့်၊ တောင်နှင့် ချိုင့်ဝှမ်းကြီးများရှိ၏။ သမုဒ္ဒရာအောက် မြေမျက်နှာပြင်ကို ပြုပြင်ဖန်တီးပေးသော အရာကား အများအားဖြင့် မီးတောင်လှုပ်ရှားမှုဖြစ်၏။ ရေနှင့်လေတို့သည် ကုန်းပေါ်မှာကဲ့သို့ ပင်လယ်အောက်ရှိ မြေပြင်ကို ပြုပြင်ပြောင်းလဲပေးနိုင်သော အစွမ်းမရှိကြချေ။ သို့ဖြစ်၍ ပင်လယ်အောက်မြေပြင်သည် တိုက်ကြီးများ၏ မြေမျက်နှာပြင်နှင့်စာသော် ကုန်းမြင့်ချိုင့်ဝှမ်းနည်းပါးသည်ဟု ဆိုရမည်ဖြစ်ပေသည်။

## မြေလူးငှက်။

။မြေလူးငှက်မျိုးတွင် ပါဝင်သောငှက်မျိုးပေါင်း မြောက်မြားစွာ ရှိ၍ ယင်းတို့အားလုံးသည် တာဒိဒီး မျိုးရင်းတွင် ပါဝင်ကြသည်။ များသောအားဖြင့် မြေလူးငှက် ဟု သိမ်းကျုံးခေါ်ဝေါ်ကြသော်လည်း အမည်ထူးသော ငှက်အစားစား ရှိကြသည်။

မြေလူးငှက် မျိုးမှာ တာဒိဒီး မျိုးရင်းခွဲတွင် ပါဝင်၍ အခြားမြေလူးငှက်မျိုးနှင့်မတူဘဲ ကိုယ်လုံးကိုယ်ထည် အနည်းငယ်ကြီးသည်။ မြေလူးငှက်သည် ဆောင်းရာသီတွင် အအုပ်အသင်းနှင့် နေကြသည်။ မြန်မာနိုင်ငံရှိ မြေလူးငှက်



ငှက်သူခိုးဟူ၍၎င်း၊ ဗိုလ်တဲငှက်ဟူ၍၎င်း ခေါ်တွင်သည့်မြေလူးငှက်

များသည် များသောအားဖြင့် တနေရာတည်းတွင် အမြဲ တမ်းမနေဘဲ ဒေသပြောင်းရွှေ့ နေတတ်ကြသည်။ သစ်သီးနှင့် ပိုးမွှားများကို စားသောက်ကြသည်။ မြေလူးငှက်သည် မြေကြီးပေါ်၌သာ ကျက်စားလေ့ရှိ၏။ ခြေတံရှည်သောကြောင့် ခုန်ဆွခုန်ဆွနှင့် လျင်မြန်ဖျတ်လတ်စွာ သွားနိုင်ကြသည်။ မြေလူးငှက်များကို ကမ္ဘာအနှံ့အပြားတွင် တွေ့ရှိရကာ၊ အရွယ်အစားနှင့် အသွေးအရောင်မှာ အမျိုးမျိုးကွဲပြားကြသည်။ အလျား ၇ လက်မမှ ၁၁ လက်မအထိ အရွယ်အစားစားဖြစ်၏။ အချို့သည် သာယာနာပျော်ဖွယ် ကောင်းအောင် လေချွန်တတ်၏။ အချို့သည် ချိုအေးသာယာစွာလည်း မြည်ကြွေးတတ်သည်။ မြေလူးငှက် မျိုးမှန်၏ အရောင်မှာ တရောင်တည်း ဖြစ်သော်လည်း များသောအားဖြင့် ရင်အုပ်တွင်အပြောက်အစက်ကလေးများရှိသည်။

မြန်မာနိုင်ငံတွင် ထင်ရှား၍ လူသိများသော မြေလူးငှက်တမျိုးမှာ ငှက်သူခိုးဖြစ်သည်။ ဗိုလ်တဲနှင့် အခြားအဆောက်အအုံများ၏ ခေါင်မိုးတွင် နားလေ့ရှိသောကြောင့် ဗိုလ်တဲငှက် ဟုလည်း ခေါ်သည်။ (ငှက်သူခိုး — ရှု။)


မြေပေါ်တွင် ခုန်ဆွခုန်ဆွနှင့် လျင်မြန်ဖျတ်လတ်စွာ သွားနိုင်သည့် မြေလူးငှက်


**မြန်မာနိုင်ငံ၊ အိန္ဒိယနိုင်ငံနှင့် သီဟိုဠ်နိုင်ငံများတွင်သာ တွေ့ရ၍ ငှက်ပြင်းဟုလည်းခေါ်ကြသည့် မြေဝပ်ငှက်**

**မြေဝပ်ငှက်မျိုး။** ။မြေဝပ်ငှက်မျိုးသည် ကက်ပရီမာလဂျီဖောမီး မျိုးစဉ်တွင် ကက်ပရီမာလဂျီဒီး မျိုးရင်း၌ ပါဝင်၍ အာတိတ်နှင့် အန္တာတိတ် ဒေသများနှင့် နယူးဇီလန်ကျွန်းအပါအဝင် ကျွန်းအများအပြားတို့မှ လွဲ၍ တကမ္ဘာလုံးလိုလို၌ တွေ့ရ၏။ မြန်မာနိုင်ငံ၊ အိန္ဒိယနိုင်ငံနှင့် သီဟိုဠ်နိုင်ငံတို့တွင်သာတွေ့ရ၍ ပါဏဗေဒအလိုအားဖြင့် ကက်ပရီမာလဂပ် အေရှာတီကပ် ဟု ခေါ်သည့် မြေဝပ်ငှက်ကို ငှက်ပျင်း ဟုလည်း ခေါ်ကြသည် အလျား ၉ လက်မရှိ၍ အရောင်မှာ အညိုရောင်ဖြစ်သည်။ တောက်-တောက်-တောက် ဟူသော အသံမျိုးဖြင့် အော်တတ်သည်။

မြေဝပ်ငှက်သည် တောနက်မှာထက် သီးနှံစိုက်လယ်တောယာတောနှင့် ခြောက်သွေ့ ရှင်းလင်းသော တောများတွင် ပို၍ကျက်စားလေ့ရှိသည်။ နွေရာသီ၌ မြို့ရွာအနီးအနားတွင် ထိုငှက်တို့၏ အော်သံကို ကြားရတတ်သည်။

မြေဝပ်ငှက်များ သားပေါက်ချိန်မှာ ဖေဖွာရီလမှ ဧပြီလအတွင်း ဖြစ်သည်။ တကြိမ်လျှင် နှစ်ဥသာ အစ်၍ ဥမှာ သေးငယ်သည်။ မြန်မာနိုင်ငံတွင်မူကား ပူအိုက်ခြောက်သွေ့သော အလယ်ပိုင်း၌သာ ကျက်စားကြသည်။ မြန်မာနိုင်ငံ တောင်ပိုင်းလွင်ပြင်များသို့ ဆောင်းတွင်းဧည့်သည်အဖြစ်နှင့် ရောက်လာတတ်ကြသည်။ မြန်မာနိုင်ငံ အရှေ့မြောက်ပိုင်းနှင့် တနင်္သာရီ တောင်ပိုင်းတို့တွင် လုံးဝမတွေ့ရချေ။

မြေဝပ်၊ တောင်ဒေါင်း စသော မြေဝပ်ငှက်မျိုးသည် ပေါ်လွင် ထင်ရှားသော ငှက်များ မဟုတ်သဖြင့် ယင်းတို့အကြောင်းကို သိသူ အလွန်နည်းလှသည်။ ထိုငှက်မျိုးသည် အတောင်နှင့် အမြီးရှည်သည်။ မှောင်စပျိုးသည်နှင့် တပြိုင်နက် သစ်ပင်များ အနီးအနား၌ ပိုးမွှားကို ရှာဖွေစားသောက်ကြသည်။ စရိုက်အားဖြင့် ညဉ့်၌သာ ကျက်စား၍ နေ့အခါတွင် မျက်စိကို မှိတ်ကာ မြေကြီးပေါ်တွင် ဝပ်နား၍နေတတ်၏။

မြေဝပ်ငှက်မျိုးတွင် ကြီးမားသော ပါးစပ်နှင့် ကြည်လင်တောက်ပ စူးရှသော မျက်လုံးများရှိ၏။ ညဉ့်အခါ မော်တော်ကား လမ်းမအလယ်တွင် ဝပ်နေတတ်သဖြင့် မော်တော်ကားမီးရောင်တွင် ယင်းတို့၏ မျက်လုံးများသည် ဝင်းဝင်းတောက် ပြောင်လျက်ရှိ၏။ မြေဝပ်ငှက်မျိုးသည် သစ်ကိုင်းပေါ်တွင် နားသောအခါ အခြားငှက်များကဲ့သို့ ကန့်လန့်ဖြတ် ခြေတောက်ဖြင့် မနားဘဲ သစ်ကိုင်း၏ အလျားအလိုက် ရင်အုပ်ဖြင့်ဝပ်၍ နားလေ့ ရှိသည်။ မြေဝပ်ငှက်မျိုးတွင်တောင်ဒေါင်းငှက်သည်အရွယ်ပိုကြီးသည့်ပြင် အော်

သံလည်း ကွဲပြားခြားနားသောကြောင့် တမျိုးနှင့်တမျိုး ကို ခွဲခြား၍ သိသာနိုင်လေသည်။ (တောင်ဒေါင်း — ရှု။)

ဥရောပတိုက်တွင် တွေ့ရသော မြေဝပ်ငှက်မျိုးကို ပါဏဗေဒ အလိုအားဖြင့် ကက်ပရီ မာလဂပ် ယူရိုပီးယပ် ဟု ခေါ်လေသည်။

**မြေဩဇာများ။** ။အပင်များ ကြီးပွားဖြစ်ထွန်းရန် မြေဆီလွှာတွင် ဓာတ်ပစ္စည်းများ အနည်းဆုံး တဆဲ့သုံးမျိုး လိုပေသည်။ လေနှင့် ရေ ကောင်းစွာ ရရှိသော သာမန်မြေမျိုးတွင် ဓာတ်ပစ္စည်း ဆယ်မျိုးကို အပင်များအတွက် လုံလောက်အောင် ရရှိနိုင်သည်။ သို့ရာတွင် ကျန်ဓာတ်ပစ္စည်း သုံးမျိုးဖြစ်သည့် နိုက်ထရိုဂျင်၊ ပိုတက်ဆီယမ်နှင့် ဖော့စဖောရပ် ဓာတ်များမှာမူ အချို့မြေမျိုးတွင် ချို့တဲ့နေသည့်ပြင် အသီးအနှံပင်များက စုတ်ယူသုံးစွဲလိုက်သဖြင့် မြေဆီ၌ လျင်မြန်စွာ ကုန်ခန်း သွားတတ်လေသည်။ ပုံစံအားဖြင့် ဂျုံစပါး အချိန် ဘတန်ထွက်သည့် လယ်မြေမှ နိုက်ထရိုဂျင်ဓာတ် ၄၇ ပေါင်ခန့်၊ ဖော့စဖောရပ်ဓာတ် ၁၈ ပေါင်နှင့် ပိုတက်ဆီယမ်ဓာတ် ၁၂ ပေါင်ခန့်မျှယုတ်လျော့သွားကြောင်း သိရသည်။

မြေဆီလွှာတွင် အပင်များ၏ လိုရင်းဓာတ်ပစ္စည်း တခုခု ချို့တဲ့နေလျှင် ဖြစ်စေ၊ အသီးအနှံပင်များကို လယ်မြေ၌ ဆက်ကာဆက်ကာ စိုက်ပျိုးခြင်းဖြင့် ထိုဓာတ်ပစ္စည်း ဩဇာများ တနှစ်ထက်တနှစ် ယုတ်လျော့ကုန်ခန်းသွားသည့်အခါ ဖြစ်စေ အသီးထွက်မှာ တဖြည်းဖြည်း ညှိုးဖျင်းလာဖွယ်ရာ ရှိလေသည်။ ထို့ကြောင့် လယ်မြေများမှ အသီးအနှံအထွက် ပိုမို ကောင်းမွန်လာစေရန်၊ အပင်နှင့် တိရစ္ဆာန်များမှ ဖြစ်သော မြေဩဇာကိုဖြစ်စေ၊ ဓာတ်သတ္တုများမှ ဖြစ်သော မြေဩဇာကိုဖြစ်စေ မြေဆီလွှာတွင် ထပ်လောင်း ဖြည့်စွက်ပေးရလေသည်။ ဗက်တီးရီးယား များက ထိုမြေဩဇာများကို အပင်၏ အစာဖြစ်အောင် ပြောင်းပေးလိုက်မှသာ အပင်များသည် ထိုအစာကို စားသုံးမှီဝဲနိုင်ကြသည်။ အပင်များ ကြီးပွားဖြစ်ထွန်းရန် အလိုဆုံး ဓာတ်ပစ္စည်းမှာ နိုက်ထရိုဂျင်ပင်ဖြစ်သည်။ မြေဆီလွှာ၌လည်း ဤနိုက်ထရိုဂျင်ဓာတ် မကြာခဏ လိုလျက်ရှိတတ်သည်။ သို့ဖြစ်ခြင်းကြောင့် အပင်များ အထူးလိုသည့် နိုက်ထရိုဂျင်ဓာတ်ကို အပင်များ စားသုံးနိုင်လာရန် ဗက်တီးရီးယားများက နိုက်ထရိတ်ဓာတ်နှင့် အခြားနိုက်ထရိုဂျင် ဒြပ်ပေါင်းများ အဖြစ်သို့ ပြောင်းပေးလိုက်ကြသည်။ တောင်အမေရိကတိုက်ရှိ ချီလီနိုင်ငံ မြောက်ပိုင်း၌ နိုက်ထရိုဂျင်ဓာတ် လိုနေသော လယ်မြေများအတွက် မြေဩဇာအဖြစ် အသုံးချနိုင်သော ဆိုဒီယမ် နိုက်ထရိတ်ဓာတ် ပါသည့် မြေမျိုးကိုရရှိလေသည်။ နိုက်ထရိုဂျင်ဓာတ်ပါရှိသော အခြားမြေဩဇာများမှာ အမ်မိုနီယမ် ဆာလဖိတ်နှင့် လူတို့ ဖော်စပ်ယူသော ကယ်လဆီယမ် နိုက်ထရိတ်နှင့် ကယ်လဆီယမ် ဆိုင်ယနီမိုက်တို့ဖြစ်ကြ



မြေစေးအတွက်သီးသန့် ပြုပြင်ယူရသောမြေဩဇာများကို တူးနေစဉ်



အိန္ဒိယနိုင်ငံ တောင်ပိုင်းရှိ ဓာတ်မြေဩဇာချက်စက်ရုံကြီး၊ ယင်းစက်ရုံမှ နိုက်ထရိုဂျင်ဓာတ်ကို ချက်လုပ်ပေးသည်။

သည်။ မြင်းသေ၊ နွားသေ၊ ခွေးသေ အစရှိသည့် တိရစ္ဆာန်ကောင်တို့၏ အသားမှုန့်၊ အရိုးမှုန့်၊ ငါးမှုန့်နှင့် ဝါစေ့ဖတ် စသည်တို့သည်လည်း ဩဇာရှိဝတ္ထုမှရသော မြေဩဇာများ ဖြစ်ကြသည်။

၁၉၁၄ ခုနှစ်မှ ၁၉၁၈ ခုနှစ်အထိ ဖြစ်ပွားခဲ့သော ပဌမကမ္ဘာစစ်သည် ကမ္ဘာအရပ်ရပ်တွင်ရှိသော တိုင်းပြည်များတွင် မြေဩဇာအမျိုးမျိုး တီထွင်ကြဖို့မျက်စိဖွင့်ပေးသည်ဟု ဆိုရပေမည်။ ယင်းကဲ့သို့ လယ်ယာစိုက်ပျိုးရေး လုပ်ငန်းတွင် လယ်မြေများ သိမ်ဖျင်းမသွားစေရန် မြေဩဇာကျွေးလျက် ပြုပြင်ပေးရကြောင်းကို ကောင်းစွာ သဘောပေါက်လာကြသည့်အလျောက် နိုက်ထရိုဂျင်ဓာတ်ကို ပုံသေကားချ သတ်မှတ်ကာ ဓာတ်မြေဩဇာ အမျိုးမျိုးကို ဖော်စပ်၍ အရောင်းအဝယ်ပြုလုပ်ကြသည်။ အပင်၏ အစာဖြစ်သော ပိုတက်ဆီယမ် နိုက်ထရိတ် ဓာတ်မြေဩဇာမျိုးကို မြေဩဇာပြုပြင်ရေးတွင် တနေ့တခြား အသုံးများလာကြသည်။ သို့ရာတွင် နိုက်ထရိုဂျင်ဓာတ် ချို့တဲ့နေသော မြေဆီလွှာတွင် ဓာတ်မြေဩဇာ လိုနေသည့်ဓာတ်ကို ဖြည့်စွမ်းနိုင်သည်ထက် အပင်နှင့် တိရစ္ဆာန်တို့မှ ဖြစ်သော မြေဩဇာများကို ကျွေးခြင်းဖြင့်၎င်း၊ လူဆန်ပဲပင်မျိုးများကို စိုက်ပျိုးခြင်းဖြင့်၎င်း နိုက်ထရိုဂျင်ဓာတ် ပိုမို၍ ဖြည့်စွက်ပေးနိုင်သည်။ အခြားအသီးအနှံပင်နှင့်မတူ လူဆန်ပဲပင်များသည် မြေဆီလွှာတွင်ရှိ နိုက်ထရိုဂျင်ဓာတ်ကို မကုန်ခန်းစေသည် သာမက ထပ်လောင်း၍ပင် ဖြည့်တင်းပေးနိုင်လေသည်။ ကျွဲနွား တိရစ္ဆာန်စား တောပဲပင်နှင့် အခြားပဲပင်မျိုးများသည်လည်း ထိုလူဆန်ပဲပင်ကဲ့သို့ နိုက်ထရိုဂျင်ဓာတ် ဖြည့်စွမ်းပေးနိုင်ကြသည်။ ဥရောပတိုက်ရှိ ဂျာမနီနိုင်ငံ အယ်လဆက်နယ်၊ အိန္ဒိယ၊ အီဂျစ်နှင့် ပါးရှားနိုင်ငံများတွင် သာမန်မြေတို့၌ လိုနေသော ပိုတက်ဓာတ်ပါသည့် မြေဆီမှုန့်များကို မြေတွင်းများ တူးဖော်ခြင်းဖြင့် ရရှိနိုင်ကြသည်။ ဖော့စဖိတ်ဓာတ် လိုနေသည့်မြေမျိုးတွင် ထိုဓာတ်မျိုး ပေါင်းစပ်ပါဝင်လျက်ရှိသော ကျောက်မှုန့်များ၊ တိရစ္ဆာန်တို့၏ အရိုးမှုန့်များနှင့် သံရည်ကျိုရာတွင် ဖြစ်ပေါ်လာသော ချော်တုံး ချော်ခဲတို့၏ အမှုန့်များကို မြေဩဇာ အဖြစ်ဖြင့် ကျွေးပေးရသည်။

မြေကို ပြုပြင်ရာ၌ အသုံးချကြသော အခြားမြေဩဇာ တမျိုးမှာ တောင်အမေရိကတိုက် ပစိဖိတ် သမုဒ္ဒရာကမ်းခြေနှင့် ထိုသမုဒ္ဒရာတွင်ရှိ ကျွန်းစုများ၌ အသိုက်အအုံပြုကာ နေကြသော ပင်းဂွင်းခေါ် ပင်လယ်ငှက်တမျိုး၏ ချေးဖြစ်

သည်။ ထိုမြေသြဇာကို ဂွာနိုဟု ခေါ်သည်။ ဤဂွာနို မြေသြဇာတွင် ဖော့စဖိတ်ခေတ်ပါရှိရာ မြေကိုပြုပြင်ရန် အထူးသင့်လျော်၏။ တခါက ထိုငှက်ချေးများကို လိုက်လံစုသိမ်း၍ စီးပွားရှားသူတို့သည် အတော်ပင် ကျေးဇူးဖြစ်ထွန်းခဲ့ကြသည်။ ယခုအခါ၌မူ ထိုဂွာနိုမြေသြဇာများကို လိုသလောက် မရနိုင်တော့ချေ။

တခါတရံ တောင်သူလယ်သမားတို့သည် ကျောက်မီးသွေးပြာ၊ သစ်ကိုင်းသစ်ခက် သစ်သားတို့မှဖြစ်သော ပြာစသည့် ပြာမြေသြဇာကိုင်း၊ ထုံးကျောက်မှုန့်များ၊ ယောက်သွားခွံ၊ ဗုဇွန်ထုပ်ခွံတို့၏ အမှုန့်များကိုင်း၊ မြေစေးနှင့် ထုံးကျောက် ရောစပ်ထားသည့် မြေဆီတမျိုးကိုင်း၊ အမှိုက်သရိုက်နှင့် ရေပုပ် ရေစပ်များကိုင်း မြေသြဇာအဖြစ်ဖြင့် အသုံးချကြသည်။

တောင်သူလယ်သမားတို့သည် မိမိတို့ လုပ်ကိုင်လျက်ရှိသော လယ်မြေများကို အသီးအနှံ အထွက်ကောင်းသည်ထက် ကောင်းလာအောင် ပြန်လည်ပြုပြင်ရာ၌ ကူညီအားပေးလိုသော ဆန္ဒအလျောက် မြန်မာနိုင်ငံကဲ့သို့ စိုက်ပျိုးရေးထွန်းကားသည့် တိုင်းနိုင်ငံတို့၏ အစိုးရများသည် ဓာတုဗေဒနည်းဖြင့် ဖော်စပ်ထားသော မြေသြဇာများကို ဈေးနှုန်း ချိုသာစွာဖြင့် လယ်ယာ၊ ခြံမြေလုပ်ကိုင်သူတို့အား ဖြန့်ချိရောင်းချလျက် ရှိကြသည်။

**မြေအောက်မီးရထား။** ။မြေအောက်မီးရထားဆိုသည်ကား မြေအောက်လိုဏ်ခေါင်းကြီးများ အထဲတွင် လျှပ်စစ်ဓာတ်အားဖြင့် ခုတ်မောင်းနေသော မီးရထားများ ဖြစ်သည်။ မြေအောက် မီးရထားသည် တက္ကစီ၊ ထရော်လီ၊ ဓာတ်ရထား စသော အခြားလူစီးယာဉ်များနှင့် စာလျှင် ဈေးအသက်သာဆုံး၊ ခရီးအသေချာဆုံး၊ အမြန်ဆုံးယာဉ် ဖြစ်သည်။

ကမ္ဘာပေါ်ရှိ တိုင်းကြီးပြည်ကြီးများ၏ မြို့ကြီးပြကြီးများသည် လူဦးရေ အလွန်ထူထပ်သဖြင့် ကူးသန်း သွားလာရေး၌ အလွန်ပင် အခက်အခဲ တွေ့ကြရ၏။ ထို့ကြောင့် မြို့ရှိလူဦးရေအလိုက် ကူးသန်းသွားလာရေး၌ လွယ်ကူစေရန် ပြည်ပိုင် အစိုးရတို့သည် သယ်ယူပို့ဆောင်ရေးကို အနည်းနည်း အဖုံဖုံပြုလုပ်ပေးကြရ၏။ ယင်းသို့သော မြို့ကြီးများတွင် အချိန်သည် အလွန်အဖိုးတန်လေရာ မြို့သူမြို့သား အလုပ်သမား လူထုအဖို့ ကျယ်ဝန်းလှသော မြို့ကြီး၏ တနေရာမှ တနေရာသို့ သွားလာနိုင်ရေးမှာ လူဦးရေထူထပ်




မြေအောက်မီးရထားဘူတာရုံတွင်း အမှောင်မခိုရအောင် မီးများထွန်းငြိထားရုံမျှမက လေကောင်းလေသန့်ဝင်အောင်လည်း စီမံဆောက်လုပ်ထားသည်။




မြေအောက်မီရထားဘူတာရုံကို ခရီးသည်များ ရှာဖွေရလွယ်ကူအောင် မြေပြင်ရှိ အဆောက်အအုံပေါ်တွင် ဘူတာရုံ၏အမည်ကို ဖော်ပြ ညွှန်ကြားထားလေ့ရှိသည်။

သော မြို့ကြီးများ၌ အလွန်ပင် အချိန်ကြန့်ကြာ၍ အခက်အခဲ တွေ့ကြရလေသည်။ ထိုကြောင့် လျင်မြန်၍ စရိတ်ကုန်သက်သာသော သယ်ယူပို့ဆောင်ရေး နည်းလမ်းများကို ထိုကဲ့သို့သော မြို့ကြီးများ၌ အလွန်ပင် လိုအပ်လှပေသည်။

ယင်းသို့သော မြို့ကြီးများ၌ မီးရထား၊ မာတ်ရထား၊ ထရော်လီ၊ ဘတ်စကားများနှင့်ပင် သယ်ယူပို့ဆောင်ရေးမှာ မလုံလောက်သေးချေ။ ထိုကြောင့် မြေပြင်ပေါ်တွင် သာမက မြေအောက်တွင်ပါ သယ်ယူပို့ဆောင်ရေးအတွက် လမ်းကြောင်းများ တီထွင်လာရာမှ မြေအောက် မီးရထားများ ပေါ်ပေါက်လာခဲ့လေသည်။ ထိုမြေအောက် မီးရထားများကို သုံးသည့်စံနစ်မှာ လန်ဒန်မြို့တွင် ပဌမဆုံး စတင်ပေါ်ပေါက်ခဲ့၏။ ၁၈၆၃ ခုနှစ်တွင် လန်ဒန်မြို့တော်တွင်း အတွက် စတင်ဖွင့်လှစ်အသုံးပြုခဲ့၍ ၁၈၆၈ ခုနှစ်တွင် ဆင်ခြေဖုံးရပ်ကွက်များအတွက် စတင်ဖွင့်လှစ် အသုံးပြုခဲ့သည်။

ဦးစွာ၌ မြေအောက် မီးရထားများ မောင်းနှင်ရန် ရေနွေးငွေ့အားကိုပင် အသုံးပြုခဲ့ကြသည်။ ထိုအခါက မီးရထားများသည် ကျဉ်းကျပ်သည့်ပြင် ရေနွေးငွေ့သုံးသည့် အတွက် မီးရထားလမ်း လိုဏ်ခေါင်းသည် မီးခိုးများဖြင့် အသက်ရှူကျပ်ကာ၊ မီးရထားစီးများသည်လည်း အလွန်ဆင်းရဲဒုက္ခဖြစ်ကြရ၏။ မြေအောက်ဖြစ်နေသဖြင့် သန့်ရှင်းသော လေဝင်လေထွက် ကောင်းကောင်းရရန် အရေးကြီးရာ၊ ဆိုခဲ့သောစံနစ်ကို တာရှည်သုံးသွားရန် မဖြစ်သဖြင့် တိုးတက်ပြုပြင်ရလေသည်။ ယင်းသို့ဖြင့် မြေအောက် မီးရထားများသည် လျှပ်စစ်ဓာတ်ဖြင့် မောင်းနှင်သည့် ရထားများ ဖြစ်လာကာ၊ မြေအောက်လိုဏ်ခေါင်းတွင် လေဝင်လေထွက် ပေါက် လုံလောက်စွာ ထားပေးရ၏။

ထိုမီးရထားလမ်းများ ဆောက်လုပ်ပုံမှာလည်း နှစ်မျိုးရှိသည်။ ပဌမနည်းမှာ လမ်းမကြီးများကို တူးဖော်ထုတ်ပစ်ပြီးလျှင်မြေအောက်ထဲတွင်နက်လှသောမြောင်းကြီးများ တူးပြီးနောက် မီးရထားလမ်းများ ပြုလုပ်၏။ ထိုနောက်မှ အပေါ်မှ လမ်းမကြီးများကို ပြန်ခင်းလေသည်။ ထိုကဲ့သို့သော မြေအောက် မီးရထားလမ်းမျိုးမှာ လေးတောင့်ရှည်လျားလျားဖြစ်၏။ ထိုသို့သော မီးရထားလမ်းမျိုး နှစ်ခုဖြတ်ကျော်သည့် လမ်းဆုံများတွင် တလမ်းကို အခြားတလမ်းထက် မြေအောက်နက်နက်တွင် ဖောက်လုပ်ထားရလေသည်။

အခြားတနည်းမှာကား မြေအောက် အလိုရှိသည့်အနက်တွင် ပြွန်ခေါင်းသဖွယ် လိုဏ်ခေါင်းကြီးများကို ဖောက်လုပ်ခြင်းဖြစ်၏။ ထိုနည်းမှာ မြေပြင်ပေါ်မှ လမ်းများကို ဖျက်ရခြင်းမရှိချေ။ ထိုမီးရထားလမ်းများသည်ကား လုံးဝန်းသော သဏ္ဌာန်ရှိကြ၍လိုဏ်ခေါင်းနံရံများသည် သံပြွန်ခေါင်းကြီးများဖြစ်ကြ၏။ လန်ဒန်မြေအောက် မီးရထားသည် အစတွင်ဆိုခဲ့သောပဌမစံနစ်ကို သုံးခဲ့၏။ သို့သော် နောင်အခါတွင်ကား ဒုတိယစံနစ်ကိုသုံးခဲ့ရာ ယခုအခါ လန်ဒန်မြေအောက် မီးရထားများကို "လန်ဒန်ပြွန်ခေါင်းများ"ဟုပင်ခေါ်ဆိုကြသည်။ နယူးယော့မြို့ရှိ မြေအောက် မီးရထားလမ်းများကား ယခုထက်တိုင် ပဌမစံနစ်အတိုင်း ပြုလုပ်ထားသည့် လမ်းမျိုးကို သုံးလျက်ပင်ရှိ၏။

လန်ဒန်မြေအောက် မီးရထားမျိုးသည် ရန်ကုန်နှင့် ဆင်ခြေဖုံးရပ်ကွက်သွား အချို့သော ဒီဇယ်မီးရထားများကဲ့သို့ရထားခေါင်းတွဲသည် နောက်ကလူစီးတွဲများနှင့် တပုံစံတည်းပင်ဖြစ်သည်။ ခေါင်းတွဲရှေ့ဆုံးပိုင်း၌ ခလုတ်အားဖွင့်ပိတ်သော ခလုတ်များပါသည့် ၃ ပေကျယ်အခန်းကလေးတခန်းပါသည်။ ထိုအခန်း၌ မောင်းသူဝင်၍ ခလုတ်ဖွင့်ကာ မောင်းနှင်ရသည်။ ခေါင်းတွဲ၏ ကျန်အပိုင်း၌မူ လူစီးတွဲအတိုင်း ထိုင်ခုံများရှိသည်။ ရထားနောက်ဆုံးတွဲသည် ဂတ်တွဲဖြစ်သည်။ ဂတ်တွဲဆိုသော်လည်း ဂတ်ဗိုလ်၏အခန်း ၃ ပေကျယ်ကလေးမှအပ ကျန်နေရာများသည် လူစီးတွဲအတိုင်းပင် ထိုင်ခုံများရှိသည်။ ဂတ်ဗိုလ်က လျှပ်စစ်ဓာတ်ဖြင့် ခလုတ်နှိပ်၍ ရထားတခုလုံးမှ တွဲတံခါးများကို ဖွင့်ပေး ပိတ်ပေးရသည်။ တံခါးပိတ်ပြီးသော် ခေါင်းတွဲကို ခလုတ်နှိပ်ကာ အချက်ပေးလျှင်၊ ခေါင်းတွဲမောင်းသူက မောင်းထွက်သွားတော့သည်။ မြေအောက် မီးရထားသည် တနာရီလျှင် မိုင် ၄၀ မျှ ခုတ်မောင်းသည်။ တနာရီလျှင် ၁၀ စက္ကန့်မှ ၁၅ စက္ကန့်လောက်သာရပ်သည်။ ရုံးတက်ရုံးဆင်းချိန်တွင် တမိနစ်တစင်းမျှရှိလျက် အခြားအချိန်များတွင် ၃ မိနစ်မှ ၅ မိနစ် တစင်းရှိတတ်သည်။

မြေအောက်မီးရထား ဘူတာရုံတိုင်းတွင် ဘူတာအမည်ကို မှန်ဆိုင်းဘုတ်ဖြင့် ရေးထားသည်။ ဆိုင်းဘုတ်ရှိရာ အပေါက်မှ မြေအောက်သို့ လှေခါးတိုကလေး တစင်းနှစ်စင်းနှင့် ဆင်းသွားလျှင် လက်မှတ်ရုံသို့ရောက်၍ လက်မှတ်ဝယ်ရသည်။ လက်မှတ်ရုံများအပြင် ပိုက်ဆံထည့်လိုက်လျှင် မိမိအလိုရှိသည့် ရထားလက်မှတ် အလိုအလျောက် အထဲမှထွက်ပေါ်လာသော စက်များလည်း ရှိသည်။ လက်မှတ်ရလျှင်




ခရီးသည်များကိုသာ တင်ဆောင်သည့် မြေအောက်မီးရထားများမှာ လျှပ်စစ် မီးရထားများဖြစ်ကြသည်။



မြေအောက်မီးရထားဘူတာရုံတွင်း မီးရထားအလာကို စည်းကမ်းသေဝပ်စွာ စောင့်စားနေကြစဉ်

ရထားစကြံမျာ:ရှိရာ မြေအောက်သို့ ရိုးရိုးလှေကားဖြင့်၎င်း၊ လိုမ့်လှေခါးဖြင့်၎င်း ဆင်းသွားရသည်။ ထိုနောက်ဘူတာရုံတွင်အခမဲ့တောင်းယူနိုင်သော မြေအောက်မီးရထား မြေပုံ၌ မိမိသွားလိုသောလမ်းစဉ်ကို ရှာဖွေပြီးလျှင် ရထားကို စောင့်ရသည်။ ရထားဝင်လာ၍ ဘူတာ၌ ဆိုက်သောအခါ တွဲတံခါးများ အလိုလိုပွင့်လာသည်။ ရထားပေါ်သို့ ခရီးသည်များ တက်ပြီးသော် စက္ကန့်အနည်းငယ် ကြာသောအခါ၊ တံခါးများအလိုလိုပိတ်၍ ရထားထွက်သွားသည်။

ရထားတွဲ မျက်နှာကြက်နှင့်နံရံ ဆက်စပ်ရာထောင့်ကွေးတွင် ခရီးစဉ်တလျှောက်ရှိ ဘူတာများအမည်ကို မြေပုံနှင့် တွဲတိုင်း၌ ပြထားသည်။ ဘူတာသို့အဝင် ကိုက်တရာခန့်နှင့် ဘူတာမှအထွက် ကိုက်တရာခန့်အထိ ရထားသွားရာလိုဏ်ခေါင်းတလျှောက်တွင် တွဲတွင်းမှ မြင်နိုင်သော လိုဏ်ခေါင်းနံရံနေရာ၌ ရောက်မည့်ဘူတာအမည်ကို ဆယ်ပေကွာခန့်တွင် တခုကျကပ်ထားသည်။ရထားရပ်ရန် အချိန်သတ်လိုက်သော ခဏ၌ပင် လိုဏ်ခေါင်းနံရံကို တွဲပြူတင်းမှန်ပေါက်မှ ကြည့်လိုက်လျှင် ဆိုက်မည့်ဘူတာကို အလွယ်တကူသိနိုင်သည်။ မိမိအလိုရှိရာ ဘူတာသို့ရောက်လျှင် ထွက်ပေါက်ဟုမီးဆိုင်းဘုတ် ဆွဲထားသောလမ်းအတိုင်း လိုက်လာပါက၊ အထက်လိုမ့် လှေခါးဖြင့် မြေပြင်သို့ ထွက်လာနိုင်သည်။

ယခုအခါ မြေအောက်မီးရထားများကို အလွန် လူသုံးများနေသဖြင့် တိုးတက်ပြုပြင်ချဲ့ထွင်မှုများ ပြုလုပ်လျက်ရှိ၏။ ထိုမြေအောက် မီးရထားမျိုးသည် လန်ဒန်မြို့တွင် သာမက အမေရိကန်နိုင်ငံရှိနယူးယော့မြို့၊ဖိလဒဲလဖီးယားမြို့၊ ဗော့စတန်မြို့၊ ရှီကာဂိုမြို့ကြီးများ၌၎င်း၊ တောင်အမေရိကတိုက် ဗွေနိုဆိုင်းရက်မြို့၊ စပိန်နိုင်ငံ မဒရစ်မြို့၊ ပြင်သစ်နိုင်ငံ ပါရစ်မြို့၊ ရုရှားနိုင်ငံ မောစကိုမြို့နှင့် ဂျပန်နိုင်ငံ တိုကျိုမြို့များတွင်၎င်း ရှိလေသည်။နယူးယော့မြို့တော်ရှိ မြေအောက်မီးရထားသည် ကမ္ဘာပေါ်တွင် အကြီးဆုံးနှင့် ဆောက်လုပ်ပုံ စံနစ်အကောင်းဆုံးဖြစ်၍ မောစကိုမြို့ မြေအောက်မီးရထားမှာ အလှပဆုံးဖြစ်၏။

မြေအောက်မီးရထားလမ်းများ ခဲခဲယဉ်းယဉ်းနှင့် ဖောက်ထားပုံကို ကြည့်၍ ယခုခေတ် အင်ဂျင်နီယာပညာသည် မည်မျှ စွမ်းဆောင်နိုင်ပုံကို သိနိုင်ပေသည်။ လန်ဒန်မြေအောက် မီးရထားလမ်းများမှာ လန်ဒန်တမြို့လုံး၏ မြေအောက်၌ အနှံ့အပြား ဖောက်လုပ်ထား၍၊ ဝက်ပါတမျှ ရှုပ်ထွေး ပွေလိမ်လျက် ရှိပေ၏။ သို့ဖြစ်ပါလျက် လမ်းတလမ်းပေါ်၌ပင် တနာရီအတွင်း ရထားအစင်း ၄၀ ခန့်သည် တိုက်မိခြင်း၊ နှောင့်နှေးခြင်း မရှိဘဲ ခုတ်မောင်းနေကြသည်မှာ အံ့ခြီးဖွယ်ရာတရပ်ပင် ဖြစ်ပေတော့သည်။

မြို့။ ။ယေဘုယျအားဖြင့်သော်ကား မြို့ဟူသည်မှာ လူအပေါင်းတို့ အတည်တကျ အိမ်ယာများဖြင့် စုစုဝေးဝေး နေထိုင်ကာ စီးပွားရှာဖွေ လုပ်ကိုင်စားသောက်ရာ နေရာဖြစ်၍ ပထဝီဝင်သဘောအရ၎င်း၊ နိုင်ငံရေးသဘောအရ၎င်း မြို့ဟု အသိအမှတ်ပြုထားသည့် နေရာလည်းဖြစ်၏။ သို့ဖြစ်၍ ရွာထက် ကြီးမား၍ ပိုမိုစည်းရုံးမိကာ ပိုမိုတိုးတက်ကြီးပွားလျက်ရှိသော လူစုလူဝေး ဇဟိဋ္ဌာနဖြစ်သော်လည်း မြို့ပြကဲ့သို့ ဖွဲ့စည်း တည်ထောင်ခြင်းကား မရှိပေ။

ရှေးအခါကမူ ကမ္ဘာနှင့်အဝှန်း မြို့ဟူသည်မှာဘုရင်မင်းမြတ်နှင့် မင်းညီမင်းသား မှူးမတ်များ စံမြန်းနေထိုင်ရာ ဒေသများနှင့် နိုင်ငံရေးမြို့တော်များကိုသာလျှင် ခေါ်ဝေါ်ခဲ့၍၊ များသောအားဖြင့် မြို့ရိုးတွင်း၌ တည်ရှိတတ်သည်။

ဝိနည်းပိဋကတ်တော်လာ ပြည်ရွာအပြား မျိုး ၆ ပါးမှာ
(၁) မင်းအစိုးရတခု၏ အာဏာစက်နှံ့ရာ တိုင်းနိုင်ငံ (ရဋ္ဌ)၊
(၂) မင်းအိမ်နန်းတော် တည်ရာ နေပြည်တော် (ပူရီ)၊
(၃) အောက်ဆုံး မြို့အုပ် မြို့ပိုင်ရုံးရှိ၊ ဈေးရှိသောမြို့ (နဂရ)၊
(၄) ခရိုင်ဝန်မင်းတပိုင်၊ သို့မဟုတ် တိုင်းမင်းကြီးတပိုင် ခရိုင်စု၊ ဇနပုဒ် (ဇနပဒ)၊ (၅) ဈေးရှိသောရွာကြီး (ဂါမ)၊
(၆) ဈေးမရှိသော ရွာငယ် နိဂုံး (နိဂမ) ဟူ၍ ဖြစ်သည်။

ပါဠိကျမ်းဂန်များ အလိုအရ မြို့၏ အင်္ဂါ ၇ ပါး ရှိပေသည်။ ယင်းတို့မှာကား ပြည့်ရှင်မင်းလည်းတပါး၊ ဆုံးဖြတ်

စီရင်နိုင်သော ပညာရှိအမတ်လည်းတပါး၊ ပြည်ထောင်ချင်း အဆွေခင်ပွန်း မဟာမိတ်မင်းလည်းတပါး၊ ရတနာ ၁၀ ပါး နှင့်တကွ စပါးမျိုး ၇ ပါးနှင့် ပြည့်ဝသော ကျီ၊ ကြာ၊ တိုက်၊ ဘဏ္ဍာများလည်းတပါး၊ ခံယဉ်းသော မြို့ပြ ကျုံးမြောင်း၊ ပတ္တင်ရင်လျှောက်လည်းတပါး၊တိုင်းနိုင်ငံပိုင်နက်လည်းတပါး၊ ရဲမက်ဗိုလ်ပါလည်းတပါး ဟူ၍ ဖြစ်၏။ တနည်း မြို့၏အင်္ဂါ ၇ ပါးမှာကား ကောင်းစွာ စိုက်အပ်သော မတုန်မလှုပ်သော တံတိုင်းလည်းတပါး၊ နက်ကျယ်သော ကျုံးလည်းတပါး၊ ကျယ်သောသူရဲပြေးလည်းတပါး၊ များစွာသော လက်နက်လည်းတပါး၊ များစွာသော ရဲမက်ဗိုလ်ပါလည်းတပါး၊ ပညာရှိသော လိမ္မာသော တံခါးစောင့်လည်းတပါး၊ မြင့်သော မြို့တံတိုင်းလည်းတပါး၊ ဤ ၇ ပါးတို့ ဖြစ်၏။ ဤသည်အပြင် မြို့အစာ ၄ ပါးဟူ၍ သတ်မှတ်လျက်မြို့ကြီးများ၌ ထိုအခြင်းအရာ ၄ ပါး ပေါများရမည်ဆိုလေသည်။ ယင်းတို့မှာကား ဆန်စပါး စားနပ်ရိက္ခာ မျိုးစေ့အစုံ၊ ဆီဦးထောပတ် ဆေးဝါးစုံ၊ မြက် ထင်းရေဟူ၍ ၄ ပါး ဖြစ်၏။ မြို့တော် သာယာငြိမ့်ညောင်းစေသော အသံ ၁၀ ဖြာရှိ၍ ယင်းတို့မှာကား ဆင်သံ၊ မြင်းသံ၊ ရထားသံ၊ စည်ကြီးသံ၊ မုရိုးစည်သံ၊ စောင်းညှင်းသံ၊ ခရုသင်း နှဲ ပြွေ ခရာသံ၊ ကြေးနင်း ခွက်ခွင်းသံ၊ စားကြပါ၊ သောက်ကြပါ ဟူသော အသံများဖြစ်ကြောင်း ကျမ်းဂန်များတွင် ဆိုပေသည်။

ရှေးအခါက မြန်မာမင်းတို့သည် သိုက်တံဘောင် ဗေဒင်အရ မြို့များ တည်သည်လည်း ရှိ၏။ မြို့တည်နန်းတည်မင်းဟူသော အမည်ကို ခံယူလို၍ တည်သည်လည်း ရှိ၏။ ထိုစဉ် မြို့ပြထီးနန်း တည်ထောင်သောအခါ ပိဋကတ်ဗေဒင် တတ်မြောက်သောရဟန်းပညာရှိ၊ လူပညာရှိများက ရှေ့ဆောင်ရွေ့ရှက် ပြုကြလေသည်။ ပမာအားဖြင့် ဒုတိယ အင်းဝမြို့တည်ရာတွင် မွန်လူမျိုး ဗားမဲ့ဘုန်းကြီး၊ ဗားတမော့ ဘုန်းကြီးများက ခေါင်းဆောင်၍ ယင်းတို့၏ အစီအရင်များဖြစ်သော အထဗ္ဗဏ မဟာယတြာနည်းဖြင့် တည်သည်။ အင်းဝမြို့ ပဌမတည်စဉ်ကလည်း သတ္တုကြေးနီပြား အင်း ၂ မိုက် ပတ်လည်ကို မြေတွင် အင်း ၁,၀၀၀ မြှုပ်စေ၍၊ ညောင် ၁,၀၀၀ စိုက်သည်။ ရတနာသိင်္ခ (ရွှေဘို)၊ တတိယ အင်းဝ၊ စတုတ္ထ အင်းဝ၊ ပဌမ အမရပူရ၊ ဒုတိယ အမရပူရ၊ မန္တလေးမြို့များ တည်ရာတွင်လည်း ပညာရှိ ဘုန်းတော်ကြီးများက ရှေ့ဆောင်၍ ဆိုခဲ့သော အထဗ္ဗဏ မဟာယတြာနည်းများဖြင့် မြို့များကို တည်သည်။ မြို့တည်ရာတွင် ရေကောင်း မြေသန့်ရှိရာ နေရာ၊ ကောင်းကျိုး မင်္ဂလာနှင့် ပြည့်စုံ၍ အောင်မြေဖြစ်ကာ ရေလမ်းကုန်းလမ်း ခရီးအသွားအလာ ကောင်းပြီးလျှင် အချက်အခြာဖြစ်မည့် ဒေသကို ရှေးဦးစွာ အရေးတကြီးထား၍ ရွေးချယ်သည်။

မြန်မာနိုင်ငံကို အင်္ဂလိပ်တို့ သိမ်းယူပြီးသောအခါ အစိုးရက အက်ဥပဒေများဖြင့် မြို့ကိုသတ်မှတ်သည်။ ၁၉၀၇ ခုနှစ် မြန်မာနိုင်ငံ မြို့ပြ အက်ဥပဒေ ပုဒ်မ ၄ အရ နိုင်ငံအစိုးရမင်းသည် မည်သည့် အရပ်ဒေသဆိုင်ရာ ရပ်ကွက်ကိုမဆို အဆိုပါ အက်ဥပဒေပါ ကိစ္စများ အလို့ငှါ မြို့ဖြစ်ကြောင်းနှင့် အမိန့်ကြော်ငြာစာ ထုတ်ဆင့်၍ ပြဋ္ဌာန်းခွင့်ရှိသည်။ သို့ဖြစ်၍ မြို့ပြဆိုင်ရာ အက်ဥပဒေအရ အကြောင်းအရာ၌ ဖြစ်စေ၊ ရှေ့နောက်စကား အစီအစဉ်၌ဖြစ်စေ၊ တစုံတရာ ဆန့်ကျင်ကွဲလွဲသည် မဟုတ်လျှင် မြို့ဆိုသည်မှာ ပုဒ်မ ၄ အရ အမိန့်ကြော်ငြာ တစုံတရာနှင့်အညီ ဥပဒေပါကိစ္စ အလို့ငှါ မြို့ဖြစ်ကြောင်းနှင့် ပြဋ္ဌာန်းသည့် အရပ်ဒေသဆိုင်ရာ ရပ်ကွက် တစုံတရာကို ဆိုလိုသည်။ ဤသို့ပြဋ္ဌာန်းထားသော မြို့များတွင် ဒေသန္တရအလိုက် အုပ်ချုပ်ရန် မြန်မာပြည်တွင် ဒေသန္တရ အုပ်ချုပ်ရေးဟု ခေါ်အပ်သော မျူနီစီပယ် အုပ်ချုပ်ရေးများကို တီထွင်သည်။ ခရစ် ၁၈၇၄ ခုနှစ်မှ စတင်၍ ရန်ကုန်၊ မော်လမြိုင်၊ ပြည်၊ ပုသိမ်၊ စစ်တွေ၊ တောင်ငူ၊ဟင်္သာတမြို့များတွင် မျူနီစီပယ်ကို ဦးစွာဖွဲ့သည်။ ဤသည်နောက် တဖြည်းဖြည်းနှင့် မြန်မာပြည်တဝှန်းလုံးသို့ မျူနီစီပယ် အုပ်ချုပ်ရေး ပျံ့နှံ့သွားသည်။

လူဦးရေ ၁၀,၀၀၀ အထက်ရှိသော မြို့များတွင် မျူနီစီပယ်သည် အရေးပါအရာရောက်သည်။ ၁၈၉၈ ပြည့်နှစ်မြန်မာပြည် မျူနီစီပယ် အက်ဥပဒေပုဒ်မ ၂၄၇ အရမူကား နောက်ဆုံး သန်ကောင်စာရင်းအရ လူဦးရေ ၁၀,၀၀၀ အောက် လျော့နည်းပြီးလျှင် လယ်ယာစိုက်ပျိုးသော ရွာသက်သက်လည်း မဟုတ်ဘဲ၊ မြို့၊ သို့မဟုတ် စျေးရှိသော မြို့ငယ်များကို မျူနီစီပယ် သတ်မှတ်နယ်အဖြစ် ထုတ်ဆင့်ကြေညာပြီးလျှင် မျူနီစီပယ်လုပ်ငန်းများကို ထိုဒေသများတွင် ဆောင်ရွက်နိုင်သည်။ မျူနီစီပယ်များသည် မိမိတို့ဆိုင်ရာမြို့၌ အိမ်ခွန်၊ မြေခွန်၊ ရေခွန်၊ မီးလ္လာခွန်၊ မီးခွန်၊ ယာဉ်ခွန်၊ စျေး၊ သားသတ်ရုံများမှ အခွန်အကောက်များကို ကောက်ခံပြီးလျှင် မြို့သူမြို့သားများအတွက် ဆေးရုံဆောက်လုပ် ထိန်းသိမ်းခြင်း၊ ကျောင်းများ ဆောက်လုပ်ခြင်း၊ လမ်းပြင်ခြင်း စသော ပြည်သူ့လုပ်ငန်းများအပြင် မြို့ရှင်းသန့်ရှင်းရေး၊ ကျန်းမာရေးနှင့် စည်ပင်ရေးတို့ကို တာဝန်ယူရသည်။ မျူနီစီပယ် အဖွဲ့များတွင် ပါဝင်၍ မြို့ကို အုပ်ချုပ်သူတို့မှာ အရပ်သူ အရပ်သားများက ရွေးကောက်တင်မြှောက်ထားသူများဖြစ်၏။

မြို့များတွင် လူနေများသည်နှင့်အမျှ မြို့များ ကျယ်ဝန်းလာသည်။ မြို့ကြီးမှ မြို့ပြများ ဖြစ်လာသည်။ မြို့နှင့် မြို့ပြတို့ကို ခွဲခြားရာ၌ တိတိကျကျ သတ်မှတ်၍ မရဘဲရှိ၏။ ဂရိတ် ဗြိတိန်နှင့် အိုင်ယာလန်နိုင်ငံတို့တွင် စီးတီးခေါ် မြို့ပြမှာ ဂုဏ်ပြု ခေါ်ဝေါ်သော အမည်ဖြစ်၏။ တရားဥပဒေအား

ဖြင့် ထူးခြားခြင်း မရှိပေ။ ရှေးအခါကတည်းကပင် အင်္ဂလန်နိုင်ငံ၌ ကသီဒရယ် ဘုရားရှိခိုးကျောင်းရှိသောမြို့ကို မြို့ပြ ဟု ခေါ်သည်။ သို့သော် ကသီဒရယ် ဘုရားရှိခိုးကျောင်း မရှိသည့် လိမ့်မြို့ကဲ့သို့သော မြို့တို့ကိုလည်း တခါတရံ ဂုဏ်ပြု၍ မြို့ပြ ဟု ခေါ်သည်။ အိုင်ယာလန်နိုင်ငံတွင်လည်း အင်္ဂလန်နိုင်ငံနည်းတူဖြစ်၏။ အမေရိကန် ပြည်ထောင်စု၌မူကား မြို့တော်ဝန်နှင့် ကောင်စီအဖွဲ့ အုပ်ချုပ်သော မျူနီစီပယ် အဖွဲ့ကြီးရှိသော မြို့ကို မြို့ပြဟူ၍ ခေါ်သည်။ သို့ရာတွင် မြို့တော်ဝန်များ မရှိသောမြို့ကို မြို့ပြအဖြစ် စာရင်းသွင်းသည်လည်းရှိ၏။ အမေရိကန် ပြည်ထောင်စုတွင် များစွာသော မြို့တို့မှာ မြို့တည်စာချုပ်များဖြင့် အသစ်တည်သော မြို့များ ဖြစ်ရကား မြို့တည် စာချုပ်ပေါ်တွင်လည်း များစွာ တည်ပေသေးသည်။

ရှေးပဝေဏီခေတ်ကာလက မြို့ပြဟူသည်မှာ အနီးတဝိုက်ရှိ ဆွေမျိုးစုများ စုဝေး၍ နေရာတစုကို အများဆိုင်အဖြစ် သတ်မှတ်ပြီးလျှင် ကိုးကွယ်မှု၊ ကာကွယ်မှု၊ လုံခြုံမှုအတွက် စုပေါင်းနေထိုင်ရာဖြစ်၏။ရှေးဂရိနိုင်ငံတွင် စပါးတား၊ အက်သင်း စသော မြို့ပြများမှာ နိုင်ငံရေးအားဖြင့် အုပ်ချုပ်ရေးအဖွဲ့အစည်း ပြည့်စုံသောကြောင့် လူဦးရေ ၂၀,၀၀၀ သာသာမျှသာ ရှိသော်လည်း နိုင်ငံငယ်များ မည်၏။ ဥရောပတိုက် အလယ်ခေတ်တွင် ဣတလီ၌ ဤသို့သောနိုင်ငံငယ်များ ပေါ်ထွန်းလာပြန်သည်။

စက်မှုလက်မှု ထွန်းကား၍ ကူးသန်းရောင်းဝယ်မှု ကြီးကျယ်လာသည့်အလျောက် မြို့ကြီးပြကြီး များသည်ထက် များလာသည်။ စားသောက်ရေး အလို့ငှါ ကိုယ်တိုင် စိုက်ပျိုးရန် မလိုတော့သဖြင့် မြို့သို့ ပြောင်းရွှေ့နေထိုင်သူ များသည်ထက် များလာသည်။ တိုးတက်သော နိုင်ငံကြီးများ အချို့တွင် လူဦးရေ ၅၀ ရာခိုင်နှုန်းထက်မနည်း မြို့ပြများ၌ နေထိုင်ကြလေသည်။

**မြို့၊ ဦး** (မြန်မာ ၁၂၃၇ – ၁၂၉၈)။ ။ဦးမြို့သည် တောင်ငူခရိုင် ရွှေကျင်မြို့ ညောင်ဝိုင်းရပ်၌ မြန်မာသက္ကရာဇ် ၁၂၃၇ ခုနှစ် တပေါင်းလတွင် ဖွားမြင်သည်။ ငယ်မည်မှာ မောင်ရွှေမြို့ ဖြစ်သည်။ အရွယ်ရောက်သည့်အခါ အတန်းကျောင်းတွင် ၇ တန်းအထိ သင်ကြား၍၊ အသက် ၁၈ နှစ်သားအရွယ်တွင် ကြေးတိုင်ရုံး၌ အကူစာရေးအဖြစ် ဝင်ရောက်လုပ်ကိုင်သည်။

အသက် ၂၀ အရွယ်တွင် ရွှေကျင်မြို့ အနောက်တိုက် ဟုလည်းခေါ်သော ရွှေတောင်ဦး ဘုရားအဆင်း၊ မန္တလေးကျောင်း ဆရာတော်ကြီး ဦးသာသနထံတွင် ရဟန်းပြုသည်။ ဘွဲ့ ဦးဝါယမဖြစ်သည်။ ဆရာတော်ကြီးထံ၌ သဒ္ဒါ၊ သင်္ဂြိုဟ် အခြေခံစာများသင်ကြားပြီးနောက် ရဟန်း တဝါ



အဂ္ဂမဟာပဏ္ဍိတ ဆရာမြို့

အရတွင် မန္တလေးမြို့ ဘုရားကြီးတိုက် ဆရာတော် ဦးရန်ကုန်၊ ဆရာတော် ဦးပိုင်တို့ထံတွင် ဆက်လက် ပညာ သင်ကြားသည်။ ထိုနောက် ညောင်လေးပင်မြို့ တောရကြီး ဆရာတော် ဦးသောမထံတွင် ပညာသင်ကြားပြန်သည်။ ရဟန်းဝါ ၈ ဝါတွင် ရွှေတောင်ဦး တောင်စောင်း၊ ရှေးယခင် ဘုန်းတော်ကြီး ဦးသီလ သိတင်းသုံးတော်မူဘူးသော ဂူကလေးနေရာ၌ ရွှေဂူကျောင်းတိုက် အမည်သမုတ်၍ စာသင်တိုက် တည်ထောင်သည်။ ထိုစဉ်အခါ ၁၀ ဝါပြည့်၍ ဆရာတူ တပည့် ၁၀ ဝါရ ဦးမေဃကို ဦးစီးပြုစေကာ စာသင်သား ၅၀ ခန့်ကို စာချသည်။ ဦးမေဃအား ကျောင်းကို အုပ်ချုပ်စေ၍ ဦးဝါယမ (ဦးမြို့) သည် တရားဟောဓမ္မကထိက အဖြစ်ဖြင့် ကျောင်းတိုက်ကို ပြုစု ပျိုးထောင်သည်။ ဦးဝါယမ အသံမှာ အသံဝါကြီးဖြစ်၍ ပြတ်သားခြင်း၊ ခန့်ညားခြင်း၊ အနုသန္ဓေ အဆက်အစပ် ကောင်းခြင်းတို့ကြောင့် လူကြိုက်များလာကာ ဓမ္မကထိက အကျော်ဖြစ်လာသည်။

၁၂၆၅ ခုနှစ်တွင် လယ်တီဆရာတော်ဘုရားကြီးသည် နိုင်ငံတွင် နေလပမာ ထွန်းပေါ်လာသည်။ တနိုင်ငံလုံးတွင် ပရမတ္ထသံခိပ် သာသနာသည် သိသိသာသာ အားရှိလာသည်။ (လယ်တီဆရာတော် — ရှု။)

ဦးဝါယမသည် လယ်တီဆရာတော်ဘုရားကြီးထံသို့ တပည့်အဖြစ်ဖြင့် ဆည်းကပ်ပြီးလျှင် ဆရာတော်ကြီး၏ ဟောနည်းကို နည်းခံသည်။ ဆရာတော်ကြီးနှင့် လေသံ တထေဝတည်းဖြစ်အောင် ဟောပြောသည်။

၁၂၆၈ ခုနှစ်တွင် ရွှေဂူကျောင်းတိုက်ကြီးကို ဦးမေဃအား အပ်ခဲ့၍ ရန်ကုန်မြို့သို့ ဆင်းလာသည်။ ရန်ကုန်မြို့ ဗဟန်းရပ် ဒေါ်စန္ဒာစရပ်တွင် ခေတ္တနေ၍ ဓမ္မသဝန ဗုဒ္ဓ

သာသနာပြုအသင်းကို တည်ထောင်သည်။ ဓမ္မသဝန အသင်းတွင် ဥက္ကဋ္ဌမှာ ဆာဂျေအေ ဦးမောင်ကြီး၏ဖခင် အက်ဒွပ် ဦးခင် (ဘလုပ်တိုက် ကိုယ်စားလှယ်)၊ ဒုတိယ ဥက္ကဋ္ဌ ပညာဝန်ထောက် ဦးမှန်း (ကျက်သရေဆောင် ရွှေစလွယ်ရမင်း)၊ ငွေထိန်းလူကြီး သုဓမ္မဝတီတိုက်ရှင် ပွဲစားကြီး ဦးဘာစိုင်၊ အကျိုးဆောင် စက္ကရီတေရီ ဘလုပ်တိုက် ဦးဂျေးကပ်တို့အပြင်၊ မာဖီယား သင်္ဘောကြီးသား ချန်ချော့ခိုင်တို့ ပါဝင်ကြသည်။ တနင်္ဂနွေတပတ်လျှင် ၃ ကြိမ်၊ သိမ်ကြီးတန်ဆောင်းနှင့် ဆူးလေကုန်းတော်တွင် ဦးဝါယမ တရားဟောသည်။ ထိုအချိန်တွင် လယ်တီ ဦးဝါယမဟူ၍ ဖြစ်လာသည်။

၁၂၇၀ ပြည့်နှစ်တွင် သိမ်ကြီးနှင့် စစ်ကဲမောင်ထော်လေးလမ်းတွင် မြန်မာပြည် ဗုဒ္ဓသာသနာပြု စာပုံနှိပ်တိုက်ကို တည်ထောင်သည်။ ထိုအခါ အမေရိကန် သာသနာပြု ပုံနှိပ်တိုက်က သာသနာပြု (မစ်ရှင်) ဆိုသော စာလုံးကို အသုံးမပြုရန် စာရေး အကြောင်းကြားလာသည်။ "ဒီစာလုံးဟာ မင်းတို့ပိုင်တာ မဟုတ်ဘူး" ဟု ဆုံးဖြတ်၍ စာမပြန်ဘဲ ထားလိုက်သည်။ နောက်ထပ် ထိုအကြောင်းနှင့် စပ်လျဉ်း၍ မည်သို့မျှ ပြောဆိုလာခြင်း မရှိတော့ချေ။

ဓမ္မသဝန ဗုဒ္ဓသာသနာပြု အသင်းနှင့် မြန်မာပြည် ဗုဒ္ဓသာသနာပြု စာပုံနှိပ်တိုက်မှ လစဉ် ဓမ္မဒေသနာတရားသတင်းစာကို ၁၂၆၉ ခုနှစ်မှစ၍ ထုတ်ဝေသည်။ အသင်းတံဆိပ်မှာ ခြင်္သေ့အလံကိုင်၊ အလံတွင် (သဗ္ဗဒါနံ ဓမ္မဒါနံ ဇိနာတိ)ထည့်ထားသည်။ ၁၂၆၈ ခုနှစ်မှ ၁၂၇၂ ခုနှစ်အတွင်း ရန်ကုန်မြို့တွင် လယ်တီပရမတ္ထသံခိပ် သာသနာနှင့် ဓမ္မသဝနအသင်း၏ တရားသံတို့ လွှမ်းမိုးချိန် ထွန်းလင်းချိန်ဟု ဆိုနိုင်ပေသည်။

၁၂၇၂ ခုနှစ်တွင် လယ်တီ ဦးဝါယမသည် လူဝတ်လဲပြီးလျှင် ဒေါ်စန္ဒာနှင့် အကြောင်းပါသည်။ ဓမ္မသဝနအသင်းလူကြီးမင်းများသည် ကြည်ညိုရင်းကို လက်မလွှတ်နိုင်ကြ၍ လယ်တီဦးဝါယမ ဘဝမှ ဆရာမြို့အဖြစ်သို့ ရောက်လာသော ဦးမြို့အား မြန်မာပြည် ဗုဒ္ဓသာသနာပြု စာပုံနှိပ်တိုက်၌ တိုက်အုပ်အဖြစ် လုပ်ကိုင်စေသည်။

၁၂၇၃ ခုနှစ်တွင်ကတိုးရော်ဗာခြံ သင်္ဘောကြီး ဦးရွှေလေး၊ ဦးရွှေကြူး၊ ဦးမြို့တို့သည် တွေ့ဆုံကြ၍ ဆရာမြို့ အကြံပေးချက်၊ ဦးရွှေကြူး၏ နှိုးဆော်ချက်ကြောင့် ပိဋကတ်သုံးပုံကို မြန်မာပြန်ဆိုမှုကိစ္စကြီး ပေါ်ထွက်လာလေသည်။ (ရွှေကြူး၊ ဦး။ ရွှေလေး၊ ဦး — ရှု။) ဤပိဋကတ်သုံးပုံ မြန်မာပြန်မှုကို သဘောတူကြပြီးလျှင် "ပိဋကတ်သုံးပုံ ထုတ်ဝေရေးကုမ္ပဏီ" ဟု အင်္ဂလိပ်စာဖြင့် ကြေးဆိုင်းဘုတ်ထိုးကာ အမှတ် ၅၁ ဘားလမ်း ရွှေကြူးကုမ္ပဏီက ကိုယ်စားလှယ်အဖြစ် စတင်လုပ်ကိုင်လေသည်။

ဤအချိန်တွင် လယ်တီပဏ္ဍိတ ဆရာဦးမောင်ကြီးသည်လည်း လူ့ဘောင်သို့ ရောက်နှင့်ပြီးဖြစ်၍ ဆရာမြို့၊ ဒေါ်စန္ဒာ၊ ဆရာဦးမောင်ကြီးတို့သည် မော်လမြိုင်၊ ကတိုး ရော်ဗာခြံ သင်္ဘောကြီး ဦးရွှေလေးထံသို့ လိုက်ပါသွားကြသည်။ ဦးမောင်ကြီးသည် တနှစ်ခန့်နေ၍ ရွှေကြူးကုမ္ပဏီသို့ ပြန်လာသည်။ (မောင်ကြီး၊ ဦး၊ လယ်တီပဏ္ဍိတ — ရှု။)

၁၂၇၃ ခုနှစ်မှ ၁၂၈၃ ခုနှစ်အထိ ၁၀ နှစ်တိုင်တိုင် ဒီဃ၊ မဇ္ဈိမ၊ သံယုတ္တ၊ အင်္ဂုတ္တရဟူသော နိကာယ် ၄ ရပ်ကို မြန်မာပြန်ဆို ပြီးစီးသည်။ ၁၂၈၃ ခုနှစ်တွင် မြန်မာပြန်များကို ကတိုး၌ ထားခဲ့၍ ရန်ကုန်သို့ ပြန်လာသည်။ ရန်ကုန်တွင် ဘိန်ဝှက်ကုမ္ပဏီနှင့် တွဲဖက်၍ ဆန်ပွဲစားလုပ်သည်။

သင်္ဘောကြီး ဦးရွှေလေးသည် မြန်မာပြန် ပိဋကတ်စာမူများကို ထိုစဉ်က ဘုရင်ခံ ဆာဂျေအေ ဦးမောင်ကြီးလက်သို့ အပ်လိုက်သည်။ အပ်သည် ဆိုသော်လည်း စာမူများမှာ ဦးမြို့လက်တွင်းသို့ ပြန်ရောက်လာသည်။ (မောင်ကြီး၊ ဆာဂျေအေ — ရှု။)

ဦးမြို့သည် ဆန်ပွဲစား လုပ်ကိုင်နေရင်း ရန်ကုန်မြို့ ၃၈ လမ်းတွင် မြန်မာ ပိဋကတ် ပုံနှိပ်တိုက်၊ မြန်မာပိဋကတ်ကုမ္ပဏီ တည်ထောင်၍ မြန်မာပြန် ပိဋကတ်များအနက် သီလက္ခန် ပါဠိတော်မှအစပြု၍ ရိုက်နှိပ်သည်။

၁၂၈၅ ခုနှစ်မှ ၁၂၉၂ ခုနှစ်အတွင်း မြန်မာပိဋကတ်အုပ်ရေ ၃၀ ပြီးစီးသည်။ ၁၂၉၀ ပြည့်နှစ်တွင် အင်္ဂလန်ပြည် အိမ်ရှေ့မင်းသားဆုငွေ ၁,၀၀၀ိ (တထောင်)ကို ရသည်။ ၁၂၉၂ ခုနှစ်တွင် အဂ္ဂမဟာပဏ္ဍိတ ဘွဲ့ဖြင့် ခြီးမြှင့်ခြင်းခံရလေသည်။

ထိုနှစ်တွင်ပင် ပိဋကတ် မြန်မာပြန် အုပ်ရေ ၃၀၊ အစုံ ၂၅၀ ကို အစိုးရက ဝယ်၍ မြန်မာနိုင်ငံ ရုံးများ၌ ထားစေသည်။ ဦးမြို့သည် မြန်မာ ပိဋကတ်အုပ်ရေ ၃၀၊ တအုပ်လျှင် ၂,၀၀၀၊ အုပ်ရေပေါင်း ၆၀,၀၀၀၊ တအုပ်လျှင် ၁၀ိ တန်ဖိုး ငွေ ၆ သိန်းခန့် လုပ်ငန်းကြီးကို အနည်းငယ်မျှသော ငွေ ၅,၀၀၀ိ (ငါးထောင်) ခန့်ဖြင့် လုပ်ကိုင်သွားသည်။

ဦးမြို့သည် လောကဓံတရားနှင့် ကြုံသည့်အခါ ကြံ့ကြံ့ခံနိုင်သောသတ္တိရှိသည်။ အလုပ်တခုကို လုပ်မည်ဟုသန္နိဋ္ဌာန်ချပြီးသည့်အခါ မည်သူဖျက်၍မျှမရ၊ မဖြစ်မနေလုပ်လေ့ရှိသည်။

ဦးမြို့သည် မြန်မာပိဋကတ်ဘာသာပြန်များအပြင် သီလ၊ သမာဓိ၊ ပညာကို အရင်းခံပြု၍ ဝိမောက္ခမဂ္ဂကျမ်းနှင့် လုံ့လဝီရိယကို အရင်းခံသော ဝါယာမဒီပနီ ကျမ်းနှစ်စောင်ကိုလည်း ရေးသားပြုစုခဲ့သည်။

ဤမျှ မိမိအင်အားအလိုက် အမျိုး ဘာသာ သာသနာအကျိုးကို သည်ပိုးရင်း ဦးမြို့သည် ၁၂၉၈ ခုနှစ် တန်ခူးလပြည့်ကျော် ၁၁ ရက်နေ့တွင် ရန်ကုန်မြို့ လူစုလမ်း၌ အသက် ၆၂ နှစ်တွင် ကွယ်လွန် အနိစ္စရောက်လေသည်။ ဦးမြို့သည်

အိမ်ထောင် ၃ ဆက်ပြုခဲ့၍ ပဌမဇနီး ဒေါ်စန္ဒာ (ဒေါ်မိတ်) မှ သမီး မအမာ၊ ဒုတိယဇနီး ဒေါ်ကြိုင်မှ မခင်စု၊ တတိယ ဇနီး ဒေါ်ဝါးစိန်မှ မောင်တင်မြို့၊ မလှလှမြို့တို့ ကျန်ရစ်ခဲ့ လေသည်။

**မြို့ကွက်ရိုက်ခြင်း။** ။သိပ္ပံပညာရပ်များပေါ်ထွန်း၍ စက်မှု လက်မှု လုပ်ငန်းများ ထွန်းကားလာသည့် ယခုခေတ်တွင် မြို့ကြီးပြကြီးများ၌ လူနေအိမ်ခြေ တိုးတက် ထူထပ်လာ လေသည်။ ဤသို့ မြို့ကြီးပြကြီးများ၌ လူနေများ၏ စည်ကားလာသည့်အလျောက်လည်း အုပ်ချုပ်သူတို့အဖို့ ပို၍ ပြဿနာ များလာသည်။ မြို့နေလူအပေါင်းတို့ သွားလာမှု၊ စီးပွားရှာဖွေမှု၊ နေထိုင်မှု အစရှိသည်တို့တွင် သက်သာလွယ်ကူပြီးလျှင် ကျန်းမာရေးနှင့် ညီညွတ်ကာ ချမ်းသာစွာ နေထိုင်နိုင်ကြရလေအောင် စီမံပေးရန် လိုအပ်လှပေသည်။ သို့ဖြစ်သောကြောင့် ယခုခေတ်တွင် ကမ္ဘာနှင့်အဝှန်း ခေတ်မီ တိုးတက်သော နိုင်ငံများ၌ မြို့ကွက်ရိုက်ခြင်းကို အရေးယူ စဉ်းစားဆောင်ရွက်ကြရသည်။ အစိုးရများက မြို့ကွက်ရိုက်ခြင်းများ ပြုလုပ်ဆောင်ရွက်နိုင်ရန် သီးခြား ဌာနများကို ဖွဲ့စည်း ဖွင့်လှစ်ထားရလေသည်။ အမှန်စင်စစ် ဤသို့ ပြုလုပ်စီမံသည်မှာ အဆန်းမဟုတ်ပေ။ ရှေးပဝေဏီ အီဂျစ်ခေတ်ကတည်းကပင် မြို့ကြီးပြကြီးများကို အကွက်ချကာ မြို့ခင်း သာယာအောင် စံနစ်ကျနစွာ မြို့ကွက်ရိုက်ခြင်း ပြုလုပ်ခဲ့သည်ကို တွေ့ရပေသည်။

မြို့ကွက်ရိုက်ခြင်း ပြုလုပ်ရာ၌ တခေတ်နှင့် တခေတ် မတူဘဲ၊ ခေတ်ပြောင်းသည်နှင့်အမျှ အယူအဆများလည်း ပြောင်းလဲလာသည်။ ခေတ်နှင့်လျော်စွာ ပြုပြင်ဆောင်ရွက်လာကြရသည်။

ရှေးတခေတ်က မြို့ကွက်ရိုက်ခြင်း ဆောင်ရွက်သူတို့သည် မြို့ခင်း လှပသာယာမှုကို ပိုမိုအရေးထားကြ၏။ သို့ဖြစ်၍ ရေတွင်း ရေကန်၊ တိုက်တာ အဆောက်အအုံ၊ ပန်းခြံ စသည်တို့ကို လူမြင်ကွင်းတွင် စီမံဆောက်လုပ်၍မြို့ပြပြုစုကြသည်။ ဆင်းရဲသား အလုပ်သမား ရပ်ကွက်များမှာကား ပြည့်ကျပ် ညစ်ပတ် ရှုပ်ထွေး၍ ကျန်းမာရေးနှင့် မညီမညွတ်ဘဲ ရှိတတ်လေသည်။

ယခုခေတ်တွင်ကား စက္ခုပသာဒ လှပမှုကိုသာမကဘဲ၊ မြို့နေလူအများစု သက်သာ လွယ်ကူစွာ သွားလာ နေထိုင်နိုင်၍ ကျန်းမာရေးနှင့် ညီညွတ်စေရန် အရေးထား စဉ်းစားကြရလေသည်။ မြို့ကျယ်ဝန်းလာသည့်အလျောက် သွားလာမှု အခက်အခဲမရှိအောင် လမ်းများကို ကောင်းစွာ ဖောက်လုပ်ရသည်။ ယာဉ်ရထား သွားရန်လမ်း၊ လူသွားလမ်း၊ ကုန်ပစ္စည်း သယ်ယူပို့ဆောင်ရေးအတွက် လမ်းများဟူ၍ ခွဲခြား၍ စံနစ်တကျ ပြုလုပ်ပေးရသည်။ မီးရထားလမ်းများအတွက်လည်း နေရာပေးရသည်။ အနောက်နိုင်ငံကြီးများ၌ မြေအောက် မီးရထားများ၊ တူးမြောင်း၊ လမ်းစသည်တို့ကို စံနစ်ကျနစွာ ဖောက်လုပ်ရသည်။ လမ်းဖောက်လုပ်ရာတွင် မြို့အနေအထားလိုက်၍ လမ်းရှည် လမ်းတိုများကို ခွဲထုတ်ထားလေ့ရှိသည်။ လူဦးရေ ထူထပ်ပေါများသော မြို့ကြီးပြကြီး ဖြစ်ပါက လမ်းပန်း ဆက်သွယ်ရေး ပို၍ပင် စံနစ်ကျရန် လိုအပ်ပေသည်။

ထို့ပြင် မြို့သုံးရေ လုံလောက်စွာ ရရှိနိုင်ရေး၊ လျှပ်စစ်ဓာတ်အား ရရှိရေး၊ ရေသွင်းရေနုတ်မြောင်းများ ထားရှိရေး၊ အညစ်အကြေး သိမ်းဆည်းရှင်းလင်းရေးတို့ကိုလည်း စံနစ်တကျ ပြုလုပ်ထားရသည်။ အနောက်တိုင်းနိုင်ငံကြီးများဝယ် ဓာတ်ငွေ့ ဓာတ်အားပေးရေးမှာလည်း အရေးကြီးပေသည်။ ဤသည်တို့ အပြင် အယူဝါဒရေးဆိုင်ရာ အဆောက်အအုံများအတွက် နေရာပေးရသေးသည်။ နေအိမ်များ၊ ဈေး၊ ကျောင်း၊ ရုံး၊ ဆေးရုံများအပြင် အပန်းဖြေစရာ ဥယျာဉ်၊ ပန်းခြံ၊ ကစားကွင်းများ အတွက်လည်း စီမံပေးရပေသည်။ အချို့မြို့များမှာ အလုပ်သဘောလိုက်



**လူနေထူထပ်သော မြို့ပြကြီးများတွင် လူတို့ သက်သာချောင်ချိရေး၊ ကျန်းမာပျော်ရွှင်ရေးတို့ကို ရှေးရှု၍၊ အိုးသစ်အိမ်သစ်များကို စံနစ်တကျ တည်ဆောက်ကာ နေရာချထားပေးလေ့ရှိသည်။ အထက်ပါပုံမှာ အင်္ဂလန်ပြည် လန်ဒန်မြို့ ပက်ဒင်တန်ရပ်ကွက်တွင် အိမ်ငှါးများ နေထိုင်ရန်အတွက် မြို့ကွက်ရိုက်ကာ ပုံစံထုတ်ထားသော တိုက်ခန်းများ၏ပုံဖြစ်သည်။**

ကာ မြစ်ကမ်းခြေ၊ မီးရထားလမ်းဘေး စသည်တို့၌ အလုပ်ရုံ စက်ရုံများတည်ရှိကာ လူစည်ကားသောရပ်ကွက်များ၌ ဈေးနှင့် ဆိုင်ကြီးများ တည်ရှိပြီးလျှင် လူနေရပ်ကွက်မှာ သီးခြား တည်ရှိတတ်သည်။ သီးခြား ရပ်ကွက်များ မထားရှိဘဲ အရောရောအနှောနှော တည်ရှိသော မြို့တို့ကား ယခုအခါတွင် မနှစ်မြို့ဖွယ်ဖြစ်လေသည်။

မြို့ကွက်ရိုက်ခြင်း ဟူရာ၌ မြို့သစ်တည်ဆောက်ခြင်းနှင့် ရှိရင်းစွဲမြို့ကို ချဲ့ထွင်ပြုပြင် မွမ်းမံခြင်းဟူ၍ နှစ်မျိုးနှစ်စား ရှိသည်။ လူမနေသေးသော ရပ်ကွက်တခုကို မြို့သစ်ပြသစ်တခု ဖန်တီးရာ၌ စီမံကိန်း ဆွဲသူတို့သည် မိမိတို့ ကြိုက်နှစ်သက်သော ပုံသဏ္ဌာန် ဖြစ်လေအောင် စိတ်တိုင်းကျ အကွက်ချနိုင်ပေသည်။ စီမံကိန်း၊ မြို့အကွက်ချပုံတို့သည် ကာလ၊ ဒေသကိုလိုက်၍ ခြားနားတတ်ပေသည်။ လူဦးရေ တိုးတက်များပြားလာသောကြောင့် မြို့မဆံ့သဖြင့် မြို့ကို ချဲ့ထွင် စီမံကိန်း ပြုရာ၌မူကား ရှိရင်းစွဲ အဆောက်အအုံများကို မူတည်၍ ပြုပြင်ရသဖြင့် ချဲ့ထွင်ရုံမကဘဲ ပြုပြင်ရန် လိုအပ်သော ရပ်ကွက်များ၊ လမ်းများကို ပြုပြင်ပေးရသည်။ ညစ်ပတ်၍ အန္တရာယ်များသော လမ်းများ၊ ရပ်ကွက်များကို ဖျက်ဆီးသင့်က ဖျက်ဆီး၍ အသစ် ပြုပြင်ပေးရသည်။ ရှေးတခေတ်က ဆိုလျှင် မြို့ကို ချဲ့ထွင်ရာ၌ လမ်းမများ၊ လမ်းရှည်များတွင် တိုက်တာ အဆောက်အအုံများကို ဆက်လက် ဆောက်လုပ်လေ့ ရှိလေသည်။ ဤစနစ်ကား ရိုးနေ၍ အဆင်ပြေမှုလည်း မရှိပေ။ ထို့ကြောင့် ယခုအခါတွင် မြို့ကို ချဲ့ထွင်ရာ၌ မြို့၏ ပတ်ပန်းကျင် ဆင်ခြေဖုံး ရပ်ကွက်များ၌ မြို့ကလေးများ တည်ဆောက်ပြီးလျှင် မြို့နှင့် လွယ်ကူစွာ ဆက်သွယ်မိစေအောင် လမ်းပန်းဆက်သွယ်ရေးကို စီစဉ်ပေးသည်။ မြို့သစ် တည်သည်ဖြစ်စေ၊ မြို့ဟောင်းကို ချဲ့ထွင်သည်ဖြစ်စေ မြို့နေလူထုအပေါင်း အဆင်ပြေမှုရှိ၍ ကျန်းမာရေးနှင့် ညီညွတ်မှုရှိစေရန်ကို အဓိက ထားရလေသည်။ မြို့ကွက်ရိုက်ခြင်းစီမံသူတို့သည် ကျွမ်းကျင် တတ်မြောက်ရန်လိုသည်။ စီမံကိန်း ကောင်းလျှင် လူအပေါင်း သက်သာကြ၍ စီမံကိန်း မပြေပြစ်ပါက မကြာခဏ ပြင်ဆင်ရပြီးလျှင် အချိုးမကျဘဲ ရှိတတ်သည်။

မြန်မာနိုင်ငံ၌ ဒုတိယ ကမ္ဘာစစ်ကြီး ပြီးသည်၏နောက်ပိုင်းကာလတွင် ပြည်တွင်း သောင်းကျန်းမှုကြောင့် တောရွာ ကျေးလက်များတွင် နေရေး ထိုင်ရေး မသာယာသဖြင့် ကျေးလက်တောရွာနေ လူအပေါင်းတို့သည် ရန်ကုန်မြို့သို့ လာရောက်ခိုလှုံကြသည်။ ဤသို့ အဆမတန် ရောက်ရှိလာကြသဖြင့် ရန်ကုန်မြို့တွင် လူဦးရေ ၈ သိန်းခန့် အထိ တိုးလာသည်။ ရန်ကုန်မြို့တွင်း၌ မြေလပ်ရှိသမျှ လမ်းဘေး မကျန်အောင် နေရာအပြည့် တဲအိမ်များကို စည်းမဲ့ကမ်းမဲ့ ကျူးကျော် ဆောက်လုပ် နေထိုင်ကြသည်။ သို့ဖြစ်၍ မီးဘေးအန္တရာယ်ကို မကြာခဏ တွေ့ကြုံကြရ၏။ ဤအခြေအနေဆိုးကိုအချိန်မှီကာကွယ်နိုင်ရန်အတွက် ရန်ကုန် မျူနီစီပယ်အဖွဲ့က စည်းမဲ့ကမ်းမဲ့ဆောက်လုပ်ထားသော ကွက်သစ်များဖျက်သိမ်းရန်တာဝန်ယူ၍ နိုင်ငံတော်ပြည်သူ့အိုးအိမ်အဖွဲ့ကမူ ရန်ကုန်မြို့၏ အပြင်ဖက်ရှိ ကျယ်ပြန့်သော မြေရာများတွင် မြို့၏ အင်္ဂါနှင့် ညီညွတ်သော မြို့သစ်များ တည်ဆောက်ရန် တာဝန်ယူသည်။ ဤစီမံကိန်းဖြင့် ရန်ကုန်မြို့၏ အရှေ့ဖက်တွင် သာကေတမြို့၊ အရှေ့မြောက်ဖက်တွင် တောင်ဥက္ကလာပနှင့် မြောက်ဥက္ကလာပမြို့ ဟူသော အရံမြို့များကို တည်၍ မြေနေရာကွက်များ ချပေးသည်။ မြို့အင်္ဂါနှင့် ညီညွတ်စေ၍ လမ်းကြီးလမ်းငယ်အသွယ်သွယ်ကို ဖောက်လုပ်ကာ လျှပ်စစ်ဓာတ်မီးများ တပ်ဆင်ပေးသည်။ မိုးတွင်း၌ ရေလွှမ်းမိုးခြင်းဒဏ်ကို ကာကွယ်နိုင်ရန် မြောင်းကြီးများ၊ ရေတံခါးများကို ဖောက်လုပ်တပ်ဆင်ပြီးလျှင် ရေအလှိုင်၊ အဝီစိတွင်းများ၊ ရေကန်များ တူးဖော် ပေးလေသည်။ ထို့ပြင် အခြားဆင်ခြေဖုံး ရပ်ကွက်များကိုလည်း ရန်ကုန်မြို့တွင်းသို့သွတ်သွင်း၍ မဟာရန်ကုန် စီမံကိန်းအရ ဆောင်ရွက်လျက်ရှိသည်။ ရန်ကုန်မြို့တွင်သာမက လူဦးရေ အဆမတန် တိုးတက်လာသဖြင့် နေထိုင်မှုအခက်အခဲများ ပေါ်ပေါက်လျက်ရှိသော မန္တလေး၊ ဟင်္သာတ၊ ပြည်အစရှိသော အခြားမြို့များတွင်လည်း အလားတူပင် စီမံဆောင်ရွက် ပေးခဲ့လေသည်။

နိုင်ငံတော် ပြည်သူ့ အိုးအိမ်အဖွဲ့သည် ၁၉၅၁ ခုနှစ် အိုးအိမ်ပြန်လည်ထူထောင်ရေး အက်ဥပဒေ ပုဒ်မ ၆၄ အရ ၁၉၅၁ ခုနှစ် နိုဝင်ဘာလမှစ၍ တည်ရှိလာသော အဖွဲ့ ဖြစ်၏။ နိုင်ငံတခွင်းရှိ မြို့ရွာဒေသ အနှံ့အပြားတွင် စစ်ဘေးနှင့် သောင်းကျန်းမှုဒဏ်ကြောင့် အိုးအိမ်အများ ပျက်စီးခဲ့သဖြင့် နိုင်ငံတော်အစိုးရက ကြပ်မ၍ စနစ်တကျ ပြန်လည်ထူထောင်ပေးမှသာ လူထုတရပ်လုံး၏ နေမှု ထိုင်မှု သက်သာချောင်ချိမည် ဟု ယူဆ၍ ထိုအဖွဲ့ကို တည်ထောင်ခဲ့ခြင်း ဖြစ်သည်။ အဖွဲ့တာဝန် ဝတ်တရားများမှာ နိုင်ငံတော်အတွင်း နေထိုင်လျက်ရှိသော ပြည်သူပြည်သားများအား သင့်လျော်သော ကျန်းမာရေး၊ လွယ်ကူမှု အခွင့်အရေးနှင့် ကောင်းကျိုး ခံစားမှုတို့အတွက် မြို့ရွာ စည်ပင်ရေးလုပ်ငန်းများနှင့် ပြည်သူ့အိုးအိမ် ပြန်လည် ထူထောင်ရေး လုပ်ငန်းများကို ကြီးကြပ်အုပ်ချုပ်ခြင်း၊ စီမံခန့်ခွဲခြင်းနှင့် တိုးတက်အောင် ဆောင်ရွက်ခြင်းတို့ ဖြစ်၏။ ရန်ကုန်မြို့ စည်ပင်သာယာရေးအဖွဲ့ကို ပြည်သူ့အိုးအိမ် အဖွဲ့နှင့် ၁၉၅၅ ခုနှစ် ဒီဇင်ဘာလ ၁ ရက်နေ့မှစ၍ ပူးပေါင်းလိုက်သောကြောင့် ယခင် ရန်ကုန် စည်ပင် သာယာရေးအဖွဲ့က ဆောင်ရွက်ခဲ့သော လုပ်ငန်းတာဝန် ဝတ်တရားများကို ပြည်သူ့အိုးအိမ်အဖွဲ့က ဆက်လက်ဆောင်ရွက်လျက်ရှိလေသည်။

**မြို့ရိုး။** ။ဗုံး အမြောက်စသည့် လက်နက်ဆန်းများ မပေါ်မီခေတ်က ကမ္ဘာ့ အရပ်ရပ်တွင် မြို့လုံခြုံမှုအတွက် မြို့ကို ဝန်းပတ် ကာရံထားသော မြို့ရိုးများကို ဆောက်လုပ်လေ့ရှိကြသည်။ ရှေးအကျဆုံး မြို့ရိုးမှာ ဆူးဖြင့် ခတ်ထားသည့် မြို့ရိုးမျိုးဖြစ်၏။ အယ်လက်ဇန္ဒာဘုရင် လက်ထက်က ဟာကေနီယန်ရွာများကို ဆူးခြုံများဖြင့် ကာရံထားလေသည်။ ယခုထက်တိုင်များစွာတိုးတက်ခြင်းမရှိသေးသည့်အချို့သော ဒေသများ၌ ဆူးဖြင့် ပြုလုပ်ထားသော စည်းရိုးများဖြင့် အကာအကွယ် ယူနေကြပေသေးသည်။ ဆူးခြုံဆူးစည်းရိုးများဖြင့် မလုံခြုံသောအခါ မြေမြို့ရိုးများကို ပြုလုပ် လာကြသည်။ မြေမြို့ရိုးအားဖြင့် အကာအကွယ် ရရုံမကဘဲ အကာအကွယ် ယူသူတို့ကလည်း ပြန်လည် ပစ်ခတ်ခုခံနိုင်သောကြောင့် ဆူးခြုံ၊ ဆူးစည်းရိုးတို့ထက် ကောင်း၏။ ဂျူးလယပ် ဆီဇာလက်ထက်က ဂျာမန်မြို့များသည် မြေမြို့ရိုးများအားဖြင့် အကာအကွယ်ယူ၏။ မြေမြို့ရိုး၏နောက်တွင် သစ်တပ်များပေါ်လာသည်။ သစ်လုံးများအကြားတွင် အုတ်ခဲ၊ မြေများကို ညှပ်ဖြည့်ပြီးလျှင် အခိုင်အခံ့ မြို့ရိုးပြုလုပ်ကြသည်။ ယင်းသည့်နောက်တွင် နေပူလှန်း၍ အခြောက်ခံသော အုတ်ဖြင့် အုတ်မြို့ရိုးကို ပြုလုပ်ကြသည်။ ထို့မှတဆင့် မီးဖုတ်အုတ်၊ အင်္ဂတေတို့ဖြင့် အခိုင်အခံ့ပြုလုပ်သော အုတ်တံတိုင်း မြို့ရိုးများ ခေတ်စားလာသည်။ အုတ်မြို့ရိုးများ ဆောက်လုပ်ရာတွင် အရေးကြီးသော အချက်များမှာ အမြင့်နှင့်ထုထည်တို့ ဖြစ်၏။

မြို့ရိုးသည် မြင့်မှသာလျှင် အလွယ်တကူ တက်ရောက်ကျော်လွှားနိုင်မည် မဟုတ်ပေ။ ထို့ပြင် မြို့ရိုးထိပ်တွင် အလွယ်တကူ လှည့်လည်သွားလာ အကာအကွယ် ယူကာ ရန်သူတို့ကို ပစ်ခတ် တိုက်ခိုက်နိုင်အောင် ထုထည်ကြီးမား ရပေမည်။ သို့ရာတွင် ထုထည်ကြီးကြီး ဆောက်လုပ်ရန်မှာ မတတ်နိုင်ရှိတတ်သဖြင့် အုတ်နံရံ ၂ ထပ်ဆောက်လုပ်၍ ထိုအုတ်နံရံ ၂ ခုအကြား မြေဖို့ပြီးလျှင် ထိပ်ဖက်၌တံတိုင်း ၂ ခုကို ဆက်၍ စင်္ကြံပြုလုပ်ရ၏။ အပြင်ဖက်တံတိုင်းကို အတွင်းဖက်တံတိုင်းထက် မြင့်ထားခြင်းဖြင့် ရန်သူတို့ပစ်လွှင့်သော ခဲလုံး လေးမြား လက်နက်တို့မှ အကာအကွယ် ရလေသည်။ မြို့ရိုးဆောက်လုပ်ရာ၌ တဆင့် တိုးတက်မှုမှာ မြို့ရိုး တလျှောက် သင့်ရာနေရာများတွင် မျှော်စင်များထားခြင်း ဖြစ်၏။ မျှော်စင်များကို မြို့ရိုးပတ်လည်တွင် တခုနှင့်တခု မနီးမဝေးစေဘဲ သင့်တင့် လျောက်ပတ်စွာ စီမံပြုလုပ်ထားသည်။ ဤသည့်နည်းဖြင့် ပို၍ အကာအကွယ် ရရှိသည်။ အချို့ မြို့ရိုးပတ်လည်တွင် ရေကျုံးများလည်း စီမံထားလေ့ရှိသည်။ ရန်သူများ ရုတ်ခြည်း မဝင်ရောက် နိုင်အောင်




ကုန်းဘောင်မင်း ဆယ်ဆက်မြောက် မင်းတုန်းမင်းတရားကြီး တည်ဆောက်ခဲ့သည့် မန္တလေး နန်းတော် မြို့ရိုးကြီး သရုပ်ပြပုံ ဖြစ်သည်။ ယင်းမြို့ရိုး၏ ထူးခြားချက်မှာ ရှေးမြို့ရိုးများကဲ့သို့ မြေမြို့ရိုး သစ်တပ်မြို့ရိုးမျိုး မဟုတ်ဘဲ၊ အုတ်ဖြင့် အခိုင်အမာ ဆောက်လုပ်ထားသည့် အုတ်မြို့ရိုးဖြစ်သည်။

တားဆီးထားခြင်းဖြစ်၏။ ခေတ်သစ် သမိုင်းတွင် ဥရောပ အလယ်ခေတ်အတွင်းဖြစ်သော ၁၂၀၀ ပြည့်မှ ၁၅၀၀ ပြည့် နှစ်ကျော် အတွင်းတွင် ဥရောပတိုက်၌ မြို့ရိုးများ အထူး ခေတ်စားလှပေသည်။ ကံကျွေးချစ်နစ် ထွန်းကားချိန်ဖြစ်၍ မြေရှင်၊ နယ်ရှင်၊ မှူးမတ်များသည် မိမိတို့ ရဲတိုက်များ၊ ပိုင် နက်များ လုံခြုံမှုရစိမ့်သောငှါ အုတ်တံတိုင်း မြို့ရိုးများဖြင့် အကာအကွယ်ယူကြ၏။ သို့ရာတွင် ၁၅၀၀ ပြည့်နှစ် နောက် ပိုင်း၌ ခဲယမ်းမီးကျောက် ပေါ်လာသောအခါ မြို့ရိုးများ သည် ခဲယမ်းမီးကျောက်ဒဏ်ဖြင့် ပြိုလဲရတော့၏။ တစ တစ ခဲယမ်းမီးကျောက်မှုသည် ဗုံး အမြောက် စသည်ဖြင့် တိုးတက်၍ လက်နက်ဆန်းများ ပေါ်လာသော ၁၉ ရာစု နှစ်သို့ ရောက်သောအခါ မြို့ရိုးများသည် အရာမရောက် တော့ဘဲရှိ၏။ မြို့ရိုးများထက် မြေကတုတ်များ၊ ဗုံးကျင်း များက ပို၍ အရာဝင်လာလေသည်။

မြို့ရိုးကြီးများအနက် ထင်ရှားကြီးမားသည့် မြို့ရိုးကြီး များကား အလွန်ကြာမြင့်သော ကာလက ဆောက်လုပ် ထားခဲ့သော မြို့ရိုးများ ဖြစ်၍ ယင်းတို့မှာ နင် နီဗမြို့တွင် ရှိသော မြို့ရိုးဟောင်းနှင့် တရုပ်ပြည် တံတိုင်းကြီးတို့ ဖြစ်၏။ နင်းနီဗမြို့ရှိ မြို့ရိုးမှာ မိုင် ၅၀ ကျော် ရှည်လျား၍ အမြင့်ပေ ၁၂၀ ၊ ထုပေ ၃၀ ရှိပြီးလျှင် မျှော်စင်ပေါင်း ၁,၅၀၀ မျှပါရှိ သည်။ ဘီစီ ၂၀၀၀ ကျော်ခန့်က တည်ဆောက်ခဲ့သော မြို့ရိုး ဖြစ်၏။ယခုထက်တိုင် အထင်အရှားတည်ရှိသော တရုပ်ပြည် တံတိုင်းကြီးသည် ဘီစီ ၂၀၀ ခန့်က ကေရာဇ်မင်း ရှီဟွန်တိ တည်ဆောက်ခဲ့သော မြို့ရိုးဖြစ်၏။ ရန်သူများဖြစ်သော ဟန်းနှင့် တာတာ လူမျိုးတို့၏ ဘေးရန်မှ အကာအကွယ် ရရန် တည်ဆောက်ခဲ့ခြင်း ဖြစ်၏။ မိုင် ၁,၅၀၀ ခန့် ရှည် လျားပြီးလျှင် အမြင့်ပေ ၂၀ မှ ၃၀ ထိ ရှိသည်။ ပြက် ၁၅ ပေမှ ၂၅ ပေမျှ ရှိသည်။ ကိုက် ၂၀၀ အကြားတွင် မျှော် စင်တခု ရှိသည်။ တရုပ်ပြည် တံတိုင်းကြီးသည် လေအိုတွန် ပင်လယ်ကွေ့ ကမ်းခြေမှ စတင် သွယ်တန်းလာပြီးလျှင် ယခု မွန်ဂိုးလီးယား ပြည်နှင့် တိဗက်နယ်စပ်ရှိ ကန်ဆုနယ်တွင် ဆုံးသည်။ မြွေကြီး တွားသွားသကဲ့သို့ တတောင်တက် တတောင်ဆင်း တည်ရှိသော တံတိုင်းကြီးသည် ပေ ၄,၀၀၀ မြင့်သော အရပ်သို့တိုင် ရောက်သည်။ တံခါးကြီးများမှာ ခံတပ်သဖွယ်ဖြစ်၏။ ထုထယ် ကြီးမားလှသော သစ်များ၊ သံချောင်းများဖြင့် ဆောက်လုပ်ထား၍ သံသော့ကြီးများ ဖြင့် ခတ်ထားသည်။ မြို့ရိုးထိပ်မှာ ၁၂ ပေကျယ်သည်။ နှစ်ပရိစ္ဆေဒ ကြာမြင့်သည့်အလျောက် အချို့နေရာများတွင် ပျက်စီး ယိုယွင်းလာသည်ကို အခါအားလျော်စွာ ပြုပြင် ထားရသည်။ ဦးစွာ၌ အုတ်ကြမ်း၊ မြေကြီးတို့ဖြင့် ဆောက် လုပ်ထားဟန် တူသော်လည်း နောင်ပြင်ဆင်သွားရာတွင် ဆစ်ထားသော ကျောက်များကို အသုံးပြုခဲ့လေသည်။



**မန္တလေး နန်းမြို့ရိုးတွင်းမှ မြို့ပြင်ဖက်သို့ ရှုသော် တွေ့မြင်ရပုံ ဖြစ် သည်။ အထက်ပါပုံမှာ ခေတ်တံခါးခေါ် ဗဟိုတံခါးမကြီးတခုဖြစ်သည့် မြောက်ပြင် လေးသိန်းတံခါးပုံ ဖြစ်သည်။**

မြန်မာနိုင်ငံတွင်လည်း ရှေးအထက်ကျော် ကာရီကပင် မြို့ရိုးများကို တည်ဆောက်လေ့ ရှိခဲ့ပေသည်။ ရှေးမြန်မာ မြို့တော်ဟောင်းများ၏ မြို့ရိုးဟောင်း၊ မြို့ရိုးပျက်များကို ယခုတိုင်တွေ့မြင်နိုင်ပေသေးသည်။ လွန်ခဲ့သည့် အနှစ် ၁၀၀ ကျော်က မင်းတုန်းမင်းတရား တည်ဆောက်ခဲ့သည့် မန္တ လေးမြို့ရိုးကြီးသည် ဒုတိယ ကမ္ဘာစစ်အတွင်းက အမြောက် ဒဏ်များကို မရှုမလှ ခံခဲ့ရသဖြင့် အချို့အပိုင်းများ ပျက် စီးခဲ့သော်လည်း ထင်ထင်ရှားရှားပင် တည်ရှိနေသေးသဖြင့် မြန်မာတို့၏ မြို့ရိုးအသွင်အပြင်ကို နမူနာဆောင်လျက် ရှိ ပေသေးသည်။

မြန်မာတို့၏ မြို့ရိုးတွင် ရှိရသော အစိတ်အပိုင်းတို့ကား တံခါး၊ တံခါးပြ၊ တန်ဆောင်း၊ ပြာသာဒ်၊ ပြအိုး၊ ပစွင်၊ ရဲ လောင်း၊ ရင်တား၊ သူရဲခို၊ မီးတားစသည်တို့အပြင် ရန်သူတို့ အလွယ်တကူ ဝင်ရောက်ခြင်းငှါ မစွမ်းနိုင်အောင် မြို့ရိုးကို ပတ်ရံထားသော ကျုံးတို့ ဖြစ်၏။

ရှေဘုံနိဒါန်းတွင် "စိတ္တကင်္ဂ အစရှိသော တံခါးကဲ့သို့ လေးကျွန်း၊ ဦးနှိမ်၊ သိမ်းဆည်း၊ ကျွန်းလုံးဝင်၊ ကုန်းမော်၊ နန္ဒမူ၊ အာဠဝိ၊ စည်ရှင်၊ ရန်နှင်၊ ရန်မျိုးအောင်၊ လေး



မန္တလေးမြို့ရိုး ကျော်မိုး တံခါးပြာသာဒ်



ကျော်မိုးမင်္ဂလာတံခါးအနီး မြို့ရိုးပေါ်မှ ရှုမြင်ရသော သူရဲပြေး

သိန်း၊ မုတ်ဦး မော်ကွန်း ကမ္ပည်းတပ်သော လေးရပ်သုံး မည် လှည့်လည်သော တံခါးတို့သည်၎င်း၊ တံခါးပြ၊ မြို့ ထောင့်ပြ၊ မြို့တန်ဆောင်း အစရှိသည်တို့ဖြင့် သာယာ ဆန်းကြယ် ကြီးငယ် နိမ့်မြင့်၊ တင့်တယ်လျောက်ပတ်စွာ တန်ဆာ ဆင်ယင်အပ်သော ပြလက်ရန်း တည်းဟူသော နရန်းတို့သည်၎င်း၊ နရန်းအထက် ခိုင်ခံ့စွာခင်းထားလျက် လက်ရန်းတပ်သော ပစ္စင်္ဂတို့သည်၎င်း၊ နရန်းရှေ့လွှတ်ထား သော ရင်လျှောက်တို့သည်၎င်း၊ တံခါးတိုင်၌ ဖြောင့်မတ် စွာ လျှောက်သန်းသော ရှောင်ဆွဲတို့သည်၎င်း၊ တံခါးတိုင်၌ ဘီလာသန်း၍ လျောက်ပတ်စွာသော နဖားတို့သည်၎င်း၊ ထိုရှောင်ဆွဲနဖားတို့၌ ဖုံးဘိအပ်သော နဝရတ်တို့သည်၎င်း၊ တံခါးပြင်၌ သုံးဆင့်လျှိုသော ရင်တားတို့သည်၎င်း၊ တံခါး အတွင်း၌ သုံးတန့်လျှိုသော ရက်ဖောက်တို့သည်၎င်း၊ တံခါးရွက် နှစ်ဖက်၌ သံကွင်းတပ်သော ကျည်းလျှိုတို့သည် ၎င်း၊ မင်းတုပ်တို့သည်၎င်း၊ တံခါးအတွင်း၌ စိုက်ရန် လိုခါ ရအောင် စုပုံထားသော တုရိုဏ်တိုင်တို့သည်၎င်း၊ အဝင် လက်ျာ၊ အထွက် လက်ဝဲဖက်က သွားလာခြင်း၌ မလွယ် မကူ လှည့်လည်သွားလာရသော မလွယ်ပေါက်တို့သည်၎င်း၊ တံခါးပြင်၊ ကျုံးနဖူး အုတ်ဖြင့်စီအပ်သော ရွက်ကာတို့သည် ၎င်း၊ ချိုင့်ဝှမ်းနက်ကျယ်စွာ နိမ့်မြင့် နှစ်ဆင့်ခန့်အပ်သော ပတ်လည် ကျုံးတို့သည်၎င်း၊ မြို့ထိပ်အပြင်၌ သူရဲသူခက်တို့ သွားလာရာဖြစ်သော သူရဲပြေးတို့သည်၎င်း၊ သူရဲသူခက်တို့ မှီခိုရာဖြစ်သော သူရဲခိုတို့သည်၎င်း၊ သူရဲခို ၁၀ လုံး အကြား၊ အလုံး ၂၀ အကြားတို့၌ မီးထည့်ရန် ပေါင်းကူး၍ လုပ်သော ပေါင်းဖျဉ်း တို့သည်၎င်း၊ သူရဲခိုတို့၌ တူရူ ဖောက်သော ပြောင်းပေါက်တို့သည်၎င်း၊ သူရဲခို အကြားတို့၌ ကာရံထား အပ်သော သူရဲကာတို့သည်၎င်း" ဟူ၍ အမရပူရမြို့ရိုး အစိတ်အပိုင်းများကို ဖော်ပြထားသည်ကို တွေ့ရ၏။

မန္တလေးရွှေမြို့တော်ကြီးကို သာသနာနှစ် ၂၄၀၀ ပြည့်မှီ အောင် ၁၂၁၈ ခုနှစ်က စတင် တည်ဆောက်ခဲ့သည် ဆို သော်လည်း၊ မြို့ရိုးနှင့်တကွ ခုနစ်ဌာနတို့ကိုမူကား ၁၂၂၁ ခုနှစ် ကဆုန်လမှ အုတ်မြစ်ချ၍ တည်လုပ်ရသည်။ အုတ်မြို့ ရိုးသည် အုတ်မြစ်သံတောင် ၁ တောင်၊ အုတ်ရိုးထု ၁ တာ၊ အရပ် သံ ၁၅ တောင်၊ သူရဲခို အမြင့် သံ ၃ တောင်၊ နှစ်စု အုတ်မြို့ရိုး အမြင့် ၁၈ တောင်၊ အချင်း တမျက်နှာ တာ ၆၀၀၊ ၄ မျက်နှာ တာ ၂,၄၀၀ ရှိသည်။ဤသို့သာသနာတော် ၂,၄၀၀ အထိမ်းအမှတ်အဖြစ် မြို့တော်ကို လေးထောင့် စတုရန်း တည်၍ မြို့ရိုးအနား တဖက်လျှင် တာ ၆၀၀ စီ အညီ အမျှ ခွဲဝေထားခဲ့သည်။ မြို့တော် လေးမျက်နှာ ဓာတ်တံခါး ၄ ရပ်မှာ ပြာသာဒ် ဘုံ ၇ ဆင့်၊ မိတ်တံခါး ၈ ရပ်မှာ ပြာသာဒ် ဘုံ ၅ ဆင့်၊ ထောင့်ပြကြီး ၄ ခုနှင့် ပြငယ် ၃၂ များမှာ ပြာသာဒ်ဘုံ ၅ ဆင့်စီ လုပ်ဆောင်၍၊ သစ္စေးသားရိုး ဟင်္သပြဒါး ရွှေချမွမ်းမံသည်။ ထိုတံခါးတော် ၁၂ ရပ်မှာ လွန်ကဲ၊ ဦးထိပ်၊ သောင်းညွှတ်၊ ကျွန်းလုံးယူ၊ ကျော်မိုး၊ ရန်နည်၊

ကြေးမုံ၊ စည်ရှည်၊ ထင်ရှား၊ စည်သာ၊ လေးသိန်း၊ မန်းဦး ဟူ၍ ဖြစ်သည်။ ထိုတံခါး ၁၂ ရပ်တို့၏ တံခါးရွက်များတွင် ထိုတံခါးတည်ရာ ရာသီခွင်အလိုက် ရာသီစောင့် အရုပ်များ၊ နက္ခတ်များ၊ တာရာပုံများကို ရွှေမင်နှင့် ထင်ရှား တင့်တယ် ရှုချင်ဖွယ်ရှိအောင် ရေးခြယ်ထား၏။ တံခါး ၁၂ ရပ် အမည်တော်တို့ကိုလည်း တံခါးပေါက် တခုစီ၏ အဝင် အထွက်လက်ျာကျသော မီးကာ အုတ်တံတိုင်းကြီးများ အနီး၌ အုတ်ပလ္လင် ၃ ဆင့်ခံ၍ မော်ကွန်းတိုင်ဖြင့် စိုက်ထူဖော်ပြထားသည်။

မြို့တံခါးများ အဝင်တွင် တံခါးစောင့်များ နေထိုင်ရန် ဝဲယာ တိုက်တန်းများထားရှိပြီးလျှင် တံခါးစောင့်တို့သေနတ် ကိုင်စွဲ၍ နေ့ညဉ့် စောင့်နေကာ၊ တံခါး အဝင်အထွက်တွင် ဓားလှံ သေနတ် စသော လက်နက်များ ပါမပါ၊ ယစ်မျိုးနှင့် အမဲသားများ သွင်းမသွင်း ကြည့်ရှုစစ်ဆေးရ၏။ နေဝင် ညဉ့် ၄ ချက် (ညနေ ၆ နာရီ )တီးသည့်အခါ အလယ်ဓာတ် တံခါးကြီး ၄ ခုကို ပိတ်လိုက်ရာ၊ ဝင်ထွက်သွားလာလိုသူတို့ တယောက်ဝင် မလွယ်တံခါးမှထွက်ဝင်ရသည်။ ညဉ့် ၁ ချက် တီး (ညဉ့် ၉ နာရီ)တွင် ထိုမလွယ်တံခါးများပါ ပိတ်လိုက်၍ နံနက် ၄ ချက်တီး (နံနက် ၆ နာရီ)ကျမှ မြို့တံခါးအားလုံး ပြန်ဖွင့်လိုက်သည်။ မြို့တံခါး ပိတ်ထားချိန်တွင် အခွင့်အမိန့် မရဘဲ မည်သူမျှ ဝင်ခွင့်ထွက်ခွင့် မရပေ။ အလယ်ဗဟို တံခါး မကြီးများတွင် ဓာတ်စည်တော်များ ဆွဲထားရာ၊ ပဟိုရ်ချက်နှင့်အညီ နေထွက်နေဝင်၊ တနည်းအားဖြင့် တံခါးဖွင့်ချိန် ပိတ်ချိန်တို့ကို ပြည်သူတို့အား အသိပေးသည့် အနေဖြင့် တီးရသည်။

မြို့တံခါး ၁၂ ရပ်တို့၌ တံခါးပေါက် နေရာများတွင် တံခါး တိုင်၏ မိုရာ အုတ်မြို့ရိုး တဖက်တချက်၌ အင်္ဂတေတို့ဖြင့် အပြေအပြစ် ကိုင်ပြီးလျှင် ထုံးဖြူဖွေးဖွေးသုတ်၍ တံခါး အထက်မှ ဘုံ ၅ ဆင့် ဘုံ ၇ ဆင့် အသီးအသီးရှိကြသော ယွန်းဆက်ပြေ တန်ဆောင်း ပြာသာဒ်တော်ကြီးများကို ရွှေဟင်္သပြဒါးတို့ဖြင့် မွမ်းမံ ခြယ်လှယ်ထားသည်။ တံခါးပေါက် တခုတခု၌ မြို့တံခါးတဖက်တချက် ကူးလိုသောအခါ လျှောက်သွားရန် ပြုလုပ်ထားသော ရင်လျှောက် ခေါ်နင်းကြမ်းပျဉ်ပြားများ၊ တံခါးရွက်ပြင်ဖက်က ရန်သူတို့ ရုတ်တရက် မဝင်သာအောင် တဖက်တချက် လျှိုထိုးသော 'ရင်တား' ခေါ် ရက်ဖောက် သစ်တုံးအဆင့်များနှင့် ထိုရင်တား တိုင်ကြီးတဖက်တချက်ကို ညှပ်ထားရန်၊ သို့မဟုတ် စွပ်ထားရန် ပြုလုပ်ထားသော တုရိုဏ်တိုင်ခေါ် တံခါးတိုင်များ၊ ထို့ပြင် မြို့ပေါက်အထွက် မြို့တံခါးနှင့် တည့်တည့်မှ အလျား ၃ တာ၊ အနံ ထု ၁ တာခန့်ရှိသော မီးတား ၊ သို့မဟုတ် မီးကာခေါ် ခိုင်ခံ့လှသည့် အုတ်နံရံကြီးများနှင့် ယင်းအနီးမှ အုတ်ပလ္လင် ၃ ဆင့်ခံ၍ မြို့တော်အမည် မော်ကွန်း တင်ထားသော မော်ကွန်းတိုင်ကြီးများ အသီးအသီး ရှိသည်။ အလယ်ဗဟိုတံခါးမကြီးများတွင် တံခါးအတွက်



မြို့ရိုးပေါ်မှ ရှုမြင်ရသော သူ့ရဲခို



ကျုံးတဖက်မှရှုမြင်ရသည့် တောင်မြင် ကျန်းလုံးယွှတံခါး



အရှေ့ပြင် ဦးထိပ်တံခါး အဝင်ဝ

လက်ဘဲဖက်က မြို့စောင့်နတ်ကူ တခုကျစီ ပြုလုပ်ထား၍၊ အလားတူမြို့ထောင့် ၄ ထောင့်တွင်လည်းနတ်ကူများရှိ၏။

တံခါးပေါက် မရှိသော ပြထက်များ၌ ၅ တိုင်စင်နှင့် ဘုံ ၅ ဆင့်ရှိသော ပြာသာဒ်ဆောင်များ ပေါက်ထားရာ၊ မြို့ ၄ မျက်နှာ၌ ထိုကဲ့သို့သော ပြငယ် ၃၂ ရှိ၍ ပြာသာဒ်လည်း ၃၂ ဆူရှိ၏။ ထောင့်ပြကြီး ၄ လုံးတို့၌ကား မလွယ် တံခါးများမှ ယွန်းဆက်ပြေ တန်ဆောင်းပြာသာဒ်မျိုးအတိုင်း ဘုံ ၅ ဆင့်နှင့် ပြုလုပ်ထားသည်။ တံခါးပြအိုးတို့၏ မှီရာတည်ရာ အောက်အခြေခံမှာ ထု ၁ တာ၊ အမြင့် ရဲခိုပါ ၁၈ တောင်ရှိသော အုတ်မြို့ရိုးကြီးပင် ဖြစ်သည်။ အုတ်ရိုးသက်သက်ကို မြေနီသရွတ်ဖြင့် အကြမ်းစီ စီပြီးမှ အတွင်းဖက်တွင် ဆင်ခြေလျှော မြေဖို့ လုပ်ဆောင်ထားခြင်း ဖြစ်သည်။

အုတ်မြို့ရိုးအထက်တွင် သူရဲခို ခေါ် အုတ်စိန်တောင် များ ပေါက်ထားပြီးလျှင် ယင်း၏ အတွင်းဖက် မြို့ရိုးထိပ်တလျှောက်တွင် သူရဲပြေးခေါ် စင်္ကြံလမ်းတခု မြို့ရိုးကို ပတ်၍ ပြုလုပ်ထားသည်။ တပြနှင့် တပြ အကြား၌ သူရဲခိုပေါင်း ၇၀ ကျော် ရှိ၏။ ပြထက်ရှိ ပြဆောင်ကို ပစ္စင်ဟု ခေါ် သည်။ စစ်မက် အရေးအရာရှိသောအခါ အမြောက်မြတပ္ပုစိန်၊ သစ်တုံး၊ ပွဲလျက်ရေ၊ ခဲရေ၊ သံရေတို့ဖြင့် ပစ်ဖောက် သွန်းလောင်း ရာဌာနဖြစ်၍ ပစ္စင် ခေါ်ကြောင်း ဆိုသည်။

ဤသို့လျှင် စတုရန်း ၄ မျက်နှာ တာပေါင်း ၂,၄၀၀ ရှိသော မြို့ရိုးတလျှောက်တွင် တံခါးကြီးငယ် ၁၂ ပေါက်၊ ထောင့်ပြကြီး ၄ လုံးနှင့် ပြငယ် ၃၂ ခုရှိသည့် အားလျော်စွာ ၄၈ ဌာနတို့၌ ပြာသာဒ်ဆောင်ပေါင်း ၄၈ ဆောင် ရှိသည်ကို စလေဆရာ ဦးပုညက ရတနာနဒီ မော်ကွန်းတွင် ‘ခေတုမဏ္ဍာ၊ ပတ်လည်ချသား၊ ကွန်းမပြာသာဒ်၊ ဒွါဒရယ်လည်း၊ မျဉ်းခတ်တသွန်၊ စတုကဏ်၌ ဗိမာန်လေးသွယ်၊ ဘဝဂ်ကယ်မျှ၊ တနယ်တနယ်၊ တလာ့ပယ်မူ၊ ရွှေကြယ်ငွေကြယ်၊ မျက်စုံခြယ်လျက်၊ တိမ်စွယ်ထဲချောင်၊ ရဲရဲပြောင်သည်၊ ရှစ်ဆောင်ရှစ်ဆောင်၊ ရစ်မြှောင်ဝန်းလည်၊ ရွှန်းရွှန်းကြည်မျှ၊ ရောင်ခြည်တွဲ့တွဲ့၊ ယိုအံ့ကဲ့သို့၊ လေးဆဲ့ရှစ်တန်၊ ဝေဇယန်လည်း၊ ဘုန်းဝှန်သတိုး၊ ရှင့်တန်ခိုးကြောင့်၊ လိုစိုးမျက်မှောက်၊ မြေမှပေါက်၏’ ဟု စပ်ဆိုခဲ့လေသည်။

ဤအုတ်မြို့ရိုး ပတ်လည် တလျှောက်တွင်ကား မြို့ဥပစာ တာ ၂၀ ခန့် မြေလွတ်ထားပြီးလျှင်၊ တာ ၂၀ ကျယ်သော ရေကျုံးတော်ကြီးဖြင့် မြို့ ၄ မျက်နှာကို ထုတ်ချင်းခတ် ပတ်ထားသည်။ အင်းဝ၊ အမရပူရ မြို့ဟောင်းများနှင့် နှိုင်းယှဉ်လျှင် မန္တလေးမြို့တော်သည် ကျုံးလေးမျက်နှာဖြင့်ထုတ်ချင်းခတ် ပတ်မိသော မြို့တော်ဖြစ်လေသည်။

ကျုံးတော်တွင်းသို့ ရတနာနဒီ မြောင်းတော်မှ ရေများ သယ်ယူ ဖြည့်တင်းထားက၊ ရေသစ်ရေဟောင်း မပြတ်လဲလှယ်ပေး၍၊ အမြဲတမ်း ကြည်လင် သန့်ရှင်းသည်။ မင်းဧကရာဇ်တို့ မြို့သိမ်း မင်္ဂလာ အခမ်းအနား ပြုလုပ်သော အခါ၌ ကျုံးတော်တွင်းမှာ ရေသဘင် ပွဲတော်ကို တခမ်းတနား ပြုလုပ်သည်။ ကျုံးကူး တန်တားများမှ အလယ်နင်းကြမ်းပျဉ်ကို ဖြုတ်ယူထားနိုင်၍၊ မြို့တော်ကို ရွှေလှေ ရွှေလောင်း ဖောင်တော်တို့ဖြင့် လှည့်ပတ်နိုင်သည်။

နေ့စဉ် ညဥ့်တချက်တီးတခါ၊ ၂ ချက်တီးတခါ၊ ၃ ချက်တီး တခါ တံခါးစောင့်များက နရီးဆရာတီး၍ ရေကင်းလှည့်ကြရသည်။ ကျုံးကူးတန်တားမှာ အလယ်ခေတ် တံခါးကြီးများတွင်သာ ထားရိုးဖြစ်သော်လည်း၊ အနောက် မျက်နှာက မိတ်တံခါးဖြစ်သော အာဋဝီ (ကြေးမုံ) တန်တား တွင်လည်း တခု ပို၍ ပြုလုပ်ထားသဖြင့် တန်တား ၅ စင်း ရှိသည်။ ၂ ဖက်ကမ်းထိပ်၌ ခပ်မော့မော့နှင့်လက်ရုံးတပ်ဆင်ထားသော အုတ်ခုံကြီးများ ပြုလုပ်ထားပြီးလျှင် ကျုံးလယ် တွင် တန်တား နင်းကြမ်းအရှင်ဖြင့်ကူးဆက်ထားလေသည်။

**မြို့သစ်။** ။မြို့သစ်သည် မကွေးတိုင်း မကွေးခရိုင် တောင်တွင်းကြီးနယ်တွင် ပါဝင်သော မြို့သစ်မြို့နယ် ရုံးစိုက်မြို့

ဖြစ်၏။ မြို့သစ်မြို့နယ်၏ မြောက်ဖက်တွင် သစ်ပုံချောင်း၊ အရှေ့ဖက်တွင် ပဲခူးရိုးမ၊ တောင်ဖက်တွင် တောင်တွင်းကြီးမြို့နယ်၊ အနောက်ဖက်တွင် ယင်းချောင်းတို့ ရှိသည်။ မြို့သစ်မြို့နယ်သည် ၆၄၇ စတုရန်းမိုင် ကျယ်ဝန်း၏။ မြို့နယ်အတွင်း၌ သူကြီးပိုင်နယ်ပေါင်း ၇၀ ရှိ၍ ၁၉၅၆ ခုနှစ် ခန့်မှန်းသန်ကောင်စာရင်းအရ လူဦးရေ ၇,၇၆၀ ယောက် ရှိသည်။ မြို့ပေါ်တွင် နေထိုင်သူတို့မှာ မြန်မာလူမျိုးချည်း ဖြစ်သည်။ လူဦးရေ ၃,၁၂၆ ခန့် နေထိုင်လျက် ရှိသည်။ မြို့သစ်တွင် မြို့ပိုင်နှင့် လက်ထောက်မြို့ပိုင်ရုံး၊ သမဝါယမရုံးနှင့် နိုင်ငံတော်အထက်တန်းကျောင်း တကျောင်းရှိသည်။ ၅ ရက်တဈေးလည်းရှိသည်။

မြို့သစ်မြို့နယ်၏ အရှေ့ပိုင်းသည် မြေနိမ့်ပိုင်းဖြစ်၍ ယင်းချောင်းမှ ရေကို ရရှိသည်။ ကောင်းမွန် ကျယ်ပြန့်စွာ လယ်ယာ လုပ်ကိုင်နိုင်၍ အထူးသဖြင့် စပါးကို စိုက်ပျိုးသည်။ မြို့နယ်၏ အနောက်ပိုင်းတွင်ကား အင်တိုင်းမြေရှိသဖြင့် အပူပိုင်းဒေသ အပင်မျိုးကို စိုက်နိုင်သည်။ မြို့သစ်မြို့သည် ပျဉ်းမနား ကျောက်ပန်းတောင်း မီးရထားလမ်းပေါ်တွင် တည်ရှိသောကြောင့် မြို့နယ်၏ ထွက်ကုန်များကို မီးရထားဖြင့် တင်ဆောင်ရောင်းချသည်။

**မြို့ဟောင်းမြို့။** ။မြို့ဟောင်းမြို့သည် မြန်မာနိုင်ငံ ရခိုင်တိုင်း စစ်တွေခရိုင်ရှိ မြို့ဟောင်းမြို့နယ်၏ ရုံးစိုက်မြို့ဖြစ်သည်။ ရှေးအခါက ဓညဝတီ ရခိုင်မြို့ဟူ၍၎င်း၊ မြောက်ဦးမြို့ ဟူ၍၎င်း တွင်ခဲ့၍ ရခိုင်မင်းအဆက်ဆက်တို့ နန်းစိုက်ခဲ့ရာ မြို့တော်ဖြစ်ခဲ့သည်။ ထိုကြောင့်ပင် နေရာအများအပြားတွင် ရှေးရခိုင်မင်းတို့ တည်ထား ကိုးကွယ်ခဲ့သော ရှစ်သောင်းဘုရား၊ ဒုက္ခံသိမ်ဘုရား၊ လေးမျက်နှာဘုရား၊ အံတော်ဘုရား စသော စေတီ ကူဘုရားတို့အပြင်၊ နန်းတော်ရာ၊ တံတိုင်း မြို့ပျက်များကို ယခုတိုင် တွေ့မြင်နိုင်သေးရာ ရှေးအတိတ်က ကောင်းစား ခဲ့ပုံကို သက်သေဆောင်လျက် ရှိသည်။ (ရှစ်သောင်းဘုရား — လည်းရှု။)

ရှေးအခါကမူကား မြောက်ဦး နေပြည်တော် (မြို့ဟောင်း) သည် အဆန်းတကြယ်ပင် ဖြစ်၏။ မြို့မျက်နှာပြင်သည် မြေညီမြေပြန့်မဟုတ်၊ တောင်ကုန်း တောင်ပူစာတို့ဖြင့် သာယာသည်။ ရွှေမြို့တော် နန်းတော်သည် ကုန်းမြင့် (တောင်ညိုကုန်းထိပ်) တွင် ရှုမောဖွယ်ရာ ဖြစ်သည်။ မြို့မြောက်ဖက်တလွှားတွင် ရှစ်သောင်းဘုရား၊ ဒုက္ခံသိမ်ဘုရား စသော ဘုရားတို့သည်၎င်း၊ တောင်ဖက် တခိုတွင် ရွှေတောင် စေတီတော်သည်၎င်း တင့်တယ်လှပေသည်။



စစ်တွေခရိုင်မြို့ဟောင်းမြို့ရှိ ရှစ်သောင်းဘုရား



မြောက်ဦးမြို့ဟု ခေါ်တွင်သည့် မြို့ဟောင်းမြို့ စံနစ်ပုံ

သိဃ်နဒီမြစ် (ရွှေနတ်ပြင်ချောင်း) သည်လည်း ရေကစား ရာ အရပ်ဖြစ်သည်။ ထိုကြောင့်ပင် ဟံသာဝတီ နေပြည် တော်တွင် ရောက်ရှိနေခဲ့သော ရခိုင်စာဆိုတော် ဦးကာဗျန် (ဥက္ကာပျံ)သည် မိမိ၏ ဇာတိဌာနေကိုသာ လွမ်းဆွတ်၍ မြောက်ဦး ရွှေမြို့တော်၏ သာယာပုံတို့ကို တဆဲ့နှစ်ရာသီ ရတုတွင် ဖွဲ့ဆိုထားခဲ့ပေသည်။ (ဥက္ကာပျံ — ရှု။)

မြို့ဟောင်းမြို့သည် စစ်တွေမြို့၏အထက် မိုင် ၅၀ ခန့် အကွာ ကုလားတန်မြစ်၏ လက်တက်ဖြစ်သော ရွှေနတ် ပြင် ချောင်းကမ်းပါးတွင် တည်ရှိသည်။ မြို့ဟောင်းမြို့သို့ သင်္ဘောဆိုက်ကပ်သောအခါ သင်္ဘောဆိပ်မှာ မြို့နှင့် အတန် ငယ်ကွာသဖြင့် သင်္ဘောဆိပ်မှတဆင့် မြို့ဟောင်းမြို့တွင်းသို့ ကူးတို့ဖြင့် တတန် ထပ်၍ ကူးရသည်။ ထိုမှတဖန် မိုင်ဝက်

ခန့်မျှ ကုန်းကြောင်းအားဖြင့် သွားသော် မြို့ဟောင်း မြို့တွင်းသို့ ရောက်ရှိပေသည်။ မြို့အနေအထားမှာ သဘာဝအားဖြင့် ချောင်းမြောင်းများဖြင့် ရစ်သန်းနေသဖြင့် လုံခြုံလှပေသည်။ မြို့တဖက်တွင် လွင်ပြင်ကြီးရှိ၍ လွင်ပြင်ကြီးကို ကျော်လွန်သောအခါ တောင်တန်း တောင်ရိုးများ ပိတ်ဆီးကာရံလျက် ရှိသည်။ မြေပြန့် လွင်ပြင်တွင် စပါးစိုက်ပျိုးသည်။ ၁၉၅၃ ခုနှစ် သန်ကောင်စာရင်းအရ မြို့ဟောင်းမြို့၏ လူဦးရေမှာ ၆,၅၅၅ ယောက် ဖြစ်၏။

မြို့ဟောင်းမြို့နယ်၏ အကျယ်အဝန်းမှာ ၆၄၂ စတုရန်းမိုင်ဖြစ်၍၊ ၁၉၅၆ ခုနှစ်တွင် ခန့်မှန်းခြေအားဖြင့် လူဦးရေ ၆၇,၀၀၄ ယောက်ရှိသည်။ မြို့နယ်၏ မြောက်ပိုင်းနှင့် အရှေ့ပိုင်းတို့မှာ သစ်တောများဖြင့် ဖုံးလွှမ်းနေသော တောင်ကုန်းများဖြစ်၍၊ တောင်ပိုင်းနှင့် အနောက်ပိုင်းတို့မှာ မြေဩဇာကောင်းမွန်သည်။ မင်းပြားမြို့မှ ပေါက်လာသော ကားလမ်းသည် မြို့ဟောင်းမြို့ကို ဖြတ်၍ သရက်တပင်မှ တဆင့်ကျောက်တော်သို့ ရောက်သည်။ မြို့ဟောင်း မြို့နယ်တွင် ဆန်စပါးကို အဓိကစိုက်ပျိုးသည်။

မြို့ဟောင်း (မြောက်ဦးမြို့) ကို မင်းနေပြည်တော်အဖြစ် ဦးစွာတည်ထောင်သူမှာ ပဲဖြူမင်း ဖြစ်သည်။ ပဲဖြူမင်းသည် ဝေသာလီကို စွန့်၍ မြောက်ဦးမြို့ကို တည်ထောင်ကာ သက္ကရာဇ် ၃၃၈ ခုနှစ်မှ ၃၅၆ ခုနှစ်အထိ စိုးစံသည်။ ထိုနောက် မင်းစောမွန်သည် သက္ကရာဇ် ၇၆၆ ခုနှစ်တွင် ရခိုင်ထီးနန်းကို ဆက်ခံ စိုးစံခဲ့၍ ၇၆၈ ခုနှစ်တွင် လောင်းချက်မြို့ကို မြန်မာတို့ သိမ်းယူသည်။ (လောင်းချက်မြို့ — လည်းရှု။) ထိုနောက် မွန်တို့တိုက်ခိုက်ကြပြန်ရာ ရခိုင်ပြည်တွင် မင်းမဲ့ကာ ဖရိုဖရဲဖြစ်ပြီးလျှင် မင်းစောမွန်သည် အနောက်ဖက်သို့ ထွက်ပြေး တိမ်းရှောင်ရာမှ သူရတန်မင်းအကူအညီဖြင့် ထီးနန်းပြန်ရသောအခါ၊ သက္ကရာဇ် ၇၉၂ ခုနှစ် နတ်တော်လဆန်း ၁ ရက် တနင်္ဂနွေနေ့တွင် မြောက်ဦးမြို့ကို တည်၏။ ရာဇဝင်တွင် ပဲဖြူမင်း ပဌမမြောက်ဦးမြို့ တည်သည်ကို မရေတွက်ဘဲ၊ မင်းစောမွန်ကိုသာ ပဌမ မြောက်ဦးမြို့တည်မင်း ဟု ရေတွက်လေသည်။ ထိုမင်းမှစ၍ မင်းပေါင်း ၁၂ ပါး ဆက်လက် စိုးစံခဲ့ရာ၊ မင်းခေါင်ရာဇာ လက်ထက်အထိ စည်ပင်လာခဲ့လေသည်။ မင်းခေါင်ရာဇာ၏ သားတော် သံတွဲစား မင်းပါကြီးသည် သက္ကရာဇ် ၈၉၃ ခုနှစ်တွင် နန်းတက်လေရာ၊ မြောက်ဦးမြို့တော်ကို ထပ်မံ အကြီးအကျယ် တည်ဆောက်ပြုစုသည်။ မင်းပါကြီးမှစ၍ မင်းပေါင်း ၉ ဆက်၊ ဆက်လက် အုပ်စိုးလေရာ၊ မင်းစနေ လက်ထက်တိုင်လေသည်။ မင်းစနေ လွန်သော် မင်းပါကြီး၏ မြစ်ဖြစ်သော နရပတိမင်းမှစ၍ မင်းပေါင်း ၂၈ ဆက်လက် အုပ်စိုးပြန်ရာ၊ ၁၁၄၆ ခုနှစ် ပြာသိုလဆုတ် ၇ ရက် စနေနေ့တွင် မြန်မာမင်း ဘိုးတော်ဘုရားက သိမ်းယူလေသည်။ ထိုနှစ်မှ စ၍ မြောက်ဦးတွင် မြို့ဝန်များ ခန့်၍ အုပ်စိုးစေခဲ့ရာ၊ ပဌမဆုံးမြို့ဝန်အဖြစ်ခန့်အပ်ခြင်းခံရသူမှာ နန္ဒပကြန်ဖြစ်၏။နန္ဒပကြန်၏နောက် မြို့ဝန် ၈ ဦး ဆက်လက်အုပ်ချုပ်ခဲ့လေသည်။

ခရစ် ၁၈၂၄ ခုနှစ် ပဌမ အင်္ဂလိပ်မြန်မာ စစ်ပွဲအတွင်းက အင်္ဂလိပ် စစ်ဗိုလ်ကြီး မော်ရစ်ဆန်၏ စစ်တပ်များသည် မြို့ဟောင်း၌ စခန်းချရာ၊ အဖျားရောဂါဖြင့် စစ်သားများစွာ သေဆုံးရုံမက စစ်ဗိုလ်ချုပ် ကိုယ်တိုင်လည်း မကျန်းမမာဖြစ်၍ ပြန်ရသဖြင့် လမ်းခရီးတွင် ကွယ်လွန်သည်။ ထိုစစ်အပြီးတွင် စစ်တွေမြို့ကို တည်၍ မြို့တော်ကို ပြောင်းရွှေ့လိုက်လေသည်။

**မြို့လူမျိုး။** ။တိဗက်-မြန်မာ အစုမှ ရခိုင်အုပ်စုခွဲတွင် ပါဝင်သော တိုင်းရင်းသား လူမျိုးများအနက် မြို့လူမျိုးတို့သည် စစ်တွေခရိုင် ဘူးသီးတောင် ဒေသနှင့် ယခင် ရခိုင်တောင်တန်းဒေသ၊ ယခု ချင်းဝိသေသတိုင်း ပီးချောင်း၊ မီးချောင်း တလျှောက်တွင် နေထိုင်ကြသည်။ ထို့ပြင် အရှေ့ပါကစ္စတန်ပြည်၊ စစ်တကောင်း တောင်တန်း၊ ဗိုလ်မင်းထောင် တောင်တန်းနယ် အစွန်အဖျားတွင်လည်း မြို့လူမျိုးတို့ နေထိုင်ကြသည်။ ၁၉၃၁ ခုနှစ် သန်ကောင်စာရင်းအရ မြို့လူမျိုးတို့၏ ဦးရေမှာ ၁၃,၇၆၆ ခန့်ရှိသည်။ မြို့လူမျိုးဘို့သည် မြို့ကြီးပြကြီးနှင့်မနီး၊ တောတောင် ချောင်းမြောင်း ထူထပ်သောအရပ်များတွင် ရွေးခလေ့အတိုင်း တောင်ယာပဲခင်း လုပ်ကိုင်စားသောက်လျက် ရှိကြသည်။ ယောကျ်ားတို့မှာ အနံ တဝါးလောက် အပြာရောင် အဝတ်ရှည်ကို ခါးတောင်းကျိုက်၍ ဝတ်ကြပြီးလျှင်၊ မိန်းမများမှာ အင်္ကျီဝတ်ကြရိုး ထုံးစံမရှိဘဲ၊ နက်ပြာရောင် အဝတ်စ အနံတထွာလောက်ကို ဒူးဆစ်အထိ ဆီးစပ်အောက် ရှော၍ ပတ်ရစ်ဝတ်ဆင်ကြသည်။ ထိုအဝတ်စ ခါးတွင် မြဲနေစေရန် ပုတီးစေ့လုံးကြီးများ သီထားသော ကြိုးများဖြင့် ရစ်ပတ်စည်းနှောင်၍သော်လည်း ထားတတ်၏။ သို့မဟုတ် ကြေးနီခွေများကိုသော်လည်း စွပ်ထားတတ်၏။ ရိုးသားစွာ နေထိုင်လေ့ရှိသည်။ လူအိုလူမင်းများကို လုပ်ကိုင် ကျွေးမွေးမည့် သားသမီး မရှိလျှင် ကာလသားများသည် စု၍ အပိုသက်သက် တောင်ယာလုပ်ပြီးလျှင် ဝမ်းစာထည့်ပေးကြ၏။

ခေါင်းကိုက်၊ ဝမ်းနာ၊ ဖျားနာခြင်းမှစ၍ နတ်ဖမ်းစားသည်ဟု အယူရှိပြီးလျှင် ကျွဲနွား ဝက်တို့ကို သတ်၍ နတ်တင်လေ့ ရှိသည်။ တောင်ပေါ် ယာခင်းတွင် မျိုးကြဲခါနီး၌ ကြက်ကို အကောင်များစွာ သတ်၍၊ ကြက်သွေးဖြင့် ယာခင်းကို ပက်ဖျန်းကာ ယာခင်းကောင်းစေရန်လည်း နတ်တင်လေ့ရှိသည်။

မြို့လူမျိုးတို့သည် တချိန်က ရခိုင်ပြည်တွင် မင်းဧကရာဇ်များအဖြစ် နန်းတက်၍ "မြို့" မင်းဆက် နှစ်ဆက်ကိုပင်

ထူထောင်ခဲ့ဘူးလေသည်။ ထိုသို့ မြို့မင်းဆက် နန်းတက်ခဲ့သည်မှာ သက္ကရာဇ် ၁၃၁ ခုနှစ်မှ ၁၅၆ ခုနှစ် အထိ ၂၅ နှစ်ခန့် ကြာခဲ့လေသည်။

ဤသို့ မြို့မင်းဆက် နှစ်ဆက် ထူထောင်ခဲ့ဘူးသော မြို့လူမျိုးတို့မှာ ယခုအခါ မထင်မရှားသော လူမျိုး အနေဖြင့် တည်ရှိကာ၊ အခြား မြန်မာနိုင်ငံ တိုင်းရင်းဘွားတို့ကပင် မြို့လူမျိုးတို့အကြောင်းကို မသိရှိကြပေ။

**မြက်။** ။လူနှင့် တိရစ္ဆာန်တို့သည် မြက်ပင်များကို မှီ၍ အသက်ရှင်နေကြသည်ဟု ဆိုရချေမည်။ စပါးပင်၊ ရိုင်းစပါးပင်၊ မြင်းစားဂျုံပင်၊ မုယောပင်၊ နှံစားပြောင်းပင်၊ ဖူးစားပြောင်းပင်နှင့် ကြံပင်တို့သည် စင်စစ်အားဖြင့် လူတို့စားသုံးရန်အတွက် ပြုပြင်ထားသော မြက်ပင်များ ဖြစ်ကြသည်။ မြက်ရိုင်းများမှာ ကျွဲ၊ နွား၊ သိုး၊ ဆိတ်တို့၏ အစာဖြစ်၍ ထိုတိရစ္ဆာန်များကို လူတို့ကတဖန် ပြန်လည် အသုံးချရသဖြင့် မြက်ယဉ်၊ မြက်ရိုင်းနှစ်မျိုးစလုံးသည် လူတို့အတွက် အလွန် အသုံးဝင်သော အပင်များ ဖြစ်ကြသည်။ ဤမျှမကသေး မြက်ပင်တို့သည် သစ်ပင်ကြီးများနှင့် အကြီးနေးသော အပင်များ မြေဆီလွှာတွင် မြဲမြံစွာ အမြစ်မစွဲမီ မြေကြီးကို အမြစ်သေး အမြစ်မွှားတို့ဖြင့် စုချုပ် စည်းနှောင်ထားလေသည်။ မိုး၊ ရေ၊ လေတို့ကြောင့် မြေကြီးကို တိုက်စားသွားခြင်း၊ မြေကျ ခြင်းအန္တရာယ်တို့ကို မြက်ပင်များက ကာကွယ်ပေး၏။ ထိုကြောင့် မြက်ပင်များသည် သစ်ပင်ကြီးများ၏ အမြစ်များကို ဖုံးအုပ် ကာကွယ်ထားလေသည်။ အဆောက်အအုံများ၊ လမ်းများ၊ ဝင်းခြံစည်းရိုးများ မြေထဲသို့ ကျ ကျ၍ မသွားရအောင် မြက်ပင်များကပင် အခြေခံမြေကို ခိုင်မြဲစေလေသည်။


ဥရောပပိုင်းဒေသများတွင် တွေ့ရလေ့ရှိသော မြက်အမျိုးမျိုး

ပဌမက သဘာဝ အလျောက် ပေါက်ရောက်လျက် ရှိနေသော ကမ္ဘာပေါ်ရှိ မြက်ခင်းကြီးများမှာ ရုရှနိုင်ငံရှိ "စတက်" မြက်ခင်း၊ မြောက်အမေရိကတိုက်ရှိ "ပရေရီ" မြက်ခင်း၊ တောင်အမေရိကတိုက်ရှိ "ပမ်းပပ်" မြက်ခင်းနှင့် သြစတြေးလီးယားတိုက်ရှိ "ဒေါင်း" မြက်ခင်းကြီးများ ဖြစ်သည်။ ဤကဲ့သို့ ကျယ်ပြန့်သော သဘာဝ မြက်ခင်းကြီးများ ရှိခြင်းကြောင့် ထိုတိုင်းပြည်များတွင် တိရစ္ဆာန် မွေးမြူခြင်း လုပ်ငန်းမှာ တိုးတက်လျက် ရှိသည်။ လယ်ယာစိုက်ပျိုး လုပ်ကိုင်လျက်ရှိသော တိုင်းနိုင်ငံတို့တွင် ကျွဲစားကျက်၊ နွားစားကျက်များကို အထူးတလည် ထားရှိရသည်။ မြက်စိုများကို အာဟာရဓာတ် မပျက်ပြားစေဘဲ ခြောက်သွေ့လာအောင် ပြုလုပ်ပေးနိုင်သည့်စက်ကို တီထွင်လိုက်ခြင်းဖြင့် ယခင်ကကဲ့သို့ လယ်လုပ်သူတို့သည် တိရစ္ဆာန်အစာအတွက် မပူပင်ရသည့်ပြင်၊ နိုင်ငံခြားမှ နှမ်းဖတ်ကဲ့သို့သောအစာများကို ဝယ်ယူရသည့် ကုန်ကျစရိတ်ကိုလည်း များစွာ သက်သာလာစေသည်။

မြက်ပင်များသည် မြေမရွေး၊ ရာသီဥတု အခြေအနေမရွေး ပေါက်ရောက်နိုင်သော အပင်များဖြစ်ရာ၊ အပူပိုင်းဇုန်၊ သမပိုင်းဇုန်၊ အအေးပိုင်းဇုန်စသည့် ဇုန်အသီးအသီးတို့တွင် အနှံ့အပြား တွေ့ရှိရသည်။ အပူပိုင်းတွင် အလွန်မြင့်မားသော ဝါးပင်ကြီးများနှင့် အခြား မြက်ပင်များကိုငင်း၊ သမပိုင်းတွင် အလတ်စား မြက်ပင်များကိုငင်း၊ အအေးပိုင်းရှိ ဆီးနှင်းအတိ ဖုံးလွှမ်းလျက်ရှိသော မြေပြင်တွင် ကပ်လျက် ပေါက်နေသည့် မှော်ပင်ကလေးများကိုငင်း တွေ့ရှိရသည်။ ကမ္ဘာပေါ်တွင် မြက်ပင်မျိုးပေါင်း ၄,၀၀၀ ကျော်မျှ ရှိသည်။ ထိုပြင် မြက်ပင်များသည် အပင်လောကတွင် ရှေးအကျဆုံးအပင်များထဲ၌ အပါအဝင်ဖြစ်၏။ မြေကျန်၊ မြေလပ်၊ မြေလွှတ်များ၌လည်း မြက်ပင်များ သာလျှင် အလျှင်ဦးစွာ ပေါက်ရောက်ကြသည်ကို တွေ့ရှိရသည်။ နေပူရှိန်ပြင်းလွန်းသည့်အခါ၌ဖြစ်စေ၊ ရာသီဥတုအေးမြလွန်းသည့်အခါ၌ဖြစ်စေ၊ မြက်ပင်များသည် စိမ်းလန်းစိုပြည်နေရာမှ နွမ်းအိ၊ ရိုယော်လာလျက် အရွက်များ ပျက်ကြွေကြလေသည်။ ယင်းတို့အရွက်များဆွေးမြည့်ကြခြင်းဖြင့် မြေဩဇာဓာတ်ကို ဖြည့်လောင်းပေးကြသည်။

မြက်ပင်မျိုးရင်း၏ ရုက္ခဗေဒအမည်မှာ ဂရာမင်းနီအီးဖြစ်သည်။ မြက်ပင်နှင့် အခြားအပင်များ ကွဲပြားခြားနားချက်များမှာ မြက်ပင်တို့၏ ပင်စည်တွင် အဆစ်များ ရှိခြင်း၊ အဆစ်တဆစ်တွင် အရွက်တရွက်စီပင်စည်၏တဖက်တချက်၌ ထွက်နေခြင်း၊ များသောအားဖြင့် မြက်ပင်တို့၏ ပင်စည်မှာ ခေါင်းပွ ဖြစ်ခြင်းတို့ ဖြစ်သည်။ အချို့မြက်ပင်မျိုး၌သာ

ပင်စည်၏ အခေါင်းတွင် အနှစ်ပျော့ပျော့များ ပြည့်လျက်ရှိသည်ကို တွေ့ရသည်။

မြက်ပင်များသည် အကြီးမြန်သော အပင်မျိုး ဖြစ်၍ အချို့ မြက်ပင်ကြီးများသည် ၂၄ နာရီ အတွင်း ၂ ပေမှ ၃ ပေကျော်အထိပင် မြင့်မားလာနိုင်ကြသည်။ ဝါးပင်ကြီးများဆိုလျှင် ၂ လ၊ ၃ လအတွင်း ပေ ၁၀၀ အထိပင် ကြီးမြင့်၍လာသည်ကိုတွေ့ရှိရသည်။ ထို့ပြင် မြက်ပင်များသည်ရေမိုးပါးရှားသည့်ဒဏ်ကိုလည်း အထူးခံနိုင်ရည်ရှိကြပေသည်။

အချို့ ခြံဥယျာဉ်များ အတွင်း၌ မြက်ခင်းများကို ဂရုစိုက်၍ ပြုပြင်လျက် ထားရှိကြသည်။ အိမ်ရှေ့ မျက်နှာစာနှင့် အိမ်ဘေးတို့တွင် မြက်ပင်များကို တမင်လာ စိုက်ပျိုးထား၍ ရေမှန်မှန်လောင်းပေးခြင်း၊အရွက်များ တညီတညာတည်းရှိအောင် မြက်ဖြတ်စက်ဖြင့် ဖြတ်ပေးခြင်း၊ ဒလိမ့်တုံးဖြင့် လှိမ့်ပေးခြင်း စသည်တို့ကို အစဉ်တစိုက်ပြုလုပ်ပေးခြင်းဖြင့် အိမ်၏ တင့်တယ်ခြင်းကို ဆောင်ပေသည်။ သာမန်မြက်ပင်များအပြင် ငှက်မွေး ငှက်တောင်ကဲ့သို့ အပွင့်များပွင့်တတ်သော မြက်ပင်များလည်း ရှိပေသေးသည်။ အချို့ခြံဥယျာဉ်များတွင် ဤမြက်လှပင်များကို ပန်းပင်၊ ပန်းခြံပင်များနှင့် ရောယှက်၍ အလှစိုက်ပျိုးထားတတ်ကြသည်။ (မြန်မာနိုင်ငံမြက်များ — လည်းရှု။)

**မြောက်ပင်လယ်။** ။မြောက်ပင်လယ်သည် အတ္တလန္တိတ်သမုဒ္ဒရာ၏ လက်တက်တခု ဖြစ်၍ ဂရိတ် ဗြိတိန်ကျွန်းနှင့်ဥရောပတိုက် ကုန်းမအကြား၌ တည်ရှိ၏။ ယင်း၏ ကမ်းရိုးတန်းသည် မိုင် ၄,၀၀၀ ကျော်မျှ ရှည်လျား၍ စတုရန်း မိုင် ၂၂၂,၀၀၀ ကျော်မျှ ကျယ်ဝန်းရာ အလျားသည် မိုင် ၆၀၀ ဖြစ်၍ အနံသည် မိုင် ၄၀၀ ခန့် ဖြစ်သည်။

မြောက်ပင်လယ်သည် ရေတိမ်သော ပင်လယ်ဖြစ်သည်။ တောင်ပိုင်းတွင် ပျမ်းမျှခြင်းအားဖြင့် ပေ ၁၀၀၊ အလယ်ပိုင်းတွင် ပေ ၂၅၀ နှင့် မြောက်ပိုင်းတွင် ပေ ၄၀၀ နက်သည်။ အချို့ နေရာများတွင် ဤမျှလောက်ပင် မနက်ချေ။ ရေအနက်ဆုံး အပိုင်းမှာ နော်ဝေဂျီယန် ရေလက်ကြားဖက်တွင် ဖြစ်ရာ၊ ထိုနေရာတွင် ၂,၁၆၅ ပေ ခန့်မျှ နက်လေသည်။ ရေတိမ်သည့် ပင်လယ်ဖြစ်၍လည်း လှိုင်းလေထန်၏။ ဤပင်လယ် နေရာသည် တခါက ကုန်းမြေဖြစ်ခဲ့သည်။ အတ္တလန္တိတ်သမုဒ္ဒရာမှ ရေများလွှမ်းမိုး၍ ပင်လယ်ဖြစ်ပေါ်လာသောအချိန်အခါသည် ကမ္ဘာကြီး၏ သက်တမ်းနှင့်စာသော် မကြာလှသေးချေ။

မြောက်ပင်လယ်တွင်းသို့ မြစ်ကြီးများစွာ စီးဝင်သဖြင့် အခြား ပင်လယ်များနှင့် နှိုင်းစာလျှင် ရေငန်လှခြင်း မရှိပေ။ စီးဝင်ကြသော မြစ်များမှာ အင်္ဂလန်ပြည်ဖက်မှ ဟမ်းဗားနှင့် တင်းမြစ်၊ ဥရောပတိုက်ဖက်မှ ရိုင်း၊ အဲ့လဗ၊ ဗေဇာ၊ အမ်းနှင့် ဆကဲ့မြစ်တို့ ဖြစ်ကြလေသည်။

စကာက်ဂါရက် အမည်ရှိသော လက်တက် တခုနှင့် ကီးရေလက်ကြားကြီးတို့သည် မြောက်ပင်လယ်နှင့် ဗောလတစ်ပင်လယ်တို့ကို ဆက်စပ်ထား၏။ အင်္ဂလိပ်ရေလက်ကြား



မြောက်ပင်လယ်တွင်း တွေ့မြင်ရလေ့ရှိသော ကော့ဒ ငါးဖမ်းသင်္ဘောတစု ငါးဖမ်းပိုက်များချနေစဉ်

ကြီးကမူ ထိုပင်လယ်နှင့် အတ္တလန္တိတ် သမုဒ္ဒရာတို့ကို ဆက်စပ်ထားလေသည်။ ယင်းသို့အခြားပင်လယ် သမုဒ္ဒရာများနှင့် ဆက်စပ်နေသဖြင့် မြောက်ပင်လယ်တွင် ပင်လယ်ရေစီးကြောင်း အမျိုးမျိုး ဖြစ်နေသည်။

အေးချမ်းသာယာသည့် အချိန်အခါများတွင် မြောက်ပင်လယ်မှာ ကုန်သင်္ဘောကြီးများ၊ လူစီးသင်္ဘောကြီးများ ကူးသန်း သွားလာကြခြင်းဖြင့် များစွာ စည်ကားလေသည်။ ကမ္ဘာပေါ်တွင် ရေကြောင်းဖက်၌ ထင်ရှားသော နိုင်ငံကြီးများ၏ သင်္ဘောဆိပ်မြို့များသည် ယင်းပင်လယ်၏ ကမ်းခြေတွင် တည်ရှိကြ၏။ အင်္ဂလန်၊ ဂျာမနီ၊ နော်ဝေး၊ နယ်သာလန်နှင့် ဒိန်းမတ်နိုင်ငံတို့၏ သင်္ဘောဆိပ်မြို့များသည် မြောက်ပင်လယ်၏ နယ်နိမိတ်များ ဖြစ်၏။ ပင်လယ်ကမ်းရိုးတန်း တလျှောက်တွင် တံငါ လုပ်ငန်းကို အကြီးအကျယ် လုပ်ကိုင်ကြ၍၊ တကမ္ဘာလုံး သုံးစွဲရန်အတွက် ဟဲရင်းငါးများကို မြောက်ပင်လယ် ကမ်းခြေဖက်ကျသော နော်ဝေး တံငါလုပ်ငန်းများက ဖမ်းဆီးရရှိ၏။ မြောက်ပင်လယ်ဖက်ကျသော အင်္ဂလန်နှင့် စကော့တလန်ပြည်၏ အရှေ့ဖက် ကမ်းခြေ ဒေသများတွင်လည်း တံငါ လုပ်ငန်း ကြီးကျယ်လေသည်။

မြောက်ပင်လယ်၏ တည်နေပုံသည် စစ်အတွက် အရေးပါသောကြောင့် စစ်တွင်းကာလများ၌ မြောက်ပင်လယ်ကို ယင်း၏ ကမ်းခြေရှိ နိုင်ငံကြီးများက ကြပ်တည်းစွာ စောင့်ထိန်းထားကြ၏။ စစ်သင်္ဘောများက ကင်းလှည့်နေ၍ ရေမြှုပ်ဗုံးများကိုလည်း ချထားလေသည်။ အကြောင်းမှာ ပဌမ ကမ္ဘာစစ်ကြီး အတွင်းက အင်္ဂလန်ပြည်သည် ထိုပင်လယ်ကိုကြီးစိုးနေခဲ့၍၊ ထိုပင်လယ်မှ ဗောလတစ်ဖက်သို့ ရန်သူဘို၏ ကူးသန်း သွားလာခြင်းကို အဆက်ဖြတ်ထားနိုင်ခဲ့သည်။ ဒုတိယ ကမ္ဘာစစ်ကြီး အတွင်း၌ကား ဂျာမန်နှင့် အင်္ဂလိပ်ရေတပ် နှစ်ခုစလုံးကပင် မြောက်ပင်လယ်၌ ရေကြောင်းပိတ်ဆို့ရန် ကင်းလှည့်၍ ရေမြှုပ်ဗုံးများကို ချထားခဲ့သည်။

**မြောက်ဝင်ရိုးစွန်း။** ။ကမ္ဘာလုံးမြေပုံတခုကိုကြည့်လျှင် အထက်ဖက်မှ အောက်သို့ ဆွဲထားသော မျဉ်းကြောင်းများကို မြင်ရပေမည်။ ယင်းမျဉ်းကြောင်းများ အားလုံး ဆုံမိသည့် အထက်ပိုင်း နေရာသည် မြောက်ဝင်ရိုးစွန်းတည်ရှိသည့် နေရာပင်ဖြစ်၏။ တနည်းအားဖြင့်ဆိုသော် မြောက်ဝင်ရိုးစွန်း ဆိုသည်မှာ ကမ္ဘာမြေကြီး၏ မြောက်ဖက်အကျဆုံးနေရာကို ခေါ်ခြင်းပင် ဖြစ်သည်။ မြောက်ဝင်ရိုးစွန်းကို ကမ္ဘာမြေပုံပေါ်တွင် ထောက်ပြနိုင်သော်လည်း မြေကြီးပေါ်၌ မည်သည့်နေရာဖြစ်သည်ဟူ၍ မည်သူမှ အတိအကျ မပြသနိုင်သေးချေ။

မြောက်ဝင်ရိုးစွန်း ဟူရာ၌ ပထဝီ မြောက်ဝင်ရိုးစွန်းနှင့် သံလိုက် မြောက်ဝင်ရိုးစွန်း ဟူ၍ နှစ်မျိုး ရှိသည်။ အထက်၌ ဖော်ပြခဲ့သော မြောက်ဝင်ရိုးစွန်းမှာ ပထဝီ မြောက်ဝင်ရိုးစွန်း ဖြစ်သည်။ သံလိုက် မြောက်ဝင်ရိုးစွန်းသည်ကား ပထဝီ မြောက်ဝင်ရိုးစွန်းနှင့် တထပ်တည်း မဟုတ်ဘဲ ၁၉၄၇ ခုနှစ်တွင် နောက်ဆုံး ရှာဖွေတွေ့ရှိချက်အရဆိုလျှင် အိမ်မြှောင်ကရိယာက မြောက်ဖက်သို့ ပြသည့်ဖက်တွင် တသီးတခြား



၁၈၁၈–၁၉ ခုနှစ်တွင် ကပ္ပိတန်ရော့သည် မြောက်ဝင်ရိုးစွန်းသို့ စွန့်စားထွက်ခွာခဲ့ရာ ပရင့်ရီးဂျင့် ပင်လယ်အော်ရှိ တိုင်းရင်းသားတို့နှင့် ဦးစွာ အဆက်အသွယ်ရရှိခဲ့သည်။



မြောက်ဝင်ရိုးစွန်းသို့ စွန့်စားသွားရောက်ရာတွင် စွတ်ဖားနှင့်ခွေးများကို အသုံးချရသည်။

မြောက်ဝင်ရိုးစွန်းသွား အမေရိကန်အဖွဲ့ ခရီးတထောက်ရပ်နားစဉ်

အေးမြသောရာသီဒဏ်ကို ခံနိုင်ရန် ရေခဲအိမ်များကို ဆောက်လုပ်ခိုလှုံရသည်။



ရေခဲမြစ်တွင်း သင်္ဘောတစင်းအကျဉ်းအကျပ် တွေ့နေရစဉ်

တည်ရှိလေသည်။ သံလိုက် မြောက်ဝင်ရိုးစွန်းသည် ပရင့်စအော့ဝေးနှင့် ဆိုမာဆက်ကျွန်းစုများ အနီးအနားတွင် တည်ရှိသည်ဟု ဆိုလေသည်။

မြောက်ဝင်ရိုးစွန်းသည် အလွန် အေးမြသော အာတိတ်သမုဒ္ဒရာ ဒေသတွင် တည်ရှိနေသဖြင့် ဆဲနှစ်ရာသီ ကာလပတ်လုံး ရေခဲအတိ ဖုံးလွှမ်းလျက် ရှိလေသည်။ မြေကြီးဟူ၍ မရှိသော်လည်း မျက်နှာပြင်သည် ထုထည်ကြီးမားလှသော ရေခဲပြင် ဖြစ်ခြင်းကြောင့် အစဉ်သဖြင့် မာကျောနေသည်။ ရောဗတ် အီး၊ ပီယားရီ အမည်ရှိ အမေရိကန်လူမျိုးတဦးသည် မြောက်ဝင်ရိုးစွန်းသို့ ၁၉၀၉ ခုနှစ် ဧပြီလ ၆ ရက်နေ့တွင် ရှေးဦးစွာ ရောက်ရှိခဲ့လေသည်။ (ပီယားရီ၊ ရောဗတ် အက်ဒွင် — ရှု။)

**မြောက်အမေရိကတိုက်။** ။မြောက် အမေရိကတိုက်သည် ကမ္ဘာပေါ်ရှိ တိုက်ကြီး ၆ တိုက်တွင် အပါအဝင်ဖြစ်၍ အနောက်ဖက် ကမ္ဘာလုံးခြမ်းဖြစ်သော အမေရိကတိုက်၏ အထက်ပိုင်းဖြစ်သည်။ အမေရိကတိုက်သည် ရှေးအခါကတည်းက တည်ရှိသည် ဖြစ်သော်လည်း လွန်ခဲ့သည့်နှစ်ပေါင်း ၅၀၀ ခန့်ကမှ လူဖြူတို့တွေ့ရှိ၍ အခြေစိုက် နေထိုင်ကြသောကြောင့် အမေရိကတိုက်ကို ကမ္ဘာသစ် ဟူ၍ ခေါ်ဝေါ်ရည်ညွှန်းလေ့ ရှိသည်။ မြောက် အမေရိကတိုက်သည် မြောက်ဖက်တွင် ကျယ်ပြန့်၍ တောင်ဖက်သို့ တဖြည်းဖြည်း ကျဉ်းမြောင်းသွားသောကြောင့် ပုံသဏ္ဌာန်မှာ တြိဂံနှင့်တူသည်။ မြောက်ဝင်ရိုးစွန်းမှသည် အီကွေတာ အထက် ၁၀ ဒီဂရီခန့်အထိ ကျယ်ပြန့်သည်။ မြောက်မှသည် တောင်သို့ မိုင်ပေါင်း ၄,၀၀၀ ခန့် အလျားရှိ၍ အနံမှာ အကျယ်ဆုံးနေရာတွင် မိုင် ၃,၂၀၀ ကျော်ဖြစ်၏။ ဧရိယာ အကျယ်အဝန်းမှာ စတုရန်းမိုင် ၉,၃၅၅,၀၀၀ ခန့်ဖြစ်၏။ အာရှတိုက်၊ အာဖရိကတိုက်တို့အောက် တတိယလိုက်သည်။ မြောက်အမေရိကတိုက်၏ အရှေ့မြောက်ဖက် အစွန်သည် ကျဉ်းမြောင်းသော ဗဲရင်း ရေလက်ကြားဖြင့်သာ အာရှတိုက်နှင့် ခြားလျက်ရှိသည်။ ဥရောပတိုက်နှင့်ကား မိုင် ၂,၀၀၀ ကျော်ဝေးကွာသည်။ အရှေ့ဖက်တွင် ပစိဖိတ် သမုဒ္ဒရာ၊ အနောက်ဖက်တွင် အတ္တလန္တိတ် သမုဒ္ဒရာနှင့် မြောက်ဖက်တွင် အာတိတ် သမုဒ္ဒရာတို့ဖြင့် ဝန်းရံလျက်ရှိသည်တွင် ကမ်းရိုးတလျှောက်၌လည်း ကာလီဖိုးနီးယား ပင်လယ်ကွေ့၊ မက္ကဆီကို ပင်လယ်ကွေ့၊ စိန်လောရင့် မြစ်ဝကျယ်နှင့် ဟဒ်ဆန် ပင်လယ်အော်စသော တံခါးပေါက်များရှိသောကြောင့် သွားလမ်းလာလမ်းတွင် အဆီးအတားမရှိဘဲ လွယ်ကူသည်။ ယခင်က မြောက်အမေရိကတိုက်နှင့် တောင်အမေရိကတိုက်တို့မှာ အလယ်ဗဟိုတွင် ၄၂ မိုင် ကျယ်သော ပနားမားကျွန်းဆက်အားဖြင့် စာဆက်တည်း တည်ရှိသော်လည်း ၁၉၁၄ ခုနှစ်၌ ပနားမားတူးမြောင်း ဖောက်လုပ်ပြီးစီးသည်တွင် တိုက်ကြီး ၂ တိုက်တို့မှာ တဆက်တည်း မတည်ရှိတော့ချေ။ မြောက်အမေရိကတိုက်သည် မြေပေါ်မြေအောက် သယံဇာတပစ္စည်း ပေါ်များကြွယ်ဝကုံလုံသောကြောင့် နောက်မှ တွေ့ရှိသောတိုက် ဖြစ်သော်ငြားလည်း နောက်အိပ် အလျင်ပျော် ဟူ၍ ဆိုရလောက်အောင် လျင်မြန်စွာ တိုးတက်၍ အခြားတိုက်များထက်ပင် ကြီးပွားနေပေသည်။ မြောက်အမေရိကတိုက်တွင် ပါဝင်သော နိုင်ငံတို့မှာ ကနေဒါနိုင်ငံ၊ အမေရိကန် ပြည်ထောင်စု၊ မက္ကဆီကို နိုင်ငံ၊ ထို့ပြင် အလယ်ပိုင်း အမေရိကတိုက်တွင် ပါဝင်သော ဂွာတီမားလ၊ ဟွန်ဒူးရပ်၊ ဗြိတိသျှဟွန်ဒူးရပ်၊ အယ် ဆယ်လဗာဒေါ၊ ကောစတာရီးကား၊ နစ်ကရားဂွါ၊ ပနားမားနှင့် ကျူးဗားတို့ ဖြစ်ကြသည်။

မြေမျက်နှာသွင်ပြင်အားဖြင့်သော်ကား အနောက်ဖက်တွင် ရော့ကီးတောင်တန်းကုန်းမြင့်နှင့် ကမ်းရိုးတန်းတောင်စဉ်၊ အလယ်ပိုင်းမြေပြန့်နှင့် အရှေ့ဖက်တွင် အက်ပလက်ချီယန် ကုန်းပြင်မြင့် ဟူ၍ အဓိက အပိုင်း ၃ ပိုင်း ရှိသည်။ မြောက်ဖက်ဆုံးပိုင်းဖြစ်သော အလာစကာနယ်မှသည် ပနားမားကျွန်းဆက်တိုင် ကမ်းရိုးတန်း တလျှောက် တောင်စဉ်တခု သွယ်တန်းတည်ရှိ၏။ ယင်းကို ကော်ဒီလားရား ဟူ၍လည်း ခေါ်သည်။ ကနေဒါနိုင်ငံ အနောက်မြောက်ပိုင်းတွင် ဤတောင်တန်းများသည် အရှေ့ဖက်နှင့် တောင်ဖက်သို့ ဖြာ၍သွားသည်။ အရှေ့ဖက်သို့ ဖြာသွားသည်ကား ရော့ကီးတောင်တန်းများ ဖြစ်၍ တောင်ဖက်သို့ ဆက်လက်သွယ်တန်းသွားသည်ကို ကမ်းရိုးတန်း တောင်စဉ်များဟု ခေါ်၏။ အမေရိကန် ပြည်ထောင်စု နယ်စပ်အလွန်တွင် ဤတောင်စဉ်များသည် ၂ ခု ဖြာထွက်ပြန်၏။ တခုမှာ ကမ်းရိုးတန်း တောင်စဉ် ဟူ၍ပင် ဆက်လက်တွင်၍ အရှေ့ဖက်ဖြာထွက်လာသည့် တောင်တန်းသည် တပိုင်းတွင် ကက်စကိတ်ဟုခေါ်လျက်၊ ကာလီဖိုးနီးယားသို့ ရောက်လျှင် ဆီယယ်ရာ နီဗားဒဟု ခေါ်၏။ အလယ်နှင့် အရှေ့ပိုင်း တောင်တန်းများသည် မက္ကဆီကို နိုင်ငံတွင်း၌ ဆီယယ်ရာ မက်ဒရီ အော့ဆီဒင်တယ်နှင့် ဆီယယ်ရာ မက်ဒရီ အိုရီယင်တယ်ဟူ၍ တွင်သည်။ ဆီယယ်ရာနီဗားဒနှင့် ရော့ကီးတောင်များ အကြားဝယ် မြောက်ဖက်တွင် ကိုလမ္ဘီယား ကုန်းပြင်မြင့်နှင့် တောင်ဖက်တွင် ကော်လိုရားဒိုး ကုန်းပြင်မြင့်ရှိသည်။ ယင်းကုန်းပြင်မြင့် ၂ ခု အကြား၌ ဂရိတ်ဗေဆင်ခေါ် မြေနိမ့်ပိုင်း ရှိသည်။ တောင်များ၏ အရှေ့ဖက်တွင် အလယ်ပိုင်းမြေပြန့်ရှိ၍ အာတိတ်သမုဒ္ဒရာမှ မက္ကဆီကိုကွေ့ အထိငှင်း၊ ရော့ကီးတောင်များမှ အက်ပလက်ချီယန်တောင်အထိငှင်း ကျယ်ပြန့်သည်။ လော်ရင်းရှန်း ကုန်းပြင်မြင့်သည် လားဗရာဒေါမှသည် ဟဒ်ဆန်အော် တောင်ပိုင်းကို ဝိုက်၍ လ




မြောက်အမေရိကတိုက် တည်နေရာပြမြေပုံ

မြောက်အမေရိကတိုက်သည် အကျယ်အဝန်းအားဖြင့် အာရှတိုက်၊အာဖရိကတိုက်တို့အောက် တတိယအကြီးဆုံးသော တိုက်ဖြစ်သည်။ မြောက်အမေရိကတိုက်တွင်ပါဝင်သော နိုင်ငံတို့မှာ ကနေဒါနိုင်ငံ၊ အမေရိကန်ပြည်ထောင်စု၊ မက္ကဆီကိုနိုင်ငံ၊ ဂွါတီမားလ နိုင်ငံ၊ ဟွန်ဒူးရပ်၊ အယ်ဆယ်လဗာဒေါ၊ ကောစတာရီးကား၊ နစ်ကရားဂွ၊ ပနားမားနှင့် ကျူးဗားနိုင်ငံတို့ဖြစ်ကြသည်။

ခြမ်းသဖွယ် တည်ရှိသည်။ အာတိတ် သမုဒ္ဒရာနှင့် ဟဒ်ဆန် အော်ဖက်တွင် မြေသည် ပြန့်၍ စိမ့်မြေဖြစ်သည်။ တောင်ဖက်တွင်ကား ပရေရီ ဒေသနှင့် အိုဟိုင်းအို မြစ်ဝှမ်းဖြစ်၏။ အက်ပလက်ချီယန် တောင်များသည် ရော့ကီးတောင်များထက် အသက်အားဖြင့် ရင့်သည်။ ယင်းတောင်စုသည် စိန်လောရင့်ကွေ့မှသည် မက္ကဆီကိုကွေ့တိုင် သွယ်တန်းလျက်ရှိကာ အမြင့်ဆုံး နေရာမှာ ၆,၆၇၄ ပေ ရှိသော မစ်ချယ်တောင်ထွတ် ဖြစ်၍ မြောက်ကယ်ရိုလီးနားပြည်နယ်တွင် တည်ရှိသည်။ အနှေဖက်သို့ ရောက်လျှင် ယင်းတောင်များသည် ပီးဒမွန့်ကုန်းပြင်မြင့်နှင့် ပေါင်းစပ်သွားကာ ကမ်းရိုးတန်း မြေပြန့်ဖက်သို့ နိမ့်လျှောဆင်းသွားသည်။ မက္ကဆီကိုမြောက်ဖက်အလယ်ပိုင်းမှာ ကုန်းပြင်မြင့်ဖြစ်လျက် ဆီယယ်ရာ မက်ဒရီတောင်စဉ် ၂ ခု အကြား၌ တည်ရှိသည်။ မက္ကဆီကိုကွေ့ တဝိုက်သည်ကား နိမ့်သော အပူပိုင်းကမ်းရိုးတန်း မြေပြန့်ဖြစ်၏။ မက္ကဆီကို နိုင်ငံသည် အရှေ့ဖက်သို့ ကောက်သွားသည်တွင် တလျှောက်လုံး တောင်ထူထပ်သည်။

မြောက်အမေရိကတိုက်၌ ထင်ရှားသော မြစ်တို့ကား မစ်စစ်စပီမြစ်နှင့် ယင်း၏ မြောက်မြားစွာသော မြစ်လက်တက်များဖြစ်သည်။ ယင်းမြစ်တို့သည် အလယ်ပိုင်း မြေပြန့်တလျှောက်တွင် စီးဆင်းသည်။ မြောက်ဖက်တွင် မက္ကင်ဇီမြစ်သည် အာတိတ် သမုဒ္ဒရာတွင်းသို့ စီးဝင်သည်။ ဆက်စကက်ချီဝမ်မြစ်၊ မြစ်နီ၊ နယ်လဆင်မြစ်တို့သည် ဟဒ်ဆန်အော်တွင်းသို့ စီးဝင်၏။ ရီးအို ဂရန်ဒီသည် ကော်လိုရားဒိုးကုန်းပြင်မြင့်တလျှောက် စီးဆင်းလျက် မက္ကဆီကိုနှင့် အမေရိကန်ပြည်ထောင်စုဘို့ကို တစိတ်တဒေသအားဖြင့် ပိုင်းခြားသည်။ မက္ကဆီကိုကွေ့တွင်းသို့ စီးဝင်သည်။ ပစိဖိတ်ကမ်းခြေတလျှောက်ရှိမြစ်များကား ကိုလမ္ဗီးယားဖရေဇာ၊ ယူးကွန်းတို့ ဖြစ်ကြသည်။ ရော့ကီးတောင်တန်း၏ အနောက်ဖက်တွင် ကော်လိုရားဒိုးမြစ် စီးဆင်းသည်။

အတ္တလန္တိတ်ဖက်၌ အရေးပါသော မြစ်များကား စိန်လောရင့်၊ ဟဒ်ဆန်၊ ဒဲလဝဲယား၊ ဆပ်စကွီဟန္နာနှင့် ပိုတိုမက်တို့ဖြစ်သည်။

မြောက်အမေရိကတိုက်သည် အခြား တိုက်များထက် အင်းအိုင် ပေါများသည်။ အကြီးဆုံးမှာ အမေရိကန် ပြည်ထောင်စု မြောက်ပိုင်းရှိ အိုင်ကြီး ၅ အိုင်ဖြစ်၍ စတုရန်းမိုင် ၉၀,၀၀၀ မျှရှိသည်။ အခြား အိုင်ကြီးများမှာ လိပ်-အော့-



မြောက်အမေရိကတိုက်၌ ခေတ်မှီတိုးတက်ဆုံးနိုင်ငံမှာ အမေရိကန်ပြည်ထောင်စုဖြစ်သည်။ အခြားနိုင်ငံတို့တွင် မရှိသော အထပ်တရာကျော်ရှိသည့် မိုးမျှော်တိုက်ကြီးများ တရာကျော်ရှိသည်။



အမေရိကန်ပြည်ထောင်စု ကင်တပ်ကီးပြည်နယ်မှ အုံ့ဩဖွယ်ရာကျောက်တောင်ကြီး၏ ရှုခင်းတစိတ်တဒေသ

သဝု၊ ရေနီအိုင်၊ ဝင်နီပက်အိုင်၊ စိန့်ဗဲယာအိုင်၊ အက်သဗတ်စကာအိုင်တို့ဖြစ်သည်။ တူးမြောင်းများပါတွက်လျှင် မြောက်အမေရိကတိုက်တွင် ရေကြောင်းအားဖြင့်နယူးအော်လီယန်းမှသည် မစ်စစ်စပီမြစ်တလျှောက် အိုင်ကြီးများအထိပေါက်သည်။ထိုနောက် စိန့်လောရင့်မှကွိဗက်အထိ၊ဟဒ်ဆန်မှနယူးယော့မြို့အထိ ရေကြောင်းပေါက်သည်။ ဤသို့အတွင်းပိုင်း၌ မြစ်ချောင်းခရီး ပေါက်မှုကြောင့် အမေရိကန် ပြည်ထောင်စုနှင့်ကနေဒါနိုင်ငံတွင် စီးပွားရေးဖွံ့ဖြိုး တိုးတက်လေသည်။

မြောက်အမေရိကတိုက်တွင် အမျိုးမျိုးသော ရာသီဥတုရှိသည်။ သို့သော် သမပိုင်းဖက်သို့ ပို၍ သက်ရောက်သည်။ မြောက်ဖက်သည် အာတိတ်ဥတုမျိုး ဖြစ်သည်။ ထိုဒေသတွင် ရေခဲပြင် ဖုံးလွှမ်း၍ နွေအခါတွင် ခဏတာမျှသာ ရေခဲအရည်ပျော်သည်။ယင်းဒေသ၏တောင်ဖက်မှသည် တောင်ဖက်အဖျားအထိ ဒေသတလျှောက် ရာသီဥတုအမျိုးမျိုးကွဲပြားသည်။ အတ္တလန္တိတ် ကမ်းရိုးတန်း တလျှောက်သည် ပစိဖိတ် ကမ်းရိုးတန်းတလျှောက်ထက် အပူအအေးပို၍ လွန်ကဲသည်။ ပစိဖိတ် ကမ်းရိုးတန်းတွင် ပို၍ မိုးရွာသွန်းသည်။ မိုးရေဆောင်လာသော လေတို့သည် တောင်ကို မကျော်ဖြတ်မီ ပါသမျှရေကို သွန်သောကြောင့် တောင်၏ တဖက်တွင်ရှိသော မြောက်အမေရိကတိုက် တောင်ဖက်ပိုင်းသည် သဲကန္တာရတမျှ ဖြစ်၏။ အလယ်ပိုင်း မြေပြန့်နှင့် ပရေရီဒေသသည် ရာသီဥတုကို သမပေးမည့် သမုဒ္ဒရာနှင့် ဝေးသောကြောင့် တကြောင်း၊ တောင်ဖက်နှင့် မြောက်ဖက်တွင် လေပူလေအေး အတားအဆီးမရှိ တိုက်ခတ်သောကြောင့် တကြောင်း အပူအအေး လွန်ကဲသည်။ မက္ကဆီကို နိုင်ငံသည် အပူလျော့ပိုင်းဒေသအတွင်း သက်ရောက်၍ အလယ်ပိုင်းအမေရိကတိုက်သည် အပူပိုင်းဒေသ အတွင်း လုံးဝသက်ရောက်သည်။

မြောက်အမေရိကတိုက်ရှိ တောတောင် ရေမြေတို့သည် ယင်းတိုက်ကို များစွာ အကျိုးပြုပေသည်။ မြေဆီဩဇာမှာ ကောင်းမွန်သောကြောင့် လူတို့သုံးစွဲသော ပစ္စည်းအားလုံး ပေးဆောင်သော မြေပဒေသာ ဖြစ်၏။ တောင်များမှလည်း သုံးမကုန်အောင် အရေးပါသော သယံဇာတပစ္စည်းများ ထွက်သည်။ သစ်တောများမှ အသုံးဝင်သော သစ်များကို ရ၍၊ ရေမှလည်း ငါးမျိုးပေါင်းစုံ ရသည်။ မြောက်အမေရိကတိုက်၏ အရှေ့ပိုင်း ဟဒ်ဆန်အော်မှသည် မက္ကဆီကိုကွေ့အထိ သစ်ပင်များ အထူးသဖြင့် ထင်းရှူးပင်အမျိုးမျိုး ပေါက်ရောက်သည်။ ၎င်းပြင်နှင့် ပရေရီဒေသ

တွင် သစ်ပင်ဟူ၍ မရှိပေ။ မြက်များကို ခုတ်ထွင် ရှင်းလင်းပြီးလျှင် လယ်ယာစိုက်ပျိုးသည်။ အနောက်ဖက်တွင်မူ သဲကန္တာရများတွင်ကဲ့သို့ ရှားစောင်းပင်၊ ချုံဖုတ်များသာ ပေါက်ရောက်သည်။ အမေရိကန်ပြည်ထောင်စု အနောက်ပိုင်းနှင့် ကနေဒါနိုင်ငံတွင် ယနေ့တိုင် ထူထပ်သော တောများရှိ၍ ထင်းရှူးပင်များ အထူးတလည် ပေါက်ရောက်သည်။ လော်ရင်းရှန်း ကုန်းမြင့်၊ အက်ပလက်ချီယန်နှင့် ဂရိတ်လိတ်ဒေသများမှ ကျောက်မီးသွေး၊ သံ၊ ကြေးနီ၊ မြေစေး၊ အဆောက်အအုံအတွက် ကျောက်များ ထွက်သည်။ နီဗာစကိုးရှားမှသည် တောင်ပိုင်းတလျှောက် အက်ပလက်ချီယန်အထိ၊ ထိုပြင် အနောက်ဖက်တွင် ပရေရီနှင့် လွင်ပြင်တလျှောက်၌ ကျောက်မီးသွေးထွက်သည်။ အမေရိကတိုက်၏ အရှေ့ဖက်တွင် သံအမြောက်အမြား ထွက်သည်။ ဆူပီးရီးယားအိုင်တဝိုက်တွင် အဖိုးတန် သံတွင်းများ ရှိသည်။ နစ်ကယ်၊နှမ်းဖတ်ကျောက်၊ စကျင်ကျောက်၊ ငွေ၊ ထုံးကျောက်နှင့် မြေစေးတို့မှာ တောင်များနှင့် ကုန်းပြင်မြင့်များ၌ ပေါများပေသည်။ ရေ့ာကီး တောင်တန်းဒေသဝယ် ခဲ၊ ရွှေ၊ ကျောက်မီးသွေးနှင့် အခြား သယံဇာတ ပစ္စည်းများ ထွက်သည်။ ကမ္ဘာ့သုံးရေနံအနက် မြောက်အမေရိကတိုက်မှ ၄ ပုံ ၃ ပုံ ထွက်သည်။ ထိုအပြင် မြောက်အမေရိကတိုက်ရှိ ဗီဗာဖျံ၊ အိုပေါ့ဆမ်၊ မင့်အစရှိသည့် အကောင်တို့မှ အဖိုးတန်သားမွေးများ ရရှိသည်။ သားမွေး လုပ်ငန်းကြောင့်ပင် တိုက်ကြီးအတွင်းပိုင်းကို ပိုမိုသိရှိလာကြ၏။ လူဖြူတို့သည် သားမွေး လုပ်ငန်းကို များစွာ စိတ်ဝင်စားခဲ့ကြသည်။

မြောက်အမေရိကတိုက်တွင် ဦးစွာ နေထိုင်သူတို့မှာ မွန်ဂိုးလီးယန်း အနွယ်များ ဖြစ်၏။ အာရှတိုက်မှ ဗဲရင်း ရေလက်ကြားကို ဖြတ်ကူးပြီးလျှင် အလာစကာ နယ်ဖက်သို့ ဝင်လာကြပြီးသော်၊ ယခု မက္ကဆီကို နိုင်ငံ၊ အလယ်ပိုင်း အမေရိကတိုက်ရှိရာသို့ ဆင်းလာကြ၏။ ထိုဒေသ၌ ရှေးအကျဆုံး ယဉ်ကျေးမှု ထွန်းကားခဲ့သည်။ အမေရိကန်ပြည်ထောင်စုဖက်နှင့် ကနေဒါ နိုင်ငံရှိရာ အရပ်၌ ကျန်ရစ်သူတို့မှာ အမေရိကန် အင်ဒီးယန်း လူမျိုးနှင့် အက်စကီးမိုးလူမျိုးတို့၏ ဘိုးဘေးများပင်တည်း။ ဦးစွာ အခြေစိုက်နေထိုင်သူတို့မှာ လူဖြူများဖြစ်သော အင်္ဂလိပ်၊ ပြင်သစ်၊ စပိန်လူမျိုးတို့ ဖြစ်သော်လည်း အခြားဥရောပတိုက်သား အမြောက်အမြားပါ ဝင်ရောက်လာသည့်အတွက် ယခုအခါ လူမျိုးစုံပေသည်။ မက္ကဆီကိုနှင့် အမေရိကတိုက် အလယ်ပိုင်းတွင်မူ အင်ဒီးယန်းလူမျိုးနှင့် စပိန်အဆက်အနွယ်တို့ များသည်။



ကမ္ဘာ့သစ်ဟုလည်းခေါ်သည့် မြောက်အမေရိကတိုက်တွင် ဤသို့ သဘာဝ၏ထူးဆန်းအံ့ဩဖွယ်ရာများကို တွေ့မြင်နိုင်သည်။

နီးဂရိုးလူမျိုးတို့သည် လူဖြူတို့ ရောက်ရှိလာပြီးသည်နှင့် မရှေးမနှောင်း ရောက်လာကြသည်မှာ ကျွန်အဖြစ် ရောက်လာကြခြင်း ဖြစ်၏။ ယင်းတို့၏ အဆက်အနွယ် တို့သည် ကျွန်အဖြစ်မှ လွတ်မြောက်ပြီးသည့်နောက် အဖက်ဖက်တွင် တိုးတက်၍၊ မြောက်အမေရိကတိုက်တွင် စာပေ၊ အနုပညာ၊ သိပ္ပံ၊ နိုင်ငံရေး၊ ကစားခုန်စား စသည်တို့ဖက်တွင် ခေါင်းဆောင်လျက် ရှိသူများအနက် နီးဂရိုး များစွာ ပါဝင်ပေသည်။ မြောက်အမေရိကတိုက်ရှိ လူဦးရေမှာ ခန့်မှန်းခြေ ၂၇၃,၀၀၀,၀၀၀ (၁၉၆၁ ခုနှစ်)ခန့် ဖြစ်သည်။

မြောက်အမေရိကတိုက်ကို ဦးစွာ တွေ့ရှိသူမှာ လေ့အဲရစ်ဆန် အမှူးပြုသော ဗိုက်ကင်းတို့ ဖြစ်၏။ ၁၄၉၂ ခုနှစ်တွင် ကိုလံဗပ်က တွေ့ရှိ၍ ဤတိုက်တည်ရှိကြောင်းကို သိကြရသည်။ သို့သော် အမေရိဂို ဗက်စပွတ်ချီက ယင်းဒေသအကြောင်းကို သရုပ်ဖော် ရေးသားပြီးသည့် နောက်ပိုင်းတွင်မှသာ မြောက်အမေရိကတိုက်ဟု တွင်လာသည်။ ၁၆ ရာစုနှစ်တွင် ပြင်သစ်၊ စပိန်၊ အင်္ဂလိပ်၊ ဒပ်ချနှင့် ပေါ်တူဂီလူမျိုးတို့က နယ်မြေကို စူးစမ်း ရှာဖွေကြသည်။ စပိန် လူမျိုးတို့က မက္ကဆီကို နိုင်ငံနှင့် အမေရိကန် ပြည်ထောင်စု အနောက်ပိုင်းကိုသာ အာရုံစူးစိုက်လျက်၊ ပြင်သစ်တို့က အရှေ့မြောက်ကမ်းရိုးတန်းနှင့် စိန့်လောရင့်မြစ်ဝှမ်းတလျှောက်တွင် သားမွေးကုန်ကူးကြသည်။ အင်္ဂလိပ်နှင့် ဒပ်ချတို့ကမူ အတ္တလန္တိတ် ကမ်းရိုးတန်း တလျှောက်ကို စူးစမ်းရှာဖွေကြသည်။ ယခုခေတ် အမေရိကန် ပြည်ထောင်စုဒေသတွင် အင်္ဂလိပ် လူမျိုးတို့ ပဌမဆုံး အခြေစိုက်ရာ နေရာမှာ ဂျိမ်းစတောင်းဖြစ်၍ ၁၆၀၇ ခုနှစ်တွင် တည်ထောင်သည်။ နောက်တနှစ်တွင် ပြင်သစ် လူမျိုးတို့က ကွီဗက်မြို့တည်ရာတွင် မြို့ပြတည်ထောင်သည်။ ၁၆၂၀ ပြည့်နှစ်တွင် ပလင်းမတ် ကိုလိုနီကို တည်ထောင်သည်။ ဒပ်ချနှင့် ပေါ်တူဂီ လူမျိုးတို့သည် မိမိတို့ ထူထောင်ခဲ့သောကိုလိုနီများကို ဆုံးရှုံးသောကြောင့် အင်္ဂလိပ်၊ စပိန်နှင့် ပြင်သစ်တို့သည် အာဏာရမှုအတွက် အချင်းပွားကြရသည်။ ၁၇၆၃ ခုနှစ်တွင် အင်္ဂလိပ်တို့က ကနေဒါကို ရရှိလိုက်သည်။ အမေရိကန်လွတ်လပ်ရေး စစ်ပွဲအပြီးတွင် ပေါ်ပေါက်လာသည့် အမေရိကန်ပြည်ထောင်စုသည် စစ်ပွဲတွင် နိုင်ခြင်းဖြင့်၎င်း၊ ဝယ်ယူခြင်းဖြင့်၎င်း စပိန်တို့ပိုင်ခဲ့သည့်နယ်မြေများကို တဖြည်းဖြည်းရရှိခဲ့သည်။

မြောက်ဦးမြို့။ ။မြို့ဟောင်းမြို့ — ရှု။

**မြင့်မိုရ်တောင်။** ။တောင်တကာတို့၏ မင်းဖြစ်သော မြင့်မိုရ်တောင်သည် မဟာသမုဒ္ဒရာမှ အပေါ်သို့ ယူဇနာ ရှစ်သောင်းလေးထောင်မြင့်၍ မဟာသမုဒ္ဒရာအောက်၌ ယူဇနာ ရှစ်သောင်းလေးထောင်နစ်နေ၏။ မြင့်မိုရ်တောင်ထိပ်မြေအရပ်သည် အလုံးစုံသော မြေအရပ်တို့ မဖြစ်ပေါ်မီ ရှေးဦးပဌမ ဖြစ်ပေါ်လာ၍ ယူဇနာ ရှစ်သောင်း လေးထောင် ကျယ်၏။

မြင့်မိုရ်တောင် ဦးစွာ ပဌမ ဖြစ်ပေါ်လာပုံမှာ ဤသို့တည်း။ ကမ္ဘာကြီးကို မီးလောင်၍ စကြဝဠာ ကုဋေတသိန်းလုံး အကုန် ဘာမျှမကျန်အောင် ပျက်စီးသွားပြီးသည်နောက် ကမ္ဘာပြု မိုးကြီးရွာသဖြင့် အကုန်လုံး ရေနှင့်ပြည့်၍ နေလေသည်။ ထိုရေတို့သည် အထက် ပဌမဈာန် ဗြဟ္မာဘုံ ၃ ဘုံမှစ၍တဖြည်းဖြည်း ခန်း၍ခန်း၍ လျော့ကျလာရာ၊ မြင့်မိုရ်တောင် ဖြစ်မည့်နေရာ၌ ရေတို့သည် အလွန် ပျစ်ခဲ့လာ၏။ ကာလအလွန်ကြာသောအခါ ရွှံ့ပျစ်ခဲ့ကြီးမှ ရွှံ့လွှာခဲကြီး ဖြစ်လာ၏။ ဤရွှံ့လွှာခဲကြီးကား လှည်းဘီးကဲ့သို့ ဝိုင်းလျက်ရှိရာ စတုရန်း ယူဇနာ ရှစ်သောင်း လေးထောင် ကျယ်၏။ ဤရွှံ့လွှာခဲကြီး၏ နံဘေးပတ်ဝန်းကျင် ရေစုကား အလွန်ကြည်၍ ကျဲ၏။ ထိုရေကြည် ရေကျဲတို့သည် တဖန် ခန်း၍ လျော့ကျလာပြန်၏။ မြင့်မိုရ်ရွှံ့လွှာခဲကြီးကား မလျော့ကျဘဲ အောက်သို့ တိုး၍သာခဲလျက် ထူ၍ထူ၍ လာလေသည်။ နောက်ဆုံးတွင် မဟာသမုဒ္ဒရာမှ အပေါ်သို့ ယူဇနာ ရှစ်သောင်းလေးထောင် အမြင့်ဆောင်၍ တည်နေလေသည်။

၁၊ ယုဂန္ဓိုရ်တောင် ၂၊ဣသိန္ဓိုရ်တောင် ၃၊ ကရဝိကတောင် ၄၊ သုဒဿနတောင် ၅၊ နေမိန္ဓရ တောင် ၆၊ဝိနတကတောင် ၇၊ အဿကဏ်တောင် အမည်ရှိသော တောင်စဉ် ခုနစ်ထပ်တို့သည် မြင့်မိုရ်တောင်ကို ဝိုင်းရံလျက်ရှိရာ တောင်ကွင်းကြီးများကဲ့သို့ ရှိနေလေသည်။ ထိုတောင်စဉ် ခုနစ်ထပ်တို့အကြားအကြားတွင် သီဒါခုနစ်တန်တို့သည် အစဉ်အတိုင်း မြင့်မိုရ်တောင်ကို ဗဟိုပြု၍ ဝိုင်းရံလျက် မှိုကြပြန်သည်။ ထိုသီဒါ ခုနစ်တန် တို့သည် အထပ်ထပ် ဝိုင်းရံလျက်ရှိရာ ရေကွင်းကြီးများကဲ့သို့ ရှိနေလေသည်။

ယုဂန္ဓိုရ်တောင်သည် ယူဇနာ လေးသောင်း နှစ်ထောင်မြင့်၏။ နေ လ နက္ခတ်တို့သည် မြင့်မိုရ်တောင်ကို လက်ျာရစ်လှည့်၍ ယုဂန္ဓိုရ်တောင်ထိပ်နှင့်အမျှသော ယူဇနာ ၄၂,၀၀၀ မြင့်သော ကောင်းကင်ပြင်၌ မြား၏ လျင်ခြင်းထက် ဆယ်ဆ မကသော လျင်ခြင်းဖြင့် သွားကြ၏။ ဣသိန္ဓိုရ်တောင်သည် ယူဇနာ ၂၁,၀၀၀ မြင့်၍ ကရဝိကတောင်မှာ ယူဇနာ ၁၀,၅၀၀ မြင့်သည်။ သုဒဿနတောင်သည် ယူဇနာ ၅,၂၅၀ မြင့်၍ နေမိန္ဓရတောင်သည် ယူဇနာ ၂,၆၂၅ မြင့်လျက် ဝိနတကတောင်သည် ၁,၃၁၂ ယူဇနာ နှစ်ဂါဝုတ်မြင့်ကာ အဿကဏ်တောင်ကား ၆၅၆ ယူဇနာ တဂါဝုတ်မြင့်သည်။

မြင့်မိုရ်တောင်ကြီး၏ အရှေ့ဖက်ခြမ်းကား ငွေသားအတိ ပြီး၏။ မြောက်ဖက်ခြမ်းကား ရွှေသားအတိ ပြီး၏။ အနောက်ဖက်ခြမ်းကား ဖလ်သားအတိ ပြီး၏။ တောင်ဖက်ခြမ်းကား ပတ္တမြားညိုအတိ ပြီး၏။ ၊ ဖုံမှုန့်မြေ ရွှံ့မြေဟူ၍

မရှိချေ။ မြင့်မိုရ်တောင်မှ လေးပါးသော အရပ်မျက်နှာတို့၌ ကျွန်းငယ် ငါးရာစီ အခြံအရံနှင့်တကွ ကျွန်းကြီးလေးကျွန်းတို့ ဖြစ်ပေါ်ကုန်၏။ အရှေ့ကျွန်းနှင့် အနောက်ကျွန်းတို့ကား ယူဇနာ ခုနစ်ထောင်စီ ကျယ်၏။ မြောက်ကျွန်းကား ရှစ်ထောင်ကျယ်၍ တောင်ကျွန်းကား ယူဇနာတသောင်းကျယ်၏။

စကြဝဠာ တခုတခု၌ ဤကဲ့သို့ မြင့်မိုရ်တောင်ကို ဗဟိုပြု၍ သီဒါ ခုနစ်တန်၊ တောင်စဉ် ခုနစ်ထပ်တို့ ဝန်းရံလျက် ရှိကြကုန်၏။ မြင့်မိုရ်တောင်၏ အရပ်လေးမျက်နှာတို့၌ ကျွန်းကြီး လေးကျွန်း ရှိကြစမြဲပင်။ ဤကဲ့သို့သော စကြဝဠာတို့သည် အနန္တပင် ရှိကြကုန်သည်။

**မြင်ကွန်း၊ မြင်းခုံတိုင် မင်းသားများ။** ။မြင်ကွန်းမင်းသားနှင့် မြင်းခုံတိုင် မင်းသားတို့သည် မင်းတုန်းမင်းတရား မင်းမဖြစ်မီ အမရပူရအိမ်နိမ့်၌စံတော်မူစဉ် ရွှေရေးဆောင် မိဖုရားမှ ဖွားမြင်သော သားတော်များ ဖြစ်သည်။

မြင်ကွန်းမင်းသားသည် ၁၂၀၅ ခုနှစ်တပို့တွဲလပြည့်ကျော် ၁၄ ရက်နေ့တွင် ဖွားမြင်၍ ငယ်မည်မှာ မောင်မျိုးအေးဖြစ်သည်။ ပဌမဆုံး သီလဝဘွဲ့ကို ရ၍၊ ထိုနောက် သုမဟာသိရိ ဓမ္မရာဇာဘွဲ့ ရပြီးလျှင် မြင်ကွန်းမြို့ကို စားရသောကြောင့် မြင်ကွန်းမင်းသားဟု တွင်သည်။ ညီတော် မြင်းခုံတိုင် မင်းသား၏ ငယ်မည်မှာ မောင်မျိုးထင်ဖြစ်၍၊ နောက်သတိုးမင်းလှ ဇေယသူဘွဲ့ရသည်။ မြင်းခုံတိုင်မြို့ကို စားရ၍ မြင်းခုံတိုင် မင်းသားဟု တွင်သည်။ မြင်ကွန်းမင်းသားသည် ဇာတိပဋိသန္ဓေအားဖြင့် မဟုတ်လျှင် မခံတတ်သော စိတ်ရှိကာ၊ လုပ်မိလျှင် မည်သည့်အရာမဆို ရှုပ်ရှုပ်ချွံချွံ စွန့်စွန့်စားစား ပြုလုပ်လေ့ရှိ၏။ အလုပ်လုပ်ရာ၌ မည်သူ၏ မျက်နှာကိုမျှ ထောက်ညှာလေ့ မရှိပေ။ ပကတိအတိုင်းနေလျှင်မူ အလွန်သဘောကောင်း၍ ရတနာ ၃ ပါးကို အထူး ရိုသေကိုင်းရှိုင်း၏။ ပညာရှိများကို အထူး ခင်မင်၍ မိမိကိုယ်တိုင် ပညာစုံကို အထူးလိုလားသည်။ ထိုပြင် မြင်ကွန်းမင်းသားသည် မင်းသားတို့ တတ်အပ်သော အတတ်ပညာများကို တတ်မြောက်၍ အထူးသဖြင့် ဆင်စီး၊ မြင်းစီး၊ ဓားခုတ်၊ လှံထိုး၊ သေနတ်ပစ်ခြင်းတို့၌ သူတပါးတို့ လက်ဖျားခါ၍ အံ့သြလောက်အောင် တတ်မြောက် ကျွမ်းကျင်သည်ဟု ဆိုလေသည်။

မင်းတုန်းမင်း တရားကြီးသည် ၁၂၁၄ ခုနှစ် တပေါင်းလဆန်း ၁၁ ရက်နေ့တွင် အထွတ်အထိပ်သို့ ရောက်သောအခါ၊ ညီတော် ကနောင်မင်းအား အိမ်ရှေ့ အပ်နှင်းတော်မူသည်။ (မင်းတုန်းမင်း။ ကနောင်မင်း — လည်းရှု။) ကနောင်မင်းသားကြီးမှာ အိမ်ရှေ့စံပင် ဖြစ်လင့်ကစား ဩဇာတိက္ကမပြည့်စုံ၍ တန်ခိုးအာဏာ ထက်မြက်လှသည်။ ပြည်ရေး



ဘထွေးတော် အိမ်ရှေ့စံ ကနောင်မင်းသားကြီးအား ညီတော်မြင်းခုံတိုင်မင်းသားနှင့်အတူ လုပ်ကြံခဲ့သူ မြင်ကွန်းမင်းသား

ပြည်ရာ စီမံခန့်ခွဲရာတွင်လည်း ဦးစီးဦးဆောင် ပြုရသည်။ နောင်တော် မင်းတုန်းမင်းတွင် သားတော် သမီးတော် အရွယ်ရောက်သူများ ရှိရကား၊ ကနောင် မင်းသား ရှိနေသောကြောင့် ထီးနန်း ဆက်ခံခွင့် ရတော့မည် မဟုတ်ဟု စိုးရိမ်ကြသော သားတော်များသည် မကျေမနပ် ဖြစ်ကြလေသည်။

သို့ဖြစ်၍ မြင်ကွန်းစားနှင့် မြင်းခုံတိုင်စားတို့သည် ဦးပုညကို ဓားမိုး၍ ထီးနန်း လုပ်ကြံရန် အခါတောင်းပြီးလျှင် နေ့ ၂ ချက်တီးကျော် အချိန်ရသော်၊ ငဘဲကြီး၊ ငဖြူသီး၊ ဇော်ဂျီဗိုလ်တို့နှင့် လူပေါင်း ၅၀ ကျော် စုဆောင်း၊ အရက်သေစာသောက်စားလျက်သက္ကရာဇ် ၁၂၂၈ ခုနှစ်ဝါဆိုလပြည့်ကျော် ၇ ရက် ကြာသပတေးနေ့ နာရီပြန် ၂ ချက်တီး အချိန်တွင် မြေဘုံသာ စံနန်းတော် လွှတ်တော်အနီး တဲကြီးတွင် အိမ်ရှေ့ဘုရားသည် တိုင်းရေး ပြည်ရေးများနှင့် သာသာမေဓ အခွန်တော်များ အကြောင်းကို စစ်ဆေးနေစဉ်၊ မြင်းခုံတိုင်စားက ကယ်တော်မူပါဘုရား၊ ကယ်တော်မူပါဘုရားဟု

ရှေ့က ပြေး၍ မြင်ကွန်းစားက ဓားနှင့်လိုက်လေသည်။ အိမ်ရှေ့ဘုရားသည် အကယ်မြင်ကွန်းစားက မြင်းခုံတိုင်စားကို သတ်ရန်လိုက်သည် ထင်မှတ်၍၊ နေရာတော်မှ လက်နက်မပါဘဲ ယင်းတို့ရှိရာ ထွက်တော်မူသည်။ အနီးသို့ရောက်မှ မြစ်သာပွဲစား မင်းသားဖိနပ်တော်သား ဦးကရင်က ရန်သူတော်ပါဘုရား ဟု နောက်မှ အော်မှသာလျှင် မြင်ကွန်းစား၊ မြင်းခုံတိုင်စားတို့ ရန်မူရန်လာကြောင်း သိတော်မူ၍ ဓားတော်ကိုယူရန် ဝင်းပိတုန်းပိတ်ကို ကျော်သည်တွင် မြင်ကွန်းစား ဓားချက်ဖြင့် ကံကုန်သည်။

မြင်ကွန်းစားနှင့် မြင်းခုံတိုင်စားတို့သည် ဘထွေးတော် အိမ်ရှေ့မင်းအား လုပ်ကြံပြီးသော် ပွဲတော်ဆောင်တွင် စံနေတော်မူသော ခမည်းတော်အား လုပ်ကြံရာ၊ မင်းတရားကြီးသည် မိဖုရား၊ သားတော် သမီးတော်၊ ကိုယ်ရံတော်များနှင့် အနောက်တံခါးက ထွက်တော်မူသည်တွင် သူပုန်တို့က မင်းတရားကြီးအား လုပ်ကြံရန်ထားသော ငပိုက်ကြီးနှင့်တွေ့၍ သားတော် မကွရာမြို့စား မင်းသားက ယင်းကိုယ်မှ ဓားကို ယူပြီးလျှင်၊ မင်းတရားကြီးအား ကျောပေါ်၌ပိုး၍ နန်း တော်သို့ အရောက် ပို့စေသည်။ မင်းတရားကြီးသည် စားတော်ဝန် ဦးခဲအား ထီးဖြူမိုးစေ၍ ပြေးစေရာ၊ သူပုန်တို့သည် ဘုရင်မှတ်ထင်၍ ယင်းနောက်သို့ လိုက်ကြသည်တွင် မင်းတရားကြီးသည် နန်းတော်သို့ချောမောစွာ ရောက်လေသည်။

ဦးကရင်သည်လည်း အိမ်ရှေ့တော်တပ်များရှိရာသို့ ပြေး၍၊ မြင်ကွန်းစားဓားချက်ဖြင့် ရှောင်ပြတ်ခဲ့ပြီး၊ အိမ်ရှေ့ဘုရားကိုလည်း မြင်ကွန်းစားတို့ လုပ်ကြံရန် နောက်တော်သို့ လိုက်ကြောင်း၊ အိမ်ရှေ့ဘုရား မည်သို့ ဖြစ်သည် ဟု မသိကြောင်း ပြောသည်တွင်၊ အိမ်ရှေ့တော်တပ်က အိမ်ရှေ့ဝန် နတ်မောက်မြို့စား ဦးသင်၊ အိမ်ရှေ့သံတော်ဆင့် ဦးဘိုးမောင်၊ ထီးလှိုင်တိုက်စား အကြီးတော်ချုပ်ဝန် မင်းကြီး မင်းလှ မဟာဥဇနာ၊ အိမ်ရှေ့သံတော်ဆင့် ဦးသက်ရှည်၊ အိမ်ရှေ့သံတော်ဆင့် ဦးရွှေစင်၊ ကိုးပင်တပ်မှူး ရဲကျော်သူဘွဲ့ခံ ဦးပေါ်လွင်၊ အိမ်ရှေ့လက်စွဲတော်ကြီး ရဲခေါင်ကျော်စွာ ဘွဲ့ခံ ရန်ကင်းတောင်ရွာစား ဦးပုတ်စုတ် အစရှိသော အိမ်ရှေ့တော် အရာရှိတို့နှင့်တကွ တပ်ပါ လူပေါင်း ၅၀၀ ကျော်ခန့် အိမ်ရှေ့ဘုရား ရှိရာသို့ လိုက်ကြရာ မတွေ့သည်နှင့် နန်းတော်၌ရှိမည် ထင်သောကြောင့် သွားကြသည်တွင် မြောက် ဥယျာဉ်တော်အနီး သစ်တပ်သို့ ဆိုက်ရောက်လျှင် သစ်တပ်တွင်းမှ မည်သူ့ စာပ်နည်း ဟု မေးရာ အိမ်ရှေ့တော်တပ် ဖြစ်ကြောင်းကို သံတော်ဆင့် ဦးများက ပြန်ပြောလေသည်။ ထိုအခါ အိမ်ရှေ့တော်တပ်များ လာကြောင်း မင်းတုန်းမင်းတရားထံသို့ တင်လျှောက်သည်တွင် အိမ်ရှေ့တော်တပ်က အရာရှိ ၅ ယောက် ရှေ့တော်သို့ ဝင်စေ အမိန့်တော် ရှိသဖြင့်၊ သံတော်ဆင့် ဦးများနှင့် အိမ်ရှေ့ဝန်ဦးသင်တို့ကို ရှေ့တော်သို့ သွင်းရာ၊ အိမ်ရှေ့ဘုရား ရှိကြောင်း မရှိကြောင်းကိုကား မပြော၊ မောင်မင်းတို့ကို ငါကောင်းစွာ သူကောင်းပြုတော်မူမည်။ လွှတ်တော်ပေါ်တွင် ရှိသည့် သူပုန် မြင်ကွန်းစားငယ်နှင့် မြင်းခုံတိုင်စားငယ်တို့ တစု ရန်ကို နှိမ်နင်းကြရမည်ဟု အမိန့်တော်ရှိလိုက်သည်။ အိမ်ရှေ့ဝန်နှင့် သံတော်ဆင့်တို့သည် မိမိတို့တပ်သို့ ပြန်လာ၍ သစ်တပ် အရှေ့မြောက်မှုသည် ပတ်သန်းချီတက်၍ လွှတ်တော်ပေါ်၌ ရှိသော သူပုန် မြင်ကွန်းစား၊ မြင်းခုံတိုင်စား တို့ကို တိုက်ခိုက်ရာ၊ သူပုန်တို့သည် လွှတ်တော်ပေါ်မှ ဆင်းပြေးပြီးလျှင်၊ နန်းတော် အနောက်မျက်နှာက လှည့်၍ တိုက်သော်လည်း မရသဖြင့်၊ ဂေါဝိန်ဆိပ်သို့ ဆင်းပြီးနောက်၊ ဆိပ်၌ရှိသော ရေနန်းစကြာ သင်္ဘောတော် ကပ္ပိတန် ခရာသီတို့ကို ဓားကွပ်ပြီးလျှင် မြင်းခြံသို့ စုန်ဆင်းသည်။

ဤသို့အားဖြင့် ခေတ်ကို အမှီလိုက်ရန် ကြိုးစား တာစူလျက်ရှိသော ထိုခေတ် မြန်မာတို့မှာ လေ့လှော်ကောင်းဆဲ တက်ကျိုးဖြစ်ကာ ဆုံးရှုံးနစ်နာခဲ့သည်။ လုပ်ရည်ကိုင်ရည်နှင့် ပြည့်စုံလှသော ကနောင် မင်းသားကြီးသာ ရေတိမ် မနစ်ခဲ့သော် မြန်မာနိုင်ငံ သမိုင်းသည် ယခုနှင့် တူသော်မှ တူပေမည်။

မြင်ကွန်းနှင့် မြင်းခုံတိုင်တို့သည် နောက်တပ်တော်များ ရောက်လာသဖြင့် မြင်းခြံမှ ရန်ကုန်သို့ ထွက်ပြေးသည်။ ရန်ကုန်တွင် အင်္ဂလိပ်တို့က အစောင့်အရှောက်နှင့် ထားစဉ်၊ မြင်ကွန်းမင်းသားသည် ကရင်နီနယ် (ယခု ကယားပြည်နယ်) သို့ ထွက်သွား၍ မြန်မာနယ်ကို ဝင်ရောက်တိုက်ခိုက်ပြန်သည်။ နောက်တပ်တော်များ လာရောက် တိုက်ခိုက်သည်နှင့် ရန်ကုန်သို့ ပြန်လာရသည်။ ထိုသို့ ကရင်နီနယ်တွင် ရောက်နေသည့်အခိုက် မင်းတုန်းမင်းတရားကြီးက နေပြည်တော်မှ ဆရာတော် ၅ ပါးကို စေလွှတ်၍ ခေါ်တော်မူသည်ဟုလည်း ဆိုလေသည်။

အင်္ဂလိပ်တို့သည် မြင်ကွန်းမင်းသားနှင့် မြင်းခုံတိုင်မင်းသား ညီနောင်တို့ကို ကပ္ပလီကျွန်း ပိုဗလယာမြို့သို့၎င်း၊ ထိုမှတဆင့် ကာလကတ္တားမြို့သို့၎င်း၊ ထိုမှတဖန် ချူနာမြို့သို့၎င်း ပို့ဆောင်ထားလေသည်။ ချူနာမြို့မှတဖန် ဗာရာဏသီမြို့သို့ ပို့ထားခဲ့ပြန်လေသည်။ ထိုနောက် မြင်ကွန်းမင်းသားသည် ပြင်သစ်ပိုင် ချန္ဒရာနဂိုမြို့သို့ ထွက်ပြေး တိမ်းရှောင်သွားသည်။ ဗာရာဏသီမြို့မှ ချန္ဒရာနဂိုမြို့သို့ ထွက်ပြေးရာတွင် ခဝါသည် ကုလားအသွင်ဖြင့်တမျိုး၊ ကုလီအသွင်ဖြင့် တဖုံ ခြေလျင်ခရီးဖြင့် ပင်ပန်းကြီးစွာ သွားရောက်ခဲ့ရ၏။ ပြင်သစ်တို့နှင့်လည်း ဆက်သွယ်မိ၍ ချန္ဒရာနဂိုမြို့၌ ၁၈ လ နေပြီးလျှင် ပြင်သစ်တို့၏ အကူအညီကို

ယူလျက် ဟိန္ဒူကုလားအသွင်ဖြင့် အင်္ဂလိပ်ပိုင် ကာလကတ္တားမြို့ ဆိပ်ကမ်းမှ သင်္ဘောဖြင့် ပြင်သစ်ပိုင် ပွန်ဒီချယ်ရီမြို့သို့ သွားရောက်ခဲ့သည်။

ထိုအချိန်တွင် ဗာရာဏသီ၌ ကျန်ရှိနေခဲ့သော ညီတော်မြင်းခုံတိုင် မင်းသား ကံတော်ကုန်လေ၏။

မြင်ကွန်းမင်းသားကြီးသည် ပွန်ဒီချယ်ရီမှ တဆင့် ပြင်သစ် နိုင်ငံသို့ သွားရောက် နေထိုင်ခဲ့သေး၏။ ပြင်သစ်တို့က လိုလေသေး မရှိအောင် ပြုစု၍ ရိက္ခာ အလုံအလောက် ထောက်ပံ့၏။ မြင်ကွန်းမင်းသားသည် ပြင်သစ် နိုင်ငံတွင် ကြာရှည်စွာ မနေဘဲ ပြင်သစ်နိုင်ငံပိုင်လည်းဖြစ် မြန်မာပြည်နှင့်လည်း နီးသော အင်ဒိုချိုင်းနားနိုင်ငံ ဆိုင်ဂွန်မြို့သို့ ပြောင်းရွှေ့ နေထိုင်၏။ ထိုအချိန်မှာ သီပေါပါတော်မူပြီး ၄-၅ နှစ်ခန့်အကြာ ခရစ် ၁၈၈၉ ခုနှစ် ဖြစ်၏။ အောက်တိုဘာလ ၂၁ ရက်နေ့တွင် ဆိုင်ဂွန်မြို့သို့ ရောက်လေသည်။

မြင်ကွန်းမင်းသားကြီးသည် ဆိုင်ဂွန်မြို့တွင် ဘုရင်တဆူကဲ့သို့ ပိုင်ပိုင်စိုးစိုး စံနေတော်မူရသည်ဟူ၏။ ပြင်သစ် ဘုရင်ခံနှင့် များစွာ အကျွမ်းဝင်၍ များစွာ အခွင့်အရေးရသည်။ တလလျှင် ပြင်သစ်ဒေါ်လာ ၇,၀၀၀ ရသည်ဆို၏။ ဆိုင်ဂွန်မြို့၌ စံနေတော်မူစဉ် မိဖုရားကား ညီတော် မြင်းခုံတိုင် မင်းသား၏ မိဖုရား ဖြစ်၏။ မိဖုရားမှ ထိပ်တင်ကြီး၊ ထိပ်တင်လတ် ဟူသော သားတော် ၂ ပါး ပါသည်။ ဆိုင်ဂွန်မြို့ရောက်မှ မြင်ကွန်း မင်းသားနှင့် သားတော် ထိပ်တင်လေးနှင့် သမီးတော်တပါး ဖွားမြင်တော်မူသည်။ နောင်သော် ထိပ်တင်ကြီးနှင့် သမီးတော်ကို ထိမ်းမြားစေသည်။ ဆိုင်ဂွန်မြို့၌စံနေတော်မူစဉ်၊ ခေါင်းကသာ ဆံပင်နှင့်ခေါင်းပေါင်းပေါင်း၍ ကျန်တကိုယ်လုံး ပြင်သစ်အဝတ်အစား ဝတ်ဆင်တော်မူ၏။ မြင်ကွန်းမင်းသားသည် အင်္ဂလိပ်၊ ဟင်ဒီ၊ ပြင်သစ်ဘာသာစကားများကို စာနှင့်တကွ တတ်မြောက်သည်ဆို၏။ သားတော်များကိုလည်း ပြင်သစ်နေပြည်တော် ပါရစ်မြို့နှင့် အမေရိကန် နယူးယော့မြို့များသို့ စေလွှတ်ပညာသင်စေသည်ဟု ဆိုသည်။

ဤသို့ ဆိုင်ဂွန်မြို့တွင်စံနေစဉ် မြန်မာသက္ကရာဇ် ၁၂၇၇ ခုလောက်တွင် အင်္ဂလိပ်နှင့် ဂျာမနီတို့ စစ်ဖြစ်သောအခါ အင်္ဂလိပ်တို့ အားလျော့နေသည်ကိုသိကာ လူစု၍ မြန်မာပြည်ကို ပြန်လည်သိမ်းပိုက်ရန် အားထုတ်ခဲ့၏။ အင်ဒိုချိုင်းနား ဘုရင်ခံ၏ သဘောတူချက်ဖြင့် မြင်ကွန်းမင်းသားနှင့် သားတော် ၃ ပါးတို့သည် လက်နက် လူသူတို့နှင့် မြန်မာပြည်သို့ ချီတက်ခဲ့၏။ ရှမ်းကြီးနယ်အတွင်းသို့ ရောက်သောအခါ အောင်တော်မူစေတီ တည်တော်မူ၏။ သို့သော် မြန်မာနယ်စပ်သို့ ရောက်ခါမှ ဆိုင်ဂွန် ဘုရင်ခံက ပြန်ခေါ်သဖြင့် မြင်ကွန်းမင်းသားသည် ပြင်သစ်တို့ ကျေးဇူးမျက်နှာကို ထောက်ကာ ပြန်လှည့်ခဲ့ရသည်ဟုဆိုလေသည်။ မြင်ကွန်းမင်းသားသည် သက်တော် ၇၀ ကျော်အရွယ်တွင် သားတော်များဖြစ်သော ထိပ်တင်လတ်မင်းသား၊ ထိပ်တင်ကြီး မင်းသားတို့နှင့် မရှေးမနှောင်းပင် ဆိုင်ဂွန်မြို့တွင် ကွယ်လွန်လေသည်။

**မြင်စိုင်း။** ။မြင်စိုင်းသည် ယခုအခါ ကျောက်ဆည်ခရိုင် တန့်တားဦးမြို့နယ်အတွင်း မထင်မရှားတည်ရှိသော ရွာတရွာဖြစ်၍၊ အင်းဝမြို့ဟောင်း၏ တောင်ဖက် ၁၉ မိုင် အကွာတွင် တည်ရှိသည်။ သက္ကရာဇ် ၆၄၆ ခုနှစ်တွင် တရုပ်တို့ မြန်မာနိုင်ငံတွင်းသို့ ချဉ်းနင်း ဝင်ရောက် တိုက်ခိုက်လာ၍ ပုဂံပြည် ပျက်ပြီးသည့်နောက်တွင် မြန်မာ့အင်အားကို ရုံးစုကာ တရုပ်စစ်ကို အကြိမ်ကြိမ် တွန်းလှန်ခဲ့သော ရှမ်းညီနောင် ၃ ဦး အနက် အကြီးဆုံးဖြစ်သူ အသင်္ခယာ မင်းပြုသော မြို့ဖြစ်၍ မြန်မာနိုင်ငံ၏ မြို့တော်ဟောင်းတခုလည်း ဖြစ်ခဲ့သည်။

မြင်စိုင်းမြို့သည်ကား အနော်ရထာမင်းစောသည် တရုပ်၊ ရှမ်း၊ ယွန်းတို့နှင့် မရောစွက် မနှောင့်ရှက်စိမ့်သောငှါ သက္ကရာဇ် ၃၉၅ ခုနှစ်တွင် ဗန်းမော်ခရိုင် ကောင်းစင်၊ ကောင်းတို့မှစ၍ ရမည်းသင်းခရိုင် ဆွာမြို့အထိ ခံမြို့ကြီး ၄၃ မြို့တည်ခဲ့ရာတွင် တခုအပါအဝင် ဖြစ်သည်။ ထိုစဉ်က ရှမ်းနယ်စပ်၊ မြန်မာနယ်စွန်၌ တည်ရှိသည်။ ရှမ်းအမြောက်အမြား မှီခိုနေထိုင်သော အရပ်ဖြစ်၏။ မြင်စိုင်းမြို့သည် ပုဂံမင်းများ လက်ထက်က မြစ်သား ၁၁ ခရိုင်ဟု ခေါ်အပ်သော လယ်တွင်း ၁၁ ရွာတွင်ပါဝင်သည်။ မြစ်သား ၁၁ ခရိုင်ကား စမုန်မြစ်၊ ပန်းလောင်မြစ်၊ ဒုဋ္ဌဝတီမြစ်တို့ဖြင့် တင့်တယ်လျက် ထိုမြစ်တို့၏ ကျေးဇူးကြောင့် ထိုနယ်တွင် ကောက်ပဲသီးနှံ ဖွံ့ဖြိုးကြီးပွားသည်။ ထိုကြောင့် ထိုအရပ်သည် ပုဂံမင်းတို့၏ အားထားရာ တိုင်းခြေပြည်မြစ် ဖြစ်လေသည်။ ထိုအကြောင်းကြောင့်လည်း ရှမ်းညီနောင် ၃ပါး အားကောင်းနိုင်ခဲ့ခြင်း ဖြစ်၏။

တရုပ်တို့ဝင်လာသောအခါ တရုပ်ပြေးမင်းဟု တွင်လာမည့် နရသီဟပတေ့ ထွက်ပြေး တိမ်းရှောင်သည်မှ စ၍ မြင်စိုင်း ထင်ရှားလာသည်။ မြင်စိုင်းကား နရသီဟပတေ့ မင်းကြီးက မိမိထံ ခစားထမ်းရွက်လာသည့် ရှမ်းညီနောင် ၃ ဦး အနက် အကြီးဆုံး အသင်္ခယာအား ပေးထားသော မြို့ဖြစ်၏။ နရသီဟပတေ့မင်းကြီးသည် အလတ်ရာဇသင်္ကြံကို မက္ခရာမြို့နှင့် အငယ်သီဟသူကို ပင်လယ်မြို့ အသီးအသီးပေးထားသေးသည်။ သက္ကရာဇ် ၆၆၁ ခုနှစ်တွင် နရသီဟ ပတေ့၏ သား ကျော်စွာကို နန်းချပြီးနောက် ရှမ်းညီနောင် ၃ ဦးတို့သည် မြင်စိုင်း၊ မက္ခရာ၊ ပင်လယ်တို့တွင် အသီးအသီး မင်းပြိုင်ပြုကြလေရာ၊ အကြီးဆုံးဖြစ်သူ အသင်္ခယာမင်းသည် မြင်စိုင်း၌ သက္ကရာဇ် ၆၆၂ ခုနှစ်တွင် ထီးနန်း စိုက်ထူသည်။

သက္ကရာဇ် ၆၇၂ ခုနှစ်တွင် ညီတော် သီဟသူက ဆေးဖြင့် အန္တရာယ်ပြု၍ အနိစ္စရောက်သည်။

ရှမ်းညီနောင်တို့မှာ အဖရှမ်း၊ အမိမြန်မာတို့မှ ပေါက်ပွားကာ မြန်မာမင်းခစား ဗုဒ္ဓအယူဝါဒီများဖြစ်၍ မြန်မာမင်းတို့၏ကျေးဇူးမမေ့ကြပေ။ မြန်မာပြည်နှင့် မြန်မာလူမျိုးတို့ကို တရုပ်စစ်ဘေးမှ ကာကွယ်ရမည့် တာဝန်နှင့် မြန်မာမင်းဆက်ကို ဆက်လက်ပြုစုရမည့်တာဝန်သည် သူတို့ ၃ ဦး၏ တာဝန်ဖြစ်သည်ဟု ယုံမှတ်ကြသည်။ မြန်မာနိုင်ငံနှင့် ဗုဒ္ဓသာသနာကို ကာကွယ်စောင့်ရှောက်ကြသည်။ ထိုကြောင့်လည်း ထိုခေတ်က စည်ပင်ဝပြောသည်။

မြင်စိုင်းမြို့သည် ကောင်းစားခဲ့စဉ်က ပန်းမာလ်ဥယျာဉ်တို့ဖြင့် တင့်တယ်သည်။ ပြောင်းခင်း၊ လူးခင်းတို့ဖြင့် စိမ်းစိုသည်။ တောင်ထွတ် တောင်ထိပ်တို့သည် ဘုရားတန်ဆောင်းကျောင်း ပြာသာဒ်တို့ဖြင့် ကြည်ညိုဖွယ်ရှိသည်။ အိမ်တော်နန်းတော်တို့ဖြင့် ခမ်းနားသည်။ ဤသည့် အကြောင်းများကို“တာဝတိံသာ၊ နတ်ရွာလော၊ နတ်ရွာလော”အစချီသည့် မြင်စိုင်းငါးစီးရှင် ကာချင်းတပုဒ်တွင် ဖော်ပြထားသည်ကို တွေ့ရသည်။ ဘိုးတော်ဘုရားလက်ထက်တွင် ကျောက်ဆည်ခရိုင်တခုလုံးကို ၉ ခရိုင်ဖွဲ့တော်မူ၍ ကိုးခရိုင်ခေါ်တွင်စေခဲ့ရာ၊ ထိုအခါ မြင်စိုင်းသည် ခရိုင်မြို့စာရင်းတွင် ပါဝင်ခဲ့လေသည်။ (လယ်တွင်းကိုးခရိုင် — လည်းရှု။) ယခုအခါ မြင်စိုင်းကား မြို့ပျက်မြို့ဟောင်းဖြစ်၍ မြို့ရိုးပျက်များကို တွေ့နိုင်ပေသေးသည်။

**မြင်မှုပညာ။** ။မျက်လုံးအိမ် နောက်ပိုင်းရှိ ရက်တီးနားခေါ် အလွန် သိမ်မွေ့ နူးညံ့သော မြင်လွှာပေါ်သို့ အလင်းရောင် ရောက်ရှိလာသည့်အခါမှ မြင်မှု ဖြစ်ပေါ်လာသည်။ မြင်လွှာသည် ကင်မရာခေါ် ဓာတ်ပုံရိုက် ကရိယာတွင် အသုံးပြုသည့် ကော်ပြားနှင့် တူပေသည်။ မျက်စိမှန်ခုံးကို ဖြတ်၍ မျက်စိထဲသို့ ဝင်လာသော အလင်းရောင်သည် မြင်လွှာပေါ်သို့ ကျရောက်လာသည့်အခါ ထိုမြင်လွှာပေါ်တွင် ဝတ္ထု၏ ရုပ်ပုံကို စောက်ထိုး ထင်ပေါ်စေလေသည်။

အချို့ ဓာတ်ပုံရိုက် ကရိယာများတွင် အလင်းရောင် ကောင်းစွာရ၍ ရိုက်လိုသည့် ပစ္စည်း၏ ပုံသည် ပြတ်ပြတ်သားသားနှင့် ထင်ထင်ရှားရှား ဖြစ်စေရန် မှန်ဘီလူးကို ရှေးတိုး နောက်ဆုတ် ပြုလုပ်ပေးရသည်။ မျက်စိတွင်မူကား ကြည့်လိုသည့် ဝတ္ထုပစ္စည်းကို ထင်ရှားစွာ မြင်စေရန် ရှေ့တိုးနောက်ငင် မပြုလုပ်ရဘဲ မျက်စိ မှန်ခုံး၏ ပုံသဏ္ဍာန်ကိုသာ ပြောင်းပေးရသည်။ ဝတ္ထုပစ္စည်းတခုသည် အနီးတွင် ရှိသည်ဖြစ်စေ၊ အဝေးတွင် ရှိသည်ဖြစ်စေ သာမန် မျက်စိသည် ယင်းကို ထင်ရှားစွာ မြင်နိုင်အောင် မြင်လွှာပေါ်၌ ပြုလုပ်ပေးနိုင်သည်။ ဤသို့ ပြုလုပ်ပေးနိုင်ခြင်းကို “အမြင်လိုက်လျောခြင်း” ဟု ခေါ်သည်။ မျက်စိမှန်ခုံး၏ ရှေ့ပိုင်းတွင် “အက်ကွီယပ်ဟျူးမား” ခေါ် အရည်ကျဲတမျိုးဖြင့် ပြည့်နေ၍နောက်ပိုင်းတွင်ကား“ဗစ်ထရီယပ်ဟျူးမား”ခေါ် ကြည်လင်သော အရည်ပျစ်ဖြင့် ပြည့်လျက်ရှိနေသည်။

မြင်လွှာသည် အလင်းမိလွယ်သော ဖလင်ကော်ပြားကဲ့သို့ဖြစ်၍ မျက်စိတွင် အလွန်အံ့ဩဖွယ်ကောင်းသော အစိတ်အပိုင်းတခု ဖြစ်သည်။ ထိုမြင်လွှာတွင် သန်းပေါင်းများစွာသော အလွန်သေးငယ်သည့် ဆဲကလေးများရှိရာ၊ ယင်းတို့သည် အလင်းရောင် တိုက်ရိုက်ကျရောက်ရာ အပိုင်းများဖြစ်သည်။ ယင်းဆဲကလေးများသည် နှစ်မျိုးရှိ၏။ တမျိုးမှာ သေးသွယ်ရှည်လျားသောကြောင့် အချောင်းများဟု ခေါ်သည်။ ဆဲချောင်းများသည် မှုန်သော အလင်းရောင်တွင် မြင်နိုင်စွမ်း ရှိသော်လည်း ပြင်ပလောကကို ထင်ထင်ရှားရှား မတွေ့နိုင်ချေ။ အခြားတမျိုးမှာ ကတော့ပုံ ဆဲများဖြစ်ကြသည်။ မြင်လွှာ တခုလုံးတွင် ဆဲကတော့များ ခုနစ်သန်းခန့် ရှိသည်။ ဆဲကတော့များသည် အရောင်နှင့် သေးငယ်သော အရာများကို ကွက်ကွက် ကွင်းကွင်း မြင်နိုင်စွမ်း ရှိသည်။ ဆဲချောင်းများသည် ညဥ့်အခါ ကြီးသော အရာဝတ္ထုများကို မြင်အောင် ပြုလုပ်ပေးနိုင်သော်လည်း အရောင်နှင့် သေးငယ်သော အရာများကို ထင်ထင်ရှားရှား မြင်နိုင်အောင် မပြုလုပ်နိုင်ချေ။ အချောင်းနှင့် ကတော့များသည် ဦးနှောက်နှင့် အမြင် နာဗ်ကြောက ဆက်သွယ်ပေးထားသည်။ ကျွန်ုပ်တို့သည် အလွန်သေးငယ်သော အစက်ကလေးတခုကို ထင်ထင်ရှားရှား မြင်အောင် ကြည့်သည့်အခါ ထိုအစက်ကလေး၏ ရုပ်ပုံသည် မြင်လွှာအလယ်ရှိ အဝါစက်ပေါ်တွင် ကျရောက်ကြောင်း တွေ့ရသည်။ ဤအဝါစက်ကလေးသည် ဝတ္ထုပစ္စည်းများကို ထင်ရှားစွာ မြင်နိုင်သော အပိုင်း ဖြစ်သည်။ ယင်းအဝါစက်ကလေးတွင် အချောင်းများ လုံးဝမပါဘဲ ကတော့များသာ အမြောက်အမြား ရှိ၏။ ဝတ္ထုပစ္စည်း အသေးဆုံး မည်မျှအထိ မြင်နိုင်မှုသည် အဝါစက်တွင်ရှိသော ဆဲကတော့များ၏ အရွယ်ပမာဏပေါ်တွင် တည်သည်။ ညဥ့်အချိန် မှုန်မှိုင်းမှိုင်း ကြယ်တလုံးကို ကျွန်ုပ်တို့ကြည့်သည့်အခါ မြင်ရမည် မဟုတ်ချေ။ အဘယ်ကြောင့်ဆိုသော် ကြယ်၏ ရုပ်ပုံသည် ဆဲချောင်းများမရှိသော အဝါစက် ချိုင့်ကလေးတွင် ကျနေသောကြောင့် ဖြစ်သည်။ သို့သော် ကြယ်၏ ဘေးတဖက်သို့ အနည်းငယ် ပြောင်း၍ ကြည့်လိုက်သည်ရှိသော် ကြယ်၏ရုပ်ပုံသည် ဆဲချောင်းများရှိသော မြင်လွှာပိုင်းပေါ်သို့ ကျရောက်သွားသဖြင့် ကြယ်ကို ကောင်းစွာ မြင်နိုင်ပေလိမ့်မည်။

ဆဲချောင်းများတွင် အရောင်ပြောင်းသော ပစ္စည်းတမျိုးရှိ၏။ ဤအရောင်ပြောင်းသောပစ္စည်းကြောင့် ဆဲချောင်း

များ မြင်နိုင်သည်။ ဤအရောင်ပြောင်းပစ္စည်းသည် အလင်းရောင်ပြင်းပြင်းနှင့် တွေ့လိုက်သောအခါ အရောင်ပျက်ကာ အဝါရောင် ဖြစ်သွားပြီးလျှင် အသုံးမကျ ဖြစ်သွားတတ်သည်။ ထိုအခါ ဗီတာမင် အေ ကို ရက်ကြာကြာ စွဲစားသွားလျှင် ပြန်၍ ကောင်းလာတတ်သည်။ ရက်ကြာကြာ စွဲစားသည်တိုင် ပြန်မကောင်းလာလျှင် အလင်းရောင်မှုန်မှုန်တွင် ကောင်းစွာမမြင်နိုင်ချေ။ ဤအခြင်းအရာကို ကြက်မျက်သင့်ခြင်း ဟု ခေါ်သည်။

အလင်းရောင်သည် မျက်ဆန်မှတဆင့် မျက်စိထဲသို့ ဝင်၏။ အလင်းရောင်မှုန်လျှင် မျက်နက်ဝန်းသည် ကျယ်လာ၍ အလင်းရောင်ကို ပို၍ ခံယူ၏။ အလင်းရောင်တောက်ပလျှင် မျက်နက်ဝန်းသည် မလိုသော အလင်းရောင်ကို ဖယ်ရှားရန် ကျဉ်းလာတော့၏။ ဝင်လာသောအလင်းရောင်ကို မျက်စိမှန်ခုံးက မြင်လွှာတွင် ရုပ်ပုံ ထင်ထင်ရှားရှား ပေါ်လာအောင် ကျဉ်းလိုက် ကျယ်လိုက် ပြုလုပ်ပေးသည်။ အနီးမြင်တွင် မျက်လုံးသည် ရှေ့မှ နောက်သို့ ရှည်၏။ မျက်စိမှန်ခုံးသည် အနီးရှိဝတ္ထုပစ္စည်းများမှ ပြန်ဟပ်သော အလင်းရောင်ကို မြင်လွှာပေါ်သို့ ထင်ထင်ရှားရှား ပို့နိုင်သည်။ သို့သော် အဝေးရှိ အရာဝတ္ထုများမှ အလင်းရောင်ကိုကား ထင်ရှားအောင် မပြုလုပ်ပေးနိုင်သဖြင့် အဝေးကို မမြင်နိုင်ချေ။ အဝေးမြင်သော ပုဂ္ဂိုလ်များတွင် မျက်လုံးသည် ရှေ့မှ နောက်သို့ တိုနေ၏။ အဝေးနှင့်အနီး နှစ်နေရာစလုံးမှ အရာဝတ္ထုများမှ ပြန်ဟပ်သော အလင်းရောင်သည် မြင်လွှာနောက်ပိုင်း တနေရာ၌ ရုပ်ပုံ ထင်ရှားစွာ ဖြစ်ပေါ်လာအောင် ပြုလုပ်ပေးသည်။ အဝေးမြင် မျက်စိမှ မှန်ခုံးများသည် အရာဝတ္ထုနှစ်မျိုးစလုံးကို မြင်အောင် မပြုလုပ်နိုင်ပေ။

အခြေအနေ အကောင်းဆုံးအခါတွင် လူတယောက်သည် အရာဝတ္ထုတခုကိုမြင်ရန် စက္ကန့်ပိုင်းမျှအချိန်ယူရ၏။ အလင်းရောင်နည်း၍ ထင်ထင်ရှားရှား မမြင်ရသည့်အခါမျိုးတွင် အရာဝတ္ထုတခုကို မြင်နိုင်ရန် ပို၍အချိန်ယူရ၏။ မော်တော်ယာဉ် မောင်းသည့်အခါ၌ အထူးသဖြင့် ညဉ့်အချိန်တွင်အရာဝတ္ထုကို မြင်အောင် ကြည့်ရသည့်အချိန်သည် အရေးကြီးလှပေသည်။ နေ့အချိန်ထက် ညဉ့်အချိန်တွင် အရာဝတ္ထုကို မြင်အောင် ကြည့်ရသည့် အချိန်သည် ပိုသောကြောင့် မတော်တဆ ထိခိုက်မှုများ ဖြစ်ပွားတတ်လေသည်။

မျဉ်းအမည်း ထူထူနှစ်ချောင်းကို စက္ကူတချပ်ပေါ်တွင် တလက်မ၏ အပုံတထောင်ပုံ လေးပုံမျှ ခြား၍ ဆွဲထားပြီးလျှင် လူတယောက်သည် အခြေမှန်မျက်စိဖြင့် ၁၄ လက်မ ခွာ၍ကြည့်လျှင် ထိုမျဉ်းမည်းထူထူ နှစ်ကြောင်းကို ခွဲခွဲခြားခြားမြင်နိုင်သည်။ ဤသို့မြင်နိုင်ခြင်းမှာ အလင်းရောင်ကောင်းစွာ ရရှိသော အခါမှသာ ဖြစ်နိုင်သည်။ အလင်းရောင်နည်းလာသည်နှင့်အမျှ ထိုမျဉ်းနှစ်ကြောင်းကို ခွဲခွဲခြားခြား မြင်နိုင်အောင် ချဲ၍ချဲ၍ ပေးရပေမည်။ အကယ်၍ ထိုမျဉ်းနှစ်ကြောင်းကို မွဲပြာရောင် စက္ကူပေါ်တွင် ဆွဲထားပါက နောက်ခံတွင် ခွဲခြားမှု နည်းသောကြောင့် ယင်းတို့ကို မျဉ်းနှစ်ကြောင်းကဲ့သို့ မြင်ရအောင် ပို၍ပင် ချဲပေးရဦးမည်။ ထို့ကြောင့် မြင်မှုသည် ရရှိသော အလင်းရောင် ပမာဏနှင့် အရာဝတ္ထု၏ ပတ်ဝန်းကျင် နောက်ခံ ခွဲခွဲခြားခြား ရှိမှုတို့ပေါ်တွင် တည်ကြောင်း သိရလေသည်။ စာဖတ်ရန် အကောင်းဆုံးနေရာသည် အလင်းရောင် အများဆုံးရသော ပြတင်းပေါက်နားတွင် ဖြစ်သည်။ ထိုနေရာ၌ အလင်းရောင်သည် စာရွက်ပေါ်သို့ အများဆုံး ကျရောက်သည်။

လူများသည် ငယ်စဉ်ကတည်းက အရာဝတ္ထုတခုကိုကြည့်လျှင် မျက်စိနှစ်လုံးစလုံးကို အသုံးပြု၍ ကြည့်ကြသည်။ မျက်စိကြွက်သားများနှင့် မျက်စိများသည် အခြေမှန်ဖြစ်ခဲ့လျှင် မျက်စိနှစ်လုံးစလုံးဖြင့်သာ ကြည့်တတ်ကြသည်။ ဤအမြင်မျိုးကို "မျက်စိနှစ်ဖက်အမြင်" ဟုခေါ်သည်။ မျက်စိနှစ်ဖက်အမြင်သည် "တဖက်အမြင်"ထက် ကျေးဇူးများသည်။ ကလေးသည် အသက် ၆ နှစ်အရွယ် ရောက်ရှိလာသည့်အခါ သူ၏ မျက်စိအမြင်သည် အစွမ်းကုန်အခြေလောက်သို့ ရောက်ရှိလာသည်။ သို့သော် ထိုထက် လွန်သည့်တိုင်အောင်ပင် သူ၏မျက်စိကို မှန်အောင်အသုံးမပြုနိုင်သေးချေ။ ထို့ကြောင့် ဤအချိန်တွင် မျက်စိကို အားစိုက်၍ပြုလုပ်ရသော အလုပ်ဟူသမျှကို ရှောင်ရှားရန် အရေးကြီးလှပေသည်။

လူငယ်မျက်စိများတွင်ရှိသော မှန်ခုံးများသည် အလွန်ရှန်းကန်တတ်သည်။ လူငယ်များသည် မိမိတို့၏ မျက်စိများသို့ အလွန်နီးစွာ ကပ်ရောက်လာသော အရာဝတ္ထုများကို မြင်နိုင်အောင် မှန်ခုံးများ၏ အရွယ်ကို ပြောင်းလဲပေးနိုင်ကြသည်။ အသက်အရွယ် ကြီးရင့်လာသည်နှင့်အမျှ မှန်ခုံးများ၏ ရှန်းကန်မှုသည်လည်း နည်း၍ သွားရာ"အမြင်လိုက်လျောခြင်း"သည်လည်း ယုတ်လျော့သွားလေသည်။ လူငယ်များသည် အရာဝတ္ထုများကိုမျက်စိနား ကပ်၍ကြည့်နိုင်ကြသောကြောင့် စာဖတ်သည့်အခါ စာအုပ်ကို မျက်စိနားကပ်၍ ဖတ်လေ့ရှိကြသည်။ ဤအလေ့သည် မျက်စိအားဥပဒ်ဖြစ်စေသောကြောင့်ရှောင်ရှားသင့်သည်။ အသက်ကြီးရင့်လာသည့်အခါ မျက်စိများသည် ချတ်ယွင်းလာသဖြင့် မှန်ခုံးများတွင် ရှန်းကန်မှု အလွန်နည်းသွားလေသည်။ ဒုတိယ အရွယ်လွန်မြောက်သည့်အခါ လူများသည် မျက်မှန်ဆောင်ရတော့၏။ သက်ကြီးမျက်စိများတွင် မျက်ကြည်တဝိုက်၌ အဖြူဝိုင်းတခု ရှိတတ်သည်။ သို့သော် စိတ်ပူပင်စရာ မဟုတ်ချေ။ အတွင်းတိမ်နှင့် မျက်ရွှေခန်းနာ စသော မျက်စိ ရောဂါများသည် ဒုတိယအရွယ် လွန်မြောက်သော သက်ကြီးများတွင် ဖြစ်တတ်သည်။



လျှင်မြန်ဖျတ်လတ်သော အမူအရာရှိသည့်ပိုင်မြင်း

မြင်း။ ။မြင်းသည် လူ၏ မိတ်ဆွေစစ် ဖြစ်သည်ဟု ဆိုရပေမည်။ တိုင်းပြည် အေးချမ်းသာယာ နေချိန်တွင် အနောက်နိုင်ငံများတွင် လယ်မြေများကို ထွန်ယက်ပြုပြင်ရာ၌ မြင်းကို အသုံးပြုရသလို စစ်မက်ဖြစ်ပွားလာသည့် အခါ၌လည်း မြင်းတပ်များ ဖွဲ့စည်းကာ ရန်သူကို တွန်းလှန်ချေမှုန်းခဲ့ရလေသည်။ မြင်း၊ မြည်းနှင့်မြင်းကျားတို့သည် မျိုးတူသတ္တဝါများဖြစ်ကြ၍ ထို တိရစ္ဆာန်သုံးမျိုး၏ အတိတ်ရာဇဝင်မှာ ထူးဆန်းသဖြင့် စိတ်ဝင်စားဖွယ်ရာ ကောင်းပေသည်။ မြင်း၏ ဇာတိအရပ်မှာ အာရှတိုက် ဖြစ်ဟန်တူသော်လည်း ကာလ ရွှေ့လျောလာသဖြင့် မြင်း၏ ပုံပန်းသဏ္ဌာန် အဆင့်ဆင့်ပြောင်းလဲလာပုံကို အမေရိကတိုက်တွင် မြေအောက်မှ တူးဖော်ရရှိသော ကျောက်ဖြစ်နေသည့်မြင်းရိုးတို့ကို တွေ့ရှိရခြင်းအားဖြင့် ပို၍စုံလင်စွာသိရသည်။

ရှေးနှစ် သန်းပေါင်းငါးဆယ် အထက်က ကြောင်၏ အရွယ်မျှသာရှိ၍ ရှေ့လက်တဖက်စီ၌ ခြေချောင်း ငါးချောင်းနှင့် နောက်ခြေတွင် ခြေချောင်း လေးချောင်းစီပါသော တိရစ္ဆာန်များ ရှိခဲ့ဘူးလေသည်။ ယခုခေတ် လူတို့၏ အမြင်အားဖြင့် ဆိုရလျှင် ထိုသတ္တဝါကလေးမှာ ထူးဆန်းသော မြင်းကလေးမျှသာ ဖြစ်သော်လည်း ထိုသေးငယ်သော "ကမ္ဘာဦးမြင်း" မှ ယခု တွေ့မြင်ရသော မြင်းကြီးများ ပေါက်ပွားလာကြလေသည်။ ထိုကမ္ဘာဦး မြင်းကလေးများသည် ရန်သူ၏ ဘေးရန်မှ လွတ်မြောက်အောင် ပြေးလွှားရသည့် အခါတွင် ခြေဖျားထောက်၍ပြေးမှ ပို၍ လျင်မြန် နိုင်မည်ဖြစ်ရာ တဖြည်းဖြည်းနှင့် အလယ်ခြေချောင်းကိုသာ အသုံးများလာလေသည်။ နှစ်ပေါင်းများစွာ ကြာလတ်သော် အသုံးများသော ခြေချောင်းသာလျှင် သန်သန်စွမ်းစွမ်းရှိ၍ အသုံး မချရသော ခြေချောင်းကလေးများသည် တဖြည်းဖြည်း သေးသိမ်လာပြီးလျှင် နောက်ဆုံး၌ လုံးဝကွယ်ပျောက်သွားလေသည်။ ထိုကြောင့် ယခုခေတ်၌ တွေ့မြင်ရသော မြင်းတွင် မြင်းခွာအတွင်း၌ ခြေချောင်း တခုသာလျှင် ကျန်ရှိနေတော့သည်။

ခြေချောင်းများ တရွေ့ရွေ့ ပြောင်းလဲလာသည့်နည်းတူ မြင်း၏ ကိုယ်လုံးကိုယ်ထည်နှင့် ခြေတံလက်တံတို့သည်လည်း ကြီးထွား သန်စွမ်း၍လာသည်။ မြင်းသည် အချိုးအစားကျသော တိရစ္ဆာန်ဖြစ်သည်။ မြင်းတွင် သန်စွမ်းသော ခြေလက်တို့ ရှိသည့်အပြင် ရှည်လျားသော ဦးခေါင်းနှင့် တောက်

ပသော မျက်လုံးများ ရှိသည်။ အဖျားချွန်၍ အဖက်ဖက်သို့ လှုပ်ရှားနိုင်သော နားရွက်များနှင့် ကျယ်၍ပွသော နှာခေါင်းပေါက်များရှိသည်။ အသားပြည့်၍ လုံးသောကိုယ်နှင့် ရှည်လျားသော လည်တံရှိသည်။ အမွေးမှာ ကိုယ်နှင့်ကပ်၍ ပေါက်သည်။ လည်ဆံနှင့် အမြီးတို့တွင် အမွေးရှည်များ ရှိသည်။ မြည်းနှင့် မြင်းကျားတို့တွင် အမြီးဖျား၌သာ အမွေးရှည်များရှိသည်။ ထို့ကြောင့် မြင်း၏လည်ဆံနှင့် အမြီးရှည်တို့သည် မြင်းကို အခြားတိရစ္ဆာန်တို့ထက် ပို၍လှပတင့်တယ်စေသည်ဟု ဆိုရပေမည်။

မြင်းသည် မြက်နှင့် ကောက်ပင် ကောက်သီးများကို စားသော တိရစ္ဆာန် ဖြစ်သော်လည်း စားမြုံ့မပြန်တတ်ချေ။ သွား ၃၆ ချောင်းမှ အချောင်း ၄၀ အထိရှိ၍ အထက်နှင့်အောက် ရှေ့သွား ၃ ချောင်းစီနှင့် အံသွား ၆ ချောင်းစီ ရှိသည်။ မြင်းအံသွားများ၏ ထူးခြားချက်တရပ်မှာ သွားအဖျားများ တိုသွားသည်နှင့်အမျှ သွားအရင်းမှ ရှည်ထွက်၍ လိုက်လာသည်။ မြင်းထီးများတွင် အထက်ပါ သွားများအပြင် ခွေးစွယ် ၄ ချောင်း အပိုပါသေးသည်။ ဤခွေးစွယ်များနှင့် အံသွားများအကြားရှိ နေရာလပ်တွင် မြင်းဇက်ကို ခွံ့ရသည်။ ကြမ်းတမ်းသော မြင်းကို ဇက် ခွံ့ထားမှသာ စီးသည့်အခါ ချုပ်ထိန်းနိုင်သည်။ မြင်း၏ သက်တမ်းမှာ ၁၈ နှစ်မှ အနှစ် ၂၀ အထိ ဖြစ်သည်။

မြင်းကလေး မွေးသည့်အခါ မျက်စိ စုံလုံးပွင့်လျက် ကိုယ်တွင်လည်း အမွေးများ အပြည့်ရှိသည်။ မွေးပြီး၍ ခဏခြင်းတွင် မြင်းကလေးသည် မတ်တတ်ထ၍ ပြေးလေ့ရှိသည်။ မြင်းကလေး အသက် ရက်သတ္တနှစ်ပတ် အကြာတွင် ရှေ့သွားများ ထွက်လာသည်။ အသက် ၆ လခန့်ရှိလျှင် ငယ်သွားများ စုံလာသည်။ အသက် ၃ နှစ်အတွင်း ငယ်သွားများ လဲသည်။ မြင်းထီး အသက် ၄ နှစ် ရှိလာလျှင် ခွေးစွယ်များ ပေါ်လာသည်။ မြင်းအသက် ၅ နှစ်တွင် သွားများ စုံသည်။

အသက် ၁၀ နှစ်အထိ သွားထွက်ပုံနှင့် သွားပြောင်းလဲပုံတို့မှာ တသမတ်တည်း ရှိသဖြင့် သွားများကို ကြည့်ရှုစစ်ဆေး၍ မြင်း၏ အသက်ကို တွက်မည်ဆိုက တွက်နိုင်စရာ အကြောင်းရှိသည်။ ၂ နှစ်သား အရွယ်တွင် မြင်းကလေးသည် ငယ်မွေးလဲသဖြင့် မွေးစက ပါသော ကောက်ကွေးကွေး အမွေးများ ပျောက်၍ ပြောင်လက်သော အမွေးများ ပေါ်ထွက်လာသည်။ လည်ဆံမွေးနှင့် အမြီးမှတပါး ကိုယ်တွင်ရှိသော အခြားအမွေးများမှာ နှစ်စဉ် အသစ်လဲသည်။



အမေရိကန်ပြည်ထောင်စု နိုင်ငံတွင်မြင်းများကို ဤသို့ ဂရုတစိုက် စံနစ်တကျမွေးမြူကြသည်။

ရှေးအထက်ကျောက် ကာရီက ဆိုက်ဗီးရီးယားနှင့် အလာစကာပြည်တို့သည် ကုန်းချင်း ဆက်စပ်လျက် ရှိသဖြင့် မြင်းရိုင်းများသည် အာရှတိုက်၊ ဥရောပတိုက်နှင့် မြောက်အမေရိကတိုက်တို့တွင် တတိုက်နှင့်တတိုက် ကူးလူး ကျက်စားလျက် နေကြ၏။ ထို့ကြောင့် ယနေ့ထက်တိုင် အာရှတိုက်၊ ဥရောပတိုက်နှင့် အမေရိက တိုက်များတွင် မြင်းရိုင်းအုပ်ကြီးများကို တွေ့မြင်ရသေးသည်။ မြင်းရိုင်းများသည် ကြီးမား၍ သန်စွမ်းသော တိရစ္ဆာန်များ ဖြစ်ကြ သော်လည်း ရန်သူကို ခွာစောင်းဖြင့် ကန်ကျောက်ရုံမှတပါး အခြားခုခံရန် နည်းများ မရှိသဖြင့် ဝံပုလွေ၊ ကျားစသော သားရဲများနှင့် ရင်ဆိုင်တွေ့လျှင် အသက်ဘေးမှ လွတ်ရန် ခွာစုံပေါက် ပြေးလေ့ရှိသည်။ ထိုသားရဲများ၏ ရန်အပြင် နောက်ထပ် တိုးလာသော ရန်သူမှာ မြင်းရိုင်းများကို အသားစားရန်အတွက် လိုက်လံ ဖမ်းဆီး သတ်ဖြတ်သော ရှေးခေတ် လူများပင်ဖြစ်သည်။ နှစ်ပေါင်းသုံးသောင်းကျော်အထက် ကျောက်ခေတ်တွင် ဥရောပတိုက် တောင်ပိုင်း၌ ဂူများဖြင့် နေထိုင်ကြသော လူတို့၏ နေရာ ရပ်ကွက်များမှ မြင်းရိုးများကို တူးဖော် ရရှိခြင်းအားဖြင့် မြင်းရိုင်းများကို ရှေးခေတ် လူတို့ သတ်ဖြတ် စားသောက်ကြကြောင်း သိသာ ထင်ရှားလေသည်။ ထိုသူများ နေထိုင်ရာ ဂူများအတွင်း၌ အမဲလိုက်ရာ၌ အသုံးပြုကြသော အမဲရိုး၊ ကျောက်စသည်တို့ဖြင့်ပြုလုပ်ထားသည့် ဓား၊ လှံစသောလက်နက်တို့ကိုလည်း တွေ့ရှိရသည်။ သို့သော် ထိုအရာများထက် စိတ်ဝင်စားဖွယ် ဖြစ်သည်တို့မှာ ရှေးခေတ် လူတို့၏ ပုံများနှင့် တိရစ္ဆာန်ပုံများကိုခြစ်ဆွဲ၍ ဖြစ်စေ၊ ကျောက်၊ သစ်သားတို့ဖြင့် ထုလုပ်ထား၍ဖြစ်စေ ကျန်ရစ်ခဲ့ခြင်း ဖြစ်လေသည်။ ယင်းကဲ့သို့ အရိုးများ၊ကျောက်များပေါ်တွင် ထုထွင်းခဲ့သော ပုံများတွင် မြင်း၏ ပုံများကိုလည်း တွေ့ရှိရသည်။ အချို့ မြင်းပုံများတွင် မြင်း၏ပါးစပ်၌ ဇက်ခွံ၍ ဇက်ကြိုးများတပ်ဆင်ထားသည်ကိုပင် တွေ့ရှိရသဖြင့် ထိုခေတ် ထိုအခါမှစ၍ လူတို့သည် မြင်းကို ချုပ်ထိန်းနိုင်စွမ်းရှိသည့် အလျောက် အလိုကျ အသုံးပြုခဲ့ကြောင်း ထင်ရှားလေသည်။

ကက်စပျန် ပင်လယ်နှင့် ပင်လယ်နက် မြောက်ဖက်ရှိ မြက်ခင်းကြီးများ၌ လှည့်လည် ကျက်စားကုန်သော အာရီယန် လူမျိုးတို့သည် မြင်းကို ပဌမဆုံး ယဉ်ပါးလာအောင် လေ့ကျင့်ပေးသည့် လူများ ဖြစ်လေသည်။ ဦးစွာ၌ မြင်းကို စစ်တိုက်ခိုက်ရာ၌သာ အသုံးများ၏။ နွားနှင့် မြည်းများကို ဝန်တင်တိရစ္ဆာန်အဖြစ်ဖြင့် အသုံးချကြသည်။ ဂရိလူမျိုးနှင့် ရောမလူမျိုးများ ကြီးစိုးစဉ်အခါက ဘုရင်များ၊ မင်းညီ မင်းသားများနှင့် စစ်ဗိုလ်ကြီးများသည် မြင်း ၂ ကောင်၊ သို့မဟုတ် တခါတရံ မြင်း ၃ ကောင် က သော စစ်တိုက်ထွက် ရထားများကို စီးနင်း၍ စစ်မြေပြင်သို့ ထွက်လေ့ ရှိကြသည်။ ထိုနောက်မှ မြင်းကို လူကိုယ်တိုင်စီး၍ စစ်ပွဲဝင်သည့် ခေတ်သို့ ရောက်ရှိလာသည်။

အာရှတိုက် အလယ်ပိုင်းတွင် မြည်းနှင့် ဆင်တူရိုးမှား တိရစ္ဆာန်ရိုင်းများကို ယနေ့တိုင် တွေ့မြင်ရသည်။ သို့သော် မြင်းရိုင်းစစ်စစ်ကို မွန်ဂိုးလီးယားပြည် အနောက်ပိုင်း၌သာ ယခု အချိန်တွင် တွေ့မြင်နိုင်သည်။ ထိုမြင်းရိုင်းများမှာ စင်စစ် မြင်းပုကလေးများသာ ဖြစ်သည့်အပြင်၊ အမြီးမှာ မြည်း၏အမြီးကဲ့သို့ ရှိသည်။ ယင်းတို့သည် ၅ ကောင်မှ ၁၅ ကောင်အထိ အအုပ်အသင်းဖွဲ့၍ နေတတ်သည်။ တအုပ်လျှင် မြင်းလားအိုကြီး တကောင်စီ ခေါင်းဆောင်သည်။ ၁၈၇၉ ခုနှစ်တွင် ရုရှားလူမျိုးထဲမှ ဒေသသစ် ရှာဖွေသော ပါဇီဗားလစကီး ဆိုသူထံသို့ အထက်ထက်က မည်သူ တစုံတယောက်မျှ မတွေ့မြင်ဘူးသေးသော ဤမြင်းရိုင်းမျိုး ရောက်ရှိလာသည်။ ထိုပုဂ္ဂိုလ်ကို အစွဲပြု၍ ဤမြင်းရိုင်းများကို ပါဇီဗားလစကီးမြင်း ဟု ခေါ်ကြသည်။

အာဖရိကတိုက်၊ ဆီးရီးယားနှင့် ပါးရှား နိုင်ငံရှိ သဲကန္တာရများနှင့် အိန္ဒိယ နိုင်ငံ အလယ်ပိုင်းရှိ လွင်ပြင်များတွင် မြင်းကျားနှင့် မြည်းရိုင်းများကို တွေ့ရှိနိုင်သည်။ မြင်းနှင့် မြည်းကို လူတို့နှင့် ယဉ်ပါးလာအောင် ပြုပြင်ရာ၌ အောင်မြင်လျက်ရှိပြီ ဖြစ်သော်လည်း မြင်းကျားမှာမူ ယနေ့ထက်တိုင် အရိုင်းသက်သက်ပင် ရှိနေသေး၏။ ဥရောပတိုက်မှ မျက်နှာဖြူ လူမျိုးများ အမေရိကတိုက်သို့ ပဌမဦးဆုံးအကြိမ် သွားရောက်ကြစဉ်က ထိုတိုက်တွင် ရှိကြသော တိုင်းရင်းသားတို့သည် မြင်းကို မမြင်ဘူး မကြားဘူးကြချေ။ ယခုအခါ၌ တောင်အမေရိကတိုက်နှင့် မြောက်အမေရိကတိုက် အနောက်ပိုင်းတို့တွင် တွေ့ရှိရသော မြင်းရိုင်းများမှာ ၁၆ ရာစု နှစ်အတွင်း စပိန်လူမျိုးတို့ ယူဆောင်လာသော မြင်းယဉ်များထဲမှ-တောဝင်သွားသော မြင်းများ၏ အဆက်အနွယ်များသာ စင်စစ် ဖြစ်ချေသည်။

ရှေးအခါက စစ်တိုက်ရာ၌သာ မြင်းကို အသုံးချခဲ့ကြသော်လည်း လူတို့၏ ယဉ်ကျေးမှု အဆင့်အတန်းမှာ တဖြည်းဖြည်း တိုးတက်လာသည့် အလျောက် ဝန်တင်လှည်းများ ဆွဲရာတွင်၎င်း၊ လယ်မြေများကို ထွန်ယက် ပြုပြင်ရာတွင်၎င်း မြင်းကို အသုံးချလာကြသည်။ မီးရထားနှင့်မော်တော်ကားများ မပေါ်မီ ၁၉ ရာစုနှစ် အလယ်အထိ တနေရာမှ တနေရာသို့ ခရီးသွားရာ၌ မြင်းများ မရှိလျှင် မဖြစ်သလောက် အသုံးဝင်လာလေသည်။ ယခုခေတ်မှာဆိုလျှင် ရေနွေးငွေ့အား၊ လျှပ်စစ် ဓာတ်အားနှင့် ဓာတ်ဆီအားတို့ကို သယ်ယူ ပို့ဆောင်ရေးဖက်တွင်ဖြစ်စေ၊ စိုက်ပျိုးရေးဖက်တွင်ဖြစ်စေ၊ အခြား လေးလံသော အရာဝတ္ထုတို့ကို သယ်ယူချီမရာတွင် ဖြစ်စေ တွင်ကျယ်စွာ အသုံးချလာပြီ ဖြစ်သောကြောင့် မြင်းကို အသုံးနည်းလာပြီဟု ဆိုရချေမည်။ သို့ရာ

တွင် ဤမျှ စက်မှု ထွန်းကား တိုးတက်လာသောခေတ်၌ပင် မြင်းကို လုံးဝစွန့်ပယ်ရန် မဖြစ်နိုင်သေးချေ။

လူတို့သည် မြင်းကို အဖက်ဖက်တွင် တိုးတက် ကောင်း မွန် လာရအောင် ပြုပြင်၍ လာခဲ့ကြသဖြင့် အရွယ်အစား စားရှိသော မြင်းမျိုးများ ပေါ်ပေါက်လာခဲ့ပေသည်။ အချို့ မြင်းများမှာ ဒေါက် ၆ ပေမှ ၇ ပေအထိ ရှိ၍ လှည်း ဆွဲရာ၌ အသုံးပြုကြသည်။ အချို့မြင်းများမှာ ဒေါက် အလွန်ငယ်သော မြင်းပုကလေးများ ဖြစ်ကြသည်။ မြင်း ၃ မျိုး ၃ စားရှိသည်။ ပဌမ တမျိုးမှာ လှည်း ထွန်တုံး ထွန်သန် စသော လေးလံသည့် အရာတို့ကိုဆွဲရာ၌ အသုံးပြုနိုင်သော ခွန်အားကောင်းသည့် မြင်းကြီးမျိုး၊ ဒုတိယ မြင်းမျိုးမှာ ခြေတံလက်တံများ အလွန် ထွားကျိုင်း၍ အမွေးရှည်များရှိသော မြင်းမျိုးနှင့် တတိယ မြင်းမျိုးမှာ ခြေတံလက်တံနှင့် ကိုယ်လုံးကိုယ်ဖန် သေးသွယ်၍ အပြေးလျင်မြန်သော ပြိုင်မြင်းမျိုးတို့ ဖြစ်သည်။

ပဌမနှင့် ဒုတိယ မြင်းမျိုးတို့မှာ ရှေးအခါက စစ်တိုက်ရာတွင် အသုံးပြုသော မြင်းများမှ ဆင်းသက်လာကြသည်။ ရှေးခေတ် သူရဲကောင်းတို့သည် အလွန် လေးလံသော သံချပ် အင်္ကျီများကို ကိုယ်တွင် ဝတ်ဆင်ထားကြသဖြင့် ထိုစစ်သူရဲတို့ စီးနင်းမည့် မြင်းများသည် ခွန်အား အလွန် ရှိသော မြင်းများ ဖြစ်ရပေမည်။ ပြင်သစ်နိုင်ငံ၊ ဗဲလဂျီယမ်နှင့် ဂျာမနီ နိုင်ငံများမှ မြင်းကြီးမျိုးများကို မျိုးစပ်လိုက်သဖြင့် ဗဲလဂျီယန်မျိုး၊ ရှိုင်ယာမျိုး၊ ကလိုက်ဇဒေးမျိုး၊ ဆပ်ဖို့မျိုးနှင့် ပါရှရွန်မျိုး ဟူ၍ မြင်းမျိုးကောင်းများ ပေါ်ထွက်လာခဲ့လေသည်။ ထိုမြင်းမျိုးများ အနက် ရှိုင်ယာမြင်းမျိုးသည် ကိုယ်အလေးချိန် အားဖြင့် တတန်ကျော်ကျော်ရှိ၍ ခြေတံ လက်တံနှင့် ခွာအိုးတို့မှာ အလွန်ထွားကျိုင်းသည်။ ခြေဆစ်လက်ဆစ်တို့၏ အထက်နားမှ ရှည်လျားသော အမွေးမှင်များ ကျလျက် ရှိသည်။ ဤမြင်းမျိုးသည် သူတို့၏ ကိုယ်အလေးချိန် ၃ ဆမျှ ရှိသော ဝန်ကို ဆွဲနိုင်စွမ်း ရှိသည်။ အင်္ဂလန်နိုင်ငံတွင် လယ်မြေများကို ထွန်ယက်ပြုပြင်ရာ၌ ရှိုင်ယာမြင်းမျိုးကို အသုံးများသည်။ ကနဦး အစတွင် ဤမြင်းမျိုးကို အနက်ရောင်ဖြင့်သာ တွေ့ရသော်လည်း ယခုအချိန်၌မူ အညိုရောင်နှင့် နီညိုရောင်မြင်းများကို အတွေ့ရများသည်။

မြင်းပုမျိုးထဲတွင် စကော့တလန်ပြည် မြောက်ဖက် ရှက်တလန်ကျွန်းစုမှ မြင်းမျိုးမှာ ထင်ရှားသည်။ ဤရှက်တလန်မြင်းပုမျိုးသည် အရွယ်ပင်ငယ်သော်လည်း ခွန်အားရှိသော



အင်္ဂလန်ပြည်တွင် မြင်းများကို အမဲလိုက်ရာ၌လည်း အသုံးပြုကြသည်။

မြင်းမျိုးဖြစ်သည့်အပြင် အစာမရွေးတတ်ချေ။ စိတ်ရှည်၍ သိမ်မွေ့သော မြင်းမျိုးဖြစ်သဖြင့် ခိုင်းစေရာ၌ ဒုက္ခပေးလေ့မရှိ။ ဤမြင်းမျိုး ပေါက်ပွားသည့် ကျွန်းစုမှာ ရာသီဥတုအလွန်အေးသောအပိုင်းတွင် တည်ရှိသဖြင့် သဘာဝအခြေအနေကြောင့် ကြီးမားသင့်သလောက် မကြီးမားဘဲ ပုကွကွဖြစ်နေသည်ဟု ဆိုရပေမည်။ ရှက်တလန် မြင်းမျိုးတွင် ရှည်ဖားဖား လည်ဆံမွေးကြမ်းနှင့် ထူထဲသော အမြီးရှိသည်။ အချို့ မြင်းပုများ၏ ဒေါက်မှာ ၃ ပေမျှပင် မရှိကြချေ။

စီးမြင်းများတွင် အာရပ်မြင်းမျိုးသည် စံထားလောက်အောင်ပင် အချိုးအစားကျ၍ အပြေး လျင်မြန်သည်။ ထိုမျှမက အာရပ်မြင်းသည် ပါးနပ်လိမ်မာ၍ အသင်ရလည်းလွယ်ကူသည်။ အာရေဗျ သဲကန္တာရထဲတွင် လှည့်လည်ကျက်စားကုန်သော ဗက်ဒူးအင်း အာရပ်တို့သည် သူတို့၏မြင်းများကို အလွန် မြတ်နိုးကြ၏။ အစားအစာ ပြတ်၍ ငတ်မတတ်ဖြစ်ရမည့် အခြေသို့ ဆိုက်ရောက်စေကာမူ သူတို့၏မြင်းများကို စွန့်ပစ်ရောင်းချလေ့မရှိကြ။ အာရပ်တို့သည် သူတို့၏သားသမီးများကို ခင်မင်သကဲ့သို့ မိမိတို့၏ မြင်းများကို ခင်တွယ်ကြသည်။ အာရပ် အိမ်သူအိမ်သားတို့သည် မြင်းများနှင့်အတူ တဲတခုတည်း၌ နေတတ်ကြသည်။

အာရပ်မြင်းဟု အမည်တွင်လျက် ရှိသော်လည်း စင်စစ်အားဖြင့် အာရေဗျနိုင်ငံတွင် မူလက ပေါက်ပွားလာခဲ့သော မြင်းမျိုးဟု မဆိုသာချေ။ အီဂျစ်လူမျိုးတို့သည် ခရစ်မပေါ်မီ နှစ်ပေါင်း ၁၅၀၀ မှ စ၍ မြင်းကို အသုံးချခဲ့ကြ၏။ သို့သော် အာရပ်တို့သည် ခရစ်ပေါ်ပြီးမှ မြင်းကို အသုံးပြုကြကြောင်း သိရသည်။ ထိုပြင် အာရပ်မြင်းတို့၏ ပုံပန်းသဏ္ဌာန်သည် ထိုစဉ်အခါက အီဂျစ်တို့၏ မြင်းများနှင့် ဆင်ဆင်မျှ တူဟန်ရှိသည်။ ရှေးခေတ် နိုင်ငံများဖြစ်သော ဗက်ဗီလုံးနီးယား၊ ပယ်လက်စတိုင်နှင့် ဂရိတို့တွင် တွေ့ရှိရသော မြင်းများမှာ အမြင်အားဖြင့် ကြမ်းတမ်းထွားကျိုင်း၍ အာရပ်မြင်းကဲ့သို့ ကြော့ကြော့ရှင်းရှင်း မရှိကြချေ။ ထိုပြင် ရှေးဟောင်း စာပေများ၌ ခရစ်မပေါ်မီ နှစ်ပေါင်း ၁၀၀၀ ခန့်တွင်အာဖရိကတိုက် မြောက်ပိုင်းမှ မြင်းများသည် မြေထဲပင်လယ် တဝှန်းတွင် ကျော်ကြားခဲ့ကြောင်း ရေးသားထားချက်များ တွေ့ရှိရလေသည်။ အထက်ဖော်ပြပါအကြောင်းများကို ထောက်ရှုခြင်းအားဖြင့် ကမ္ဘာကျော် အာရပ်မြင်းများသည် အာဖရိကတိုက် မြောက်ပိုင်းမှ ပေါက်ပွားလာသော မျိုးဆက်များဖြစ်သည်ဟု ဆိုရပေမည်။ အာဖရိကတိုက်မြောက်ဖက်ရှိ မိုရော့ကိုနယ်မှ ဗပ်မြင်းမျိုးသည် အာရပ် မြင်းကဲ့သို့ပင် ထင်ရှားသော မြင်းမျိုး ဖြစ်လေသည်။

အာရပ်မြင်းမျိုးနှင့် ဗပ်မြင်းမျိုးတို့မှ ပြိုင်မြင်းများပေါက်ပွားလာသည်။ စီးမြင်း၊ အမဲလိုက်မြင်းနှင့် ပြိုင်မြင်းတို့ကို မျိုးစစ်သည်ထက် ပို၍ စစ်လာရအောင် အသုံးချနည်းကို လိုက်၍ ရွေးချယ် စိစစ်ပြီးလျှင် ဂရုတစိုက် မွေးမြူထားကြရသည်။ ထိုပြင် စီးမြင်းကို လိုအပ်သော အရည်အချင်းများနှင့် ပြည့်စုံရန် အလေ့အကျင့်များ ပြုလုပ်ပေးရသည်။ ထိုနည်းအတူ အမဲလိုက်မြင်းနှင့် ပြိုင်မြင်းတို့ကိုလည်း ဆိုင်ရာ အရည်အချင်းများနှင့် ပြည့်စုံနိုင်သမျှ ပြည့်စုံရန် စံနစ်တကျ လေ့ကျင့်ပေးရသည်။ ယင်းကဲ့သို့ ဂရုတစိုက်နှင့် မွေးမြူလာရသော မျိုးစစ် မြင်းများမှာ တန်ဖိုး အလွန်ရှိလေသည်။ ပုံစံဆိုလျှင် အင်္ဂလန် နိုင်ငံ၌ အလွန် နာမည်ကြီးသော ဒါဗီမြင်းပြိုင်ပွဲနှင့် အလားတူ ထင်ရှားသော မြင်းပြိုင်ပွဲများတွင် အနိုင်ရသော မြင်းမှ ပေါက်ပွားလာသော မြင်းကလေးများကို တန်ဖိုး အလွန် ကြီးမြင့်စွာ ထားလျက်ရောင်းချလေ့ ရှိသည်။ ထိုကြောင့် ပြိုင်မြင်းတို့၏ မှတ်တမ်းစဉ်တွင် နိုင်မြင်းတို့၏ သားစဉ် မြေးဆက်တို့သည် အစွန့်ရှည်စွာ သတင်းပြောင်ခဲ့ကြောင်း တွေ့ရှိရလေသည်။

**မြင်းကျား။** ။အာဖရိကတိုက် အီသီအိုးပီးယား နိုင်ငံမှ တောင်ဖက် ဂွတ်ဒဟုပ်အငူထိ တည်ရှိသော မြက်ခင်းလွင်ပြင်ကြီးများတွင် အပြေးမြန်၍ သတိဝီရိယ ကောင်းသော မြင်းကျားများ အန္တအပြား ကျက်စားလျက် ရှိသည်ကိုတွေ့ရသည်။ ကိုယ်ကွင် အစင်းများရှိသော မြင်းကျားသည်မြင်းနှင့်အတူ အိက္ကွီး မျိုးရင်းဘွင် ပါဝင်၍ မြည်းရိုင်းနှင့် မျိုးချင်း အတော်နီးစပ်သည်။ မြင်းကျားကွင်လည်း မျိုးကွဲများ ရှိပြန်သည်။ ဂရန့်မြင်းကျားမျိုးသည် လူနှင့် ခြင်္သေ့များက ရက်စက်စွာ လိုက်လံသတ်ဖြတ်ဖမ်းဆီးခြင်းခံရသော်လည်း ယခုတိုင် အာဖရိက အရှေ့ပိုင်းနယ်များတွင် အအုပ်အသင်းဖွဲ့ကာ လှည့်လည် ကျက်စားလျက် ရှိကြသေးသည်။ ဒေါက် ၄ ပေ ၆ လက်မ ရှိသည်။ အရောင်မှာ ဝါယောင်ယောင် နောက်ခံ၌ အညိုပုပ်အစင်းများ၊ သို့မဟုတ် အမည်းစင်းများ ရှိသည်။ အစင်းများသည် ဦးခေါင်း၊ ကိုယ်၊ ခြေထောက်နှင့် အမြီးထိရှိသည်။

အီသီအိုးပီးယား နိုင်ငံမှ အာဖရိက တောင်ပိုင်းထိ တွေ့ရသော ဗာချဲမြင်းကျားများနှင့် တန်ဂန်ယီးကနယ်တွင် တွေ့ရသောချက်မင် မြင်းကျားများတွင် အစင်းကြီးများ ကြား၌ အရောင်မှိန်သော အစင်းကလေးများရှိသည်။ ယခုအခါ မျိုးပြုတ်ကုန်သော ကွက်ဂါမြင်းကျားတွင် ခြေထောက်၌ အစင်းများမရှိချေ။ ယင်းမှာမြည်းရိုင်းတမျိုးပင်ဖြစ်သည်။

အီသီအိုးပီးယား နိုင်ငံတွင် တွေ့ရသော ဂရီဗီ မြင်းကျားမျိုးကား အကြီးဆုံး ဖြစ်၍ ပခုံးအထိ ၅ ပေမြင့်သည်။ ဤမြင်းကျားမျိုးသည် အဖြူရောင် နောက်ခံ၌ အနက်ရောင် အစင်းကလေးများ အမြောက်အမြားနှင့် ကြီးမားသော နားရွက်များ ရှိသောကြောင့် ထင်ရှားသည်။



အာဖရိကတိုက်တွင် အတွေ့ရများသည့် မြင်းကျား



မြင်းကျားသည် ဤသို့အုပ်သင်းဖွဲ့၍ ရှည်လျားသော မြက်ခင်းတောတွင် သွားလာကျက်စားလေ့ ရှိသည်။

တောင်မြင်းကျား ဟု ခေါ်သော မျိုးမှန် မြင်းကျား တမျိုးကား မြင်းကျားမျိုးတွင် အငယ်ဆုံးဖြစ်၍ ပခုံးအထိ ၄ ပေခန့်သာ မြင့်သည်။ အရောင်မှာ အဖြူနောက်ခံ၌ အမည်း အစင်းကြီးများ ဖြစ်သည်။ ယင်း၏ ဇာတိနေရပ်မှာ ဂွတ်ဒဟုပ် အငူ ဖြစ်၍ တခါက အလွန်များပြားစွာ တွေ့ရသော်လည်း လိုက်လံ သတ်ဖြတ်ဖမ်းဆီးမှုကြောင့် အနည်းငယ်မျှသာ ကျန်တော့သည်။

မြင်းကျားများသည် အုပ်ငယ်များ ဖွဲ့နေတတ်ကြပြီးလျှင် တအုပ်စီ၌ မြင်းကျား အထီးတကောင်က ခေါင်းဆောင်ပြု၍ စောင့်ရှောက်သည်။ ရန်သူများကို ရှပ်ရှပ်ချွံချွံ ခုခံ တိုက်ခိုက်ကြသည်။ မြင်းကျားများသည် အလွန် ရိုင်းကြသည်။ သို့သော် ငယ်စဉ်က ဖမ်းယူ၍ ယဉ်ပါးအောင် မွေးမြူထားလျှင် မြင်းကဲ့သို့ အလုပ်များ လုပ်ခိုင်းနိုင်သည်။ မြင်းကျားများကို အသားနှင့် သားရေအတွက် လိုက်လံ သတ်ဖြတ်ကြသဖြင့် အချို့ မြင်းကျားမျိုးမှာ မျိုးပျောက်လုမတတ် ရှိခဲ့လေသည်။ မြင်းကျား အသားသည် အလွန် စားကောင်း၍ သားရေမှာလည်း အလွန်ကောင်းသည်ဟု သိရပေသည်။

# စက်သွင်းသဘင်

**ရှေးမြန်မာမင်းများ လက်ထက် ပြာသိုလ မကာရရာသီတွင် သေနင်္ဗျူဟာ အခမ်းအနားတရပ် ဖြစ်သော မြင်းခင်းပွဲ ဆင်ခင်းပွဲ တို့ကို ဆင်ယင်ကျင်းပရိုးရှိသည်။ မြင်းခင်းပွဲ (ဝါ) မြင်းခင်းသဘင်ကို မြင်းခင်း စက်သွင်းသဘင်တော်ပွဲ၊ သို့မဟုတ် မြင်းခင်း စက်ထိုးပွဲဟုလည်း ခေါ်သည်။**

**မြင်းခင်းသဘင်။** ။မြင်းခင်းသဘင်သည်ကား ရှေးမြန်မာမင်းများ လက်ထက်က ပြာသိုလတွင် ကျင်းပမြဲဖြစ်သော ရာသီပွဲတော်ဖြစ်၏။ ဤသဘင်ကို မြင်းခင်း စက်သွင်းသဘင်တော်ပွဲ၊ သို့မဟုတ် မြင်းခင်း စက်ထိုးပွဲ ဟုလည်း ခေါ်သည်။ (ဆဲ့နှစ်ရာသီပွဲတော်များ — လည်းရှု။)

ရှေးမြန်မာမင်းများ လက်ထက်တွင် စစ်ပွဲများ၌ ဆင်စီးချင်း၊ မြင်းစီးချင်း၊ စစ်ထိုးတတ်ကြကြောင်း ရာဇဝင်ကျမ်းများ၌ရင်း၊ အရေးတော်ပုံ ကျမ်းများ၌ရင်း ဆိုခဲ့ကြလေသည်။ ထိုအခါက မင်းနှင့်တကွ မင်းညီမင်းသား ဗိုလ်မှူး တပ်မှူး စသည်တို့သည် ဆင်စီး၊ မြင်းစီး၊ လေးမြား၊ လှံ ဓား အတတ်တို့ကို ပိုင်နိုင်စွာ ကျွမ်းကျင်ကြသည် ဟု ဆိုသည်။ ကျွမ်းကျင်အောင် အလေ့အကျင့် အမြဲတစေ ရှိကြတန်ရာသည်။ အလေ့အကျင့်၌ စိတ်ပျော်မွေ့ခြင်းရှိအောင် တနှစ်တကြိမ် ပြာသိုလတွင် ပြိုင်ပွဲများကျင်းပ၍ မင်းမိဖုရားတို့က ခြီးမြှင့်တတ်ကြသည်မှာ အထင်အရှား ဖြစ်သည်။

မြင်းခင်းစက်သွင်းသည် ဆိုသည်မှာ မြင်းကို ကျင်လျင်စွာ အပြေးစီးယင်း ထူထားသော စက်တိုင်တွင် အဆင့်ဆင့်ရှိသော စက်ဝန်းများကို မှန်အောင် လှံလျင် ပစ်သွင်းသောသဘောပင် ဖြစ်တန်ရာသည်။ မင်းညီမင်းသား အမှူးအမတ်သို့သည် မျဉ်းမောက်တို စစ်ဝတ်တန်ဆာများ ဆင်ယင်လျက် မြင်းကြိုးကစုံပါရှိသော မြင်းကိုစီး၍ လှံလျင်ကို ပစ်ကြသည်။ လှံလျင်ကို လှံတို ဟူ၍လည်း ခေါ်လေသည်။ လှံလျင်ပစ် လက်တည့်သူသည် ရှေးမြန်မာစစ်ပွဲများ၌ အရေးပါမည့်သူ ဖြစ်နိုင်လေသည်။ ဆင်စီးချင်းထိုးသည်၊ မြင်းစီးချင်းထိုးသည် ဆိုရာ၌ တဖက်နှင့်တဖက် လှံလျင်လွှတ်၍ တိုက်ခြင်းမျိုးလည်း ပါလေသည်။ အလောင်းမင်းတရား အရေးတော်ပုံကျမ်းတွင် ခင်ဦးစား ဦးချစ်ညိုနှင့်သေနတ်ဝန်တို့ လှံလျင်လွှတ်၍ မြင်းစီးချင်းတိုက်ကြပုံကို အောက်ပါအတိုင်း ရေးမှတ်ခဲ့လေသည်။

"ငါနှင့် မြင်းစီးချင်း ကစားကြမည်။ ယောကျ်ားကောင်း ထွက်ခဲ့စေ ချစ်ညို ဆိုလျှင်၊ မင်းကျော်ဗညားထွက်သည်ကို မြေတ်ထွန်းငယ်နှင့် ငါတိုက်ဘက်မတန်။ ငါလိုသာ သွေးစွန်းတော့မည် ဆိုသဖြင့်၊ မုဆိုးခြုံဗိုလ် မင်းလှမင်းတောင် ထွက်ပြန်သည်ကိုလည်း ထွေန်းငယ် ငါ့လက်စဉ်းကို စေ့ခိုင်မှာ နေကြစဉ်ပင် နင်အသိ ဖြစ်သည်။ ငါနှင့် ဘက်မတန် ဆိုပြန်၍၊ ယင်းမကန်ဗိုလ်၊ ယင်ပါဗိုလ်တို့ မြင်းနှစ်ဆယ်သား အသီးသီး ထွက်ကြသည်ကိုလည်း မဖက်မပြိုင်လို၊ သေနတ်ဝန် ဆိုသူသာ ထွက်လာစေဆို၍ သေနတ်ဝန်ထွက်ရာတွင်မှ သည်ခါ ယောကျ်ားချင်း တွေ့ရတော့မည်။ ကိုတို့မှာ ပွဲကြည့်၍သာနေ။ သေနတ်ဝန်နှင့် ငါနှင့် တန်စေ၊ ကြုံးဝါးသံပ၍ မြင်းကို အကုန်လွှတ်၍ ခြေတဖက်ထောင်လျက် ရပ်၍ စီးသည်။ ပက်လက်အိပ်၍စီးသည်။ ထက်ဝယ်ဖွဲ့ခွေလျက် စီးသည်။ မြင်းနံပါး၌ ကပ်လျက်စီးသည်။ လှံကို လက်ဝဲလက်ျာ ဘယ်ညာလဲ၍ စီးသည်။ သေနတ်ဝန်မှုကား လှံမကို ချိန်ဆကာနေသည်။ ချစ်ညိုလည်း စီးနည်း အထွေထွေ ပြီးလျှင် လှံလျင်နှင့် လွှတ်လိုက်သည်။ သေနတ်ဝန်၏ လှံရိုးကိုခုတ်မိချေ၏။"

ဤကား မြင်းစီးချင်း တိုက်ပုံတမျိုး ဖြစ်လေသည်။ ဤတိုက်ပုံမျိုး ရှိသည်ကို ထောက်လျှင် ရှေးမြန်မာမင်းများ လက်ထက်တွင် ရွှေမြို့တော် အစ ဈေးလက်များ၌ပင် လှံ

လျှင်ပစ် အလေ့အလာ အကြံအစည် ခေတ်စားမည် ဟု ယူဆနိုင်သည်။ ပြာသိုလရောက်သည့်အခါတိုင်း မြင်းခင်းစက်သွင်းပွဲ ကျင်းပမြဲ ရှိသည် ဆိုသည်မှာ ထိုအလေ့အလာ အကြံအစည်ကို အားပေးလိုသော သဘောပင် ဖြစ်သည်ဟု ဆိုနိုင်လေသည်။ သီပေါမင်းလက်ထက် မြင်းခင်း စက်သွင်းပွဲ ကျင်းပပုံကို ကုန်းဘောင်ဆက် မဟာရာဇဝင်တော်ကြီး တတိယအုပ်၌ အောက်ပါအတိုင်း ဆိုခဲ့လေသည်။

"ယင်းသည့် (၁၂၄၀ ပြည့်နှစ်) ပြာသိုလပြည့်ကျော်နှစ်ရက်နေ့၊ ရှေးမင်းတကာတို့လက်ထက်၊ ဗျူဟာသဘင်စီစဉ် ကျင်းပမြဲဖြစ်သော ဆင် မြင်း ရထား လေးမြား စသော မင်းမှုဝိဇ္ဇာ အတတ်မျိုးတို့၌ အကျုံးဝင်သော ဆင်ခင်း မြင်းခင်းစက်သွင်းသဘင်တော် ကျင်းပရန်ကို ရွှေနန်းတော် အတွင်း မြေနန်းတော် လက်ဝဲဘက်တွင် အမြင့် တဆဲ့ငါး တောင်ကစ၍ နှစ်ဆယ်၊ နှစ်ဆဲ့ငါးတောင်၊ သုံးဆယ်၊ ငါးဆယ်၊ အနောက်က အရှေ့သို့ အတည့်အတန်း စက်တိုင် ငါး စိုက်ထူပြီးလျှင် မြေနန်းတော်ဦး မင်းတက် သက္ကဒါန် လှေကားတော်မြောက် စံတော်မူရန် တဲကနားဖျင်းတော် ဆောက်လုပ်၊ ပိတ်ဖြူမျက်နှာကြက်၊ ဗိတာန်ကြာယပ်၊ လုဇရွှဲကြက်လုပ်၊ ဆဲ့ဆင်အသင့်ရှိစေ၍၊ ပြာသိုလပြည့်ကျော် သုံးရက်နေ့တိုင် မင်းညီမင်းသား၊ ဝန်ကြီး၊ အတွင်းဝန် ဝင်းတော်မှူးမှူးတော်မတ်တော်၊လက်သုံးတော်၊ လက်စွဲတော်တို့ သနားတော်မြတ်ခံရသည့် မျဉ်းမောက်တို စစ်ဝတ်တန်ဆာ ဆင်ယင်ပြီးလျှင် မြင်းကြိုး ကစုံများကို စီးနင်း၍၊ တကိုယ်လျှင် ဆယ်ခေါက်က လုံလျှင်ဆယ်စင်းစီ ကုန်အောင် ထိုးကြရသည်။ မင်းညီ မင်းသားများမှာ မျဉ်းတို မျဉ်းရှည် စစ်ဝတ်တန်ဆာ အဆင်အယင်နှင့်၊ ပေါင်းထုပ်ပုဝါ ပေါင်း၍ ထိုးကြရသည်။ ဆဒ္ဒန်ဆင်မင်း သခင်ဘဝရှင် မင်းတရားကြီး ဘုရားမှာ အဘိုးအနဂ္ဃထိုက်တန်သော ရတနာ အပေါင်းတို့ဖြင့်ပြီးသော မျဉ်းမောက်တို စစ်ဝတ်တန်ဆာ ဆင်ယင်တော်မူပြီးလျှင် အသျှင်မိဖုရား ခေါင်ကြီးနှင့်တကွ မင်းမိဖုရား မောင်းမမိဿံ ခြံရံတော်မူလျက် မြေနန်းတော် အတက် ကနားဖျင်း တဲတော်သို့ ထွက်စံ ကြည့်ရှုတော်မူသည်။ စက်ထိုး သဘင်တော်တွင် စက်စွဲသည့် မင်းညီမင်းသား မှူးတော် မတ်တော်၊ လက်သုံးတော်၊ လက်စွဲတော်တို့မှာ တလက် စွဲလျှင်၊ ငွေပွင့်ထိုး ပန်းပုဝါတစ်၊ သဇင်ပန်းခိုင် တစ်စီ သနားတော်မူသည်။ မင်းညီမင်းသား မှူးတော် မတ်တော် လက်သုံးတော် လက်စွဲတော်တို့ စက်ထိုးသဘင်ပြီးလျှင် ကသည်းအက္ကပတ် မြင်းတပ်ဗိုလ် အရာရှိတို့နှင့် မြင်းအမှုထမ်းတို့ ရှောက်သီးခေါးခုတ်၊ လုံထိုး၊ ငှက်ပျောပင်စိုက်၊ ရေအိုးတင်ခေါးခုတ်၊ မြင်းအစိုင်းအနင် အရေးအရာများကို ထိုးခုတ်ပြပြီးနောက်၊ ရွှေနန်းတော်သို့ ဝင်တော်မူသည်။"

မြင်းခင်းသဘင် မကျင်းပမီ၌ရင်း၊ ကျင်းပဆဲ၌ရင်း မြင်းခင်းဆိုင်ရာ အတီးအမှုတ်တို့ကို တီးမှုတ် တတ်ကြဟန် တူလေသည်။ ရှေးခေတ် မြန်မာ့ဂီတလောကတွင် မြင်းခင်းကြိုး သီချင်းများ ထွန်းကားခဲ့သည်ကို ထောက်၍ သိသာလေသည်။ အောက်ပါ မြင်းခင်းကြိုး သီချင်းကို ယခုခေတ် ဂီတပညာရှင်တို့၏ နှုတ်ဖျားမှ ရံဖန်ရံခါ ကြားနာပျော်မွေ့နိုင်လေသည်။ တေးသံတီးလုံးသံတို့တွင် မြင်းတို့ကြွကြွရွရွ ဖြစ်နေဟန်၊ မြင်းခင်းပွဲ ခမ်းနား တင့်တယ်ဟန်၊ ပျော်ပျော်မြူးမြူး ဖြစ်နေကြဟန်တို့ ပေါ်လွင်လျက် ရှိသည်။

"ဘုန်းမိုး ရွာစွေ သွန်းဖျန်း၊ ရွှေပြည်တော်သာငြိမ်းချမ်း။ အောင်ပန်းလူလူ နန့်မြေဌ၊ သပြေ ဇမ္ဗူ တိုင်းခန်း။ ပိုင်တည့်သာ ပိုင်စိုးမြန်း။ လွှတ်နန်းဘွဲ့လယ် ဘုံဦး၊ ကွန့်မြူးစကြာ ရှင်ချည့်ချည့်လေ။ ရွှေနန်းတိုင်ပြင်၊ စီးပုံခွင်၊ အဲမောင်း လုံယဉ်ရေးရာဆင်၊ ရောင်တင်လျှံဖြာ၊ မှောင်လွင်ပယ်ခွါ၊ ယိမ်းလှန့်မှုရာတည့်လေ။ လျှပ်စံပန်းတင်၊ ရွှေနန်းခွင် ယဉ်လှလှလေး။"

မြင်းခြံခရိုင်။ ။မြင်းခြံ ခရိုင်သည် မြန်မာနိုင်ငံ အထက်ပိုင်း မန္တလေးတိုင်းတွင် ပါဝင်သော ခရိုင်တခု ဖြစ်သည်။ မြန်မာနိုင်ငံ အလယ်ဗဟိုလောက်တွင် တည်ရှိ၍ မိုးပါးရေရှား ရပ်ဝန်းတွင် အကျုံးဝင်သည်။ နယ်နိမိတ်အားဖြင့် မြောက်ဖက်တွင် စစ်ကိုင်းခရိုင်၊ အရှေ့ဖက်တွင် ကျောက်ဆည်နှင့် မိတ္ထီလာခရိုင်များ၊ တောင်ဖက်တွင် မကွေးခရိုင်၊ အနောက်ဖက်တွင် ဧရာဝတီမြစ်တို့ ရှိသည်။ ဧရာဝတီမြစ်၏ တဖက်ကမ်းမှာ ပခုက္ကူခရိုင် ဖြစ်သည်။ မြင်းခြံခရိုင်ကို မြင်းခြံနယ်၊ ပုဂံ (ညောင်ဦး) နယ်တို့ဖြင့် ဖွဲ့စည်းထားသည်။ တဖန် မြင်းခြံနယ်မှာ မြင်းခြံမြို့နယ်၊ တောင်သာမြို့နယ်၊ နွားထိုးကြီးမြို့နယ်တို့ဖြင့် ဖွဲ့စည်းထားကာ ပုဂံ (ညောင်ဦး) နယ်မှာ ပုဂံ ( ညောင်ဦး ) မြို့နယ်၊ ကျောက်ပန်းတောင်းမြို့နယ်၊ ငဇွန် (ငါန်းဇွန်) မြို့နယ်တို့ဖြင့် ဖွဲ့စည်းထားသည်။ ခရိုင်၏ အကျယ်အဝန်းမှာ စတုရန်းမိုင် ၂,၇၁၀၊ ကျေးရွာပေါင်း ၄၄၀ ရွာနှင့် ၁၉၅၆ ခုနှစ်တွင် ခန့်မှန်းခြေအားဖြင့် လူဦးရေ ၄၇၂,၅၅၇ ယောက်ရှိသည်။ ခရိုင်ရုံးစိုက်မြို့သည် မြင်းခြံမြို့ဖြစ်၍ ခရိုင်တွင်းရှိ မြို့များကား ပုဂံ၊ ညောင်ဦး၊ နွားထိုးကြီး၊ တောင်သာ၊ ကျောက်ပန်းတောင်း၊ ငဇွန် (ငါန်းဇွန်) တို့ ဖြစ်သည်။

မြင်းခြံခရိုင်အတွင်းရှိ မြေသည် များသောအပိုင်းတွင် ခြောက်သွေ့၍ လှိုင်းထနေသော မြေမျက်နှာပြင်မျိုး ဖြစ်သည်။ တောင်ကုန်းများလည်း ရှိသည်။ မြန်မာနိုင်ငံ တဝှမ်းလုံးတွင် ထင်ရှားသော တောင်မြတ် တောင်ကလပ်ဖြစ်သည့် ပုပ္ပါးတောင်သည် ခရိုင်၏ အရှေ့တောင်ထောင့်တွင် တည်ရှိသည်။ (ပုပ္ပါးတောင် — လည်းရှု။ ) မူလက မီးတောင်



မြင်းခြံခရိုင်နှင့်မန္တလေးခရိုင်တို့ကို ဆက်သွယ်ထားသော ကားလမ်းမကြီး

ဖြစ်၍ ပေပေါင်း ၅,၀၀၀ နီးပါး အမြင့်ဆောင်သော တောင်ထိပ် ၂ ခု ရှိသည်။ ပုပ္ပါးတောင်၏ အထက်ပိုင်းတွင် မည်သည့်အပင်မျိုးမှ မပေါက်သဖြင့် ပြောင်ထင်းလျက် ရှိ၏။ တောင်ခြေပိုင်း၌မူ ပန်းခြံ သစ်သီးခြံ တို့ဖြင့် စိမ်းလန်း စိုပြည်လျက်ရှိသည်။ ခရိုင်၏မြောက်ဖက်ဖျား မြင်းခြံနှင့် နွားထိုးကြီးနယ်တို့၌ ယုန်ထိုးတောင်၊ စကြာတောင်နှင့် မင်းကွန်းတောင်တို့ကို တွေ့နိုင်လေသည်။

မြင်းခြံခရိုင်တွင် ထင်ရှားသော ရေကြောင်းမှာအနောက်ဖက် နယ်နိမိတ်တလျှောက် စီးဆင်းသော ဧရာဝတီမြစ်ဖြစ်သည်။ ဧရာဝတီမြစ်သည် ကွေ့ကောက်လှသဖြင့် သောင်ခုံများ၊ ရေလယ်ကျွန်းများ ထွန်းလျက် ထိုသောင်ခုံနှင့် ရေလယ်ကျွန်းများပေါ်တွင် ဆေး၊ ပဲ၊ မရင်းစပါး အစရှိသည်တို့ကို စိုက်ပျိုးကြသည်။ သို့သော် ကျွန်းများ သောင်များမှာ မတည်တံ့ဘဲ ရေစားသောအခါ နစ်မြုပ်ပျောက်ကွယ်သွားတတ်၏။ တခါတရံ ကျွန်းဟောင်းများ အစား ကျွန်းသစ်ကလေးများ ပေါ်လာတတ်သည်။ ချောင်းများအနက် မြောက်ဖက်တွင် စီးဆင်းသော ငှက်ပျောအိုင် ချောင်းနှင့် တောင်ဖက်မှ ပုပ္ပါးချောင်းတို့သည်တနှစ်ပတ်လုံးရေရှိသည်။ ဆင်တဲဝ၊ ပြောင်းပြာနှင့် စွန်းလွန်းချောင်းကို့မှာ နွေအခါတွင် ခန်းခြောက်နေတတ်၍ မိုးသည်းထန်သောအခါ ရေစီးသန်သည်။ ရာသီဥတုမှာ မိုးပါးရပ်ဝန်းတွင် သက်ရောက်သောကြောင့် ခြောက်သွေ့သည်။ ပုပ္ပါးတောင်သာလျှင် နွေအခါ၌ အေးမြသောဥတုရှိသည်။ မြင်းခြံခရိုင်တွင် တနှစ်ပတ်လုံး မိုးရေချိန်လက်မ ၃၀ ခန့်သာရွာသွန်းသည်။

မြင်းခြံခရိုင် အတွင်း၌ ဧကပေါင်းများစွာကို တူးမြောင်းကန်ချောင်းများမှ ရေပေးသွင်း၍ စိုက်ပျိုးလုပ်ကိုင်သည်။ ဆန်စပါး၊ နှမ်း၊ ဝါဂွမ်း၊ မြေပဲ၊ ပဲအမျိုးမျိုးနှင့် ပြောင်းတို့ကို စိုက်ပျိုးသည်။ မြင်းခြံမြို့နယ် မြောက်ပိုင်းရှိ ကုန်းမြင့်ဒေသများ၊ နွားထိုးကြီးမြို့ အနောက်ဖက်ရှိ နယ်များနှင့် တောင်သာ အရှေ့ဖက်ရှိ နယ်များတွင် ဝါဂွမ်းအကြီး အကျယ် စိုက်ပျိုးသည်။ မြန်မာနိုင်ငံ အလယ်ပိုင်း ဝါဂွမ်းစိုက်ပျိုးသော နယ်တဝက်ခန့်မှာ မြင်းခြံခရိုင်တွင်း၌ ရှိသည်။ လူး၊ ဆပ်၊ ကြက်သွန်၊ ငရုတ်၊ အာလူးတို့ကိုလည်း အသင့်အတင့် စိုက်ပျိုးသည်။ မြေပဲ၊ နှမ်းတို့ ထွက်သောကြောင့် မြေပဲဆီ၊ နှမ်းဆီများထွက်သည်။ မြင်းခြံ၊ ကျောက်ပန်းတောင်းတို့တွင် ဆီစက်များရှိသည်။ ဝါထည်ရက် လုပ်ငန်း၊ ဝါစေ့ထုတ် လုပ်ငန်းတို့သည် မြင်းခြံ၊ တောင်သာ၊နွားထိုးကြီးဖက်တွင် များသည်။ မြင်းခြံ ခရိုင်တွင် ထန်းပင်ပေါသောကြောင့် ထန်းလျက်လည်း ထွက်သည်။ ဤလုပ်ငန်းများအပြင် ပုဂံ၊ ညောင်ဦးမှ ယွန်းထည်များလုပ်ငန်းသည် ထင်ရှားလျက်၊ မြန်မာနိုင်ငံတွင်မက ကမ္ဘာတွင်ပါ ဂုဏ်ယူရသော တိုင်းရင်း လုပ်ငန်းတရပ် ဖြစ်လေသည်။ အနောက်တောင်ဖက်ရှိ စဉ့်ကူးမြို့တွင် ရေနံတွင်း၊ ရေနံချက်စက်များ ရှိသည်။ မြင်းခြံခရိုင်တွင် ံ့သီးသန့် ကြိုးဝိုင်း သစ်



မြင်းခြံခရိုင်တွင်းရှိ ကျောက်ပန်းတောင်းမြို့ ဘုရားရှခင်း

တောများရှိ၍ မြင်းခြံ မြို့နယ်တွင် သစ်စက်များလည်း ရှိလေသည်။

မြင်းခြံခရိုင်သည် လမ်းပန်း ဆက်သွယ်ရေး တွင်လည်း မညံ့ဖျင်းပေ။ မြင်းခြံခရိုင်တွင်း ဖြတ်သွားသော လမ်းများမှာ ကတ္တရာခင်း လမ်းကောင်းများ ဖြစ်သည်။ ယင်းမော်တော်ကား လမ်းများသည် ခရိုင်တွင်းရှိ မြို့များနှင့် သာမက ပတ်ဝန်းကျင်ရှိ ခရိုင် များနှင့်လည်း ဆက်သွယ်လျက် ရှိသည်။ မြင်းခြံခရိုင် အနောက်တောင်ဖက်ရှိ ကျောက်ပန်းတောင်းမြို့သည် မကွေး၊ မိတ္ထီလာ၊ မြင်းခြံမှ ပေါက်လာသော မော်တော်ကားလမ်းများ ဆုံရာဖြစ်၏။ ကျောက်ပန်းတောင်းသည် ပျဉ်းမနားမှ ခွဲလာသော မီးရထားလမ်း၏ လမ်းဆုံးလည်း ဖြစ်၍ ရထားလမ်းအတိုင်း ပျဉ်းမနားမှ ၁၃၉ မိုင် ဝေးကွာသည်။ တဖန် မိတ္ထီလာခရိုင်တွင်းရှိ သာစည်မှ ခွဲထွက်လာသော မီးရထားလမ်းသည် မြင်းခြံ၌ ဆုံးပြန်၍ ရထားလမ်းအတိုင်း မိုင် ၇၀ ရှိသည်။ မြင်းခြံမြို့သည် ပလိပ်သို့ ရှေးအခါက မီးရထားလမ်း ပေါက်သော်လည်း ယခုအခါ အသုံးမပြုနိုင်ဘဲရှိ၏။ ဧရာဝတီ မြစ်တလျှောက် ရန်ကုန်-မန္တလေးသို့ စုန်ဆန် သွားလာသော သင်္ဘောများသည် မြင်းခြံခရိုင် ဧရာဝတီ မြစ်ရိုးတလျှောက်ရှိ ပုဂံ၊ ညောင်ဦး၊ မြင်းခြံ၊ ဆိမီးခုံမြို့များတွင် ဆိုက်ကပ် ရပ်နားသည်။ လေကြောင်းအားဖြင့် မူကား ညောင်ဦးနှင့် ရန်ကုန်သာ အဆက်အသွယ်ရှိသည်။ အမြဲတမ်း သွားလာသည်ကား မဟုတ်။ နိုင်ငံခြား ဧည့်သည်များ ဘုရားဖူးသွားရောက်သောအခါ အသုံးပြုသည်။ သို့ဖြင့် မြင်းခြံခရိုင်သည် အထက်အောက် နယ်များသို့ လွယ်ကူစွာ ခရီးပေါက်ပေသည်။

မြင်းခြံခရိုင်တွင် ထင်ရှားသော စေတီပုထိုးတို့ကား များလှပေသည်။ ရွှေစည်းခုံ၊ အာနန္ဒာ၊ သဗ္ဗညု၊ ကတော့ပလ္လင်မှစ၍ 'လှည်းဝင်ရိုးသံ တညံညံ'မျှ အရေအတွက်ရှိသော ဘုရားပေါင်း စုဝေးရာ ပုဂံ ညောင်ဦးတိုက်မှာ အထူးဖော်ပြဖွယ် မရှိအောင် သမိုင်း၊ ယဉ်ကျေးမှုတို့နှင့် ဆက်စပ်နေပေသည်။ ထိုပြင်လည်း နွားထိုးကြီး၊ တောင်သာ၊ ကျောက်ပန်းတောင်းမြို့များတွင် စေတီပုထိုးများ ရှိပေသေးရာ၊ နွားထိုးကြီးနယ်စကြာတောင်ဘုရားပွဲကို နှစ်စဉ် ဝါခေါင်လတွင်၎င်း၊ တောင်သာ ဘုရားပွဲကို ပြာသိုလတွင်၎င်း၊ ကျောက်ပန်းတောင်းနယ် မုန့်စုဘုရားပွဲကို တပို့တွဲလတွင်၎င်း ကျင်းပလေ့ ရှိသည်။ အခြား မြို့ငယ် ရွာငယ်များတွင်လည်း စေတီပုထိုးများ တည်ရှိ၍ ပွဲတော်များလည်း နှစ်စဉ် ကျင်းပသည်။

မြင်းခြံခရိုင်တွင် နေထိုင်သူတို့မှာ များသောအားဖြင့် ဗုဒ္ဓဝါဒီ မြန်မာ များ၏။ လူမျိုးခြား ဘာသာခြားများ အနည်းငယ်မျှသာ ရှိသည်။ ဗုဒ္ဓဝါဒီများသဖြင့် ခရိုင်တွင်း၌ ကျောင်းကန်ဘုရားများစွာရှိသည်။ မြင်းခြံခရိုင်တွင်အကျုံးဝင်သော စွန်းလွန်းရွာမှ စွန်းလွန်း ဆရာတော်သည်၎င်း၊



အညာမြေ မြင်းခြံခရိုင်မှ ထန်းလျက်များ ထုတ်လုပ်ရာ ထန်းတော

စမ်းကျ (စံကြ) ဆရာတော်သည်ရင်း ပုံ့လွန်တော်မူကြသည်မှာကြာမြင့်ပြီဖြစ်သော်လည်း ကမ္မဋ္ဌာန်းဘာဝနာသီလ တန်ခိုးကြောင့် ဆရာတော်ကြီး ၂ ပါး၏ ရုပ်ကလာပ်တို့မှာ မပုပ်မရိ ပကတိ တည်ရှိတော်မူသောကြောင့် မြန်မာနိုင်ငံ အရပ်ရပ်မှ ဗုဒ္ဓအယူဝါဒီ တို့သည် ဆရာတော် ၂ ပါး၏ ရုပ်ကလာပ်ကို သွားရောက် ဖူးမျှော်ကြပေသည်။ သို့ဖြင့် စွန်းလွန်းဂူကျောင်းသည် ယခုအခါ မြန်မာနိုင်ငံ တဝှန်းတွင် ထင်ရှားပေသည်။ (စွန်းလွန်းဆရာတော် — ရှု။)

မြင်းခြံ ခရိုင်တွင် ပုဂံ၊ ညောင်ဦးမြို့များ တည်ရှိသောကြောင့် မကြာခဏ သမိုင်းတွင် ပါတတ်ပေသည်။ ပဌမ အင်္ဂလိပ်-မြန်မာစစ်အပြီးတွင် စာချုပ်ချုပ်ဆိုရာ ဖြစ်သော ရန္တပိုရွာသည်လည်း မြင်းခြံ ခရိုင်၌ တည်ရှိလေသည်။



မြင်းခြံခရိုင်တွင်းရှိ တောင်သာမြို့အဝင် စေတီရှုခင်း

**မြင်းခြံမြို့။** ။မြင်းခြံမြို့သည် မြန်မာနိုင်ငံ အထက်ပိုင်း မန္တလေးတိုင်းတွင် ပါဝင်သော မြင်းခြံခရိုင်၏ ရုံးစိုက်မြို့ ဖြစ်သည်။ မြင်းခြံမြို့သည် ဧရာဝတီမြစ်၏ လက်ဝဲဖက်ကမ်း ပေါ်တွင် တည်ရှိသော သင်္ဘောဆိပ်ကမ်းမြို့လည်း ဖြစ်သည်။ ရန်ကုန်မြို့မှ ရေလမ်းအားဖြင့် ၅၁၅ မိုင်ခန့် ကွာ လှမ်းလျက်၊ အထက် မန္တလေးမြို့နှင့် မိုင် ၇၀ ခန့် ကွာဝေးသည်။ နွေအခါတွင် သင်္ဘောများသည် ဆိပ်ကမ်းနှင့် လှမ်းသော နေရာတွင်သာ ဆိုက်ကပ်နိုင်သည်။ မြင်းခြံမြို့သည် မိတ္ထီလာခရိုင် သာစည်မြို့မှ ခွဲထွက်လာသော သာစည် မြင်းခြံ မီးရထားလမ်း၏ အဆုံးဘူတာလည်း ဖြစ်သည်။ ထိုအပြင် ယခင်က မြင်းခြံမှ နွားထိုးကြီးမြို့ကို ဖြတ်လျက် ပလိပ်ဘူတာအထိ သွားသော မီးရထားလမ်း တခုရှိသည်။ မြင်းခြံ-နွားထိုးကြီး ကတ္တရာခင်းလမ်းသည် မိုင် ၂၀ ရှိ၍၊ ကျောက်ဆည် ခရိုင်အထိ ၄၂ မိုင်ရှိသည်။ မြင်းခြံကျောက်ပန်းတောင်း ကတ္တရာခင်းလမ်းသည် ၅၉ မိုင်ရှိ၏။ မြင်းခြံမှ ညောင်ဦးသို့ ကတ္တရာခင်းလမ်းသည် ၅၉ မိုင်နှင့် ကျောက်ပန်းတောင်းမြို့မှ လမ်းခွဲ၍ မြေနီလမ်း ၃၄ မိုင် ရှိသည်။ မြင်းခြံမှ ကျောက်ပန်းတောင်းကို ဖြတ်လျက် မိတ္ထီလာနယ်စပ်အထိ ကျောက်ပုံလမ်းအတိုင်း ၇၁ မိုင်ခန့် ရှည်သည်။ မြင်းခြံမှ မကွေးနယ်စပ် ပင်းချောင်းအထိ ၇၅ မိုင်ရှိသည်။ ကျောက်ပန်းတောင်း အနောက် မကွေးနယ်စပ်အထိ ဂွေးချိုလမ်းအတိုင်း ၆၅ မိုင်ခန့် ရှိ၏။ မြင်းခြံမှ ဆီမီးခုံအထိ ကားလမ်း ၂၂ မိုင် ရှိသည်။ သို့ဖြင့် မြင်းခြံမြို့သည် ရေလမ်း၊ မော်တော်ကားလမ်း၊ မီးရထားလမ်းတို့၏ အချက်အခြာ ဒေသတခု ဖြစ်သောကြောင့် လူနေများပြား၍ စည်ကားသော မြို့တမြို့ ဖြစ်သည်။

မြင်းခြံမြို့သည် အကျယ်အဝန်းအားဖြင့် ၃.၇ စတုရန်းမိုင် ခန့်ရှိ၍၊ ၁၉၆၃ ခုနှစ် ခန့်မှန်းခြေအရ လူဦးရေ ၃၇,၇၅၀ ယောက်ခန့်ရှိသည်။ မြို့ပေါ်တွင် ပြောင်းပြာ၊ ကွေကြီး၊ ကန်ဦး၊ ကျည်တော်ရပ်၊ အေးကျင်း စသည်ဖြင့် ရပ်ကွက်ပေါင်း ၁၇ ခု ရှိ၍ အိမ်ခြေပေါင်း ၇,၅၆၀ ခန့်ရှိသည်။ ခရိုင်ရုံးစိုက်မြို့ ဖြစ်သည်နှင့်အညီ အစိုးရရုံးများ၊ အထက်တန်း၊ အလယ်တန်းနှင့် မူလတန်းကျောင်းများ၊ ဆေးရုံများ၊ ထောင်၊ မျိုးစိပယ်ရုံးနှင့် တိုက်တာ အဆောက်အအုံများ၊ ဆီစက်၊ သစ်စက်၊ ဝါစက်စသည်တို့ဖြင့် စည်ကားလှပေသည်။ မြင်းခြံနယ်နှင့် မြို့ပေါ်တွင်ပါ လူဦးရေ အများစုမှာ ဗုဒ္ဓဝါဒီ မြန်မာလူမျိုးတို့ ဖြစ်၏။ ထို့ကြောင့်ဘုရားကျောင်းကန်များပေါများသည်။ ထင်ရှားသော စေတီပုထိုးတို့မှာ သံသရာအေးစေတီ၊ ရန်အောင်မြင်ဘုရား၊ ရွှေမြင်တင်စေတီတော်၊ နှစ်ကျိပ်ရှစ်ဆူဘုရား၊ ရှင်ပင်ရေပေါ်၊ ဘုရားသုံးဆူ စသည်တို့ ဖြစ်၍၊ နှစ်စဉ်ဘုရားပွဲတော်များ အချိန်အခါအလိုက် စည်ကား သိုက်မြိုက်စွာ ကျင်းပလေ့ရှိသည်။ ထို့ပြင် ကိုးဆောင်ကျောင်းတိုက်၊ သုဓမ္မာကျောင်း၊ ဆုတောင်းပြည့် စာသင်တိုက် စသည့် ပရိယတ္တိ စာသင်တိုက်



မြင်းခြံမြို့၏ ဧရာဝတီမြစ်ဆိပ် တစိတ်တဒေသကို ဤသို့ရှုမြင်ရသည်။ အဝေးမှမြင်ရသောတောင်မှာ ပုပ္ပားတောင်ဖြစ်သည်။



မြင်းခြံမြို့ရှိ စွန်းလွန်းဂူကျောင်းများ



မြင်းခြံမြို့အဝင် သံတန်တားကို အဝေးမှ ရှုမြင်ရစဉ်

များနှင့် စွန်းလွန်းဂူကျောင်း၊ ရွှေမြင်တင်ကျောင်း၊ မဟာစည်၊ ပဋ္ဌိပဋ္ဌာန်ကျောင်း စသည့် ကမ္မဋ္ဌာန်း ရိပ်သာများလည်း ရှိသည်။

မြင်းခြံမြို့တွင် ဝါအမျိုးမျိုး၊ ပဲအမျိုးမျိုး ရောင်းဝယ်ဖောက်ကားသည်။ ထိုပြင် ခြည်ကြမ်းထည်များနှင့် ဆပ်ပြာများလည်း ထွက်သည်။

မြင်းခြံမြို့၏ အမည်တွင်လာပုံမှာ စိတ်ဝင်စားဖွယ်ကောင်းသည်။ မြင်းခြံဟူသည် မျဉ်းကျန်ဟူသောအမည်မှ ရွေ့လျောပြောင်းလဲလာသည်ဟု ဆိုလေသည်။ ထိုစဉ်အခါက ရောဝတီမြစ်သည် ယခုတည်ရှိသည့် နေရာမှ အနောက်ဖက် ၆ မိုင်ကွာတွင် ကျ၍ ယခု ပခုက္ကူခရိုင် ရေစကြိုမြို့နယ်အထိ ရောက်၏။ လက်ရှိ မြင်းခြံမြို့ တည်ရှိသကဲ့သို့ပင် တောင်

ဖက် စွန်းလွန်းချောင်း၊ မြောက်ဖက် ပြောင်းပြချောင်း တို့၏ အကြားတွင် ရေလဲရွာ တည်ရှိ၏။ မြစ်၏တဖက်တွင် ဆင်တဲရွာရှိ၏။ သက္ကရာဇ် ၁၁၉၉ ခုနှစ် (ခရစ် ၁၈၃၇) ကုန်းဘောင်မင်း ခေါ် ရွှေဘိုမင်း လက်ထက်တွင် ရေလဲ ရွာ၏အရှေ့ဖက် ကိုက် ၅၀၀ ခန့် အကွာရှိ တောစပ်၌ လူ တယောက်အား လူဆိုးတို့ သတ်ဖြတ်ထားသည်ကို တွေ့ရ သဖြင့် သက်ဆိုင်ရာသို့ တိုင်တန်းရာ၊ သက်ဆိုင်ရာတို့က လာ ရောက် ကြည့်ရှုပြီးလျှင် လက်သည် ရှာသော်လည်း မတွေ့ ဘဲရှိ၏။ လူသတ်ထားသော နေရာမှာ သူကြီး ၄ ဦးတို့၏ ပိုင်နက် နယ်နိမိတ်တွင် တည်ရှိ၏။ အကယ်၍ သတ်သူ မပေါ်က သက်ဆိုင်ရာ နယ်ရှင်သူကြီးသည် ငွေ ၃ ပိသာ ပေးဆောင်ရမည် ဖြစ်သောကြောင့် သူကြီးအားလုံးကပင် ထိုလူသတ်မှု ဖြစ်ပွားသော နေရာမှာ မိမိတို့ ပိုင်နက်တွင် မကျရောက်ကြောင်း ငြင်းဆိုကြ၏။ သို့ဖြင့် သူကြီး ၄ ဦး တို့အား မိမိတို့ပိုင်သော နယ်ကို မျဉ်းဆွဲသတ်မှတ်စေခဲ့ ရာတွင် လူသတ်ထားသော နေရာသည် မျဉ်းဆွဲရာမှ လွတ် ကျန်နေခဲ့၏။ ရေလဲရွာတွင် သီလသမာဓိ သိက္ခာတို့နှင့် ပြည့်စုံသဖြင့် ရပ်သူရွာသားများ ယုံကြည် လေးစားခြင်း ကို ခံရသော ပွဲစားကြီး ဦးပေ ဆိုသူ ပုဂ္ဂိုလ်တဦး ရှိ၏။ ဦးပေသည် ထိုလူသေ အလောင်း ရှိခဲ့ရာ အရပ်တွင် ရွာ တည်ခွင့် ပြုပါက မိမိကပင် ငွေ ၃ ပိသာ အလျော်ပေး ဆောင်မည့် အကြောင်း လျှောက်ထားသောကြောင့် ထို မြေကွက်ကို ဦးပေ ရရှိလိုက်၏။ ကာလအတန်ကြာသော် ဧရာဝတီ မြစ်ကမ်း ပြိုလေရာ၊ ရေလဲရွာသည် ကမ်းပြိုသည့် အထဲ ပါသွား၏။ သို့ဖြင့် မြစ်သည် အရှေ့ဖက် ယခု မြင်းခြံ မြို့ တည်ရှိရာသို့ ရောက်လာ၏။ ယခင် သူကြီးပိုင်နက် သတ် မှတ်မျဉ်းဆွဲရာတွင် ကျန်ရစ်သောကြောင့် ထိုနေရာကို မျဉ်း ကျန်ဟု ခေါ်ဝေါ်သမုတ်ခဲ့၏။ မျဉ်းကျန် မှသည် ကာလ ရွေ့လျောလတ်သော် မြင်းခြံ ဖြစ်လာသည်ဟု ဆိုလေသည်။

**မြင်းခွာပင်။** ။မြင်းခွာပင်သည်မြေကြီးပေါ်တွင် တွား သွားသော ပင်စည်ပျော့မျိုးဖြစ်သည်။ ကွန်ဗော့ဗျူ လေးစီအီး မျိုးရင်းတွင် ပါဝင်၍၊ ရုက္ခဗေဒ အမည်မှာ မာရီမီးယား အီမာဂျီနေတာ ဖြစ်သည်။ မြင်းခွာပင် သည် အခြားအပင်များကဲ့သို့ အထက်သို့ တည့်တည့် မတ်မတ် မပေါက်နိုင်ဘဲ မြေကြီးတလျှောက်သာ လျှောက် ၍ ပေါက်တတ်သည်။ အဆစ်များမှ အမြစ်မျှင်များ ထွက် လာပြီးလျှင် မြေကြီးကို ကုတ်ထားသောကြောင့် ရေနှင့် ဓာတ်ဆားရည်များကို လိုသလောက် ရနိုင်လေသည်။ ထို ကြောင့် မြေဩဇာ ကောင်းသည်ဖြစ်စေ၊ မကောင်းသည် ဖြစ်စေ နေရာမရွေး ပေါက်နိုင်သဖြင့် အခြား အပင်များ ထက် မျိုးဆက် ပိုမိုပြန့်ပွားလေသည်။ ပင်မသည် အမြစ်မှ ပြတ်သွားစေကာမူ သေမသွားဘဲ အပင်သစ်တပင် ဖြစ် ထွန်းလာနိုင်သည်။ မြင်းခွာပင်သည် တနှစ်ခံပင်၊ သို့မဟုတ် နှစ်ကြာခံပင်မျိုး ဖြစ်၍ ယင်းကို မြန်မာနိုင်ငံ နေရာတိုင်း၌ လိုပင် အများအပြား တွေ့ရှိနိုင်သည်။



ဆေးဖက်ဝင်သည့် မြင်းခွာပင်

အရွက်များမှာ မြင်းခွာ ပုံသဏ္ဍာန် ရှိသောကြောင့် မြင်းခွာရွက်ဟု ခေါ်သည်။ အရွက်တဝိုက်တွင် လှိုင်းတွန့်ကလေးများရှိသည်။ အရွယ်မှာ အရွက်၏ တဖက်မှတဖက်သို့ ရာသီဥတုကို လိုက်၍ တလက်မမှ နှစ်လက်မကျော်ကျော်ခန့် ရှိသည်။ မိုးဥတုတွင် အရွက်များ ပိုကြီး၏။ အရောင်မှာ စိမ်း၍ ချောမွတ်သည်။ တခါတရံ သံချေးရောင် ရှိတတ်သည်။ ရိုးတံ ရှည်သည်။ အပွင့်များမှာ အဝါရောင်ဖြစ်၍ ဇွန်လမှ ဇန္နဝါရီလအထိ ပွင့်ကြသည်။ အသီးကလေးများ သီး၍ အစေ့များပါရှိသည်။

ကျန်းမာ၍ အသက်ရှည်ရေးတွင် မြင်းခွာရွက်သည် အလွန် အဖိုးတန်သည်။ အပင်တပင်လုံးတွင် အရွက်ထက် အရိုးက ပို၍ သတ္တိထူးရှိသည်ကို တွေ့ရသည်။ ယောမြို့စား အတွင်းဝန် ဦးဘိုးလှိုင် ရေးသားသော "ဥတုဘောဇန သင်္ဂဟကျမ်း" ၌ မြင်းခွာ အယဉ်နှင့် အရိုင်း နှစ်မျိုးရှိကြောင်း၊ အယဉ်သည် အေး၍ ချို၏။ အစာကြေလွယ်၏။ အမွေးမရှိ။ မြင်းခွာအရိုင်းကား အရွက်တွင် အမွေးရှိ၏ ဟူ၍ ရေးသားထားသည်ကို တွေ့ရသည်။ ကမ္ဘာအရပ်ရပ်ရှိ ပါရဂူကြီးများသည် မြင်းခွာရွက်၏ အသုံးဝင်ပုံ၊ တန်ခိုးအာနိသင် ကြီးပုံများကို စာရွက်စာတမ်းများဖြင့် ရေးသားထားခဲ့ကြသည်။ တရုပ်နိုင်ငံ၊ ပီကင် တက္ကသိုလ်မှ ပါမောက္ခ လီချင်ယွန်သည် အသက်ထက်ဆုံး မြင်းခွာရွက်ကို မှီဝဲ သုံးဆောင်လာရာ ခရစ် ၁၉၃၃ ခုနှစ်ရောက်၍ အသက် ၂၅၆ နှစ်ရှိမှ ကွယ်လွန်သွားလေသည်။ အနောက်နိုင်ငံများ၌လည်း မြင်းခွာရွက်ကို အမှုန့်ပြုလုပ်ပြီးလျှင် အကြီးအကျယ် ရောင်းချသည်ကို တွေ့ရ၏။ အိန္ဒိယ ဘယဆေးကျမ်းကြီးများ၌လည်း မြင်းခွာရွက်၏ အသုံးဝင်ပုံကို နည်းမျိုးစုံတို့ဖြင့် ရေးသားထားကြသည်။ ကုဋ္ဌနူနာနှင့် ကာလသား ရောဂါများ၌ပင် မြင်းခွာရွက်ကို အမှုန့်ပြု၍ စားသုံးခြင်း၊ အမှုန့်ကို အနာတွင်ဖြူးပေးခြင်း၊ အရွက်ကို ကြိတ်၍ အုံပေးခြင်းဖြင့် ပျောက်ကင်းသည်ဟု ဆိုသည်။

မြန်မာနိုင်ငံကဲ့သို့ မြင်းခွာပင် ပေါများစွာ ပေါက်သောတိုင်းပြည်တွင် အမှုန့်တွင်မက လတ်လတ်ဆတ်ဆတ် အရွက်များကို ဟင်းချိုချက်၍ငင်း၊ သုတ်၍ငင်း၊ တို့စရာအဖြစ်ဖြင့်ငင်း၊ ဖျော်ရည်အဖြစ်ငင်း နေ့စဉ် မှီဝဲ သုံးဆောင်နိုင်ကြသဖြင့် ကျန်းမာ၍ အသက်ရှည်လိုသူတိုင်း မှီဝဲသုံးဆောင်နိုင်ကြပေသည်။

**မြင်းစားဂျုံ။** ။သမပိုင်းတွင် စိုက်ပျိုးကြသော ကောက်ပင်များအနက် မြင်းစားဂျုံပင်သည် မြေမရွေး၊ ရာသီဥတုမရွေး ပေါက်နိုင်သော ကောက်ပင်မျိုး ဖြစ်သည်ဟု ဆိုရပေမည်။ ရာသီဥတု အလွန်အေးသဖြင့် အခြား ကောက်ပင်များကို မစိုက်ပျိုးနိုင်သော စကော့တလန်ပြည် မြောက်



မြင်းစားဂျုံကို စက်ဖြင့် ရိတ်သိမ်းနေစဉ်



မြင်းစားဂျုံ ကောက်လှိုင်းများကို သိမ်းဆည်းရန် စီရရီပုံ၍ထားစဉ်

ပိုင်း၊ အလာစကာပြည်၊ ရုရှနိုင်ငံနှင့် ဆိုက်ဗီးရီးယားပြည်တို့တွင် မြင်းစားဂျုံကို လူတို့ နေ့စဉ် စားသုံးရန်အတွက် စိုက်ပျိုး လုပ်ကိုင်ကြသည်။ အလွန်မာသော မြင်းစားဂျုံပင်မျိုးကိုမူ မြောက်ဖက် အာတိတ် စက်ဝိုင်း အနီးအနားဒေသများ၌ပင် စိုက်ပျိုးနိုင်ကြသည်။ အမေရိကန်၊ ရုရှ၊ ဂျာမနီ၊ ကနေဒါနှင့် ပြင်သစ်နိုင်ငံတို့သည် မြင်းစားဂျုံ အများဆုံး စိုက်ပျိုးကြသော နိုင်ငံများ ဖြစ်ကြသည်။ နွေးသော ရာသီရှိသည့် တိုင်းနိုင်ငံတို့သည် မြင်းစားဂျုံပင်များကို စိုက်ပျိုးလျှင် အဆန်မတည်ဘဲ ရှိတတ်သဖြင့် ထိုကဲ့သို့သော တိုင်းနိုင်ငံများ၌ တိရစ္ဆာန် အစာအတွက်နှင့် မြေဩဇာ ပြုပြင်ပေးရန်အတွက် စိုက်ပျိုး ထားတတ်ကြသည်။ ကောက်ရိုးများကို စက္ကူ ပြုလုပ်ရာ၌ အသုံးချကြသည်။

မြင်းစားဂျုံတွင် အခြား ကောက်ပင်များမှာထက် အာဟာရဓာတ် ပို၍ပါရှိရာ၊ ယင်းကို နေ့စဉ် စားသုံးလျက်ရှိသည့် လူမျိုးတို့သည် ကျန်းမာသန်စွမ်းကြသည်သာ များ၏။ သို့ရာတွင် မြင်းစားဂျုံကို ညက်သော်သည့် အမှုန့် ဖြစ်အောင် ကြိတ်၍ မရနိုင်သဖြင့် ပေါင်မုန့် ပြုလုပ်ရန် ခဲယဉ်းသည်။ ထို့ကြောင့် လူတို့ နေ့စဉ်စားသုံးရန် မြင်းစားဂျုံကို အသုံးမပြုကြချေ။ တခါတရံ၌သာ မြင်းစားဂျုံကို ကျိုချက်၍ဖြစ်စေ၊ မုန့်ပြုလုပ်၍ဖြစ်စေ စားသုံးတတ်ကြသည်။

ရှေးခေတ် အီဂျစ်လူမျိုး၊ ဟီဗြူလူမျိုး၊ ဂရိလူမျိုးနှင့် ရောမ လူမျိုးတို့၏ သမိုင်းများတွင် မြင်းစားဂျုံနှင့် စပ်လျဉ်း၍ ရည်ညွှန်းဖော်ပြချက်များ မတွေ့ရှိရသဖြင့် မြင်းစားဂျုံပင်၏ ဇာတိအရပ်ကို တိတိကျကျမသိရချေ။ သို့သော် ဥရောပတိုက် အလယ်ပိုင်းတွင် မြင်းစားဂျုံအရိုင်းပင်များ ပေါက်ရောက်လျက်ရှိရာ ထိုအရပ်ပင်လျှင် မြင်းစားဂျုံပင်အရိုင်းကို ယဉ်အောင် ပြုလုပ်သည့် အရပ်ဖြစ်တန်ရာသည် ဟု ယူဆရသည်။ ရုရှနိုင်ငံ၊ သို့မဟုတ်အာရှတိုက် အနောက်ဖက်ပိုင်းဒေသများမှ မြင်းစားဂျုံပင်ကို ဥရောပတိုက်သို့ ယူခဲ့ဟန်တူသည် ဟူ၍လည်း ထင်ရသည်။ မြင်းစားဂျုံပင်၏ ထူးခြားချက်တရပ်မှာ အခြားကောက်ပင်များကဲ့သို့ အနှံများ ပြွတ်သိပ်၍ မထွက်ဘဲ တစေ့စီပါသော အနှံကလေးများ ဖြာထွက်လျက်ရှိသည်။ လူတို့စိုက်ပျိုးကြသော မြင်းစားဂျုံပင် အမျိုးအစားပေါင်း မြောက်များစွာရှိသည်။ ထိုအမျိုးအစား အားလုံးတို့မှာ အလွန်အေးသော ရာသီဥတုဒဏ်ကို ခံနိုင်ရည်ရှိသဖြင့် ကမ္ဘာ့မြောက်ဖျား အရပ်များတွင် မြင်းစားဂျုံပင်ကို အောင်မြင်စွာ စိုက်ပျိုးနိုင်လေသည်။



မာတ်မြေဩဇာ ကျွေး၍ စိုက်သော မြင်းစားဂျုံ (အပေါ်) သည် သာမန်စိုက်ပျိုးသည့် မြင်းစားဂျုံထက် ပိုမိုကြီးထွားသန်မာကြောင်း တွေ့မြင်နိုင်သည်။

မြင်းစီးခြင်း။ ။မြင်းစီးခြင်းသည် ရှေးအခါက မင်းညီမင်းသားတို့ တတ်အပ်သော အတတ်ပညာတို့တွင် တခု အပါအဝင်ဖြစ်သည်။ စက်မှုလက်မှုလုပ်ငန်းများ မထွန်းကားသေးသည့်ခေတ်အခါက လူတို့၏ ခရီးသွားလာရေးကိစ္စများတွင် မြင်းသည် အရေးပါအရာရောက်ဆုံး ဖြစ်ခဲ့သည်။ သို့ရာတွင် စက်မှုလက်မှု လုပ်ငန်းများ ထွန်းကား၍ မီးရထား၊ မော်တော်ကား အစရှိသော သယ်ယူပို့ဆောင်ရေး ယာဉ်များ ပေါ်ပေါက်လာသည့်အခါ၌ကား မြင်းဖြင့် ခရီးသွားလာခြင်းမှာ တစတစ နည်းပါးလာလေသည်။ ယခုအခါ မြင်းစီးခြင်းကို များသောအားဖြင့် လူတို့၏ ငါသနာထုံရာ ကစားပျော်ပါးမှုတရပ် အဖြစ်ဖြင့် ယူဆကြသည်။

ယခုခေတ်တွင် ခရီးသွားလာရေးကိစ္စများအတွက် မြင်းကို အသုံးနည်းသွားသော်လည်း မြင်းပြိုင်ပွဲများ ပြုလုပ်ရာတွင်၎င်း၊ တောထဲ၌ အမဲလိုက်ရာတွင်၎င်း၊အပျော်သက်သက် ခရီးထွက်ရာတွင်၎င်း မြင်းကို အသုံးပြုလျက်ပင် ရှိကြသေးသည်ဖြစ်ရာ မြင်းစီးအတတ်ကို အတော်အသင့် သိရှိနားလည်ထားသင့်ကြပေသည်။

မြင်းစီးရာတွင် အသုံးပြုလေ့ရှိကြသော မြင်းကုန်းနှီးများမှာ မြန်မာကုန်းနှင့် အင်္ဂလိပ်ကုန်း ဟူ၍ နှစ်မျိုးရှိ၏။ ထိုနှစ်မျိုးတွင် အင်္ဂလိပ်ကုန်းမှာ မြန်မာကုန်းထက် စီးရာတွင် ပိုမိုညင်သာသည်။ ယခုအခါ မြန်မာကုန်းနှီးများကို ရှေးကလောက် အသုံးမပြုကြတော့ဘဲ၊ အင်္ဂလိပ်ကုန်းနှီးများကိုသာ အသုံးများလျက် ရှိကြသည်။ မြင်းစီးသည့်အခါ မြင်းစီးဘောင်းဘီနှင့် နောက်ပိတ် ဖိနပ်များကို ဝတ်ဆင်၍ စီးနိုင်လျှင် ပို၍သင့်လျော်လေသည်။ မြင်းစီး စသင်သူသည် မြင်းပေါ်သို့ မတက်မီ ရှေးဦးစွာ မြင်း၏လက်ဝဲဖက်ဘေးတွင် ကပ်၍ မြင်းဖက်သို့မျက်နှာမူကာ ရပ်နေပြီးလျှင် မြင်းဇက်ကြိုးနှင့် လည်ဆံမွေးကို လက်ဝဲလက်တွင် ဆုပ်ကိုင်ထားရ၏။ ထိုနောက် လက်ဝဲဖက် ခြေနင်းကွင်းကို မိမိ၏လက်ျာလက်ဖြင့် ကိုင်၍ မိမိ၏ လက်ဝဲဖက်ခြေဖဝါးကို ခြေနင်းကွင်းတွင်းသို့ သွင်းပေးလိုက်ရ၏။ ထိုနောက် မြင်းကုန်းထိပ်ကို ညာလက်ဖြင့် ဆုပ်ကိုင်ပြီးလျှင် ကုန်းပေါ်သို့ ညင်သာစွာလှမ်းတက်လိုက်ရလေသည်။ ကိုယ်ခန္ဓာ အလေးချိန်သည် မြင်းကျောပေါ်တွင် အညီအမျှကျရောက်နေစေရန် သတိပြု၍ထိုင်ရ၏။စီးသောအခါ စိတ်ကို ရဲတင်းစွာထား၍ ဖြည်းဖြည်းမှန်မှန် စီးရသည်။ အနေ့စီးကျင့်သည့်အခါ၌ ခြေနင်းမပါဘဲ ဒူးနှစ်ဖက်နှင့်ညှပ်ပြီး စီးနိုင်လျှင် သာ၍ကောင်းလေသည်။ ဤသို့ရက်အနည်းငယ် စီးသားရ၍ အတော်အသင့်ကျင့်သားရလာသည့်အခါ အသားကျ (လေးဖက်ကျ) စီးခြင်း၊ ခွာစုံ စီးခြင်းနှင့် ဒုန်းစီးခြင်း စသော အမြန်စီးနည်း



မြင်းစီးရာတွင် ဇက်ကို နိုင်ရုံမျှမကသေး ကိုယ်နေဟန်ထားပါ စံနစ်ကျစွာရှိရန် အထူးလိုအပ်သည်။

တိုကို တဆင့်မှ တဆင့်သို့ တက်၍ လေ့ကျင့် စီးသွားနိုင်လေသည်။

မြင်းသည် လျင်မြန်စွာ ပြေးလွှားနေစဉ် ဇက်ကြိုးကို ရုတ်တရက် ဆောင့်ဆွဲကာ မရပ်မိစေရန် သတိပြုသင့်ပေသည်။ ဤသို့ ပြုလုပ်ခြင်းသည် မြင်းကို စိတ်ထွက်စေသည့်အပြင်၊ ကျင်လျင်စွာ မစီးနိုင်သေးသူသည် စိတ်ကောက်သွားသော မြင်းကို မထိန်းနိုင်မကိုင်နိုင် ဖြစ်တတ်လေသည်။ ထို့မှတပါး ဆင်ခြေလျှော အဆင်းများတွင် မြင်းကို လျင်မြန်စွာ မစီးဘဲ အရှိန်သတ်ကာ ခပ်ဖြည်းဖြည်း စီးဆင်းရန် သတိမူရပေမည်။ ကုန်းအဆင်းတွင် ဒုန်းစိုင်း၍ စီးပါက မြင်းရောလူပါ ၎ျမ်းပြန်ကာ ဒုက္ခရောက်တတ်လေသည်။

ဤနည်းဖြင့် မြင်းကို အတန်နိုင်နင်းစွာ စီးတတ်လာသည့်အခါ ချိုင့်များ၊ ကျင်းများ၊ ခြံစည်းရိုးများပေါ်သို့ လွှားကျော်ကာ စီးရသည့် အခုန်စီးနည်းကို လေ့ကျင့်နိုင်လာပေမည်။ သို့လေ့ကျင့်သည့်အခါ ခြေနင်းနှစ်ခုကို ခပ်တိုတိုထား၍ စီးရသည်။ ရှေးဦးစွာ အခုန်သင်စတွင် လေ့ကျင့်ပြီးဖြစ်သော အခြားမြင်းတကောင်ကို ရှေ့မှထား၍သင်လျှင် သာ၍ကောင်း၏။ မြင်းသည်အမြင့်တခုကို ခုန်၍ ကျော်လွှားသည့်အခါ မြင်း၏ ရှေ့ခြေအစုံသည် ဦးစွာ အထက်သို့ မြင့်တက်လာပြီးလျှင် အကျတွင်တဖန် မြေသို့အားနှင့် ထောက်ရပြန်သဖြင့် မြင်း၏ရှေ့ပိုင်းတွင် ဖိအားပေါ့သွားစေရန် စီးသူသည် ကိုယ်ကိုရှေ့တိုး ကိုင်းညွှတ်၍ မစီးဘဲ နောက်ဖက်သို့ယိမ်းကာ ဒူးနှစ်ဖက်နှင့်သာ မြင်း၏ နံဘေးကို မြဲမြဲညှပ်ထားသင့်ပေသည်။ လိမ့်ကျသွားခဲ့သော် ဇက်ကြိုးကို မလွှတ်လိုက်မိရန် သတိထားရမည်။ မတော်တဆ လိမ့်ကျသည့်တိုင်အောင် အကျမနာစေရန် ပြုနိုင်ခြင်းသည် မြင်းစီးအတတ်တွင် တတ်အပ်သော အချက်ကောင်းကလေး တခုပင် ဖြစ်လေသည်။

မြင်းပြိုင်ပွဲ။ ။မြင်းပြိုင်ပွဲကို ရှေးခေတ်ဘုရင်များ လက်ထက်မှစ၍ ကျင်းပခဲ့ဘူးကြောင်း သိရသည်။ ၁၈ ဆက်မြောက်ဖြစ်သော အီဂျစ်မင်းဆက်မှ ပဌမမြောက် တော့တမီးဘုရင်သည် မက်ဆိုပိုတေးမီးယားပြည်ကို အောင်နိုင်ရာမှ အာရပ်ပြိုင်မြင်း တကောင်ကို ရခဲ့ပြီးလျှင် အာဖရိကတိုက်သို့ ရှေးဦးစွာ ယူဆောင်သွားနိုင်ခဲ့ကြောင်းနှင့် ကျူချပ်ပေါ်၌ မှတ်တမ်းတင်ထားသည်ကို တွေ့ရသည်။ဆော်လမွန်ဘုရင်သည်လည်း ထိုနောက်တွင် အီဂျစ်နိုင်ငံမှ ပြိုင်မြင်းများကို အဖိုးများစွာ ပေး၍ ဝယ်ခဲ့ဘူးကြောင်းကို သိရသည်။ ဂရိလူမျိုးတို့သည် ဘီစီ ၆၂၈ ခုနှစ်တွင် ကျင်းပသော ၃၃ ကြိမ်မြောက် အိုလင်းပစ် ကစားပွဲတွင် မြင်းပြိုင်ပွဲကို ထည့်သွင်းကျင်းပခဲ့ကြသည်။ ဂရိတို့မှတဆင့် ရောမမြို့သို့ မြင်းပြိုင်ပွဲကျင်းပသည့်အလေ့အထ ရောက်သွားပြန်သည်။ အင်္ဂလန်နိုင်ငံသို့ မြင်းပြိုင်ပွဲ ကျင်းပသည့်အလေ့ ရောက်ခဲ့သည်မှာလည်း ကြာပေပြီ။ သို့ရာတွင် အချိန်မှန်ပြုလုပ်သော မြင်းပြိုင်ပွဲများမှာ ပဌမဂျိမ်းဘုရင် လက်ထက်ကမှ စတင်ခဲ့၍ ခရစ် ၁၇၁၁ ခုနှစ် အန်းဘုရင်မ လက်ထက်ရောက်မှ အလောင်းအစားများ ပြုလုပ်သည့်အလေ့ ပေါ်ပေါက် လာခဲ့လေသည်။

အင်္ဂလန်နိုင်ငံတွင် ထိုစဉ်ကစ၍ မင်းအဆက်ဆက်ပင် မြင်းပြိုင်ပွဲများ၌ စိတ်ဝင်စား၍ အားပေးလာခဲ့ကြသည့်အနက် ဝါသနာ အကြီးဆုံးမှာ စတုတ္ထ ဂျော့ဘုရင်ပင် ဖြစ်သည်။ ထိုမင်းသည် အိမ်ရှေ့မင်းသားဘဝမှာပင် ခရစ် ၁၇၇၄ ခုနှစ်မှ ၁၇၉၂ ခုနှစ်အတွင်း၌ ဒါဗီဆုကြီး အပါအဝင် ဆုပေါင်း ၁၈၅ ဆုကို အနိုင်ရခဲ့ဘူးလေသည်။ ဤကဲ့သို့ ဘုရင်မင်းမြတ်များကိုယ်တိုင် အားပေးမြှောက်စားလာခဲ့သော ပွဲဖြစ်သည့်အတိုင်းလည်း မြင်းပြိုင်ပွဲသည်“ဘုရင်တို့၏ကစားပွဲ”ဟု တွင်ခဲ့ခြင်း ဖြစ်ပေသည်။ ၁၄ ဆက်မြောက် လူဝီဘုရင်လက်ထက်တွင် မြင်းပြိုင်ပွဲ ကျင်းပသည့် အလေ့အထသည် တဖန် အင်္ဂလန်မှတဆင့် ပြင်သစ်နိုင်ငံသို့ ရောက်လာပြန်လေသည်။

မြင်းပြိုင်ပွဲများကို ယခုအခါ ကမ္ဘာအနှံ့ရှိ မြို့ကြီးပြကြီးများ၌ ရာသီအလိုက် အချိန်မှန် ကျင်းပလေ့ရှိ၍ မြင်းပြိုင်ပွဲကို လူတန်းစားမရွေး ကြိုက်နှစ်သက်ကြသော်လည်း ပြိုင်မြင်းများကိုမူ လူတိုင်းမမွေးနိုင်ချေ။ ပစ္စည်းဥစ္စာ ချမ်းသာသော မင်းစိုးရာဇာနှင့် သင့ေး သူကြွယ် လူကုံထံများသာ မွေးမြူနိုင်ကြသည်။ ကမ္ဘာ အရပ်ရပ်မှာပင် အရင်းအနှီးကြီးစွာ မြှုပ်နှံ၍ ပြိုင်မြင်းမွေးမြူရေး လုပ်ငန်းဖြင့် စီးပွားရှာနေသူ အမြောက်အမြားရှိသည်။ ပြိုင်မြင်းများကို အကြီးအကျယ် မွေးမြူ စီးပွားရှာသည့်နိုင်ငံများအနက် အင်္ဂလန်က ဗိုလ်ဆွဲ၏။ ပြိုင်မြင်းများသည် မျိုးရိုးစဉ်ဆက် နာမည်ကြီးလျှင် ကြီးသလောက် အဖိုးတန်လေ့ရှိရာ ၁၉၂၀ပြည့်နှစ်က မြင်းတကောင်မှာ ဒေါ်လာပေါင်း ၂၆၅,၀၀၀ အထိ ရောင်းဈေးရခဲ့ဘူးလေသည်။

အင်္ဂလန်နိုင်ငံတွင် မြင်းပြိုင်ကွင်း အများအပြားရှိသည့်အနက် နယူးမားကက်ကွင်းမှာ ရှေးအကျဆုံးနှင့် အကျော်စောဆုံး ဖြစ်၏။ ဒုတိယ ချားဘုရင်လက်ထက်ကစ၍ နာမည်ကြီးခဲ့သော ကွင်းဖြစ်၍၊ ထိုကွင်း၌ ဂီနီတထောင်နှင့် နှစ်ထောင်ဆုပွဲများ ကျင်းပလေ့ရှိသည်။ အင်္ဂလန် နိုင်ငံ၌ ကျော်ကြားသောမြင်းပွဲများမှာ ဒါဗီ၊ အုတ်၊ စိန်လယ်ဂျာ၊ ဂီနီတထောင်နှင့် နှစ်ထောင်ဆုပွဲနှင့် အက်စကော့ ဖလားပွဲတို့ ဖြစ်ကြ၏။ (ဒါဗီမြင်းပွဲ — လည်းရှု။) အမေရိကန်ပြည်ထောင်စု၌ အကျော်ကြားဆုံးမြင်းပွဲမှာ နှစ်စဉ်ကျင်းပမြဲဖြစ်သော ကင်တပ်ကီ ဒါဗီပွဲပင်ဖြစ်သည်။

ရှေးအခါက မြင်းပြိုင်ရာတွင် မြင်းပိုင်ရှင်များ အချင်းချင်းသာ အလောင်းအစား ပြုခဲ့ကြသည်။ သို့သော် ယခု



မြင်းပြိုင်ပွဲ ကျင်းပခြင်းအားဖြင့် မြင်းမျိုးကောင်း မျိုးသန့်များ မွေးမြူရရှိရေးကို အထောက်အပံ့ များစွာပြုခဲ့သည်။

အခါ ပြည်ပိုင် အစိုးရတို့၏ ခွင့်ပြုချက်အရ ဝါသနာပါသူ အပြင်လူများလည်း လွတ်လပ်စွာ လောင်းကစားနိုင်ကြသည်။

အထက်တွင် ဖော်ပြခဲ့သော မြင်းပွဲများမှာ မြေပြင်ညီ တလျှောက် ကွင်းအတွင်းပတ်ပြေးရသည့် မြေပြန့်ပြေးပွဲများ ဖြစ်၍၊ စတီပဲချေ့ (မြင်းခုန်ပွဲ) ခေါ် ပြိုင်ပွဲမျိုးလည်း ရှိသေးသည်။ ထိုပြိုင်ပွဲမျိုးတွင် တာလမ်းတလျှောက်၌ တန်း၊ ချုံဖုတ်၊ မြောင်း စသည်ဖြင့် ပြေးရင်းခုန်လွှားသွားရသည့် အခက်အခဲများကို ပြုလုပ်ထားသည်။ ကမ္ဘာတွင် အကျော်ကြားဆုံး မြင်းခုန်ပွဲမှာ လစ်ဗာပူးမြို့တွင် မတ်လ၌ နှစ်စဉ်ကျင်းပလေ့ရှိသော ဂရန်းနေရှင်နယ် ခေါ် ပွဲကြီးပင် ဖြစ်လေသည်။

မြင်းမူမြို့။ ။မြင်းမူမြို့သည် စစ်ကိုင်းတိုင်း စစ်ကိုင်းခရိုင်တွင် ပါဝင်သော မြင်းမူနယ်၊ မြင်းမူမြို့နယ်တို့၏ ရုံးစိုက်မြို့ဖြစ်သည်။ မြင်းမူမြို့သည် စစ်ကိုင်း မုံရွာသွား မီးရထားလမ်းနှင့် မော်တော်ကားလမ်း နှစ်ခုစလုံးပေါ်တွင် တည်ရှိသော ကြောင့် ကူးသန်း ရောင်းဝယ်မှု ဖွံ့ဖြိုးကာ စည်ကားသည်။ စစ်ကိုင်းမှ မိုင် ၃၀ ကွာဝေး၍၊ မန္တလေး မြင်းခြံသွားသင်္ဘောများ ဆိုက်ကပ်ရာ ဆိပ်ကမ်းလည်းဖြစ်သည်။ မြင်းမူမြို့သည် ဧရာဝတီမြစ်၏ လက်ျာဘက်ကမ်းတွင် တည်ရှိသည်။ မူးမြစ်သည် ဧရာဝတီမြစ်တွင်းသို့ မြင်းမူမြို့အနီးတွင် စီးဝင်ပေါင်းဆုံသည်။ မြင်းမူမြို့တွင် နယ်ပိုင်၊မြို့ပိုင်၊ နယ်စီးရဲဝန်ထောက်၊ လမ်းလုပ်ငန်း၊ အင်ဂျင်နီယာ၊ မြို့နယ်တရားမနှင့် ရာဇဝတ်တရားသူကြီး၊ စိုက်ပျိုးရေး၊ သမဝါယမ အရာရှိများ၊ ပညာအုပ် စသည်တို့၏ရုံးများရှိ၍ အတက်တန်းကျောင်း၊ အလယ်တန်းကျောင်း၊ ဆေးရုံများလည်း ရှိသည်။

မြင်းမူမြို့နယ်၏ အကျယ်အဝန်းမှာ စတုရန်းမိုင် ၃၀၀ ရှိ၍ မြို့နယ်တွင်း၌ ကျေးရွာပေါင်း ၃၅ ပါဝင်သည်။ ၁၉၅၆ ခုနှစ်ခန့်မှန်း သန်ကောင်စာရင်းအရ လူဦးရေ ၅၇,၀၁၇ ယောက်ရှိ၏။

မြင်းမူနယ်တွင် နှမ်း၊ ပဲ၊ ပြောင်း၊ ဆေးများ အသင့်အတင့်ထွက်၍ ဝါဂွမ်း အများအပြားထွက်သည်။ လယ်ယာကိုင်းကျွန်းဖြင့် အသက်မွေးသူများသည်။ ဝါကြိတ်စက်၊ ဂွမ်းထုပ်စက်၊ ဆီကြိတ်စက်၊ ဂျုံကြိတ်စက်များ ရှိသည်။ ဗြိတိသျှ လက်ထက်က မြင်းမူနယ်တွင် စတီးဘရားသား၊ ဖင်လေဖင်လန်မင် အစရှိသည့် အင်္ဂလိပ်ကုမ္ပဏီများ ဝါလုပ်ငန်းကို အကြီးအကျယ် ပြုလုပ်သွားကြသည်။ မြင်းမူမြို့သည် မြစ်ကမ်းပေါ်တွင် တည်ရှိသော မြို့တမြို့ဖြစ်သည့် အလျောက်၊ အရှေ့နှင့် အနောက် ၂ မိုင်ခန့် ရှည်ပြီးလျှင်၊ တောင်နှင့်မြောက် ၁ မိုင်ကျော်မျှ ကျယ်ဝန်းသည်။ မြို့ပေါ်



ရောဝတီမြစ်ကမ်းဘေးဝယ် အေးချမ်းစွာ တည်ရှိသည့် မြင်းမူမြို့

တွင် လူဦးရေ ၇,၁၇၀ ယောက်ခန့် နေထိုင်ရာ၊ ဗုဒ္ဓဝါဒီ မြန်မာလူမျိုးများပြားပြီးလျှင်၊ တရုပ်၊ကုလားနည်းပါး၏။မြင်းမူမြို့တွင် ထင်ရှားသော ဘုရားစေတီများမှာ ရွှေစောလူးဘုရား၊ဘောင်းတော်ကျဘုရားနှင့် ရွှေရင်နာ ဘုရားတို့ ဖြစ်၏။ နှစ်စဉ် ဝါခေါင်လပြည့်နေ့တွင် ရွှေစောလူးဘုရားပွဲတော်ကို သိုက်မြိုက်စွာ ကျင်းပသည်။

မြို့အမည်နှင့် စပ်လျဉ်း၍ ဝိဝါဒကွဲလျက်ရှိသည်။ မြင်းမူမြို့ကို အလောင်းစည်သူမင်း တည်တော်မူ၍ အလောင်းစည်သူမင်း မြင်တော်မူသည်ဟူသော စကားမှ မြင်းမူဖြစ်လာသည် ဟူ၍လည်းဆို၏။တမျိုးမှာကား ယခုမြင်းမူမြို့ဖြစ်သော ရွာ၌ မြင်သူတကာ မူးမေ့သွားလောက်အောင် ချောမွေ့လှပသော မိန်းကလေးကို အကြောင်းပြု၍ မြင်မူးရွာဟု ခေါ်ရာမှ ကာလရွှေ့လျောသောအခါ မြင်းမူဟု တွင်သည် ဆိုသည်။

မြောင်မြို့။ ။မြောင်မြို့သည် အထက်မြန်မာပြည် စစ်ကိုင်းခရိုင်၏ အနောက်ဖက်ပိုင်းတွင် ရှိ၍ မြင်းမူမြို့၏ အနောက်တောင်ဖက် ၁၄ မိုင်အကွာ ရောဝတီနှင့်ချင်းတွင်းမြစ်တို့ ဆုံရာ ထောင့်ချိုးတွင် ရောဝတီမြစ်၏ လက်ျာဖက်ကမ်းပေါ်၌ တည်ရှိသည်။ မြောင်မြို့နယ်၏ရုံးစိုက်ရာမြို့ဖြစ်သည်။ မြောင်မြို့နယ်သည် ၁၇၉ စတုရန်းမိုင် ကျယ်ဝန်းသည်။ ချောင်းဦး မရိုးကုန်း ပေတရာ လမ်းမကြီးသည် ထိုမြို့ကို ဖြတ်သွားသည်။

မြို့အတွင်းသို့ မြစ်ရေ မဝင်နိုင်စေရန် မြောက်အင်းမကြီးတွင် ရေကာတာကြီးတခုကို ပြုလုပ်ထားသည်။ မြင်းခြံ-မန္တလေးသွား သင်္ဘောများသည် ထိုမြို့တွင် အစုန်အဆန် ဆိုက်ကပ်ကြသည်။

မြောင်မြို့၏ လူဦးရေမှာ ၁၉၅၃ ခုနှစ် သန်ကောင်စာရင်းအရ ၆,၇၅၃ ယောက်ဖြစ်၏။မြို့ပေါ်တွင် မြို့ပိုင်ရုံး၊ ရဲဌာန၊ ဆေးရုံ၊ အစိုးရအထက်တန်းကျောင်း စသည့် အစိုးရ အဆောက်အအုံများလည်း ရှိသည်။

မြောင်မြို့နယ်၏ လူဦးရေမှာ ၁၉၅၆ ခုနှစ် သန်ကောင်စာရင်းအရ ၆၀,၀၇၉ ခန့်ဖြစ်သည်။ သူကြီးပိုင် နယ်ပေါင်း ၃၇ နယ် ပါဝင်၏။ မြောင်မြို့သည် မြန်မာမင်းများ လက်ထက်က မြင်းခေါင်းတဦး အုပ်ချုပ်ရသော နယ်ဖြစ်၍၊ ထိုစဉ်က ရွှေဘိုမြို့ဝန်၏ လက်အောက်ခံ ဖြစ်ခဲ့၏။ နောင်အခါ အာလာကပ္ပမြို့ဝန်၏ လက်အောက်ခံ ဖြစ်ခဲ့သည်။ မြောင်မြို့နှင့်တကွ အနီးအပါး တဝိုက်ကို ရှေးအခါက ‘ပေါင်းမြောင်းတိုက်ဟု

ခေါ်တွင်ခဲ့၍၊ ပုဂံပြည့်ရှင် ဘုရင်နရပတိစည်သူက တည်ထောင်ခဲ့သည်ဟု ဆိုလေသည်။

**မြောင်းမြခရိုင်။** ။မြောင်းမြခရိုင်သည် အောက်မြန်မာပြည် ဧရာဝတီတိုင်းတွင် ပါဝင်သော ခရိုင်တခု ဖြစ်သည်။ မြောက်ဖက်တွင် မအူပင်ခရိုင်၊ အရှေ့ဖက်တွင် ဖျာပုံခရိုင်၊ တောင်ဖက်တွင် ဗင်္ဂလားပင်လယ်အော်၊ အနောက်ဖက်တွင် ပုသိမ်ခရိုင်တို့ဖြင့် နယ်ခွဲခြားကာ သတ်မှတ်ထားသည့် မြစ်ဝကျွန်းပေါ်ဒေသတခု ဖြစ်သည်။ ထိုခရိုင်သည် ၂,၇၃၅ စတုရန်းမိုင် ကျယ်ဝန်းသည်။ ဇမ္ဗူဒီပ ဥဆောင်းကျမ်းပါ စစ်တမ်းများတွင် ပန်းမဝတီမြစ် အရှေ့ဖက်ကို မြောင်းမြနယ်၊ အနောက်ဖက်ကို ပုသိမ်နယ်ဟု မြန်မာမင်းအဆက်ဆက်တို့ သတ်မှတ်ကြောင်း ဆိုသည်။ မြောင်းမြဟု ဆိုလျှင် မြောင်းမြစား လောက်ဖျားကို အမှတ်ရကြလိမ့်မည် ဖြစ်သည်။ မြောင်းမြစားလောက်ဖျားသည် ခရစ် ၁၃၈၇ ခုနှစ်၌ ထွန်းကားခဲ့သော မွန်လူမျိုး မြို့စားကြီး တဦးဖြစ်သည်။ မြောင်းမြမြို့ ဟူ၍ သမိုင်းတွင် ထင်ရှားလာခဲ့ရသည်မှာ မြောင်းမြစားလောက်ဖျားက မွန်ဘုရင် ရာဇာဓိရာဇ်ကို တော်လှန်ပုန်ကန်ခဲ့သည်ကို အကြောင်းပြု၍ ထင်ရှားလာခြင်း ဖြစ်ပေသည်။ ခရစ်နှစ် ၁၄၁၀ ပြည့်နှစ်တွင် အင်းဝမှ မြန်မာစစ်သည်တို့သည် မြောင်းမြမြို့ကို လာရောက် တိုက်ခိုက်ဘူးသည်။ သို့ရာတွင် မအောင်မြင်ခဲ့ချေ။ ထိုသမိုင်းဝင် မြောင်းမြမြို့မှာ ယခု မြောင်းမြမြို့နှင့် ၇ မိုင်ကွာ အနောက်တောင်ထောင့်အရပ် ရွှေဘုံသာ တောင်ခြေရှိ ကရင် အမျိုးသားအမျိုးသမီးအပြား နေထိုင်ရာ မြို့ဟောင်း ခေါ်သည့် ရွာတန်းရှည်ကြီးပင် ဖြစ်၏။

ဒုတိယ အင်္ဂလိပ်-မြန်မာစစ်ပွဲတွင် ကမ္မဒိုလမ်းဘတ် (ကိုမိုဒါလမ်းဗတ်) သည် ပုသိမ်မြို့ကို ဗြိတိသျှ သိမ်းပိုက်ပြီးသည့်နောက်၌ မြောင်းမြအပါအဝင် ပုသိမ်နယ်တခုလုံး၌ ဗြိတိသျှ ဆန့်ကျင်ရေး တိုင်းရင်းသားတို့ ထကြွခဲ့ကြသည်။ ထိုစဉ်က ခရိုင်ဝန်အဖြစ် ဆောင်ရွက်ခဲ့သော ကပ္ပိတန်ဖိုက်သည် ထိုတော်လှန်ရေးသမားတို့ကို နှိမ်နင်းခဲ့ရသည်။ ၁၈၅၃ ခုနှစ်တွင် မြောင်းမြနယ်မှ လူများစုဖြစ်သော ကရင် အမျိုးသားတို့သည် ပဌမဦးစွာ မြောင်းမြမြို့မှနေ၍ ထကြွတော်လှန်ခဲ့ကြသည်။ ကပ္ပိတန်ဖိုက် ဦးစီးသော ဗိုလ်းနိုးဗိုးယားနှင့် နင်းမဆစ်ခေါ် သင်္ဘောကလေး ၂ စင်းမှ သင်္ဘောသားအချို့နှင့် ကရင်အမျိုးသား အနည်းငယ်တို့က နှိမ်နင်းရသည်ဟု ဆိုသည်။ မြောင်းမြမြို့တွင် နောက်ဆုံး တိုက်ပွဲဖြစ်ပွားရာ ခေါင်းဆောင်လုပ်သူနှင့် ဘုန်းတော်ကြီးတပါးကို မဒရပ် တိုင်းရင်းသား ခြေလျင်တပ်က တိုက်ခိုက် သတ်ဖြတ်ပစ်ကြောင်းနှင့်လည်း ဆိုသည်။

မြောင်းမြမြို့နယ်သည် မူလက ပုသိမ်ခရိုင်တွင် အပါအဝင် ဖြစ်သည်။ ထိုစဉ်က နယ်နိမိတ်မှာ အရှေ့ဖက်နှင့် အနောက်ဖက်တို့တွင် ပြင်စလူ၊ ပြမလော၊ သက်ကယ်သောင်မြစ်ကြောင်းများဖြင့် နယ်နိမိတ်သတ်သည်။ မြောက်ဖက်မှာ မြောင်းမြမြို့ ဖြစ်သည်။ ခလောက်ချိုက် (ယခု ခလောက်သိုက်) အထိ မြောင်းမြပိုင် ဖြစ်သည်။

၁၈၉၃ ခုနှစ်တွင် သုံးခွ ( ယခု မအူပင် ) ခရိုင်၏ အနောက် မြို့နယ်နှင့် ပုသိမ်ခရိုင်၏ အရှေ့မြို့နယ် ဒေသများကို ပူးပေါင်းကာ မြောင်းမြခရိုင်ဟူ၍ ဖြစ်ပေါ်လာသည်။ ထိုစဉ်က မြောင်းမြခရိုင်တွင် မြောင်းမြမြို့နယ်၊ သီးကွင်း (ယခု အိမ်မဲ) မြို့နယ်၊ ဝါးခယ်မမြို့နယ်နှင့် မော်လမြိုင်ကျွန်းနယ်တို့ ပါဝင်သည်။ လပွတ္တာမြို့နယ်ကို ခရစ် ၁၉၀၀ ပြည့်နှစ်ကျော်မှသာ ဖွဲ့စည်းခဲ့သည်။ ကန်ဘဲ့မြို့နယ်ကိုကား ဒုတိယကမ္ဘာစစ်မဖြစ်မီ ၁၀ နှစ်ကျော်ခန့်ကမှ ဖွဲ့စည်းခဲ့သည်။ သို့သော် ၁၉၃၁ ခုနှစ်တွင် ကန်ဘဲ့မြို့နယ်ကို ပြန်လည် ဖျက်သိမ်း၍ လပွတ္တာမြို့နယ်ထဲသို့ ပြန်သွင်းသည်။ ယခုအခါ ကန်ဘဲ့မြို့နယ်ကို ပြန်လည် မထူထောင်သေးပေ။ သို့ရာတွင် ၁၉၀၃ ခုနှစ်၌ ဖျာပုံခရိုင်ကို တည်ထောင်လိုက်သောအခါတွင် နယ်နိမိတ် အပြောင်းအလဲများကို ပြုလုပ်ရပြန်သည်။ ထိုစဉ်က မြောင်းမြခရိုင်၌ ပါဝင်ခဲ့သော ဝါးခယ်မ နယ်ထဲမှ ပန်းတနော်မြို့နယ်ကို မအူပင်ခရိုင်အတွင်းသို့ သွတ်သွင်းပေးလိုက်ရ၍ သုံးခွခရိုင်တွင် ပါဝင်ခဲ့သော ပြင်ဒရယ်မြို့နယ်ကို မြောင်းမြခရိုင်အတွင်းသို့ သွတ်သွင်းလိုက်လေသည်။

မြောင်းမြခရိုင်သည် မကြာ ခဏ နယ်နိမိတ် အပြောင်း



မြောင်းမြမြို့ဟောင်းရှိ ရွှေဘုံသာစေတီ

အလဲများ ပေါ်ပေါက်တတ်သဖြင့် ရှေးအခါက ထိုခရိုင်၏ လူဦးရေကို အတိအကျ မပြောနိုင်လောက်အောင် ဖြစ်ခဲ့ရသည်။ ခရိုင်တည်စအခါကနှင့် စာသော် ယခုအခါ လူဦးရေများစွာ တိုးတက်လာခဲ့သည်။ ၁၉၅၉ ခုနှစ် သန်ကောင် စာရင်းအရ လူဦးရေမှာ ၆၅၀,၆၀၆ ခန့် ဖြစ်သည်။ လူဦးရေအများစုမှာ ဗုဒ္ဓအယူဝါဒီ မြန်မာလူမျိုးများဖြစ်၍၊ ဒုတိယအများဆုံးမှာ ကရင် အမျိုးသားများ ဖြစ်သည်။

မြောင်းမြမြို့၏ အနောက်တောင်ဖက် မိုင် ၃၀ ခန့် အကွာတွင် ရခိုင်ရိုးမတောင်၏ အဆက်ဖြစ်သော အနည်းငယ်မြင့်သည့် တောင်ကလေးတတောင်ရှိသည်။ ထိုတောင်မှ အပ မြောင်းမြခရိုင်သည် မြစ်ဝကျွန်းပေါ် ဒေသပီပီ မြေနိမ့် မြေပြန့် ဒေသဖြစ်၍ ရေထ ခေါင်ရေတက်ရက်များတွင် ရေလွှတ်ရုံမျှသာ ရေမျက်နှာပြင်ထက် မြင့်သည်။ ခရိုင် တခုလုံးတွင် မြစ်ချောင်းများစွာ ဖြတ်သန်းစီးဆင်းလျက်ရှိသည်။ ဟသာတ ခရိုင်အတွင်း ဧရာဝတီမြစ်မှ ခွဲထွက်လာသော ပန်းမဝတီမြစ်သည် မြောင်းမြခရိုင်၏ အနောက်ဖက်ကို ဖြတ်သန်းစီးဆင်း၍၊ ပြမလောမြစ်သည် ခရိုင်၏ အလယ်မှ ဧရာဝတီမြစ်နှင့် ပန်းမဝတီမြစ်တို့ကို ယှဉ်ပြိုင်လျက် ပင်လယ်ဖက်သို့ စီးဆင်းသည်။ ပင်လယ်သို့ စီးဝင်ခါနီးတွင် ပြမလောနှင့် ပြင်စလူဟူ၍ မြစ် ၂ ခုခွဲထွက်ကာ ပင်လယ်တွင်းသို့ စီးဝင်သွားသည်။ ရွှေလောင်းမြစ်မှာလည်း ခရိုင်၏ အရှေ့မြောက်ဖက်တွင် ဧရာဝတီမြစ်မကြီးမှ ခွဲထွက်လာသော မြစ်တမြစ်ဖြစ်၍၊ ပင်လယ်မှ ၂၄ မိုင် အကွာတွင် ဧရာဝတီမြစ်၏ အခြား မြစ်ခွဲတခုနှင့် ပေါင်း၍ ကျွန်းပြုသဒ်မြစ်ဟူသော အမည်ဖြင့် ဧရာဝတီမြစ်အတွင်း ပြန်လည်စီးဝင်သည်။ ထိုမြစ်များအပြင် အခြား မြစ်ငယ် ချောင်းငယ် အများအပြားလည်း ရှိသေးသည်။ ထိုမြစ်ချောင်းများသည် များသောအားဖြင့် ကူးသန်း သွားလာရာတွင် အသုံးဝင်သည်။ ခရိုင်တွင်း ခရိုင်အပ ကူးသန်းသွားလာရေးအတွက် ရေကြောင်းလမ်းများကိုသာ အားထားရသည်။

ခရိုင်အတွင်းရှိ တောင်ဖက် ပင်လယ်ပိုင်းကျသော ဒေသများတွင် လမု၊ လမဲ့၊ ကနစိုစသည့် ထင်းအဖြစ် အသုံးပြုနိုင်သော ထင်းတောများ ရှိသည်။ မြောင်းမြခရိုင်၏ ထွက်ကုန် လုပ်ငန်းတရပ်မှာ ထင်းဖြစ်သည်။

မြောင်းမြခရိုင်တွင် ရာသီဥတုမှာ မိုးရာသီတွင် မိုးကောင်း၍၊ စိုစွတ်ထိုင်းမှိုင်းသည်။ နွေရာသီတွင် ပင်လယ်လေရသဖြင့် အတန်ငယ် အပူသက်သာသည်။ တနှစ်လုံး၏ ပျမ်းမျှမိုးရေချိန်သည် ၁၀၃.၇၈ လက်မ ဖြစ်သည်။ ပျမ်းမျှ အနိမ့်ဆုံး အပူချိန်သည် ၆၅ ဒီဂရီရှိ၍၊ အမြင့်ဆုံး အပူချိန်သည် ၉၅ ဒီဂရီဖြစ်သည်။ မြောင်းမြခရိုင်သည် မိုးကောင်း၍ မြေနုကျွန်းပေါ်ဒေသတခု ဖြစ်သည့်ပြင်၊ မြေဩဇာ ထက်သန်သောကြောင့် ထိုခရိုင်အတွင်း၌ စပါးကို အမြောက်အမြား စိုက်ပျိုးကြသည်။ စပါးစိုက် ကေပေါင်းမှာ ၆၄၁,၁၄၀ ဖြစ်သည်။ ထိုခရိုင်၏ အဓိကလုပ်ငန်းမှာလည်း ဆန်စပါး လုပ်ငန်းပင်ဖြစ်၍ မြန်မာနိုင်ငံ၏ ဆန်စပါး အထွက်ဆုံး ခရိုင်တခု ဖြစ်သည်။ ထို့ပြင် ပင်လယ်ကမ်းရိုးတန်းနှင့် မြစ်ချောင်းတို့၏ ကမ်းဘေးများတွင် ဓနိပင်များ ပေါက်ရောက်သောကြောင့် ဓနိလုပ်ငန်းကိုပါ လုပ်ကိုင်ကြသည်။

ဆန်စပါးနှင့် ဓနိလုပ်ငန်းများအပြင် ခြံဥယျာဉ် များကိုလည်း လုပ်ကိုင်ကြသေးသည်။ အထူးသဖြင့် ငှက်ပျောခြံများကို လုပ်ကိုင်ကြ၍၊ အုန်းသီးများလည်း အတော်များများ ထွက်သည်။ ထို့ပြင် ယခုအခါတွင် ခရိုင်အတွင်း၌ ဂုံလျှော်များ စိုက်ပျိုး၍ အထူး အောင်မြင်လျက် ရှိသည်။

အခြား အရေးပါသော လုပ်ငန်းများမှာ ပင်လယ်ကမ်းနားဒေသ ဖြစ်သည့်အလျောက် ဆားနှင့် ငပိ ငခြောက် လုပ်ငန်းများ ဖြစ်သည်။ သို့သော် လူသိနည်းသော လုပ်ငန်းအများပင် ရှိသေးသည်။ ယင်းတို့အနက် တခုသော လုပ်ငန်းမှာ မြောင်းမြမြို့နယ် ထုံးဘိုကျေးရွာနယ်မြေမှ ထုံးဖုတ်သော လုပ်ငန်း ဖြစ်သည်။ မြောင်းမြမြို့နယ်ရှိ မြေစေးနီသည် စဉ့်အိုးဖုတ်ရန်အတွက် အလွန်ကောင်းသဖြင့် ရှေးအခါက စဉ့်အိုးများကို ဖုတ်ကြသည်။ အထူးသဖြင့် စဉ့်မသုတ်သော ဆားအိုးမှာ ရှေးက များစွာ ကျော်ကြားခဲ့၏။ ရှေးမွန်မြန်မာမင်းတို့ လက်ထက်က မြောင်းမြမြို့နယ်တွင် စဉ့်အုတ်ကြွပ်များကိုပင် ဖုတ်လေ့ ရှိသည်ဟု ဆိုလေသည်။ မြောင်းမြခရိုင် ဒာတွင်းရှိ လပွတ္တာမြို့တွင် ငပိလုပ်ငန်းနှင့် ဆားလုပ်ငန်းတို့ကို အကြီးအကျယ် လုပ်ကိုင်ကြသည်။ ထိုခရိုင်အတွင်း အိမ်မဲမြို့အနီးတွင် မြေအိုး မြေခွက်များကို ပြုလုပ်ကြသည်။ မြောင်းမြခရိုင်၌ လမ်းခင်းရန် ဂဝံကျောက်များကိုလည်း တူးဖော်ရရှိကြသည်။

မြောင်းမြခရိုင် အတွင်း၌ ဆန်စပါး အကြီးအကျယ် စိုက်ပျိုး လုပ်ကိုင်ကြသော်လည်း ကြီးကျယ်သော ဆည်များ တူးမြောင်းများဟူ၍ကား မရှိချေ။ ဝါးခယ်မမြို့နယ်အတွင်း မြောက်ဖက် အစွန်း၌ ၁၂½ မိုင်ရှည်လျားသော ရွှေလောင်း ရေကာတာ တခုသာရှိ၍ ထိုတာကြီးက လယ်ကေပေါင်း ၇,၀၀၀ ခန့်ကို ရေလွှမ်းမိုးခြင်း ဘေးမှ ကာကွယ်ပေးသည်။

မြောင်းမြခရိုင်အတွင်း၌ မြောင်းမြနယ်နှင့် ဝါးခယ်မနယ်တို့ ပါဝင်သည်။ မြောင်းမြနယ်အတွင်း၌ မြောင်းမြနယ်၊ လပွတ္တာမြို့နယ်နှင့် အိမ်မဲမြို့နယ်တို့ ပါဝင်ပြီးလျှင် ဝါးခယ်မနယ်တွင် ဝါးခယ်မမြို့နယ်နှင့် မော်လမြိုင်ကျွန်းမြို့နယ်တို့ ပါဝင်သည်။ ခရိုင်အတွင်း သူကြီးပိုင်နယ်ပေါင်း ၅၁၄ နယ်ခန့် ရှိလေသည်။

မြောင်းမြမြို့။ ။မွန်ဘုရင် ရာဇာဓိရာဇ်၏ အရေးတော်ပုံများတွင် ဖော်ပြပါရှိသော မြောင်းမြမြို့မှာ ရာမညတိုင်း



မြောင်းမြခရိုင်ဝန် ရုံးစိုက်ရာမြို့ဖြစ်သော မြောင်းမြမြို့၏ ကျက်သရေဆောင် မြို့ဦးရှိ စကြာနန္ဒစေတီတော်

မွန် ၃ ရပ်တွင် ပါဝင်သည့် ပုသိမ် ၃၂ မြို့တွင် အဝင်အပါဖြစ်၍၊ ထိုစဉ်က ကျိုက်ဇလဲထော်မြို့ဟု တွင်ခဲ့သည်။ ယခုမြောင်းမြမြို့သစ် တည်ရှိသော ဆိပ်ကြီးခေါ် ဒေသသည် ကျိုက်အမွန်မြို့ဟု ခေါ်တွင်ကြောင်း ရှေးစာဟောင်းများတွင် တွေ့ရသည်။ ထိုမြောင်းမြမြို့ဟောင်းသည်ကား ယခုမြောင်းမြမြို့သစ်နှင့် ၇ မိုင်ကွာ အနောက်တောင်ထောင့်အရပ် ရွှေဘုံသာ တောင်ခြေတွင် ကရင် အမျိုးသားများနေထိုင်သည့် မြို့ဟောင်းခေါ် ရွာတန်းရှည်ကြီးအဖြစ် တည်ရှိလေသည်။ ဟံသာဝတီပြည့်ရှင် ဗညားဦး၏ ညီတော် လောက်ဖျား မင်းသား တည်ထောင်ခဲ့၍၊ ထိုမြောင်းမြစား လောက်ဖျားသည် ဗညားဦး၏ အရိုက်အရာကို ဆက်ခံသော မွန်ဘုရင် ရာဇာဓိရာဇ်ကို တော်လှန်ပုန်ကန်ခဲ့သည်ကို အကြောင်းပြု၍ မြောင်းမြမြို့သည် ရာဇဝင် သမိုင်းတို့တွင် ထင်ရှားလာခြင်း ဖြစ်ပေသည်။ မြောင်းမြဟူ၍ ခေါ်တွင်သည်မှာ ချောင်းမြောင်း မြစ်များနှင့်တကွ စိမ်းလန်းသော တောတောင်တို့နှင့် သာယာသည်ကို အစွဲပြု၍ ခေါ်သည်ဟုရင်း၊ (ရှေးလူကြီးများ ပါးစပ် ရာဇဝင်အရ) လောက်ဖျားမင်း မြို့တည်စဉ်က ကျုံးမြောင်းများ တူးဖော်ရာတွင် ထိုကျုံးမြောင်းထည်းမှ မြသပိတ်ကြီးတလုံးရသဖြင့် မြောင်းထည်းမှ မြသပိတ်ရသည်ကို အကြောင်းပြု၍ ခေါ်သည်ဟုရင်း ဆိုလေသည်။ သို့သော် မွန်ဘာသာရေး ရာဇာဓိရာဇ်အရေးတော်ပုံကျမ်းတွင် မြောင်းမြမြို့မှာ မံင်မလ (မောင်မလဲ့) ဟု ဖော်ပြပါရှိရာ၊ ထိုစကားမှ ဆင်းသက်လာသည်ဟု ယူဆဖွယ် ဖြစ်သည်။ မံင်မလ ဟူသော စကားတွင် မံင် = နေသည် (နေရာ) + မလ = မြတ်ရာပင်ဖြစ်ရာ၊ မြတ်ရာကုန်းဟု ယူသော် ရတန်ရာသည်။

မူလ မြောင်းမြ မြို့ဟောင်း၌ သစ်သားပန်းပုတို့ဖြင့် ခြယ်လှယ်ထားသော ဘုန်းကြီးကျောင်းများ၊ ဇရပ်များ တည်ရှိ၍ အလွန်လှပတင့်တယ်သည်ဟု အဆိုရှိ၏။ ခရစ် ၁၈၆၁ ခုနှစ်တွင် ထိုမြောင်းမြမြို့ဟောင်းသည် မီးအကြီးအကျယ်လောင်လေရာ၊ မြို့ပျက်ပမာတမျှ ဖြစ်သွားခဲ့သည်။ ထိုနောက် ယခု မြောင်းမြမြို့ဟု တွင်သော ဆိပ်ကြီးအရပ်တွင် မြို့သစ် တည်ထောင်သည်။ ဤသို့ တည်ထောင်ရာမှ ရုံး၊ ဂတ်၊ ဈေး စသည်တို့ တည်ဆောက်လာခဲ့သည်။ မြောင်းမြခရိုင်ဟူ၍ ၁၈၉၃ ခုနှစ်ခန့်မှ စတင်၍ တည်ရှိခဲ့ရာ၊ မြောင်းမြမြို့မှာ ထိုအချိန်မှစ၍ ခရိုင် ရုံးစိုက်မြို့ဖြစ်ခဲ့ပြီးလျှင် ထိုစဉ်အခါက အငယ်ဆုံးသော ခရိုင်ရုံးစိုက်မြို့တမြို့ ဖြစ်ခဲ့ပေသည်။

မြောင်းမြမြို့သည် ဧရာဝတီမြစ်၏ မြစ်ခွဲတခုဖြစ်သော မြောင်းမြမြစ် (ဆိပ်ကြီးမြစ်) ၏ လက်ျာဖက် ကမ်းပေါ်တွင်ရှိ၏။ ထိုမြစ်သည် ခရိုင်နယ်၏ အနောက်ဖက် နယ်နိမိတ်အနီးကို ဖြတ်သန်းစီးသွားသည်။ မြို့၏ အချို့နေရာများမှာ မြေနိမ့်ပိုင်း၌ တည်ရှိသော်လည်း များသောအားဖြင့် လူနေ



မြန်မာနှစ်ဆန်း ၁ ရက်မနေ့တွင် မြောင်းမြမြို့၌ နှစ်စဉ်ကျင်းပမြဲဖြစ်သော ဆွမ်းကြီးလောင်းပွဲမှာ အထူး စည်ကားလှပေသည်။

ရပ်ကွက်များမှာ ကုန်းမြင့်တို့တွင် သာယာစွာ တည်ရှိလေသည်။ မြို့၏ အကျယ်အဝန်းမှာ ၁.၂၀၃ စတုရန်းမိုင်ခန့်ရှိသည်။ ဒုတိယ ကမ္ဘာစစ်ပြီးသည့် အချိန်မှစ၍ လူနေရပ်ကွက်နှင့် အိုးအိမ်များ တိုးချဲ့ဆောက်လုပ်လာခဲ့ရာ၊ ယခုအခါ ယခင်ကထက် များစွာ စည်ကားလျက် ရှိသည်။

မြောင်းမြမြို့ကိုတောင်ပိုင်း(ရှမ်းကုန်းပိုင်း)၊အလယ်ပိုင်း၊ မြောက်ပိုင်း စသည်ဖြင့် ပိုင်းခြား ခေါ်ဝေါ်ခဲ့ရာမှ ယခုအခါ စံပြကွက်သစ်၊ ကံလှကွက်သစ်၊ အောင်ဆန်းကွက်သစ်၊ဘုရားချောင်း ကွက်သစ်၊ မဟာစည်ကွက်သစ် စသော ကွက်သစ်အများအပြား တိုးချဲ့ပေါ်ပေါက်လာသည်။ ၁၉၆၃ ခုနှစ်ခန့်မှန်းခြေအရ မြောင်းမြမြို့၏လူဦးရေမှာ ၂၉,၂၃၇ ယောက်ဖြစ်သည်။ ဗုဒ္ဓအယူဝါဒီ မြန်မာလူမျိုးများသည်။

မြောင်းမြ မျူနီစီပယ်အဖွဲ့ကို ၁၈၈၆ ခုနှစ်တွင်မှ စတင်ဖွဲ့စည်းသည်။ အစိုးရစိုက်ပျိုးရေး ဌာနမှ စံပြဥယျာဉ်တခုလည်း မြောင်းမြမြို့၌ ရှိသည်။ ဆန်စပါး အကြီးအကျယ်ထွက်သော အရပ်ဒေသ ဖြစ်သောကြောင့်လည်း မြို့ဆင်ခြေဖုံးနှင့် အနီးအနားတို့တွင် ဆန်စက်များ ရှိလေသည်။

မြောင်းမြမြို့သည် ခရိုင် ရုံးစိုက်ရာ မြို့ကြီးဖြစ်သည့်အားလျော်စွာ အစိုးရ အဆောက်အအုံများဖြင့် သိုက်မြိုက်စွာရှိသည်။ ခရိုင်ဝန်ရုံး၊ ခရိုင်တရားမနှင့် စက်ရှင်တရားသူကြီးရုံး၊ ငွေတိုက်၊ ခရိုင်ရဲဝန်ရုံး၊ မြေစာရင်းဌာန စသည့် အုပ်ချုပ်ရေးဌာနဆိုင်ရာရုံးများ၊ စစ်တပ်အဆောက်အအုံများ၊ မျူနီစီပယ်ရုံး၊ ဗဟိုအကျဉ်းထောင်ကြီး၊ ရဲဌာန၊ ရဲအိမ်ခြေစု၊ အစိုးရ အရာရှိများ၏ နေအိမ် စသည်တို့သည် လူနေရပ်ကွက်နှင့် သီးသန့် တည်ရှိသည်။ မြန်မာနိုင်ငံ လွတ်လပ်ရေး ရပြီးသည့်နောက်တွင် ပညာရေး အဆောက်အအုံများလည်း တိုးတက်များပြားလာသည်။ ယခုအခါ မြောင်းမြမြို့တွင် အစိုးရ တန်းမြင့်ကျောင်း ၅ ကျောင်းအထိ ရှိလာ၍၊ စိုက်ပျိုးရေးအထက်တန်းကျောင်း၊အလယ်တန်းကျောင်းများနှင့် မူလတန်းကျောင်းများလည်း ရှိသေးသည်။

မြောင်းမြမြို့ရှိ ထင်ရှားသော စေတီ ပုထိုးများမှာ မြို့ဦးထိပ်ရှိ စကြာနန္ဒစေတီ၊ တာဝတိံသာဘုရား၊ ရွှေသာလျောင်းဘုရား၊ မဟီယင်္ဂနဘုရားနှင့် ဗောဓိအောင်မြေဘုရားတို့ ဖြစ်သည်။ စကြာနန္ဒစေတီကို သက္ကရာဇ် ၆၂၅ ခုနှစ်တွင် ပုသိမ် ရာဇာဝင်လာ သမုဒ္ဒဃောသမင်းကြီးနှင့် ဥမ္မာဒန္တီ မိဖုရားကြီးတို့ တည်ခဲ့သည်။ ရှေးက ကျိုက်ခမီစေတီခေါ်သည်။ ဒုတိယ ကမ္ဘာစစ်မဖြစ်မီအထိ စကြာနန္ဒဘုရားပွဲတော်ကို နှစ်စဉ် တပေါင်းလတွင် ဇာတ်၊ ရုပ်သေးပွဲလမ်းသဘင်တို့ဖြင့် စည်ကား သိုက်မြိုက်စွာ ကျင်းပခဲ့လေသည်။ မြောင်းမြ မြို့ဟောင်းအနီးတွင် လောက်ဖျားမင်းတည်ခဲ့သော စေတီကို ပြန်လည်တည်ထားသည့် ရွှေဘုံသာစေတီ၊ ဥက္ကဌစေတီနှင့် မြစိမ်းရောင် စေတီတို့လည်း ရှိသေးသည်။

ထို့အပြင် မြို့ပေါ်တွင် မင်းကျောင်း၊ တာဝတိံသာကျောင်း၊ အလယ်တောရကျောင်း၊ ခါတော်မှီကျောင်း၊ ဝေဠုဝန်ကျောင်း၊ သုဇာတာရုံကျောင်း စသည်တို့အပြင်၊ ပဋ္ဌာနတာရုံစာသင်တိုက်၊ ဇေယျမေဒနီ စာသင်တိုက် စသည်တို့နှင့်တကွ ဝေဠုဝတီကျောင်းတိုက် စသည့် ဝိပဿနာကမ္မဋ္ဌာန်း ကျောင်းတိုက်များလည်း ရှိသည်။ ဗုဒ္ဓအယူဝါဒီမြန်မာလူမျိုး များသည့်အလျောက် ဗုဒ္ဓအယူဝါဒီတို့၏ အစဉ်အလာ ပွဲတော်များကို ရိုးရာမပျက် ကျင်းပလေ့ရှိသည်။ အထူးသဖြင့် နှစ်စဉ် မြန်မာနှစ်ဆန်း ၁ ရက်နေ့တွင် မြို့လုံးကျွတ် သံဃဒါန ဆွမ်းဆန်စိမ်း လောင်းလှူပွဲကြီးကို စည်ကား သိုက်မြိုက်စွာ ကျင်းပလာခဲ့ရာ၊ သက္ကရာဇ် ၁၃၂၆ ခုနှစ်တွင် အကြိမ် ၃၀ မျှ ရှိခဲ့ပြီဖြစ်၏။

မြောင်းမြမြို့သည် ဝါးခယ်မ၊ မော်လမြိုင်ကျွန်း၊ အိမ်မဲ၊ လပွတ္တာ စသည့် ခရိုင်တွင်းရှိ မြို့များနှင့်၎င်း၊ ပုသိမ်၊ မအူပင်၊ ရန်ကုန် စသော ခရိုင်ပမြို့များနှင့်၎င်း ရေလမ်း အဆက်အသွယ် ရှိသည်။ ခရိုင်တွင်းရှိ မြို့များနှင့်သော်ကား နေ့ချင်းပေါက် သင်္ဘောလမ်း အဆက်အသွယ် ရှိသည်။ အရောင်းအဝယ် သင့်တင့်သည်။ မြောင်းမြမြို့သည် မြောင်းမြနယ်၏ ရုံးစိုက်မြို့လည်း ဖြစ်သည်။ မြောင်းမြမြို့၏ နယ်အကျယ်အဝန်းမှာ ၅၉၆ စတုရန်းမိုင်ဖြစ်၍၊ လူဦးရေမှာ ၁၇၅,၅၂၀ ဖြစ်လေသည်။

**မြိုင်မြို့။** ။မြိုင်မြို့သည် ပခုက္ကူခရိုင်မြိုင်မြို့နယ်၏ရုံးစိုက်မြို့ဖြစ်သည်။ မြိုင်မြို့နယ်၏ အကျယ်အဝန်းမှာ ၇၂၅ စတုရန်းမိုင်ရှိ၍ သူကြီးပိုင် နယ်ပေါင်း ၂၈၅ ခုပါဝင်သည်။ မြိုင်မြို့သည် ပခုက္ကူ၏ အနောက်မြောက်ဖက် ၂၅ မိုင် အကွာတွင်တည်ရှိ၍၊ ပခုက္ကူနှင့် ကားလမ်း အဆက်အသွယ်ရှိသည်။ ပခုက္ကူ - ကျားတက်ကားလမ်းပေါ်ရှိ လက်တောမှ ၁၆ မိုင်ဝေးသည်။

မြိုင်မြို့၏ လူဦးရေမှာ ၁၉၅၃ ခုနှစ် သန်ကောင် စာရင်းအရ ၁,၉၉၉ ယောက် ဖြစ်သည်။

**မြစ်။** ။မြစ်များ ဖြစ်ပေါ်လာပုံကို ဖုံများရှိသည့် လမ်းတလမ်းပေါ်၌ မိုးရွာအပြီးတွင် ရေစီးကြောင်းများ ဖြစ်ပေါ်လာပုံကို ကြည့်ခြင်းဖြင့် သိနိုင်ပေသည်။ ပဌမတွင် မိုးပေါက်များ စုဝေးကာ ချောင်းကလေးဖြစ်ပေါ်လာ၏။ ထိုချောင်းကလေးသည် အခြား ချောင်းကလေးများနှင့် ပေါင်းမိကာပို၍ ကြီးမားသော ချောင်းတခုဖြစ်လာသည်။ ချောင်းကလေး တခုစီသည် ယင်းတို့၏ အောက်ခင်းများအား တိုက်စားသွားသည်ကို တွေ့ရသည်။ ချောင်းကလေးများ စီးဆင်းသွားကြရာတွင် တခုစီကို ကုန်းရိုးကလေးများက ခြားပေးထားသည်ကို တွေ့နိုင်သည်။ ထိုကုန်းရိုးကလေးများ၏ ထိပ်

ပိုင်းများကို ရေဝေကုန်းတန်း သို့မဟုတ် ရေဝေကြောဟု ခေါ်သည်။

မြစ်သည် အများအားဖြင့် တောင်များ၊သို့မဟုတ် တောင်ကုန်းများတွင် မြစ်ဖျားခံလေ့ရှိ၏။ တောင်များပေါ်ရှိ စမ်း၊ သို့မဟုတ် အရည်ပျော်နေသော ရေခဲမြစ်မှ အစပြု၍ မြစ်ဖျား ခံလေ့ရှိသည်။ ထိုသို့ မြစ်ဖျားခံပြီးနောက် နိမ့်ရာသို့ စီးဆင်း သွားရာ အခြားချောင်းများလည်း ပေါင်းလာကြကာ မြစ်ရေပြင်သည် ပို၍ ကျယ်သွားသည်။ ထိုသို့ စီးဆင်းသွားသည့် ရေစီးကြောင်းက ရေလမ်းကြောင်းကို ဖြစ်ပေါ်စေသည်။ ထိုရေလမ်းကြောင်းသည် နှစ်ဖက်ရှိ ကုန်းများထက် နိမ့်နေ၏။ ထိုရေလမ်းကြောင်း၏ အောက်ခြေကို အောက်ခင်းဟု ခေါ်သည်။ မြစ်၏ ဘေးနှစ်ဖက်ကို ကမ်းပါးဟု ခေါ်သည်။ မြစ်ရေစီးဆင်းရာတွင် လကျ်ာဖက်ရှိကမ်းကို လကျ်ာဖက်ကမ်းဟု ခေါ်၍ လက်ဝဲဖက်ရှိ ကမ်းကို လက်ဝဲဖက်ကမ်းဟု ခေါ်သည်။ ထိုနည်းဖြင့် မည်သည့် မြို့သည် မည်သည့် မြစ်၏ မည်သည့် ဖက်ကမ်းတွင် တည်ရှိသည်ဟု ပြောလေ့ ရှိကြသည်။ မြစ်တမြစ် အတွင်းသို့ စီးဝင်သည့် မြစ်လက်တက် အားလုံးနှင့် မြစ်မကြီးကို မြစ်စဉ်စုဟု ခေါ်သည်။ မြစ်မကြီးမှ ခွဲထွက်၍ ထိုမြစ်မကြီးအတွင်းသို့ ပြန်၍ မစီးဝင်တော့သော မြစ်ကို မြစ်ခွဲဟု ခေါ်သည်။ မြစ်စဉ်စုတခု စီးဆင်းနေသောဒေသကို မြစ်ဝှမ်းဟု ခေါ်သည်။

မြစ်တမြစ်ကို အများအားဖြင့် သုံးပိုင်းပိုင်း၍ လေ့လာလေ့ ရှိကြသည်။ ထိုအပိုင်းများသည် တပိုင်းနှင့် တပိုင်း အရည်အချင်းချင်းတွင် မတူတတ်ကြချေ။ ထိုပြင် ယင်းတို့၏ ဝိသေသဂုဏ်များလည်း မတူတတ်ကြချေ။ ထိုအပိုင်းများမှာ အထက်ပိုင်း၊ အလယ်ပိုင်းနှင့် အောက်ပိုင်းများ ဖြစ်ကြ၏။ အထက်ပိုင်းတွင် ရေလမ်းကြောင်းနက်၍ ရေစီးသန်သည်။ ရေလမ်းကြောင်းသည် ရေ၏တိုက်စားခြင်းကို ခံရသဖြင့် လျင်မြန်စွာ နက်ရှိုင်းသွားတတ်သည်။ ကမ်းပါးများသည်လည်း မတ်စောက်၍ နေတတ်သည်။ မြစ်များ၏ အထက်ပိုင်း ကမ်းပါးများသည် မျဉ်းမတ်ကဲ့သို့ မတ်စောက်လျက်ပင် ရှိတတ်ကြသည်။ ရေစီးကြောင်းကလည်း သဲအမြောက်အမြားနှင့် ကျောက်စရစ်များကို သယ်ဆောင် သွားသည်။တခါတရံတွင် အတော်ကြီး၍ လေးလံသော ကျောက်တုံးကြီးများကိုပင် သယ်ဆောင် သွားတတ်ကြသည်။ ရေစီးသည်လည်း သန်လှသဖြင့် ရေစီးကြောင်းလမ်းရှိ ပစ္စည်းမှန်သမျှကို သယ်ဆောင် သွားလေ့ ရှိသည်။ ရေစီးကြောင်းသည်လည်း အများအားဖြင့် ဖြောင့်တန်းနေတတ်သည်။



မြစ်များသည် ကူးသန်းသွားလာရေး၊ လယ်ယာစိုက်ပျိုးရေးလုပ်ငန်းများအတွက် အကျိုးပြုရုံမျှမက မြေမျက်နှာပြင် အနေအထားကိုလည်း ပြောင်းလဲ ပေးနိုင်စွမ်းရှိသည်။ မြစ်ကမ်းပါးများကို စံနစ်တကျ ထိန်းသိမ်း စောင့်ရှောက်မထားပါက အထက်ပါ ပုံအတိုင်း မြစ်ရေ တိုက်စားခြင်းခံရကာ အဖိုးတန်မြေဩဇာများ ဆုံးရှုံးခံရတတ်သည်။

မြစ်မ အတွင်းသို့ စီးဝင်လာသော မြစ်လက်တက်များ၏ ရေလမ်းကြောင်းများသည် မြစ်မကြီး၏ ရေလမ်းကြောင်း လောက်ပင် နက်တတ်ကြသည်။

မြစ်၏ အလယ်ပိုင်းသည် မြစ်ဖျား ခံရာ တောင်များကို ကျော်လွန်လာပြီဖြစ်သဖြင့် ရေစီးသည် နှေးသွားလေသည်။ ထိုအပိုင်းတွင် ရေစီးသည် မသန်လှတော့သဖြင့် အထက်ပိုင်းမှ သယ်ဆောင် လာသော ကျောက်စရစ်များသည် ထိုအပိုင်းတွင် ကျကျန်ရစ် ခဲ့ကြသည်။ ထိုအပိုင်းတွင် ရေစီးသည် နှေးသွားပြီ ဖြစ်သဖြင့် မြစ်သည် ပို၍ ကျယ်သွားလေသည်။ ရေစီးကြောင်းကလည်း လမ်းရှိအခုအခံများကို သယ်ဆောင် မသွား နိုင်ကြတော့သဖြင့် ထိုအခုအခံများကို ကွေ့ကောက်၍ သွားကြသည်။ မြောက်အမေရိကတိုက်ရှိ မစ်စစ်စပီမြစ်၏ အလယ်ပိုင်းတွင် ထိုနည်းအတိုင်း ဖြစ်ပေါ်နေသည်ကို တွေ့နိုင်ပေသည်။ မြစ်၏ အလယ်ပိုင်းတွင် နုံးနုနှင့် ရွှံ့များသည် ရေစီးကြောင်းရှိ အခုအခံများကြောင့် အောက်သို့ အနည်ထိုင်သွားကြပြီးလျှင် နောက်ဆုံးတွင် မျက်နှာပြင်သို့ မြင့်တက်လာကာ ကျွန်းများပင် ဖြစ်ပေါ် လာကြသည်။ မြစ်၏ အထက်ပိုင်းရှိ ကျွန်းများသည် မြစ်၏ လျင်မြန်သော ရေစီးကြောင်း၏ တိုက်စားမှုကြောင့် ရေမစားနိုင်သော ကျောက်များသာ ဖြစ်ကြသည်။

မြစ်၏ အောက်ပိုင်းသည် မြစ်၏ အလယ်ပိုင်းနှင့် မထူးခြားလှချေ။ ရေစီးကြောင်းသည် အနည်းငယ်ပို၍ နှေးသွား၍၊ နုံးနုများ ပို၍ အနည်ထိုင်ကြသဖြင့် ရေသည်လည်း ပို၍ တိမ်သွားသည်။ ထိုနောက်တွင် ရေသည် ကမ်းပါးများကို လျှံတက်ကာ ရေလွှမ်းမိုးလေ့ရှိကြသည်။ ထိုကဲ့သို့ ရေလွှမ်းမိုးသည့်ရေများ သွေ့ခြောက်သွားသောအခါတွင် မြေဩဇာကောင်းမွန်သောလယ်ယာများ ဖြစ်သွားကြသည်။အောက်မြန်မာပြည်ရှိ မြောင်းမြခရိုင်ကဲ့သို့သော မြစ်ဝကျွန်းပေါ် ဒေသ၌ မြေဩဇာကောင်းခြင်းမှာ ဧရာဝတီမြစ်သည် ထိုကဲ့သို့ ဖြစ်ခြင်းကြောင့် ဖြစ်သည်။

မြစ်၏ ရေစီးကြောင်းသည် ကျောက်များကို ဖြတ်၍ စီးလေ့ရှိကြသဖြင့် ကျောက်၏မမာလှသော အစိတ်အပိုင်းများသည် ရေစီးကြောင်း၏ တိုက်စားခြင်းကို ခံကြရသည်။ မာသည့် ကျောက်အစိတ်အပိုင်းများသာ အခုအခံများ အနေဖြင့် ကျန်ရစ်တတ်ကြသည်။ အထူးသဖြင့် ရေစီးသန်သော မြစ်များတွင် ထိုကဲ့သို့ဖြစ်ပေါ် သည်ကို တွေ့ရသည်။ ထိုအခါတွင် ရေမော်များအဖြစ် ကျန်ရစ်သည်။

ကျောက်မာများ အောက်တွင် ကျောက်ပျော့များ ရှိနေလျှင် ရေစီးကြောင်းက ကျောက်ပျော့များကို တိုက်စားသွားသဖြင့် နိုင်အဂ္ဂရာ ရေတံခွန်ကြီးကဲ့သို့သော ရေတံခွန်များ ဖြစ်ပေါ် နေတတ်သည်။

မြစ်များသည် ကူးသန်း သွားလာရန်အတွက် များစွာ အသုံးဝင်သည်။ လူတို့သည် မြစ်များအတွင်း၌ တနေရာမှ တနေရာသို့ လှေသင်္ဘောများဖြင့် သွားလာနိုင်သည်။ ကုန်ပစ္စည်းများကို သယ်ယူနိုင်သည်။ တိုင်းပြည် စည်ပင်ဖွံ့ဖြိုးရေးတွင် မြစ်များသည် အရေးပါ အရာရောက်သော လမ်းကြောင်းများ ဖြစ်ကြပေသည်။ မြစ်၏ ရေများဖြင့် လယ်ယာများကို ရေပေးနိုင်ရုံမက စက်မှုလုပ်ငန်းများတွင် လျှပ်စစ်အား ရစေရန်လည်း ဖန်တီးပေးနိုင်သည်။ မြစ်သည် မြေမျက်နှာပြင်၏ အနေအထားကိုလည်း ပြောင်းလဲ ပေးနိုင်သည်။ မြင့်မားသည့် ကုန်းပြင်မြင့်ကို ဖြတ်၍ စီးခြင်းဖြင့် ခန့်ညားသော မညီညာသော တောင်များကို ဖြစ်ပေါ် စေနိုင်သည်။ သို့သော်မြစ်များ၏အသုံးဝင်ပုံမှာ ယင်းတို့၏အကျယ်အဝန်း၊ ဖြတ်သန်း စီးဆင်းသည့်အရပ်ဒေသ အစရှိသော အချက်များပေါ် တွင် တည်သည်။ မြန်မာနိုင်ငံရှိ မြစ်ကြီးများတွင် ဧရာဝတီမြစ်တခုသာလျှင် ကုန်စည်ကူးသန်းရောင်းဝယ်ရေးအတွက် အသုံးဝင်သည်။ သံလွင်မြစ်မှာ အလွန်ရှည်လျားသော်လည်း ကျောက်ဆောင် ထူထပ်ပေါများ၍ လူဦးရေနည်းပါးသော အရပ်ဒေသများကို ဖြတ်သန်း စီးဆင်းရခြင်းကြောင့် သစ်ဝါးမျှောရန်မှအပ များစွာအသုံးမဝင်လှချေ။

မြစ်တခု၏ ရေစီးသည့်နှုန်းသည် ရေစီးဆင်းရာ မြေပြင်၏ အနိမ့်အမြင့်ကို လိုက်၍ ဆုံးဖြတ်ရသည် မှန်သော်လည်း မြေအနိမ့်အမြင့်ချင်း တူညီက ကြီးသော မြစ်သည် ငယ်သော မြစ်ထက် ပို၍ ရေစီးမြန်သည်။ အပူပိုင်းဒေသများတွင် မိုးအခါများ၌ မြစ်ရေလျှံ တက်ပြီးလျှင်၊ အခြားအခါများ၌ မြစ်ရေ ကျသွားတတ်သည်။ သမပိုင်းဒေသများ၌မူ မိုးမှာ တနှစ်ပတ်လုံး ညီညာမျှတစွာ ရွာသဖြင့် နွေရာသီလများတွင် ရေမှာ အခိုးအငွေ့အဖြစ်သို့ ပြောင်းလဲသွားပြီးလျှင် မြစ်ရေနည်းပါးသွားသည်။ သို့ဖြစ်၍ နွေလများ၌ ရေကျပြီးလျှင် ဆောင်းလများတွင် မြစ်ရေလျှံ တက်တတ်သည်။

ပင်လယ် သမုဒ္ဒရာများ၌ ရေခိုးရေငွေ့များသည် ကောင်းကင်သို့ တက်ကာ ကုန်းရှိရာ အရပ်သို့ လေနှင့်ပါသွားကြသည်။ အအေးဓာတ်နှင့် တွေ့ဆုံမိသောအခါ မိုးရေဖြစ်ပြီးလျှင် အောက်သို့ရွာချ၏။ ထိုမိုးရေသည် တောင်များ၊ ကုန်းမြေမြင့်များပေါ် သို့ ကျရောက်သောအခါ နိမ့်သောနေရာသို့ မြောင်းငယ်ကလေးများ အဖြစ်ဖြင့် စီးဆင်းသည်။ ဤအကြောင်းရပ် အစ၌ ဖော်ပြခဲ့သည့်အတိုင်း ထိုမြောင်းငယ်များ စုဝေးပေါင်းစပ်မိသောအခါ ချောင်းကြီး မြောင်းကြီး တခုဖြစ်ကာ နောက်ဆုံး၌ မြစ်ကြီးတခုအဖြစ်သို့ ရောက်သွားပြီးလျှင် ပင်လယ်ထဲသို့ စီးဆင်းသွားလေသည်။ ဤသို့လျှင် မြစ်များသည် ပင်လယ်ထဲမှ ရေကို ပင်လယ်ထဲသို့ ပြန်၍ သယ်ဆောင်သွားပုံကို ကျွန်ုပ်တို့တွေ့ရပေသည်။

ကမ္ဘာတွင် ထင်ရှားသော မြစ်ကြီးအချို့ကို ယင်းတို့တည်

ရှိရာ ဒေသ၊ ယင်းတို့၏ ခန့်မှန်းမိုင် အရှည်နှင့် တကွ အောက်တွင် ဖော်ပြထားသည်။

| | | | |
|---|---|---|---|
| နိုင်း | အာဖရိကတိုက်မြောက်ပိုင်း | ၄,၁၆၀ | မိုင်ခန့် |
| အမေဇုန် | တောင်အမေရိကတိုက် | ၃,၉၀၀ | ။ |
| အော့ | အာရှတိုက် | ၃,၂၀၀ | ။ |
| ယန်စီ | အာရှတိုက် | ၃,၁၀၀ | ။ |
| ကွန်ဂို | အာဖရိကတိုက်အလယ်ပိုင်း | ၂,၉၀၀ | ။ |
| အေမူ | ။ | ၂,၉၀၁ | ။ |
| ယင်နစ်ဆီ | ။ | ၂,၈၁၀ | ။ |
| လီနာ | ။ | ၂,၈၁၁ | ။ |
| မိဇူးရီ | မြောက်အမေရိကတိုက် | ၂,၇၂၃ | ။ |
| ဝှန်ဟို(မြစ်ဝါ) | အာရှတိုက် | ၂,၇၀၀ | ။ |
| မက်ကင်ဇီ | မြောက်အမေရိက | ၂,၅၁၄ | ။ |
| မဲခေါင် | အာရှတိုက် | ၂,၅၀၀ | ။ |
| မစ်စစ်စပီ | မြောက်အမေရိကတိုက် | ၂,၄၇၀ | ။ |
| ပရာနား | တောင်အမေရိကတိုက် | ၂,၄၅၀ | ။ |
| မာရေး | ဩစတြေးလီးယားတိုက် | ၂,၃၁၀ | ။ |
| အားဘစ် | အာရှတိုက် | ၂,၃၁၁ | ။ |
| ဗော်လဂါ | ဥရောပတိုက် | ၂,၃၀၀ | ။ |
| မဒီးရ | တောင်အမေရိကတိုက် | ၂,၀၀၀ | ။ |
| စိန့်လောရင့် | မြောက်အမေရိကတိုက် | ၁,၉၀၀ | ။ |
| ယူးကွန်း | ။ | ၁,၈၀၀ | ။ |
| သံလွင် | အာရှတိုက်(မြန်မာနိုင်ငံ) | ၁,၇၅၀ | ။ |
| ဒန်းညူ | ဥရောပတိုက် | ၁,၇၂၅ | ။ |
| ယူဖရေးတီး | အာရှတိုက် | ၁,၇၀၀ | ။ |
| အိန္ဒု | ။ | ၁,၇၀၀ | ။ |
| ဧရာဝတီ | အာရှတိုက်(မြန်မာနိုင်ငံ) | ၁,၂၅၀ | ။ |

**မြစ်ကြီးနားခရိုင်။** ။နာမည်ကျော် ကျောက်စိမ်းနှင့် ပယင်းရတနာများ ထွက်ရာ ဒေသဖြစ်သော မြစ်ကြီးနားခရိုင်သည် မြန်မာနိုင်ငံ၏ မြောက်ဖက် အစွန်ဆုံးခရိုင်ဖြစ်၍ ကချင်ပြည်နယ်တွင်ပါဝင်လျက် အကျယ်အဝန်းမှာ ၁၉,၇၆၂ စတုရန်းမိုင် ဖြစ်သည်။ ခရိုင်၏ နယ်နိမိတ်မှာ မြောက်ဖက်နှင့် အရှေ့ဖက်တို့တွင် တရုပ်နိုင်ငံ၊ အနောက်ဖက်တွင် အိန္ဒိယနိုင်ငံနှင့် နာဂတောင်တန်းခရိုင်နှင့် တောင်ဖက်တွင် ဗန်းမော်ခရိုင်တို့ ဝန်းရံတည်ရှိသည်။

ခရိုင်၏ မြောက်ဖက်အစွန် ဒေသမှာ ဧရာဝတီမြစ်နှင့် ချင်းတွင်းမြစ်တို့ မြစ်ဖျားခံရာဒေသ ဖြစ်သည်။ အရှေ့ဖက်ပိုင်းတွင် ဧရာဝတီမြစ် ဖြစ်ပေါ်စေသည့် မေခနှင့် မလိခမြစ်တို့သည်၎င်း၊ အနောက်ဖက်တွင် ချင်းတွင်းမြစ်နှင့် ယင်း၏ လက်တက်ဖြစ်သော ဥရုချောင်းတို့သည်၎င်း၊ မြောက်ဖက်မှ တောင်ဖက်သို့ စီးဆင်းလာကြသည်။ နမ့်တပက်ချောင်းသည် အရှေ့ဖက်တွင် မြစ်ဖျားခံ၍၎င်း၊ မိုးကောင်းချောင်းနှင့် ကောက်ကွေ့ချောင်းတို့သည် အနောက်ဖက်တွင် မြစ်ဖျားခံ၍၎င်း၊ ဧရာဝတီမြစ်အတွင်း စီးဝင်ကြသည်။ ထိုသို့သော မြစ်ချောင်းများ ဖြတ်သန်း စီးဆင်းရာ တလျှောက်တို့မှလွဲ၍ မြစ်ကြီးနား ခရိုင်သည် တောင်ထွတ်တောင်ကမ်းပါးကြီးများ၊ လျှိုကြီး မြောင်ကြီးများဖြင့် ပြည့်နှက်နေသည်။

မြန်မာနိုင်ငံတွင် အကြီးဆုံးဖြစ်သော အင်းတော်ကြီးအိုင်သည် မြစ်ကြီးနားခရိုင်၏ အနောက် တောင်ထောင့်အနီးတွင် တည်ရှိ၍၊ မြန်မာနိုင်ငံတွင် အမြင့်ဆုံးဟု ဆိုသော ပေပေါင်း ၁၉,၃၁၅ ခန့်မြင့်သည့် ခါကာဗိုရာဇီ တောင်ထိပ်သည်လည်း မြစ်ကြီးနားခရိုင် အတွင်း တည်ရှိသည်။

ခရိုင်အတွင်း ဇွန်လမှစ၍ အောက်တိုဘာလအထိ မိုးသည်းထန်စွာ ရွာသွန်းသည်။ ပျမ်းမျှ မိုးရေချိန်မှာ တနှစ်လျှင် လက်မ ၈၀ ဖြစ်၍ မြောက်ဖက်ပိုင်း အချို့ဒေသများတွင် တနှစ်လျှင် လက်မ ၁၆၀ အထိ ရွာသွန်းလေသည်။ နိုဝင်ဘာလမှ ဖေဖွာရီလအထိ ပျမ်းမျှ အများဆုံး အပူချိန်မှာ ၇၃ ဒီဂရီဖြစ်၍၊ အလားတူ ကာလအတွင်း ပျမ်းမျှ အနည်းဆုံး အပူချိန်မှာ ၅၆ ဒီဂရီဖြစ်သည်။ ကျန်လများ အတွက် ပျမ်းမျှ အများဆုံးအပူချိန်နှင့် ပျမ်းမျှအနည်းဆုံးအပူချိန်တို့မှာ ၈၈ ဒီဂရီနှင့် ၇၁ ဒီဂရီ အသီးသီးဖြစ်လေသည်။

မြစ်ကြီးနား ခရိုင်၏ လူဦးရေမှာ ၁၉၅၆ ခုနှစ် ခန့်မှန်းခြေအရ ၃၄၈,၀၆၀ ဖြစ်၏။ လူဦးရေအများစုမှာ ကချင်လူမျိုးဖြစ်၍၊ ရှမ်း၊ မြန်မာ၊ အဇီ၊ လရှီ၊ လီရှော၊ မရူ၊ မိုင်းသာ၊ ဖွန်း စသော လူမျိုးများလည်း နေထိုင်လျက် ရှိသည်။ ခရိုင်အတွင်း မှီတင်း နေထိုင်ကြသော လူများစုသည် လယ်ယာ ခြံမြေ တည်ထောင်စိုက်ပျိုးခြင်းဖြင့် အသက်မွေးမှုကြသော တောင်သူ လယ်သမားများသာ ဖြစ်၏။ စိုက်ပျိုး လုပ်ကိုင်သော မြေကေပေါင်းမှာ ၁၇၅,၉၅၄ ကေ ဖြစ်သည်။ မြေပြန့်ဒေသများတွင် စပါး၊ မြေပဲ၊ ကြံ စသည်တို့စိုက်ပျိုး၍ တောင်တန်းဒေသများတွင် တောင်ယာခုတ်ကာ တောင်ယာစပါး၊ နှမ်း၊ ပဲ၊ ပြောင်း၊ ပိန်းဥ စသည်တို့ကို စိုက်ပျိုး လုပ်ကိုင်သည်။ မြေပြန့်ဒေသရှိ လယ်မြေများတွင် မျိုးကောင်း မျိုးသန့်များ ပိုမို တိုးချဲ့ စိုက်ပျိုးခြင်း၊ မြေဩဇာ သုံးစွဲခြင်း၊ ပိုးမွှားရောဂါ နှိမ်နင်းပေးခြင်းတို့ဖြင့် စပါး ပိုမိုထွက်ရှိရေးကို ဆောင်ရွက်လျက် ရှိသည်။ တောင်ယာ ခုတ်လုပ် စိုက်ပျိုးရာတွင်လည်း လှေခါးထစ်စံနစ်ဖြင့် ပိုမိုကောင်းမွန်သော မျိုးကောင်း မျိုးသန့် စပါးများသာမက၊ တောင်တန်း ဒေသနှင့် သင့်လျော်သော ကာဖီ၊ လက်ဖက် လိမ်မော်၊ သစ်ကြား၊ ပန်းသီး၊ သစ်သော့သီးများအပြင် ဆေး၊ ဂန္ဓမာ၊ စမုံစပါး၊ ပွေးကိုင်းနှင့် အခြားအဖိုးတန် ဘယဆေးပင်များကိုပါ စိုက်ပျိုးနိုင်အောင် ကူညီ



ဧရာဝတီမြစ် မြစ်ဖျားခံရာဖြစ်သော မေခ—မလိခမြစ်နှစ်သွယ်တို့ မြစ်ကြီးနားခရိုင်တွင်း လာရောက်၍ မြစ်ချင်းဆုံရာ မြစ်ဆုံအရပ်

အားပေးလျက် ရှိသည်။ မြစ်ကြီးနား ခရိုင်၌ ၁၉၆၁–၆၂ မိုးရာသီတွင် မိုးမြေပဲ ၃၅,၉၃၇ ဧကစိုက်ပျိုးခဲ့၍၊ ၁၉၆၂–၆၃ ဆောင်းရာသီ၌ ကေပေါင်း ၃,၅၀၀ တိုးချဲ့ စိုက်ပျိုးခဲ့သည်။ မြစ်ကြီးနားခရိုင်တွင် ကြံစိုက်ပျိုးသော ဧကပေါင်းမှာ — ၁၁,၃၆၂ ဖြစ်သည်။ အဓိကအားဖြင့် ကချင်ပြည်နယ်တွင် စိုက်ပျိုးသော ကြံပင်များသည် နမ္မတီး၊ ဆားမော် စသည့် သကြားစက်များ၌သကြားထုတ်လုပ်ရန်အတွက် ဖြစ်သည်။ ၁၉၆၁–၆၂ ခုနှစ်တွင် နမ္မတီး သကြားစက်မှ သကြားတန်ချိန် ၁,၀၄၁,၉၄၁ ထွက်ရှိခဲ့၏။

မြစ်ကြီးနား ခရိုင်အတွင်း ပယင်းကို ဟူးကောင်း မြေပြန့်နှင့် မိုင်းကွမ်းတို့တွင် တွေ့ရသည်။ ကျောက်စိမ်းတွင်းများမှာ မိုးကောင်းမြို့နယ် ဖာကန့်၊ လုံခင်း၊ ဝှေခါနှင့် တာမခံ စသည်တို့တွင်.ရှိသည်။

မြစ်ကြီးနားမြို့မှာ မန္တလေးမြို့နှင့် မီးရထားလမ်း မိုင်ပေါင်း ၃၃၇ မိုင် ဝေးကွာ၍၊ မီးသင်္ဘောများ အမြဲတစေ သွားလာ ဝင်ထွက်နေသော မြို့ဖြစ်သည်။ မြစ်ကြီးနားမှ ဆင်ဘိုသို့ သင်္ဘောဖြင့် သွားလာနိုင်၏။ မြစ်ကြီးနားနှင့် ပူတာအို မြို့များတွင် လေဆိပ်များ ရှိသည်။ ရေလမ်း လေလမ်းများအပြင် အရေးကြီးသော တောင်ကြားလမ်းများလည်း ရှိသည်။ မြစ်ကြီးနားမှ မိုးကောင်း၊ မိုင်းကွမ်းတို့ကို ဖြတ်၍ အိန္ဒိယနိုင်ငံအတွင်းရှိ လီဒိုမြို့သို့ရင်း၊ မြစ်ကြီးနားမှ ဆွန်ပရာဘုံကို ဖြတ်၍ ပူတာအိုသို့ရင်း တောင်ကြားလမ်း



မြစ်ကြီးနားခရိုင်တွင်း ရေလမ်းခရီးသွားရာ၌ ဤကဲ့သို့ရေတိမ်သွား ဝမ်းပြားသင်္ဘောများဖြင့် သွားရသည်။ အထက်ပါပုံမှာ မြစ်ကြီးနားမြို့ ရောဦး အပန်းဖြေရိပ်သာဖက်မှ သင်္ဘောဆိပ်ကို ရှုမြင်ရပုံဖြစ်သည်။

များ ရှိသည်။ ထိုပြင် ခရိုင်အတွင်း ကုန်းလမ်း အဆက်အသွယ် ကောင်းမွန်လာအောင် ပြုပြင်ခြင်း၊ လမ်းသစ်များ အသွယ်သွယ် ဖြာ၍ တိုးပွားလာအောင် ဖောက်လုပ်ခြင်းတို့ကို ဆောင်ရွက်လျက်ရှိ၏။

မြစ်ကြီးနား ခရိုင် တခုလုံး၌ အထက်တန်းကျောင်း ၁၀ ကျောင်း၊ အလယ်တန်းကျောင်း ၁၆ ကျောင်းနှင့် မူလတန်းကျောင်း ၂၁၁ ကျောင်းအထိ ဖွင့်လှစ်ထားရှိပြီး ဖြစ်လေသည်။

မြစ်ကြီးနား ခရိုင်အတွင်းရှိ ထင်ရှားသော မြို့များမှာ ခရိုင် ရုံးစိုက်မြို့လည်းဖြစ်သော မြစ်ကြီးနား၊ မိုးကောင်း၊ မိုးညှင်း၊ ကာမိုင်း၊ ဆဒုံး၊ ပူတာအိုနှင့် ဆွန်ပရာဘုံ စသည်တို့ ဖြစ်သည်။

**မြစ်ကြီးနားမြို့။** ။မြစ်ကြီးနားမြို့သည် မြန်မာ နိုင်ငံ မြောက်ပိုင်း ကချင်ပြည်နယ်တွင် ရှိ၍၊ ထိုပြည်နယ်၏ အလယ်ဗဟိုသို့ စီးဆင်းလာသည့် ဧရာဝတီမြစ်ကမ်းဘယ်တောင်ကုန်းများ ဝန်းရံလျက်ရှိသည့်မြေပြန့်တွင် တည်ရှိသည်။ ဗန်းမော်မြို့မှ ၁၃၅ မိုင်ကွာဝေး၏။ မေခနှင့် မလိခ မြစ်ဆုံမှ ၂၆ မိုင်မျှသာ ဝေးသည်။ ထိုမြို့သည် ရှေးမြန်မာဘုရင်များ လက်ထက်ကပင် တည်ရှိခဲ့သည်။ ၁၇၉၂ ခုနှစ် မတိုင်မီက ရှမ်း-မြန်မာရွာကလေး တရွာမျှသာ ဖြစ်၍၊ မြစ်ကြီးနားဟု တွင်ခဲ့သည်မှာလည်း မြစ်ကြီး (ဧရာဝတီ) အနားတွင်ရှိသော ကြောင့်ဟု ဆိုသည်။ ဗြိတိသျှ အစိုးရတို့ သိမ်းပိုက်ပြီးနောက်တွင် တဖြည်းဖြည်း အရေးပါလာ၍၊ ဗြိတိသျှတို့ အုပ်စိုးနေသော အချိန်တွင် အရေးပိုင်ရုံးစိုက်ရာ မြို့တမြို့ ဖြစ်ခဲ့လေသည်။

မြစ်ကြီးနား မြို့သည် ကချင်ပြည်နယ်၏ အကြီးဆုံးသော မြို့ဖြစ်သည်။ ၁၉၄၈ ခုနှစ် ဇန္နဝါရီလ ၄ ရက်နေ့တွင် မြန်မာ ပြည်လွတ်လပ်ရေး ရရှိပြီးသည့်နောက် ဇန္နဝါရီလ ၁၀ ရက်နေ့၌ "ကချင်ပြည်နယ်" ဟုပေါ်ပေါက်လာသည့် အချိန်အခါမှစ၍ မြစ်ကြီးနားမြို့သည် ကချင်ပြည်နယ်၏ မြို့တော်ဖြစ်လာသည်။ ကချင်ပြည်နယ် အစိုးရရုံးစိုက်ရာ အတွင်းဝန်များရုံးနှင့် အခြားအစိုးရရုံးများ၊ ပြည်သူ့ဆေးရုံ၊ အကျဉ်းထောင်တို့ တည်ရှိသည်။ ခရိုင်ဝန်ရုံးစိုက်ရာ မြို့လည်း ဖြစ်သည်။ ထိုပြင် ဥပစာကောလိပ်၊ ဆရာဖြစ်သင်သိပ္ပံကျောင်း၊ အထက်တန်းကျောင်းများ၊ အလယ်တန်း ကျောင်းများနှင့် မူလတန်း ကျောင်းများလည်း ရှိသည်။ မြန်မာပြည်မြောက်ဖက်နယ်နိမိတ်နှင့် နီးစပ်၍ ပြည်ထောင်စု လုံခြုံရေး အတွက် အရေးပါသော ဒေသတခု ဖြစ်သည့် အလျောက် စစ်စခန်းချရာမြို့လည်း ဖြစ်သည်။

မြစ်ကြီးနားမြို့သည် မီးရထားလမ်းဆုံးမြို့ ဖြစ်သည်။ မီးရထားလမ်းအတိုင်း မန္တလေးမြို့မှ ၃၃၇ မိုင် ဝေးကွာ၍၊ ရန်ကုန်မြို့မှ ၇၂၄ မိုင်ဝေးသည်။ ရှေးက ကချင်တောင်တန်းဒေသများနှင့် မြန်မာပြည်ထွက် ပစ္စည်းများ ဖလှယ်ရောင်းဝယ်ရာဌာန ဖြစ်ခဲ့၏။ မြစ်ကြီးနား မြို့မှာ မီးသင်္ဘောများ အမြဲတစေ ဝင်ထွက်သွားလာနေသော မြို့ဖြစ်သည်။ မြစ်ကြီး



မြစ်ကြီးနားမြို့သည် ကချင်ပြည်နယ်၏ မြို့တော်ဖြစ်သည် အားလျော်စွာ ကချင်လူမျိုးများစု နေထိုင်ရာမြို့ဖြစ်သည်။

နားမှ ဆင်ဘိုသို့ သင်္ဘောဖြင့် သွားလာနိုင်သည်။ ကချင်ပြည်နယ်မှ ထွက်သော ကုန်ပစ္စည်းတို့၏ ၃ ပုံ ၂ ပုံခန့်ကို မြစ်ကြီးနားမြို့မှ မော်တော်ကား၊မီးသင်္ဘောငယ်များ၊ မီးရထားနှင့် လေယာဉ်ပျံတို့ဖြင့် အခြားမြို့များသို့ တင်ပို့ရလေသည်။ အိန္ဒိယနှင့် တရုပ်နိုင်ငံတို့သို့ ကုန်းလမ်းခရီးဖြင့်သွားရာတံခါးပေါက်မြို့လည်း ဖြစ်သည်။ လွတ်လပ်ရေး ရရှိပြီးနောက် ပြည်ထောင်စု အစိုးရ၏ ကြိုးစားဆောင်ရွက်ချက်ကြောင့် အိန္ဒိယနိုင်ငံသို့ လီဒိုလမ်းမကြီးမှ မော်တော်ကားဖြင့် သွားလာနိုင်ပြီးလျှင် ဗန်းမော်မြို့ကို ဖြတ်၍ ရှမ်းပြည်မြောက်ပိုင်းသို့ မော်တော်ကားဖြင့် အဆက်အသွယ်ပြုကာ အောက်မြန်မာပြည်အထိ မော်တော်ကားလမ်း ခရီးပေါက်လေသည်။ ပြည်နယ်အတွင်း ဗန်းမော်၊ ပူတာအို၊ ဆွန်ပရာဘုံ၊ ကာမိုင်း၊ မိုးကောင်း စသည့်မြို့များသို့ မော်တော်ကားလမ်း ခရီးဖြင့် သွားလာနိုင်သည်။ မြန်မာနိုင်ငံတွင် လေယာဉ်ပျံကွင်း အများဆုံးရှိသော မြို့တမြို့ဖြစ်၏။ စစ်အတွင်းက မဟာမိတ်တပ်များ မြစ်ကြီးနားမြို့တွင် တပ်စခန်းချခဲ့သည့်အလျောက် မဟာမိတ်တပ်များက လေယာဉ်ကွင်း ၆ ကွင်း ဆောက်လုပ်ခဲ့လေသည်။ ယခု အသုံးပြုသော လေယာဉ်ကွင်းမှာ အကြီးဆုံးသော ကွင်းဖြစ်သည်။

မြန်မာနိုင်ငံ အရပ်ရပ်မှ မြစ်ကြီးနားမြို့သို့ ဂျုံ၊ ခေါက်ဆွဲ၊ ရေနံဆီ၊အထည်အလိပ်၊သကြားဂါ၊ ဆားတို့ကို တင်ပို့လျက်၊ မြစ်ကြီးနားမှ သကြား၊ ဆန်စပါး၊ ကျောက်စိမ်း၊ ပယင်း အမျိုးမျိုး၊ မြေပဲ၊ ကော်ဖီ၊ ကျွန်းသစ်၊ အသီးအနှံမျိုးစုံတို့ကို မြန်မာနိုင်ငံပြည်မသို့ရင်း၊ ပြည်နယ်အတွင်း အခြား ဒေသများသို့ရင်း တင်ပို့ ရောင်းချရလေသည်။

ကချင်ပြည်နယ်သူ ပြည်နယ်သားများ အသုံးပြုလျက်ရှိသောကုန်ပစ္စည်း၊ ဆေးဝါးအစရှိသည်တို့ကို မြစ်ကြီးနားမှ တဆင့် ဝေ ဖြန့်ဖြူးလျက်ရှိသည်။ ထိုမြို့မှာ မြို့ကြီးတမြို့ဖြစ်သည့်အလျောက် လူမျိုးပေါင်းစုံ နေထိုင်သော မြို့တမြို့ဖြစ်လေသည်။

၁၉၆၃ ခုနှစ် သန်ကောင် စာရင်းအရ မြစ်ကြီးနားမြို့၌ လူဦးရေမှာ ၁၇,၀၉၃ ယောက်ရှိလေသည်။ မြစ်ကြီးနားမြို့ရှိ သီရိဓမ္မာသောကမင်းကြီး တည်ထား ခဲ့သော ဆုတောင်းပြည့်စေတီမှာ အလွန်ကြည်ညိုဖွယ်ကောင်း၍၊ နှစ်စဉ် ဘုရားပွဲတော်ကျင်းပလေ့ ရှိသည်။

**မြစ်ငယ်မြစ်။** ။မြစ်ငယ်မြစ်ကို ဒုဌဝတီ (တုဌဝတီ) မြစ်ဟုလည်း ခေါ်သည်။ ဧရာဝတီမြစ်၏ အရေးကြီးသော မြစ်လက်တက်များတွင် တခု အပါအဝင်ဖြစ်သည်။ မိုင်ပေါင်း ၁၃၁ ခန့် ရှည်လျား၏။ မြောက်ပိုင်း ရှမ်းပြည်၊ မြောက်သိန္နီနယ်၌ သိန္နီအရှေ့ဖက် ၂၅ မိုင်အကွာ သံလွင်မြစ်အနီး တောင်ကုန်းများတွင် မြစ်ဖျားခံသည်။ ဦးစွာ၌ မြောက်သိန္နီနယ်ကို ဖြတ်လျက် တောင်ပိုင်နယ်သို့ စီးဝင်ပြီးလျှင် သီပေါနယ်တွင်း၌ တောင်ဖက်သို့ ဖြတ်ကျော် စီးဆင်းသွားလေသည်။ မြောက်သိန္နီနှင့် သီပေါနယ်များရှိ အရေးပါသော မြို့များသည် ထိုမြစ်၏ကမ်းပေါ်တွင် တည်ရှိကြသည်။ ထိုနောက် မြစ်ငယ်မြစ်သည် သီပေါနှင့် ရပ်စောက်နယ်များကို နယ်နိမိတ် ပိုင်းခြား သတ်မှတ် စီးဆင်းပြီးလျှင် တဖန် မန္တလေးနှင့် ကျောက်ဆည်ခရိုင်တို့ကို နယ်နိမိတ် ပိုင်းခြားကာ စီးဆင်းပြန်၍ နောက်ဆုံးတွင် မန္တလေးမြို့၏ တောင်ဖက် ၁၂ မိုင်ခန့်အကွာ စစ်ကိုင်းမြို့နှင့် မျက်နှာချင်းဆိုင် နေရာ အင်းဝမြို့ အထက်နား၌ ဧရာဝတီမြစ်အတွင်းသို့ စီးဝင်လေသည်။ သိန္နီနယ်တွင် ဖြတ်သန်းလာသော မြစ်အထက်ပိုင်းကို နမ့်တူမြစ်ဟု ခေါ်၍၊ သီပေါနယ်တွင် ဖြတ်သန်းနေသော မြစ်အလယ်ပိုင်းကို ဒုဌဝတီ (တုဌဝတီ)ဟု ခေါ်ပြီးလျှင် အောက်ပိုင်းကို မြစ်ငယ်မြစ်ဟု ခေါ်သည်။

မြစ်ငယ်မြစ်ဟုခေါ်သော အောက်ပိုင်းတွင် လှေငယ်တက်စင်းများ သွားလာ စုန်ဆန်ရန် အသုံးဝင်သော်လည်း အထက်ပိုင်းတွင်မူကား၊ မြစ်ကျဉ်းများ၊ ကျောက်ဆောင်များ ပေါများသောကြောင့် ကူးသန်းသွားလာရန် အလျဉ်း အသုံးမဝင်ချေ။ သို့သော် ကြည်လင် အေးမြသော ရေအယဉ်ဖြင့် တသွင်သွင် စီးဆင်းနေသော ဒုဌဝတီ (နမ့်တူ) မြစ်မှာ ရှမ်းပြည် မြောက်ပိုင်း၏ အလှကျက်သရေကို ဆောင်သည်ဟု ဆိုသင့်လေသည်။

ရန်ကုန်-မန္တလေး မီးရထားလမ်းသည် ဧရာဝတီမြစ်အတွင်းသို့ မြစ်ငယ်မြစ် စီးဝင်သည့် နေရာ အနီးတွင် ဖြတ်ကျော်သွားသည်။

မြစ်ငယ်မြစ်၏ အရေးကြီးသော မြစ်လက်တက်မှာ သီပေါမြို့၏ အရှေ့ဖက်နားတွင် အရှေ့ဖက်မှ စီးဝင်လာသော နမ့်မမြစ် ဖြစ်သည်။

**မြစ်ငယ်မြို့။** ။မြစ်ငယ်မြို့သည် မန္တလေးခရိုင် အတွင်း၌ တည်ရှိ၍ မြို့နယ် အုပ်ချုပ်ရေးအရာရှိများ ရုံးစိုက်သောမြို့ မဟုတ်သော်လည်း မြန်မာနိုင်ငံတွင် အရေးပါသော မြို့တမြို့ဖြစ်သည်။ မြစ်ငယ်မြစ်နှင့်မီးရထားလမ်း ဆုံသောနေရာတွင် တည်ရှိ၍ မန္တလေးမြို့မှ ၉ မိုင်ကွာဝေးသည်။ မြစ်ငယ်မြစ်ကို မြစ်ငယ်တန်တားဖြင့် ဖြတ်ကူးထားသည်။ ဒုတိယ ကမ္ဘာစစ်အတွင်းက ထိုတန်တားကို ရန်သူများက မကြာခဏ လေယာဉ်ပျံများ ဖြင့်ဗုံးကြဲဖျက်ဆီးခဲ့သည်။ မြစ်ငယ်မြို့တွင် မြန်မာပြည် မီးရထား အလုပ်ရုံများ ရှိသောကြောင့် မီးရထားအရာရှိနှင့် အလုပ်သမား များစွာနေထိုင်ကြသည်။ ၁၉၆၃ ခုနှစ် သန်ကောင် စာရင်းအရ လူဦးရေ ၄,၇၃၇ ယောက် ရှိသည်။

**မြစ်မခမြစ်။**　။မြစ်မခမြစ်ကို တနေရာ၌ ရန်ကုန် မြစ်ဟုခေါ်၍ တနေရာ၌ လှိုင်မြစ်ဟု ခေါ်သည်။ မြန်မာ နိုင်ငံ၏ မြို့တော် ဖြစ်သော ရန်ကုန်မြို့သည် ထိုမြစ်၏ လက်ဝဲဖက်ကမ်းပေါ်တွင် တည်ရှိသည်။ မြစ်မခမြစ်သည် ရန်ကုန်မြို့ အနောက်မြောက်ဖက် မိုင် ၁၅၀ ခန့်အကွာ ပြည်ခရိုင်အတွင်း အင်းမကန်နှင့် မဝေးလှသော နေရာတွင် မြစ်ဖျား ခံသည်။ ထိုနောက် အရှေ့တောင်ဖက် ပြည်၊ သာယာဝတီ၊ အင်းစိန် ခရိုင်တို့၏ ကုန်းနိမ့်ပိုင်း အလယ်ဗဟိုကို ဖြတ်၍ စီးဆင်းသွားသည်။ ရန်ကုန်-ပြည် မီးရထားလမ်းနှင့် ရေဝတီမြစ်တို့ကို ခွဲခြားထား၏။ ထိုမြစ်ကို မြောက်ဖက်၌ မြစ်မခဟုခေါ်သည်။ မြစ်မခမြစ်နှင့် ရေဝတီ မြစ်တို့ကို ရေဝေကုန်းတန်း တခုက ပိုင်းခြားထားသည်။ မြစ်မခမြစ်သည် သာယာဝတီ ခရိုင်တွင် အရေးပါသော ရေလမ်းဖြစ်၏။ ထိုမြစ်အတွင်းသို့ အရှေ့ဖက်ရှိ ပဲခူးရိုးမမှ ချောင်းများ စီးဝင်ကြသည်။ ထိုနယ်အတွင်းရှိ သစ်တောများမှ သစ်များကို ထိုမြစ်မှပင် ထုတ်ယူကြသည်။ စံရွှေးရွာသည် ထိုနယ်တွင် မြစ်ကမ်းပါးပေါ်ရှိ အရေးအကြီးဆုံး ရွာဖြစ်သည်။ ထိုရွာသည် သစ်တောအခွန်ဆိပ်လည်းဖြစ်၏။ ထိုနေရာ၏ တောင်ဖက်တွင် ထိုမြစ်ကိုပင် လှိုင်မြစ်ဟုခေါ်သည်။ ထိုအပိုင်းရှိ မြစ်အတွင်းတွင် သင်္ဘောငယ်များ ခုတ်မောင်းနိုင်သည်။ ရေဝတီမြစ်နှင့် လှိုင်မြစ်တို့ကို ချောင်းအမြောက်အမြားက ဆက်သွယ် ပေးလျက်ရှိကြသည်။ နောက်ဆုံး ရန်ကုန်မြို့၏ အထက်ဖက်တွင် ပန်းလှိုင်မြစ်သည် ထိုမြစ်အတွင်းသို့ စီးဝင်လာ၏။ ထိုသို့ စီးဝင်လာသော နေရာသည် ကြည့်မြင်တိုင် အနောက်ပိုင်း ဆင်ခြေဖုံးနှင့် မျက်နှာချင်းဆိုင် လောက်တွင် တည်ရှိသည်။ ထိုနောက်တွင် ထိုမြစ်ကို ရန်ကုန်မြစ်ဟုခေါ်သည်။ သင်္ဘောကျင်းများ တည်ရှိရာ ဒလမြို့သည် မြစ်၏ လက်ျာဖက်ကမ်း တွံ့တေးတူးမြောင်း၏အဝအနီးတွင် တည်ရှိသည်။ မြစ်သည် ရန်ကုန်မြို့၏ အနောက်ဖက်စွန်းကို ထိ၍ အရှေ့ဖက်သို့ အနည်းငယ် စောင်းကာစီးသွားသည်။ ထိုသို့ စီးသွားရာတွင် ပုဇွန်ထောင် ချောင်းနှင့် ပဲခူးမြစ်တို့သည် ရန်ကုန်မြို့၏ အရှေ့ဖက် ဟေ့စတင်း ခေါ် ပင်လယ်ကူးသင်္ဘောများ ကျောက်ချရာ သောင်တိမ်၏ အောက်နားတွင် စီးဝင်ကြသည်။ ထိုနောက်တွင် ရန်ကုန်မြစ်သည် အရှေ့တောင်ဖက်သို့ စီးသွားကာ နောက်ဆုံး မုတ္တမပင်လယ်ကွေ့အတွင်းသို့ စီးဝင် သွားလေသည်။ ပင်လယ်ကူး သင်္ဘောများသည် ရန်ကုန်မြစ်အတွင်းသို့ ရန်ကုန်မြို့အထိသာ ဝင်ရောက်နိုင်ကြသည် ဖြစ်ရာ ၂၁ မိုင်မျှသော ထိုရေလမ်းခရီးကို သင်္ဘောများ ဘေးကင်းစွာ ခုတ်မောင်းနိုင်ရန် ကျွမ်းကျင်သည့် ရေကြောင်းပြများ လိုလေသည်။

**မြစ်ဝါ။**　။ဟွန်ဟိုမြစ် — ရှု။

**မြစ်သားမြို့။**　မြစ်သားမြို့သည် ကျောက်ဆည် ခရိုင် မြစ်သားမြို့နယ်၏ ရုံးစိုက်မြို့ဖြစ်သည်။ ကျောက်ဆည်မြို့၏ တောင်ဖက် ၁၂ မိုင် အကွာတွင် ရန်ကုန်-မန္တလေး မီးရထားလမ်းနှင့်မြင်းခြံ-မန္တလေး ကားလမ်းတို့ဆုံရာ ပန်းလောင်မြစ်၏ အထက်ဆုံးဆည်ဖြစ်သော 'ကင်းတား' ဆည်မှ ခွဲထွက်လာသော ပြောင်းပြာ မြောင်းမတော် အဆုံး၌ တည်ရှိသည်။ ထိုမြောင်းမတော်ကြောင့် တောင်သူလယ်သမားများ စိုက်ပျိုးလုပ်ကိုင် စားသောက်နိုင်ကြသည်။ ရန်ကုန်- မန္တလေး မီးရထားလမ်းသည် မြစ်သားမြို့ကို ဖြတ်သွားသဖြင့် မြို့နယ်ကို အရှေ့ပိုင်းနှင့် အနောက်ပိုင်းဟူ၍ နှစ်ပိုင်း ခြားထားသကဲ့သို့ ရှိနေ၏။ မြို့နယ်၏ အကျယ်အဝန်းမှာ ၃၄၄ စတုရန်းမိုင်ဖြစ်၍၊ မြို့နယ်အတွင်း၌ ကျေးရွာပေါင်း ၉၆ ရွာ ပါဝင်သည်။ လူဦးရေမှာ ၁၉၅၆ ခုနှစ် ခန့်မှန်းခြေ သန်ကောင်စာရင်းအရ ၆၄,၃၄၉ ယောက် ဖြစ်၏။

မီးရထားလမ်း အရှေ့ဖက်ရှိ မြစ်သားမြို့နယ်မှာ မိုးအလွန်ပါးသော အရပ်ဖြစ်သော်လည်း ပန်းလောင်မြစ်မှ ရေသွယ်မြောင်းများဖြင့် ကောက်ပဲသီးနှံပင်များကို စိုက်ပျိုးနိုင်ကြသည်။ ထိုအပိုင်းမှာမြေညီရပ်ဖြစ်၍ အရှေ့ဖက်တွင် ရှမ်းကုန်းပြင်မြင့် ရှိသည်။ မီးရထားလမ်း အနောက်ဖက် အပိုင်းတွင် ကား စမုန်မြစ်နှင့် စမာတူးမြောင်းတို့မှ ရေရသည်။

မြစ်သားမြို့၏ အကျယ်အဝန်းမှာ တောင်နှင့်မြောက် ၁ မိုင် ၂ ဖာလုံခန့်၊ အရှေ့နှင့် အနောက် ၆ ဖာလုံခန့်ရှိ၍ မြေပြန့် အရပ်ဖြစ်၏။ ပန်းလောင်မြစ်သည် ပတ်ဝိုက်ကာ အရှေ့တောင်မှ အနောက်မြောက်သို့ စီးဆင်းသွားသည်။ မြို့နယ်ရုံးစိုက်မြို့ ဖြစ်သည်အလျောက် အစိုးရရုံးများ၊ဆေးရုံ၊ အထက်တန်းကျောင်း၊ ဆန်စက်များ စသည်တို့ရှိသည်။ မြို့လယ် အရှေ့ဖျား၌ သီရိဝမ္မာသောကမင်းကြီး တည်ခဲ့သည်ဟု ဆိုသော ရွှေမုဋ္ဌောစေတီတော်ကြီး တည်ရှိ၏။ နှစ်စဉ်တပို့တွဲ လဆန်း ၈ ရက်နေ့မှ လပြည့်ကျော် ၂ ရက်နေ့အထိ ဘုရားပွဲတော် စည်ကားသိုက်မြိုက်စွာ ကျင်းပလေ့ ရှိလေသည်။မြစ်သားမှ မြင်းခြံသို့ မော်တော်ကားလမ်းရှိ၍ ၅၃ မိုင်ဝေးသည်။အိမ်ခြေပေါင်း ၁,၂၀၀ ခန့်ရှိ၍၊လူဦးရေမှာ ၁၉၅၃ ခုနှစ် သန်ကောင် စာရင်းအရ ၄,၃၀၂ ယောက်ရှိသည်။

**မြည်း။**　။ခရစ်တော် မပေါ်မီ နှစ်ပေါင်း များစွာ အထက်က အီဂျစ်လူမျိုးတို့သည် မြည်းကို ယဉ်ပါးအောင် ပြုလုပ်ခိုင်းစေခဲ့ကြောင်းကို ထိုတိုင်းပြည်ရှိ အလွန်ရှေးကျသော သင်္ချိုင်းဂူများအတွင်း၌ ကျောက်နံရံတို့တွင် မြည်းပုံများ ထွင်းထုထားခဲ့ကြသည်ကို တွေ့မြင်ရခြင်းဖြင့် သိရှိရလေသည်။ ထို့ကြောင့် မြည်းသည် မြင်းထက် အလျင် လူတို့၏ မိတ်ဆွေဖြစ်ခဲ့ကြောင်း ထင်ရှား၏။ အီဂျစ် နိုင်ငံတွင် နိုင်းမြစ်ကမ်းအရှေ့ဖက်ရှိ နူဗီယန် သဲကန္တာရများနှင့် အာရှတိုက်

အလယ်ပိုင်း ပူပြင်းခြောက်သွေ့သော အရပ်များသည် ယနေ့ထက်တိုင် မြည်းရိုင်းများ ကျက်စားရာ အရပ်ဒေသများဖြစ်ကြသည်။ မြည်းကို အများက ထူသည် ထုံသည်ဟု စွပ်စွဲပြောဆိုလေ့ ရှိကြသော်လည်း မြည်းရိုင်းများကို တွေ့မြင်ဘူးသူ ခရီးသည်များကမူ ထိုစွပ်စွဲချက်မှာ လုံးဝမမှန်ဟု ဆိုပေလိမ့်မည်။ အဘယ်ကြောင့် ဆိုသော် မြည်းရိုင်းများသည် အလွန် လျင်မြန်ဖျတ်လတ်သော တိရစ္ဆာန်များဖြစ်၍ ရဲရဲရင့်ရင့်လည်းရှိကြသည်ကို တွေ့မြင်ရခြင်းကြောင့် ဖြစ်သည်။ ထိုပြင် မြင်းထက် မိုး ရာသီ၏ဒဏ်ကို ခံနိုင်ရည်ရှိသည်။ အစာကျွေးရာတွင်လည်း မြင်းကဲ့သို့ ဂရုစိုက်ကျွေးရန် မလိုချေ။ လူတို့ယဉ်ပါးအောင် ပြုလုပ်၍ ခိုင်းစေလျက်ရှိသော မြည်းများမှာ အာဖရိကတိုက် အက်ဗီဆီးနီးယား နိုင်ငံရှိ မြည်းမျိုးမှ ဆင်းသက်လာသော အမျိုး ဖြစ်လေသည်။ မြည်းသည် ပုံသဏ္ဌာန်အားဖြင့် မြင်းကျားနှင့်တူ၏။ သို့သော် ကိုယ်ပေါ်၌ အစင်းကျားများ မပါရှိချေ။ မြင်းထက် ကိုယ်ထည် သေးငယ်၍၊ အများအားဖြင့် ညိုမွဲမွဲအသွေးရှိသည်။ မြည်းများတွင်ရှည်၍ထောင်နေသော နားရွက်များရှိ၍ မြင်းထက် လည်ဆံတိုသည်။ အင်္ဂလန်ပြည်သို့ ၁၄ ရာစုနှစ်များအတွင်း၌ မြည်းများစတင်၍ ရောက်ရှိသွားရာ ယနေ့တိုင်အောင် ဝန်ဆွဲရန်အတွက်မြည်းကိုအသုံးချလျက်ရှိကြသည်။

ရှေးအခါမှ စ၍ မြည်းကို ထူထိုင်းသော တိရစ္ဆာန်ဟု သမုတ်ခဲ့ကြသည်။ အီဂျစ် လူမျိုးတို့သည် အသိဉာဏ် ကင်းမဲ့သော သူတယောက်၏ ပုံကို ရေးဆွဲသည့်အခါ၌ ထိုသူ၏ ကိုယ်တွင် မြည်းဦးခေါင်းနှင့် နားရွက်များကို တပ်ဆင်ထားလေ့ ရှိကြ၏။

ဥရောပတိုက် တောင်ပိုင်းတွင် မြည်းများကို ဂရုစိုက်မွေးမြူထားကြသဖြင့် မြည်းမျိုးကောင်းများကို ထိုအရပ်များ၌ တွေ့ရှိရသည်။ သို့ရာတွင် ဆီးရီးယားပြည်နှင့် အီဂျစ်ပြည်များ၌သာလျှင် မျိုးအကောင်းဆုံး မြည်းများကို တွေ့မြင်နိုင်လေသည်။ မြည်းနို့ရည်ကိုလည်း လူတို့ သောက်သုံးကြသည်။ အထူးသဖြင့် မသန်စွမ်းသူများအတွက် သင့်လျော်သည်။ မြည်းထီးနှင့် မြင်းမတို့ မျိုးစပ်၍ ပေါက်ဖွားလာသော သားသမီးများကို လားဟုခေါ်သည်။

သိပ္ပံအလိုအားဖြင့် မြည်းသည် အီကွိဒီးမျိုးရင်းတွင် ပါဝင်၍ လူတို့မွေးမြူခိုင်းစေလျက်ရှိသောမြည်းနှင့် အာဖရိကတိုက်ရှိမြည်းရိုင်းနှစ်မျိုးလုံးကို အီကွပ် အက်ဆိနပ်ဟု ခေါ်သည်။



တောင်ဆင်း တောင်တက်ရာတွင် လွန်စွာခြေမြဲလှသည့်မြည်း

# ဝေါဟာရ နှင့် အသံလှယ်အမည်များ

ဤကျမ်းတွင် ကမ္ဘာပေါ်ရှိ ကျယ်ဝန်းလှသော ပညာရပ်အမျိုးမျိုး၊ အကြောင်းရပ်အမျိုးမျိုးတို့ ပါဝင်သည့်ပြင်၊ မြန်မာနိုင်ငံတွင် ပဌမဆုံးပေါ်ထွက်လာရခြင်းဖြစ်သည့်အလျောက်၊ ဘာသာခြားမှ မြန်မာလိုပြန်ဆိုထားသော ဝေါဟာရသစ်များနှင့် အသံလှယ်ယူထားသော အမည်များ မြောက်မြားစွာပါရှိသည်။ ဤကျမ်းတွင်ပါဝင်သော ဝေါဟာရနှင့် အသံလှယ်ယူထားသောအမည်တို့ကို မူရင်းစကားနှင့်တကွ အောက်တွင် အက္ခရာစဉ်အတိုင်း ဖော်ပြထားသည်။ ထုတ်ဝေပြီးအတွဲများတွင် ဖော်ပြပါရှိပြီးဖြစ်သော ဝေါဟာရများနှင့် အသံလှယ်အမည်များကိုမူ အောက်ပါစာရင်း၌ ထပ်မံဖော်ပြခြင်းမပြုပါ။

## ဝေါဟာရများ

| | |
|---|---|
| ကဇော်ပေါက်ခြင်း | Fermentation |
| ကရောင်းဖန် | Crown Glass |
| ကလပ်မောင်းတံ | Clutch Pedal |
| ကာဒင်နယ်ဂိုဏ်းချုပ် | Cardinal |
| ကားသေ့လူမျိုး | Carthagenian |
| ကီလမိုတောင်ကြား | Kilmore Gap |
| ကော်ရက်ဂျီဒေါ်ခံတပ် | Corregidor, Fortress of |
| ကောဗာရီမြစ် | Cauvery, River |
| "ကောက်သင်းကောက်" | "The Gleaners" |
| ကုတ် | Lever |
| ကန်တာဗာရီ ဂိုဏ်းချုပ်ကြီး | Archbishop of Canterbury |
| ကုန်အများထုတ်စံနစ် | Mass Production |
| ကံကျေးချစံနစ် | Feudalism |
| ကမ္ဘာဦးမြင်း | Dawn Horse |
| ကျူမိုရာတောင် | Cumorah, Mt. |
| ကျောက်ဂွမ်း | Asbestos |
| ကျောက်သလင်း | Quartz |
| "ကြိုးတပင်" | "A Piece of String" |
| ကြက်မျက်သင့်ခြင်း | Nightblindness |
| ကွက်ဂါမြင်းကျား | Quagga Zebra |
| ခနောက်စိမ်း | Antimony |
| ခရီးမိုင်ပြ ဒိုင်ခွက် | Mileage Meter |
| ခါးပတ်ခုံရှည် | Conveyor Belt |
| ခင်ဂန်တောင်တန်း | Khingan Mountains |
| ချာမွန်ဒီတောင်တန်း | Chamundi Mountains |
| ချက်စပိပင်လယ်အော် | Chesapeake Bay |
| ချက်မင်မြင်းကျား | Chapman's Zebra |
| ချင်ပန်ဇီမျောက်ဝံ | Chimpanzee |
| ခြေနင်းဗရိတ်မောင်းတံ | Foot Brake Pedal |
| ဂရာမြစ် | Graa, River |
| ဂရီဗီမြင်းကျား | Grevy's Zebra |
| ဂရန့်မြင်းကျား | Grant's Zebra |
| ဂါးမြစ် | Ghir, River |
| ဂီယာမောင်းတံ | Gear Lever |
| ဂီယာအိမ် | Gear Box |
| ဂူနုန်တောင် | Cunong, Mt. |
| ဂေါ်ရီးလားမျောက်ဝံ | Gorilla |
| ဂစ်မြစ် | Ghiz, River |
| ဂျာဒင်းဆု | Jardine Prize |
| ဂျီနာတက္ကသိုလ် | Jena University |

| | |
|---|---|
| ဂျီနိုးအာတက္ကသိုလ် | Genoa University |
| ဂျီဗရော်တာရေလက်ကြား | Gibraltar, Strait of |
| "ငှက်ပြာ" | "The Blue Bird" |
| စကေလာပြဇာတ်ရုံ | The Theatre Della Scala |
| စတီယာရင်လက်ကိုင်ဘီး | Steering Wheel |
| စတက်တစ်ပညာ | Statics |
| စနက်ပေါက် | Touch Hole |
| စနက်မောင်းသေနတ် | Match Lock |
| "စေ့စပ်ကြောင်းလမ်းမင်္ဂလာ" | "The Betrothal" |
| "စေးနှဲသူ" | "L'avare" |
| စက်နှိုးခလုတ် | Self Starter |
| စက်ဝင်ရိုး | Engine Shaft |
| စက်သီးသေနှင့် စက်သီးရှင် | Fixed & Movable Pulleys |
| စက်သော့ | Ignition Key |
| စိုက်အား | Force (Effort) |
| စိုက်အားမောင်းတံ | Force Arm |
| စောင်းပြင် | Inclined Plane |
| စစ္စတင်းဘုရားကျောင်း | Sistine Chapel |
| စစ်သူကြီး | Field Marshal |
| စစ်သေနာပတိ | Commander-In-Chief |
| "စစ်အတတ်" | "The Art of War" |
| စစ်ဦးစီးမှူး | Chief of Staff |
| စိန့်ဗာသောလမျူးနေ့ လူသတ်ပွဲ | Massacre of St. B rtholomew's Day |
| စိန့်ဗစ်တာဘုရားရှိခိုးကျောင်း | Church of St. Victor |
| "စိန်လည်ဆွဲ" | "The Necklace" |

| | |
|---|---|
| စိန့်အန်တိုနီ ရေတံခွန် | St. Anthony Falls |
| စံကိုက်ကုန်လုပ် စနစ်နှင့် ကုန်အများထုတ်စနစ် | Standardization & Mass Production |
| ဆရာမှတ် | Dr. Marks |
| "ဆရာဝန်ပါသဲ့" | "Le Medicin Malgre Lui" |
| ဆီဖိအားပြဒိုင်ခွက် | Oil Pressure Gauge |
| ဆီမှိုင်း | Lamp Black |
| ဆူပီးရီးယားအိုင် | Superior, Lake |
| ဆိုမာဆက်ကျွန်း | Somerset Island |
| "ဆိုရှယ်လစ်ဝါဒနှင့် ပေါင်းသင်းဆက်ဆံရေးလောက" | "Socialism & Society" |
| "ဆိုရှယ်လစ်ဝါဒနှင့် အစိုးရ" | "Socialism & Government" |
| ဆင်ပလွန်အိုရီယင့် အမြန် မီးရထား | Simplon- Orient Express |
| ဆိုင်းနိုင်းတောင် (သိနတောင်) | Sinai Hill |
| ဆတ်ပူရတောင်တန်း | Satpura Range |
| ဆန်ဒါကျွန်း | Sunda Islands |
| "ဆန်းကြယ်ထွေလာ ကြယ်တာရာ" | "The Magic of The Stars" |
| "ဆမ္မဆန်၏သောက" | "Agony of Samson" |
| "ဆုံးရှုံးရသည့် လောကနိဗ္ဗာန်" | "Paradise Lost" |
| ဇီဝဗေဒ | Biology |
| "ဉာဏ်ပညာနှင့် ကံကြမ္မာ" | "Wisdom & Destiny" |
| ဉာဏ်သစ် အရေးပုံ | Renaissance |
| တဖက်ချွန်း (ကျောက်တုံး) | Wedge-Shaped (Stone) |
| တဖက်အမြင် | Monocular Vision |
| တရုပ်ဗဟိုဆိုဗီယက်အစိုးရ | Chinese Central Soviet Government |
| တူမီး | Percussion Cap |
| "တိုးတက်ရေးအဖွဲ့" | "Progressive Party" |

| | |
|---|---|
| တိုးနှုန်း | Acceleration |
| တိုင်အိုမန်ကျွန်း | Tioman Island |
| တွန်ဗစ်ဗီမြစ် | Tumbigbee, River |
| ထရော်လီဘတ်စကား | Trolley Bus |
| ထူးချွန်သည့် အမှုထမ်းဘွဲ့ | Distinguished Service Order (D.S.O.) |
| ထိပ်စီးကျောက်တုံး | Key Stone |
| ထုံးကျောက် | Calcium Chloride |
| ဒါ့တမတ်ရေကြောင်းအတတ်သင်ကျောင်း | Dartmouth Naval College |
| ဒိုနီဂယ်ခရိုင် | Donegal County |
| ဒိုဗာမီးပြတိုက် | Dover Lighthouse |
| ဒိုရီယန်လူမျိုး | Dorians |
| ဒက္ကန်ကုန်းပြင်မြင့် | Deccan Plateau |
| ဒိုင်အာဖရန်အမြှေးပါး | Diaphragm |
| ဓာတုဗေဒစည်းမျဉ်း | The Principles of Chemistry |
| ဓာတ်ငွေ့မီတာ | Gas Meter |
| ဓာတ်ဆီချိန်ပြဒိုင်ခွက် | Petrol Gauge |
| ဓာတ်ဆီအဝင်တိုးကရိယာ | Throttle |
| ဓာတ်ထိန်းစွမ်းရည် | Capacity |
| ဓာတ်မီးခလုတ် | Light Switch |
| နက်ဆောဘမင်းသား မောရစ် | Nassau, Prince Maurice of |
| "နတ်ပြွေ" | "Magic Flute" |
| နိုင်ငံအုပ်ထိန်းရေးဝန်ကြီး | Minister of State Control |
| နန္ဒီနွားမြတ် | Nandi Bull |
| နုန်းကျောက် | Silt Rock |
| "နွေလယ်ညအိပ်မက်" | "Midsummer Night's Dream" |
| ပစိဖိတ်တန်း | Pacific |
| "ပညာတတ်အမျိုးသမီးများ" | "Les Femme Savantes" |
| ပထဝီမြောက်ဝင်ရိုးစွန်း | Geographical North Pole |
| ပရေရီဒေသ | Prairie Region |
| ပရင့်စ အော့(ဖ) ဝေးကျွန်း | Prince of Wales Island |
| ပရပ်ရှင်းနောက်ထိုး ရိုင်ဖယ်သေနတ် | Prussian Needle Gun |
| ပလာနယ် | Vacuum |
| ပသျှူးကျွန်းဆွယ် | Malay Peninsula |
| ပဟန်မြစ် | Pahang, River |
| ပါကင် မျက်မမြင်ကျောင်း | Perkin's Institution For The Blind |
| ပီနန်ကျွန်း | Penang Island |
| ပီပင်တက္ကသိုလ် | Peiping University |
| "ပီယဲနှင့်ဇင်း" | "Pierre & Jean" |
| ပီရတ်မြစ် | Perak, River |
| ပီးဒမွန့် ကုန်းပြင်မြင့် | Piedmont Plateau |
| "ပယ်လီယတ်နှင့် မယ်လေဇင်း" | "Palleas & Melisande" |
| ပေါ်ကယူပိုင်းတောင် | Porcupine Hill |
| ပို့ဖိလစ် ပင်လယ်အော် | Port Phillip Bay |
| ပင့်ကူမျောက် | Spider Monkey |
| ပင်ကိုယ်ဉာဏ် | Instinct |
| ပတ်စကာဂိုလာမြစ် | Pasca Goula River |
| ပုပ်ရဟန်းမင်း ဒသမ လီယို | Pope Leo X |
| ပြုပြင်ပြောင်းလဲရေး အက်ဥပဒေ | Reform Act |
| ပြင်သစ် ပြည်ထောင်စု | French Community |
| ပြင်သစ်သမဂ္ဂ | French Union |

| | |
|---|---|
| ပြည်နယ်ကောင်စီအဖွဲ့ | Council of State |
| ပြည်သူ့လွှတ်တော် | House of People |
| "ဖလောရင့်သမိုင်း" | "History of Florence" |
| ဖလင့်ဖန် | Flint Glass |
| ဖာရိုမီးပြတိုက် | Pharos Lighthouse |
| "ဖိဂေးရို၏ ထိမ်းမြားပွဲ" | "The Marriage of Figaro" |
| ဖိအား | Pressure |
| ဖက်ဆစ်ကောင်စီ အဖွဲ့ကြီး | Grand Fascist Council |
| "ဖင်ဂယ်ဂူ" | "Fingal's Cave" |
| ဖတ်စနက်မီးပြတိုက် | Fastnet Lighthouse |
| ဖန်ချော် | Obsidian |
| ဖန်သီးခြောက် သာမိုမီတာ | Dry Bulb Thermometer |
| ဖန်သီးစို သာမိုမီတာ | Wet Bulb Thermometer |
| ဗရဲရာနန်းတော် | Brera Palace |
| ဗရင်နာတောင်ကြားလမ်း | Brenner Pass |
| ဗာချဲမြင်းကျား | Burchell's Zebra |
| ဗာဂျင်းနီးယားစစ်ကျောင်း | Virginia Military Institute |
| ဗာတန်ကျွန်းဆွယ် | Bataan Peninsula |
| ဗာဒမ်ပင် | Almond |
| ဗာဗရီနယ် | Berbery States |
| ဗီချီဟက်မီးပြတိုက် | Beachy Head Lighthouse |
| ဗူလတန်နှင့် ဝပ်ကုမ္ပဏီ | Boulton & Watts Company |
| ဗေးဆစ်ချော်ရည် | Basic Lava |
| ဗယ်ညာပြလုတ် | Direction Indicator (Trafficator) |
| ဗိုလ်ချုပ် | Major General |
| ဗိုလ်ချုပ်ကြီး | Lieutenant General |
| ဗိုလ်ချုပ်မှူး | General |
| ဗိုလုံးမီးပြတိုက် | Boulogne Lighthouse |
| ဗက်တင်ဗတ်မင်းသား | Prince of Battenberg |
| ဗတ္တိဇံမင်္ဂလာ | Baptism |
| ဗုဒ္ဓဘာသာ ကလျာဏယုဝ အသင်း | Young Men's Buddhist Association |
| "ဘီယာဆောင် ပုန်ကန်မှု" | "Beer Hall Putsch" |
| ဘီးဆက်မောင်းတံ | Connecting Rod |
| ဘီးလှည့်မောင်းကိုင်း | Crank |
| ဘီးလှည့်ဝင်ရိုး | Transmission Shaft |
| ဘီးသေနတ် | Wheel Lock |
| ဘုရင့်ဝါဝစ်ရှိုင်ယာတပ်မဟာ | Royal Warwickshire Regiment |
| ဘေးကင်းသောမီးခြစ် | Safety Match |
| ဘေးထွက်ပစ္စည်း | By Product |
| ဘွိုင်လာအိမ် | Boiler Barrel |
| မဂိုတန်း | Mogul |
| မလက္ကာရေလက်ကြား | Strait of Malacca |
| "မဟာဆန်ချင်သူ" | "Le Bourgeouis Gentilhome" |
| မဟာနဒီမြစ် | Mahanadi River |
| မဟာဝိဇ္ဇာဘွဲ့ | Master of Arts |
| မဟူရာ | Agate |
| မဟူရာညို | Sardonyx |
| မဟူရာနီ | Carnelian |
| မဟူရာဖြူ | Chleedony |
| မာဆရိုက်ခြည်လုပ်ခြင်း | Mercerizing |

| | |
|---|---|
| မာရှယ်စီမံကိန်း | Marshall Plan |
| မာလကာပင် | Guava |
| မာလပလာကေးတိုက်ပွဲ | Malplaquet, Battle of |
| မာလဗာရာမြို့စား | Marlborough, Duke of |
| မာလဗာရီဆိပ်ကမ်း | Mulberry Harbour |
| "မာလိန်းမင်းသမီး" | "Princess Maleine" |
| မားစမြစ် | Maas, River |
| မိကျောင်းခေါင်းတို | Alligator |
| မိကျောင်းခေါင်းရှည် | Crocodile |
| မိဆူးရီမြစ် | Missouri River |
| မိဒလူမျိုး | Medes |
| မိကာဒိုတန်း | Mikado |
| မိယာချမ် ပင်လယ်ရေမြှုပ် | Meerschaum |
| မီးကျည်မီးပန်း | Fire Works |
| မီးခိုး | Smoke |
| မီးခိုးခန်း | Smoke Box |
| မီးခတ် | Hammer Striker |
| မီးခတ်ကျောက် | Flint |
| မီးခတ်သေနတ် | Flint-Lock |
| မီးခန်း | Fire Box |
| မီးခံမြေစေး | Fire Clay |
| မီးစုန်း | Phosphorus |
| မီးတောင် | Volcanoe |
| မီးတောင်ထိပ်ဝ | Crater |
| မီးတောင်မြုံ | Dormant Volcanoe |
| မီးတောင်သေ | Extinct Volcanoe |
| မီးပေါက်လက်နက် | Firearm |
| မီးပြသင်္ဘော | Light Vessel |
| မီးပြင်းဖို | Blast Furnace |
| မီးဘေး ကာကွယ်ရေး | Fire Protection |
| မီးလှဲမီးဖို | Reverberatory Furnace |
| မုစကောင် | Moose |
| မုယော | Barley |
| မုယောပင်ပေါက် | Malt |
| မူပိုင်ခွင့် | Patent |
| မူလူးယားမြစ် | Moulouya River |
| မူးဝါးလူမျိုး | Moors |
| မေ့ဆေးထုံဆေး | Anaesthetics |
| မယ်ညိုငှက် | Purple Waterhen |
| မဲနယ် | Indigo |
| မော့စ်အချက်ပြ အမှတ်အသား | Morse Code |
| မော်မန်ဂိုဏ်း | Mormons |
| မော်ရစ်ရှပ်ကျွန်း | Mauritius Island |
| မောစကိုတူးမြောင်း | Moscow Canal |
| မောရှေ | Moses |
| မိုဇမ်ဗစ် ရေလက်ကြားကြီး | Mozambic Channel |
| မိုလယ်ကပ်ကျွန်း | Moluccus Island |
| မိုးကောင်းငှက် | Broad-Billed Roller |
| မိုးစာငှက် | Palm Swift |
| မိုးဆွေငှက် | Eastern Swallow |

| | |
|---|---|
| မိုးမခပင် | Willow |
| မိုးရေချိန်ခွက် | Rain Gauge |
| မိုးလေဝသပညာ | Meteorology |
| မက္ကင်းနစ်ပညာ | Mechanics |
| မက်ဂျာလူမျိုး | Magyars |
| မက်ထရစ်စံနစ် | Metric System |
| မက်ဒါဂက်စကာကျွန်း | Madagascar Island |
| မက်မန်းသီး | Plum |
| မက်မွန်သီး | Peach |
| မက်လင်ပင် | Baobab or Monkey-Bread Tree |
| မောက်တင် | Comb Duck |
| မိုက္ကရိုစာအုပ် | Micro Book |
| မင်ဒယ်၏ နိယမများ | Mendelian Laws (Mendelism) |
| မင်းကွတ်ပင် | Mangosteen |
| "မင်းသား" | "The Prince" |
| မောင်းထောင်းကောင် | Mantis or Praying Mantis |
| မိုင်ဆိုပြည်နယ် | Mysore State |
| မစ်စစ်စပီမြစ် | Mississipi River |
| မုခ်ခုံး | Arch |
| မန်ကျည်းပင် | Tamarind Tree |
| မိန်ငှက် | Barn Owl |
| မိန်ဇိမ်ငှက် | Great Stone Plover |
| မိန်းပင်လယ်ကွေ့ | Gulf of Maine |
| မုန်ညင်း | Mustard |
| မုန်ညင်းခါး | Rhubarb |
| မုန်လာဥနှင့် ခါးဥဖြူ | Radish & Turnip |
| မုန်လာဥနီ | Beet |
| မုန်လာဥဝါ | Carrot |
| "မမ်ဆယ်တဲလီးယား၏အိမ်" | "The House of Mme. Tellier" |
| မံမီရုပ်ကလာပ် | Mummy |
| မမွတ်ဆင်ကြီး | Mammoth |
| မလ္လာယုကျွန်းဆွယ် | Malay Peninsula |
| မျူစမြစ် | Meuse, River |
| မျိုးစေ့နှင့် မျိုးမှုန် | Seed & Spore |
| မျိုးရိုးဗေဒ | Genetics (Heredity) |
| မျိုးရိုးဗေဒဆိုင်ရာ နိယမ | Natural Laws of Heredity |
| မျိုးရိုးသန့်ပညာ | Eugenics |
| မျက်ကြည် | Cornea |
| မျက်ကွင်းဖြူမျောက် | White Eyelid Monkey |
| မျက်စိနှစ်ဖက်အမြင် | Binocular Vision |
| မျက်စိသွေးကြောလွှာ | Choroid - Coat |
| မျက်ဆန် | Pupil |
| မျက်နက်ဝန်း | Iris |
| မျက်နှာပြင်တင်းအား | Surface Tension |
| မျက်ဖြူလွှာ | Sclarotic Coat |
| မျက်ရှေခန်းနာ | Glucoma |
| မျောက်မောင်းမမျိုး | Baboon |
| မျောက်လွှဲကျော် | Gibbon |
| မျောက်ဝံမျိုး | Ape |
| မျောက်ဥ | Wing-Stemmed Yam |

| | |
|---|---|
| မြားဆိပ်ပင် | Upas Tree |
| မြီးညှောင့်ငှက်မျိုး | Wagtail |
| မြီးညှောင့်ခေါင်းမဲ | The East Siberian Grey-Headed Wagtail |
| မြီးညှောင့်ခေါင်းဝါ | The Yellow-Headed Wagtail |
| မြီးညှောင့်မွဲ | The Eastern Grey Wagtail |
| မြီးညှပ်ပိုးကောင် | Earwig |
| မြီးပွားထုံဆေး | Caudal Anaesthetics |
| မြီးဝန် | Collared Scops Owl |
| မြူနှင့်မြူထူ | Mist & Fog |
| မြေခွေး | Fox |
| မြေစေး | Clay |
| မြေဆီလွှာ | Soil |
| မြေဆွဲအား | Gravity |
| မြေတိုင်းပညာ | Surveying |
| မြေထဲပင်လယ် | Mediterranean Sea |
| မြေထုပ်ဆုံခြင်း | Gootee |
| မြေပြင်တိုင်းတာခြင်း | Topography |
| မြေမျက်နှာပြင် ပထဝီဝင် | Physiography |
| မြေလူးငှက် | Thrush |
| မြေဝပ်ငှက် | Nightjar |
| မြေဩဇာ | Fertilizer |
| မြို့ကွက်ရိုက်ခြင်း | Town Planning |
| မြို့တော်ခန်းမ | Town Hall |
| မြို့ရိုး | Fortification |
| မြောက်ပင်လယ် | North Sea |

| | |
|---|---|
| မြောက်ဝင်ရိုးစွန်း | North Pole |
| မြင်မှုပညာ | Optics |
| မြင်းကျား | Zebra |
| "မြတ်သောအိမ်ထောင်စု" | "The Holy Family" |
| ယာဇူးမြစ် | Yazoo River |
| ယာရာယာရာမြစ် | Yarra Yarra River |
| ယာလူးမြစ် | Yalu River |
| ယူတီလီတေးရီးယန်းဝါဒ | Utilitarianism |
| ယော့ဂိုဂေးနီမြစ် | Youghiogheny River |
| ရနေောင်းဘုရင်ခံဆု | Governor of Renaung's Prize |
| ရာဝင်းစက် | Rawin |
| ရီး၏ စွယ်စုံကျမ်း | Ree's Cyclopedia |
| ရာစိတ်မှု | Centigrade |
| ရာဗန်နာမီးပြတိုက် | Ravenna Lighthouse |
| ရေကြောင်းတိုင်းတာခြင်း | Hydrography |
| "ရေတို့၏ဖခင်" | "Father of Waters" |
| ရေဒါစက် | Radar |
| ရေဒီယိုအချက်ပြ | Radio Beacon |
| ရေဖျန်းဂိုဏ်း | Anglican Church |
| ရေမော် | Rapid |
| ရေအပူချိန်ပြဒိုင်ခွက် | Water Temperature Gauge |
| ရယ်စေတတ်သောဓာတ်ငွေ့ | Laughing Gas |
| "ရယ်ဖွယ်ကောင်းသော အပြာရောင် ခြေစုပ်ရှည်" | "Les Prescienses Ridicules" |
| ရစ်လုံးနှင့် ရစ်တံ | Wheel & Axle |
| ရုပ်သေပြစက် | Projection Machine |

| | |
|---|---|
| ရမ်မီယီးတိုက်ပွဲ | Ramillies, Battle of |
| ရွေ့သွားသော စက်ပညာ | Dynamics |
| ရှိခိုးကောင် | Praying Mantis |
| ရွှေတောင်ကြားပါတီ | Golden Valley Party |
| လမုတော | Mangrove Forests |
| လားဗရာဒေါရေအေးစီးကြောင်း | Labrador Current |
| လီနင်-စတာလင် အာဇာနည်ဗိမာန် | Lenin-Stalin Mausoleum |
| လီမာမျောက် | Lemur |
| "လီဗီ၏ ပဌမ ၁၀ အုပ်ကို ဆွေးနွေးခြင်း" | "Discourses On The First Ten Books Of Livy" |
| လူတူမျောက် | Anthropoid |
| "လူတို့ကို မုန်းတီးသူ" | "Les Misantrope" |
| လူဝံ | Orang Utan |
| လေကာမှန်သုတ်ခလုတ် | Windscreen Wiper |
| လေဖို | Bellows |
| လေငွေ့ရေငွေ့တိုင်း | Psychrometer |
| လေအဝင်လျှော့ ကရိယာ | Choke |
| လေးဘီးလည် မော်တော်ယာဉ် | Four-Wheel Drive |
| "လောကီနိဗ္ဗာန်ပြန်ရခြင်း" | "Paradise Regained" |
| လက္ခဏာကဲ | Dominant Character |
| လက္ခဏာငုပ် | Recessive Character |
| လက်ခံနံရံ (လက်ခံတိုင်) | Arch Support |
| လက်ဆွဲဗရိတ်မောင်းတံ | Hand Brake Lever |
| လက်ပါးစေကလေး | Page Boy |
| လက်ပစ်သေနတ် | Hand Gun |
| လိုင်းယန်းပင်လယ်ကွေ့ | Gulf of Lion |
| လစ်ဇာတ်မီးပြတိုက် | Lizard Lighthouse |
| လည်ချက် | Fulcrum |
| လန်ကဝီကျွန်း | Lankawi Island |
| လုံမီးဖို | Crucible Furnace |
| "လွတ်လပ်သော အလုပ်သမားအဖွဲ့" | "Independent Labour Party" |
| လျှို့ဝှက်မဲပေးရေး အက်ဥပဒေ | Secret Ballot Act |
| လျှပ်စစ်ချာဂျင်ပြဒိုင်ခွက် | Ammeter |
| လျှပ်စစ်မီတာ | Electric Meter |
| လျှပ်စစ်သံလိုက် | Electro-Magnet |
| ဝိဥာဏ်ဝါဒ | Mysticism |
| "ဝိတိုရိယ ဂျူဗလီ အထိမ်းအမှတ် ဗိမာန်" | "Victoria Jubilee Institute" |
| ဝဲလဗစ်ပင်လယ်ကွေ့ | Walvis Bay |
| ဝက်အူရစ်ကြောင်း | Rifling |
| ဝန်မောင်းတံ | Load Arm |
| ဝိန္ဓျတောင်တန်း | Vindhya Range |
| သဘာဝဓာတ်ငွေ့ | Natural Gas |
| သရေယှန်လူမျိုး | Thracian |
| သားမျိုးအိတ် | Ovary |
| သက်တန့်တပ်မ | Rainbow Division |
| သစ်ဖု | Nut Gall |
| သစ်သားအရက်ပျံ | Wood Alcohol |
| သညာဝါဒ | Symbolism |
| သတ္တုစပ် | Alloy |
| သန္တာကျောက်တန်း | Coral Reef |
| သံလိုက်မြောက်ဝင်ရိုးစွန်း | Magnetic North Pole |

ဟွန်းတီးခလုတ် Horn Button
အခြေပြုမျဉ်းကြောင်း Base Line
အခြောက်မီတာ Dry Meter
အစေ့မြစ် Micropyle
အစေ့ရွက် Cotyledon
အစေ့ရွက်စုံပင် Dicotyledon
အစေ့ရွက်ထီးပင် Monocotyledon
အစိုမီတာ Wet Meter
အစစ်ဝါဒ Realism
"အဆီတုံး" "Boule de Suif" (The Ball of Fat)
အဏုတိုင်းကရိယာ Micrometer
အတန်းလိုက်လွှင့်နည်း Beam Transmission
"အတွေးဖြင့် မမာသူ"
"La Malade Imagaire" (The Imaginary Invalid)
အတွင်းတိမ် Cataract
အတွင်းမီးခန်း Inner Fire Box
အတွင်းမီးအင်ဂျင်စက် Internal Combustion Engine
အနုမာန သဘောတရားများ Metaphysics
အပြင်မီးခန်း Outer Fire Box
အဖူးကူးခြင်း Budding
အဖန်ဓာတ် Tannin
အဖြိုက်နက် Wolfram (Tungsten)
"အမေရိကန် ပြည်ထောင်စုမှ ဆွစ်ဇာလန်"
"Switzerland of America"
"အမေရိကန် ပြည်ထောင်စု၏ ကစားကွင်း"
"Playground of America"
"အမျိုးသမီးများအား ချုပ်ချယ်ခြင်း"
"The Subjection of Women"

အမျိုးသား ညွန့်ပေါင်း အစိုးရအဖွဲ့
National Coalition Government
အမြင်နှာဗ်ကြော Optic Nerve
အမြင်လိုက်လျောခြင်း Accomodation
အမြန်ခုတ် အတွင်းမီး အင်ဂျင်စက်
High Speed Internal Combustion Engine
အမြန်နှုန်းပြဒိုင်ခွက် Speedometer
အမှတ် ၁ တပ်မ First Division
အရှေ့အိန္ဒိယကုမ္ပဏီ East India Company
အရှိန်တိုးမောင်းတံ Accelerator Pedal
အလံနီအက်ဥပဒေ Red Flag Act
အလုံးအဖု Growths
အလှည့်မှန်ဇယား Period Table
"အသုဘဒိုချင်းရှည်" "The Requiem"
အဝေးပို့စာရိုက်စက် Telewriter
အသွင်ပြောင်းခြင်း Metamorphosis
အာဂွန်းစစ်မျက်နှာ Argonne Front
အာလတိုင်းတောင်တန်း Altai Mountains
အာဝယ်မြစ် Irwell, River
အီဗရိုမြစ် Ebro, River
အီရီအိုင် Eric, Lake
ဥဇဘက် ဆိုဗီယက် ဆိုရှယ်လစ် သမတနိုင်ငံ
Uzbek Soviet Socialist Republic
"အယ်လာဒင်းနှင့်ပယ်လိုမီဒီး" "Alladene & Palomedes"
အဲဂုတ္တုပြည် Egypt
အော့စတီယာ မီးပြတိုက် Ostia Lighthouse
အော့စဘွန်းရေကြောင်း အတတ်သင်ကျောင်း
Osborne Naval College
အိုဇတ်ကုန်းမြင့်ဒေသ Ozark Highland Region

| | |
|---|---|
| အိုဒနဒ်တိုက်ပွဲ | Oudenarde, Battle of |
| အိုးမီးဖို | Pot Furnace |
| အက်ဂဆီးအိုင် | Agassiz, Lake |
| "အက်ဂလာဗိန်းနှင့် ဆယ်လီဆက်တီ" | "Aglavaine & Selysette" |
| အက်ဆစ်ချော်ရည် | Acid Lava |
| အက်ဒီစတုန်း မီးပြတိုက် | Eddystone Lighthouse |
| အက်ပလက်ချီယန်ဒေသ | Appalachian Region |
| အိုင်ကြီးဒေသ | Great Lakes Region |
| အိုင်တက်စကာအိုင် | Itasca, Lake |
| အတ္တလန္တိတ်တန်း | Atlantic |
| "အိန္ဒိယပြည် နိုးကြားလာခြင်း" | "The Awakening of India" |

## အသံလှယ်အမည်များ

| | |
|---|---|
| ကဏှ | Krsna |
| ကရကာတိုအား | Krakatoa |
| ကရူစီဖာရီး | Cruciferae |
| ကရော့ကိုဒိလီဒီး | Crocodilidae |
| ကရော့ကိုဒိလီယာ | Crocodilia |
| ကရော့ကိုဒိလပ် နီလိုတိကပ် | Crocodilus Niloticus |
| ကရက် | Krebs |
| ကရင်မလင် | Kremlin |
| ကရစ်ရှနာရာဇာ | Krishnaraja |
| ကလစ်ဒင်း | Clifden |
| ကလပ် | Clutch |
| ကလပ်, မက်ဆွဲ-ဂျိမ်း | Clark-Maxwell, James |
| ကာအ်ဗာဟ် | Kaaba |
| ကာတီယေး | Cartier |
| ကာနဲလိုက် | Carnalite |
| ကာပရီ | Capree |
| ကာဗော်နာရီ | Carbonari |
| ကာဗွန်မိုက်ကရိုဖုန်း | Carbon Microphone |
| ကာရာဒရိအီဖော်မီး | Charadriiformes |
| ကီနိုပိုဒီအေးစီအီး | Chenopodiaceae |
| ကီလိုဂရမ် | Kilogram |
| ကီလိုမီတာ | Kilometre |
| ကီလိုလီတာ | Kilolitre |
| ကီလိုဝပ်-အာဝါ | Kilowatt-Hour |
| ကုရ်အာန် | Koran |
| ကုရုခေတြ | Kuruksetra |
| ကူညိုး, နစ်ကလတ် ဂျိုးဇက် | Cugnot, Nicolas Joseph |
| ကူပေး | Coupe |
| ကေဆွန် | Caisson |
| ကေဒါ | Kedah |
| ကေနန် (ခါနန်) | Canaan |
| ကေမာရတ် | Kemarat |
| ကေလန်တန် | Kelantan |
| ကေအိုလျန် | Kaoliang |

ကယ်လဆီဒွန် Chalcedon

ကယ်လီဖာ Kalifa

ကဲဗော့, ဆီဗက်စချန် Cabot, Sebastian

ကော်ဒေး, ရှားလော့ Corday, Charlotte

ကော်ဒိုးဗား Cordova

ကောရဗျ Kaurava

ကူဗာ Kuba

ကိုရိုက်ရှ် Koreish

ကိုကိန်း Cocaine

ကိုချီနီယယ် Cochineal

ကိုတဗာရူ Kota Bahru

ကိုဗော့ကလိုရိုက် (ဒ်) (နိုက်ထရိုကလိုရိုက် (ဒ်)) Cobalt Chloride (Nitro Chloride)

ကိုဗော့နိုက်ထရိတ် Cobalt Nitrate

ကိုမိနို Comino

ကိုရာဆိုင်အိဒီး Coraciidae

ကိုရိုနေးရှင်း Coronation

ကိုရိုနေရှင်း စကော့ Coronation Scot

ကိုရင့် Corinth

ကက်ဆီယာ ဆိုင်းယမ်းမီး Cassia Siamea

ကက်ပရီမာလဂပ် ယူရိုပီးယပ် Caprimulgus Europaeus

ကက်ပရီမာလဂပ်အေရှာတိကပ် Caprimulgus Asiaticus

ကပ်ပရီမာလဂျီဒီး Caprimulgidae

ကက်ပရီမာလဂျိဖောမီး Caprimulgiformes

ကင်နီဗက် Kennebec

ကောင့် ဒါ ဂင်း , Comte De Guinnes

ကတ်, ဒေါက်တာအက်ဖ၊ အိပ်ချ၊ အက်(စ) Curd, Dr. F.H.S.

ကန်ဂါ Kangar

ကန်နဒါ Kannada

ကန်နီဒီး Canidae

ကမျက Kamyaka

ကျန်စီ Kiangsi

ကွာလာတြင်ဂနု Kuala Trengganu

ကွာလာလစ်ပစ် Kuala Lipis

ကွာလာလွမ်ပူ Kuala Lumpur

ခဒီဂျယ် Khadija

ခယာ ဆင်နီဂေါလင်ဆစ် Kaya Senegalensis

ချားစတောင်း Charlestown

ချားပူးလေပက် Chapullepec

ချီယမ်ဒို Chiamdo

ချီအင်ဆန်း Chieng San

ချောဂျစ်ဆင်း (မဟာရာဇာ) Chorjit Sing

ချောက်ခန္ဒီ Chaukhandi

ချန်ချွန် Chang Chun

ချန်စယ်လာ Chancellor

ချန်ဆိုလင် Chang Tso Ling

ချန္ဒရာကန္တာဆင်း (စန္ဒရကန္တာဆိုင်) Chandra Kanta Sing

ချန်ရှိုလျန် Chang Hseuh Liang

ဂရာမင်းနီအီး Gramineae

ဂရိတ် ဝက်စတင်း Great Western

ဂရမ် Gram

| | |
|---|---|
| ဂလဲနဲ့ | Glenelg |
| ဂါစင်းနီးယား မန်ဂိုစတားနား | Garcinia Mangostana |
| ဂါနီ, ဂိုးဇွာသီ | Gurney, Goldsworthy |
| ဂါလန်ဒါဂျို | Ghirlandajo |
| ဂီယာ | Gear |
| ဂီးလဗတ် | Gilbert |
| ဂူနုန်ကာဗော | Gunong Kerbau |
| ဂူနုန်တဟန် | Gunong Tahan |
| ဂေး, လီယိုနတ် | Gale, Leonard |
| ဂေးရိကဲ, အော့တိုဗွန် | Guericke, Otto Von |
| ဂယ်ရီဗောဒီး | Garibaldi |
| ဂယ်လီလေအို | Galileo |
| ဂဲလီယမ် | Gallium |
| ဂေါ, ဂျိမ်း | Gall, James |
| ဂေါဂျက်, ဖာဒီနန်ဒို | Gorges, Ferdinando |
| ဂိုဇာ | Goza |
| ဂင့် | Ghent |
| ဂတ်တစ်ဖာရီး | Guttiferae |
| ဂျာနယ် ဒီလာ ရိပဗ္ဗလစ်ဖရန်ဆေး | Journal De La Republic Francaise |
| ဂျာမေနီယမ် | Germanium |
| ဂျီအိုဒက်တစ် | Geodetic |
| ဂျေဆင်း | Jay Sing |
| ဂျော့တောင်း | Georgetown |
| ဂျိုဟိုး | Johore |
| ဂျိုဟိုးဗာရူ | Johore Bahru |
| ဂျက္ကဆန် | Jackson |
| ဂျက်ဇူးအစ် | Jesuit |
| ဂျက်ဖာဆန်စီတီ | Jefferson City |
| ဂျင်းနင်း, ဆယ်ရာ | Jennings, Sarah |
| ဂျစ်ဒါ | Jiddah |
| ဂျစ်ဗ်ရီလ် | Gabriel |
| ဂျဒ်ဆန် (ယုဒသန်) | Judson |
| ဂျန်ဆင် | Janssen |
| ဂျပ်စမင်နမ် ဂရန်ဒီဖလိုရမ် | Jasminum Grandiflorum |
| ဂွာဒါလာဟားရား | Guadelajara |
| စကက်ဂါရက် | Skagerrak |
| စကန်ဒီယမ် | Scandium |
| စကုပ်လျဲ | Skopje |
| စတာလင် | Stalin |
| စတီဖင်ဆန်, ဂျော့ | Stephenson, George |
| စတော့တန် | Stockton |
| စတြစ်ဂျီဒီး | Strigidae |
| စထရိတ်စက်တယ်မင့် | Straits Settlements |
| စပရင်းဖီး ရိုင်ဖယ် | Springfield Rifle |
| စပီဂယ်လိုင်ဇင် | Spiegeleisen |
| စပန်း | Sponge |
| စမစ်, ဂျိုးဇက် | Smith, Joseph |
| စီ အင်ဗာရက် ဗက်ကိုင် | Si Embarek Bekkai |
| စင်တီဂရမ် | Centigram |
| စင်တီမီတာ | Centimetre |

| | |
|---|---|
| စင်တီလီတာ | Centilitre |
| စန်တာမာရီယာ လာဗလန်ကာ | Santa Maria La Blanca |
| စန်လီယန်ဒရို | San Leandro |
| စန်အီစီဒိုရို | San Isidoro |
| စိန်ကရွား | St. Croix |
| စိန်ကီလဒါ | St. Kilda |
| စိန်ဂျင်နဗီ | St. Genevieve |
| စိန်ပီတာစဗတ် | St. Petersburg |
| စိန်ပေါ | St. Paul |
| စိန်မီအီယယ် | St. Mi Hiel |
| စိန်လယ်ဂျာ | St. Leger |
| ဆမိဒေးစီအီး | Samydaceae |
| ဆလွန်း | Saloon |
| ဆအူးဒီ အာရေဗျ | Saudi Arabia |
| ဆာကီဒိုင်အောနစ် မယ်လာနိုတော့ | Sarkidiornis Melanotos |
| ဆာကိုဆီဖားလပ် | Sarcocephalus |
| ကော်ဒေးတပ် | Cordatus |
| ဆာလဖျူရက်တက် ဟိုက်ဒြိုဂျင် | Sulphuretted Hydrogen |
| ဆာလီ | Sully |
| ဆာလီဆင် | Salicin |
| ဆားနပ် | Sarnath |
| ဆီဖရိ နာကပ် | Siegfried Narkus |
| ဆီဇာ ဗောဂျ | Cesare Borgia |
| ဆီဒီ ဗင် ယူဆွတ် | Sidi Ben Yusoof |
| ဆီဒင် | Sedan |

| | |
|---|---|
| ဆိမ္မိုင်ဒီအီး | Simiidae |
| ဆီယယ်ရာ မက်ဒရီ အော့ဆီဒင်တယ် | Sierra Madre Occidental |
| ဆီယယ်ရာ မက်ဒရီ အိုရီယင်တယ် | Sierra Madre Oriental |
| ဆီယန်တန် | Hsiangtan |
| ဆီရင်ဂပတမ် | Seringapatam |
| ဆူမားရီးယန်း | Sumerian |
| ဆေရင်ဗန် | Seremban |
| ဆေလန်ဂေါ် | Selangor |
| ဆေးလစ် | Salix |
| ဆေးလစ်ကေစီအီး | Salicaceae |
| ဆေးလစ် ဖရာဂျိုင်းလစ် | Salix Fragilis |
| ဆေးလစ် ဗက်ဗီလိုနီက | Salix Babylonica |
| ဆေးလစ် အယ်လဗာ | Salix Alba |
| ဆယ်လိုနီးကား | Salonika |
| ဆဗီး | Seville |
| ဆဲလပ်စတြေးစီအီး | Celastraceae |
| ဆော့လိတ်စီတီ | Salt Lake City |
| ဆောဂူး | Saugor |
| ဆိုဒီယမ်ပါမင်ဂနိတ် | Sodium Permanganate |
| ဆက်ပိုတေးစီအီး | Sapotaceae |
| ဆောသင်၊ အီလက်ထရစ် | Southern Electric |
| ဆင်ကင် | Hsinking |
| ဆင်ပဆင်, ဆာဂျိမ်း | Simpson, Sir James |
| ဆင်းဒဟတ် | Sandhurst |
| ဆိုင်ကလိုပရိုပိန်း | Cyclopropane |

